# မောင်ထွန်းသူ

# ဒေါသမာန်

Typing - ပိုံပို့

PDF - ပို့ပို & nyisay

http://mmteashop.com



# ပီဒီအက်မှတ်တမ်း

ဆရာမောင်ထွန်းသူ၏ ဘာသာပြန် လက်ရာကောင်းတစ်ခုဖြစ်သော "ဒေါသမာန်" စာအုပ်ကြီးအား စာဖတ်ပရိသတ်များ၏ လက်အတွင်း အရောက်ပို့ပေးနိုင်ရေးအတွက် အစမှ အဆုံးတိုင် စာရိုက်ပေးခဲ့သော ညီမငယ် ပုံ့ပုံ့၊

စာအုပ် ဖြစ်မြောက်ရေးအတွက် အကူအညီများစွာ ပေးခဲ့သော ညီငယ် ဟိဏ်းဇော်အောင်၊

စာအုပ်အား နောက်ဆုံးပိတ် အချောသတ် ပြင်ဆင်ပေးခဲ့သော ကိုညီစေ၊

"ဒေါသမာန်" စာအုပ် ဖြစ်မြောက်ရေးအတွက် အားပေးခဲ့ကြသော မြန်မာအွန်လိုင်း လက်ဖက်ရည်ဆိုင်မှ စာချစ်သူ ညီအစ်ကိုမောင်နှမများ အားလုံးကို ကျေးဇူးတင်ရှိပါကြောင်း မှတ်တမ်းတင်အပ်ပါသည်။

မြန်မာအွန်လိုင်း လက်ဖက်ရည်ဆိုင်

http://mmteashop.com

9/17/2011

# ဒေါ်သမာန်

စာမူခွင့်ပြုချက်အမှတ် - ၅၀၁၃၄၀၀၉၀၉ နှင့်

မျက်နှာဖုံးခွင့်ပြုချက်အမှတ် - ၅၀၁၅၀၁၁၁၀၉ တို့ဖြင့်

မျက်နှာဖုံးဒီဇိုင်း m.s.o ပြုလုပ်ပြီး ထုတ်ဝေသူ - ဦးစန်းဦး၊ စိတ်ကူးချိုချို

စာအုပ်တိုက်၊ ၉(က)၊ ၁၆၄ လမ်း၊ တာမွေမြို့နယ်၊ ရန်ကုန်နှင့် ပုံနှိပ်သူ - ဦးနိုင်ဦး၊ ငွေပြည်တော်ပုံနှိပ်တိုက်၊ ရန်ကုန်တို့က တတိယအကြိမ် စောင်ရေ - ၅၀၀ ရိုက်နှိပ်ကာ ၂၀၁၀ ခု၊ ဇန်နဝါရီလတွင် တန်ဖိုး ၇၀၀၀ ကျပ်ဖြင့် ဖြန့်ချိသည်။

စာအုပ်ချုပ် - ကိုမြင့်

၈၉၅.၈၃

ထွန်းသူ/မောင်

ဒေါ်သမာန်/မောင်ထွန်းသူ ။ - ရန်ကုန်။

စိတ်ကူးချိုချိုစာပေ၊ ၃ ကြိမ်၊ ၂၀၁၀။

စာမျက်နှာ ၆၈၄ မျက်နှာ၊ ၁၃.၂ စင်တီ * ၂၀.၅ စင်တီ

မူရင်းအမည် - The Grapes Wrath by John Steinbeck

(၁) ဘာသာပြန်သူ - မောင်ထွန်းသူ

(၁) ဒေါ်သမာန်

## မြသန်းတင့်၏ အမှာ

ဤအမှာတွင် အကြောင်းအရာနှစ်ခုကို ကျွန်တော် ရေးလိုပါသည်။

ပထမအကြောင်းမှာ ဒေါ်သမာန် ဝတ္ထုကို ရေးသည့် အမေရိကန် စာရေးဆရာ ဂျွန်စတိန်းဘက် အကြောင်း ဖြစ်၏။

စတိန်းဘက်သည် အိုင်းရစ် လူမျိုး မိခင်နှင့် ဂျာမန်လူမျိုး ဖခင်တို့မှ ပေါက်ဖွားသော အမေရိကန် နိုင်ငံသား ဖြစ်ပြီး နှစ်ဆယ်ရာစုနှစ် အစတွင် မွေးဖွားခဲ့သူ ဖြစ်သည်။ အမေရိကန်ပြည် စတင်းဖို့ တက္ကသိုလ်တွင် အဏ္ဏဝါဇီဝဗေဒ ပညာရပ်ကို သင်ယူခဲ့ပြီး နောက် ဘဝမျိုးစုံတွင် ကျင်လည်ခဲ့ဖူးသည်။ သူသည် မြင်းမွေးသည့် မြင်းဖောင်းများတွင် မြင်းထိန်း လုပ်ခဲ့ဖူး၏။ လက်သမားလည်း လုပ်ခဲ့ဖူး၏။ ပန်းချီ လက်သင်လည်း လုပ်ခဲ့ဖူး၏။ ဓာတ်ခွဲဆရာလည်း လုပ်ခဲ့ဖူး၏။ အလုပ်ကြမ်း သမားလည်း လုပ်ခဲ့ဖူး၏။ သတင်းထောက်လည်း လုပ်ခဲ့ဖူး၏။ တစ်နှစ်လျှင် ရှစ်လလောက် ရေခဲနေသော အရပ်မှ ခြံကြီးတစ်ခြံတွင် ခြံစောင့်လည်း လုပ်ခဲ့ဖူး၏။ ထိုသို့ ခြံစောင့်လုပ်ရင်း သူသည် ဝတ္ထုတစ်ပုဒ်ကို ရေးခဲ့သည်။ ထိုဝတ္ထုမှာ တော်တီလာဖလက် အမည်ရှိ ဝတ္ထု ဖြစ်သည်။ ထိုနောက်မှစ၍ သူသည် ဝတ္ထုရှည်၊ ဝတ္ထုတို၊ ပြဇာတ် အများအပြားကို ရေးခဲ့သည်။ သူ့ဝတ္ထု တော်တော်များများကို ရုပ်ရှင်အဖြစ် ရိုက်ကူးခဲ့ကြသည်။

စစ်အတွင်းတွင် သူသည် အင်္ဂလန်ပြည်သို့ ရောက်နေကာ ဒေးလီအိတ်စပရက် သတင်းစာတွင် အယ်ဒီတာ အဖွဲ့ဝင် အဖြစ် လုပ်ခဲ့သည်။ ၁၉၆၂ ခုနှစ်တွင် စာပေနိုဗယ်ဆု ချီးမြှင့်ခြင်း ခံခဲ့ရပြီး ၁၉၆၈ ခုနှစ်တွင် ကွယ်လွန်ခဲ့သည်။

စတိန်းဘက်သည် နှစ်ဆယ်ရာစုနှစ် အစတွင် မွေးဖွားလာသူ ဖြစ်ရာ ထိုကာလ သည် စက်မှုပညာ တိုးတက် ထွန်းကားလာသော ကာလ ဖြစ်သည်။ သူသည် ပထမကမ္ဘာစစ်ကြီးကို ကြုံခဲ့ရသည်။ ကမ္ဘာ့စီးပွားပျက်ကပ်ကြီးကို မြင်ခဲ့ရသည်။ အမေရိကန် ပြည်ထောင်စုတွင် လယ်ယာ စီးပွားရေးစနစ်မှ စက်မှုစီးပွားရေးစနစ်ကို ပြောင်းလဲနေသည့် ကူးပြောင်းရေး ကာလကို သူ ဖြတ်သန်းခဲ့ရသည်။ အရင်းရှင် စနစ်ကြီး တရိပ်ရိပ် ဖွံ့ဖြိုး တိုးတက်လာသည်ကို တွေ့ခဲ့ရသည်။ ဖက်ဆစ်ဝါဒနှင့် ဒီမိုကရေစီတို့ တိုက်ကြသည့် ဒုတိယကမ္ဘာစစ်ကြီးကို သူ မီလိုက်သည်။

စတိန်းဘက် ကြီးပြင်း လူလားမြောက်ခဲ့သည့် ကာလသည် ပဋိပက္ခပေါင်းစုံ ရောပြွမ်း နေသည့် ကာလ ဖြစ်သည်။ မြို့နှင့် တော၏ ပဋိပက္ခ။ လယ်ယာလုပ်သားနှင့် စက်ရုံ အလုပ်သမားတို့၏ ပဋိပက္ခ။ အရင်းရှင်နှင့် အလုပ်သမားတို့၏ ပဋိပက္ခ။ အရင်းရှင်စနစ်နှင့် ဆိုရှယ်လစ် စနစ်တို့၏ ပဋိပက္ခ။ ဖက်ဆစ်ဝါဒနှင့် ဒီမိုကရေစီတို့၏ ပဋိပက္ခ။ ပုဂ္ဂလိက လွတ်လပ်ခွင့်နှင့် အာဏာရှင် စနစ်တို့၏ ပဋိပက္ခ။ အလွန်အမင်း ဆင်းရဲခြင်းနှင့် အလွန်အမင်း ချမ်းသာကြွယ်ဝခြင်းတို့၏ ပဋိပက္ခ။

ထိုပဋိပက္ခများသည် သူ့ဝတ္ထုထဲတွင် ထင်ဟပ်နေသည်။ ထို့ကြောင့် စတိန်းဘက်နှင့် ပတ်သက်၍ ဝေဖန်ရေးဆရာများထဲတွင် သဘောကွဲလွဲမှုများ ပေါ်ပေါက်လာခဲ့သည်။ ခေတ်နောက်ပြန် ဆွဲသူများက သူ့ကို လက်ဝဲစာရေးဆရာဟု သတ်မှတ်ကြသည်။ လက်ဝဲသမားများက သူ့ကို ပြုပြင်၍မရနိုင်သော ဘူဇွာ စာရေးဆရာဟု သတ်မှတ်ကြသည်။ အချို့က သူ့ကို သဘာဝဝါဒီဟု သတ်မှတ်ကြပြီး အချို့က သူ့ကို သဘာဝလွန်ဝါဒီဟု သတ်မှတ်ကြသည်။ အချို့က သူ့အရေးအဖွဲ့သည် ရိုးလွန်းသည်ဟု ဆိုကြပြီး အချို့က ဆန်းလွန်းသည်ဟု ဆိုကြသည်။

သို့ဖြင့် စတိန်းဘက်သည် အမေရိကန်ပြည်ထောင်စုနှင့် ကမ္ဘာတစ်ဝန်းမှ ဝေဖန်ရေး ဆရာတို့ အမြင်တွင် အငြင်းပွားစရာ စာရေးဆရာတစ်ယောက် ဖြစ်နေသည်။ သို့ရာတွင် သူတို့အားလုံး တူညီသည့် အချက်တစ်ချက်တော့ ရှိသည်။ ယင်းမှာ တခြားမဟုတ်။ စတိန်းဘက်သည် ကျွန်တော်တို့ ခေတ်တွင် အရေးကြီးဆုံးသော စာရေးဆရာ တစ်ယောက် ဖြစ်သည် ဆိုသည့် အချက် ဖြစ်သည်။

သူ့စာပေ အယူအဆနှင့် ပတ်သက်၍ စတိန်းဘက်က ဤသို့ ရေးခဲ့ဖူး၏။

"ကမ္ဘာလောကကြီး၏ ပုံဝတ္ထုသည် မည်သို့ ရှိမည်နည်းဟု ကလေးတစ်ယောက် အနေဖြင့် မေးကောင်း မေးဖွယ် ရှိပါသည်။ အလားတူပင် ကမ္ဘာလောကကြီးသည် မည်သည့်လမ်းကို သွားနေသနည်း၊ မည်သို့ အဆုံးသတ်မည်နည်း၊ ယခု လောလောဆယ်တွင် ကမ္ဘာကြီး၏ ပုံဝတ္ထုသည် မည်သို့နည်းဟု လူကြီးတစ်ယောက် အနေဖြင့်လည်း စဉ်းစားကောင်း စဉ်းစားမိပါလိမ့်မည်။"

ကျွန်တော့်အမြင်တွင်မူ ကမ္ဘာကြီးတွင် ပုံဝတ္ထု တစ်ခုသာ ရှိသည်ဟု ထင်ပါသည်။ ထိုတစ်ခုတည်းသော ပုံဝတ္ထုသည် ကျွန်တော်တို့စိတ်ကို ချောက်ချားစေပြီး ထိုပုံဝတ္ထု

သည်ပင်လျှင် ကျွန်တောတို့ စေတနာကို နှိုးပေးပါသည်။ ကျွန်တော်တို့၏ဘဝ၊ ကျွန်တော်တို့၏ အတွေး၊ ငတ်မွတ်ခေါင်းပါးမှုနှင့် မျှော်မှန်းမှု၊ လောဘဇောတိုက်မှုနှင့် ရက်စက်မှု၊ သနားကြင်နာမှုနှင့် ရက်ရောမှု စသည့် ဝေဒနာတို့ ပေါင်းရုံးလျက်ရှိသော လူများအားလုံးသည် ပိုက်ကွန်ကြီး တစ်ခုတည်းတွင် မိနေကြသူများ ဖြစ်ပါသည်။ ထိုပိုက်ကွန်ကြီးမှာ ကောင်းမြတ်ခြင်းနှင့် ဆိုးယုတ်ခြင်း ဟူသော ပိုက်ကွန်ကြီး ဖြစ်ပါသည်။ (ကုသိုလ်စိတ်နှင့် အကုသိုလ်စိတ်တို့ ဖြစ်ပါသည်။) ထိုစိတ်နှစ်ခုသည် ကျွန်တော်တို့၏ တစ်ခုတည်းသော ပုံဝတ္ထုဖြစ်ပါသည်။ မည်မျှ အသိဉာဏ်ရှိသူတွင် ဖြစ်စေ၊ မည်သို့သော စေတသိက်တွင် ဖြစ်စေ ထိုစိတ်နှစ်ခုသည် အမြဲရှိကြပါသည်။ ကုသိုလ်စိတ်နှင့် အကုသိုလ်စိတ်သည် ကျွန်တော်တို့ မူလစိတ်ထဲတွင် ရှိနေသည့် အခြေခံ စိတ်နှစ်ခုပင် ဖြစ်ပါသည်။ တောင်ကြီးများကို ဖြိုု၍ မြစ်ကြီးများကို ဖို့နိုင်သည့်တိုင်၊ စီးပွားရေး စနစ်ကြီးများကို တည်ဆောက်၍ ယဉ်ကျေးမှုကြီးကို ပြောင်းလဲအောင် လုပ်နိုင်သည့်တိုင် ထိုစိတ်နှစ်ခုသည် ကျွန်တော်တို့ သေခါနီးအထိ ရှိနေမည့် နောက်ဆုံးစိတ် ဖြစ်ပါသည်။ လူသည် မွေးကတည်းက မေးခွန်းတွေ တန်းလန်းနှင့် မွေးလာပြီးနောက် မေးခွန်းတွေ တိုးလို့တန်းလန်းဖြင့် သေသွားရပါသည်။ ထိုမေးခွန်းများမှာ လူဖြစ်လာရတာ ကောင်းသလား၊ ဆိုးသလား၊ ငါကော ကောင်းခဲ့သလား၊ ဆိုးခဲ့သလား ဆိုသည့် မေးခွန်းများ ဖြစ်ပါသည်။

"ကျွန်တော်တို့တွင် ဝတ္ထုတစ်ခုတည်းသာ ရှိပါသည်။ ဝတ္ထုများအားလုံး၊ ကဗျာများ အားလုံးသည် ကျွန်တော်တို့ ကိုယ်တွင်းတွင် ယှဉ်ပြိုင်နေကြသော ကုသိုလ်စိတ်နှင့် အကုသိုလ်စိတ်တို့ အပေါ်တွင် တည်ဆောက်ထားကြခြင်း ဖြစ်ပါသည်။ ကျွန်တော့် အထင်တွင်မူ အကုသိုလ်စိတ်သည် ပေါ်လိုက် ပျောက်လိုက်၊ သေသွားလိုက် ရှင်လာလိုက် ဖြစ်နေပြီး ကုသိုလ်စိတ်မှာကား မသေမပျောက် ထာဝရ တည်သည်ဟု ထင်ပါသည်။ အကုသိုလ်စိတ်သည် အမြဲတမ်း နနယ် ပျိုမျစ်သော မျက်နှာကို ဆောင်ထားပြီး ကုသိုလ်စိတ်မှာကား ကမ္ဘာလောကတွင် ဘာနှင့်မျှ မတူအောင် အိုမင်း၍ ကြည်ညို လေးစားဖွယ် ကောင်းပါသည်။"

စတိန်းဘက်သည် လောကကို ကြည့်မြင်ရာတွင် ကောင်းခြင်းနှင့် မကောင်းခြင်း တို့ဖြင့်သာ ခွဲခြားမြင်သူ ဖြစ်သည်။ ဤသဘောကို သူ့ဝတ္ထုတိုင်းလိုလိုမှာပင် တွေ့ရသည်။

ယခု ဒေါ်သမာန် ဝတ္ထုတွင်လည်း ထို့အတူပင်။ ဒေါ်သမာန်သည် စက်မှုလက်မှု တိုးတက် ထွန်းကားလာသဖြင့် မိမိတို့ လယ်ယာမြေကို စွန့်ခွာသွားရသော အမေရိကန် လယ်ယာ အလုပ်သမားတို့၏ ဘဝကို ရေးပြထားသည်။ ထိုဝတ္ထုကို ရေးနေစဉ်တွင် စတိန်းဘက်က 'ဤဝတ္ထုကို ကျွန်တော် ရေးသည့် ရည်ရွယ်ချက်မှာ လူလူချင်း တစ်ဦးကိုတစ်ဦး နားလည်ကြစေရန် ဖြစ်ပါသည်' ဟု ထုတ်ဝေသူတစ်ဦးထံ ရေးခဲ့သည်။ စတိန်းဘက်၏ ဒေါ်သမာန်သည် အမေရိကန် လယ်ယာလုပ်သားတို့၏ ဘဝကို ထိထိခိုက်ခိုက် ဖော်ပြနိုင်သော ဝတ္ထုကြီးတစ်ပုဒ် ဖြစ်သည်။

အင်္ဂလိပ် အပြေး မိုးကုတ် ထောင်ထဲတွင် ရောက်နေစဉ် ကွယ်လွန်သူ အဓိပတိဟောင်း ဒေါက်တာဘမော်သည် ထိုဝတ္ထုကို ဒုတိယအကြိမ် ဖတ်ပြီး ရှိုက်ကြီးတငင် ငိုမိသည်ဟု သူ၏ ကိုယ်ရေးမှတ်တမ်းတစ်ခုတွင် ကျွန်တော် ဖတ်ရဖူးပါသည်။

စတိန်းဘက်၏ ဒေါ်သမာန်ကို ကျွန်တော် ဖတ်ဖူးသည်မှာ ကြာပါပြီ။ ကြိုက်လွန်းသဖြင့် တစ်နေ့တွင် မြန်မာပြန်မည်ဟု ကျွန်တော် စိတ်ကူးခဲ့သည်။ သို့ရာတွင် မပြန်ဖြစ်ခဲ့ပါ။ ယခု မောင်ထွန်းသူက မြန်မာပြန်လိုက်သည့်အခါတွင် ဟာကွက်တစ်ခုကို ဖြည့်လိုက်သဖြင့် ကျွန်တော် ဝမ်းသာပါသည်။

နောက် ပြောလိုသော အကြောင်းအရာမှာ မောင်ထွန်းသူ၏ အကြောင်း ဖြစ်ပါသည်။

လွန်ခဲ့သည့် ဆယ်နှစ်ကျော်လောက်က ကျွန်တော့်ထံ စာတစ်စောင် ရောက်လာ ပါသည်။ စာမှာ ရန်ကင်းမှ ထည့်လိုက်သည့် ကိုတင်ထွန်း ဆိုသည့် ပုဂ္ဂိုလ်ထံမှ ဖြစ်ပါသည်။ သူသည် စာရေး ဝါသနာပါကြောင်း၊ စာဖတ် ဝါသနာပါကြောင်း၊ သို့ရာတွင် သူ့တွင် သားသမီး များသဖြင့် စာအုပ်များကို ဝယ်မဖတ်နိုင်ကြောင်း၊ ကျွန်တော် မြန်မာပြန်၍ သင့်စာပေမှ ဒုတိယအကြိမ် ထုတ်သည့် စစ်နှင့် ငြိမ်းချမ်းရေးကို မဝယ်နိုင်သောကြောင့် သူ့ကို လှူပါမည့်အကြောင်း စာထဲတွင် ရေးထားပါသည်။

ကျွန်တော်သည် သူ့စာကို ဖတ်၍ စိတ်မကောင်း ဖြစ်သွားပါသည်။ ထို့ကြောင့် စာကို ထုတ်ဝေသူအား ပေးကာ ထိုလိပ်စာအတိုင်း စာအုပ်တစ်စုံ ပို့ပေးရန် ကျွန်တော် ပြောခဲ့ပါသည်။ ထုတ်ဝေသူက ပို့ဖြစ်ခြင်း ရှိ မရှိ၊ ထိုစာအုပ်ကို ရ မရကို ထုတ်ဝေသူကို လည်းကောင်း၊ မောင်ထွန်းသူကို လည်းကောင်း ကျွန်တော် မမေးဖြစ်တော့ပါ။

လွန်ခဲ့သည့် သုံးလေးနှစ်လောက်ကမှ အသားလတ်လတ်၊ အရပ် မနိမ့်မမြင့်၊ မပိန်မဝ လူတစ်ယောက် ကျွန်တော့်ထံ ပေါက်လာကာ သူ့စာမူကိုဖတ်ပြီး ပြင်ဆင်ပေးရန်၊ အလျဉ်း သင့်လျှင် ထုတ်ဝေသူ ရှာပေးရန် ကျွန်တော့်ကို ပြောပါသည်။ သူ ရေးသော စာအုပ်ကြီးများမှာ ရဲတိုက်၊ ဆဌမသုခရိပ်မြိုင် စသည့် အထူစား ဝတ္ထုကြီးများ ဖြစ်ပါသည်။ ကျွန်တော်သည် သူ့ဝတ္ထုကြီးများကို မဖတ်ဖြစ်ခဲ့ပါ။

တစ်နှစ်ကမှ သူ မြန်မာပြန်သော ရဲတိုက်ကို ကျွန်တော် အမှာ ရေးပေးလိုက်ပါသည်။ ထိုစာအုပ်သည် ထိုနှစ်က အမျိုးသားစာပေ ဘာသာပြန်ဆု ရသွားခဲ့ပါသည်။ ကြိုးစားသော ကလောင်တစ်ချောင်း ထွန်းထွန်းပေါက်ပေါက် ဖြစ်သွားသဖြင့် ကျွန်တော် ဝမ်းသာမိပါသည်။

ယခုလည်း ကျွန်တော် ပြန်ချင်လျက် မပြန်ဖြစ်ခဲ့သော ဒေါ်သမာန်ကို အမှာရေးပေးရန် ပြောသည့်အခါတွင် ကျွန်တော်သည် မဆိုင်းမတွ လက်ခံ၍ ရေးပေးလိုက်ပါသည်။

မြသန်းတင့်

* * *

## ဂျွန်စတိန်းဘက်၏ ဘဝနှင့် သူ့စာများ

### ၁

၁၉၃၀ ခုနှစ်များသည် တစ်ကမ္ဘာလုံးတွင် စီးပွားပျက် ကပ်ကြီး ဆိုက်ရောက်ခဲ့သော နှစ်များဖြစ်သည်။ ထိုနှစ်များ အတွင်းတွင် ကမ္ဘာပေါ်ရှိ နိုင်ငံအသီးသီးသည် ထိုစီးပွားပျက် ကပ်ကြီး၏ ဒဏ်ကို အပြင်းအထန် ခံကြရ၏။ အမေရိကန်ပြည်ထောင်စုမှာလည်း ယင်း စီးပွားပျက် ကပ်ကြီး၏ ဒဏ်မှ မလွတ်။ တခြားနိုင်ငံများနည်းတူပင် မရှုမလှ ခံရသည်။ ယင်းအခြေအနေတွင် အမေရိကန် စာပေလောက၌ သမိုင်းမှတ်တိုင် တစ်တိုင် ဖြစ်လောက်အောင် ထူးခြားသည့် ဝတ္ထုကြီးတစ်ပုဒ် ပေါ်ထွက်လာခဲ့လေသည်။

ယင်းဝတ္ထုကြီး ထွက်လာသောအခါ အမေရိကန် ပြည်ထောင်စု တစ်ဝန်းလုံးလှုပ်လှုပ်ရှားရှား ဖြစ်သွားခဲ့သည်။ စာဖတ်ပရိသတ်များအနေဖြင့် ဤဝတ္ထုကြီးကို ဖတ်၍ စိတ်နလုံး ထိခိုက်ကြေကွဲခြင်း ဖြစ်ကြရသည်။ ဤဝတ္ထုကြီးထဲ၌ ရေးထားသော အဖြစ်အပျက်များနှင့် အကြောင်းအရာများသည် တကယ်မှ ဟုတ်ပါလေစ ဟူသော သံသယလည်း ဝင်ကြသည်။ အထူးသဖြင့် အရင်းရှင်များနှင့် အရင်းရှင် ဘက်တော်သားများသည် ဤစာအုပ်ကြောင့် တုန်လှုပ်ချောက်ချားခြင်း ဖြစ်ကြရ၏။ အရှုးတစ်ယောက်က မဟုတ်မဟတ် လုပ်ကြံရေးထားသော စာအုပ်ဟု ဆိုကြသည်။ စာအုပ်ကိုရော စာရေးဆရာကိုပါ အထင်မှား အမြင်မှား ဖြစ်အောင် ဂုဏ်သိက္ခာကျအောင် သားပုပ်လေလွင့် ပြောကြ ရေးကြသည်။ နည်းအမျိုးမျိုးဖြင့် ကြံစည်အားထုတ်၍ ကြိုးစားလုပ်ဆောင်ကြသည်။

စာအုပ်များကို မီးရှို့ ဖျက်ဆီးကြ၏။ မဖတ်သင့် မဖတ်ထိုက်သော စာအုပ်တစ်အုပ်ဟု ဝါဒဖြန့်ကြ၏။ မဖတ်ရ မရောင်းရဟု ပိတ်ပင် တားမြစ်ကြ၏။ သို့သော်လည်း စာဖတ်ပရိသတ်က ထိုဝတ္ထုကြီးကို မရမက ရှာ၍ ဖတ်ကြသည်။ ငှား၍ ဖတ်ကြသည်။ ပိတ်ပင်ထားသည့် နေရာများတွင် ခိုး၍ ဖတ်ကြသည်။ နောက်ဆုံးတွင် ဝယ်၍ ဖတ်ကြသည်။ ဤသို့ဖြင့် ဤဝတ္ထုကြီးသည် ဘက်ဆဲလား ခေါ် အရောင်းရအတွင်ကျယ်ဆုံးသော စာအုပ်များတွင် ထိပ်ဆုံးက နေသည့် စာရင်းဝင် စာအုပ်တစ်အုပ်အဖြစ်သို့ ရောက်လာခဲ့ရလေ၏။

ဝတ္ထုတစ်ပုဒ် ဖြစ်ပါလျက်နှင့် ဤမျှလောက်အထိ အရှိန်အဝါ ကြီးမားခဲ့သည့် စာအုပ်မှာ တခြား မဟုတ်။ ယခု စာဖတ်သူ၏ လက်ထဲမှာ ရှိနေသည့် ဒေါ်သမာန် ဝတ္ထုကြီးပေတည်း။

၂

ဒေါ်သမာန် ဝတ္ထုကြီးကို ၁၉၃၉ ခုနှစ် ဧပြီလတွင် ဗိုက်ကင်း ပရက်စ် စာအုပ်တိုက်မှ ထုတ်ဝေခဲ့သည်။ စာဖတ်ပရိသတ်၏ စိတ်အာရုံကို လှုပ်ရှား ထိခိုက်စေလောက်အောင် ကောင်းသည့် ဝတ္ထုကြီးတစ်ပုဒ်အဖြစ် ချက်ချင်းပင် ကျော်ကြားသွားသည်။ ယင်းကဲ့သို့ ကျော်ကြား လောက်အောင်လည်း ထူးခြားသည်ဟု ဆိုရမည် ဖြစ်၏။

ဒေါ်သမာန်၏ ပထမ ထူးခြားချက်သည် ဇာတ်လမ်း ဖြစ်သည်။ ဇာတ်လမ်းမှာ အချစ်ဇာတ်လမ်းလည်း မဟုတ်၊ အလွမ်းဇာတ်လမ်းလည်း မဟုတ်၊ အသော ဇာတ်လမ်းလည်း မဟုတ်၊ လျှို့ဝှက်သည်းဖို ဇာတ်လမ်းမျိုးလည်း မဟုတ်။ အရင်းရှင်ကြီး များကြောင့် မြေမဲ့ ယာမဲ့ အလုပ်အကိုင်မဲ့ ဖြစ်ကာ ခြေသလုံးအိမ်တိုင်ဘဝ ရောက်သွားကြရသော လယ်သူရင်းငှားများ၏ ဘဝကို တခမ်းတနား ဖွဲ့ဆိုထားသော ဇာတ်လမ်း ဖြစ်လေသည်။

ဒေါ်သမာန်၏ ဒုတိယ ထူးခြားချက်မှာ ဇာတ်ကောင် ဖြစ်သည်။ ဤဝတ္ထုကြီး၏ ဇာတ်ကောင်သည် အဘက်ဘက်တွင် မျှော်လင့်ချက် ကင်းမဲ့နေသော လယ်သူရင်းငှား လူထု ဖြစ်သည်။ ထိုလူထု၏ အကြောင်းကို ရေးဖွဲ့ရာ၌ လူထု၏ ကိုယ်စားလှယ်အဖြစ် ဖန်တီး ရယူထားသော 'ဂျုတ်မိသားစု' မှတစ်ဆင့် ရေးဖွဲ့သည်။

ဒေါ်သမာန်၏ တတိယ ထူးခြားချက်မှာ အရေးအသားဟန် ဖြစ်သည်။ ဇာတ်ကောင်များ၏ ဘဝနှင့် ခံစားချက်များကို စာဖတ်သူ မြင်လာ သိလာအောင် ရေးဖွဲ့သည်။ ပြောဟန် ဆိုဟန်များကို အမေရိကန် တောင်ပိုင်းနယ်သား လယ်သူရင်း ငှားများ 'လေ' မိအောင် ရေးဖွဲ့သည်။ တစ်နည်းအားဖြင့် ဤဝတ္ထုကြီးတွင် ပါဝင်သော ဇာတ်ကောင်များ၏ စရိုက် ပီပြင် ပေါ်လွင်ရေးကို စာရေးသူက အလေးထား ရေးဖွဲ့ထားသည်။

အချို့သော အမေရိကန် စာပေ အကဲဖြတ်သမားများက ဒေါ်သမာန်သည် ဖွဲ့စည်းတည်ဆောက်ပုံ အကောင်းဆုံးဟု သတ်မှတ်ထားသော အမေရိကန် ဝတ္ထုများတွင် တစ်ပုဒ်အပါအဝင် ဖြစ်ရုံမျှသာမက ရေးဖွဲ့ပုံမှာလည်း ဖတ်သူတို့၏ စိတ်ကို ထိခိုက်လောက်အောင် ပြောင်မြောက်သည့် အရေးအဖွဲ့များ ပါသော ဝတ္ထုကြီးတစ်ပုဒ် ဖြစ်သည်။ ထို့ပြင်လည်း ဤဝတ္ထုကြီးသည် စီးပွားရေးဆိုင်ရာ ပြုပြင် ပြောင်းလဲမှုများ ဖြစ်ပေါ်လာစေရေးကို ရှေးရှုခြင်း၊ ရှာဖွေခြင်း မရှိသော်လည်း ဆင်ခြင် စဉ်းစားစရာကောင်းသည့် နိုင်ငံရေး အမြင်နှင့် လူမှုရေး အမြင်များကိုကား လိမ္မာပါးနပ်စွာဖြင့် တင်ပြထားပေသည်။ အများအားဖြင့် စာပေ ပညာရှင်များက ဒေါ်သမာန်ဝတ္ထုကို ဦးလေးတွမ် (Uncle Tom’s Cabin) ဝတ္ထုနှင့် နှိုင်းယှဉ်ပြလေ့ ရှိသည်။ တကယ်တော့လည်း ဤဝတ္ထုကြီးသည် “ခေတ်တစ်ခေတ်၏ လူမှုဖြစ်စဉ် မှတ်တမ်းကြီးတစ်ခု” ဖြစ်သည်။ တစ်နည်းအားဖြင့် ထူးထူးခြားခြား ဖြစ်ပျက်နေသော လူမှုအနိဋ္ဌာရုံကြီးတစ်ခုကို ပြန်လည်ပြုပြင်အောင် တွန်းအားပေးခဲ့သည့် လူမှုဖြစ်စဉ် မှတ်တမ်းကြီး တစ်စောင်ဟု ဆိုနိုင်သည်။ ထို့ကြောင့်လည်း အမေရိကန် စာပေလောက၌ သမိုင်း မှတ်တိုင်တစ်တိုင် ထူနိုင်ခဲ့ခြင်း ဖြစ်ပေသည် ဟု ဝေဖန် သုံးသပ်ကြလေသည်။

မဲလ်ကိုးကောင်းလေး (Malcolm Cowley) အမည်ရှိ စာပေပညာရှင်ကမူ ‘လူများသည် အချိန်တန်လျှင် သေကြရ၏။ ထိုအခါ နာမည်ပါ သေသွားကြရလေသည်။ လူသေသော်လည်း နာမည်မသေဘဲ ကျန်ခဲ့သည့် အရေအတွက်မှာ လူနည်းစုမျှသာ ရှိသည်။ ထိုနည်းတူစွာပင် စာအုပ်များစွာသည်လည်း အချိန်ကျလျှင် သေကြရ၏။ ထိုအခါ နာမည်လည်း သေကြရသည်။ နာမည် မသေဘဲ ခေတ်အဆက်ဆက် ရပ်တည်နေသော စာအုပ် အရေအတွက်မှာမူ နည်းပါးလှလေသည်။

ကျွန်ုပ်၏ အမြင်အရ နှစ်ဆယ်ရာစု အနောက်တိုင်း စာပေနယ်တွင် တော်လှန်ရေး အမြင်ရှိသော ဝတ္ထုများအနက် နာမည် မသေဘဲ ရပ်တည်နေသည့် စာအုပ်သုံးအုပ်သာ ရှိသည်။ ယင်းတို့မှာ ပြင်သစ် ဝတ္ထုတစ်ပုဒ်၊ အမေရိကန် ဝတ္ထုတစ်ပုဒ်နှင့် အီတလီ ဝတ္ထုတစ်ပုဒ်တို့ ဖြစ်၏။

ပြင်သစ်ဝတ္ထုမှာ အန်ဒရေ မယ်ရော (Andre Malraux) ၏ လူ့ကြမ္မာ (Man’s Fate) ဖြစ်၍ အီတလီ ဝတ္ထုမှာ အစ်ဂ်နာဇီရို ဆီလိုနီ (Ignazio Silone) ၏ ဖွန်တာ မာရား

(Fontamara) ဖြစ်သည်။ အမေရိကန် ဝတ္ထုမှာမူ ဂျွန်စတိန်းဘက်၏ ဒေါသမာန် ဖြစ်သည်’ ဟုပင် ဆိုခဲ့သည်။

မည်သို့ပင်ဖြစ်စေ ဒေါသမာန် ဝတ္ထုကြောင့် ဂျွန်စတိန်းဘက်သည် နေ့ချင်း ညချင်းပင် ကျော်ကြားလာသည်။

၁၉၃၉ ခုနှစ်က ထုတ်ဝေခဲ့သော ဤဝတ္ထုကြီးသည် ၁၉၄၀ ပြည့်နှစ်တွင် ပူလစ်ဇာဆုကို ရခဲ့သည်။

နာမည်ကျော် ဒါရိုက်တာ ဒါရယ်လ်အက်ဖ်ဇားနပ် (Darryl F. Zanuck) က ကမ္ဘာ့ကျော် မင်းသားကြီး ဟင်နရီဖွန်ဒါး (Henry Fonda) နှင့် ရုပ်ရှင်အဖြစ် အသက်သွင်းခဲ့ ရာတွင်လည်း အလွန် အောင်မြင်ကျော်ကြားပြီး ဂန္တဝင် ရုပ်ရှင်ကား တစ်ကားအဖြစ် အသိအမှတ်ပြုခံခဲ့ရသည်။

## ၃

ဒေါသမာန် ဝတ္ထုကို ဖန်တီးခဲ့သော စာရေးဆရာကြီး ဂျွန်စတိန်းဘက်၏ ဘဝသည် သူ့ဝတ္ထုကဲ့သို့ပင် စိတ်ဝင်စားဖွယ် ဖြစ်သည်။ ဂျွန်စတိန်းဘက်ကို ၁၉၀၂ ခုနှစ် ဖေဖော်ဝါရီလ ၂၇ ရက်နေ့တွင် ကယ်လီဖိုးနီးယားပြည်နယ် ဆလိုင်းနတ်စ်မြို့၌ မွေးဖွားသည်။ ငွေကိုင်စာရေး ဂျွန်အန်းစ်စတိန်းဘက် (John Ernst Steinbeck) နှင့် ကျောင်းဆရာမ အိုလစ် (ဟာမစ်လ်တန်) စတိန်းဘက် (Olive (Hamilton) SteinBeck) တို့၏ တစ်ဦးတည်းသောသား ဖြစ်၏။ ဖခင်ဘက်မှ ဂျာမန်သွေးပါ၍ မိခင်ဘက်မှ မြောက်ပိုင်း အိုင်းရစ်သွေး ပါသည်။

လူငယ်ဘဝကတည်းက အလုပ်မျိုးစုံ လုပ်ခဲ့ဖူးသော စတိန်းဘက်သည် သူ့မွေးရပ်ဇာတိ ဖြစ်သော မွန်တာရေးကောင်တီ ခရိုင်နယ်မြေအတွင်းမှ အလုပ်ကြမ်း သမားများ၊ ဆင်းရဲသော လယ်သမားများနှင့် လက်ပွန်းတတီး နေထိုင်ခွင့်ရခဲ့သည်။ ယင်းလူတန်းစား တို့၏ သနားစရာ ဘဝအပေါ်တွင် ကရုဏာမကင်း ဖြစ်ခဲ့သော စတိန်းဘက်အဖို့ ယင်းတို့၏ အဖြစ်များသည် သူ့ဝတ္ထုများအတွက် တန်ဖိုးမဖြတ်နိုင်သည့် နောက်ခံဇာတ်ကြောင်းများ ဖြစ်လာခဲ့ရလေသည်။

၁၉၆၂ ခုနှစ်တွင် ချီးမြှင့်သော စာပေဆိုင်ရာ နိုဗယ်ဆုကို ရရှိသောအခါ စတိန်းဘက်က ဤအချက်ကို များစွာ အလေးအနက်ထား၍ ပြောဆိုခဲ့၏။ စာပေအမွေကို သူ့မိခင် (အပယ်ခံသား(East of Eden) ဝတ္ထု၏ ဇာတ်ကောင် တစ်ကောင်တွင် သူ့မိခင်၏ အကျင့်စရိုက်များ ထင်ဟပ်ထားသည်။) ထံမှ ရခဲ့ပြီး သူ ငယ်စဉ်က နှစ်သက်စွဲလမ်းခဲ့သော စာအုပ်များထဲတွင် ပြစ်မှုနှင့်ပြစ်ဒဏ် (Crime and Punishment)၊ မဒမ်ဘိုဗာရီ (Madame Bovary)၊ နိဗ္ဗာန်ဘုံ ပျောက်ဆုံးခြင်း (Paradise Lost) နှင့် အိမ်အပြန် (The Return of the Native) စသော ဝတ္ထုများ ပါဝင်ခဲ့သည်ဟု ဆိုသည်။

ဆလိုင်းနတ်စ်မြို့ အထက်တန်းကျောင်းမှ စာမေးပွဲ အောင်သောအခါ စတိန်းဘက်သည် စတန်းဖို့ဒ် တက္ကသိုလ်၌ ပညာ ဆက်သင်သည်။ တက္ကသိုလ်၌ လေးနှစ်မျှ နေခဲ့သော်လည်း ဘွဲ့ရရန် အားမထုတ်ခဲ့ပေ။ သူ့ဘဝသည် တစ်သက်တာ ပတ်လုံး စာရေးဆရာဘဝဖြင့် နေခဲ့သည်ဟု ဆိုရမည် ဖြစ်၏။ တက္ကသိုလ်ကျောင်းသား ဘဝကတည်းက သူသည် ကျောင်းသားစာစောင်များတွင် ကဗျာများ၊ သရော်စာများနှင့် သိပ္ပံပညာရပ် ဆိုင်ရာဆောင်းပါးများ ရေးလေ့ရှိသည်။

၁၉၂၅ ခုနှစ်တွင် စာရေးဆရာ လုပ်တော့မည် ဟူသော စိတ်ကူးဖြင့် နယူးယောက်မြို့ သို့ သွားရောက်ပြီး သတင်းစာတစ်စောင်တွင် သတင်းထောက် ဝင်လုပ်သည်။ သို့သော်လည်း သတင်းပို့ရမည့်အစား သူ့ထင်မြင် ယူဆချက်များကို အသားပေး၍ ရေးနေသဖြင့် အလုပ်မှ ထုတ်ပစ်ခြင်း ခံရသည်။

မည်သို့ပင်ဖြစ်စေ ဤတစ်ခေါက် ကယ်လီဖိုးနီးယားသို့ ပြန်ရောက်သောအခါ စတိန်းဘက်သည် ပုဂ္ဂလိက ခြံတစ်ခြံတွင် အစောင့် ဝင်လုပ်သည်။ တက္ကသိုလ် ကျောင်းသားဘဝကတည်းက ရေးလာခဲ့သမျှ စာမူများကို ပြန်လည် စိစစ်သည်။ ထိုစာမူများကို စာအုပ်ထုတ်နိုင်ရန် ကြိုးပမ်းသည်။

ဤသို့ဖြင့် သူ၏ ပထမဆုံး ဝတ္ထု ရွှေဖလား (Cup of Gold) (တက္ကသိုလ်ကျောင်းသား ဘဝကပင် စတင် ရေးခဲ့သော ဤဝတ္ထုကို ခြောက်ကြိမ်တိတိ ပြန်ရေးခဲ့သည်ဟု ဆိုသည်။) ကို ၁၉၂၉ ခုနှစ်တွင် ထုတ်ဝေခဲ့သည်။ သို့သော်လည်း ထိုစာအုပ်သည် စတိန်းဘက်အား ဆန်ဂျိုစီမြို့မှ ကာရိုးလ်ဟင်းနင်း (Carol Henning) နှင့် လက်ထပ်နိုင်ရုံမျှသာ လုံလောက်သည့်ငွေကို ရစေခဲ့၏။

အိမ်ထောင်သည်ဘဝ ရောက်သည်အထိ စတိန်းဘက်မှာ ဆင်းရဲလျက်ပင် ရှိနေသေး၏။ အကူ ဆေးသုတ်သမား၊ ခြံစောင့်၊ ဆေးစပ်သမား၊ မြေတိုင်းစာရေး၊ သစ်သီးဆွတ်အလုပ်သမား စသည်ဖြင့် ဘဝမျိုးစုံခဲ့သော စတိန်းဘက်သည် အနိုင်မခံ အရှုံးမပေးဘဲ ဖွဲကောင်းကောင်းဖြင့် ဆက်၍ ရုန်းကန်သည်။ သူတို့ လင်မယားသည် သူတို့ပိုင် မော်တော်ဟောင်းကလေးဖြင့် ပင်လယ်ပြင်သို့ ထွက်ကာ ငါးဖမ်းနေရသည့် အချိန်က များ၏။ ထိုစဉ်က တစ်လ နှစ်ဆယ့်ငါးဒေါ်လာမျှသာ ရှိသော ဝင်ငွေသည် အမြဲတစေ လိုငွေပြလျက် ရှိရာ ရသမျှ ငါးများကို ရောင်းပြီး ဖြည့်ရသည်။ ဤအတွင်းမှာပင် မသိသော ဘုရားသခင်သို့ (To a God Unknown) နှင့် ကောင်းကင်ဘုံမှ စားကျက်မြေများ (The Pastures of Heaven) အမည်ရှိ ဝတ္ထုနှစ်ပုဒ် ထုတ်ဝေနိုင်ခဲ့ရသည်။ သို့သော်လည်း နှစ်အုပ်စလုံး မအောင်မြင်ခဲ့ပေ။

၁၉၃၅ ခုနှစ်တွင်မှ သူ့အား စာရေးဆရာ တစ်ယောက်ဟု အသိအမှတ်ပြုခြင်း ခံရသည်အထိ အောင်မြင်မှု ရခဲ့သော တော်တီလာဖလက် (Totilla Flat) ဝတ္ထု ထွက်သည်။ ဤဝတ္ထုသည် ထုတ်ဝေသူက မျှော်လင့်ထားသည်ထက် ပို၍ အောင်မြင်ခဲ့ပြီး အရောင်းရ အတွင်ကျယ်ဆုံး စာအုပ်စာရင်းတွင် လပေါင်း အတန်ကြာမျှ ရပ်တည်နေခဲ့သည်။ ထိုဝတ္ထုသည် ကယ်လီဖိုးနီးယား ပြည်နယ်အတွင်းမှ အလွန် ဆင်းရဲပြီး အလွန် အောက်ကျနောက်ကျ နိုင်သော ပီဆာနိုး လူမျိုးစုများ အကြောင်း ရေးဖွဲ့ထားသည့် ဝတ္ထု ဖြစ်သည်။ မွန်တာရေး ကုန်သည်ကြီးများ အသင်းက ဤစာအုပ်ကို ပြစ်တင် ရှုံ့ချခဲ့ကြသော်လည်း ကယ်လီဖိုးနီးယား ပရဟိတကလပ်မှ ကယ်လီဖိုးနီးယား ပြည်နယ်သား စာရေးဆရာ တစ်ဦး၏ အကောင်းဆုံး ဝတ္ထုတစ်ပုဒ်ဟု သတ်မှတ်ကာ နှစ်စဉ် ပေးမြဲဖြစ်သော ရွှေတံဆိပ် ချီးမြှင့်ခဲ့၏။

နောက်တစ်နှစ် ၁၉၃၆ ခုနှစ်တွင် ကယ်လီဖိုးနီးယားပြည်နယ် အတွင်း၌ ဖြစ်ပေါ်ခဲ့သော သစ်သီးဆွတ် အလုပ်သမား သပိတ်တစ်ခုကို ရေးဖွဲ့သည့် မရေရာသော စစ်ပွဲ (In Dubious Battle) ဝတ္ထု ထွက်သည်။ ယင်းဝတ္ထုကို ဝေဖန်သူအချို့က အစွန်းရောက် လက်ဝဲသမားများအတွက် ဝါဒဖြန့်ပေးသော စာအုပ်ဖြစ်၍ ဖတ်ဖို့မသင့်ဟု စွပ်စွဲကြပြန်သည်။ မည်သို့ပင်ဖြစ်စေ အလုပ်သမား လူတန်းစားတို့၏ ဘဝနှင့် ခံစားချက်များကို သရုပ်ပေါ်အောင် ဖွဲ့နိုင်စွမ်း ရှိသဖြင့် အောင်မြင်မှု ရခဲ့သည်သာမက ကမ္ဘာကျော် ပြင်သစ် စာရေးဆရာကြီး အန်ဒရေဂိုက် (Andre Gide) က

အလုပ်သမားများ၏ စိတ်ပိုင်းဆိုင်ရာ ဖြစ်ပေါ်မှု အဆင့်ဆင့်ကို ပေါ်လွင်အောင် ဖော်ပြရာ၌ အလွန် စွမ်းဆောင်နိုင်သည့် ဝတ္ထု ဖြစ်သည်ဟု ပြောခဲ့လေသည်။

စတိန်းဘက်အား အနုပညာသည် ပီသသော စာရေးဆရာတစ်ဦးဟု အသိအမှတ်ပြုခြင်းခံရသည့် ဝတ္ထုမှာ ကြွက်နှင့် လူတို့၏ (Of Mice and Men) ဟု အမည်ပေးထားသော ဝတ္ထု ဖြစ်၏။ ယင်းဝတ္ထုကို ၁၉၃၇ ခုနှစ်တွင် ထုတ်ဝေခဲ့၍ အမေရိကန် စာပေနယ်တွင် အလွန် ထူးခြားပြောင်မြောက်သော သမိုင်းဝင် စာအုပ်တစ်အုပ် ဖြစ်လာခဲ့သည်။ အလွန်တိုသည့် ဝတ္ထုတစ်ပုဒ် ဖြစ်သော်လည်း အနှစ်သာရအားဖြင့် တန်ဖိုးမဖြတ်နိုင်ဟု စာပေ ဝေဖန်ရေးသမားများက ဆိုကြသည်။ ဤဝတ္ထုကို အပြုအပြင် အဖြတ်အတောက် မရှိဘဲ နယူးယောက်မြို့ ကမ္ဘာကျော် ဘရော့ဝေးဒ် ဇာတ်ရုံ၌ စင်တင် ကပြခဲ့ရာ များစွာ အောင်မြင်ခဲ့လေသည်။

ယင်းဝတ္ထု ထွက်ပြီးနောက် နှစ်နှစ်မျှ အကြာတွင် ဒေါသမာန် ထွက်သည်။ ဤဒေါသမာန်ကြောင့် စတိန်းဘက်သည် ကမ္ဘာကျော်ခဲ့ရ၏။ သို့သော် ဤဒေါသမာန်ကြောင့်ပင် သူ့ကို မကျေနပ်သူများနှင့် မုန်းတီးသူများ ပေါ်ပေါက်ခဲ့ရသည်။ အရင်းရှင်ဘက်တော် သားများက ဆိုလျှင် သူ့ကို ကွန်မြူနစ်ဟု စွပ်စွဲကြသည်။ အရင်းရှင်ကို လိုလားသော နာဇီများက သူ့ကို ဂျူးတစ်ယောက် ဖြစ်သည်ဟု ဆိုကြသည်။ တကယ်တော့ စတိန်းဘက်သည် နိုင်ငံရေးနှင့် စီးပွားရေးတွင် လုံးဝ ဝါဒစွဲရှိသူ မဟုတ်။ သူသည် တင်းကျပ်ပြင်းထန်ပြီး အစွန်းရောက်သည့် တစ်ယူသန်ဝါဒနှင့် အလုပ်များကို ဆန့်ကျင်သူ ဖြစ်သည်။ အကြောင်းအမျိုးမျိုးပြပြီး မတော်လောဘဖြင့် အခွင့်ထူးခံသည့် လူစားမှန်သမျှ စက်ဆုပ်သူ ဖြစ်သည်။ နာဇီများ စွပ်စွဲသလို ဂျူးတစ်ယောက်လည်း မဟုတ်ပေ။ မိသားစုမျိုးရိုး ဇာတိကို ဆန်းစစ်ကြည့်လိုက်သည့်အခါ သူသည် ကယ်လီဖိုးနီးယား ပြည်နယ်အတွင်းပိုင်း တောင်ကြား လွင်ပြင် ဒေသသား စစ်စစ်တစ်ဦး ဖြစ်ကြောင်း သိကြရလေသည်။

အရပ်ခြောက်ပေ၊ အသားဖြူဖြူ၊ မျက်လုံးပြာပြာ၊ မုတ်ဆိတ်မွေး တိုနံ့နံ့နှင့် စိတ်ကြမ်းကိုယ်ကြမ်း ရှိပုံပေါက်နေသော စတိန်းဘက်သည် ရှက်တတ်သည်။ မိမိကိုယ်ကို မိမိ ကျော်ကြားအောင် လူသိများအောင် လုပ်ခြင်းကို အလွန် စက်ဆုပ်သည်။ စကားပြောလျှင် အသံ တိုးတိုးသာသာ အေးအေးဆေးဆေးနှင့် ဖြည်းဖြည်းလေးလေး ပြောတတ်သော စတိန်းဘက်က သူ နိုဗယ်ဆု ရသောအခါ 'ကျုပ်ဟာ ကနေ့အထိ

ချွတ်ယွင်းချက်မရှိအောင် တော်တဲ့ စာရေးဆရာတစ်ယောက် မပာတ်သေးပါဘူးဗျာ' ဟု ပြောခဲ့သည်။

ဂျွန်စတိန်းဘက်သည် ၁၉၆၈ ခုနှစ်တွင် ကွယ်လွန်ခဲ့သည်။

## ၄

အလုပ်မျိုးစုံဖြင့် ဘဝမျိုးစုံတွင် ကျင်လည်ခဲ့ရသော စတိန်းဘက်သည် စာရေးရာ၌လည်း သူ ရွေးထားသည့် ဇာတ်ကြောင်းကို လိုက်၍ ဟန်အမျိုးမျိုးပြောင်းပြီး ရေးတတ်သည်ဟု စာပေ အကဲဖြတ်သမားတချို့က ယူဆကြသည်။ အထူးသဖြင့် ဒေါသမာန် ဝတ္ထု နောက်မှ ရေးသော ဝတ္ထုများ (ပုလဲ (The Pearl)၊ အပယ်ခံသား စသည်များ) သည် နောက်ခံဒေသ ပတ်ဝန်းကျင် အကြောင်းအရာနှင့် ရေးဖွဲ့ဟန်မှစ၍ အမျိုးမျိုးအဖုံဖုံ ကွဲပြားခြားနားလာသည်ဟု ဆိုကြသည်။ ယင်းဝတ္ထုများကို စာဖတ်ပရိသတ်များက နှစ်သက်လက်ခံကြပုံမှာလည်း အမျိုးမျိုးအဖုံဖုံ ကွဲပြားနေကြသည်ဟု ပြောကြသည်။ စတိန်းဘက်၏ အချို့ ဝတ္ထုများသည် ပေါ့တန်တန် နိုင်လွန်းလှသဖြင့် ရေရှည်မခံဟု ဝေဖန်ကြသည်။ သို့သော်လည်း စတိန်းဘက်သည် ကမ္ဘာကျော်လောက်အောင် တော်သည့် စာရေးဆရာကြီး တစ်ယောက် ဖြစ်သည် ဟူသော အချက်နှင့် နှစ်ဆယ်ရာစု ပထမ နှစ်ဝက်ပိုင်းတွင် စာဖတ် ပရိသတ်၏ စိတ်နှလုံးကို ထိထိခိုက်ခိုက်ဖြစ်အောင် ဖွဲ့ဆိုရာ၌ အကောင်းဆုံးသော စာရေးဆရာကြီးတစ်ဦး ဖြစ်သည် ဟူသော အချက်များနှင့် ပတ်သက်၍မူကား မည်သူမျှ အငြင်းမပွားကြပေ။ အငြင်းပွားစရာလည်း အကြောင်းမရှိပေ။ အဘယ့်ကြောင့်ဆိုသော် ထိုအချိန်တွင် စတိန်းဘက်၏ ဝတ္ထုများကို ဘာသာပေါင်း သုံးဆယ့်သုံးဘာသာသို့ ပြန်ဆိုခဲ့ပြီး ကမ္ဘာ့ စာဖတ်ပရိသတ်က စွဲစွဲလမ်းလမ်း ဖတ်နေကြပြီ ဖြစ်သောကြောင့်ပေတည်း။

ဤကြားထဲမှပင် အချို့သော ဝေဖန်ရေးဆရာများက စတိန်းဘက်၏ ဝတ္ထုများ ဩဇာအရှိန်သည် ကြာရှည်ခံခြင်း မရှိ၊ ကြာလာသည့်အခါ စာဖတ်သူအပေါ်၌ တဖြည်းဖြည်းချင်း လွှမ်းမိုးမှု အရှိန်အဝါ လျော့နည်းသွားတတ်သည် ဆိုကြပြန်သည်။ ယင်းကဲ့သို့ အမျိုးမျိုးအဖုံဖုံ ဝေဖန်ခြင်း ခံခဲ့ရသော စတိန်းဘက်သည် သူ ရေးခဲ့သော စာအုပ်များကို အကြောင်းပြု၍ ၁၉၆၂ ခုနှစ်တွင် 'စာပေနိုဗယ်ဆု' ချီးမြှင့်ခြင်း ခံခဲ့ရသည်။ ဆုကြေညာသည့်အခါ 'ဆွီဒင်နိုင်ငံ နိုဗယ်ဆု ရွေးချယ်ရေးအဖွဲ့ကြီး' ၏ အတွင်းရေးမှူး

ဒေါက်တာ အန်ဒါးစ် အော်စတာလင်း (Dr. Anders Osterling) က 'စတိန်းဘက်သည် ဆင်းရဲဒုက္ခနှင့် ရင်ဆိုင်နေရသူများ၏ ဘဝကို ရေးဖွဲ့ရာ၌ ပေါ်လွင် ပီပြင်အောင် ရေးနိုင်စွမ်း ရှိရုံမျှသာမက စာဖတ်သူတို့၏ စိတ်ကို ထိခိုက်အောင် ရေးဖွဲ့နိုင်စွမ်း ရှိသည်။ သူ ရေးဖွဲ့သမျှတွင် ကိုယ်ချင်းစာနာလာအောင်၊ ကရုဏာဖြစ်လာအောင် ဖွဲ့ဆိုနိုင်ခြင်းသည် အထူးခြားဆုံး ဖြစ်သည်။ သူ၏ တောင်ကြားလွင်ပြင် (The Long Vallery) ဝတ္ထုတိုပေါင်းချုပ်တွင် ပါဝင်သော ဝတ္ထုတိုများသည် ဘဝသရုပ်ဖော် အလွန်ကောင်းသော ဝတ္ထုတိုများ ဖြစ်သည်' ဟု သုံးသပ်ခဲ့ပြီး 'စတိန်းဘက်၏ ဂန္ထဝင် ဝတ္ထုကြီး ဖြစ်သော ဒေါသမာန် သည် သာမည ဆင်းရဲသား လယ်သူရင်းငှားတို့၏ ဘဝကို ထိခိုက်ကြေကွဲခြင်း ဖြစ်လာအောင် ကြီးကျယ်ခမ်းနားစွာ ဖွဲ့ဆိုထားသော ဝတ္ထုကြီး ဖြစ်သည်' ဟု မှတ်ချက်ချခဲ့လေသည်။

စာပေပညာရှိတစ်ဦး ဖြစ်သော ဝေါလေ့စ်ဘရော့ခ်ဝေး ကမူ 'စတိန်းဘက်အား ၁၉၆၂ ခုနှစ်ကျမှ စာပေနိုဗယ်ဆု ချီးမြှင့်ခြင်းသည် များစွာ နောက်ကျသည်ဟု ဆိုရပေလိမ့်မည်။ အဘယ့်ကြောင့်ဆိုသော် စတိန်းဘက်သည် နိုဗယ်ဆု ချီးမြှင့်ခြင်း မခံရမီ နှစ်ပေါင်းများစွာကတည်းက ထူးခြားထင်ရှားသော စာရေးဆရာတစ်ဦး အဖြစ်ဖြင့်သာမက လူ့လောက လူ့အဖွဲ့အစည်းတစ်ရပ်အတွင်း၌ ပေါ်ပေါက်လာသော လူမှုရေး အမှားများကို အချိန်မီ ပြုပြင်သွားစေရန် အလွန် ကြီးမားသော တွန်းအားကြီး တစ်ခုကို ပေးခဲ့သည့် ပုဂ္ဂိုလ်ကြီး အဖြစ် ထင်ရှားနေခဲ့ပြီး ဖြစ်သောကြောင့်ပေတည်း။ တကယ်တော့လည်း ယခုကဲ့သို့ ဆုအရ နောက်ကျရခြင်းသည် နိုဗယ်ဆု ရွေးချယ်ရေး ကော်မတီဝင်များ အနေဖြင့် စတိန်းဘက်၏ ထူးခြားကောင်းမြတ်သော အရည်အချင်းများကို မသိ၍ မဟုတ်၊ သိကြပါလျက်နှင့် အမြင်ချင်း မတူညီကြသည့် ဝိဝါဒ ကွဲပြားမှုကလေးများကြောင့် ဖြစ်ပေလိမ့်မည်' ဟု ရေးခဲ့လေသည်။

ဤသည်တို့မှာ နိုဗယ်ဆုရ ကမ္ဘာကျော် စာရေးဆရာကြီး စတိန်းဘက်၏ စာ၊ စတိန်းဘက်၏ ဘဝနှင့် စတိန်းဘက်၏ ဒေါသမာန် တို့နှင့် ပတ်သက်သော ထင်မြင်ချက်များ၊ အယူအဆများနှင့် သုံးသပ်ချက်များကို လက်လှမ်းမီသရွေ့ စုစည်း တင်ပြခြင်း ဖြစ်ပါသည်။

၅

ဂျွန်စတိန်းဘက်သည် မြန်မာ စာဖတ်ပရိသတ်နှင့် စိမ်းသော ပုဂ္ဂိုလ် မဟုတ်။ သူ့ဝတ္ထုတချို့ကို မြန်မာပြန်ခဲ့ပြီးကြပြီ။ ဒေါသမာန် သည်စတိန်းဘက်၏ အထူးခြား အပြောင်မြောက်ဆုံးသော လက်ရာ ဖြစ်၏။ ကမ္ဘာ့ ဂန္ထဝင် ဝတ္ထုကြီးတစ်ပုဒ်လည်း ဖြစ်၏။ အရသာ ခံနိုင်ကြလိမ့်မည်ဟု မျှော်လင့်ပါသည်။

မောင်ထွန်းသူ

၁၉၈၆ ခု၊ ဖေဖော်ဝါရီလ ၂၁ ရက်

## အခန်း (၁)

အုတ်ကလာဟိုးမားပြည်နယ် အတွင်းရှိ အနီရောင် လွှမ်းနေသော မြေပြင်နှင့် အချို့သော ဒေသများရှိ ညိုပြာပြာ မွဲခြောက်ခြောက် အရောင်သန်းနေသော မြေပြင်ထက်သို့ နှစ်စဉ် ရွာနေကျဖြစ်သော နောက်ဆုံးမိုးသည် ထုံးစံအတိုင်း တဖွဲဖွဲ ရွာသွန်းလျက်ရှိလေသည်။ မိုးရေများသည် ချိုင့်များ ကျင်းများ ခလုတ်ကန်သင်းများဖြင့် မညီမညာဖြစ်နေသော မြေပြင်အတွင်းသို့ ထိုးဖောက် စိမ့်ဝင်ခြင်းတော့ မပြုနိုင်ပေ။ တစ်တန်းနှင့် တစ်တန်း ဆက်စပ်ယှက်နွယ်ပြီး အစုန်အဆန် အတန်းလိုက် အကန့်လိုက် ဖြတ်သန်းနေကြသည့် ထယ်ရေး ထယ်ကြောင်းကြီးများသည် မြစ်ငယ် ချောင်းငယ်များနှင့် အလားသဏ္ဍာန်တူလျက် ရှိပေသည်။ နောက်ဆုံးမိုး ဖြစ်သော ဤမိုး၏ အရှိန်ကြောင့် ပြောင်းပင်များသည် လျင်မြန်စွာပင် ပေါက်ရောက် ကြီးထွား သန်စွမ်းလာကြသည်။ လမ်းမကြီးများ၏ ဝဲယာ ဘေးတစ်ဖက် တစ်ချက်တွင်လည်း ပေါင်းပင်များနှင့် မြက်ပင်များသည် အုံလိုက် ကျင်းလိုက် ပေါက်ရောက် လာကြသည်။ ထိုအခါ ညိုပြာပြာ မွဲခြောက်ခြောက် ဖြစ်နေသော မြေပြင်နှင့် နီရဲသော မြေပြင်တို့သည် မြစိမ်းရောင် ကမ္ဗလာ ခြုံထည်ကြီး တစ်ခုအောက်သို့ ဝင်ရောက် ပျောက်ကွယ်သွားကြလေ၏။

မေလ၏ နောက်ဆုံးပတ်အတွင်းသို့ ဝင်မိသောအခါ မိုးကောင်းကင် တစ်ခွင်လုံးသည် ဖြူရော်ရော် ဖျော့တော့တော့ ဖြစ်လာသည်။ ဆောင်းအကုန် နွေအကူး ကြားကာလ ရာသီတစ်လျှောက်လုံး အခိုးအငွေ့များ အသွင်ဖြင့် တွဲလွဲခိုနေခဲ့ကြသော တိမ်တောင် တိမ်လိပ်များသည် တစ်စချင်းစီ ကွဲပျက်ကာ လွင့်စဉ် ပျောက်ပျက်ကုန်ကြသည်။ နေမင်းသည် ပြောင်းပင်များပေါ်ရှိ အစိမ်းရောင် ရွက်ဖတ် တစ်ခုချင်းစီ၏ နှုတ်ခမ်းတစ်လျှောက်တွင် အညိုရောင် အစင်းကြောင်းကလေးများ ပေါ်လာပြီး ဖြည်းဖြည်းချင်း ကြီးထွားလာသည်အထိ တစ်ရက်ပြီးတစ်ရက် ပူပြင်း တောက်ပသော ရောင်ခြည်ဖြင့် ပက်ဖျန်းပေးလျက် ရှိ၏။ ကောင်းကင်ဝယ် တိမ်များ ပြန်၍ စုလာကြပြန်သော်လည်း ကြာကြာမနေ။ ချက်ချင်းပင် အဝေးသို့ မျောကာ ပျောက်ပျက်သွားကြပြန်လေသည်။ အခိုက်အတန့်အတွင်းမှာတော့ တိမ်များသည် နောက်ထပ် ပေါ်ပေါက်လာခြင်း မရှိတော့ချေ။ ပေါင်းပင်များသည် သူတို့၏ အရောင်ကို သာမန် အစိမ်းရောင်မှ အစိမ်းပုပ်ရောင်သို့ ကူးပြောင်းကာ နေပူရှိန်ဒဏ်မှ သူတို့ကိုယ်သူတို့ ကာကွယ်ခြင်းပြုကြသည်။ သူတို့သည်လည်း နောက်ထပ် အပင်သစ်များ ပေါက်ရောက်ခြင်း တိုးပွားခြင်း

မရှိတော့ပေ။ မြေမျက်နှာပြင်၏ အပေါ်ယံတွင် ပါးလွှာ မာကျောသော မြေလွှာ တစ်ထပ်သည် ဖုံးအုပ်လာသည်။ မိုးကောင်းကင်၏အရောင် ဖြူရော်ရော် ဖျော့တော့တော့ ဖြစ်လာသည့်အခါ မြေပြင် အရောင်သည်လည်း ဖြူရော်ရော် ဖျော့တော့တော့ ဖြစ်လာသည်။ အနီရောင် မြေပြင်သည် ပန်းရောင်သို့ ပြောင်းလဲ၍ ညိုပြာပြာ မွဲခြောက်ခြောက် မြေပြင်သည် အဖြူရောင်သို့ ပြောင်းလာလေသည်။

ရေပြတ်သွားပြီ ဖြစ်သော လျှိုကြီးများအတွင်းမှ ခြောက်သွေ့စ ပြုနေသော ချောင်းငယ် မြောင်းငယ်များတွင် မြေသစ်များ တင်လာသည်။ ပွေးများနှင့် ပုရွက်ဆိတ် ခေါင်းကြီးများသည် သူတို့ နေအိမ်များကို တည်ဆောက်စ ပြုလေပြီ။ နေမင်း၏ စူးရှပြင်းထန်သော အပူရှိန်ဒဏ်ကို နေ့စဉ်နှင့်အမျှ ခံနေကြရသော ပြောင်းရွက်များသည် ပျော့တိပျော့ခွေ ဖြစ်လာကြလေ၏။ ယခင်ကလို ခိုင်မာတောင့်တင်းခြင်း မရှိတော့ဘဲ ယိုယွင်း ပျက်ပြား လာကြလေသည်။ ပထမတွင် ရှေ့ဘက်သို့ ငိုက်စိုက်ကျကာ ကွေးညွတ် လာကြသည်။ ထို့နောက် ပင်စည်အလယ် ရိုးတံ၏ခွန်အား လျော့နည်းလာသည်နှင့်အမျှ အရွက် တစ်ရွက်ချင်းစီ၏ ခွန်အားသည် ဆုတ်ယုတ်လာကာ တဖြည်းဖြည်းချင်း အောက်သို့ ငိုက်၍ ငိုက်၍ ကျလာသည်။

ဇွန်လအတွင်းသို့ ဝင်လာခဲ့လေပြီ။ နေအပူရှိန်သည် တိုး၍ တိုး၍ ပြင်းထန် လာသည်။ ပြောင်းရွက်များပေါ်မှ အညိုရောင် အစင်းကြောင်းများသည် ပို၍ ကြီးမား ကျယ်ပြန့်လာပြီး ပင်စည်အလယ် ရိုးတံဘက်သို့ တိုးကပ်လာကြသည်။ ပေါင်းပင်များ မှာလည်း ညှိုးနွမ်း ခြောက်သွေ့ကာ မြေပေါ်သို့ ငိုက်စိုက်တွဲလွဲ ပုံ၍ ကျလာကြသည်။ တဖြည်းဖြည်းနှင့် လေထုသည် ပါးလာသည်။ မိုးကောင်းကင်သည် ပို၍ ဖြူဖျော့လာသည်။ မြေကြီး၏ အရောင်အဆင်းမှာလည်း နေ့စဉ်နေ့တိုင်းပင် ဖြူဖျော့လျက် ရှိလေသည်။

လူနှင့် တိရစ္ဆာန်များ အုပ်လိုက် သင်းလိုက် ဖြစ်စေ၊ တစ်ဦးချင်း တစ်ကောင်ချင်း ဖြစ်စေ လှုပ်ရှား သွားလာကြသည့် အခါများတွင် လည်းကောင်း၊ မြင်းသံခွာများ ခြေချလိုက်သည့် အခါများတွင်လည်းကောင်း လမ်းမကြီးများပေါ်ရှိ အပေါ်ယံမြေလွှာသည် ပြိုကွဲကာ ဖုန်လုံးများ ထလာသည်။ ဤသို့ဖြင့် ရွေ့လျားနိုင်သည့် အရာဝတ္ထုတိုင်းသည် လမ်းမကြီးများပေါ်ရှိ ဖုန်လုံးများကို တထောင်းထောင်း ထအောင် ဖန်တီးလျက် ရှိ၏။ ဖုန်လုံးများသည် လေထဲတွင် ပျံသန်း လွင့်မျောလျက် ရှိကြသည်။ လူတစ်ယောက် လမ်းလျှောက်သွားလျှင် သူ့ခြေထောက်များ အောက်မှ ထလာသော ဖုန်လုံးသည်

သူ့ခါးဆီသို့ ရောက်လာတတ်သည်။ မြင်းလှည်းကြီးတစ်စီး မောင်းနှင်လာသည့်အခါတွင်မူ ဖုန်လုံးများသည် လှည်းနံရံထိ တက်လာတတ်၏။ မော်တော်ကားတစ်စီး မောင်းလာသည့် အခါတွင်မူကား ဖုန်လုံးကြီးများသည် ကားနောက်တွင် တထောင်းထောင်း ထ၍ ကျန်ခဲ့တတ်သည်။ တလိပ်လိပ် ထနေသော ထိုဖုန်လုံးကြီးများ မြေပြင်ထက်သို့ ပြန်လည် သက်ဆင်းလာရန်မှာ အချိန်များစွာ ကြာတတ်ပေသည်။

ဖွန်လ လဝက် ကျိုးသွားသောအခါ တက္ကဆတ်ပြည်နယ်နှင့် မက္ကဆီကို ပင်လယ်ကွေ့ဘက်ဆီမှ ကြီးမားသော မိုးသားတိမ်လိပ်များသည် ရွေ့လျား ရောက်ရှိ လာကြသည်။ ထူထဲ၍ မြင့်မားသော မိုးသားတိမ်လိပ်များပေတည်း။ လယ်ကွက်များ အပေါ်၌ အလုပ်လုပ်လျက် ရှိကြသော လူများသည် တိမ်လိပ်များဆီသို့ မော့ကြည့်ကာ အနံ့ခံကြသည်။ သူတို့၏ စိုထိုင်းထိုင်း ဖြစ်နေသော လက်ချောင်းများကို ဖြန့်ကာ ရာသီလေ တိုက်ခတ်ပုံ အနေအထားကို လေ့လာကြသည်။ မိုးသားတိမ်လိပ်များ ရှိနေခိုက်တွင် မြင်းများသည် ငြိမ်ငြိမ်ဆိမ်ဆိမ် မနေနိုင်၊ တလှုပ်လှုပ် တရွရွနှင့် အဆက်မပြတ် လှုပ်ရှားနေတတ်သည်။

မိုးသားတိမ်လိပ်များဆီမှ မိုးစက်မိုးပေါက် အနည်းငယ်မျှ ကျဆင်းလာသည်။ ထို့နောက်တွင်မူ တိမ်လိပ်များသည် တခြား အရပ်ဒေသဘက်သို့ ဦးတည်၍ လျင်မြန်စွာ ရွေ့လျားကြသည်။ သူတို့၏ နောက်ဘက်တွင် ကျန်ရစ်ခဲ့သည့် မိုးကောင်းကင်သည် ဖြူရော်ရော် ဖျော့တော့တော့ ပြန်ဖြစ်လာသည်။ နေကလည်း ယခင်လို ပူမြဲတိုင်း ပူလာသည်။ ဖုန်ထူသော လမ်းမကြီးများပေါ်ရှိ မိုးစက် မိုးပေါက်များ ကျသွားရာ နေရာများတွင်မူ ချိုင့်ခွက်ကလေးများ ထင်ကျန်ခဲ့၏။ သန့်စင်သော မိုးစက်ကလေး များသည် ပြောင်းပင်များတွင် တွဲလွဲခိုနေကြသည်။ ပြောင်းလဲ ဖြစ်ပေါ်လာသည့် အခြေအနေကတော့ ဤမျှသာ ဖြစ်လေသည်။

ဖြည်းဖြည်းသာသာ တိုက်ခတ်လျက်ရှိသော ရာသီလေသည် မိုးရိပ်မိုးသားပါသော တိမ်များ၏ နောက်မှ ကပ်၍ လိုက်ကာ မြောက်စူးစူးသို့ ရွေ့လျားသွားအောင် မောင်းနှင်၍ ထုတ်သည်။ တစ်ချိန်တည်း တစ်ပြိုင်တည်းမှာပင် ခြောက်သွေ့စ ပြုနေသော ပြောင်းပင် များကို တယိမ်းယိမ်း တနွဲ့နွဲ့ ခါယမ်း လှုပ်ရှားနေအောင် အသာအယာ တိုးဝှေ့ တိုက်ခတ်သည်။ ဤပုံစံဖြင့် တစ်နေ့တာ ကုန်ဆုံးသွားပြန်လေ၏။ နောက်တစ်ရက်တွင် လေတိုက်နှုန်း အရှိန်သည် မြင့်လာသည်။ သို့သော်လည်း လေပွေ လေရူး လေကြမ်း

မပာတ်။ တိုက်ခတ်ပုံ တည်တည်ငြိမ်ငြိမ် ရှိသည်။ လမ်းမများပေါ်မှ ဖုန်များသည် လေနှင့်အတူ လွင့်ကာ လယ်ကွက်များဘေးရှိ ပေါင်းပင် မြက်ပင်များပေါ် ဖြန့်၍ သက်ဆင်းကြသည်။ အချို့ကတော့ လယ်ကွက်များအတွင်းသို့ သက်ဆင်းကြသည်။ တဖြည်းဖြည်းနှင့် လေအရှိန်သည် ပို၍ ပြင်းထန်လာသည်။ ပြောင်းခင်းများအတွင်းရှိ ပြောင်းပင်များတွင် မှီတွယ်ကာ ငိုက်စိုက် တွဲလောင်း ဖြစ်နေကြသော ပြောင်းရွက်များကို ခပ်ကြမ်းကြမ်း ဖော့ယမ်း တိုက်ခတ်သည်။ ပတ်ဝန်းကျင် တစ်ခွင်လုံးမှ ဖုန်မှုန့်များကို သယ်ယူသွားပြီး ကောင်းကင်တစ်ခုလုံးကို မှောင်မည်းသွားအောင် ကြဲဖြန့်သည်။ လေသည် မြေကြီးနှင့် အနီးဆုံးနေရာသို့ ရောက်အောင် ပြန်လည် ဆင်းသက်လာပြီး တရစပ် မွှေ့ယမ်း တိုက်ခတ်ပြန်သည်။ ဖုန်များကို ထောင်းထောင်း ထနေအောင် မွှေနှောက်ပြီး အဝေးသို့ သယ်ဆောင်သည်။

တစ်စထက်တစ်စ လေအရှိန်သည် တိုး၍ တိုး၍ ထန်လာသည်။ ပြောင်းပင်များတွင် ဖက်တွယ်နေကြသည့် ရွက်ဖတ်များကို ပြတ်သတ် ကွာကျသွားအောင် တရကြမ်းဖိ၍ တိုက်ခတ်သည်။ ရွက်ဖတ်များသည် ဖုန်များနှင့်ရောကာ လယ်ကွက်များအတွင်းမှ ထွက်ခွာသွားကြလေ၏။ ဖုန်လုံးကြီးများသည် မီးခိုးတန်းကြီးများသဖွယ် ကောင်းကင်ထက်သို့ တလိပ်လိပ် ထိုးတက်နေကြလေ၏။ ပြောင်းရွက်ဖတ်များသည် ကြက်ငှက် အမွေး အတောင်များ သဖွယ် လေသယ်ရာနောက်သို့ ပျံ့ဝဲကာ လိုက်ပါသွားကြလေ၏။ ပြောင်းပင်များသည် လေဒဏ်ကို ကြံ့ကြံ့ခံကာ တရှဲရှဲ အော်မြည်လျက် ရှိကြသည်။ ဖုန်မှုန် ဖုန်မွှားများသည် မြေပေါ်သို့ ပြန်မဆင်းတော့ဘဲ မှောင်မည်းနေသော မိုးကောင်းကင် အတွင်းသို့တိုးဝင် ပျောက်ကွယ်သွားကြလေသည်။

လေသည် ယခင့်ယခင်ကလေထက် အဆများစွာ တိုး၍ ပြင်းထန်လာသည်။ ကျောက်ခဲကြို ကျောက်ခဲကြားမှ ကတ်သီးကတ်သတ် ဖြတ်၍ တိုက်ခတ်သည်။ ပြင်းထန် စူးရှသောအသံကို ပြုသည်။ ကောက်ရိုးစများနှင့် သစ်ရွက်အို သစ်ရွက်ဟောင်းများကို ထောင်းလမောင်း ထအောင် မွှေနှောက် တိုက်ခတ်သည်။ လယ်ကွက်များ အတွင်းရှိ မြေစိုင် မြေခဲ အသေးအမှုန် လေးများသည် လေပြင်းရှေ့မှ လူးလိမ့်ပြေးသွားလျက် ရှိ၏။ လေသယ်ရာသို့ ပါသွားကြသော မြေစိုင် မြေမှုန့်များ နေရာတွင် သေးငယ် ကျဉ်းမြောင်းသော လမ်းကြောင်းကလေးများ ပေါ်လာကြသည်။ ကောင်းကင်သည် တစ်ဆတိုး၍ မှောင်လာသည်။ နေရောင်သည် ပြင်းထန်သော လေနှင့် မှောင်သော ကောင်းကင်ကြားမှ နေ၍ တောက်ပလျက် ရှိသည်။ လေထုထဲတွင် စွတ်စိုထိုင်းမှိုင်း

အေးမြသောဓာတ်သည် ကိန်းအောင်းလာသည်။ ညပိုင်းတွင် လေသည် အလွန်လျင်မြန်သော အရှိန်ဖြင့် ကုန်းမြေပေါ်မှ ဖြတ်၍ အဟုန်ပြင်းစွာ တိုက်ခတ်သည်။ လိမ္မာပါးနပ်စွာဖြင့် ပြောင်းပင်များကို အမြစ်မှ ကျွတ်ထွက်စေရန် အားထုတ်သည်။ ပြောင်းပင်များကလည်း အားအင်ကုန်ခန်း ချည့်နဲ့နေကြပြီ ဖြစ်သော သူတို့အရွက်များကို အားပြုကာ လေ၏ ဘေးအန္တရာယ်မှ လွတ်မြောက်အောင် အစွမ်းကုန် ခုခံတိုက်ခိုက်ကြသည်။ ထို့နောက် ပင်ရိုး ပင်စည်များသည် အလွန် မောဟိုက် နွမ်းနယ်သွားကြသည့်နယ် မြေပြင်ဆီသို့ ငုံ့လျှိုးကာ ငိုက်စိုက်ကျလျက် ရှိလေ၏။

အရုဏ်တက်လာသည်။ သို့သော်လည်း နေ့သည် နေ့နှင့် မတူ။ ရီဝေမှုန်မှိုင်းလျက်ရှိသော ကောင်းကင်ကြားမှ နီရဲသော နေမင်းသည် ထိုးထွက်လာသည်။ မှုန်ဝါးမေးမှိန်နေသော အနီရောင် နေလုံးကြီးသည် အလွန် အားနည်းသော အလင်းရောင်ကို လွှတ်၍ တစ်လောကလုံး ကို ဖြန့်မိုးရန် ကြိုးစားသည်။ သို့သော်လည်း နံနက်ခင်းသည် နံနက်ခင်းနှင့် မတူ။ ညနေခင်း နေဝင်ဖျိုးဖျ အချိန်နှင့်သာ တူနေလျက် ရှိ၏။ တစ်နေ့တာ အချိန်နာရီသည် တရွေ့ရွေ့ ကုန်ခမ်းလာသည်။ တဖြည်းဖြည်းနှင့် နေဝင် ဆည်းဆာအချိန်သို့ ပြန်လည် ဆိုက်ရောက်လာကာ အမှောင်ထုဆီသို့ ပြန်လည် ချဉ်းကပ်သည်။ လေသည် ဖရိုဖရဲ အလဲလဲ အပြိုပြို ဖြစ်နေသော ပြောင်းပင်များပေါ်မှ ကျော်ဖြတ်ရင်း ငိုကြွေးမြည်တမ်းသံနှင့် တူသော ထူးထူးဆန်းဆန်း အသံများကို ပြုသည်။

ဤအချိန်ကာလတွင် ယောကျ်ားများရော မိန်းမများပါ အိမ်တွင်းမှ အိမ်ပြင်မထွက်။ အချိန်ရှိသမျှ အိမ်တွင်း၌သာ ကုပ်နေကြသည်က များ၏။ မထွက်မဖြစ်၍ အပြင်သို့ ထွက်ကြသည့်အခါများတွင်လည်း လက်ကိုင်ပုဝါများဖြင့် သူတို့ နှာခေါင်းများကို စည်း၍ နေကာမျက်မှန်များကို တပ်၍ ထွက်ကြသည်။

ညပိုင်းသို့ တစ်ကျော့တစ်ဖန် ရောက်လာပြန်သည်။ ခါတိုင်းညများလို လင်းလင်းချင်းချင်း မရှိ။ ပိန်းပိတ်အောင် မှောင်လျက် ရှိ၏။ ကောင်းကင်တွင်လည်း ကြယ်ရောင်မရှိ။ ကြယ်ရောင်များသည် နေ့ရော ညပါ လေနှင့်အတူ လွင့်တက်လာနေသည့် ဖုန်မှုန့်များ၏ ကြီးမားသော ထုထည်ကို ထိုးဖောက်၍ လင်းလက်နိုင်စွမ်း မရှိ။ နေအိမ်များအတွင်းမှ မီးရောင်များသည်လည်း ပြတင်းပေါက်များ၏ အပြင်သို့ ထွက်၍ ကျက်စားခြင်း မရှိနိုင်။ ယခုအခါတွင် ဖုန်မှုန့်များသည် လေထုနှင့် ရောနှောပေါင်းစပ်ကာ အလိုက်သင့် လွင့်မျောလျက် ရှိနေကြလေပြီ။ အိမ်တိုင်း အိမ်တိုင်းသည် ရှိသမျှ

တံခါးပေါက်များကို လုံခြုံအောင် ပိတ်ထားကြသည်။ တံခါးပေါက်နှင့် ပြတင်းပေါက် အကြိုအကြားများမှ လေဝင်လာမည်ကို စိုးသဖြင့် အပေါက်များကို အဝတ်များဖြင့် ကာရံ ပိတ်ဆို့ထားကြသည်။ သို့သော်လည်း မြူမှုန်စာမျှ ပါးလွှာသော ဖုန်လေးဖုန်မွှားများသည် အဆက်မပြတ် ဝင်လာလျက် ရှိ၏။ ဖုန်မှုန်များသည် ပေါင်ဒါများ ဖြူးထားသည့်နယ် အိုးခွက် ပန်းကန်များနှင့် စားပွဲ ကုလားထိုင်များပေါ်၌ တင်လျက် ရှိကြသည်။ လူတိုင်းသည် သူတို့ပုခုံးများပေါ်၌ လာရောက်ကပ်ငြိနေသည့် ဖုန်မှုန့်များကို မကြာခဏ ပုတ်ခါ၍ ချနေကြရသည်။ ပြတင်းပေါက်ပေါင်များ၌ ကပ်နေသော ဖုန်မှုန့်များသည် အတန်းလိုက် စုပြုံနေကြလေသည်။

ထိုည ညလယ်တွင် လေသည် နေရာရွှေ့သွားသည်။ နယ်မြေတစ်ခုလုံး တိတ်ဆိတ်၍ ကျန်ခဲ့သည်။ အိပ်ရာထဲတွင် လဲလျောင်းနေကြသော လူများသည် လေအတိုက် ရပ်သွားသည်ကို ကြားကြသည်။ အဟုန်ပြင်းစွာဖြင့် တစ်ဖွတ်ထိုး တိုက်ခတ်လျက် ရှိသော လေသည် ဖြုန်းခနဲ ထွက်ခွာသွားခဲ့လေပြီ။ လူအားလုံး အိပ်ရာမှ နိုးလာကြသည်။ အပြင်လောကမှ တိတ်ဆိတ် ငြိမ်သက်မှုကို သတိကြီးစွာထား၍ နားစွင့်နေကြသည်။ ထို့နောက် ဟိုနေရာ သည်နေရာ နေရာအနှံ့အပြားမှ ကြက်တွန်သံများ ပေါ်လာသည်။ လူအများမှာ ပြန်၍ မအိပ်နိုင်ကြ။ အားလုံး မျက်စိကြောင်လျက် ရှိကြသည်။ အိပ်ရာထဲတွင် တလူးလူး တလိမ့်လိမ့် ဖြစ်ကာ မငြိမ်သက်သော စိတ်ဖြင့် မြန်မြန် မိုးလင်းစေချင်သောဆန္ဒ ပြင်းပြလျက် ရှိကြလေသည်။ လေထုသည် ဖုန်မှုန့်များနှင့် ပြည့်လျက် ရှိ၏။ မသန့်မရှင်း ဖြစ်နေသော လေထု သန့်စင်သွားရန် အချိန်များစွာ စောင့်ကြရပေလိမ့်မည်။

နောက်တစ်နေ့ နံနက်ခင်းသို့ ရောက်သောအခါ ဆီးနှင်းများသဖွယ် တဖွဲဖွဲ ကျဆင်းနေသော ဖုန်မှုန့်များကို မြင်ကြရသည်။ ထွက်ပြူစ နေမင်းသည် သွေးသစ် လောင်းထားသည့်နယ် ရဲရဲတောက်လျက် ရှိ၏။ မိုးကောင်းကင်ထက်သို့ လွင့်တက် မျောပါနေခဲ့ကြသော ဖုန်မှုန့်များသည် မြေပြင် တစ်ပြင်လုံးကို ပြန်၍ လွှမ်းခြုံသည်။ သူတို့သည် ပြောင်းပင်များ ခြံဝင်း ခြံတိုင်များနှင့် ဝိုင်ယာကြိုးများ အပေါ်သို့ အစုလိုက် အပုံလိုက် လာ၍ တွယ်ကပ်ကြသည်။ ပေါင်းပင် မြက်ပင်များနှင့် သစ်ပင်များ အပေါ်တွင်လည်း လာရောက် ငြိတွယ်ကြသည်။

လူများသည် သူတို့ နေအိမ်များအတွင်းမှ အပြင်သို့ ထွက်လာကြသည်။ သန့်ရှင်း လတ်ဆတ်မှု ကင်းမဲ့နေသော လေပူကြီးကို ရှူကြသည်။ ချက်ချင်းပင် သူတို့ နာခေါင်းများကို လက်ကိုင်ပုဝါများဖြင့် အုပ်၍ စည်းကြသည်။ ကလေးသူငယ်များ သည်လည်း အိမ်ပြင်သို့ ထွက်လာကြသည်။ သို့သော်လည်း သူတို့သည် မိုးရွာသည့် အခါများတွင် ပျော်သလို မပျော်ကြ။ ပြေးလိုက် လွှားလိုက် ခုန်ပေါက်လိုက် အော်လိုက် ဟစ်လိုက် မလုပ်ကြ။ ယောကျ်ားများသည် အိမ်ဝင်း ခြံအနီး၌ရပ်ကာ ပျက်စီးနေသော ပြောင်းခင်းများကို လှမ်းမျှော် ကြည့်ကြသည်။ အခုဆိုလျှင် ပြောင်းပင်များမှာ အစိမ်းရောင်ဆို၍ ဟိုတစ်ကွက် သည်တစ်ကွက် ပြောက်တိပြောက်ကျားမျှသာ ကျန်တော့၏။ သူတို့သည် ကျောက်ရုပ်များ သဖွယ် မလှုပ်မယှက် ရပ်နေကြသည်။

နေအိမ်များအတွင်းမှ မိန်းမများ ထွက်လာကြသည်။ ယောကျ်ားများ၏ ဘေး၌ ဝင်၍ ရပ်ကြသည်။ ယခုတစ်ကြိမ်တွင်တော့ဖြင့် သူတို့ ယောကျ်ားများ စိတ်ဓာတ် ပျက်ပြားကြပြီ ထင်၏။ တကယ်ပင် စိတ်ဓာတ်ကျကြလေပြီလော။ မိန်းမများသည် ယောကျ်ားများ၏ မျက်နှာရိပ် မျက်နှာကဲကို မဝံ့မရဲ အကဲခတ်ကြသည်။ ပြောင်းပင်များ ပျက်စီးသွားသည့် တိုင်အောင် တစ်စုံတစ်ခုသော အရာသည် ဆက်လက် တည်ရှိနေဦးမည် ဆိုပါကမူ သူတို့မှာ ပူပင်သောက ရောက်စရာမရှိ။ ကလေးများသည် လူကြီးများ ဘေး၌ ရပ်လာကြသည်။ သူတို့၏ ခြေမများနှင့် သဲပြင်ပေါ်တွင် စိတ်ကူးတည့်ရာ အရုပ်များကို ရေးဆွဲနေကြရင်းက လူကြီးများ၏ မျက်နှာကို မော့ကြည့်ကြသည်။ လူကြီးများ စိတ်ဓာတ်ကျကုန်ကြပြီလော။

ကလေးများသည် လူကြီးများ၏ မျက်နှာကို မဝေခွဲနိုင်သော မျက်နှာထားများဖြင့် မကြာခဏ မော့မော့ကြည့်သည်။ သိသိသာသာကြည့်ခြင်း မဟုတ်၊ တစေ့တစောင်း ချောင်း၍ကြည့်ခြင်း။ ပြီးတော့ သူတို့၏ ဆွဲလက်စ အရုပ်များကို ဆက်ဆွဲနေကြသည်။ မြင်းများသည် သူတို့ ရေသောက်ခွက်ဆီသို့ ရောက်လာကြသည်။ အထဲမှ ရေကို အနံ့ခံကြည့်သည်။ ရေ၏ အပေါ်ယံတွင် ကပ်ငြိနေသည့် ဖုန်မှုန့်များကို နှာခေါင်းနှင့် မှုတ်၍ ဖယ်ရှားပြီး သောက်ကြသည်။

ခဏအကြာတွင် ပြောင်းပင်များဆီသို့ ငေးမော တွေဝေနေသော ယောကျ်ားများ၏ မျက်နှာထားများသည် ပြောင်းလာသည်။ စောစောက ထင်ဟပ်နေသည့် စိတ်ပျက်ခြင်း၊ အားငယ်ခြင်း၊ ဝမ်းနည်းခြင်း၊ ကြေကွဲခြင်းနှင့် မဝေခွဲနိုင်ခြင်း စသော အရိပ် လက္ခဏာများ

အားလုံး ပျောက်ကွယ်သွားသည်။ ထိုအရိပ်လက္ခဏာများ၏ နေရာတွင် စိတ်အား ထက်သန်ခြင်း၊ ဒေါသမာန်တက်ခြင်း၊ ကြံ့ကြံ့ခံနိုင်ခြင်း စသော အရိပ်လက္ခဏာများ ဝင်ရောက်လာသည်။ မိန်းမများသည် ယောကျ်ားများ၏ မျက်နှာထား အပြောင်းအလဲကို သတိပြုမိကြသည်။ ထိုအခါ မိန်းမများ၏ စိတ်တွင် သူတို့ဘဝ လုံခြုံပြီ ဟူသော အသိ ဖျတ်ခနဲ ဝင်လာသည်။ သူတို့ ယောကျ်ားများတွင် ဒူးထောက် အရှုံးပေးမည့် စိတ်ဓာတ် မရှိသေး ဟူသော သဘောကိုလည်း နားလည်လာသည်။ ထိုအခါ သူတို့ ယောကျ်ားများအား ကျွန်မတို့ ဘယ်လို လုပ်ကြမလဲဟု မေးသည်။ ယောကျ်ားများကလည်း ငါလည်း မပြောတတ်သေးဘူး၊ ဒါပေမယ့် အားလုံး အဆင်ပြေသွားမှာပေါ့ကွာဟု ဖြေကြသည်။ အားလုံး အဆင်ပြေသွားလိမ့်မည်ကို မိန်းမများရော ကလေးသူငယ်များပါ သိကြပါ၏။

မိန်းမများနှင့် ကလေးများတွင် အလွန် လေးနက် ခိုင်မာသော ယုံကြည်ချက်တစ်ခု ရှိသည်။ တခြား မဟုတ်။ ယောကျ်ားများတွင် အနိုင်မခံ အရှုံးမပေးသော စိတ်ဓာတ်ရှိနေသမျှ ကာလပတ်လုံး သူတို့၏ ခံနိုင်ရည်ဖွဲ့နှင့် စွမ်းအင်ကို ချိုးဖျက်နိုင်လောက်အောင် ကြီးမားသည့် ကြမ္မာဆိုးသည် ဤလောက၌ မရှိနိုင် ဟူသော ယုံကြည်ချက် ပင်တည်း။

မိန်းမများသည် အိမ်ထဲ ပြန်ဝင်ကာ အိမ်မှုကိစ္စများကို လုပ်ကြသည်။ ကလေးများ ကတော့ သူတို့ သဘာဝအတိုင်း ကစားကြသည်။ ပထမ စ၍ ကစားသည့် အချိန်တွင် သိပ်ပြီး တက်တက်ကြွကြွ မရှိ။

တစ်နေ့တာအချိန်သည် ဖြည်းဖြည်းချင်း ကုန်လာသည်။ တောက်ပသော နေရောင်ခြည်သည် ဖုန်မှုန့်များ လွှမ်းခြုံထားသည့် မြေပြင်ထက်သို့ ဖြာဆင်းလျက်ရှိ၏။ အပူရှိန်သည် အားနည်းသည်ထက် နည်းလာသည်။ ယောကျ်ားများသည် သူတို့ နေအိမ် တံခါးဝများ၌ ထိုင်ကြသည်။ သူတို့ လက်များကတော့ တလှုပ်လှုပ်၊ သစ်ကိုင်းစများ ကျောက်ခဲများနှင့် အလုပ်ရှုပ်လျက် ရှိကြသည်။ သူတို့ ထိုင်နေပုံမှ တိတ်ဆိတ် ငြိမ်သက် လွန်းလှ၏။ သို့သော် စိတ်ကတော့ နားနားနေနေ မဟုတ်၊ အေးအေးဆေးဆေး မရှိ။ တွေးတောခြင်း၊ စိတ်ကူးခြင်းနှင့် ခန့်မှန်း ချင့်တွက်ခြင်း ... ။

* * *

## အခန်း (၂)

အနီရောင် ကုန်တင် ထရပ်ကားကြီးတစ်စီးသည် လမ်းဘေး စားသောက်ဆိုင် တစ်ဆိုင်ရှေ့၌ ရပ်လျက်ရှိသည်။ ကား အိတ်ဇောပိုက်မှ တဟုတ်ဟုတ် မြည်သံသည် မှန်မှန် ပေါ်ထွက်လာနေသည်။ ပိုက်ခေါင်းအဝမှ ခဲပြာရောင် အခိုးအငွေ့တန်းသည် အဆက်မပြတ် ထွက်လာလျက် ရှိလေသည်။ ထရပ်ကားမှာ ကားသစ်ကြီး ဖြစ်၏။ သုတ်ထားသည့် ဆေးနီရောင်သည် ပြောင်ဝင်းလျက် ရှိသည်။ အုတ်ကလာဟိုးမား မြို့တော် သယ်ယူ ပို့ဆောင်ရေး ကုမ္ပဏီ ဟူသော ဆယ့်နှစ်လက်မ အရွယ် စာလုံးကြီးများသည် ကားဘော်ဒီ၏ ဘေးတစ်ဖက်တွင် အထင်းသား ပေါ်လျက် ရှိလေသည်။ ထရပ်ကား၏ နှစ်ထပ် တာယာများမှာလည်း အသစ်စက်စက်ပင် ဖြစ်၍ ကားနောက်ဘက် တံခါးများ၏ မျောက်လက်တွင် ကြေးဝါရောင် သော့ခလောက်ကြီး တစ်လုံး ချိတ်ဆွဲထားသည်။

ခန်းဆီးများ အလုံအပြည့် ကာထားသော စားသောက်ဆိုင် အတွင်း၌ ရေဒီယိုတစ်လုံး ဖွင့်ထားသည်။ ရေဒီယိုမှ လာနေသည့် အသံမှာ ကပွဲ တေးဂီတသံ၊ ဖွင့်ထားပုံမှာ ခပ်တိုးတိုး၊ နားထောင်သူ တစ်ဦးတစ်လေမှ မရှိသည့် အခါမျိုးတွင် ဖွင့်လေ့ရှိသည့် ပုံစံမျိုး။ ဆိုင်အဝင် တံခါးပေါက်၏ အပေါ်ဘက်ရှိ အပေါက်ဝိုင်းထဲမှ ပန်ကာသည် တဝီးဝီး လည်ပတ်လျက် ရှိသည်။ ယင်ကောင်များသည် တံခါးပေါက်နှင့် ပြတင်းပေါက်များ အနီးတွင် တဝီဝီ ပျံသန်းလျက် ရှိကြသည်။ ဆိုင်ထဲတွင် လူတစ်ယောက်၊ ထရပ်ကားဒရိုင်ဘာ။ သူသည် ခြေတံရှည် ခွေးခြေတစ်လုံးပေါ်၌ ထိုင်ကာ တံတောင်နှစ်ဖက်ကို ကောင်တာပေါ်ထောက်၍ သူ့ရှေ့မှ ကော်ဖီပန်းကန်ပေါ် ကျော်ပြီး အဆီအသား နည်းလွန်းလှသော ပိန်လှီလှီ စားပွဲထိုး အမျိုးသမီးအား လှမ်းကြည့်နေသည်။ သူသည် လမ်းပေါ်မှ လူတန်းစားများသာ သုံးလေ့သုံးထရှိသော အသုံးအနှုန်းများဖြင့် စကား လှမ်းပြောလျက် ရှိသည်။

“လွန်ခဲ့တဲ့ သုံးလလောက်က ငါ သူနဲ့ တွေ့ခဲ့သေးတယ်၊ ခွဲစိတ်ပြီး ကုသထားရတယ်၊ ခွဲစိတ်ပြီး သူ့ကိုယ်ထဲက တစ်ခုခု ထုတ်ထားတာပဲ၊ ဘာထုတ် ထားမှန်းတော့ မသိဘူး၊ ငါလည်း မေ့သွားပြီ” ထိုအခါ အမျိုးသမီးက ပြန်ပြောသည်။ “ကျွန်မ သူနဲ့ တွေ့ခဲ့တာ တစ်ပတ်တောင် မပြည့်သေးဘူး၊ အခုတော့ သူ့ကြည့်ရတာ နေကောင်းပုံ ရပါတယ်၊ သူက မမူးရင်တော့ လူကောင်းပဲ”

ယင်ကောင်များ၏ တဝီဝီ အသံသည် ခန်းဆီးတပ်ထားသည့် တံခါးအနီးသို့ မကြာမကြာ ရောက်လာတတ်သည်။ ကော်ဖီစက်ထဲမှ အငွေ့များ ရုတ်တရက် ပန်းထွက်လာသည်။ စားပွဲထိုး အမျိုးသမီးက နောက်သို့ လှည့်မကြည့်ဘဲ လက်တစ်ဖက် လှမ်း၍ စက်ခလုတ်ကို ပိတ်လိုက်လေသည်။

အပြင်ဘက်တွင် လူတစ်ယောက်။ အဝေးပြေး ကားလမ်းမကြီးဘေးအတိုင်း လျှောက်လာနေရာမှ ရုတ်တရက် လမ်းမကြီးကို ဖြတ်၍ ထရပ်ကားဆီသို့ ချဉ်းကပ်လာလျက် ရှိသည်။

သူသည် ထရပ်ကားခေါင်း ရှေ့တည့်တည့်ရောက်အောင် ခပ်ဖြည်းဖြည်း မှန်မှန် လျှောက်လာသည်။ ပြီးတော့ သူ့လက်တစ်ဖက်ကို ပြောင်လက် တောက်ပနေသော ရှေ့လေကာ မှန်ပေါ် လှမ်းတင်လိုက်ကာ လေကာပေါ်၌ တပ်ထားသည့် ခရီးသည် မတင်ရ ဟူသော စာတန်းကို မော့ကြည့်သည်။ သူသည် နောက်ပြန်ဆုတ်ကာ လမ်းမကြီးဘက် ပြန်တက်ပြီး ဆက်လျှောက်သွားရန် ဟန်ပြင်သည်။ သို့သော်လည်း ချက်ချင်း စိတ်ပြောင်းသွားကာ စားသောက်ဆိုင် အတွင်းမှ လှမ်းမမြင်နိုင်သည့် ထရပ်ကား တစ်ဖက် ခြေနင်းခုံတွင် ထိုင်ချလိုက်သည်။

ထိုလူ၏ အသက်မှာ သုံးဆယ် မကျော်သေး။ သူ့မျက်လုံးများသည် အလွန် နက်မှောင်ပြီး ညိုမောင်းမောင်း အရောင်ရှိသည်။ မျက်ကွင်းများမှာ ဆေးခြယ်ထားသည့်နှယ် ညိုလျက်ရှိ၏။ ပါးရိုးများမှာ ခပ်ကျယ်ကျယ် ခပ်မောက်မောက်။ သွားများက ခပ်ခေါခေါ။ နှုတ်ခမ်းများကို တင်းကျပ်စွာ စေ့ထားခြင်း၊ ခေါထွက်နေသော သွားများကို လုံအောင်ဖုံးနိုင်ရန် ကြိုးစားနေရခြင်း တို့ကြောင့် ထိုလူ၏ အထက်နှုတ်ခမ်းများသည် ရှေ့သို့ ရှည်ထွက်နေ သယောင် ရှိသည်။ သူ့လက်များသည် မာကျော သန်စွမ်းလှ၏။ လက်ချောင်းများမှာ တုတ်ခိုင် ကြီးမားသည်။ လက်သည်းခွံများသည် ယောက်သွားများ ကဲ့သို့ ခုံးထကာ ခရုခွံကဲ့သို့ မာကျောသည်။ လက်မနှင့် လက်ညှိုးကြား တစ်ဝိုက်နှင့် တံတောင်ဆစ်ကွေး တစ်ဝိုက်ရှိ အသားများသည် တင်းမာ ပြောင်လက်နေပေသည်။

ထိုလူ၏ ကိုယ်ပေါ်မှ အဝတ်အစားများမှာ အသစ်ကျပ်ချွတ်တွေချည်း ဖြစ်သည်။ သို့သော်လည်း အားလုံးမှာ အလွန် ဈေးချိုသော အပေါစား အထည်များ ဖြစ်၏။ သူ့ခေါင်း၌ ဆောင်းထားသည့် ကတ်ဦးထုပ်လျှာမှာ နည်းနည်းကလေးမှ အရာ မယွင်းသေးပေ။

အနည်းနည်း အဖုံဖုံ အသုံးတော်ခံထားရသည့် ကတ်ဦးထုပ်များ၌ တွေ့မြင်ရတတ်သော အတွန့်အလိမ် အကျိုးအကြေ စသည့် အနာအဆာများ လုံးဝ မတွေ့ရပေ။ လျှာတွင် အလှတပ်ထားသည့် ကြယ်သီးများမှာလည်း လတ်လတ်ဆတ်ဆတ် တပ်လျက်ပင် ရှိသေးသည်။ သူ၏ ဝတ်စုံမှာ ပေါပေါလောလော ရနိုင်သော အညိုရောင် ချည်ကြမ်း ထည်ကို ချုပ်ထားခြင်း ဖြစ်၏။ ဘောင်းဘီမှာ ခေါက်ရိုးအရာပင် မပျောက်သေးချေ။ အပြာရောင် ရှပ်အင်္ကျီသည် တင်ထားသည့် ကော်များကြောင့် တောင့်လျက် ရှိသည်။ အပေါ်ဝတ် ကုတ်အင်္ကျီမှာ သူ့ကိုယ်ခန္ဓာ ထက် အဆမတန် ကြီးနေသော်လည်း ဘောင်းဘီကျတော့ တိုနံ့နံ့ ဖြစ်၏။ သူသည် အရပ်ရှည်သူတစ်ဦး ဖြစ်သဖြင့် တိုနံ့နံ့ ဘောင်းဘီရှည်နှင့် အံဝင်ခွင်ကျ မဖြစ်ချေ။ ကုတ်အင်္ကျီ ပခုံးဆက်သည် အောက်သို့ လျှောကျလျက် ရှိသော်လည်း အင်္ကျီလက်များကတော့ တိုနေလျက် ရှိ၏။ စီးထားသည့် သားရေရှူးဖိနပ်မှာ "တပ်သုံး နောက်ဆုံးပေါ်" ဟု ခေါ်နေကြသည့် စစ်ဖိနပ်ဟောင်း ဖြစ်သည်။ မြင်းသံခွာနှင့် တူသော စက်ဝိုင်းခြမ်းပုံ သံခွာများ တပ်ထားသည့် ဖိနပ် အမာစားမျိုး ဖြစ်သည်။

သူသည်ကား ခြေနင်းခုံပေါ်၌ ခြေပစ်လက်ပစ် ထိုင်နေရင်းမှ ကတ်ဦးထုပ်ကို ဆွဲချွတ်လိုက်ကာ ဦးထုပ်နှင့်ပင် မျက်နှာမှ ချွေးများကို သုတ်သည်။ ထို့နောက် ဦးထုပ်ကို ပြန်ဆောင်းသည်။ ဦးထုပ်လျှာကို ခပ်ကြမ်းကြမ်း ခပ်တင်းတင်း ဆွဲချသည်။ သူ့အာရုံသည် သူ့ခြေထောက်များဆီ ရောက်သွားသည်။ သူသည် ခါးကို ကုန်း၍ ဖိနပ်ကြိုးများကို ဖြည်သည်။ ကြိုးများကို ပြန်၍ ချည်နှောင်ခြင်း မပြု။ သူ့ခေါင်းအထက်ဘက်မှ ဒီဇယ် အင်ဂျင်စက်သံသည် အိပ်ဇောပိုက်မှတစ်ဆင့် သူ့နားများအတွင်းသို့ ဝင်ရောက်လာလျက် ရှိလေသည်။

စားသောက်ဆိုင် အတွင်းရှိ ရေဒီယိုမှ တေးဂီတသံ ပျောက်သွားပြီး အမျိုးသား တစ်ယောက်၏ စကားပြောသံ ထွက်ပေါ်လာသည်။ ဂီတသံ ရပ်သွားသည်ကို သတိမထားမိသော စားပွဲထိုး အမျိုးသမီးသည် ရေဒီယိုကို ထ၍ မပိတ်။ သူ့လက်ချောင်း များသည် သူ့နားရွက်အောက်မှ အဖုလေး တစ်ဖုကို စမ်းနေသည်။ ထိုအဖု ဘာဖြစ်သည်ကို သိလိုစိတ်ဖြင့် ထရပ်ကား ဒရိုင်ဘာ မသိအောင် တိတ်တဆိတ် ကျိတ်၍ ကောင်တာ နောက်မှ မှန်ထဲတွင် ကြည့်ရန် အားထုတ်နေသည်။ သူ့ဆံပင်များကို သပ်သပ်ရပ်ရပ် ဖြစ်အောင် ပြုပြင်လေဟန်ဆောင်၍ မှန်ကို ကြည့်သည်။ အမျိုးသမီး၏ အဖြစ်ကို

သတိမထားမိသော ထရပ်ကား ဒရိုင်ဘာသည် သူ ပြောချင်သမျှကို ပြောလျက် ရှိလေသည်။

"ရှောနီးမှာ ကပွဲကြီးတစ်ပွဲ အကြီးအကျယ် လုပ်တယ်ဟ သိလား၊ အဲဒီ ကပွဲမှာ လူတစ်ယောက် အသတ်ခံရတယ်လို့ ငါ ကြားတယ်၊ မင်းကော ကြားမိသလားဟင်"

"ဟင့်အင်း" အမျိုးသမီးက ဖြေသည်။ သူသည် နားရွက်အောက်မှ အဖုကလေးကို သူ့လက်ချောင်းများဖြင့် အသာအယာ စမ်းသပ် ကိုင်တွယ်နေသည်။

အပြင်၌ ထိုင်နေသူသည် မတ်တတ် ထရပ်သည်။ ထရပ်ကား၏ ခေါင်းပေါ်မှ ကျော်၍ ဆိုင်ဘက်သို့ မျှော်ကြည့်သည်။ ထို့နောက် ခြေနင်းခုံပေါ် ပြန်ထိုင်ကာ သူ့ကုတ်အင်္ကျီ ဘေးအိတ်ကပ်ထဲမှ ဆေးအိတ် တစ်အိတ်နှင့် စက္ကူတစ်လိပ်ကို ထုတ်သည်။ စီးကရက် တစ်လိပ်ကို ကျင်လည်စွာ လိပ်သည်။ လိပ်ပြီးသား စီးကရက်ကို စေ့စေ့စပ်စပ် ပြန်ကြည့်သည်။ ပြီးတော့ ညီညာ ချောမွတ်အောင် ဂရုတစိုက် ထပ်၍ ပြင်သည်။ နောက်ဆုံးတွင် စီးကရက်ကို မီးညှိလိုက်သည်။ မီးတောက်လောင်ဆဲ ဖြစ်သော မီးခြစ်ဆံကို သူ့ခြေထောက်များ အနီးသို့ ပစ်ချလိုက်၏။ မွန်းတည့်လုနီးပြီ ဖြစ်၍ ထရပ်ကား အရိပ်သည် တိုဝင်လျက် ရှိနေလေပြီ။

ဆိုင်ထဲတွင် ထရပ်ကား ဒရိုင်ဘာသည် ကျသင့်ငွေ ပေးချေလျက် ရှိသည်။ သူ့လက်တွင်းရှိ အကြွေများထဲမှ ငါးဆင့်ပြား နှစ်ပြားကို ယူ၍ လောင်းကစား စက်အတွင်းသို့ ပိုက်ဆံထည့်ပေါက်မှ နေ၍ ထိုးထည့်လိုက်သည်။ စက်လည်သံ တဒီးဒီးကို ကြားရသော်လည်း အနိုင်အရှုံးပြ ဇယားကွက်တွင် ဘာအမှတ်အသားမှ ပေါ်ထွက် မလာချေ။ "စက်ပျက်နေတယ်၊ ငါ ရှုံးပြီ" ဟု စားပွဲထိုး အမျိုးသမီးအား လှမ်းပြောသည်။

"စောစောကပဲ တစ်ယောက် ကစားသွားသေးတယ်၊ နှစ်နာရီတောင် မကြာသေးဘူး၊ သုံးဒေါ်လာနဲ့ ဆင့်ရှစ်ဆယ် ရသွားတယ်၊ အခုတစ်ခေါက်ကော ရှင် ဘယ်တော့လောက် ပြန်ရောက်မလဲ"

ဒရိုင်ဘာသည် တံခါးရွက်ကို မဟာတဟ ဖွင့်၍ ကိုင်ထားသည်။ "တစ်ပတ်၊ ဒါမှမဟုတ် ဆယ်ရက်ပေါ့" ဟု ပြောသည်။ "တူလ်ဆာအထိ ရောက်အောင် သွားရမှာ၊ ဒီတစ်ခေါက်တော့ ငါထင်သလောက် မြန်မြန် ပြန်ရောက်ဖို့ မလွယ်ဘူးဟေ့"

အမျိုးသမီးက စိတ်တိုသံဖြင့် လှမ်းပြောသည်။ "ယင်တွေ ဝင်လာအောင် မလုပ်ပါနဲ့၊ ထွက်မှာဖြင့်လည်း မြန်မြန်ထွက်၊ မထွက်သေးရင်လည်း အထဲပြန်ဝင်"

ဒရိုင်ဘာက "သွားတော့မယ်ဟာ" ဟု နှုတ်ဆက်ကာ ဆိုင်အပြင်သို့ ထွက်သည်။ သူ့လက်မှ လွှတ်ပစ်ခဲ့သော တံခါးရွက်သည် သူ့နောက်တွင် ဂျိုင်းခနဲ မြည်ကာ ပိတ်ကျန်ခဲ့သည်။ သူသည် အပြင် ရောက်လျှင်ရောက်ချင်း နေရောင်အောက်၌ ရပ်ကာ လက်ထဲမှ ပီကေထုပ် စက္ကူပတ်ကို ခွာလေသည်။

ထရပ်ကား ဒရိုင်ဘာသည် လူလုံးလူဖန် သန်မာထွားကျိုင်းသူတစ်ဦး ဖြစ်၏။ ရင်အုပ်ကျယ်ကျယ် ဗိုက်ခေါက်ထူထူ မျက်နှာနီနီ၊ အပြာရောင် မျက်လုံးအစုံသည် ခပ်စွေစွေ ခပ်စောင်းစောင်း။ နေရောင်ကို ကြည့်သောအခါ မျက်စိများကို မှေး၍ ကြည့်သည်။ ဝတ်ထားသည့် ဘောင်းဘီမှာ စစ်ဘောင်းဘီ၊ ခွာမြင့် ကြိုးတပ် ရှူးဖိနပ်ကြီး စီးထားသည်။ သူသည် ပီကေချောင်းကို ပါးစပ်တွင်းသို့ ထိုးသွင်းရန် ပြင်နေရာမှ ရုတ်တရက် ဆိုင်ဘက်လှည့်၍ အော်ပြောသည်။ "ငါ့နားကို ပြန်ပြီ မကြားစေချင်တာ မှန်သမျှ အကုန်လုပ်ပေတော့ဟေ့" သူ့နောက်ဘက် နံရံပေါ်မှ မှန်ထဲတွင် သူ့ကိုယ်သူ ပြန်ကြည့်လျက် ရှိသော စားပွဲထိုးအမျိုးသမီးက အသံသေး အသံကြောင်ဖြင့် ပြန်ပြောသည်။ သူ့အသံက ဗလုံးဗထွေး မသဲမကွဲ။

ထရပ်ကား ဒရိုင်ဘာသည် ပီကေချောင်းကို သူ့ပါးစပ်ထဲသို့ ထိုးထည့်လိုက်ပြီး တမြုံ့မြုံ့ ဝါးသည်။ ထရပ်ကားရှိရာသို့ လျှောက်သွားနေခိုက်တွင်လည်း သူ့ပါးစပ်သည် အငြိမ်မနေ။ ပါးစပ်တွင်းမှ ဝါးလက်စ ပီကေကို အပြင်သို့ ထုတ်၍ ပူဖောင်း မှုတ်လိုက်၊ လျှာနှင့် ပြန်၍ လိပ်သွင်းကာ တလှုပ်လှုပ် ဝါးလိုက် လုပ်လျက် ရှိလေသည်။

အခမဲ့ လမ်းကြုံစီး ခရီးသည်သည် ထိုင်နေရာမှ ထရပ်ကာ ကားပြတင်းပေါက်မှနေ၍ ထရပ်ကား ဒရိုင်ဘာအား ဆီးကြည့်သည်။ "ကျုပ်ကို တင်မသွားနိုင်ဘူးလား မစ္စတာ"

ထရပ်ကား ဒရိုင်ဘာသည် စားသောက်ဆိုင်ဘက်သို့ တစ်ချက်မျှ လှည့်ကြည့်သည်။

"လေကာပေါ်က ခရီးသည် မတင်ရ ဆိုတဲ့ စာတန်းကို မမြင်ဘူးလား ကိုယ့်လူ"

"မြင်တော့ မြင်တာပေါ့ဗျာ၊ ဒါပေမယ့် အလုပ်ရှင် သူဌေးကောင်တွေ ဘာစာတန်းကပ်ကပ် တချို့ သဘောကောင်းတဲ့ လူကျတော့ ဂရုမစိုက်ကြဘူး မဟုတ်လား"

ထရပ်ကားပေါ်သို့ အေးအေး ဆေးဆေး လှမ်းတက်နေသော ဒရိုင်ဘာအဖို့ လမ်းကြုံလိုက်ချင်သူ၏ စကားသည် စဉ်းစားစရာ ဖြစ်နေသည်။ အကယ်၍ ဤလူကို မတင်ဘဲ ထွက်သွားမည် ဆိုပါက သူသည် ချက်ချင်းပင် သဘောမကောင်းသူ တစ်ဦး အဖြစ်သို့ ရောက်သွားလိမ့်မည် ဖြစ်၏။ ပြီးတော့ လူချမ်းသာ အလုပ်ရှင်များ ချမှတ်ပေးထားသည့် ညွှန်ကြားချက် ဟူသမျှကို မပယ်ဝံ့သည့် လူကြောက်ကြီးတစ်ဦး အဖြစ်သို့လည်း ရောက်သွားတော့မည် ဖြစ်၏။ သူ့မှာ ချောင်ပိတ်၍ အဖမ်းခံနေရသည့်လူ ဖြစ်နေသည်။ ထွက်ပေါက် ရှာသော်လည်း မရ။ သူသည် ဆိုင်ဘက်သို့ တစ်ချက်မျှ ငဲ့စောင်း၍ ကြည့်ပြန်သည်။ "ကဲ ကိုယ့်လူ၊ ဟိုးရှေ့က ကွေ့အထိတော့ အဲဒီ ဘေးခြေနင်းခုံမှာ အသာ ကပ်ထိုင်ပြီး လူမမြင်အောင် တွယ်လိုက်ခဲ့ပေတော့" ဟု လှမ်းပြောသည်။

လမ်းကြုံစီး ခရီးသည်သည် တံခါးလက်ကိုင် ကိုင်းကို ကိုင်ကာ ဘေးခြေနင်းခုံပေါ်၌ ပုံမကျ၊ ပန်းမကျ ထိုင်ချလိုက်သည်။ မော်တော်ကား စက်နိုးလာသည်။ တစ်ဆက်တည်း ဂီယာထိုးသံ ကြားရသည်။ ထရပ်ကားကြီးသည် ရပ်ထားသည့်နေရာမှ ရွေ့လျားသည်။ ပထမဆုံး နံပါတ်တစ် ဂီယာထိုးသံ။ ချက်ချင်း နံပါတ်နှစ် ဂီယာသို့ ပြောင်းသည်။ ပြီးတော့ နံပါတ်သုံး ဂီယာ၊ ထို့နောက် ဂီယာ နံပါတ်လေး။ ထရပ်ကားကြီးသည် အဝေးပြေး ကားလမ်းမကြီးပေါ်တွင် အရှိန်ပြင်းစွာဖြင့် ပြေးသွားလေသည်။ တံခါးလက်ကိုင်ကို ဆွဲ၍ တွဲလောင်း ခိုလိုက်လာသော ခရီးသည်၏ အောက်ရှိ လမ်းမကြီးသည် တရိပ်ရိပ် ပြေးလျက် ရှိ၏။ လမ်းမကြီး၏ ပထမဆုံးကွေ့သို့ ရောက်သည်အထိ တစ်မိုင်ခန့် မောင်းရသည်။ လမ်းကွေ့သို့ ချိုးမိသည်နှင့် တစ်ပြိုင်နက် ကားအရှိန် လျော့လာသည်။ လမ်းကြုံစီး ခရီးသည်သည် ခြေနင်းခုံပေါ်တွင် ကုန်းကွကွ ဖြစ်နေရာမှ ခါးကိုဆန့်၍ မတ်တတ်ရပ်သည်။ ကားတံခါးကို ဖွင့်၍ အတွင်းသို့ ဝင်ကာ ထိုင်ခုံပေါ်သို့ ထိုင်ချလိုက်သည်။ ဒရိုင်ဘာက တစ်ချက်မျှ ငဲ့ကြည့်ပြီး အကဲခတ်သည်။ ပီကေဝါးနေသည့် သူ့ပါးစပ်ကတော့ တလှုပ်လှုပ်။

ခရီးသည်၏ ရုပ်ရည်နှင့် အပြင်အဆင်များ အပေါ်တွင် သူ၏ အတွေးအထင် အယူအဆများကို စုစည်း တည်ဆောက်လျက် ရှိနေကြောင်း သူ့မျက်နှာထားက ဖော်ပြနေသည်။ သူ့မျက်လုံးများသည် ဦးထုပ်အသစ်ကို အလျင်ဆုံး မြင်သည်။ ထို့မှတစ်ဆင့် ခေါက်ရိုးမပျက်သေးသည့် အင်္ကျီနှင့် ဘောင်းဘီများကို ကြည့်သည်။ ထို့နောက် ဖိနပ်အသစ်များ ပေါ်သို့ ရောက်သွားသည်။ ခရီးသည်ကတော့ အခုမှပင် စိတ်သက်သာရာ ရသွားဟန်ဖြင့် ထိုင်ခုံကို ကျောနှင့်မှီ၍ ထိုင်လိုက်သည်။ သူ့ခေါင်းမှ ဦးထုပ်ကို ချွတ်၍ နဖူးနှင့် မေးမှ ချွေးသီး ချွေးပေါက်များကို သုတ်သည်။ "နှုတ်မှလည်း ကျေးဇူးပါပဲ နောင်ကြီးရာ" ဟု ရေရွတ်သည်။ "ကျုပ် တော်တော် ခြေကုန်နေပြီ ဗျ"

"ဖိနပ်တွေက အသစ်ကြီးတွေပဲ" ဟု ဒရိုင်ဘာက ပြောသည်။ သူ့အသံနှင့် သူ့မျက်လုံးများက ဝေခွဲ၍ မရနိုင်သည့် သဘောကို ဖော်ပြလျက် ရှိ၏။ "ကုန်းကြောင်း ကြိတ်ရတဲ့ အခါမျိုးမှာ ဖိနပ်အသစ် မစီးသင့်ဘူး ကိုယ့်လူရ၊ အခုလို ပူတဲ့ အခါမျိုးဆိုရင် သိပ်ဆိုးတာ"

ခရီးသည်က ဖုန်အလိမ်းလိမ်း ကပ်နေသော သူ့ဖိနပ် အဝါရောင်ကို ငုံ့ကြည့်သည်။ "တခြား စီးစရာ ဖိနပ် အပိုမှ မရှိဘဲကိုးဗျ" ဟု ပြန်ပြောသည်။ "စီးစရာ ဖိနပ်အပို မရှိတဲ့ လူတစ်ယောက် အဖို့တော့ အသစ်ပဲ စီးရမှာပေါ့ဗျာ"

ဒရိုင်ဘာသည် ကားရှေ့ လမ်းမကြီးသို့ တစ်ချက်မျှ မျှော်ကြည့်လိုက်ပြီး ထရပ်ကား အရှိန်ကို အနည်းငယ် မြှင့်လိုက်သည်။ "အဝေးကြီး သွားရမှာလား"

"ဟြော် အင်း၊ ခြေကုန်လက်ပန်းသာ မကျရင်တော့ ကျုပ်က ဆက်လျှောက်မှာပါ"

ဒရိုင်ဘာ မေးပုံက လိမ္မာ ပါးနပ်သည်။ သူ သိလိုသော အရာကို တိုက်ရိုက်မမေး။ ပိုက်ကွန်များကို ဖြန့်အုပ်ပြီးမှ ထောင်ချောက်များဆင်၍ မေးသည့်ပုံစံမျိုး ဖြစ်သည်။

"အလုပ် လိုက်ရှာနေတာလား" ဟု မေးပြန်သည်။

"မဟုတ်ပါဘူး၊ ကျုပ် အဘိုးကြီးမှာ မြေဧက လေးဆယ်ကျယ်တဲ့ နေရာ တစ်နေရာ ရှိတယ်၊ သူက စာရင်းငှား တစ်ယောက်ဗျ၊ အဲဒီ မြေပေါ် ကျုပ်တို့ ရောက်နေကြတာလည်း နှစ်ပေါင်း အတော်ကြာပါပြီ"

ဒရိုင်ဘာ၏ မျက်လုံးများသည် လမ်းမကြီး တစ်လျှောက်ရှိ လယ်ကွက်များဆီသို့ ရောက်သွားသည်။ ဖုန်အလူးလူး ကပ်နေသော ပြောင်းပင်များသည် ဖရိုဖရဲ အလဲလဲ အပြိုပြို ဖြစ်ကာ ငိုက်စိုက်ကျလျက် ရှိကြ၏။ ဒရိုင်ဘာသည် သူ့ကိုယ်သူ တစ်ယောက်တည်း ပြောနေသည့်နှယ် စကားတစ်ခွန်းကို ပြောသည်။ "ဧက လေးဆယ် ကျယ်တဲ့ မြေပေါ်က စာရင်းငှား တစ်ယောက်ဆိုတော့ ဖုန်လုံးကြီးက မောင်းထုတ်တာကို သူ မခံရသေးဘူးလား၊ ထွန်စက်တွေက မောင်းထုတ်လို့ ထွက်မပြေးရသေးဘူးလား "

"သူတို့မှာ ဘာတွေ ဖြစ်နေကြတယ်ဆိုတာ ကျုပ်လည်း မကြားရ မသိရ သေးပါဘူးဗျာ" ဟု ခရီးသည် အဖြေပေးသည်။

"အင်း ဖြစ်နေတာတော့ ကြာပြီ ဆရာရေ့" ဟု ဒရိုင်ဘာက ပြောသည်။ ပျားတစ်ကောင်သည် ကားအတွင်းသို့ ဝင်လာပြီး လေကာမှန်နောက်တွင် ကပ်၍ တဒီးဒီး ပျံလျက် ရှိသည်။ ဒရိုင်ဘာသည် လက်တစ်ဖက်ဖြင့် ပျားကို မောင်းထုတ်သည်။ ပျားသည် ဒရိုင်ဘာ၏ ဘေးပြတင်းပေါက်မှ ထွက်ကာ လေစီးကြောင်း နောက်သို့ ပါသွားလေ၏။ "အခုဆိုရင် စာရင်းငှားတွေ ထွက်ပြေးနေကြရတယ်" ဟု ဒရိုင်ဘာက သူ့စကားကို ဆက်သည်။ "ကြောင်တစ်ကောင် ဝင်လာရင် စာရင်းငှား မိသားစု ဆယ်စုလောက်တော့ ပြေးရတာပဲ၊ အခုဆိုရင် နေရာတိုင်းမှာ ကြောင်တွေ ဝင်နေပြီ၊ အတင်းအဓမ္မ တိုးဝင်ပြီး စာရင်းငှားတွေကို မောင်းထုတ်ပစ်နေပြီ၊ ခင်ဗျား အဘိုးကြီးရော ဘယ်လို ဆက်လုပ်မတဲ့လဲ " ဒရိုင်ဘာ၏ လျှာနှင့် မေးရိုးများသည် ပါးစပ်ထဲတွင် ရောက်နေသည့် ပီကေကြောင့် အလုပ်ရှုပ်လျက် ရှိ၏။ အချိုရည် ခန်းနေပြီ ဖြစ်သော ပီကေကို အပြင်သို့ မှုတ်ထုတ်လိုက်၊ ပြန်သွင်းလိုက်၊ ဝါးလိုက်။ ပါးစပ် ဟလိုက်တိုင်း ပီကေကို လိမ်း၍ လိမ်း၍ ဝါးနေသော လျှာကို မြင်နေရသည်။

"ကျုပ် ဘာမှ မသိရသေးဘူးဗျ၊ ကျုပ်ကလည်း စာမရေးဘူး၊ ကျုပ်အဘိုးကြီးကလည်း မရေးဘူး" ဟူသည် စကားကို ရပ်ထားတော့မလို လုပ်ပြီးခါမှ ကတိုက်ကရိုက် ဆက်ပြောသည်။ "ဒါပေမယ့် တစ်ယောက်ဆီကို တစ်ယောက်က စာရေးချင်စိတ်ရှိရင် ကျုပ်တို့မှာ ရေးနိုင်တဲ့ အခြေအနေ ရှိပါတယ်"

"အလုပ်များနေလို့လား " အမှတ်တမဲ့ မေးလိုက်ခြင်း ဖြစ်သော်လည်း မေးခွန်း၏ နောက်ကွယ်တွင် လျှို့ဝှက်မှု ရှိ မရှိ သိလိုသော သဘောပါသည်။ သူသည် အပြင်ဘက်

လယ်ကွက်များဆီသို့ တစ်ချက် မျှော်၍ ကြည့်ပြန်သည်။ ပြီးတော့ ပါးစောင်တွင် ငုံထားသည့် ပီကေကို ကားပြတင်းပေါက်မှ နေ၍ အပြင်သို့ ထွေးထုတ်လိုက်သည်။

"ဒါပေ့ါဗျ၊ အလုပ်က များနေတာကိုး" ဟု ခရီးသည်က ပြန်ပြောသည်။

"အင်း ထင်သားပဲ၊ ခင်ဗျားလက်တွေကို မြင်ကတည်းက ကျုပ်က တွက်ပြီးပါပြီ၊ ပေါက်တူး ပေါက်ချွန်း၊ ဒါမှမဟုတ် ပုဆိန်တို့ ရဲတင်းတို့ တူတို့ ဘာတို့ အမြဲကိုင်နေတဲ့ လက်တွေပဲလို့၊ လက်ပေါ်က အကြောတွေကို တင်းမာနေတာပဲ၊ ကျုပ် သတိထားမိတယ်၊ ဒါမျိုးက ဂုဏ်ယူထိုက်ပါတယ်၊ ဂုဏ်ယူပေ့ါဗျာ"

ခရီးသည်က ဒရိုင်ဘာ၏ မျက်နှာကို စူးစူးရဲရဲ ကြည့်သည်။ ထရပ်ကား တာယာများသည် လမ်းမပေါ်ဝယ် တဝီးဝီး၊ တရှီးရှီး အော်မြည်လျက် ရှိကြလေသည်။ "ခင်ဗျားမှာ သိချင်တာ ရှိသေးလား၊ ရှိရင် မေးပေ့ါ၊ ကျုပ်က ပြောဖို့အသင့်ပဲ၊ ပေါက်တတ်ကရတွေတော့ လျှောက်မတွေးပါနဲ့ဗျာ"

"စိတ်မဆိုးပါနဲ့လေ၊ ကျုပ်က စပ်စုတတ်တဲ့ကောင် မဟုတ်ပါဘူး"

"ကျုပ်ကလည်း ဘာမဆို ပြောပြမှာပဲ၊ ကျုပ်မှ ဖုံးကွယ်ထားစရာ ဘာမှ မရှိဘူး"

"စိတ်မဆိုးပါနဲ့လို့ ပြောပြီးပါပကောလားဗျာ၊ ကျုပ် မျက်စိက မြင်ရင် တွေ့ရင် သတိထားမိတတ်တယ်၊ ဒါပဲ၊ ဒီထက် မပိုပါဘူး ကိုယ့်လူရ"

"ကဲ ခင်ဗျား ဘာသိချင်လဲ၊ ဘာမဆို ပြောပြမယ်၊ ကျုပ်နာမည်က ဂျုတ်၊ တွမ်ဂျုတ်၊ ကျုပ်အဘိုးကြီးကတော့ ဘိုးဘိုးတွမ်ဂျုတ်" စိုးရိမ်ကြောင့်ကြမှု မကင်းခြင်းကို ဖော်ပြလျက် ရှိသော သူ့မျက်လုံးများသည် ဒရိုင်ဘာ၏ မျက်နှာပေါ်မှ မခွာ။ စူးစူးစိုက်စိုက် ကြည့်နေဆဲပင် ဖြစ်သည်။

"ဒေါသ မကြီးနဲ့လေ၊ ကျုပ်မှာ ဘာရည်ရွယ်ချက်မှ မရှိပါဘူး"

ကျုပ်မှာလည်း ဘာရည်ရွယ်ချက်မှ မရှိဘူး" ဟု တွမ်ဂျုတ်က ပြောသည်။ "ကျုပ်က တွေ့တဲ့လူနဲ့ အဆင်ပြေသွားအောင် ကြိုးစားနေတာပါ" သူသည် စကားကို ဖြတ်၍ ခြောက်သွေ့နေသော လယ်ကွင်းများဆီသို့ လှမ်းကြည့်သည်။ ရေငတ်နေသော

သစ်ပင်များသည် ပူပြင်းသော နေရောင်အောက်ဝယ် ငိုက်စိုက်ကျလျက် ရှိကြ၏။ သူသည် အင်္ကျီ ဘေးအိတ်ကပ်တွင်းမှ ဆေးအိတ်နှင့် စက္ကူလိပ်ကို ထုတ်ယူသည်။ စက္ကူတစ်ရွက်ကို လေကွယ်နေသော သူ၏ ဒူးနှစ်လုံးပေါ်၌ တင်ကာ စီးကရက် တစ်လိပ် လိပ်သည်။

ဒရိုင်ဘာကတော့ နွားမကြီးတစ်ကောင် ကောက်ရိုးဝါးနေသည့်အလား ပီကေကို တလှုပ်လှုပ် ဝါးလျက် ရှိ၏။ သူသည် တစ်စုံတစ်ရာကို စဉ်းစား တွေးတောနေသည့်နှယ် ငြိမ်သက်လျက် ရှိ၏။ သူ တင်လာသော ခရီးသည်နှင့် ပဏာမ ဆက်ဆံရေးပိုင်းသည် သိပ်ပြီး အဆင်ပြေခြင်း မရှိ။ ဤအပိုင်းကို မေ့သွားလောက်မှသာ နောက်ထပ် စကားပြောသင့်သည် ဟု သူ တွေးသည်။ ထို့ကြောင့် သူသည် နောက်ထပ် စကားတစ်ခွန်းမှ မဟတော့ဘဲ နှုတ်ဆိတ်လျက် ရှိ၏။ နောက်ဆုံးတွင် အခြေအနေ ပြန်ကောင်းလာပြီဟု ယူဆရသော အချိန်ကျမှ စကား စပြောသည်။ "ထရပ်ကား ဒရိုင်ဘာ မဖြစ်ဖူးတဲ့ လူတစ်ယောက်ဟာ ထရပ်ကား ဒရိုင်ဘာရဲ့ ဘဝကို ဘယ်လိုလုပ်ပြီးမှ နားမလည်နိုင်ဘူးဗျ၊ ကားပိုင်ရှင်တွေကလည်း သူတို့ ကားပေါ် လူတင်တာ လုံးဝ မကြိုက်ကြဘူး၊ ဒါကြောင့်မို့ အခု ကျုပ် ခင်ဗျားကို တင်ခေါ်လာသလို တင်လာရင် အဆူအကြိမ်းခံရဖို့ သေချာနေတယ်"

"ဟုတ်တာပေါ့" ဟု တွမ်ဂျုတ်က ဝင်ထောက်သည်။

"ထရပ်ကား မောင်းနေရင်းနဲ့ မဟုတ်က ဟုတ်က လျှောက်လုပ်နေတဲ့ ငနဲတွေ ကျုပ် အများကြီး တွေ့ခဲ့ဖူးတယ် သိလား၊ ကားမောင်းရင်း ကဗျာစပ်နေတဲ့ ကောင်တစ်ကောင်ကို ကျုပ် ကောင်းကောင်း မှတ်မိသေးသဗျာ"

ဒရိုင်ဘာက စကားကို ဖြတ်၍ တွမ်ဂျုတ်အား တစ်ချက် စိုးကြည့်သည်။ သူ့စကားတွင် တွမ်ဂျုတ် စိတ်ဝင်စားသလား သို့မဟုတ် အံ့သြနေသလား။ တွမ်ဂျုတ်ကတော့ သူ့ရှေ့တည့်တည့်မှ လှိုင်းထသလို နိမ့်ချည်တစ်ခါ မြင့်ချည်တစ်လှည့် ဖြစ်နေသော ဖြူဖြူဖွေးဖွေး လမ်းမကြီးဆီသို့ ငေးမောကာ ငြိမ်ဆိတ်နေသည်။ ဒရိုင်ဘာက သူ့စကားကို ဆက်သည်။

"အဲဒီကောင် ရေးသွားတဲ့ ကဗျာထဲက တစ်ပိုဒ်စ နှစ်ပိုဒ်စကို ကျုပ်အခုထက်ထိ မှတ်မိနေသေးတယ်၊ ကဗျာက သူနဲ့ သူ့အပေါင်းအသင်းတွေ ကမ္ဘာကြီးထဲမှာ လျှောက်လည်ပြီး အရက်တွေ သောက်ကြ၊ မူးကြ၊ ရှုးကြ၊ မဟုတ်တရုတ် လုပ်ကြ၊ လိမ်ကြ

ညာကြတဲ့ အကြောင်းကို ရေးထားတဲ့ ကဗျာတစ်ပုဒ်ဗျ၊ အဲဒီ အပိုဒ်လေးကို မှတ်မိရင် သိပ်ကောင်းမှာပဲ၊ ဒါပေမယ့် ဒီငနဲ သုံးထားတဲ့ စကားလုံးတွေရဲ့ အဓိပ္ပါယ်ကို ဘုရားသခင်တောင်မှ နားလည်မယ် မထင်ဘူး၊ ကျုပ် မှတ်မိတဲ့ အပိုဒ် တစ်ပိုဒ် ရှိတယ်၊ ရွတ်ပြရဦးမယ်၊ ထိုနေရာတွင်၊ လူမည်းတစ်ယောက်၊ ခြေရာကောက်မိ၊ ဆင်နှာမောင်းထက်၊ အဆင်များစွာ၊ ကြီးမားကွာသည့်၊ ခလုတ်တပ်ဆင်၊ သေနတ်ငင်၍၊ တီထွင်ကြံဆ၊ ထောက်လှမ်းကြံ၏ တဲ့ သူရေးထားတဲ့ ဆင်နှာမောင်းဆိုတာ နှာခေါင်းကို ပြောတာပဲ၊ တကယ်တော့ ဆင်တစ်ကောင်မှာ ဆင်စွယ်ဟာ အဓိက မဟုတ်လားဗျာ၊ အဲဒါ သူ သုံးပုံမှားတယ်ပြောတော့ သူက သူ့လက်စွဲ အဘိဓာန် စာအုပ်ကြီး ထုတ်ပြတယ်၊ အဲဒီ အဘိဓာန် စာအုပ်ကြီးကလည်း သောက်ကျိုးနည်း၊ ဒီငနာက သွားလေရာ ယူသွားနေတာ၊ သူ အစာစားရင်း ကော်ဖီသောက်ရင်း အဲဒီစာအုပ်ကြီးကို ဖွင့်ပြီး လျှောက်ဖတ်နေတာပဲ ”

ဒရိုင်ဘာသည် စကားကို ဖြတ်၍ ရပ်နေပြန်သည်။ စကားအရှည်ကြီးကို ပြောလိုက်ရ သဖြင့် မောသွားဟန် တူ၏။ သူ့မျက်လုံးများကတော့ သူ့ခရီးသည်ဘက်သို့ ကြည့်သည်။ တွမ်ဂျုတ်ကတော့ မလှုပ်မချောက်။ ဒရိုင်ဘာသည် မလုံမလဲ ဖြစ်သော စိတ်ဖြင့် တွမ်ဂျုတ်ကို စကားပြောလာအောင် ကြိုးစားသည်။

“အခု ကျုပ်ပြောတဲ့ အကောင်လို စကားကြီး စကားကျယ်တွေ သုံးတတ်တဲ့ ငနဲမျိုး ခင်ဗျား တွေ့ဖူးသလား ”

“တွေ့ဖူးတာပေါ့၊ တရားဟော ဆရာလေဗျာ ” ဟု တွမ်ဂျုတ်က ပြောသည်။

“စကားလုံး အကြီးကြီးတွေ သုံးပြီး စကားပြောတတ်တဲ့ ကောင်မျိုးနဲ့ တွေ့လို့ကတော့ ခင်ဗျား မလွယ်ဘူး၊ ရှုးမှာ သေချာတယ်၊ တရားဟောဆရာ ဆိုတာမျိုးကတော့ ဘာကိစ္စရှိလဲဗျာ၊ သူ့ကိုလည်း ဘယ်သူကမှ အရှုးမလုပ်ကြဘူး မဟုတ်လား၊ ဒါပေမယ့် အခု ကျုပ်ပြောတဲ့ အကောင်ကတော့ တကယ့်ကို ရယ်စရာ ကောင်းတာ၊ သူ့ပါးစပ်က စကားလုံး ထွားထွားကြီးတွေ ထွက်လာနေပေမယ့် ခင်ဗျား သူ့ကို ကလော်တုတ်လို့ မဖြစ်ဘူး၊ ဘာကြောင့်လည်းဆိုတော့ သူပြောနေတဲ့ စကားတွေက ပညာရှိကြီးတွေအတွက် ပြောနေတဲ့ သဘောမျိုး ဖြစ်နေတယ် မဟုတ်လား ”

သူ ပြောနေသမျှကို တွမ်ဂျုတ် နားထောင်နေမှန်း သိနေသဖြင့် ဒရိုင်ဘာသည် သူ့ကိုယ်သူ ယုံကြည်စိတ်ချလာသည်။ လမ်းကွေ့တစ်ခုသို့ အရောက်တွင် ကားကို

ခပ်ကြမ်းကြမ်း ကွေ့ချလိုက်၏။ ကားဘီးတာယာများနှင့် လမ်းမ မျက်နှာပြင် ထိတွေ့ ပွတ်တိုက်သံသည် စူစူးရှရှ ထွက်ပေါ်လာသည်။ "ကျုပ် စောစောက ပြောခဲ့သလိုပဲ" ဟု ဒရိုင်ဘာက စကားပြန်ကောက်သည်။ "ထရပ်ကား ဒရိုင်ဘာ တစ်ယောက်ဟာ သွားရင်း လာရင်းနဲ့ စိတ်ကူးတည့်ရာ လျှောက်လုပ်နေတာပဲ၊ မလုပ်လို့လည်း မဖြစ်ဘူးလေဗျာ၊ သူ့အနေနဲ့ အချိန်ရှိသမျှ ဒီကားခေါင်းထဲထိုင်ပြီး ကားဘီးတွေအောက်က အသံဗလံလောက်ပဲ အမြဲ နားထောင်နေရတာ၊ ဒီလိုမှ မလုပ်ရင်လည်း ကြာလာတော့ ရူးသွားမှာ စိုးရတယ်၊ တစ်ခါတုန်းက လူတစ်ယောက် ပြောဖူးတယ်၊ ထရပ်ကား ဒရိုင်ဘာတွေဟာ တစ်ချိန်လုံး အစားပဲ စားနေတာပဲတဲ့၊ ဟုတ်ပါတယ်၊ တစ်ချိန်လုံး စားနေကြတာပဲ၊ ဒါပေမယ့် သူတို့ စားနေကြတာဟာ ဟမ်ဘာဂါ အသားညှပ်ပေါင်မုန့်ပါဗျာ"

"အင်း ဟုတ်တယ်၊ သူတို့ တစ်ချိန်လုံး စားနေကြတာက အဲဒါတစ်မျိုးပဲ" ဟု တွမ်ဂျုတ်က ထောက်ခံသည်။

"ကားသမား မနားရဖူးတော့ မဟုတ်ပါဘူး၊ နားတဲ့အခါ နားရပါတယ်၊ ဒါပေမယ့် အစာစားဖို့သက်သက် နားတာမျိုး မရှိပါဘူး။ သူတို့အနေနဲ့ ဆာတယ် လောင်တယ် လို့လည်း သိပ်မရှိပါဘူး၊ သူတို့မှာ အချိန်ရှိသမျှ ဒီကားကြီးနဲ့ မနားတမ်း သွားနေရတာကိုပဲ စိတ်ကုန်နေကြတာ၊ အဲဒါကြီးကလည်း ကြာလေ စိတ်ကုန်စရာ ကောင်းလေပါဗျာ၊ လောင်းကစားလို့လည်း ရတယ်၊ အရက်သောက်လို့လည်း ရတယ်၊ ဆေးချလို့လည်း ရတယ် ဆိုတဲ့ နေရာမျိုး ရောက်ပြီဆိုရင်တော့ သူတို့အတွက်နတ်ပြည်ပဲ၊ ကော်ဖီတစ်ခွက်၊ ပေါင်မုန့်တစ်ချက် ဆိုတာကတော့ နည်းနည်းလောက်ပဲ အထောက်အကူ ဖြစ်တာပါဗျာ" သူသည် ပါးစပ်တွင်းမှ ပီကေကို ခပ်ဖြည်းဖြည်း ဝါးနေသည်။

"အတော့်ကို ကြမ်းတမ်းတဲ့ အလုပ်ပဲ" ဟု တွမ်ဂျုတ်က ပြောသည်။ သူ့အသံမှာ အလေးအနက်ပြု၍ ပြောသည့် အသံမျိုး မဟုတ်။

ဒရိုင်ဘာက ဖျတ်ခနဲ လှမ်းကြည့်လိုက်ပြီး ပြုံးသည်။ သူ့အပြုံးမှာ မလိုတမာအပြုံး။ "သိပ်ပြီး ချောင်တဲ့ အလုပ်မျိုးတော့ မဟုတ်ဘူး ကိုယ့်လူရေ" ဟု ပြောသည်။ "ကြည့်လိုက်ရင်တော့ ကားပေါ်မှာ ထိုင်နေတာပဲ မြင်မယ်၊ ကားပေါ် ထိုင်လိုက်ရတာ သက်သာတယ်လို့ ထင်စရာပေါ့၊ ဒါပေမယ့် ကိုယ့်လူရေ၊ ထိုင်ရတာက တစ်ခါတစ်လေ

ရှစ်နာရီ၊ တစ်ခါတစ်လေ ဆယ်နာရီ၊ တစ်ခါတစ်လေကျ ဆယ့်လေးနာရီ၊ ဒီလောက်ကြာလာတော့လည်း မချောင်တော့ဘူး၊ ဒရိုင်ဘာရဲ့ ခေါင်းထဲမှာ လမ်းမကြီးပဲ ရှိတော့တယ်၊ ဒီလမ်းမကြီးကပဲ သူ့ကို ဒုက္ခပေးလာတယ်၊ အဲဒီတော့ ကားမောင်းနေရင်းနဲ့ သူ တစ်ခုခု လုပ်မနေလို့ မဖြစ်တော့ဘူး၊ ဒါကြောင့်မို့ တချို့ကောင်တွေက ကားမောင်းသွားရင်း သီချင်းဆိုတယ်၊ တချို့ကတော့ လေချွန်တယ်၊ ကျုပ်တို့ ကုမ္ပဏီကလည်း ကျုပ်တို့ကို ရေဒီယို ထားခွင့်မပေးဘူး၊ တချို့ ငနဲတွေကတော့ ပုလင်းလေး ဘာလေး ဆွဲလာကြတယ်၊ ဒါလည်း လူများစု မဟုတ်ပါဘူး၊ လူနည်းစုပါ၊ ဒါပေမယ့် သူတို့လည်း ရေရှည်ကျတော့ ဆွဲမလာရဲတော့ပါဘူး၊ ကျုပ်ကတော့ အလုပ် မပြီးမချင်း ဘယ်တော့မှ မသောက်ဘူး” ဒရိုင်ဘာက အဆုံးသတ် စကားကို ဂုဏ်ယူ ဝင့်ကြွားသော လေသံဖြင့် ပြောလေသည်။

“တကယ်လားဗျာ ” ဟု တွမ်ဂျုတ်က မေးသည်။

“တကယ်ပေါ့ဗျ၊ လူတစ်ယောက်မှ ခေါင်းတော့ ရှိမှပေါ့၊ ကျုပ်ဆိုရင် စာပေးစာယူ သင်တန်းတစ်ခု တက်ဖို့ စိတ်ကူးနေတယ်၊ စက်မှု အင်ဂျင်နီယာ ပညာ သင်မယ်လို့ မှန်းထားတာပဲ၊ ဒီပညာက လွယ်ပါတယ်၊ သူတို့ပေးတဲ့ သင်ခန်းစာတွေကိုသာ အိမ်မှာ စနစ်တကျ လေ့လာ ကျက်မှတ်လိုက်ရင် ဖြစ်သွားတာပဲ၊ ကျုပ်တော့ ဒါပဲ တွေးနေတယ်၊ အဲဒီပညာ ဘွဲ့ရရင် ကျုပ် ထရပ်ကား မမောင်းတော့ဘူး၊ တခြားကောင်တွေကိုပဲ ထရပ်ကားမောင်းဖို့ ပြောတော့မယ် ”

တွမ်ဂျုတ်က သူ့ကုတ်အင်္ကျီ ဘေးအိတ်ကပ်ထဲမှ ဝီစကီ ပုလင်းပြားလေးကို ထုတ်လိုက်သည်။

“အနံ့လေးတောင်မှ မခံတော့ဘူးလား ” တွမ်ဂျုတ်၏အသံတွင် ပြောင်ချင် နောက်ချင် သည့် လေသံ ပါလျက်ရှိ၏။

“ဟင့်အင်း၊ ကျုပ် လက်ဖျားနဲ့တောင် မထိဘူး၊ လူတစ်ယောက်ဟာ အချိန်ရှိသမျှ အရက်ချည်း သောက်နေလို့ ဘယ်ဖြစ်မလဲ၊ ကျုပ်လို ပညာရှာဖို့ စိတ်ကူးနေတဲ့ လူတစ်ယောက်အဖို့ ပိုပြီး မလုပ်ထိုက်တဲ့ အလုပ်တစ်ခုဗျ ”

တွမ်ဂျုတ်က ပုလင်းအဖုံးကို ဖွင့်၍ နစ်ကြိမ်မျှ မော့လိုက်သည်။ ပြီးတော့ ပြန်ပိတ်ပြီး သူ့အိတ်ကပ်ထဲ ပြန်ထည့်သည်။ ဝီစကီနံ့သည် ကားရှေ့ခန်းထဲတွင် တသင်းသင်း ပျံ့လျက်ရှိ၏။ "ခင်ဗျား ကြည့်ရတာ စိတ်ထိခိုက်နေသလိုပဲ" ဟု တွမ်ဂျုတ်က ပြောသည်။ "ဘာဖြစ်လို့လဲ၊ ချစ်သူရှိနေလို့လား"

"ရှိတာပေါ့၊ ဒါပေမဲ့ ကျုပ်က သူများထက် ရှေ့က ကျော်ချင်နေတဲ့စိတ် ရှိနေလို့ပါ၊ ကျုပ်ဆိုတဲ့ ကောင်ကလည်း ကိုယ့်စိတ်ကိုယ် နိုင်အောင် လေ့ကျင့်လာတာ ကြာပြီဗျ"

ဝီစကီ အရှိန်သည် တက်လာဟန် တူ၏။ တွမ်ဂျုတ် အာသွက်လျှာသွက် ဖြစ်လာသည်။ သူသည် နောက်ထပ် စီးကရက် တစ်လိပ်ကို လိပ်၍ မီးညှိသည်။ "ကျုပ်မှာတော့ ရှေ့လျှောက်ပြီး တိုးတက်စရာ လမ်းမရှိပါဘူး" ဟု ရေရွတ်သည်။

ဒရိုင်ဘာက သူ့စကားကို ဆက်သည်။ "ကျုပ်အနေနဲ့ ဘဝင်မြင့်စရာတော့ မရှိပါဘူး၊ ကျုပ်စိတ် ကျုပ်နိုင်နင်းအောင် အချိန်ရှိသမျှ လေ့ကျင့်နေတာကတော့ အမှန်ပဲ၊ စာပေးစာယူသင်တန်း တက်တာလည်း လွန်ခဲ့တဲ့ နစ်နစ်ကတည်းကပါ" သူသည် စတီယာရင်ကို သူ့ညာလက်ဖြင့် တစ်ချက် ပုတ်လိုက်သည်။ "လမ်းပေါ်မှာ လူတစ်ယောက်ကို ကျုပ် ကားနဲ့ ကျော်ဖြတ်လာတယ် ဆိုပါတော့၊ သူ့ကို လွန်တာနဲ့ တစ်ပြိုင်နက် သူ့ပုံပန်းကို မှတ်မိအောင် ကျုပ် ကြိုးစားကြည့်တာပဲ၊ ဘယ်လို အဝတ်အစားတွေ ဝတ်ဖားသလဲ၊ စီးထားတဲ့ ဖိနပ်က ဘယ်လို အမျိုးအစားလဲ၊ ခေါင်းက ဦးထုပ်က ဘယ်လိုဟာမျိုးလဲ၊ သူ့လမ်းလျှောက်ပုံက ဘယ်လိုဟန် ရှိသလဲ၊ အရပ် ဘယ်လောက်မြင့်သလဲ၊ ထူးခြားတဲ့ အမှတ်အသားတွေ အနာရွတ်တွေ ရှိသလား၊ ဒါတွေ အားလုံးကို မှတ်မိနေအောင် ကြိုးစားတာပဲ ဆိုပါတော့၊ အမယ် .. မဆိုးဘူး ဆရာရေ့၊ ကျုပ် မှတ်ဉာဏ်အကောင်းသား၊ သူ့ပုံပန်းတစ်ခုလုံး ကျုပ်ခေါင်းထဲမှာ စွဲစွဲမြဲမြဲ ထည့်ထားနိုင်တယ် သိလား၊ တစ်ခါတစ်လေ ကျုပ် တွေးမိတယ်၊ လက်ဗွေ ပါရဂူတစ်ယောက် ဖြစ်အောင် သင်တန်းတစ်ခုခု တက်ရင်ကောင်းမလားလို့၊ လူတစ်ယောက် အနေနဲ့ ဘယ်လောက်များများ မှတ်မိတယ်ဆိုတာ သိရရင် ခင်ဗျား သိပ်ကို အံ့သြသွားမှာ"

တွမ်ဂျုတ်သည် ဝီစကီပုလင်းကို ထုတ်၍ တစ်ကြိမ် မော့ပြန်သည်။ စီးကရက်ကိုလည်း နောက်ဆုံး ဖွာသည့်အနေဖြင့် တအား ရှိုက်၍ ဖွာသည်။ ပြီးတော့

မီးတရဲရဲ တောက်နေသော စီးကရက်လိပ်ကို တုတ်ခိုင်မာကျောသော လက်မနှင့် လက်ညှိုးကြားတွင် ညှပ်ကာ ခြေမွပစ်လိုက်ပြီး ကားပြတင်းမှ နေ၍ အပြင်သို့ လွှင့်ပစ်လိုက်သည်။ သူ့လက်မှ လွတ်ထွက်သွားသော စီးကရက်တိုသည် လေနောက်သို့ လွင့်ပါသွားလေ၏။

လမ်းမကြီး မျက်နှာပြင်နှင့် ထရပ်ကား တာယာကြီးများ ပွတ်တိုက် ပြေးသွားနေသံသည် ပို၍ ကျယ်လောင် စူးရှလာသည်။ တွမ်ဂျုတ်သည် သူ့ရှေ့တည့်တည့်မှ ကားလမ်းမကြီးကို စူးစူးရဲရဲ စိုက်ကြည့်လျက် ရှိ၏။ သူ၏ အေးစက် နက်မှောင်သော မျက်လုံးများသည် သူ့စိတ်၏ ရှင်လန်းကြည်သာမှုကို ဖော်ပြလျက် ရှိသည်။ တွမ်ဂျုတ်ထံမှ စကားပြန်ကို စောင့်မျှော်နေသော ဒရိုင်ဘာသည် မလုံမလဲ ဖြစ်သော မျက်နှာထားဖြင့် လှည့်ကြည့်သည်။ နောက်ဆုံးတွင် တွမ်ဂျုတ်၏ သွားများကို ဖုံးအုပ်လျက်ရှိသော အပေါ်နှုတ်ခမ်းသည် အထက်သို့ လန်တက်သွားသည်။ အူလှိုက်သည်းလှိုက် ကျိတ်၍ ရယ်လိုက်သော အသံ ထွက်လာသည်။ "ဒီအကြောင်း သိချင်တာများ ဒီလောက် အချိန်ကုန်ခံနေရသလား နောင်ကြီးရယ်"

ဒရိုင်ဘာက တွမ်ဂျုတ်ဘက်သို့ လှည့်၍ မကြည့်။

"ဘာအကြောင်းလဲ၊ ကိုယ့်လူ ဘာဆိုလိုတာလဲ"

တွမ်ဂျုတ်၏ နှုတ်ခမ်းများသည် တင်းကျပ်စွာ စေ့လျက် ရှိ၏။ ခွေးတစ်ကောင်သဖွယ် သူ့နှုတ်ခမ်းများကို လျှာနှင့်ထိုး၍ လျက်သည်။ သူ့အသံသည် ခက်ထန် မာကျောလာသည်။ "ကျုပ် ဘာဆိုလိုတယ် ဆိုတာ ခင်ဗျား သိပါတယ်ဗျာ၊ ကျုပ် ခင်ဗျားဘေးမှာ ဝင်ထိုင်ကတည်းက ခင်ဗျား အားလုံး မြင်ပြီးပါပြီ၊ ကျုပ် အကုန်သိပါတယ်" ဒရိုင်ဘာက တစ်ခွန်းမှ ပြန်မပြော။ သူ့ရှေ့တည့်တည့်ကိုသာ ကြည့်နေသည်။ စတီယာတိုင်ကို တအားဆုပ်ကိုင်ထားသဖြင့် သူ့လက်ဖဝါးများသည် နီရဲလျက် ရှိသည်။ တွမ်ဂျုတ်သည် ပြောလက်စ စကားကို ဆက်ပြောသည်။ "ကျုပ် ဘယ်က လာတယ်ဆိုတာ ခင်ဗျား သိပါတယ်" ဒရိုင်ဘာ နှုတ်ဆိတ်လျက် ရှိသည်။ "သိတယ် မဟုတ်လားဟင်" ဟု တွမ်ဂျုတ်က ထပ်ပြောသည်။

"အင်း … ဒါပေါ့၊ ဒီဟာကတော့ … သိချင်လည်း သိမှာပဲ၊ ဒါပေမဲ့ ကျုပ်အလုပ်မှ မဟုတ်တာ၊ ကျုပ်က ကိုယ့်ကိစ္စပဲ ကိုယ် စိတ်ဝင်စားတဲ့ အကောင်၊ ဒီကိစ္စက ကျုပ်အဖို့ ဘာမှမဟုတ်တဲ့ ကိစ္စတစ်ခုပဲ"

အခုကျတော့လည်း ဒရိုင်ဘာ၏ ပါးစပ်မှ အထစ်ထစ် အငေါ့ငေါ့နှင့် တောင်စဉ်ရေမရ စကားများ ထွက်လာသည်။ "ကျုပ်က သူများကိစ္စကို ဝင်ပြီး အနှံ့ခံဖို့ ဝါသနာမပါဘူး" သူသည် ချက်ချင်းပင် ပြန်၍ ငြိမ်ဆိတ်သွားပြီး တွမ်ဂျုတ်ထံမှ စကားထွက်အလာကို စောင့်သည်။ သူ့လက်များသည်ကား စတီယာတိုင်ကို တအား ဆုပ်၍ ကိုင်ထားဆဲ။

နံကောင်တစ်ကောင်သည် ပြတင်းပေါက်မှ ဝင်လာပြီး မော်တော်ကား ရှေ့မှန်ဘောင်တွင် နားကာ အတောင်များကို တဆတ်ဆတ် ရိုက်ခါလျက် ရှိသည်။ တွမ်ဂျုတ်က ကိုယ်ကို ရှေ့သို့ ကိုင်းလိုက်ပြီး နံကောင်ကို အုပ်ဖမ်းကာ ခေါင်းကို စိစိညက်ညက် ကျေသွားအောင် ခြေပစ်လိုက်သည်။ ပြီးတော့ အပြင်ဘက် လေစီးကြောင်း အတွင်းသို့ လွှင့်ပစ်လိုက်သည်။

နံကောင်သေမှ ပေကျံသွားသော သူ့လက်ချောင်း ထိပ်များမှ အစအနများကို ဘောင်းဘီနှင့် ပွတ်၍ သုတ်နေရင်းမှ တစ်ချက် ကျိတ်၍ ရယ်ပြန်သည်။ "ခင်ဗျား ကျုပ်ကို အထင်သေးတာ မှားတာပေါ့ မစ္စတာ" ဟု ပြောသည်။ "ဒီကိစ္စအတွက် ကျုပ်က နှုတ်ဆိတ်မနေနိုင်ဘူးဗျ၊ ဟုတ်တယ်လေ၊ ကျုပ် မက်အေလက်စတားထောင် ရောက်ခဲ့တယ်၊ အဲဒီမှာ လေးနှစ်ကြာခဲ့တယ်၊ ကျုပ်ကိုယ်ပေါ်က အဝတ်အစားတွေဟာ ကျုပ် ထောင်ကလွတ်တော့ ပေးလိုက်တဲ့ အဝတ်အစားတွေပဲ၊ အဲဒါ ဘာဖြစ်လဲ၊ ဘယ်သူ သိတော့ကော ဘာအရေးလဲ၊ ကျုပ်က ဂရုစိုက်နေစရာ မလိုပါဘူး၊ ကျုပ်မှာ အလုပ်တစ်ခု ရဖို့အတွက် လိမ်ညာပြီး ပြောနေရမှာလား၊ မလိုပါဘူးဗျာ၊ ကျုပ်အဘိုးကြီးဆီ ပြန်သွားရင် ကျုပ်အတွက် လုပ်စရာအလုပ် အဆင်သင့် ရှိနေတာပဲဟာ"

"အေးလေ၊ ကျုပ်ကကော ဘာပြောနေလို့လဲ၊ ဒီကိစ္စက ကျုပ်နဲ့မှ မဆိုင်တာ၊ ကျုပ်က စပ်စုတတ်တဲ့ကောင် မဟုတ်ဘူး" ဟု ဒရိုင်ဘာက ပြန်ပြောသည်။

"သွားစမ်းပါ၊ တစ်ခါလာလည်း စပ်စုတတ်တဲ့ကောင် မဟုတ်ဘူး" ဟု တွမ်ဂျုတ်က ရေရွတ်သည်။ "ခင်ဗျားရဲ့ နှာခေါင်းကြီးက ခင်ဗျားရဲ့ မျက်နှာရှေ့ကို ရှစ်မိုင်လောက်

ကျော်ထွက်နေတယ်၊ ဟင်းသီး ဟင်းရွက် အခင်းတစ်ခင်းထဲက သိုးတစ်ကောင်ကို လိုက်ချောင်းနေသလို ခင်ဗျား နှာခေါင်းကြီးက ကျုပ်ကို လိုက်ပြီး အနံ့ခံနေတာ ကျုပ် မသိတာမှတ်လို့"

ဒရိုင်ဘာ၏ မျက်နှာထားသည် တင်းလာသည်။ "ခင်ဗျား ကျုပ်ကို အထင်လွဲနေတယ်" ဟု ခပ်တိုးတိုး ပြောသည်။

တွမ်ဂျုတ်က ရယ်သည်။ "ခင်ဗျားဟာ သဘောကောင်းတဲ့ လူတစ်ယောက်ပါ၊ ကျုပ်ကို တင်လာတယ်၊ ပြီးတော့ ဘာလဲ၊ ကျုပ် တစ်ချိန်က ဘာလုပ်ခဲ့သလဲဆိုတာ သိချင်လာတယ်၊ ကျုပ်ပြောတာ မဟုတ်ဘူးလား"

"ကျုပ်နဲ့ ဆိုင်တဲ့ကိစ္စမှ မဟုတ်တာ"

"မှန်ပါတယ်၊ ဒီဟာကြီးကို မောင်းနေဖို့က လွဲပြီး တခြား ဘာကိစ္စမှ ခင်ဗျားနဲ့ မဆိုင်ပါဘူး၊ ကဲ ကြည့်၊ ဟောဟိုရှေ့မှာ လမ်းကွေ့၊ မြင်တယ် မဟုတ်လား"

"အင်း"

"ကျုပ် အဲဒီနေရာမှာ ဆင်းမယ်၊ ကျုပ် ဘာလုပ်ခဲ့သလဲဆိုတာ သိချင်လွန်းလို့ ခင်ဗျားမှာ ကိုယ့်ဘောင်းဘီကိုယ် သေးနဲ့ ပြန်ပန်းနေရတဲ့ အဖြစ်မျိုး ရောက်နေပြီဆိုတာ ကျုပ် သိပါတယ်၊ မပူပါနဲ့၊ ကျုပ် ခင်ဗျားကို ဒုက္ခမပေးပါဘူး" မော်တော်ကားစက်သံ ကျလာသည်။ ကားဘီးများ၏ လမ်းမနှင့် ပွတ်တိုက်သံသည်လည်း အရှိန်လျော့လာသည်။ ဂျုတ်က အိတ်ကပ်ထဲမှ ဝီစကီ ပုလင်းကို ထုတ်ကာ ထပ်၍ မော့ပြန်သည်။ ထရပ်ကား အရှိန်သည် တဖြည်းဖြည်း လျော့လာပြီး အဝေးပြေး လမ်းမကြီးမှ ညာဘက်သို့ ချိုးကွေ့သွားသည့် လမ်းတစ်ခု၏ ထောင့်တွင် ရပ်သည်။ တွမ်ဂျုတ်သည် ကားပေါ်မှ ဆင်းကာ ကားပြတင်းပေါက် ဘေး၌ ရပ်သည်။ အိတ်ဇောပိုက်အတွင်း ပြာလဲ့လဲ့ မီးခိုးငွေ့များသည် အဆက်မပြတ် ထွက်လာလျက် ရှိ၏။ တွမ်ဂျုတ်က သူ့ကိုယ်ကို ဒရိုင်ဘာဘက်သို့ ကုန်းလိုက်သည်။ "လူသတ်မှုဗျ" ဟု လှမ်းပြောသည်။ "ဒီစကားလုံးက သိပ်ပြီး ကြီးကျယ်လွန်းပါတယ်လေ၊ ပြောချင်တာက ကျုပ် လူတစ်ယောက် သတ်ခဲ့တယ်၊ ထောင်ခုနစ်နှစ် ကျတယ်၊ ဒီအပြစ်အတွက် ကျုပ် ထောင်ဒဏ် လေးနှစ်တိတိ ခံခဲ့ပြီးပြီ"

ဒရိုင်ဘာ၏ မျက်လုံးများသည် တွမ်ဂျုတ် မျက်နှာပေါ်တွင် စူးစိုက်လျက် ရှိသည်။ "ဒီကိစ္စကို ကျုပ် မေးခဲ့သလား၊ လုံးဝ မမေးခဲ့ဘူး၊ ကျုပ်က ကျုပ်ကိစ္စကိုပဲ စိတ်ဝင်စားတဲ့ကောင်ပါ"

"ဒီနေရာကနေပြီး တက္ကဆိုးလား ရောက်တဲ့အထိ လမ်းတစ်လျှောက်လုံး ခင်ဗျားနားတဲ့ နေရာတိုင်းမှာ ဒီအကြောင်းကို ပြောသွားပေတော့၊ ဟုတ်လား" တွမ်ဂျုတ်က ပြုံးသည်။ "ကဲ သွားလိုက်ဦးမယ် သူငယ်ချင်းရေ၊ ခင်ဗျားဟာ သဘောကောင်းတဲ့ လူတစ်ယောက်ပါ၊ ဒါပေမဲ့ ဒီမယ် ကိုယ့်လူ၊ ကျုပ် ပြောလိုက်မယ်၊ ခင်ဗျားရဲ့ ထောင်ချောက်ကြီးကို မြင်ကတည်းက ခင်ဗျား ဘာလိုချင်တယ်ဆိုတာ သိနေပြီ၊ ခင်ဗျား ပါးစပ်ဟလိုက်ကတည်းက ခင်ဗျားဗိုက်ထဲမှာ အူ ဘယ်နှစ်ခွေ ရှိတယ်ဆိုတာ ကျုပ်က သိထားပြီးပြီ" သူသည် ကားတံခါးကို လက်ဖဝါးဖြင့် အသာအယာ ပုတ်လိုက်သည်။

"ကျုပ်ကို တင်လာတဲ့အတွက် ကျေးဇူးတင်ပါတယ်ဗျာ၊ ကဲ သွားလိုက်ဦးမယ်" သူသည် နောက်သို့ ချာခနဲလှည့်ကာ ဖုန်ထူထူ လမ်းမဆီသို့ လျှောက်သွားသည်။

ဒရိုင်ဘာသည် တွမ်ဂျုတ်၏ နောက်ကျောကို လှမ်းမျှော်ကြည့်ကာ အတန်ကြာမျှ ငိုက်လျက်ရှိသည်။ ထို့နောက် လှမ်း၍ အော်သည်။ "ကံကောင်းပါစေဗျာ" တွမ်ဂျုတ်ကတော့ နောက်သို့ ပြန်လှည့်မကြည့်။ လက်တစ်ဖက်ကိုသာ မြှောက်၍ ဝှေ့ယမ်းပြသည်။ ထို့နောက် ထရပ်ကား စက်နှိုးသံ ကျယ်လောင်စွာ ထွက်လာသည်။ ပြီးတော့ ဂီယာထိုးသံ။ ထရပ်ကား နီရဲရဲကြီးသည် အဝေးပြေး ကားလမ်းမကြီးပေါ်အတိုင်း လိမ့်သွားလေသည်။

* * *

## အခန်း (၃)

ကွန်ကရိလမ်းမကြီး၏ ဝဲယာ တစ်ဖက်တစ်ချက်တွင် ပေါက်ရောက်လျက်ရှိသော မြက်ပင်ရှည်ကြီးများသည် ခြောက်သယောင်းကာ ရှုပ်ထွေးပွေလီမ်လျက် ရှိကြသည်။ မြက်ပင်ထိပ်ဖျားများသည် မြက်သီး မြက်ပွင့်များ၏ အလေးဒဏ်ကို မခံနိုင်သဖြင့် ကျိုးသည့်နေရာက ကျိုး၍ ပြတ်သည့်နေရာက ပြတ်ကာ ဝိုက်စိုက် တွဲလောင်း ဖြစ်လျက် ရှိကြကုန်၏။ မြက်ပင်ကြို မြက်ပင်ကြား နေရာအနှံ့အပြားတွင် ကျွဲနွားများ၏ အစာတစ်မျိုးဖြစ်သော တောပဲပင်ရိုင်းများ ပေါက်ရောက်လျက် ရှိကြသည်။ မြက်ပင် ပေါင်းပင်များနှင့် တောပဲပင်များ၏ မျိုးစေ့များသည် သူတို့ မျိုးဆက်များ နေရာအနှံ့အပြားသို့ ကျရောက် ပျံ့နှံ့စေရန်နှင့် တိုးတက်ပြန့်ပွားစေရန်အတွက် အချိန်ကောင်း အခါကောင်းနှင့် အခြေအနေကောင်းကို စောင့်စားလျက် ရှိကြလေသည်။ ဆူးပင်များသည် တိရစ္ဆာန်များနှင့် လူအများ အသွားအလာ အဖြတ်အသန်းကို ငံ့လင့်နေကြသည်။ တိရစ္ဆာန်များနှင့် လူများ ရောက်လာသည့်အခါ အရေပြားများ၊ ဘောင်းဘီများနှင့် စကပ်အနားများတွင် စူးဝင် ငြိတွယ် လိုက်ပါသွားရန် အားခဲနေကြကုန်၏။

တောက်ပသော နေရောင်သည် မြက်ပင်များပေါ်သို့ ဖြာဆင်းကာ နွေးထွေးသော အပူကို ပေးလျက် ရှိပေသည်။ ပိုးကောင် မွှားကောင်များသည် မြက်ရိုင်းပင်ကြီးများ၏ အရိပ်ကိုခိုကာ သွားလာ လှုပ်ရှားလျက် ရှိကြ၏။ နံကောင်များသည် အဝါရောင် အတောင်များကို ဖြန့်ကာ လေထဲသို့ ခုန်ပျံတက်လိုက် မြက်ပင်များပေါ် ပြန်ဆင်းလိုက် လုပ်လျက် ရှိကြသည်။ လမ်းဘေးတစ်နေရာရှိ မြက်ခင်းပြင်ပေါ်တွင် ကုန်းလိပ် တစ်ကောင်သည် နှေးကွေးလေးလံစွာဖြင့် တရွေ့ရွေ့ တွားသွားလျက် ရှိ၏။ သူ၏ မာကျောသော ခြေထောက်များသည် မြက်ပင်များကို တိုးဝှေ့ ဖိနင်းလျက် ရှိ၏။ သူ လှုပ်ရှားနေပုံမှာ လမ်းသွားနေသည်နှင့် မတူ။ သူ့ကိုယ်လုံးထက်တွင် ဖုံးအုပ်နေသည့် အလွန် လေးလံသော အခွံ မာမာကြီးကို မနိုင့်တနိုင်နှင့် ဖြည်းဖြည်းချင်း တရွတ်ဆွဲ၍ သယ်ယူသွားသည်နှင့် တူနေသည်။ သူ၏ တိုးဝှေ့မှုကြောင့် တောပဲပင်များထက်မှ ပဲသီးခြောက်များသည် သူ့ကျောကုန်းအခွံပေါ်သို့ကျကာ မြေပြင်ပေါ်သို့ လိမ့်ဆင်းလျက် ရှိကြသည်။ ဦးချိုသဏ္ဍာန်ရှိသော သူ့နှုတ်သီးမှာ ဟလျက်ရှိ၏။ လက်သည်းခွံများနှင့် တူသည့် သူ့မျက်ခုံးများအောက်မှ ရယ်စရာကောင်းလှသော မျက်လုံးအစုံသည်

ရှေ့တည့်တည့်သို့ ပြူးကြည့်လျက် ရှိသည်။ သူ့နောက်ဘက် မြက်ပင်များပေါ်တွင်မူ သူ ဖြတ်သန်းလာရာ လမ်းကြောင်းသည် အထင်းသား ပေါ်လျက်ရှိ၏။

သူ့ရှေ့တွင်မူ ကားလမ်းမကြီး၏ တာရိုးဖြစ်သော တောင်ကုန်း တစ်ကုန်းသည် မားမားမတ်မတ် ရပ်လျက် ရှိသည်။ သူသည် အတန်ကြာမျှ ရှေ့သို့ မတိုးသေးဘဲ ရပ်နေသည်။ သူ့ခေါင်းကိုလည်း မော့ထားသည်။ သူသည် မျက်တောင် တစ်ချက်နစ်ချက်မျှ ခတ်လိုက်ကာ တောင်ကုန်းကို မော့ကြည့်သည်။ နောက်ဆုံးကျတော့ တာရိုးပေါ်သို့ တက်သည်။ ရှေ့ခြေ နစ်ချောင်းသည် ရှေ့သို့ တွားသွားလျက် ရှိနေသော်လည်း မြေပြင်ကို ထိတစ်ချက် မထိတစ်ချက်။ နောက်ခြေနစ်ချောင်းကတော့ နောက်ဘက်သို့ ကန်ကျောက်ကာ သူ့အခွံမာကြီးကို တရွတ်သီထိုး ဆွဲယူနေရသဖြင့် မြက်ပင်များနှင့် ကျောက်စရစ်ခဲများကိုပါ ရုပ်တိုက်ပြီး ဆွဲယူသွားနေသကဲ့သို့ ဖြစ်နေသည်။ သူ့ရှေ့မှ တာရိုး မတ်စောက်လာလေလေ သူ၏ အားထုတ်မှုသည် ပြင်းထန်လေ။ သူသည် အမောတကော ဖြစ်လျက် ရှိ၏။ ခြေများနှင့် ကုတ်ကတ်ဖက်၍ ခက်ခဲပင်ပန်းစွာ တက်နေသည့် အချိန်များတွင် သူ့ခေါင်းသည် ရှေ့သို့ ငေါက်တောက်ထွက်လျက် ရှိ၏။

နောက်ဆုံးတွင် ဖြည်းဖြည်းမှန်မှန်နှင့် တစ်လှမ်းချင်း တစ်ထစ်ချင်း တက်လာခဲ့သော လိပ်သည် သူသွားနေရာ လမ်းကြောင်း ရှေ့တည့်တည့်မှ ပိတ်နေသည့် ရင်တားတစ်ခုနှင့် ရင်ဆိုင် တိုးနေရလေ၏။ ရင်တားမှာ လေးလက်မ အမြင့်ရှိသော ကွန်ကရိ နံရံတစ်ခုပေတည်း။ သူသည် နောက်ခြေထောက်များကို အားပြုကာ နံရံကို တက်သည်။ တဖြည်းဖြည်းနှင့် ရှေ့ခြေ နစ်ချောင်းသည် နံရံထိပ်ကို တွယ်ကုပ်မိသည်။ သူသည် ခေါင်းကို ထောင်၍ ရှေ့တည့်တည့်မှ ချောပြောင်နေသော အင်္ဂတေပြင်ကို ချောင်းကြည့်သည်။ ထို့နောက် တအားကုတ်ကတ်၍ တက်သည်။ သူ့နောက်မှ အခွံမာကြီးသည် အပေါ်သို့ ထောင်တက်လာသည်။ သူသည် နံရံထိပ် တစ်ဖက်စွန်းအထိတော့ ရောက်ခဲ့လေပြီ။

လိပ်သည် သူ့ခရီးကို မဆက်သေးဘဲ ခဏတစ်ဖြုတ် နားနေသည်။ ပုရွက်ဆိတ် အနီတစ်ကောင်သည် လိပ်၏ အသားနုများရှိရာ အခွံမာကြီး၏ အတွင်းဘက်သို့ တိုးဝင်သွားသည်။ လိပ်၏ ဦးခေါင်းနှင့် ခြေထောက်များသည် အခွံအတွင်းသို့ ဖျတ်ခနဲ ဝင်ရောက် ပျောက်ကွယ်သွားလေ၏။ အတွင်းဘက်သို့ ရောက်နေသော ပုရွက်ဆိတ် အနီသည် လိပ်၏ ကိုယ်နှင့် ခြေထောက်များကြား၌ ညပ်ကာ ဖိကြိတ်ခြင်းကို ခံရလေသည်။

လိပ်သည် အတန်ကြာမျှ ငြိမ်ဆိတ်နေသည်။ ထို့နောက် လည်ပင်း ပြန်ထွက်လာပြီး ရယ်စရာကောင်းလှသော မျက်လုံးအစုံဖြင့် ဟိုကြည့်သည်ကြည့် လုပ်လျက် ရှိ၏။ မကြာမီတင်မှာပင် အမြီးနှင့် ခြေထောက်များ အပြင်သို့ ပြန်ထွက်လာကြသည်။ နောက်ခြေနှစ်ချောင်းသည် အလုပ်လုပ်စ ပြုနေလေပြီ။ ကွန်ကရီနံရံ၏ အမြင့်ပိုင်းသို့ ရောက်လာလေလေ နောက်ခြေများကို အားထုတ်၍ တွန်းအားသည် ကြီးမားလာလေ။ နံရံဘေးတစ်လျှောက် တွင် ကုတ်ကတ်၍ တက်လျက်ရှိသော ရှေ့ခြေနှစ်ချောင်းသည် တဖြည်းဖြည်းနှင့် နံရံ၏ အပေါ်ဘက် အင်္ဂတေ ကြမ်းပြင်ကို တွယ်မိသည်။ သူသည် နံရံထက်သို့ ချောချောမောမော ဆိုက်ရောက်လာခဲ့လေပြီ။

အခုတော့ဖြင့် သူ့အတွက် သွားမှုလာမှု အဆင်ပြေလာသည်။ အလွန်လွယ်ကူ၍ အလွန် သက်သာလာသည်။ သူ့ကျောထက်မှ အခွံမာကြီးကလည်း သူ့ကို တွန်းအားပေးလျက် ရှိနေပြီ။ အသက် လေးဆယ်အရွယ် အမျိုးသမီး မောင်းလာသော ဆီဒင်ကားတစ်စီးသည် လမ်းတစ်ဖက်မှ လာလျက်ရှိ၏။ လမ်းမပေါ်၌ တလှုပ်လှုပ် သွားနေသော လိပ်ကို မြင်လိုက်သည်။ တက်၍ ကြိတ်မိမည် စိုးသဖြင့် ကားစတီယာရင်ကို ညာဘက်သို့ ဖျတ်ခနဲ ဆွဲလိုက်သည်။ မော်တော်ကားသည် လမ်းမပေါ်မှ ဖဲ့ထွက်ကာ လမ်းဘေးသို့ ထိုးတက်သွားလေ၏။ လမ်းမနှင့် ဘီးများ အရှိန်ပြင်းစွာ ပွတ်တိုက်ကြိတ်ဆွဲသွားသံသည် ကျယ်လောင် စူးရှစွာ ထွက်ပေါ်လာသည်။ ကားနောက်ဘက်တွင် ဖုန်လုံးကြီး တထောင်းထောင်း ထလာသည်။ ဘီးနှစ်ဘီးသည် တစ်ခဏမျှ မြေကြီးနှင့် လွတ်သွားပြီးမှ မြေပြင်သို့ ပြန်ကျသည်။ ကားသည် လမ်းမထက်သို့ ပြန်တက်လာပြီး ဖြည်းဖြည်းမှန်မှန် မောင်းထွက်သွားလေ၏။

လိပ်သည် သူ့ခေါင်း သူ့အမြီးနှင့် ခြေထောက်များကို လိပ်ခွံအတွင်းသို့ သွင်းကာ အသေကောင် တစ်ကောင်သဖွယ် ငြိမ်သက်နေသည်။ ထို့နောက် အချိန် အတန်ကြီးကြာမှ သူ့ခရီးကို ဆက်သည်။ စောစောကလို နေးနေးကွေးကွေး လေးလေးလံလံ မဟုတ်။ ကွန်ကရီ လမ်းမကြီး၏ ပူပြင်းသော အရှိန်မှ လွတ်မြောက်လို၍ အလျင်အမြန် သွားနေခြင်း။

အသေးစား ထရပ်ကားတစ်စီးသည် လမ်းမပေါ်အတိုင်း အရှိန်ဖြင့် မောင်းလာလျက် ရှိသည်။ ကားဒရိုင်ဘာသည် အနီးသို့ ရောက်ကာမှ လိပ်ကို မြင်သည်။ မကြိတ်မိအောင် ကြိုးစား၍ ရှောင်ပါသေး၏။ မလွတ်။ ရှေ့ဘီးသည် လိပ်ခွံ အစွန်းတစ်ဖက်ကို တက်နင်းသည် လိပ်သည် ဘီးအောက်မှ လျှောခနဲထွက်ကာ

လမ်းမပေါ်တွင် အရှိန်ဖြင့် လွင့်ထွက်သွားသည်။ လမ်းကြောင်းပြောင်းသွားသော ထရပ်ကားသည် လမ်းမ၏ ညာဘက်ဘေးကို ပြန်ကပ်ပြီး သူ့ခရီးကို ဆက်သွားသည်။ လိပ်သည် လမ်းမပေါ်တွင် ပက်လက်လန်၍ ကျန်ခဲ့လေ၏။ အမြီး၊ ခေါင်းနှင့် ခြေထောက်များသည် ပျောက်ကွယ်လျက် ရှိကြသည်။ လိပ်သည် ဤပုံစံအတိုင်း အချိန်အကြာကြီး ငြိမ်လျက် ရှိသည်။ သို့သော်လည်း နောက်ဆုံးကျတော့ သူ့ခြေလေးဘက်သည် အပြင်သို့ ပြန်ထွက်လာသည်။ မိုးပေါ်သို့ထောင်ကာ လေထဲတွင် တလှုပ်လှုပ် တရွရွနှင့် ယက်ကန် ယက်ကန် ဖြစ်လျက် ရှိလေသည်။ သူ့ခြေထောက်များသည် အရာဝတ္ထု တစ်ခုကို ဖက်တွယ်မိရန် ကြိုးစားသည်။ ကျောက်ခဲကို ဖက်တွယ်မိသောအခါ ထိုကျောက်ခဲကို အားပြု၍ ပြန်ထနိုင်ရန် ရုန်းကန်သည်။ ကျောက်ခဲကို ဖက်တွယ် မိသည်နှင့် တစ်ပြိုင်နက် သူ့ကိုယ်သည် မှောက်လျက်သား ပြန်ဖြစ်သွားလေ၏။

လိပ်၏ ကျောပေါ်၌ ကပ်ငြိပါလာသော မြင်းစား ဂျုံသီးသည် အောက်သို့ လျှောကျလာသည်။ အသီးထဲမှ မျိုးစေ့သုံးစေ့သည် မြေကြီးပေါ်၌ ကပ်ကျန်ခဲ့၏။ လိပ်သည် တာရိုးကို ကျော်၍ လမ်းတစ်ဖက်သို့ ဆင်းသည်။ ဖုန်ထူထူ လမ်းမပေါ်တွင် လိပ်သွားရာ လမ်းကြောင်းသည် ကွေ့ကွေ့ကောက်ကောက်။ ရယ်းရာ ကောင်းလှသော လိပ်၏ မျက်လုံးများသည် ရှေ့တည့်တည့်ကိုသာ စူးစိုက်ကြည့်လျက် ရှိ၏။ ဦးချိုနှင့်တူသော သူ့နှုတ်သီးကတော့ မဟတဟ။ အဝါရောင် သန်းနေသော သူ့ခြေသည်းရာများသည် ဖုန်ထူထူ လမ်းမပေါ်တွင် ထင်လျက်။

* * *

## အခန်း (၄)

တစ်ဆင့်ပြီးတစ်ဆင့် တက်သွားသော ကားဂီယာထိုးသံနှင့် ကြီးမားလေးလံသော ကားဘီးကြီးများအောက်မှ မြေကြီး တုန်ခါသံ။ ပြီးတော့ သူနှင့် အလှမ်းဝေးသွားသော ထရပ်ကားကြီး၏ အသံ။ ထိုအသံကို ကြားရသောအခါ တွမ်ဂျုတ်သည် လျှောက်သွားနေရာမှ ရပ်လိုက်သည်။ နောက်သို့ ပြန်လှည့်ကာ ထရပ်ကားကြီး ထွက်ခွာသွားရာဘက်သို့ မျက်စိတဆုံး လိုက်ကြည့်သည်။ ထရပ်ကားကြီးသည် သူ့မြင်ကွင်း အတွင်းမှ တဖြည်းဖြည်းချင်း ပျောက်ကွယ်သွားသည်။ ထိုအချိန်ထိ သူသည် ရပ်နေသည့် နေရာမှ ရွေ့လျားခြင်း မရှိ။ ရပ်မြဲတိုင်း ရပ်ကာ ထရပ်ကားကြီး သွားနေရာဘက်ဆီမှ လေထဲသို့ တလွင့်လွင့်တက်ကာ တလက်လက် တောက်ပနေသော အပြာရောင် မီးခိုးငွေ့များကို မျှော်ကြည့်နေသည်။ သူ့မျက်နှာသည် တစ်စုံတစ်ခုသော အရာကို အလေးအနက်ထား၍ ဆင်ခြင်စဉ်းစားနေဟန် ရှိ၏။

သူသည် ဘေးအိတ်ကပ်ထဲမှ ပုလင်းပြားကို ထုတ်၍ အဖုံးကို လှည့်ဖွင့်ကာ ဝီစကီကို မော့သည်။ ပုလင်းနှုတ်ခမ်းတွင် ကပ်နေသည့် ဝီစကီ အစအနများကို လျှာနှင့် လျှောက်၍လျက်သည်။ ထို့နောက် အနံ့အသက်များ ကပ်ကျန်နေမည်ကို နမြောတွန့်တို နေသည့်နှယ် သူ့နှုတ်ခမ်းများကို လျှာနှင့်ထိုး၍ လျက်သည်။ နှုတ်မှလည်း ထိုနေရာတွင်၊ လူမည်း တစ်ယောက်၊ ခြေရာကောက်မိ ဟု အမှတ်မထင် ရေရွတ်သည်။ စောစောက ထရပ်ကား ဒရိုင်ဘာထံမှ သူ ကြားခဲ့ရသည့် ကဗျာ၊ သူ ဤမျှသာ မှတ်မိလေသည်။ သူသည် နောက်သို့ ပြန်လှည့်ကာ မော်တော်ကား လမ်းမကြီးမှ ခွဲထွက်သွားသည့် ဘေးလမ်းကို မျက်နှာမူလိုက်သည်။

လမ်းမှာ အလွန် ဖုန်ထူသောလမ်း ဖြစ်၍ လယ်ကွင်းများကို ထောင့်တန်း ဖြတ်သွားသောလမ်း ဖြစ်၏။ နေပူလျက် ရှိသော်လည်း လေကတော့ ငြိမ်နေသည်။ ဆန်ကာနှင့် ချထားသည့်နှယ် မှုန်ညက်သော ဖုန်များသည်ပင် နည်းနည်းကလေးမှ လှုပ်ရှားခြင်း မရှိ။ မြင်းလှည်းဘီးရာများသည် လမ်းမပေါ်ဝယ် ထင်းထင်းကြီးပေါ်လျက် ရှိသည်။ တွမ်ဂျုတ်သည် ခပ်ဖြည်းဖြည်း ခပ်မှန်မှန် တစ်လှမ်းချင်း လျှောက်သည်။ သူ့ခြေ ချလိုက်တိုင်း အဝါရောင် သူ့ရှူးဖိနပ်များရှေ့တွင် ဖုန်မှုန့်များသည် ထောင်းခနဲ ထောင်းခနဲ ထလာသည်။ အတော်ကလေး လျှောက်မိသောအခါ အဝါရောင် ရှူးဖိနပ်များသည် အညိုရောင်သို့ ပြောင်းသွားခဲ့လေပြီ။

သူသည် ခါးကို ကုန်းလိုက်ပြီး ဖိနပ်ကြိုးများကို ဖြည်၍ ပထမဆုံး တစ်ဖက်ကို ချွတ်သည်။ ပြီးမှ နောက်တစ်ဖက်။ အချိန်များစွာ ဖိနပ်များအတွင်း၌ အောင်းနေခဲ့ရသဖြင့် စိုထိုင်းထိုင်း ဖြစ်နေသော သူ့ခြေထောက်များသည် ပူနွေးခြောက်သွေ့နေသော ဖုန်များ အပေါ်တွင် တစ်လှမ်းချင်း နင်းသွားလျက် ရှိသည်။ လျှောက်ရဖန် များလာသောအခါ ဖုန်မှုန့်များသည် သူ့ခြေချောင်းများကြားတွင် အုံလိုက်ကျင်းလိုက် တက်လာသည်။ ခြေချောင်း များသည် ခြောက်သွေ့ တင်းကျပ်လာသည်။ သူသည် ကုတ်အင်္ကျီကို ချွတ်၍ ဖိနပ်များကို ထုပ်ကာ ချိုင်းကြားတွင် ညှပ်လိုက်သည်။ ပြီးတော့ သူ့ခရီးကို ဆက်သည်။ ဖုန်မှုန့်များသည် သူ့ရှေ့နှင့် သူ့နောက်မှ တထောင်းထောင်း ထကာ မြေကြီးနှင့်ကပ်၍ လွင့်မျောလျက် ရှိကြလေ၏။

လမ်း၏ ညာဘက်ရှိ လယ်ကွင်းများကို မိုးမခ သစ်သားတိုင်များဖြင့် သံဆူးကြိုးနှစ်ထပ် ကာထားသည်။ သစ်သားတိုင်များမှာ တစ်တိုင်မှ ဖြောင့်ဖြောင့် ရောင့်ရောင့် မရှိ။ ကွေးသည့် တိုင်များက ကွေး၍ ကောက်သည့်တိုင်များက ကောက်နေသည်။ ဘယ်တိုင်ကိုမှလည်း သပ်သပ်ရပ်ရပ် ချောချောမွေ့မွေ့ ဖြစ်နေအောင် ပြုပြင်ထားခြင်း မရှိ။ ခွရှိသည့် တိုင်များတွင် သံဆူးကြိုးများကို အထပ်ထပ် ရစ်ကာ ပတ်ကာ သံများဖြင့် ကပ်ရိုက်ထားသည်။ သံဆူးကြိုးများ၏ တစ်ဖက်တွင်မူ လေဒဏ်၊ အပူဒဏ်နှင့် မိုးခေါင်ခြင်း ဒဏ်တို့၏ အရိုက်အပုတ် အထုအထောင်းကို ပြင်းထန်စွာ ခံထားရသဖြင့် ငိုက်စိုက် တွဲလောင်းဖြစ်နေသော ပြောင်းပင်များ။ ထိုပြောင်းပင်များ၏ ပင်စည်များနှင့် ဆက်လျက်ရှိသော အရွက်များ၏ အခွက်ကလေးများထဲမှာ ဖုန်မှုန့်များဖြင့် ပြည့်လျက် ရှိလေသည်။

တွမ်ဂျုတ်သည် နေးကွေး လေးလံစွာဖြင့် လျှောက်သွားလျက် ရှိ၏။ သူ့ခြေထောက်များ သည်လည်း လမ်းပေါ်တွင် တရွတ်တိုက် ဆွဲသွားလျက် ရှိသည်ဖြစ်ရာ ဖုန်များသည် သူ့နောက်မှ အလိပ်လိပ် ထကာ လိုက်ပါသွားလျက် ရှိလေသည်။ သူသည် သူ့ရှေ့မလှမ်းမကမ်းမှ တလှုပ်လှုပ် တရွရွ သွားသွားနေသော ကုန်းလိပ်တစ်ကောင်ကို မြင်သည်။ လိပ်၏ ခြေထောက်များသည် ဖုန်များကြားတွင် ခက်ခဲ ပင်ပန်းစွာဖြင့် ရုန်းကန် လှုပ်ရှားလျက်ရှိသည်။ တွမ်ဂျုတ်က ရပ်၍ လိပ်ကို စိတ်ဝင်တစား ကြည့်သည်။ သူ့အရိပ်သည် လိပ်၏ ကိုယ်ပေါ်သို့ ကျသွားသည်။ လိပ်၏ ဦးခေါင်း၊ ခြေထောက်လေးဖက်တို့နှင့် အမြီးတို့သည် လိပ်ခွံကြီးအတွင်းသို့ ဖျတ်ခနဲ ဝင်ရောက် ပျောက်ကွယ်သွားကြလေ၏။

တွမ်ဂျူတ်သည် လိပ်ကို ဆတ်ခနဲ ကောက်ယူလိုက်ပြီး ပက်လက် လှန်လိုက်သည်။ လိပ်၏ ကျောကုန်းသည် ဖုန်၏ အရောင်ကဲ့သို့ ညိုပြာပြာ မွဲခြောက်ခြောက် ဖြစ်နေသော်လည်း ဝမ်းဗိုက်ကျတော့ အဝါရောင်သန်းကာ နို့ဆီရောင် ပေါက်နေရုံမျှမက သန့်ရှင်းနူးညံ့ပြီး ချောမွတ်နေသည်။ တွမ်ဂျူတ်သည် သူ့ချိုင်းကြားမှ အထုပ်ကို အပေါ်သို့ တိုး၍ ပြင်ညှပ်လိုက်ကာ လိပ်၏ ဝမ်းဗိုက်နုနုကို လက်ညှိုးဖြင့် ဖိ၍ နှိပ်လိုက်သည်။ ကျောကုန်းထက် အဆပေါင်းများစွာ သာလွန် နူးညံ့သော နေရာပေတည်း။ လိပ်၏ မာကျော သန်စွမ်းသော ဦးခေါင်းသည် ထွက်လာပြီး သူ့ဝမ်းဗိုက်ကို နှိပ်လိုက်သော လက်ချောင်းအား ကြည့်ဖို့ အားထုတ်သည်။ လိပ်၏ ခြေထောက်များသည် လေထဲတွင် ယက်ကန် ယက်ကန် ဖြစ်လျက် ရှိလေသည်။ လိပ်သည် တွမ်ဂျူတ်၏ လက်ပေါ်သို့ သေးပါချပြီး အားသွန်ခွန်စိုက်နှင့် ကြောက်လန့်တကြား ရုန်းကန်သည်။ သို့သော်လည်း တွမ်ဂျူတ်၏ လက်တွင်းမှ မလွတ်ချေ။

တွမ်ဂျူတ်သည် လိပ်ကို ပက်လက်လှန်ထားရာမှ ပြန်မှောက်လိုက်ပြီး သူ့ကုတ်အင်္ကျီအတွင်းရှိ ရှူးဖိနပ်များနှင့် ရော၍ လုံးထွေးထုပ်လိုက်သည်။ သူ့ချိုင်းကြား အတွင်းမှ ထိုးထိုးထွန့်ထွန့် ဖြစ်နေသော လိပ်၏ ရုန်းကန် လှုပ်ရှားမှုသည် တွမ်ဂျူတ်၏ လက်မောင်းကို ထိတွေ့လျက်ရှိ၏။ သူသည် စောစောကထက် သွက်လက်သော အရှိန်ဖြင့် လှုပ်ရှားကာ သူ့ခြေထောက်များကို လျင်မြန်စွာ သယ်ယူသွားလေသည်။

သူ့ရှေ့ လမ်းဘေးတစ်နေရာတွင် မိုးမခပင်တစ်ပင်။ ပင်စည်ပင်လုံး ခပ်လှီလှီ ခပ်သေးသေး။ တစ်ပင်လုံး ဖုန်များ ကပ်ငြိနေသည်။ အပင်၏ အရိပ်သည် လမ်းပေါ်သို့ ကျိုးတိုးကျဲတဲ ပြောက်တိပြောက်ကျား ကျလျက် ရှိ၏။ စိမ်းစို ဖွံ့ဖြိုးခြင်း မရှိသော အကိုင်းများသည် လမ်းမဆီသို့ ကွေးညွှတ်ကျလျက် ရှိသည်။ ကြုံလှီသေးကွေးပြီး ခြောက်သွေ့နေသော အရွက်များသည် အမွေးအတောင် ချပြီးစ ကြက်မတစ်ကောင်နှင့် တူနေသည်။ အခုဆိုလျှင် တွမ်ဂျူတ်၏ တစ်ကိုယ်လုံးမှာ ချွေးများဖြင့် စိုရွှဲလျက်ရှိပြီ။ သူ၏ အပြာရောင် ရှပ်အင်္ကျီသည် သူ့နောက်ကျောနှင့် ချိုင်းကြားများတွင် နစ်နေသော ချွေးများကြောင့် မည်းပြောင်လျက် ရှိနေလေပြီ။ သူသည် ခေါင်းပေါ်မှ ကတ်ဦးထုပ် လျှာကို ခပ်ကြမ်းကြမ်း ဆွဲချလိုက်သည်။ လျှာအတွင်းမှ ခံထားသော ကတ်ပြားသည် လျှာကို တည့်တည့်မှ ကျိုးသွားသည်။ ကတ်ဦးထုပ်၏ အသွင်အပြင်သည် အသစ်နှင့် မတူတော့ချေ။

တွမ်ဂျူတ်သည် သူ့ခြေလှမ်းများကို အရှိန်မြှင့်လိုက်သည်။ သူ အဝေးမှ လှမ်းမြင်နေရသော မိုးမခပင်ရိပ်တွင် ဝင်၍ ခိုနားချင်စိတ်ဖြင့် အရှိန်ကို မြှင့်လိုက်ခြင်း ဖြစ်၏။ မိုးမခပင်အောက်တွင် အရိပ်တော့ ရှိရမည်။ ပင်စည်ပင်လုံးနှင့် အရွက်များ မည်မျှပင် ပိန်လှီသေးကွေးပြီး ကျိုးတိုးကျဲတဲ ဖြစ်နေစေကာမူ ပင်စည်ရင်းမှာတော့ဖြင့် အရိပ် ကောင်းကောင်း ရနိုင်စရာ ရှိသည်ဟု သူ တွေးသည်။ အနည်းဆုံး နေမွန်းတည့်ချိန် လွန်သည်အထိတော့ အရိပ်ခို၍ နားနေနိုင်စရာ ရှိသည်ဟု သူ တွက်သည်။

အခုဆိုလျှင် နေအပူရှိန်သည် သူ့လည်ကုပ်ထက်သို့ အညှာအတာ ကင်းမဲ့စွာဖြင့် ကျရောက်လျက်ရှိ၏။ ပူလွန်းအားကြီးသဖြင့် သူ့တစ်ခေါင်းလုံး မူးနောက်နောက် ရီဝေဝေဖြစ်ကာ တစီစီ အော်မြည်လျက် ရှိနေပေပြီ။ သူသည် မိုးမခပင် ခြေရင်းကို လှမ်း၍ မမြင်ရ။ သူ့ခြေလှမ်းများကို ခပ်သုတ်သုတ် တိုး၍ လှမ်းကာ လမ်းဘေး အနိမ့်ထဲသို့ ဆင်းသည်။ သူ့ခြေလှမ်းများသည် တုံ့ခနဲ ဖြစ်သွားသည်။ သူ့ထက်စော၍ ပင်စည် အရိပ်နေရာကို ဦးထားနှင့်သူ ရှိနေပေပြီ။ သူ မြင်တွေ့နေရသည်မှာ လူတစ်ယောက်။ သစ်ပင်ပင်စည်ကို လျော့ရိလျော့ရဲမှီ၍ မြေကြီးပေါ် ဖင်ချကာ ပျစ်ပျစ်နစ်နစ် ထိုင်လျက် ရှိ၏။ သူ၏ ခြေတစ်ဖက်သည် ကျန်ခြေတစ်ဖက်ပေါ်သို့ ကြက်ခြေခတ် ထပ်၍ တင်ထားသည်။ လူတစ်ကိုယ်လုံး ခပ်လှဲလှဲ မှီ၍ ထိုင်နေခြင်း ဖြစ်သဖြင့် ကန့်လန့်ဖြတ်တင်ထားသော ခြေထောက်၏ ဖိနပ်မပါသော ခြေဖဝါးသည် ပင်စည်ကို မေးမှီထားသည့် သူ့မျက်နှာနှင့် တစ်ပြေးညီတည်း ဖြစ်လျက်ရှိ၏။

သူသည် ဟုတ်ကဲ့၊ သူသည် ကျွန်တော့် အချစ်ကလေးပါ ဟူသော သီချင်းကို စိတ်ပါလက်ပါ လေချွန်လျက် ရှိသဖြင့် တွမ်ဂျူတ် လျှောက်လာနေသည့် အသံကို မကြား။ အပေါ်သို့ ထောင်ထားသော သူ့ခြေဖဝါးသည် အပေါ်တက်သွားလိုက် အောက်ပြန်ကျလာ လိုက်နှင့် စည်းချက် မှန်မှန်လိုက်လျက် ရှိသည်။ သူသည် လေချွန်နေသည်ကို ရပ်လိုက်ပြီး သီချင်းတစ်ပုဒ်ကို ခပ်တိုးတိုး ညည်းလိုက်သည်။

"ဟုတ်ကဲ့ … ခင်ဗျာ၊ သူဟာ ကျွန်တော့်ရဲ့ ကယ်တင်ရှင်ပါ၊

ဂျီးဆပ်သခင်ဟာ ကျွန်တော့် ကယ်တင်ရှင်ပါ၊

အခုဆိုရင် ဂျီးဆပ်ဟာ ကျွန်တော့် ကယ်တင်ရှင်ပါ၊

သူဟာလေ မာရ်နတ် မဟုတ်ပါ၊

ဂျီးဆပ်သခင်ဟာ အခုဆိုရင် ကျွန်တော့် ကယ်တင်ရှင်ပါ”

တွမ်ဂျုတ်သည် ကျိုးတိုးကျဲတဲ ဖြစ်နေသော မိုးမခရွက်များ၏ မလုံ့တလုံ အရိပ်အောက်သို့ ဝင်သည်။ တွမ်ဂျုတ်၏ ခြေသံကို ကြားသောအခါ ထိုလူ၏နှုတ်မှ သီချင်းဆိုသံ ရပ်သွားပြီး သူ့ခေါင်းသည် နောက်သို့ ချာခနဲ လှည့်လာသည်။ သူ့ခေါင်းမှာ သိပ်ပြီး အချိုးအစားမကျ။ နောက်စေ့ ခပ်ထွက်ထွက်။ အရိုးအဆစ် ကြီးသလောက် အသားအရေက ကျစ်လျစ် မာကျောသည်။ ကုပ်ပိုးထူပြီး မျက်လုံးပြူးသည်။ မျက်ခွံများက ခပ်မို့မို့၊ အရောင်က နီရဲရဲ။ အညိုရောင် သူ့ပါးနှစ်ဖက်သည် အမွေးအမှင် ထူထပ်ခြင်း မရှိ။ နှာခေါင်းက ကြီးပြီး ချွန်သော်လည်း နှာယောင် ကောက်သည်။ မျက်နှာတွင် ချွေးတစ်စက်မှ မရှိ။ နဖူးပြင်တွင်လည်း ချွေးတစ်ပေါက်ပင် မမြင်ရ။ သူ့နဖူးသည် သာမန် နဖူးများထက် ပို၍ မောက်ရုံမျှမက ကျယ်လည်း ကျယ်သည်။ မျက်လုံးများ၏အထက် မျက်နှာ တစ်ခုလုံး၏ တစ်ဝက်ပိုပိုခန့်ကို နဖူးက နေရာယူထားသည်။ သူ့ဆံပင်များမှာ မျက်ခုံးနှစ်ဖက်၏ အထက်နားမှနေ၍ လက်ချောင်းများဖြင့် ပင့်တင်ထားသည့်နှယ် ရှိသည်။

ဝတ်ထားသည့် ရှပ်အင်္ကျီမှာ အပြာရောင်။ အပေါ်မှ ထပ်ဝတ်ထားသည့် ကုတ်အင်္ကျီမှာ ချည်ထည် အထူစား။ အစွန်းအထင်းများဖြင့် ကွက်တိကွက်ကျား ဖြစ်ကာ ညစ်ပတ် ပေကျံလျက်ရှိသော အညိုရောင် ဦးထုပ်တစ်လုံးသည် ပြားချပ်နေသည့် ဝက်သား အစာသွတ်မုန့် တစ်လုံးသဖွယ် ပုံပျက်ပန်းပျက်နှင့် သူ၏ဘေး မြေကြီးပေါ်တွင် လဲလျောင်းလျက် ရှိသည်။ ဖုန်များ တက်နေသဖြင့် အရောင်အဆင်း ပျက်နေသည့် ကင်းဗတ် ဖိနပ်တစ်ရံသည် သူနှင့် မလှမ်းမကမ်းတွင် ဟိုတစ်ဖက် သည်တစ်ဖက် လွင့်ကျလျက် ရှိလေသည်။

ထိုလူသည် တွမ်ဂျုတ်အား အကြာကြီး စူးစူးစိုက်စိုက် ကြည့်နေသည်။ သူ့မျက်လုံး အစုံသည် အရောင် တဖျတ်ဖျတ် တောက်လျက် ရှိသည်။ လည်ပင်းကြောများသည် ထောင်၍ ထလာကြသည်။

တွမ်ဂျုတ်ကတော့ နေရောင် ကွက်တိကွက်ကျား ထင်ဟပ်နေသော အရိပ် အောက်တွင် ငြိမ်ဆိတ်စွာ ရပ်နေသည်။ သူသည် ခေါင်းမှ ကတ်ဦးထုပ်ကို ဆွဲချွတ်လိုက်ပြီး မျက်နှာ တစ်ခုလုံးတွင် စိုရွှဲနေသော ချွေးသီး ချွေးပေါက်များကို သုတ်လိုက်၏။ ထို့နောက်

လက်တွင်းမှ ဦးထုပ်နှင့် ချိုင်းကြားတွင် လိပ်၍ ညှပ်ထားသော ကုတ်အင်္ကျီကို မြေကြီးပေါ်သို့ ပစ်ချလိုက်လေသည်။

အရိပ်အာဝါသ ကောင်းကောင်းအောက်တွင် အကျအန ထိုင်နေသူသည် တင်ပျဉ်ချိတ်ထားသည့် ခြေထောက်များကို ဖြုတ်လိုက်ပြီး ခြေချောင်းများဖြင့် မြေကြီးကို ထိုးဆွနေလေသည်။

"ဟေး" တွမ်ဂျုတ်က လှမ်း၍ နှုတ်ဆက်သည်။ "လမ်းပေါ်မှာ ပူနေပုံကဖြင့် ငရဲပြည်က အပူထက်တောင် ဆိုးမယ် ထင်တယ်နော်" ဟု ဆက်၍ ပြောသည်။

ထိုင်နေသူက တွမ်ဂျုတ်အား စူးစမ်းသည့် အကြည့်ဖြင့် ခပ်စိန်းစိန်း စိုက်ကြည့်ဆဲ။ "မင်း တွမ်ဂျုတ် မဟုတ်လား၊ ဟို အဘိုးအို တွမ်ရဲ့သားလေ"

"ဟုတ်တယ်ဗျ" ဟု တွမ်ဂျုတ်က ပြောသည်။ "အခု ကျုပ် အိမ်ပြန်မလို့လေ"

"မင်း ငါ့ကို မမှတ်မိဘူး ထင်တယ်" ဟု ထိုလူက ပြန်ပြောသည်။ တွမ်ဂျုတ်ကို ကြည့်၍ မြင်းသွားများနှင့် တူနေသော သွားကြီးများကို ပေါ်အောင် ပြုံးသည်။ "အိုး ဟုတ်တာပေါ့၊ မင်း ငါ့ကို ဘယ်မှတ်မိပါ့မလဲ၊ ငါ မင်းတို့အိမ် လာပြီး တရားဟောတဲ့ အခါတိုင်း မင်းက ကောင်မလေးတွေရဲ့ ကျစ်ဆံမြီးတွေ လိုက်ဆွဲဖို့လောက်ပဲ စိတ်ဝင်စားတဲ့ကောင်ပဲ၊ မင့်မှာ အဲဒီကိစ္စနဲ့ပဲ အလုပ်များနေတာပဲ၊ ကောင်မလေးတွေနဲ့ အမြဲတမ်း ပြဿနာ ရှုပ်နေတာပဲ၊ မင်း မမှတ်မိပေမဲ့ ငါကတော့ ကောင်းကောင်း မှတ်မိနေတယ်လေကွာ၊ တစ်ခါတုန်းက မင်းတို့နှစ်ယောက် ငါ့ဆီ လာဖူးတယ်လေ၊ ဘုရားသခင်ဆီမှာ ဆုတောင်းပေးဖို့ လာ အပူကပ်ကြတယ် မဟုတ်လား၊ ငါကလည်း ချက်ချင်းပဲ မင်းတို့နှစ်ယောက်ကို ချောင်းထဲမှာတင် နှစ်ခြင်းမင်္ဂလာ ပြုပေးလိုက်တယ်လေ၊ မင်းတို့နှစ်ယောက် တစ်ယောက်နဲ့တစ်ယောက် အော်ကြဟစ်ကြနဲ့ ဖြစ်နေလိုက်ကြတာ၊ ကြောင်နှစ်ကောင် ကိုက်နေသလား အောက်မေ့ ရတယ်၊ ဟား ဟား ဟား"

တွမ်ဂျုတ်က မျက်လုံးများကို အောက်စိုက်ပြီး ထိုလူ၏ မျက်နှာကို တစ်ချက် ဝေ့ကြည့်သည်။ ထို့နောက် သွားများကို ဖြဲ၍ ရယ်သည်။ "ခင်ဗျားက တရားဟောဆရာ၊ ဟာ ဟုတ်တာပေါ့၊ ခင်ဗျားဟာ တရားဟောဆရာပဲ၊ စောစောကတောင်မှ ကျုပ် ခင်ဗျားကို

သတိရလိုက်မိသေးတယ်၊ ငနဲတစ်ကောင်နဲ့ စကားစပ်မိပြီး သတိရလိုက်တာပါ။ ကျုပ် ခင်ဗျားကို သတိရခဲ့တာ တစ်နာရီတောင် မပြည့်သေးဘူး”

“အင်းပေါ့ကွာ၊ ငါဟာ တရားဟောဆရာ တစ်ယောက် ဖြစ်ခဲ့ဖူးတယ်ကွ” ဟု ထိုလူက ဆိုသည်။ “ခင်ကြီးဘွဲ့ရ ဓမ္မဆရာ ဂျင်ကတ်ဆီ ဆိုတဲ့ နာမည်တစ်လုံးနဲ့ နေလာခဲ့တာပေါ့ကွာ၊ အင်မတန် အယူအဆ ပြင်းထန်တဲ့ ဓမ္မဆရာတစ်ယောက်ပေါ့၊ ဂျီးဆပ်ရဲ့ နာမည်ကို တမ်းတမ်းတတ အော်နေရမှ စားဝင်အိပ်ပျော်တဲ့လူပေါ့ကွာ၊ ဒုစရိုက်မှု ပြုလာတဲ့ လူတွေကို အပြစ်ကင်းစင်သွားအောင် နှစ်ခြင်းမင်္ဂလာ ပြုပေးရတော့မယ်ဆိုရင် ငါဆိုတဲ့ကောင်က ချောင်းရေထဲ နှစ်ထားပြီး နှစ်ခြင်းမင်္ဂလာ ပြုပေးရမှ ကျေနပ်တဲ့ကောင်၊ အင်း ဒါပေမဲ့ အခုတော့လည်း ဒါတွေ မရှိတော့ဘူး၊ အားလုံး သွားကုန်ပြီ” ဟု ဆိုကာ သက်ပြင်းချသည်။ “အခုတော့ ဂျင်ကတ်ဆီ ဖြစ်သွားပြီ၊ သူလို ကိုယ်လို လူထဲက ဂျင်ကတ်ဆီ ဖြစ်သွားပြီပေါ့လကွာ၊ ငါ့ကို ပင့်မယ့် ဖိတ်မယ့်လူလည်း မရှိတော့ဘူး၊ ငါ့ခေါင်းထဲမှာလည်း မကောင်းတဲ့ ဒုစရိုက် အတွေးအခေါ်တွေနဲ့ စိတ်ကူးတွေပဲ ဝင်နေတယ်။ ဒါပေမဲ့ကွာ အဲဒီစိတ်ကူးတွေ အားလုံးဟာ အကြောင်းယုတ္တိ ခိုင်လုံသလိုလို ဆီလျော် မှန်ကန်သလိုလို ဖြစ်နေတယ်ကွာ”

“ခင်ဗျားအနေနဲ့ တောင်စဉ်ရေမရတွေ၊ မဟုတ်က ဟုတ်ကတွေ၊ တောက်တီး တောက်တဲ့တွေကိုသာ အဆက်မပြတ် လျှောက်တွေးနေမယ် ဆိုရင်ကတော့ စိတ်ကူးဆိုတာ ရှိလာမှာပဲပေါ့ဗျာ၊ မဆန်းပါဘူး၊ ကျုပ် ခင်ဗျားကို ကောင်းကောင်း မှတ်မိပြီဗျို့၊ သိလား၊ ခင်ဗျားရဲ့ တရားပွဲတွေဟာ အလွန် နာလို့ကောင်းတာပဲ၊ တစ်ခါတုန်းကလေ .. ထိုင်နေတဲ့ ပရိသတ်ကြားမှာ လမ်းသလားပြီး ခင်ဗျား ဟောပြောသွားပုံကို ကျုပ် ခုထက်ထိ မှတ်မိနေသေးတယ်၊ ခင်ဗျားအသံက ကျယ်လည်း ကျယ်တယ်၊ အော်လိုက်တဲ့အခါများ ခေါင်းတောင် ပြုတ်ထွက်သွားမလား အောက်မေ့ရတယ်၊ အမေကဆိုရင် တခြား တရားဟော ဆရာတွေထက် ခင်ဗျားကို ပိုပြီး သဘောကျတယ်ဗျ၊ ဘွားအေကြီးကဆိုရင် ခင်ဗျားကို ဘာပြောခဲ့တယ်မှတ်လဲ၊ စိတ်အား ထက်သန်တဲ့ နေရာမှာ ခင်ဗျားကို မီတဲ့လူမရှိဘူးဟဲ့ တဲ့” တွမ်ဂျုတ်က စကားကို ရပ်၍ သူ့ဘေး၌ ချထားသော ကုတ်အင်္ကျီကို လက်တစ်ဖက်ဖြင့် လျှောက်စမ်းသည်။ ဘေးအိတ်ထဲမှ ဝီစကီပုလင်းကို ဆွဲထုတ်သည်။ အင်္ကျီနှင့် ပတ်ထားသော လိပ်၏ ခြေတစ်ဖက် ထွက်လာပြီး တလှုပ်လှုပ် လုပ်နေသဖြင့် တွမ်ဂျုတ်က ကုတ်အင်္ကျီကို ယခင်ကထက် တိုး၍ တင်းကျပ်သွားအောင် ပြင်၍ လိပ်လိုက်၏။ သူသည် ဝီစကီ

ပုလင်းအဖုံးကို လှည့်ဖွင့်လိုက်ပြီး ပုလင်းကို ဂျင်ကတ်ဆီ ဘက်သို့ ထိုးပေးသည်။ "နည်းနည်းလောက် ချလိုက်ပါလား"

ကတ်ဆီက ပုလင်းကို လှမ်းယူပြီး ကိုင်ထားသည်။ သူ့စိတ်သူ ဝေခွဲ၍ မရနိုင်သည့်ပုံဖြင့် လက်ထဲမှ ပုလင်းကို စိုက်ကြည့်နေသည်။ "အခုဆို ဘာတရားမှ ငါ မဟောတော့ဘူးကွ၊ လူတွေမှာလည်း စိတ်ဓာတ်တက်ကြွမှုဆိုတာ မရှိတော့ပါဘူးကွာ၊ ပိုပြီးဆိုးတာက ငါကိုယ်တိုင်ကိုက စိတ်ဓာတ်တက်ကြွမှု မရှိတော့ဘူး၊ ဟောချင် ပြောချင်စိတ်လည်း ကုန်သလောက် ဖြစ်သွားတယ်၊ တစ်ခါတစ်ရံမှာတော့ မလုပ်မဖြစ်လို့ တရားပွဲ လုပ်လိုက်တယ်၊ လူတွေက အစားအစာ လာလှူကြတဲ့ အခါမျိုးမှာ ထုံးစံအတိုင်း ကောင်းချီးမင်္ဂလာ ပေးလိုက်တယ်၊ ဒါပေမဲ့ စိတ်ကတော့ မပါတော့ဘူး၊ တာဝန်အရ မလုပ်မဖြစ်လို့ လုပ်ပေးတဲ့ သဘောပဲ၊ တကယ်တော့ ငါ လုပ်ပေးရတာ ဘာကြောင့်လဲ၊ သူတို့က လုပ်ပေးစေချင်လို့ လုပ်ပေးနေတာ၊ အဲဒါပဲ"

တွမ်ဂျုတ်သည် သူ့ကတ်ဦးထုပ်နှင့် မျက်နှာပေါ်မှ ချွေးများကို ထပ်သုတ်သည်။ "အရက်ကလေး တစ်ငုံလောက် သောက်တာကို သိပ်ပြီး အပြစ်ကြီးတယ်လို့တော့ ခင်ဗျား မထင်ပါဘူးနော်" ဟု ကတ်ဆီကို မေးသည်။

ကတ်ဆီသည် အရက်ပုလင်းကို အခုမှ ပထမဦးဆုံးအကြိမ် မြင်ဖူးခြင်း ဖြစ်ဟန် တူ၏။ သူသည် ပုလင်းကို ပါးစပ်တွင် တေ့လိုက်ပြီး သုံးကြိမ် မော့သည်။ တစ်ကြိမ်မော့လျှင် အများကြီး။ "တော်တော့ကို အရသာရှိတဲ့ အရည်ပဲကွာ" ဟု ရေရွတ်လေသည်။

"ကောင်းရပေမပေါ့ဗျာ" ဟု တွမ်ဂျုတ်က ပြောသည်။ "ဒီဟာက စက်ရုံထွက် အရက်ပဲ၊ တစ်ဒေါ်လာတောင် ပေးရတာ"

ကတ်ဆီက သူ့လက်ထဲမှ ပုလင်းကို တွမ်ဂျုတ်အား ပြန်မပေးမီ တစ်ကြိမ် ထပ်မော့ပြန်သည်။ "ကောင်းပါပေ့ဗျာ" ဟုလည်း နှုတ်မှ ရေရွတ်သည်။

တွမ်ဂျုတ်က ကတ်ဆီ လှမ်းပေးသည့် ပုလင်းကို ပြန်ယူပြီး တစ်ကျိုက်မော့သည်။ သူ ယဉ်ကျေးကြောင်းကို ပြသလိုသဖြင့် အရက်ကို မမော့ခင် ပုလင်းအဝကို လက်နှင့်သုတ်ခြင်း မပြု။ သူသည် ဆောင့်ကြောင့်ထိုင်လိုက်ပြီး ဝီစကီပုလင်းကို သူ့ကုတ်အင်္ကျီတွင် မှီ၍ ထောင်ထားလိုက်သည်။ သူ့လက်ချောင်းများသည် သစ်ကိုင်း

တစ်ချောင်းကို စမ်းမိသည်။ ထိုသစ်ကိုင်းစဖြင့် မြေကြီးပေါ်တွင် သူ့စိတ်ကူးတည့်ရာ အရုပ်များ ရေးဆွဲရန် အကြံရလာသည်။ သူသည် သူ့မျက်စိအောက်မှ သစ်ရွက်ခြောက်များကို လက်နှင့် တွန်းဖယ်လိုက်သည်။ မျက်နှာပြင် ညီညာ ချော့မွေ့သွားအောင် ဖုန်များကို လက်ဖဝါးဖြင့် သပ်၍ လေးထောင့်စပ်စပ် အကွက်တစ်ကွက် လုပ်လိုက်သည်။ ထို့နောက် ထောင့်ပုံများနှင့် စက်ဝိုင်းပုံကလေးများ ဆွဲသည်။ "ကျုပ် ခင်ဗျားကို မတွေ့တာ အတော်ကြာသွားပြီ" ဟု ပြောသည်။

"ဘယ်သူမှ ငါ့ကို မတွေ့ဘူး" ဟု တရားဟောဆရာက ပြောသည်။ "ငါတစ်ယောက်တည်း လျှောက်သွားနေတာ ကြာပြီကွ၊ တစ်ခါတစ်လေ တစ်နေရာရာမှာ ငါ တစ်ယောက်တည်း ထိုင်ပြီး စဉ်းစားနေတာပဲ၊ ငါ့စိတ်ကတော့ တက်ကြွနေတုန်းပဲကွ၊ ဒါပေမဲ့ တစ်ခုတော့ ပြောစရာရှိတယ်၊ ဟိုတုန်းကနဲ့တော့ မတူဘူး၊ အခုဆိုရင် ငါ မယုံကြည်တာတွေကလည်း များလာတယ်၊ အိုကွာ ငါ့စိတ်ထဲမှာ မသေမချာ မရေမရာ ဖြစ်နေတာတွေ အများကြီးပါပဲကွာ" ကတ်ဆီသည် သူ့ကိုယ်သူ တည့်တည့်မတ်မတ် ဖြစ်သွားအောင် နေရာပြင်၍ ထိုင်လိုက်၏။ အရိုးထုလွန်းလှသော သူ့လက်တစ်ဖက်သည် သူ့အပေါ်အင်္ကျီ ဘေးအိတ်ကပ်ထဲ ဝင်သွားသည်။ လက် ပြန်ထွက်လာသည့်အခါ မည်းနက်နေသော ဆေးရွက်ကြီး တစ်တောင့် ပါလာသည်။ သူသည် ဆေးရွက်ကြီး အတောင့်တွင် ကပ်နေသည့် ကောက်ရိုးမျှင် အမှုန်အဖတ်များနှင့် အိတ်ကပ်ထဲတွင် ငြိတွယ်ပါလာသည့် ချည်မျှင် မွေးနကလေးများကို သေသေချာချာ ကြည့်ပြီး လက်ဖဝါးနှင့် လျှောက်သုတ်သည်။ ပြီးတော့ ဆေးတောင့်ကို ပါးစပ်တွင်းသို့ ထိုးထည့်လိုက်ပြီး တစ်ငုံစာ ကိုက်ဖြတ်ယူလိုက်ကာ ပါးစောင်တွင် ငုံထားလိုက်၏။ လက်ထဲမှ ဆေးရွက်တောင့်ကို တွမ်ဂျုတ်အား လှမ်းပေးလိုက်သည်။ တွမ်ဂျုတ်က မယူ။ သူ့လက်ထဲမှ တုတ်ချောင်းကို ယမ်းပြပြီး ငြင်းသည်။ တွမ်ဂျုတ် ကုတ်အင်္ကျီထဲမှ လိပ်သည် ရွစိရွစိ ဖြစ်လာပြန်သည်။ ကတ်ဆီက တလှုပ်လှုပ် ဖြစ်နေသော ကုတ်အင်္ကျီကို စိတ်ဝင်တစား ကြည့်သည်။ "ဟိုထဲက ဘာလဲ၊ ကြက်သူငယ်လား၊ အခုလို ထုပ်ထားရင် မွန်းပြီး သေသွားလိမ့်မယ်"

တွမ်ဂျုတ်က ကုတ်အင်္ကျီကို ပို၍ တင်းကျပ်သွားအောင် ပြင်၍ လိပ်သည်။ "လိပ်အိုကြီး တစ်ကောင်" ဟု လှမ်းပြောသည်။ "လမ်းမပေါ်က တွေ့လို့ ကောက်ထည့်လာတာ၊ မြေညှိစက်ဟောင်းကြီး တစ်စီးပေါ့၊ ကျုပ်ညီကလေးကို ပေးမယ်လို့ စိတ်ကူးထားတယ်၊ ချာတိတ်တွေက လိပ်မြင်ရင် သိပ်သဘောကျတာ"

ကတ်ဆီက ခေါင်းကို ဖြည်းလေးစွာ ညိတ်သည်။ "ကလေးတိုင်းဟာ တစ်ချိန်ချိန်မှာတော့ လိပ်တစ်ကောင် ရတတ်ကြတာပါပဲ၊ ဒါပေမဲ့ ရတဲ့လိပ်ကို ရာသက်ပန် မွေးမထားနိုင်ကြပါဘူးကွာ၊ ပထမတော့ ရောက်တဲ့နေရာမှာ နေကြပါရဲ့၊ နောက်ဆုံး တစ်နေ့ကျတော့ တစ်နေရာရာကို ထွက်ပြေးသွားကြတာချည်းပဲ၊ ငါနဲ့တူတယ်ကွ သိလား၊ ငါဟာ ငါနဲ့ လက်တစ်လှမ်းအကွာမှာ ရှိနေတဲ့ တရားစာအုပ်ကို မကိုင်ချင်ဘူး၊ အမှန်က အဲဒီ တရားစာအုပ်ကြီး ဟောင်းနွမ်း စုတ်ပြတ်သွားချိန်အထိ အဲဒီ စာအုပ်ကြီးနဲ့ တွဲပြီး အလုပ်လုပ် သွားရမှာ၊ အခုတော့ ငါက အဲသလို မဟုတ်ဘူး၊ တစ်ခါတစ်လေတော့ စိတ်က ရှိပါရဲ့၊ တစ်ခါတစ်လေကျတော့ ဟောစရာ ဘာမှ မရှိဘူး၊ ရှာလို့လည်း မရဘူး၊ ငါ့တာဝန်က လူတွေကို ဦးစီး ဦးဆောင်ပြုပြီး လမ်းညွှန်သွားဖို့၊ ခေါင်းဆောင်သွားဖို့၊ ဒါပေမဲ့ ငါ့မှာ လူတွေကို လမ်းညွှန်သွားစရာ ခေါင်းဆောင်သွားစရာ နေရာ မရှိတော့ဘူး"

"နေရာ မရှိတော့လည်း သူတို့ကို ဝိုင်းကြီးပတ်ပတ် လှည့်သလို လှည့်ခေါ် သွားနေပေါ့ဗျာ" ဟု တွမ်ဂျုတ်က ပြောသည်။ "ပြီးတော့ သူတို့ကို ချောင်းရေထဲ နှစ်ထားပေါ့၊ ခင်ဗျား တွေးသလို မတွေးရင် အားလုံး ငရဲပြည်မှာ မီးလောင်တိုက် အသွင်းခံကြရလိမ့်မယ် ပြောပေါ့၊ ခင်ဗျားက ဘာကြောင့် ဒုက္ခခံပြီး သူတို့ကို တစ်နေရာရာ ခေါ်သွားချင်နေရတာလဲ၊ အလကား" မိုးမခပင်၏ ပင်စည်အရိပ်သည် တဖြည်းဖြည်းချင်း ရှည်ထွက်လာနေသည်။ တွမ်ဂျုတ်က အရိပ်အောက်သို့ ရွှေ့၍ ဖင်ချထိုင်သည်။ စိတ်ကူးတည့်ရာ ပုံများလျှောက်၍ ရေးခြစ်ရန်အတွက် နေရာသစ်တစ်ခု ထပ်လုပ်သည်။

အမွေးထူထူနှင့် အဝါရောင် သိုးထိန်း ခွေးတစ်ကောင်သည် လမ်းမပေါ်အတိုင်း လျှောက်လာနေသည်။ ခွေး၏ နီရဲရဲ လျှာသည် အပြင်သို့ ထွက်လျက် ရှိ၏။ လျှာဖျားမှ သွားရည်စများသည် တစက်စက်ကျလျက် ရှိ၏။ ခွေး၏ အမြီးသည် မသိမသာ ကောက်လျက် ရှိသည်။ ခွေး၏ပါးစပ်မှ တဟောဟော တဟဲဟဲ မြည်သံသည် ကျယ်လောင်စွာ ထွက်ပေါ်လာလျက် ရှိသည်။ တွမ်ဂျုတ်က ခွေးကို လေချွန်၍ ခေါ်သည်။ သို့သော်လည်း ခွေးသည် လှည့်၍ ကြည့်ဖော်ပင် မရ။ သူ့ခေါင်းကို အနည်းငယ်မျှ အောက်သို့ ငိုက်စိုက်ချကာ လမ်းမပေါ်အတိုင်း လျင်မြန်စွာ ဆက်ပြေးသွားသည်။ "သူ တစ်နေရာရာကို သွားတာ ဖြစ်မယ်" ဟု တွမ်ဂျုတ်က ရေရွတ်သည်။ "အိမ်ပြန်တာ ဖြစ်ချင် ဖြစ်မှာပေါ့ဗျာ"

တရားဟောဆရာ ကတ်ဆီကတော့ ပြောလက်စ သူ့ပြဿနာ အပေါ်၌သာ စိတ်ဝင်စားလျက် ရှိသည်။ "ဟုတ်တယ်၊ သူ တစ်နေရာရာကို သွားတာပဲ ဖြစ်မယ်" တွမ်ဂျုတ်က ပြောလိုက်သည့် စကားကို ထပ်ပြောသည်။ "မင်းပြောတာ မှန်တယ်၊ သူ တစ်နေရာရာကို သွားနေတာ၊ ငါ့ကျတော့ ငါ ဘယ်နေရာကို သွားနေမှန်း မသိဘူး၊ ဘယ်လိုဖြစ်တယ်ဆိုတာ ငါ မင့်ကို ပြောပြရဦးမယ်၊ သိလား၊ ငါဟာ လူတွေကို စိတ်ချမ်းသာနေအောင် ငါ့လျှာကို အသုံးပြုပြီး တရား ဒေသနာတွေ ဟောတယ်၊ သူတို့ကို အစုလိုက် အပြုံလိုက် ရေနစ် ရေဖျန်း မင်္ဂလာ ပြုပေးတယ်၊ အဲဒီဟာတွေ လုပ်ပြီးတဲ့အခါကျတော့ ငါ ဘာလုပ်သလဲ၊ မင်း သိရဲ့လားဟင်၊ သူတို့ထဲက မိန်းမတစ်ယောက်ကို အပြင် တစ်နေရာရာ ခေါ်သွားပြီး မြက်ခင်းပြင်ပေါ်မှာ အတူတူ အိပ်တယ်၊ အဲဒီအလုပ်ဟာ အမြဲတမ်း လုပ်နေတဲ့ အလုပ်၊ လုပ်ပြီးရင် ငါ ဘာဖြစ်သလဲ၊ ငါ့စိတ်က မလုံတော့ဘူး၊ ငါ့စိတ်က ငါ့ကို အမြဲခြောက်လှန့်နေရော၊ ဒီတော့ စိတ်သက်သာရာ ရအောင် ဘုရားရှိခိုးတယ်၊ ရှိခိုးပြီးရင်း ရှိခိုးရင်းနဲ့ အချိန်ကုန်ရတယ်၊ ဒါပေမဲ့ စိတ်က သက်သာရာ မရဘူး၊ အဲ ... နောက်တစ်ကြိမ် သူတို့ဆီ ရောက်သွားပြန်ရော၊ စိတ်အားထက်သန်မှု အပြည့်အဝနဲ့ တရားဟောမိပြန်ရော၊ ငါ ဒီတစ်ကြိမ်တော့ ဟိုတစ်ခါတုန်းက လုပ်သလို မလုပ်တော့ဘူးလို့ စိတ်ကတော့ ပိုင်းဖြတ်ထားပါရဲ့၊ ဒါပေမဲ့ လက်တွေ့ကျတော့ မရပြန်ဘူး၊ လုပ်မိပြန်တာပဲ၊ ငါဟာ သူတော်ကောင်း ကြွက်သူခိုး ဖြစ်ပါပေါ့လားလို့ တွေးပြီး ဒေါသဖြစ်မိတယ်၊ ငါ့စိတ်ရင်း အမှန်ကတော့ ဒီအလုပ်ကို မလုပ်ချင်တာ အမှန်ပါပဲကွာ၊ ဒါပေမဲ့ အခါအခွင့် သင့်လာရင် မရှောင်နိုင်ဘူး ဖြစ်ဖြစ်သွားတယ်ကွ"

တွမ်ဂျုတ်က သွားဖြဲ၍ ရယ်လိုက်ပြီး သူ့နှုတ်ခမ်းများကို လျှာနှင့် ထိုး၍ လျက်သည်။ "လောကကြီးမှာ မိန်းမတွေနဲ့ တွေ့ပြီး အိပ်ရတာလောက် ကောင်းတဲ့အလုပ်က မရှိဘူးလေဗျာ" ဟု သူက ပြောသည်။ "ကျုပ်ကိုယ်တိုင်လည်း ဒီအလုပ်မျိုး လုပ်ခဲ့ဖူးတာပဲ"

စိတ်လှုပ်ရှားလျက်ရှိသော ကတ်ဆီသည် သူ့ကိုယ်ကို တွမ်ဂျုတ်ဘက်သို့ ကုန်းလိုက်သည်။ "ဟော့ ဒီမှာ ငါ ပြောမယ်" ဟု ဆိုကာ အရိုးပေါ် အရေတင် ဖြစ်နေသော သူ့လက်တစ်ဖက်ကို ယမ်းလိုက်သည်။ "ငါ့အနေနဲ့ ဒီလိုတွေးရင်တော့ ရမယ်ထင်တာပဲ၊ ငါက သူတို့ကို မွန်မြတ်တဲ့ တရားဒေသနာတွေ ဟောပြောပေးတယ်၊ သူတို့ကလည်း ငါ ဟောတဲ့ တရားသဘောကို ပေါက်ကြတယ်၊ အဲဒီတော့ သူတို့အထဲက မိန်းကလေး

တစ်ယောက်နဲ့ အိပ်တာဟာ ငါ့အပြစ် မဟုတ်ဘူး၊ နတ်မိစ္ဆာတွေက ဖျက်ဆီးလို့ ဖြစ်ရတာ၊ အဖျက်အဆီး ဝင်တာ၊ မိန်းကလေးတစ်ယောက် အဖို့လည်း တရားသဘော ပေါက်လေလေ အပြင်ဘက် မြက်ခင်းပြင်ပေါ်မှာ ထွက်အိပ်ချင်စိတ် မြန်မြန်ပေါ်လေ ဖြစ်တတ်တဲ့ သဘော ရှိတယ်၊ ဒါပေမဲ့ကွာ ငါ့ခေါင်းထဲမှာ အတွေးတစ်မျိုး ဝင်လာပြန်တယ်၊ ဒီမိန်းကလေး ငါ့ကြောင့် ငရဲပြည် ရောက်သွားရင် ဘယ်လိုဖြစ်မလဲ၊ တရားသဘော သိပ်ပေါက်ချင်နေတဲ့ မိန်းကလေး တစ်ယောက်ကို နတ်ဆိုး နတ်မိစ္ဆာတွေက ဘယ်လိုပူးပြီး ဖျက်ဆီးခဲ့သလဲ၊ ဖျက်ဆီးလို့ ရသလားလို့ ဆိုလိုက်ရင် ခွမကျပေဘူးလား"

အပြင်းအထန် စိတ်လှုပ်ရှားနေသော ကတ်ဆီ၏ မျက်လုံးများသည် တလက်လက် တောက်ပြောင်လျက် ရှိသည်။ သူသည် ပါးစပ်ကို စုလိုက်ပြီး သူ့ရှေ့မှ ဖုန်များပေါ်သို့ ထွီခနဲ တံတွေးတစ်ချက် ထွေးလိုက်၏။ သူ့တံတွေးစက်များသည် ဖုန်နှင့် လုံးထွေးသွားသည်။ သူသည် လက်ဝါးတစ်ဖက်ကို ဖြန့်၍ စာအုပ်တစ်အုပ် ရှေ့ထားပြီး စိတ်ဝင်တစား ဖတ်နေသည့်အလား စူးစူးစိုက်စိုက် ကြည့်နေသည်။ "ပြီးတော့လည်း ငါ့မှာက ... " သူ့အသံမှာ တိုးသွားသည်။ "သူတို့အားလုံးရဲ့ ဝိညာဉ်တွေဟာ ငါ့လက်ထဲ ရောက်နေတာကွ၊ ငါ့မှာ တာဝန်ရှိတယ်လို့ပဲ စိတ်ထဲက ခံစားနေရတာ၊ မိန်းကလေး တစ်ယောက်နဲ့ အိပ်နေတဲ့ အချိန်တိုင်းလိုလိုပဲ ငါ့စိတ်ထဲမှာ အဲဒီအသိကြီးက ဝင်နေတယ်" သူသည် တွမ်ဂျုတ် မျက်နှာကို လှမ်းကြည့်သည်။ သူ့မျက်နှာသည် အားကိုးရာမဲ့ ဖြစ်ခြင်းကို ဖော်ပြလျက် ရှိသည်။ သူ့မျက်နှာထားသည် အကူအညီပေးဖို့ တောင်းခံလျက် ရှိလေသည်။

တွမ်ဂျုတ်သည် လက်ထဲမှ တုတ်ချောင်းဖြင့် မိန်းမပုံ တစ်ပုံကို စိတ်ပါလက်ပါ ဆွဲသည်။ ပုံက ကိုယ်လုံးတီးပုံ။ ရင်သား၊ တင်ပါး၊ ဆီးစပ်နှင့် ပီပီပြင်ပြင်။ "ကျုပ်ကတော့ တရားဟောဆရာမှ မဟုတ်တာ၊ ခင်ဗျားတွေးသလို ဘယ်တွေးပါ့မလဲ" ဟု သူကပြောသည်။ "မိန်းမဆို အသေရရ အရှင်ရရ မိအောင်ဆွဲတာပဲ၊ ဘယ်တော့မှ လက်လွှတ်မခံဘူး၊ တစ်ယောက်လောက် လက်ထဲ ရောက်လာပြီဆို ပျော်နေတာပဲ၊ ပျော်ဖို့ကလွဲပြီး တခြားဘာကိုမှ အချိန်ကုန်ခံပြီး မတွေးတော့ဘူး"

"ဒါပေါ့၊ မင်းက တရားဟောဆရာမှ မဟုတ်ဘဲကိုးကွ" ဟု ကတ်ဆီက ပြန်ပြောသည်။ "မင်းအတွက်တော့ မိန်းမတစ်ယောက်ဟာ ရိုးရိုး သာမန် မိန်းမတစ်ယောက်ပဲပေါ့၊ ဒီထက် မပိုဘူး၊ ဒါပေမဲ့ ငါ့ကျတော့ မိန်းမတွေဟာ အပြစ်အနာအဆာ ကင်းမဲ့ပြီး သန့်စင်တဲ့ အရာတစ်ခု ဖြစ်နေတယ်၊ ငါက သူတို့

ဝိညာဉ်တွေကို ကယ်တင်နေရတာ မဟုတ်လား၊ ငါ့ရဲ့ တာဝန်အရ သူတို့ကို မွန်မြတ်တဲ့ တရားတွေ ဟောပြော ပြသပေးတယ်၊ ပြီးတော့မှ သူတို့ကို မြက်ခင်းပေါ် ခေါ်သွားပြီး .... ”

“အင်းပေါ့လေ၊ ဟုတ်ပေမပေါ့၊ ကျုပ် တရားဟောဆရာ ဖြစ်ဖူးရင်လည်း အကောင်းသား ” ဟု တွမ်ဂျုတ်က ပြောသည်။ သူသည် ဆေးမှုန့်အိတ်နှင့် စက္ကူလိပ်ကို ဆွဲထုတ်ကာ စီးကရက်တစ်လိပ် လိပ်သည်။ စီးကရက်ကို မီးညှိပြီး အားရပါးရ ဖွာလိုက်ကာ တလွင့်လွင့် တက်နေသော မီးခိုးများကြားမှနေ၍ ကတ်ဆီကို ချောင်းကြည့်သည်။ “ကျုပ်လည်း မိန်းမအနံ့ မခံရတာ အတော့်ကို ကြာသွားပြီဗျာ ” ဟု ညည်းသည်။ “အိမ်ပြန်ရောက်ရင်တော့ တစ်ယောက်လောက်ရှာပြီး ဆွဲရဦးမှာပဲ ”

ကတ်ဆီကတော့ သူ ပြောချင်တာကိုသာ ဆက်ပြောပြန်သည်။ “ဒီသောက ကြောင့် ငါ အိပ်မပျော်ဘူးကွာ၊ နောက်တစ်ကြိမ် တရားပွဲ လုပ်တော့မယ်ဆိုရင် ငါကိုယ်တိုင် ဘုရားသခင်ကို အာရုံပြုပြီး အဲဒါ ဘုရားသခင်ရယ်၊ ဒီတစ်ကြိမ်တော့ တပည့်တော် ဟို အလုပ်မျိုး မလုပ်တော့ပါဘူးလို့ တိုင်တည်တယ်၊ တိုင်တည်နေတဲ့ အချိန်မှာတော့ နောက်ထပ် တကယ်ကို မလုပ်တော့ဘူးဆိုတဲ့ စိတ်နဲ့ တိုင်တည်ခဲ့တာပါကွာ ”

“အင်း ခင်ဗျားမှာ မိန်းမရှိရင် ကောင်းမယ်ဗျ ” ဟု တွမ်ဂျုတ်က ဆိုသည်။ “တစ်ခါတုန်းက တရားဟောဆရာတစ်ယောက် သူ့မိန်းမနဲ့ ကျုပ်တို့ဆီမှာ နေသွားဖူးတယ်၊ သူတို့ကတော့ ဂျေဟိုဝါ ဘာသာရေး ဂိုဏ်းဝင်တွေဗျ၊ သူတို့အိပ်တော့ ကျုပ်တို့ အိမ်အပေါ်ထပ်မှာ၊ တရားပွဲလုပ်ရင်တော့ ကျုပ်တို့ စပါးကျီဝင်းထဲမှာ လုပ်တယ်၊ ကျုပ်တို့က ကလေးတွေ ဆိုတော့ ဘာမှ နားမလည်ဘူး၊ တရားပွဲလုပ်ရင် ဝင်နားထောင်တာပဲ၊ ညပိုင်း တရားပွဲ ပြီးမလားဆိုရင်တော့ အိမ်အပေါ်ထပ်က တရားဟောဆရာ မိန်းမရဲ့ ထုသံထောင်းသံတွေဟာ တစ်ခါတည်း ကျွတ်ကျွတ် ညံနေတာပဲ ”

“မင်းရဲ့ အတွေ့အကြုံကို ခုလို ပြောပြတဲ့အတွက် ငါ ဝမ်းသာတယ်ကွာ ” ဟု ကတ်ဆီက ပြောသည်။ “ဘာပဲဖြစ်ဖြစ် ဒီကိစ္စဟာ ငါ့အပြစ်ပဲလို့ တောက်လျှောက် တွေးနေမိတာပဲကွာ၊ နောက်ဆုံးတော့ ဒီစိတ်ကြောင့် ငါ တရားဟောချင်စိတ်လည်း မရှိတော့ဘူး၊ အမျိုးသမီးနဲ့လည်း လုံးဝ အဆက်အသွယ် မလုပ်တော့ဘူး၊ ငါ့ဘာသာငါ တစ်ယောက်တည်း အခုလို ခြေဦးတည့်ရာ လျှောက်သွားနေတာပဲ ” သူသည် ခြေထောက်များကို တစ်ချောင်းပေါ် တစ်ချောင်း ထပ်တင်လိုက်ပြီး ခြေချောင်းများကြား၌

ကပ်နေသော ဖုန်များကို ခြေထောက်ချင်း ပွတ်၍ သုတ်သည်။ "တစ်ခါတစ်လေ ငါ့ကိုယ်ငါ မေးမိတယ်၊ မင်း ဘာဖြစ်နေတာလဲ၊ မင်း ရူးနေပြီလားလို့၊ အဲဒီကျတော့လည်း မင်း မရူးဘူး၊ ဒီကိစ္စဟာ ဒုစရိုက်မှုကွလို့ အဖြေရတယ်"

သူသည် သူ့လက်ဖဝါးကို စူးစိုက်၍ ကြည့်ကာ စကားကို အေးဆေး တည်ငြိမ်စွာဖြင့် တစ်လုံးချင်းပြောလျက် ရှိသည်။ "အင်း ဒီကိစ္စဟာ ငါထင်သလို ဒုစရိုက်မှုတစ်ခု ဟုတ်ချင်မှ ဟုတ်မှာပါ၊ သာမန် ပုထုဇဉ် လူသားတွေမှာ ဖြစ်လေ့ဖြစ်ထရှိတဲ့ အဖြစ်မျိုးထက် ပိုမယ် မထင်ပါဘူး၊ ဒီပြဿနာ ငါ့ခေါင်းထဲ ဝင်လာပြီဆိုရင် ငါ သစ်ပင်အောက်မှာ ထိုင်ပြီး တွေးတာပဲ၊ တွေးရင်း တွေးရင်းနဲ့ပဲ အိပ်ပျော်သွားရော၊ အိပ်ရာကနိုးတော့ မိုးချုပ်နေပြီ၊ အဲ ညပိုင်းကျပြန်တော့ ဒီအတွေးက ဝင်လာပြန်ရော၊ ကြာတော့ ငါ စိတ်မရှည်တော့ဘူး၊ စိတ်တိုတိုနဲ့ ထအော်မိတယ်၊ သောက်သုံးမကျတဲ့ အတွေး၊ လောကကြီးမှာ ဒုစရိုက်လည်း မရှိဘူး၊ သုစရိုက်လည်း မရှိဘူး၊ လူတွေ လုပ်နေတဲ့ ဟာတွေက လွဲပြီး ဘာမှ မရှိဘူး၊ လူတွေ လုပ်နေသမျှထဲက တချို့ဟာ ကောင်းတယ်၊ တချို့ကျတော့ မကောင်းဘူး၊ ဒါပဲ ရှိတယ်၊ တကယ်တမ်းကျတော့ ကောင်းတယ် မကောင်းဘူး ဆိုတာဟာလည်း ပြောခွင့်ရှိလို့ ပြောနေကြတဲ့ သဘောပဲ ရှိတယ်၊ ဒီထက် မပိုဘူး၊ ဘာ ဂရုစိုက်နေစရာ လိုသလဲလို့" သူသည် စကားကို ရပ်လိုက်သည်။ လက်ဖဝါးပေါ်၌ စူးစိုက်ထားသည့် မျက်လုံးများ၏ အကြည့်ကို တစ်နေရာသို့ ရွှေ့လိုက်သည်။

တွမ်ဂျုတ်က သွားဖြဲ၍ ပြုံးကြဲကြဲ လုပ်နေသည်။ သူ့မျက်လုံးများသည် တောက်ပြောင် လာသည်။ တစ်စုံတစ်ခုအပေါ်၌ အလွန် စိတ်ဝင်စားနေသည့်ဟန် ပြလာသည်။ "ခင်ဗျား အမျိုးသမီးကို စွန့်ပစ်လိုက်ပြီလား၊ မေ့ပစ်လိုက်ပြီ ဆိုပါတော့၊ ဟုတ်လား"

ကတ်ဆီက တွမ်ဂျုတ်၏ အမေးကို မဖြေ။ သူပြောချင်သမျှကို ဆက်ပြောသည်။ သူ့အသံတွင် နာကြည်းခြင်းနှင့် စိတ်ရှုပ်ထွေးခြင်းများ ယှက်နွယ်နေသည်။ "ဒီ မြတ်သော မနောဆိုတာက ဘာအဓိပ္ပါယ်လဲ၊ ငါ စဉ်းစားတယ်၊ ငါ စဉ်းစားမိသလောက် ပြောရရင်တော့ မြတ်သော မနောဆိုတာ မေတ္တာစိတ်ကို ပြောတာပဲကွ၊ ရိုးရိုးရှင်းရှင်း ပြောရရင် ချစ်တဲ့စိတ်ပေါ့ကွ၊ ငါဟာ လူတွေကို သိပ်ချစ်လွန်းတဲ့အတွက် ကိုယ့်ကိုယ်ကို ပျက်စီးသွားအောင် ဖျက်ဆီးပစ်ဖို့တောင် သင့်ပြီလို့ တစ်ခါတစ်လေ တွေးမိတယ်၊ ပြီးတော့

ငါ့ကိုယ်ငါ မေးမိတယ်၊ မင်း သခင်ယေရှုကို ချစ်မြတ်နိုးသလားလို့၊ ဒီမေးခွန်း အဖြေကို ရဖို့အတွက် ငါ စဉ်းစားတယ်၊ စဉ်းစားပြီးရင်း စဉ်းစားရင်းနဲ့ အချိန်တွေ အများကြီး ကုန်ခဲ့ရတယ်၊ နောက်ဆုံးကျတော့ ကိုယ့်ဘာသာကိုယ် ပြောမိတယ်၊ မချစ်ဘူး၊ သခင်ယေရှုဆိုတဲ့ နာမည်နဲ့ လူဆိုလို့ တစ်ယောက်မှ ငါ့အသိထဲမှာ မရှိဘူး၊ သူနဲ့ ပတ်သက်လို့ ပုံပြင်တွေ ဝတ္ထုတွေတော့ အများကြီး သိတယ်၊ ဒါပေမဲ့ သူနဲ့ငါ လူချင်းမှ မသိတာ၊ အမှန်တကယ် ငါ ချစ်မြတ်နိုးတာက လူတွေပဲ၊ တစ်ခါတစ်လေ ကိုယ်ကျိုးထိခိုက် ဆုံးရှုံးသွားလောက်အောင် လူတွေကို ချစ်မိတယ်၊ ငါ သူတို့ကို စိတ်ချမ်းသာအောင် လုပ်ပေးချင်တယ်၊ ဒါကြောင့်မို့ သူတို့အတွက် စိတ်ချမ်းသာရာ ချမ်းသာကြောင်း ဖြစ်နိုင်မယ်လို့ ထင်ရတဲ့ တရားတွေကို ငါ ဟောပြောပေးနေတာပဲလို့၊ တကယ်ပါကွာ၊ ငါ အများကြီးကို ဟောခဲ့ ပြောခဲ့တာပါ၊ ရှန့်ရင်းကြမ်းတမ်းတဲ့ စကားလုံးတွေ ငါ့ပါးစပ်က ထွက်လာတဲ့အခါမှာ မင်း အံ့သြချင် အံ့သြလိမ့်မယ်၊ ဒါပေမဲ့ ငါ့အဖို့တော့ ဒီစကားလုံးတွေဟာ ရှန့်ရင်း ကြမ်းတမ်းမှု မရှိတော့ဘူး၊ လူအများစု သုံးနေတဲ့စကား ဖြစ်သွားပြီ၊ ငါ တွေးလို့ရထားတဲ့အချက် တစ်ချက်ကိုတော့ ငါ မင်းကို ပြောပြရဦးမယ်၊ အဲဒီ အချက်ဟာ တရားဟောဆရာ တစ်ယောက် ရှုထောင့်ကနေ ကြည့်ရင် အလွန်ကို ဘာသာရေးမဆန်တဲ့ အချက်တစ်ချက် ဖြစ်နေတယ်ကွ၊ သိလား၊ ဒီအချက်ကို ငါ စိတ်ကူးမိတဲ့အတွက်ရယ်၊ ပြီးတော့ ဒီအချက်အပေါ်မှာ ယုံကြည်မိတဲ့ အတွက်ရယ်၊ အဲဒီ အကြောင်းနှစ်ခုကြောင့် ငါဟာ ရှေ့လျှောက် ဘယ်နည်းနဲ့မှ တရားဟောဆရာတစ်ယောက် မဖြစ်နိုင်တော့ဘူးကွ"

"ဘာများလဲဗျာ၊ ဆိုပါဦး" ဟု တွမ်ဂျုတ်က မေးသည်။

ကတ်ဆီက မလုံမလဲ ဖြစ်နေသော မျက်နှာထားဖြင့် တွမ်ဂျုတ်ကို ကြည့်သည်။ "တကယ်လို့ ငါ ပြောလိုက်တဲ့ အချက်ကို မင်း သဘောမကျဘူး ဆိုရင်တော့ စိတ်မဆိုးနဲ့ပေါ့ကွာ၊ မင်း စိတ်ဆိုးမှာလား"

"ဆိုးပါဘူးဗျာ၊ ဆိုးလည်း ကျုပ်နှာခေါင်း ပွလာရုံလောက်ပဲ ဖြစ်မှာပါ၊ ဒီထက် မပိုပါဘူး" ဟု တွမ်ဂျုတ်က ဆိုသည်။ "ကဲ ပြောစမ်းပါဦး၊ ခင်ဗျား တွေးမိတဲ့အချက်"

"သူတို့ ပြောနေကြတဲ့ မြတ်သော မနော ဆိုတဲ့ မေတ္တာစိတ်နဲ့ သခင်ယေရှုရဲ့ လမ်းစဉ်ကို ငါ ဆက်စပ်ပြီး စဉ်းစားကြည့်ခဲ့တယ်၊ ငါတို့အနေနဲ့ ဘာကြောင့် ဒီမြတ်သော

မနောဆိုတဲ့ မေတ္တာစိတ်ကို ဘုရားသခင်အပေါ် သခင်ယေရှုအပေါ် တာဝန်ပေးချင်နေရတာလဲ၊ အမှန်က ဒီစိတ်ဟာ ငါတို့ မင်းတို့ ချစ်ခင်နေကြတဲ့ ယောက်ျားတွေ မိန်းမတွေ အားလုံးနဲ့ ဆက်စပ်တဲ့ကိစ္စ မဟုတ်ဘူးလား၊ မြတ်သော မနောဆိုတဲ့ မေတ္တာစိတ်ဟာ လူ့စိတ်ပဲကွ၊ ဒီစိတ်တစ်ခုလုံးဟာ လူသားတွေနဲ့ ဆိုင်တဲ့ စိတ်ပဲ၊ လူ့အားလုံးဟာ လူတစ်ယောက်ချင်းစီ အစိတ်အပိုင်း ဖြစ်နေတဲ့ အင်မတန် ကြီးမားတဲ့ ဝိညာဉ်ကြီးတစ်ခုကို တွေးရင်းကပဲ ဒီအချက်ကို ငါ သဘောပေါက်လာတယ်၊ အင်မတန် လေးနက်တယ်ကွ၊ သိလား၊ လေးနက်လွန်းတဲ့ အတွက်လည်း ဒီအချက်ကို မှန်ကန်တယ်လို့ ငါ ယုံကြည်လာတယ်”

တွမ်ဂျုတ်က မျက်လွှာချထားသည်။ သူ့မျက်လုံးများသည် တရားဟောဆရာ၏ ရိုးသားဖြူစင်သော မျက်လုံးများကို ရင်ဆိုင်၍ မကြည့်ဝံ့သည့်နှယ် မြေကြီးပေါ်သို့ စိုက်ထားသည်။ “အဲဒါဆိုရင်တော့ သွားပြီ၊ ဒီလို အတွေးအခေါ်မျိုးနဲ့ဆိုရင် ဘယ်ဘာသာ အယူဝါဒကမှ ခင်ဗျားကို လက်ခံမှာ မဟုတ်ဘူး” ဟု တွမ်ဂျုတ်က ပြောသည်။ “ဒီလို အတွေးအခေါ်မျိုးနဲ့ ဆိုရင် လူတွေအားလုံးက ခင်ဗျားကို ဒီနယ်ထဲက မောင်းထုတ်ကြလိမ့်မယ်၊ ခင်ဗျားကို ဝိုင်းပြီး ဆဲကြ ဆိုကြ ရှုတ်ချကြလိမ့်မယ်၊ လူတွေက အဲသလိုမျိုးဗျ၊ ခင်ဗျားစကားကြားရင် သူတို့ စိတ်ဆိုးမှာ ဒေါသဖြစ်မှာ သေချာတယ်၊ ကျုပ်ဘွားအေကြီးသာ သိရင် ခင်ဗျားအတွက် မလွယ်ကြောပဲ၊ ဒီကိစ္စကြောင့် သူနဲ့သာ ပါးစပ်စစ်ပွဲ ဖြစ်ကြရင်တော့ ခင်ဗျား သူ့ကို ကြိုးနဲ့တုပ်ထားလို့လည်း ရမှာ မဟုတ်တော့ဘူး၊ အတော်အသင့် ထွားထွားကျိုင်းကျိုင်း တရားဟောဆရာ တစ်ယောက်တော့ ကျုပ်ဘွားအေကြီးက အပျော့ပဲ၊ သူ့လက်သီး တစ်ချက်မိရင် ဆန့်ခန် နေမှာ”

ကတ်ဆီက ဘဝင်မကျ ဖြစ်နေဟန်ဖြင့် တွမ်ဂျုတ်အား ကြည့်နေသည်။ “ငါ မင်းကို တစ်ခုလောက် မေးချင်တယ်” ဟု ပြောသည်။ “ငါ့စိတ်ကို ဒုက္ခပေးနေတဲ့ဟာ တစ်ခု ဆိုပါတော့ကွာ”

“မေးလဗျာ၊ ကျုပ်သိရင် ပြောပြမှာပေါ့”

“ဒီလိုကွ” တရားဟောဆရာက တုံ့ဆိုင်းဆိုင်း ပြောသည်။ “တရားဟောဆရာ တစ်ယောက်အဖြစ်နဲ့ အောင်မြင်မှုသရဖူ ဆောင်းနေချိန်တုန်းက ငါ မင်းကို နှစ်ခြင်းမင်္ဂလာ ပြုပေးခဲ့ဖူးတယ်လေ၊ အဲဒီနေ့က ငါ့ပါးစပ်က သခင်ယေရှု နာမည်ကို အကြိမ်ကြိမ်

ပြောခဲ့တယ်၊ မင်းကတော့ မှတ်မိမယ် မထင်ဘူး၊ ဘာကြောင့်လည်းဆိုတော့ မင်းက ဟို ကျစ်ဆံမြီး တွဲလောင်းနဲ့ ကောင်မလေးက လွဲပြီး ဘာမှမသိတဲ့ အဖြစ် ရောက်နေတာကိုး ”

“ကျုပ် မှတ်မိပါတယ်ဗျာ ” ဟု တွမ်ဂျုတ်က ပြောသည်။ “အဲဒီ ကောင်မလေးဟာ ဆူဆီငယ်ပေါ့၊ နောက်တစ်နှစ်လောက်ကြာတော့ ကျုပ်ကို ခွာပြေးတော့တာပဲ ”

အင်း ဟုတ်ပြီ ငါ နှစ်ခြင်းမင်္ဂလာ ပြုပေးပြီးတဲ့နောက် မင့်မှာကောင်းတာတွေ ဖြစ်ခဲ့သလား၊ မင်း အခြေအနေဟာ ပိုပြီး ကောင်းလာသလား ”

တွမ်ဂျုတ်က စဉ်းစားနေသည်။ “မ ... မ ... မကောင်းလာ ... ပြောရတာတော့ အခက်သားပဲ၊ ကျုပ် မပြောတတ်ဘူး ”

“ဒီလိုဆိုရင် မကောင်းတာတွေကော ဖြစ်ခဲ့ဖူးလား၊ သေသေချာချာ ထပ်ပြီး စဉ်းစားစမ်းပါဦး”

တွမ်ဂျုတ်က ဝီစကီပုလင်းကို ကောက်ယူလိုက်ပြီး တစ်ကျိုက်မော့သည်။ “အကောင်းရော အဆိုးရော ထူးထူးခြားခြား ဘာမှ မဖြစ်ခဲ့ပါဘူးဗျာ၊ ပျော်ခဲ့ရတာ တစ်ခုပဲ ရှိပါတယ် ” တွမ်ဂျုတ်က လက်ထဲမှ ဝီစကီပုလင်းကို ကတ်ဆီအား လှမ်းပေးသည်။

ကတ်ဆီသည် သိသိသာသာ လျော့နည်းသွားပြီ ဖြစ်သော ဝီစကီပုလင်းကို ကြည့်၍ သက်ပြင်းတစ်ချက် ချသည်။ တစ်ငုံစာမျှ သောက်လိုက်ပြီး “ကောင်းသကွာ ” ဟု ရေရွတ်လိုက်၏။ “ငါ့မှာ စိတ်ပူစရာ တစ်ခုတော့ ရှိတယ်ကွ၊ ငါ အခုလို လျှောက်သွားနေရင် တစ်စုံတစ်ဦးကုများ ထိခိုက်မလား၊ အဲဒီ တစ်ချက်တော့ တွေးပြီး ပူနေမိတယ် ”

တွမ်ဂျုတ်က သူ့ကုတ်အင်္ကျီကို လှမ်းကြည့်သည်။ အင်္ကျီထဲမှ လိပ်သည် အပြင်သို့ ရောက်နေသည်။ လာလမ်းဘက်ဦးတည်၍ တလှုပ်လှုပ် တွားသွားလျက် ရှိ၏။ တွမ်ဂျုတ်က လိပ်၏ လှုပ်ရှားပုံကို အတန်ကြာမျှ စောင့်ကြည့်နေသည်။ ထို့နောက် ထိုင်ရာမှ ထသွားပြီး လိပ်ကို ပြန်ကောက်ကာ အင်္ကျီထဲသို့ ပြန်ထည့်ထုပ်လိုက်လေသည်။ “ချာတိတ်တွေ အတွက် ဘာလက်ဆောင်မှ မပါဘူးဗျ” ဟု ဆိုသည်။ “ဒီလိပ်ကလွဲပြီး တခြား ဘာမှလည်း မရှိဘူး”

"ရယ်စရာတော့ အကောင်းသားကွ" ဟု ကတ်ဆီက ပြောသည်။ "မင်း လျှောက်လာနေတဲ့အချိန်မှာ ငါကလည်း ဘိုးဘိုး တွမ်ဂျတ်ရဲ့ အကြောင်းကို စဉ်းစားနေတာ၊ သူနဲ့ သွားတွေ့ရင် ကောင်းမလားလို့ တွေးနေတာ၊ သူက ဘုရားမရှိတဲ့ လူတစ်ယောက်ပဲ၊ မင်းအဖေ တွမ်ဂျတ်ရော နေကောင်းရဲ့လား"

"ကျုပ်လည်း မသိဘူး၊ ကျုပ် အိမ်နဲ့ကွဲနေတာ လေးနှစ် ရှိသွားပြီ"

"သူက စာမရေးဘူးလား"

တွမ်ဂျတ်သည် ဤမေးခွန်းအတွက် စိတ်ရှုပ်သွားပုံရသည်။ "အင်း ... အဖေက စာရေးဖို့ကျတော့ ကောင်းကောင်း မရေးတတ်ဘူးဗျ၊ သူ့လက်မှတ်ကို ထိုးတဲ့နေရာမှာတော့ တခြားလူတွေလိုပဲ လှလှပပ ဖြစ်အောင် ထိုးတတ်တယ်၊ ခဲတံကို တံတွေးဆွတ်ပြီး အပုံစားဖြစ်နေအောင် ထိုးတာ၊ ဒါပေမဲ့ စာကျတော့ သူ မရေးချင်ဘူး၊ သူ့ပါးစပ်နဲ့ လူတစ်ယောက် နားလည် သဘောပေါက်သွားအောင် ပြောနိုင်တဲ့ စကားတွေကို ခဲတံက မီအောင် လိုက်လို့ မရပါဘူးကွာလို့ သူ အမြဲပြောလေ့ရှိတယ်"

"နေစမ်းပါဦး၊ မင်း အခု ဘယ်က ပြန်လာတာလဲ၊ ခရီးရှည် ထွက်တာလား" ဟု ကတ်ဆီက မေးသည်။

တွမ်ဂျတ်က ကတ်ဆီအား မသင်္ကာသော မျက်နှာထားဖြင့် ကြည့်သည်။ "ခင်ဗျား ကျုပ်အကြောင်း မကြားဘူးလား၊ သတင်းစာ အားလုံးမှာ ကျုပ်အကြောင်း ပါတာပဲ"

"ဟင့်အင်း၊ လုံးဝ မသိဘူး၊ ဘာဖြစ်လို့လဲ" ကတ်ဆီသည် ခြေတစ်ချောင်းကို တစ်ချောင်းပေါ် ပြန်၍ တင်လိုက်ပြီး သစ်ပင်ကို ကျောနှင့် ခပ်လျော့လျော့ မှီထိုင်လိုက်သည်။ မွန်းတည့်ချိန်သည် လျင်မြန်စွာ ကုန်လာသည်။ နေရောင်သည် တိုး၍ တိုး၍ ပူပြင်းလာသည်။

တွမ်ဂျတ်က သူ့အကြောင်းကို အေးအေးဆေးဆေးပင် ပြောပြသည်။ "အခုလို ဆိုတော့လည်း ပြောပြရတော့မှာပေါ့ဗျာ၊ ဒါပေမဲ့ ခင်ဗျားဟာ အခုချိန်ထိ တရားလျှောက် ဟောတုန်းပဲ ဆိုရင်တော့ ကျုပ် မပြောပါဘူး၊ ပြောလိုက်ရင် ခင်ဗျား ကျုပ်ကို တရားဟောနေမှာ ကြောက်တယ်" သူသည် ဝီစကီ ပုလင်းထဲမှ နောက်ဆုံးလက်ကျန်ကို

ရှင်းလိုက်ပြီး ပုလင်းကို လွှင့်ပစ်လိုက်သည်။ အညိုရောင် ပုလင်းပြားသည် ဖုန်တောထဲသို့ ကျသွားလေသည်။ "ကျုပ် မက်အေလက်စတားထောင်မှာ လေးနှစ် နေခဲ့တယ်ဗျ"

ကတ်ဆီက တွမ်ဂျုတ်အား ဖျတ်ခနဲ လှည့်ကြည့်သည်။ မျက်ခုံးများကို ကုပ်ထားသဖြင့် သူ့နဖူးသည် ပို၍ ကျယ်လာသည်ဟု ထင်ရ၏။ "မင်း အဲဒီအကြောင်းကို ပြောချင်စိတ် ရှိရဲ့လား၊ မကောင်းမှု တစ်ခုဆိုတော့လည်း ငါက စပ်စပ်စုစုလုပ်ပြီး မမေးချင်ပါဘူး"

"ရပါတယ်၊ ကျုပ် လုပ်ခဲ့တာကို ပြန်ပြောရတာ ဝန်မလေးပါဘူး" ဟု တွမ်ဂျုတ်က ဆိုသည်။ "ရန်ပွဲတစ်ပွဲ ဖြစ်တယ်၊ ကျုပ်က ငနဲတစ်ကောင်ကို သတ်ပစ်လိုက်တယ်၊ ကပွဲတစ်ပွဲမှာ ကျုပ်တို့အားလုံး မူးနေကြတယ်၊ သူက ကျုပ်ကို ဓားနဲ့ ထိုးသတ်ဖို့ လုပ်တယ်၊ ကျုပ်က အနားမှာတွေ့တဲ့ သံတူရွင်းနဲ့ ကောက်ရိုက်လိုက်တော့ ဟိုအကောင် ပွဲချင်းပြီးပဲ၊ တစ်ခေါင်းလုံး ကြေမွသွားတာပဲ "

ကတ်ဆီ၏ ကုပ်ထားသော မျက်ခုံးနှစ်ဖက်သည် သူ့မူလနေရာသို့ ပြန်တက်သွားသည်။ "လူသတ်မှုနဲ့ ထောင်ကျခဲ့တာကို မင်း မရှက်ဘူးလား"

"ဟင့်အင်း" ဟု တွမ်ဂျုတ်က ဖြေသည်။ "ကျုပ် မရှက်ပါဘူး၊ သူက ဓားနဲ့ထိုးတာဆိုတော့ ကျုပ် ထောင်ခုနစ်နှစ်ပဲ ကျတယ်၊ အခု လေးနှစ်ပြည့်လို့ ကတိဝန်ချုပ်နဲ့ လွတ်လာတာ "

"ဒီလိုဆိုရင် မင်းမိဘတွေနဲ့ ညီအစ်ကို မောင်နှမတွေ သတင်းမကြားရတာ လေးနှစ်ရှိပြီပေါ့၊ ဟုတ်လား"

"သတင်းတော့ ကြားပါတယ်၊ လွန်ခဲ့တဲ့ နှစ်နှစ်က အမေက အမှတ်တရ လက်ဆောင် ကတ်ကလေးတစ်ခု ပို့လိုက်တယ်၊ ပြီးခဲ့တဲ့နှစ် ခရစ္စမတ်တုန်းကတော့ ဘွားအေကြီးက ခရစ္စမတ်ကတ်တစ်ခု ပို့ခဲ့တယ်၊ အံမယ် ကျုပ်အခန်းထဲက သူငယ်ချင်း ထောင်သားတွေ ကတောင် ခရစ္စမတ်ကတ်ကို ကြည့်ပြီး ဟားကြသေးတယ်၊ ကတ်ပြားပေါ်မှာ သစ်ပင် တစ်ပင်ရယ်၊ ဆီးနှင်းခဲလို အရောင်ပြောင်ပြောင်နဲ့ အရုပ်တစ်ခု ရယ် ပါတယ်၊ စာပိုဒ်ကလေး တစ်ပိုဒ်လည်း ပါတယ်၊ စာပိုဒ်က ကဗျာလေးဗျ၊ ကျုပ် အလွတ်ရနေတယ်၊ ခင်ဗျားကို ရွတ်ပြရဦးမယ်။

ချစ်သောကလေးရယ် …

ရှင်လန်းချမ်းမြေ့

ခရစ္စမတ်နေ့တွင်

ယေရှုအရှင်

ဘသခင်၏

သိမ်မွေ့ကြည်ရွှင်

စိတ်အစဉ်ကို

ထိပ်မှာတင်၍

ပန်ဆင်စေကြောင်း

ဆုမွန်တောင်းသည်

ငါ၏ လက်ဆောင်မွန်ပါတည်းတဲ့။

ဘွားအေကြီးကတော့ ကတ်ပြားပေါ်က စာပိုဒ်ကို မဖတ်မိဘူးနဲ့ တူပါတယ်၊ လည်ရောင်းတဲ့ ဈေးသည်တစ်ယောက်ဆီက သူ့မျက်စိထဲမှာ လှတယ် ထင်တာကို ရွေးလိုက်ဟန် တူပါရဲ့၊ ကျုပ်နဲ့ တစ်ခန်းတည်းနေရတဲ့ ထောင်သားတွေကတော့ ကတ်ပြားပေါ်က ကဗျာကိုဖတ်ပြီး ရယ်လိုက်ကြတာ အသက်ထွက်မလားတောင် အောက်မေ့ ရတယ်၊ ကျုပ်ကိုလည်း အဲဒီနေ့ကစပြီး ဘုရားအလောင်းလေး မောင်သိမ်မွေ့ လို့ နာမည်ပေးလိုက်ကြတယ်၊ ဘွားအေကြီးကတော့ ရယ်စရာ ပြောင်စရာ ဖြစ်စေချင်တဲ့ ဆန္ဒနဲ့ လုပ်တာ မဟုတ်ဘူးပေါ့ဗျာ၊ သူ့မျက်စိထဲမှာတော့ ကျုပ်ဟာ ကလေးပဲ ဖြစ်နေသေးတာကိုး၊ ကျုပ် ဘွားအေကြီး မျက်မှန်ပျောက်သွားတာက ကျုပ် ထောင်မကျခင် တစ်နှစ်ကဗျ၊ ကြည့်ရတာတော့ ပျောက်သွားတဲ့ မျက်မှန်ကို ပြန်တွေ့ပုံ မပေါ်ဘူး”

“မက်အေလက်စတား ထောင်မှာ မင်း ဘယ်လို နေခဲ့ ထိုင်ခဲ့ရသလဲ” ကတ်ဆီက မေးသည်။

“အို ကောင်းပါတယ်၊ အစားမှန်မှန် စားရတယ်၊ အဝတ် သန့်သန့်ပြန့်ပြန့် ဝတ်ရတယ်၊ ရေချိုးရတယ်၊ နေရထိုင်ရတာ မဆိုးလှပါဘူး၊ အင်း မိန်းမတွေ မရှိတာ

တစ်ခုကတော့ ခွအကျဆုံးပဲ” တွမ်ဂျုတ်က သူ့စကားသူ သဘောကျကာ ခွက်ထိုးခွက်လန် ရယ်သည်။ “ကတီခံဝန်ချုပ်နဲ့ လွတ်ပေးလိုက်တဲ့ ငနဲတစ်ကောင် တွေ့ခဲ့ရတယ်ဗျ၊ သိလား” ဟု သူ့စကားကို ဆက်သည်။ “တစ်လတောင် မပြည့်သေးဘူး၊ ကတီခံဝန်ချုပ် စည်းကမ်းကို ဖောက်လို့ ထောင်ထဲ ပြန်ရောက်လာတယ်၊ ဘာကြောင့် ကတီခံဝန်ချုပ်ကို ဖောက်ဖျက်ရတာလဲလို့ ထောင်သားတစ်ယောက်က မေးတယ်၊ သူက ပြန်ပြောတယ်၊ အပြင်မှာ ငရဲပြည်ပဲ ငါ့လူတဲ့၊ တို့အဘိုးကြီး နေရာမှာလည်း နေရထိုင်ရတာ အဆင်မပြေဘူး၊ လျှပ်စစ်မီးပူလည်း မရဘူး၊ ရေချိုးစရာလည်း မရှိဘူး၊ ဖတ်စရာ စာအုပ်လည်း မရှိဘူး၊ အစားအသောက်ကလည်း မကောင်းဘူးတဲ့၊ အစားအသောက် မှန်မှန်စားရပြီး နေရထိုင်ရတာ သက်တောင့်သက်သာရှိတဲ့ နေရာကို သူ ပြန်လာတာလို့ ပြောတယ်၊ သူ အပြင် ရောက်သွားတော့ နေရထိုင်ရတာ သိပ်ပြီး အဆီးကျန်နိုင်တာပဲတဲ့၊ လုပ်စရာ အလုပ်က ဘာမှမရှိတော့ ဘာလုပ်ရမလဲ ဆိုတာ စဉ်းစားနေတာနဲ့ပဲ ခေါင်းခြောက်တယ်တဲ့၊ ဒါကြောင့် ကတီခံဝန်ချုပ်ကို ချိုးဖောက်တဲ့အနေနဲ့ မော်တော်ကား တစ်စီးကို သွားခိုးလိုက်တော့ အခုလို ပြန်ရောက်လာတာပဲတဲ့ ”

တွမ်ဂျုတ်သည် စကားကို မဆက်သေးဘဲ ဆေးရွက်အိတ်ကို ထုတ်၍ စီးကရက် တစ်လိပ် လိပ်သည်။ “ဒီကောင် ပြောတာ မှန်တယ်ဗျ” ဟု ဆက်ပြောသည်။ “မနေ့ညက ကျုပ် ဘယ်နေရာမှာ အိပ်ရင် ကောင်းမလဲလို့ စဉ်းစားတာ ရုတ်တရက် စဉ်းစားလို့ မရဘူး၊ စဉ်းစားရင်းနဲ့ ကြောက်လာတယ်၊ ထောင်ထဲက ကျုပ်နေခဲ့တဲ့ အခန်းကို သတိရမိတယ်၊ ကြမ်းပိုး ရှိပေမဲ့ စိတ်ချရတယ်ဗျ၊ အံမယ် ကျုပ်တို့မှာ ဘင်ခရာအဖွဲ့ တစ်ဖွဲ့ရှိတယ်၊ တော်တော်ကောင်းတဲ့ အဖွဲ့ဗျ၊ ရေဒီယိုက အသံလွှင့်ရင် ကောင်းမှာပဲ ကွာလို့ ထောင်သား တစ်ယောက်က ပြောဖူးတယ်၊ ကနေ့မနက်ဆိုရင် ကြည့်၊ ကျုပ် ဘယ်အချိန် အိပ်ရာက ထရမှန်း မသိတော့ဘူး၊ ကျုပ်အိပ်တဲ့ နေရာမှာပဲ အသာလှဲနေပြီး ခေါင်းလောင်းထိုးသံကို နားစွင့်နေမိတယ်ဗျို့ ”

ကတ်ဆီက ခပ်တိုးတိုး ကျိတ်၍ ရယ်သည်။ “သစ်စက်မှာ အမြဲ အလုပ် လုပ်နေရာက ထွက်လာတဲ့ အကောင်တွေလည်း ခု မင်းဖြစ်သလို ဖြစ်တတ်တယ်ကွ ”

အဝါရောင်သန်းလျက်ရှိသော မွန်းလွဲပိုင်း နေရောင်သည် မြေပြင်ကို ရွှေရောင် လွှမ်းထားသည်။ ပြောင်းပင်များ၏ ပင်ရိုးပင်တံများသည် ရွှေရောင် တောက်လျက် ရှိကြ၏။ ရေရှိရာသို့ ဦးတည်နေကြသော ပျံလွှားငှက် တစ်အုပ်သည် သူတို့ ခေါင်းအထက်မှ

ပျံသန်းသွားသည်။ တွမ်ဂျုတ်၏ ကုတ်အင်္ကျီအတွင်းမှ လိပ်သည် သူ့လွတ်မြောက်ရေး အတွက် နောက်တစ်ကြိမ် ထပ်မံ၍ ကြိုးစားပြန်လေသည်။ တွမ်ဂျုတ်သည် ကတ်ဦးထုပ် လျှာကို ဆွဲချပြန်သည်။ ကတ်ဦးထုပ်မှာ စောစောကလို မာမာတောင့်တောင့် မဟုတ်တော့။ ခေါက်ရိုးများကျိုးကာ ပျော့တိပျော့ဖွ ဖြစ်လာခဲ့လေပြီ။ "ကျုပ်တော့ ဖြည်းဖြည်းမှန်မှန်ပဲ လျှောက်သွားတော့မယ်လို့ စိတ်ကူးတယ်" ဟု တွမ်ဂျုတ်က ပြောသည်။ "နေပူကျဲကျဲထဲ လျှောက်ရမှာတော့ မလျှောက်ချင်ဘူးဗျာ၊ ဒါပေမဲ့ အခု နေအပူကတော့ သိပ်မဆိုးပါဘူး"

ကတ်ဆီသည် တည်တည်ငြိမ်ငြိမ် ဖြစ်သွားသည်။ "မင့်အဖေနဲ့ မတွေ့ရတာ အတော်ကို ကြာပြီကွ" ဟု ပြောသည်။ "ဘာပဲဖြစ်ဖြစ် သူနဲ့တော့ ငါ တွေ့ချင်တယ်၊ မင်းတို့ မိသားစုကို ငါ တရားဟောလာခဲ့တာ နှစ်ပေါင်း အတော်ကြာပြီ၊ ရောက်တဲ့အခါ စားတာ သောက်တာကလွဲလို့ တခြား ဘာမှ ငါ အလှူမခံခဲ့ဘူး၊ ငွေကြေးဆိုလည်း တစ်ပြားတစ်ချပ်မှ မကောက်ခဲ့ဘူး"

"အခု တစ်ခါတည်းပဲ ကျုပ်နဲ့ လိုက်ခဲ့ပါလား" ဟု တွမ်ဂျုတ်က ခေါ်သည်။ "အဖေကလည်း ခင်ဗျားနဲ့တွေ့ရင် ဝမ်းသာမှာပါ၊ တရားဟောဆရာတစ်ယောက် အနေနဲ့ ဆိုရင် ခင်ဗျား နှာခေါင်းကြီးက သိပ်ပြီး ကြီးလွန်းနေတယ်လို့ သူ ခဏ ခဏ ပြောဖူးတယ်" တွမ်ဂျုတ်က လိပ်ထားသော သူ့ ကုတ်အင်္ကျီကို ကောက်လိုက်သည်။ အင်္ကျီထဲ၌ ထည့်ထုပ်ထားသော ရှူးဖိနပ်နှင့် လိပ် ထွက်မကျစေရန် ခပ်တင်းတင်း ပြင်၍ ပတ်လိုက်လေသည်။

ကတ်ဆီသည် ဟိုတစ်ဖက် သည်တစ်ဖက် လွှင့်စဉ်၍ ကျနေသော ကင်းဗတ် ဖိနပ်များကို ကောက်ယူပြီး စီးသည်။ "ငါက မင်းလောက် ကိုယ့်ကိုယ်ကို စိတ်မချဘူးကွ" ဟု တွမ်ဂျုတ်အား လှမ်းပြောသည်။ "ဖိနပ် မစီးဘဲ လျှောက်သွားရင် ဖုန်အောက်မှာရှိနေတဲ့ ဝိုင်ယာကြိုးစတို့ မှန်ကွဲ အစအနတို့ကို တက်နင်းမိမှာ သိပ်ကြောက်တယ်၊ ခြေချောင်းလေး တွေကို စူးရှမိမှာလောက် ကြောက်တာ လောကမှာ မရှိဘူးတောင် ထင်မိတယ်"

နှစ်ယောက်သား သစ်ပင်ရိပ် အစွန်းအောက်တွင် ရပ်ကာ တုံ့နေးနေး ဖြစ်နေကြသည်။ နေပူထဲ ထွက်ရမည်ကို လန့်နေကြသည်။ ထို့နောက် အဝါရောင် ပေါက်နေသော နေပူကျဲကျဲအတွင်းသို့ တိုးထွက်သွားကြသည်။ ခြေကုန်သုတ်၍ လျှောက်သွားနေကြသော သူတို့နှစ်ယောက်သည် ကမ်းခြေသို့ ရောက်လိုဇောဖြင့်

တရကြမ်း ကူးခတ်သွားနေကြသော ရေကူးသမားများနှင့် တူသည်။ အတန်ကြာ လျှောက်မိသောအခါ သူတို့ခြေလှမ်းများ အရှိန်လျော့လာသည်။ ဖြည်းဖြည်းနှင့်မှန်မှန် အနေအထား ဖြစ်လာသည်။ ပြောင်းပင်များ၏ အရိပ်များသည် လမ်းဘေး ဝဲယာ တစ်လျှောက်တွင် ထင်ဟပ်ကာ တလှုပ်လှုပ် ဖြစ်နေကြသည်။ လေထဲတွင် လွင့်တက် နေသော ဖုန်ပူနံ့သည် တထောင်းထောင်းထလျက် ရှိလေသည်။

သူတို့သည် ပြောင်းခင်းများကို တစ်ခင်းပြီးတစ်ခင်း ကျော်ဖြတ်လာကြသည်။ ပြောင်းခင်းများ ဆုံးသောအခါ စိမ်းညို့လျက်ရှိသော ဝါခင်းများ၊ ဝါရွက်များ၏ စိမ်းစိုစို အရောင်သည် သူတို့အပေါ်၌ ကပ်ငြိနေကြသော ဖုန်မှုန့်များကို ထွင်းဖောက် ထွက်ပေါ်လျက် ရှိကြ၏။ ဝါပင်များတွင် အသီးများ ထွက်စ ပြုနေပေပြီ။

ဝါပင်များသည် အဆစ်များ ပါသော ဝါးမျိုး ဖြစ်သည်။ ရေသောက်မြစ်ရှိရာ အနိမ့်ပိုင်းတွင် ပင်စည်တုတ်၍ အပေါ်ပိုင်း ကျလေ အရွက်များလေ။ ဝါပင်များသည် နေကို အန်တုကာ ခေါင်းတထောင်ထောင် လည်တမော့မော့။ နီရဲသော နေရောင်ကြောင့် အဝေးကို ကောင်းစွာ မမြင်နိုင်။ ဖုန်ထူလွန်းလှသော လမ်းမကြီးသည် သူတို့ရှေ့ တည့်တည့်တွင် နိမ့်ချီတစ်ခါ မြင့်ချီတစ်လှည့် ဖြစ်ကာ လှိုင်းထလျက် ရှိလေသည်။ အနောက်ဘက်တွင် ချောင်းငယ်တစ်ခုဘေးမှ တန်းစီ၍ ပေါက်နေကြသော မိုးမခပင်များ။ အနောက်မြောက် ဘက်တွင်မူ မစိုက်မပျိုးဘဲ ပစ်ထားသည့် မြေလွတ် မြေလပ်များ။ ပူလောင်လှသော ဖုန်မှုန့်များ၏ အနံ့သည် လေထဲတွင် လွင့်ပါလျက် ရှိသည်။ လေက ခြောက်သွေ့လွန်းသဖြင့် သူတို့ နှာခေါင်းများတွင် နှာရည်မရှိ။ နှာခေါင်းအတွင်း၌ ခြောက်သွေ့တင်းမာလျက် ရှိ၏။ မျက်လုံးအိမ်များ ခြောက်သွေ့မသွားစေရန် မျက်ရည်ပူများ အဆက်မပြတ်ထွက်လျက် ရှိလေသည်။

"ကြည့်စမ်းပါဦးကွာ၊ ပြောင်းပင်တွေ ထွက်လာပုံ ဘယ်လောက်ကောင်းသလဲ၊ ဖုန်ကြောင့် ပျက်စီးသွာရတာ၊ ဖုန်ဟာ ပြောင်းပင်တွေရဲ့ အန္တရာယ်ကောင်ပါလားကွာ " ဟု ကတ်ဆီက ရေရွတ်သည်။

"နှစ်စဉ်ပါပဲဗျာ" ဟု တွမ်ဂျုတ်က ပြန်ပြောသည်။ "ကျုပ် မှတ်မိသလောက်တော့ ကျုပ်တို့မှာ နှစ်စဉ်နှစ်တိုင်း ဒီအဖြစ်မျိုးချည်း ကြုံနေရတာပဲ၊ ရောက်စတုန်းကတော့ သီးနှံက သိပ်ကောင်းတာပဲ၊ နောက်ပိုင်းကျ မဟန်တော့ဘူး၊ ဘွားအေကြီးက ပြောဖူးတယ်၊ ရောက်စ

ငါးနှစ်လောက်တုန်းကဆို သီးနှံ အင်မတန် ကောင်းသတဲ့၊ မြေပေါ်မှာ မြက်ရိုင်းတွေ ပေါက်နေတုန်း ဆိုတော့ မြေဩဇာကလည်း သိပ်ကောင်းတာကိုးဗျ” လမ်းသည် တောင်ကုန်းကလေး အောက်ဘက်သို့ ခပ်ပြေပြေ နိမ့်ဆင်းသွားနေရာမှ တစ်ဖက် တောင်ကုန်းပေါ်သို့ ခပ်ပြေပြေ ပြန်တက်သွားလေသည်။

“ဘိုးဘိုးဂျုတ်ရဲ့အိမ်က ဒီကနေ တစ်မိုင်တောင် မဝေးတော့ဘူး မဟုတ်လား၊ ဟောဟို တတိယ ကုန်းမြင့်လေး တစ်ဖက်မှာ မဟုတ်လား” ဟု ကတ်ဆီက မေးသည်။

“ဟုတ်တာပေါ့” ဟု တွမ်ဂျုတ်က ပြောသည်။ “ကျုပ်အဖေက ခိုးသလိုပဲ တခြားတစ်ယောက်က ခိုးတာနဲ့ မြေက လျော့နေတယ်”

“မင်းအဖေက ခိုးတယ်၊ ဟုတ်လား”

“ခိုးတာပေါ့၊ ဒီကနေပြီး အရှေ့ဘက်ကို မိုင်ဝက်လောက်ထိ ခိုးထားတာ၊ ဟိုတုန်းက အဲဒီနေရာမှ မိသားတစ်စု နေခဲ့ဖူးတယ်၊ နောက်ကျတော့ ရွှေ့သွားတယ်၊ အဘိုးရယ် အဖေရယ် ပြီးတော့ ကျုပ်အစ်ကို နိုအာရယ်၊ သူတို့က ဒီတစ်ကွင်းလုံးကို လိုချင်ကြတာ၊ ဒါပေမဲ့ အကုန် မရလိုက်ဘူး၊ တစ်ဝက်လောက်တော့ ရလိုက်တယ်၊ ဒါကြောင့်မို့ ဟိုတစ်ဖက် အစွန်းမှာ ဖြစ်နေတဲ့ မြေအနေအထားက ပုံမကျပန်းမကျ ဖြစ်ပြီး ရယ်စရာ ကောင်းနေတာ၊ သူတို့က ဒီမြေကို နှစ်ပိုင်းပိုင်းပြီး မြင်းဆယ့်နှစ်ကောင်နဲ့ လားနှစ်ကောင် စိုက်မြေ လုပ်လိုက်တယ်၊ ဒီတစ်ဖက်မှာ မြေကို တိုးချဲ့ပြီး ခိုးလို့မရတော့ ဟိုတစ်ဖက်က မြေတစ်ဝက်လောက် ရအောင် ကြံစည်ခဲ့ကြသေးတယ်၊ ဒါပေမဲ့ သူတို့ လက်မဦးခင်လေးမှာပဲ ဝင့်ခ်မင်းလေးဆိုတဲ့ လူကြီးနဲ့ သူ့သားတွေ ရောက်လာပြီး အဲဒီမြေတစ်ဝက်ကို အပိုင်စီးသွားကြတယ်၊ အဖေနဲ့ အဘိုးက ပထမတော့ ဒေါပွကြတယ်၊ ဒါပေမဲ့ မကြာခင်မှာပဲ သူတို့နှစ်ယောက်ဟာ ဝင့်ခ်မင်းလေးတို့နဲ့ တွဲပြီး အရက်သောက်ကြ စားကြ ပျော်ကြ ပါးကြ ဖြစ်လာကြတယ်၊ ဝင့်ခ်က မုဆိုးဖိုဆိုရင် တကယ့်လူထူးကြီးပဲဗျ၊ အဲဒီနောက်တော့ ဝင့်ခ်ရယ် အဖေရယ် အဘိုးရယ် သူတို့ သုံးယောက်ဟာ တကယ့် ငယ်ပေါင်းကြီးဖော်တွေလို ဖြစ်လာကြတော့တာပဲ၊ အခါ အခွင့်သင့်တိုင်း တွဲသောက် နေကြတာပဲ”

“မင့်အဖေ ဂျုတ်လည်း လူထူး တစ်ယောက်ပါပဲကွ” ဟု ကတ်ဆီက ဆိုသည်။ သူတို့သည် တောင်ကုန်း ဆင်ခြေလျှောအတိုင်း ဆင်းလာခဲ့ကြပြီး တစ်ဖက် ကုန်းမြင့်ပေါ်သို့

တက်ခဲ့ကြပြန်လေသည်။ ကတ်ဆီသည် သူ့ရုပ်အင်္ကျီလက်ဖြင့် နဖူးမှ ချွေးသီး ချွေးပေါက်များကို သုတ်လိုက်ပြီး ဦးထုပ်ကို ပြန်ဆောင်းသည်။ "တကယ်ပါ" ဟု ထပ်ပြောသည်။

"ဘိုးဘိုးတွမ်ဂျုတ်လည်းပဲ လူထူးကြီး တစ်ယောက်ပါ၊ ဘုရားမယုံတဲ့ လူတစ်ဦး အဖြစ်နဲ့ ကြည့်လိုက်မယ်ဆိုရင်ပဲ သူဟာ လူထူးလူဆန်းတစ်ယောက် ဖြစ်မနေ ဘူးလား၊ ဘုရားသခင်ဟောတဲ့ တရားအပေါ်မှာ ယုံကြည်မှုကလေး နည်းနည်းပါးပါး ရှိလာစ အချိန်တုန်းကလည်း သူ့စိတ်သဘောကို ငါ အကဲခတ်ခွင့် ရခဲ့တယ်၊ နောက်ပြီးတော့ နစ်ခြင်းမင်္ဂလာ ပြုတဲ့ အခါတုန်းက သူ ဆယ်ပေ ဆယ့်နစ်ပေ အမြင့်ထိ ခုန်နိုင်တာ တွေ့ခဲ့ရဖူးတယ်"

သူတို့သည် ကုန်းမြင့်တစ်ခုထိပ်သို့ ရောက်သွားကြသည်။ တစ်ဖက်တွင် လမ်းသည် ရေစီးကြောင်းတစ်ခုကို ဖြတ်ကျော်လျက် ရှိ၏။ ရေစီးကြောင်းကို ကျော်ဖြတ်ရန် ကျောက်တုံးများ တန်းစီ၍ ချထားသည်။ တွမ်ဂျုတ်သည် ဖိနပ်မပါသော ခြေထောက် များဖြင့် ကျောက်တုံးများအပေါ်မှနင်း၍ သတိဖြင့် ဖြတ်သွားလေသည်။ "ခင်ဗျားက အဖေ့အကြောင်းပြောတော့ ... " ဟု စကားစသည်။ "ကျုပ်ရဲ့ဦးလေး ဂျွန်ကို နစ်ခြင်းမင်္ဂလာ ပြုပေးတုန်းက ခင်ဗျား မမြင်ဖူးလိုက်လို့ပါ၊ ကျုပ်ဦးလေးက ရေလည်းငုပ်ရတယ်၊ ရေထဲကနေပြီးတော့လည်း ခုန်ရတယ်၊ လပြည့်ညတွေမှာ ဝံပုလွေတစ်ကောင် အော်သလို အော်ပြီး ခုန်တာ နည်းတဲ့အမြင့်ကြီး မဟုတ်ဘူးတဲ့၊ အဖေက သူ့ကိုယ်တွေ့မျက်မြင် ဖြစ်ခဲ့ရတာကို ပြောပြဖူးလို့ ကျုပ် သိရတာ၊ အဖေ့ကျတော့လည်း ဦးလေးဂျွန် ခုန်သလောက် ခုန်မယ်ဆိုပြီး ခုန်ခဲ့တာပဲ၊ ခုန်တာကတော့ အမြင့်ကြီးပါ၊ ဒါပေမဲ့ ညာဘက်ခြေထောက် ကျိုးသွားတယ်ဗျ၊ အဲဒီ ညာဘက်ခြေထောက် ကျိုးသွားတဲ့အတွက် အဖေဟာ ဘုရားမယုံတဲ့လူ ဖြစ်သွားတာပဲ၊ သူ့ကို နစ်ခြင်းမင်္ဂလာ ပြုပေးတဲ့ တရားဟောဆရာက ခြေထောက် ပြန်ဆက်သွားအောင် ဆုတောင်းပေးချင်တယ်၊ အဖေက လုံးဝ လက်မခံတော့ဘူး၊ ဆရာဝန်ပြဖို့က လွဲပြီး တခြား ဘာကိုမှ အယုံအကြည် မရှိတော့ဘူး"

သူတို့သည် ချောင်းတစ်ဖက်ရှိ ကုန်းမြင့်ငယ်တစ်ခုကို ကျော်ဖြတ်၍ လျှောက်လာ ကြသည်။ နေသည် အနောက်ဘက်သို့ နိမ့်ဆင်းစ ပြုလေပြီ။ ကျနေ ဖြစ်သည့်အလျောက် အပူရှိန်သည် လျော့နည်းလာသည်။ လေက ပူဆဲ ဖြစ်သော်လည်း နေရောင်ခြည်များ

ကတော့ အပူ လျော့သွားခဲ့လေပြီ။ သံဆူးကြိုးများ ကာရံထားသည့် ကွေးကွေး ကောက်ကောက် သစ်သားတိုင်များသည် လမ်းမ၏ တစ်ဖက်တစ်ချက်တွင် ရှိနေဆဲပင် ညာဘက်ဘေးရှိ သစ်သားတိုင် အကာများသည် ဝါခင်းများကို ဖြတ်လျက် ရှိ၏။ လမ်းဘေးဝဲယာရှိ ဝါပင်များသည် အုံလိုက် ကျင်းလိုက် တက်နေသော ဖုန်များကြားမှနေ၍ စိမ်းညိုညို အရောင်ကို လှစ်ပြလျက် ရှိလေသည်။

တွမ်ဂျုတ်က မြေနယ်နိမိတ် သတ်မှတ်ထားသော စည်းရိုးတစ်ခုကို လက်ညှိုး ထိုးပြသည်။ "အဲဒါ ကျုပ်တို့မြေပဲ၊ အမှန်ကတော့ ဒီနေရာမှာ အကာအရံ လုပ်ဖို့ မလိုဘူးဗျ၊ ဒါပေမဲ့ ဝါယာကြိုး အပိုရှိနေတာနဲ့ အဖေက လုပ်ထားတာ၊ တစ်ညမှာ ဦးလေးဂျွန် သူ့ကားကြီးနဲ့ ပေါက်ချလာတယ်၊ ကားပေါ်မှာ ဝိုင်ယာကြိုးခွေ ခြောက်ခွေ တင်လာတယ်၊ အဲဒီ ဝိုင်ယာကြိုး ခြောက်ခွေနဲ့ အဖေက ဝက်ပျိုတစ်ကောင်နဲ့ လဲတယ်၊ ဒီဝိုင်ယာကြိုးတွေ သူ ဘယ်က ရလာမှန်းတော့ ကျုပ်တို့လည်း မသိဘူး" ကုန်းမြင့်အတက်တစ်ခုနှင့် တွေ့ပြန်သဖြင့် သူတို့ ခြေလှမ်းများသည် နှေးကွေးလာသည်။ ခြေထောက်များသည် နုးညံ့သော ဖုန်ထုအတွင်းသို့ နစ်ဝင်လှုပ်ရှားလျက် ရှိသည်။

တွမ်ဂျုတ်၏ မျက်လုံးများသည် အတိတ်က ဖြစ်ရပ်တစ်ခုကို ထင်ယောင် မြင်ယောင် ဖြစ်နေဟန်ကို ဖော်ပြလျက် ရှိ၏။ ထိုအတိတ်က ဖြစ်ရပ်ကြောင့် ရယ်ချင်စိတ်ကိုလည်း မျိုသိပ်ထားနိုင်ဟန် မတူ။ "ဦးလေးဂျွန် တစ်ယောက်ဟာ အရူးကြီး တစ်ယောက်လိုပဲ" ဟု တွမ်ဂျုတ်က ရေရွတ်သည်။ "ရတဲ့ ဝက်ကို လုပ်နေပုံက ပိုပြီး အရူးနဲ့တူသေးတယ်" သူသည် ဟက်ခနဲ တစ်ချက်မျှ ရယ်လိုက်ပြီး သူ့လမ်းသူ ဆက်လျှောက်သွားသည်။

ဂျင်ကတ်ဆီက တွမ်ဂျုတ်ထံမှ စကားဆက်အပြောကို နားစွင့်သည်။ ဘာသံမှ မကြားရ။ ပုံပြင်အဆက်သည် တွမ်ဂျုတ်၏ ပါးစပ်မှ ထွက်မလာ။ ကတ်ဆီက တစ်ချက်မျှ လှမ်းကြည့်လိုက်ပြီး မရှည်သောစိတ်ဖြင့် ဆက်အပြောကို စောင့်သည်။ နောက်ဆုံးတွင် သူ မအောင့်နိုင်။ "ကဲ သူရတဲ့ ဝက်ကို ဘာလုပ်သလဲ၊ ဆက်ပါဦး" ဟု စိတ်မရှည်သံဖြင့် လှမ်းမေးသည်။

"အင်း၊ အဲ၊ ရတဲ့ ဝက်ကို နေရာတွင်ပဲ သတ်တာပဲ၊ ပြီးတော့ အမေ့ကို မီးမွေးခိုင်းတယ်၊ ဝက်ပေါင်တွေကို ချက်ချင်း လှီးဖြတ်ခုတ်ထစ်ပြီး ဒယ်အိုးတစ်လုံးထဲ

ထည့်ပြီးချက်တယ်၊ နံရိုးတွေနဲ့ ခြေထောက်ကိုတော့ ပေါင်းအိုးနဲ့ ထည့်ပြုတ်တယ်။ ဝက်ပေါင်တွေလည်း ကျက်ရော ပြုတ်ထားတဲ့ နံရိုးတွေ နူးလာအောင် စောင့်ရင်း တစ်ယောက်တည်း ထိုင်စားတယ်၊ ပြီးတော့မှ ခြေထောက်တွေ အနူးကို စောင့်ရင်း ထိုင်စားပစ်တယ်၊ နံရိုးတွေလည်း ကုန်ရော ဝက်ခြေထောက်တွေကို အတုံးတွေ အတစ်တွေ ဖြစ်အောင်ဖဲ့ရွဲ့ပြီး တစ်တုံးပြီးတစ်တုံး မကုန်မချင်း ထိုင်စားတော့တာပဲ၊ ကျုပ်တို့ ချာတိတ်တွေကတော့ သူ့အနား ဝိုင်းထိုင်ပြီး သွားရည်ယိုကြတာပေါ့ဗျာ၊ သူကလည်း ကျုပ်တို့ကို နည်းနည်းပါးပါးတော့ ဝေပေးပါတယ်၊ ဒါပေမဲ့ အဖေ့ကျတော့ တစ်တုံးတစ်ဖတ် မပြောနဲ့၊ အစလေးတစ်စ အရိုးလေး တစ်ရိုးတောင် မပေးဘူးဗျ၊ စားလို့လည်းဝရော တစ်ချိုးတည်း အိပ်တာပဲ၊ သူ အိပ်တော့ ကျုပ်တို့ ကလေးတစ်စုနဲ့ အဖေက အိုးထဲမှာ ကျန်နေတဲ့ ဝက်ခြေထောက်ကို ကိုက်ကြရတယ်"

"မနက်မိုးလင်းတော့ ဦးလေးဂျွန် နိုးလာတယ်၊ ကျန်တဲ့ ဝက်ခြေထောက် တစ်ချောင်းကို ခုတ်ထစ်ပြီး အိုးထဲ ထည့်ပြုတ်ပြန်ရော၊ ကျုပ်အဖေက ဟေ့ကောင် ဂျွန်၊ ဒီဝက်တစ်ကောင်လုံးကို မင်းတစ်ယောက်တည်း အကုန်စားမှာလားလို့ မေးတယ်၊ ဦးလေးဂျွန်က ပြန်ပြောတယ်၊ ငါ ဝက်သားကို အဝ စားချင်နေတာ ကြာပြီကွ၊ မစားလို့ မဖြစ်ဘူး၊ စားရလိမ့်မယ်၊ မင်း စားချင်ရင်တော့ ပန်းကန်တစ်ချပ် သွားယူပြီး ဝိုင်ယာကြိုးခွေနှစ်ခွေလောက် ထည့်စားပေါ့ကွာ တဲ့၊ ခင်ဗျား သိတဲ့အတိုင်းပဲ၊ အဖေက အရူးမှ မဟုတ်တာ၊ ဘယ်စားပါ့မလဲ၊ ဦးလေးဂျွန် စားတာကို အသာကလေး ဘေးက ထိုင်ကြည့်နေတယ်၊ ဦးလေးဂျွန် ပြန်သွားတော့ ဝက်တစ်ကောင်လုံးမှာ တစ်ဝက်လောက် ကျန်ခဲ့သေးတယ်၊ အဖေက ပြောတယ်၊ ကျန်တာကို ဆားနဲ့ နယ်ထားကြကွာ တဲ့၊ ဦးလေးဂျွန်က လူတစ်မျိုးဗျ၊ သူ ဝက်သား စားချင်ရင် ဝက်တစ်ကောင်လုံး ပေါ်ပြီး ကောင်းပေ့ဆိုတဲ့ အပိုင်းတွေ အကုန် စားပစ်တာပဲ၊ ကျန်တာကို ဆားသိပ်ဖို့ လုံးဝ မစဉ်းစားဘူး၊ ပစ်လိုက်တာပဲ။ အဖေကတော့ အကျန်ကို ဆားနဲ့နယ်ထားပြီး စားချင်တယ်"

ကတ်ဆီက "ငါ့အနေနဲ့ အခုအချိန်အထိ တရားဟောဆရာ လုပ်နေသေးရင်တော့ မင်းဦးလေး လုပ်သွားတဲ့အထဲက သင်ခန်းစာယူသင့်တဲ့ အပိုဒ်တွေကို ထုတ်ပြီး မင်းကို ဆုံးမစကား ပြောမိမှာ သေချာတယ်၊ ဒါပေမဲ့ ဒီအလုပ်မျိုးကို ငါ မလုပ်တော့ပါဘူး၊ ဒါပေမဲ့ တစ်ခုတော့ သိချင်တယ်၊ မင်းဦးလေး လုပ်ပုံကို မင်း ဘယ်လို နားလည်သလဲဟင်" ဟု မေးသည်။

“ကျုပ်လည်း မပြောတတ်ဘူး” ဟု တွမ်ဂျုတ်က ဖြေသည်။ “သူ ဝက်သား သိပ်စားချင်လို့ပဲ ဖြစ်မှာပေါ့၊ ဒီအကြောင်း တွေးမိတော့ ဝက်သား စားချင်လိုက်တာဗျာ၊ ကျုပ် ထောင်ထဲမှာ လေးနှစ်နေခဲ့ရတာ ဝက်သားပြုတ်ကြော် လေးခါပဲ စားခဲ့ရတယ်၊ ခရစ္စမတ်ပွဲတော် တစ်ကြိမ်လုပ်မှ ဝက်သားပြုတ်ကြော် ပါးပါးကလေး တစ်ချပ်ပဲ ရတယ်”

“မင်း ပြန်ရောက်လာတဲ့အတွက် မင်းအဖေက နွားပေါက် ဝဝကစ်ကစ်တစ်ကောင် သူကိုယ်တိုင် ပေါ်ချင် ပေါ်မှာပေါ့ကွာ” ဟု ကတ်ဆီက ပြောသည်။

တွမ်ဂျုတ်က ရယ်သည်။ “ခင်ဗျား အဖေ့အကြောင်း မသိပါဘူး၊ ကြက်ပေါက်စ တစ်ကောင် သတ်တာတောင်မှ အဖေက အဆင်ပြေအောင် သတ်နိုင်တာ မဟုတ်ဘူး၊ ကြက်ကလေးတစ်ကောင် သတ်နေတာများ နွားသတ်နေသလား အောက်မေ့ရတယ်၊ ကျွတ်ကျွတ်ကို ညံနေတာပဲ၊ ညံနေတာက ကြက်ရဲ့အသံ မဟုတ်ဘူး၊ အဖေ့အသံ၊ အဲသလောက်ကို နံတာ၊ သူ ဘယ်တော့မှ သတ်တာ ဖြတ်တာကို အဆင်ပြေအောင် မလုပ်တတ်ဘူး၊ ခရစ္စမတ်ပွဲအတွက်ဆိုပြီး နှစ်တိုင်း ဝက်တစ်ကောင်ကို ကြိုပြီး ဝယ်ထားလေ့ရှိတယ်၊ အဲဒီဝက်ဟာ စက်တင်ဘာလထဲကျရင် ရောဂါတစ်ခုခုဖြစ်ပြီး သေရော၊ သူဝယ်ထားတဲ့ ဝက်ကို ကျုပ်တို့ စားရတယ်လို့ကို မရှိဘူး၊ ကျုပ်ဦးလေး ဂျွန်ကျတော့ သူ ဝက်သား စားချင်တယ်နော်၊ ဝက်သား စားရတယ်၊ ချက်ချင်း ဝက်ကို ရအောင် လုပ်တယ်”

သူတို့သည် တောင်ကုန်းထိပ်ကို ကွေ့ပတ်သွားသော လမ်းအတိုင်း လျှောက်လာကြသည်။ အောက်ဘက် အနိမ့်ထဲရှိ တွမ်ဂျုတ်တို့၏ နေအိမ်ကို လှမ်းမြင်နေရလေပြီ။ တွမ်ဂျုတ်က လမ်းမပေါ်၌ ဖျတ်ခနဲ ရပ်လိုက်သည်။ “ကြည့်ရတာ ခါတိုင်းနဲ့ မတူပါလား” ဟု ရေရွတ်သည်။ “အိမ်ကို ကြည့်ပါဦး၊ တစ်ခုခု ဖြစ်နေသလိုပဲ၊ လူတစ်ယောက်မှလည်း ရှိပုံမရဘူးဗျ” နှစ်ဦးသားရပ်၍ အစုလိုက် တည်ရှိနေသော အဆောက်အအုံများကို ငေးမော၍ ကြည့်နေကြလေသည်။

* * *

## အခန်း (၅)

မြေပိုင်ရှင်များသည် သူတို့မြေများ ရှိရာသို့ လာလေ့ ရှိကြသည်။ အထူးသဖြင့် သူတို့ကိုယ်စားလှယ် များသည် မြေရှင်များ၏ ကိုယ်စား မကြာမကြာ ဆိုက်ရောက်လာ တတ်ကြလေသည်။ သူတို့လာလျှင် အလုံပိတ် မော်တော်ကားများနှင့် ဖြစ်သည်။ သူတို့သည် ခြောက်သယောင်းနေသော မြေကြီးကို သူတို့ လက်ချောင်းများဖြင့် ထိတွေ့ ကိုင်ကြည့်ကြသည်။ တစ်ခါတစ်ရံတွင် မြေတူး လွန်ပူစက်ကြီးများဖြင့် မြေကြီးကို တူးဖော်ကာ ဓာတ်ခွဲခန်းသို့ ပို့၍ စမ်းသပ်ရန် မြေနမူနာ ယူကြသည်။ စာရင်းငှားများကတော့ နေပူဒဏ်ကို အပြင်းအထန် ခံနေရသော အိမ်တံခါးဝများမှ ရပ်ကာ လယ်ကွင်းများ တစ်လျှောက် မောင်းလာနေသော အလုံပိတ်မှန်ကာ မော်တော်ကားများကို မသာယာသော မျက်နှာများဖြင့် မျှော်ကြည့်နေကြသည်။ နောက်ဆုံးတွင် မြေရှင် ကိုယ်စားလှယ်များသည် သူတို့ကားကို အိမ်ရှေ့တံခါးအနီးသို့ မောင်းလာသည်။ ကားပေါ်မှ မဆင်းဘဲ ကားပြတင်းပေါက်မှ နေ၍ အပြင်သို့ ခေါင်းပြူကာ လှမ်း၍ စကားပြောကြသည်။ စာရင်းငှား ယောက်ျားများသည် ကားဘေးတွင် ခဏတစ်ဖြုတ် မတ်တတ်ရပ်နေကြသည်။ ထို့နောက် မြေကြီးပေါ်၌ ဆောင့်ကြောင့်ထိုင်ကာ အနီးအနား လက်လှမ်းမီရာ နေရာများမှ တုတ်ချောင်းများကို ကောက်၍ မြေကြီးပေါ်တွင် စိတ်ကူးတည့်ရာ စာများ အရုပ်များ ရေးခြစ်ဆွဲကြလေသည်။

အိမ်ရှင်မများသည် အိမ်ရှေ့ တံခါးများ၏ အဝမှ ရပ်ကာ အပြင်သို့ လည်တဆန့်ဆန့်ဖြင့် လှမ်းမျှော် ကြည့်နေကြသည်။ သူတို့နောက်တွင် ကလေးသူငယ်များသည် စုပြုံရပ်လျက် ရှိကြ၏။ ကစားရင်းတန်းလန်းမှ ထလာကြသဖြင့် ကလေးငယ်များ၏ ခေါင်းတွင် ပြောင်းရွက်ခွေများ ပတ်လျက်သား ပါလာကြသည်။ ဖိနပ်မပါသော သူတို့ ခြေထောက်များသည် တစ်ချောင်းပေါ်တစ်ချောင်း တင်လိုက် ချလိုက်၊ ခြေချောင်းများ ကလည်း တလှုပ်လှုပ် တရွရွနှင့် အငြိမ်နေသည်ကို မရှိ။ အိမ်ရှင်မများနှင့် ကလေးများသည် မြေရှင်များနှင့် စကားပြောနေကြသည့် သူတို့ အမျိုးသားများကို စိုးရိမ်မကင်းသော မျက်နှာထားများနှင့် မျက်ခြည်မပြတ် စောင့်ကြည့်နေကြသည်။ အားလုံး နှုတ်ဆိတ်ကာ ငြိမ်သက်လျက် ရှိကြလေသည်။

အချို့ မြေရှင်များသည် သနားကြင်နာစိတ် ရှိကြသည်။ အဘယ့်ကြောင့်ဆိုသော် သူတို့လုပ်ရမည့် အလုပ်ကို မုန်းတီးကြခြင်းကြောင့် ဖြစ်၏။ အချို့ကတော့ ဒေါသကြီးသည်။

အဘာယ်ကြောင့်ဆိုသော် ရက်စက်ရမည်ကို စက်ဆုပ် ရွံ့ရှာခြင်းကြောင့် ဖြစ်သည်။ အချို့ကတော့ ဥပေက္ခာပြုကြသည်။ အဘာယ်ကြောင့်ဟူမူ ဥပေက္ခာစိတ်ကို မမွေးလျှင် မြေပိုင်ရှင် မဖြစ်နိုင် ဟူသော အချက်ကို လွန်ခဲ့သော နှစ်ပေါင်းများစွာကတည်းက သဘောပေါက် နားလည်ထားခြင်းကြောင့် ဖြစ်၏။ သူတို့အားလုံးသည် သူတို့ထက် အဆပေါင်း များစွာ ကြီးမားသော အရာတစ်ခု၏ ဖမ်းဆီး ချုပ်နှောင်မှုကို ခံနေရသည်။ သူတို့ထဲမှ အချို့သည် သူတို့အား အတင်းအကျပ် လှုံ့ဆော် တိုက်တွန်းလျက် ရှိနေသော ဂဏန်းသင်္ချာကို မုန်းကြသည်။ အချို့က ကြောက်ကြသည်။ အချို့ကမူ ဂဏန်းသင်္ချာကိုပင် ဆည်းကပ် ကိုးကွယ်ကြသည်။ အဘာယ်ကြောင့်ဆိုသော် ဂဏန်းသင်္ချာသည် အတွေးနှင့် စိတ်ခံစားမှုများမှ ကင်းဝေးသော ကွန်းခိုရာ နေရာ တစ်နေရာကို ပေးသောကြောင့် ပေတည်း။

အကယ်၍ မြေကို ဘဏ်တစ်ခု သို့မဟုတ် ငွေကြေး ရင်းနှီးမြုပ်နှံသော ကုမ္ပဏီတစ်ခုကသာ ပိုင်ဆိုင်နေခဲ့ပါမူ မြေရှင်၏ လူများသည် ဘဏ် သို့မဟုတ် ကုမ္ပဏီက လိုအပ်၍၊ ဆန္ဒရှိ၍၊ အတင်းအကျပ်ခိုင်း၍၊ မလုပ်မဖြစ်၍ စသည် စသည်ဖြင့် သူတို့အား ကျော့ကွင်းထောင်၍ ဖမ်းဆီးထားသော ဘဏ် သို့မဟုတ် ကုမ္ပဏီအား အလွန် ထိတ်လန့် ကြောက်ရွံ့ဖွယ်ရာကောင်းသော သတ္တဝါကြီးတစ်ကောင်ဟု တစ်ဖက်သား၏ အတွေးနှင့် ခံစားမှုတွင် ထင်လာ မြင်လာအောင် လက်ညှိုးထိုးပြတတ်ကြသည်။

တကယ်တော့ ဤစကားကို ဆိုနေကြသူများသည် ဘဏ်များ သို့မဟုတ် ကုမ္ပဏီများအတွက် တာဝန်ယူနိုင်ကြသည့်လူများ မဟုတ်ချေ။ အဘာယ့်ကြောင့်ဆိုသော် ဘဏ်များသည် စက်များနှင့် သခင်များဖြစ်၍ သူတို့သည် လူနှင့် ကျွန်များ ဖြစ်နေခြင်းကြောင့် ပေတည်း။

မည်သို့ပင်ဖြစ်စေ အချို့သော တပည့်တပန်းများသည် ရက်စက် ကြမ်းကြုတ်၍ တန်းခိုးဩဇာ ကြီးမားသော သခင်ကြီးများအား ကျွန်များ အဖြစ်ဖြင့် အလုပ်အကျွေး ပြုနေရခြင်းအတွက် အနည်းငယ်မျှ ဂုဏ်ယူကြသည်။ သူတို့သည် ကားပေါ်မှ အောက်သို့ မဆင်း။ ကားထဲတွင် အခန့်သား ထိုင်၍ အခြေအနေ အရပ်ရပ်ကို ရှင်းလင်း ပြောပြသည်။ မင်းတို့ သိတဲ့အတိုင်းပဲ။ မြေက အင်မတန်ညံ့တဲ့မြေ။ မင်းတို့ ဒီမြေပေါ်မှာ လုပ်ကိုင် စားသောက်လာကြတာလည်း ကြာပြီပဲ ဘုရားသခင် အသိပါကွာ။

စာရင်းငှားများကတော့ ခေါင်းတညိတ်ညိတ် လုပ်ကြသည်။ အံ့သြခြင်း၊ တွေဝေခြင်း ဖြစ်ကြသည်။ ပြီးတော့ မြေကြီးပေါ်ရှိ ဖုန်ထုပေါ်တွင် ထင်ရာ မြင်ရာ အရုပ်များကို ရေးဆွဲကြသည်။ မြေရှင်ကြီးများ၏ တပည့်တပန်းများ ပြောနေသည့် စကားများသည် မှန်ပါ၏။ သူတို့လည်း မသိ မဟုတ်။ သိကြပါ၏။ ဤအဖြစ်ကို ဘုရားသခင်လည်း သိပါ၏။ အကယ်၍ ဖုန်များသာ ကောင်းကင်သို့ ပျံမတက်ဘူး ဆိုပါမူ ...။ အကယ်၍ အပေါ်ယံမြေလွှာအထပ်သည် လေသယ်ရာ နောက်သို့ လိုက်ပါမသွားဘဲ မြေကြီးပေါ်၌သာ တည်ရှိနေမည် ဆိုပါမူ ... ။ အခြေအနေသည် ဤမျှလောက် ဆိုးရွားမည် မဟုတ်။

ထိုအခါ မြေပိုင်ရှင်များ၏ ကိုယ်စားလှယ် တပည့်တပန်းများက သူတို့ ပြောချင်နေသည့် လိုရင်းအချက်ကို ရောက်အောင် ဆက်ကြသည်။ မြေက တစ်နှစ်ထက် တစ်နှစ် ညံ့လာနေတယ်။ ဝါပင်တွေက မြေကို ဘယ်လို လုပ်သွားတယ်ဆိုတာ မင်းတို့ မြင်ကြ သိကြတဲ့ အတိုင်းပဲ။ ဝါပင်တွေက မြေကို တိုက်ရိုက် လုယက် ဖျက်ဆီးသွားကြတာ၊ မြေကြီးထဲက သွေးကို တစ်စက်ကလေးမှ မကျန်အောင် စုပ်သွားကြတာ။

စာရင်းငှားများက ခေါင်းညိတ်သည်။ သူတို့ သိပါ၏။ ဘုရားသခင်ကလည်း သိပါ၏။ သူတို့အနေဖြင့် သီးထပ်သီးညှပ်သော နှစ်စဉ်နှစ်တိုင်း ပြောင်း၍ ပြောင်း၍ စိုက်ပျိုးနိုင်ခဲ့ပါမူ မြေကြီးထဲမှ ကုန်ခန်းသွားသော အသွေးအသားများကို မြေကြီးထဲသို့ ပြန်သွင်းပေးသလို ဖြစ်ပေလိမ့်မည်။

အခုတော့လည်း အချိန်တွေက များစွာ နောက်ကျသွားခဲ့ပြီ။ ကိုယ်စားလှယ်များ ကလည်း သူတို့ထက် ပို၍ အားကြီးသော တန်ခိုးကြီးသော သတ္တဝါကြီးများ၏ အတွေးအခေါ် အယူအဆများနှင့် လုပ်နည်း လုပ်ဟန်များကို မြေငှားများ နားလည် သဘောပေါက် အောင် ရှင်းလင်း ပြောပြကြသည်။ အကယ်၍ လူတစ်ဦး တစ်ယောက်သည် စားနိုင်သောက်နိုင်ပြီး အခွန်အခများကိုသာ ပေးဆောင်သွားမည် ဆိုပါက မြေပေါ်တွင် ဆက်လက် နေနိုင်ခွင့်ရှိသည်။ မြေပေါ်တွင် စိုက်ပျိုးလုပ်ကိုင်နိုင်ခွင့် ရှိသည်။

မှန်ပါ၏။ လူတစ်ယောက်သည် သူ စိုက်ပျိုးထားသော သီးနှံများ မဖြစ်ထွန်း မအောင်မြင်သော နေ့အထိ၊ သူ့လက်ထဲတွင် စိုက်ပျိုးစရိတ် အရင်းအနှီးငွေ မရှိတော့၍

ဘဏ်မှ ငွေများ ချေးယူရသော နေ့အထိတော့ မြေပေါ်တွင် နေပြီး မြေပေါ်တွင် စိုက်ပျိုးသွားနိုင်ခွင့် ရှိသည်။

ဒါပေမဲ့ မင်းတို့ သိတဲ့အတိုင်းပဲ။ ဘဏ်တစ်ခု သို့မဟုတ် ကုမ္ပဏီတစ်ခုက ဒီကိစ္စကို မလုပ်နိုင်ဘူး။ ဘာကြောင့်လည်းဆိုတော့ အဲဒီ သတ္တဝါကြီးတွေက လေမရှူဘူး။ အေးသား မစားဘူး။ သူတို့က အမြတ်ငွေကို ရှူတယ်။ ချေးငွေပေါ်က အတိုးကို စားတယ်။ တကယ်လို့ သူတို့မှာ ဒါတွေ မရတော့ဘူးဆိုရင် မင်းတို့တစ်တွေ လေမရှူရ အစာ မစားရလို့ သေသလို သေသွားမှာ။ အဖြစ်ကတော့ ဝမ်းနည်းစရာ အဖြစ်တစ်ခုပဲ။ ဒါပေမဲ့ ဒီအတိုင်းပဲ ဖြစ်နေတယ်။ ဒီ အတိုင်းပဲ ဖြစ်မှာပဲ။

စာရင်းငှားများက သူတို့ မျက်ခုံးများကို ပင့်တင်လိုက်ကြပြီး မြေရှင် ကိုယ်စားလှယ်များအား လှမ်းကြည့်ကြသည်။ ပြောသမျှကို နားလည်အောင် ကြိုးစားကြသည်။ ကျုပ်တို့ ဒီမြေပေါ်မှာ ဆက်ပြီး နေလို့မရတော့ဘူးလား။ ရှေ့နှစ်ဟာ အခြေအနေကောင်းတဲ့ နှစ်တစ်နှစ် ဖြစ်ချင် ဖြစ်လာမှာပါ။ လာမယ့်နှစ်မှာ ဝါ ဘယ်လောက်ထွက်မယ်ဆိုတာ ဘုရားသခင် သိမှာပါ။ ပြီးတော့ စစ်ပွဲကြီးတွေလည်း ဖြစ်လာဦးမှာပါ။ စစ်ပွဲကြီးတွေ ဖြစ်လာရင် ဝါဈေး ဘယ်လောက်အထိ ဖြစ်လာမယ်ဆိုတာ ဘုရားသခင် သိပါတယ်။ ပေါက်ကွဲစေတတ်တဲ့ အရာဝတ္ထုတွေ ပစ္စည်းတွေကို ဝါကတစ်ဆင့် လုပ်ကြတာ မဟုတ်လား။ ပြီးတော့ ယူနီဖောင်းတွေ။ အဲဒါတွေကိုကော ဝါကပဲ ထုတ်လုပ်တာ မဟုတ်လား။ စစ်သားများများ ဖြစ်လာရင် ဝါဈေးဟာ ခေါင်အထိ တက်မှာ သေချာပါတယ်။ ရှေ့လာမယ့်နှစ်ဆိုရင် ဒီအတိုင်း ဖြစ်ချင် ဖြစ်နေမှာပါ။ သူတို့သည် မျှော်လင့်ချက် မကုန်သေးသည့် မျက်နှာထားများဖြင့် မော့ကြည့်နေကြလေသည်။

တို့များကတော့ အဲဒီ အခြေအပေါ်မှာ အမှီ မပြုနိုင်ဘူး။ ဘဏ်ဆိုတဲ့ သတ္တဝါကြီးက အချိန်ရှိသမျှ အမြတ်ရှိနေမှ ဖြစ်တာ။ သူက စောင့်မနေနိုင်ဘူး။ စောင့်နေရရင် အသက်ထွက်သွားလိမ့်မယ်။ မဟုတ်ဘူးလေ။ အခွန်အခကတော့ ဆက်ကောက် နေမှာပေါ့။ မရပ်ပါဘူး။ သတ္တဝါကြီးက ဖွံ့ဖြိုးမှု ရပ်သွားတာနဲ့ တစ်ပြိုင်နက် သေမှာပဲ။ တစ်စုံတစ်ခုသော အတိုင်းအတာ ပမာဏ ဖြစ်ပေါ်လာသည်အထိတော့ သူက မစောင့်နိုင်ဘူး။

နူးညံ့ ပျော့ပျောင်းလွန်းလှသော လက်ချောင်းကလေးများသည် ပြတင်းပေါက် တံခါးပေါင်ကို တတောက်တောက် ခေါက်နေကြသည်။ ကြမ်းတမ်း မာကျောလွန်းလှသော လက်ချောင်းကြီးများကတော့ လက်ထဲမှ တောင်ခြစ်မြောက်ခြစ် လုပ်နေသော တုတ်ချောင်း များကို တင်းကျပ်စွာ ဆုပ်ထားကြသည်။ အိမ်ရှေ့တံခါးပေါက်များ၌ ရပ်နေကြသော အမျိုးသမီးများသည် သက်ပြင်းကို လေးတွဲ့စွာ ချလိုက်ကြသည်။ ခွေးများသည် မြေရှင် ကိုယ်စားလှယ်များ၏ ကားများအနီးသို့ မယောင်မလည် ချဥ်းကပ်လာကာ သူတို့ နာခေါင်းများကို ရှုံ့ချည်ပွချည် လုပ်၍ အနံ့ခံကြသည်။ ထို့နောက် လေးဘက်လေးတန်ရှိ မော်တော်ကား တာယာ လေးလုံးကို တစ်လုံးပြီးတစ်လုံး သေးနှင့် ပန်းကြသည်။ ကြက်များသည် သူတို့ကိုယ်ပေါ်၌ ကပ်ငြိနေသည့် ဖုန်များကို အတောင်များ တဖျတ်ဖျတ်ရိုက်၍ ခါထုတ်ကြသည်။ ညစ်ပတ် ပုတ်ဟောင်လျက် ရှိနေသော ဝက်ခြံများအတွင်းမှ ဝက်များသည် ရွံ့ပုပ်ရေများကြားတွင် နာခေါင်းများဖြင့် ထိုးဆွပြီး စားကြွင်းစားကျန်များရှာရင်း တအီအီ အော်မြည်လျက် ရှိကြလေသည်။

စာရင်းငှားများသည် မြေရှင် ကိုယ်စားလှယ်များ၏ မျက်နှာများကို တစ်ကြိမ်ထပ်၍ ကြည့်ကြပြန်သည်။ ဒီလိုဆိုရင် ခင်ဗျားတို့က ကျုပ်တို့ကို ဘာလုပ်စေချင်လဲ။ ထွက်တဲ့ သီးနှံ ရောင်းရငွေထဲက အနည်းဆုံး ယူရမယ် ဆိုရင်တော့ မဖြစ်နိုင်ဘူး။ အခုပဲ ကျုပ်တို့အားလုံး ငတ်လုနီးပါး ဖြစ်နေကြပြီ။ ကျုပ်တို့ သားသမီးတွေဆိုရင် အချိန်ရှိသမျှ ဗိုက်ဆာ နေကြတာပဲ။ အဝတ်အထည်လည်း ဝတ်စရာ မရှိတော့ဘူး။ ရှိသမျှ အဝတ်တွေကလည်း စုတ်ပြတ်နေပြီ။ ဝတ်ရပြန်တော့ အစုတ်အနုပ်။ စားရပြန်တော့ တစ်လုတ်တစ်ဆုပ်ဆိုတဲ့ ဘဝ ရောက်နေကြပြီ။ တကယ်လို့ ကျုပ်တို့ အိမ်နီးနားချင်း အပေါင်းအသင်းတွေဟာ ကျုပ်တို့နဲ့ အဖြစ်မတူဘူးဆိုရင် သူတို့ဆီတောင် သွားလည်ဝံ့မှာ မဟုတ်တော့ဘူး။

နောက်ဆုံးတွင် မြေရှင် ကိုယ်စားလှယ်များသည် လိုရင်းအချက်သို့ ရောက်လာ ကြသည်။ စာရင်းငှားစနစ်သည် လက်ရှိ အခြေအနေနှင့် အံဝင်ခွင်ကျ မဖြစ်တော့။ ဆက်လက် ကျင့်သုံး၍ မရတော့။ ထွန်စက် တစ်ခုပေါ်မှ လူတစ်ယောက်သည် စာရင်းငှား မိသားစု ဆယ့်နှစ်စု သို့မဟုတ် ဆယ့်လေးစု၏ နေရာတွင် အစား ဝင်နိုင်သည်။ သူ့ကို လုပ်ခပေးပြီး ထွက်သမျှ သီးနှံများကို ယူမည်။ ငါတို့အနေဖြင့် ထိုစနစ်အတိုင်း မလုပ်၍ မဖြစ်။ လုပ်မှ ဖြစ်တော့မည်။ ထိုစနစ်ကို ငါတို့ မနှစ်သက်။ သို့သော်လည်း သတ္တဝါကြီးတွင် အဖျားရောဂါက ဝင်နေပြီ။ သတ္တဝါကြီး တစ်စုံတစ်ရာ ဖြစ်သွားမည်ကို စိုးရိမ်နေရပြီ။

မင်းတို့က ဝါပင်တွေနဲ့ မြေကို သတ်ပစ်နေကြတယ်။

ငါတို့ သိတယ်။ မြေတွေ အသက်မထွက်ခင် ဝါတွေကို ငါတို့ ရှင်းမှ ဖြစ်မယ်။ နောက်တော့ မြေတွေကို ရောင်းမယ်။ အရှေ့ဘက်ပိုင်းက မိသားစု အများအပြားက မြေယာကို နည်းနည်းပဲဖြစ်ဖြစ် အပိုင်ရချင်နေကြတယ်။

စာရင်းငှားများသည် ထိတ်လန့်တကြား ဖြစ်ကုန်ကြသည်။ ဒီလိုဆို ကျုပ်တို့ ဘာလုပ်ကြရမလဲ။ ကျုပ်တို့ ဘယ်လိုလုပ်ပြီး စားကြ သောက်ကြရမှာလဲ။

မင်းတို့အားလုံး မြေပေါ်က ထွက်ပေးမှ ဖြစ်မယ်။ ထွန်ရေး ထွန်ကြောင်းတွေက မင်းတို့ရဲ့ အိမ်တွေကိုပါ ဖြတ်သွားမှာ။

ထိုအခါ ဆောင့်ကြောင့်ထိုင်နေသော စာရင်းငှားများသည် ဒေါသတကြီး ထရပ်ကြသည်။ အဘိုးက ဒီမြေကို အသက်နဲ့ရင်းပြီး ယူထားခဲ့ရတာ။ သူဟာ ရက်အင်ဒီးယန်းတွေကို တိုက်ခိုက်ပြီး မောင်းထုတ်ခဲ့ရတယ်။ အဖေကျတော့ ဒီမြေပေါ်မှာ မွေးခဲ့တယ်။ သူ့ကျတော့ တောပင်တွေ ပေါင်းမြက်တွေကို ပင်ပန်းကြီးစွာနဲ့ ရှင်းလင်း သုတ်သင်ခဲ့ရတယ်။ မြွေဆိုးတွေကို သတ်ဖြတ် ဖယ်ရှားခဲ့ရတယ်။ အဲဒီနောက်တော့ ရာသီဥတု အလွန်ဆိုးရွာတဲ့နှစ်နဲ့ ကြုံခဲ့ရလို့ အဖေ ငွေနည်းနည်းပါးပါး ချေးခဲ့ရတယ်။ ပြီးတော့ ကျုပ်တို့ကို ဒီမြေပေါ်မှာ မွေးလာခဲ့တယ်။ ဟောဟိုမှာ မြင်လား။ အဲဒီအိမ်ထဲမှာ မွေးခဲ့တာ။ ကျုပ်တို့သားသမီးတွေလည်း အဲဒီထဲမှာပဲ မွေးတာ။ အဖေ့ခမျာ အခက်အခဲနဲ့ ကြုံလာတော့ ငွေမချေးလို့ မဖြစ်ဘူး။ ငွေချေးခဲ့ရတယ်။ အဲဒီနောက်တော့ ဒီမြေကို ဘဏ်က ပိုင်သွားတယ်။ ဒါပေမဲ့ ကျုပ်တို့အားလုံး ဒီမြေပေါ်မှာ ဆက်ပြီး နေခဲ့ကြတယ်။ ကျုပ်တို့ စိုက်ပျိုးလို့ ထွက်တဲ့ သီးနှံထဲက ကျုပ်တို့ နည်းနည်းပဲ ရတယ်။

ငါတို့ သိတယ်လကွာ။ အားလုံး သိပါတယ်။ အခုဟာက ငါတို့လုပ်တာ မဟုတ်ဘူးကွ။ ဘဏ်က လုပ်တာ။ ဘဏ်ဆိုတာက လူနဲ့တူတာ မဟုတ်ဘူး။ မြေဧက ငါးသောင်းကို ပိုင်ဆိုင်ထားတဲ့ မြေပိုင်ရှင်တစ်ယောက် ဆိုတာကလည်း ဘဏ်နဲ့ ဘာများထူးလို့လဲ။ သူလည်း လူနဲ့တူတာ မဟုတ်ဘူးဟ။ သူလည်းပဲ ကြောက်စရာ ကောင်းတဲ့ သတ္တဝါကြီး တစ်ကောင်ပဲ။

ခင်ဗျားတို့ပြောတာ ဟုတ်ပါတယ်ဟု စာရင်းငှားများက အော်ပြောသည်။ ဒါပေမဲ့ ဒီမြေက ကျုပ်တို့မြေဗျ။ ကျုပ်တို့ ခုတ်ထွင်ရှင်းလင်းပြီး ပြုစု ပျိုးထောင်လာတဲ့ မြေ။ ကျုပ်တို့အားလုံး ဒီမြေပေါ်မှာ မွေးလာကြတာ။ ဒီမြေပေါ်မှာ အသတ် ခံခဲ့ကြရတယ်။ သေခဲ့ကြရတယ်။ နောက်ဆုံး ဒီမြေဟာ လုံးဝ သုံးမရတဲ့ ဖုန်းဆိုးမြေ ဖြစ်သွားဦးတော့ ကျုပ်တို့မြေဟာ ကျုပ်တို့မြေပဲ။ ဒီပေါ်မှာ မွေးတယ်။ ဒီပေါ်မှာ အလုပ်လုပ်တယ်။ ဒီပေါ်မှာပဲ ခေါင်းချကြတယ်။ ဒါတွေဟာ ဒီမြေကို ကျုပ်တို့ ပိုင်ဆိုင်ကြောင်း ပြနေတာပဲ မဟုတ်လား။ ဒီဖြစ်ရပ်တွေကသာ မြေပိုင်ဆိုင်သူကို ဘယ်သူဆိုတာ ပြနေတာပါ။ ဂဏန်းတွေ ရေးထားတဲ့ စာရွက်တစ်ရွက်က ပြတာ မဟုတ်ပါဘူး။

ငါတို့ စိတ်မကောင်းပါဘူးကွာ။ အခုလို လုပ်တာ ငါတို့ မဟုတ်ဘူး။ သတ္တဝါကြီးပါ။ ဘဏ်ဆိုတာကလည်း လူတစ်ယောက်လို မဟုတ်ဘူးကွ။

မှန်ပါတယ်။ ဒါပေမဲ့ ခင်ဗျားတို့ ပြောနေတဲ့ ဘဏ်ဟာ လူတွေက လုပ်ထားတဲ့ဟာကြီးပါဗျာ။

ဟာ မဟုတ်ဘူး။ ဒီနေရာမှာတော့ မင်းတို့ လွဲနေပြီ။ အတော့်ကို လွဲနေတာ။ ဘဏ်ဆိုတာက လူတွေထက် ကြီးမားတဲ့ အရာတစ်ခုကွ။ ဘဏ်တစ်ခုထဲမှာ ပါဝင်နေတဲ့ လူတိုင်းဟာ ဘဏ်က လုပ်နေသမျှကို မုန်းတီးကြတယ်။ ဒါပေမဲ့ ဘဏ်ကတော့ လုပ်နေတာပဲ။ ငါတို့ ပြောပြလိုက်မယ်။ မှတ်ထားကြ။ ဘဏ်ဟာ လူတွေထက် တန်ခိုးကြီးမားတဲ့ အရာတစ်ခုပဲကွ။ ဘဏ်ဟာ သတ္တဝါကြီးပဲ။ လူတွေက ဘဏ်ကို တည်ထောင်တယ်။ ဒါပေမဲ့ လူတွေအနေနဲ့ ဘဏ်ကို မချုပ်ကိုင်နိုင်ဘူး။

စာရင်းငှားများက ဒေါသတကြီးဖြင့် ပြန်အော်ပြောသည်။ ဒီမြေအတွက် အဘိုးက ရက်အင်ဒီးယန်း လူရိုင်းတွေကို သတ်ဖြတ်ခဲ့ရတယ်။ အဲဒီတော့ ကျုပ်တို့အနေနဲ့ ဘဏ်တွေကို သတ်ဖြတ်ပစ်လို့ ရချင် ရမှာပဲ။ သူတို့က ရက်အင်ဒီးယန်း လူရိုင်းတွေနဲ့ မြွေဆိုးတွေထက် ပိုဆိုးနေတာပဲ။ အဖေနဲ့ အဘိုး လုပ်ခဲ့ကြသလို ကျုပ်တို့ကလည်း ဒီမြေကို ဆက်ပြီး ပိုင်ဆိုင်ဖို့အတွက် ဘဏ်တွေကို ပြန်တိုက်ကြမယ်ဗျာ။

အခုတစ်ကြိမ်တွင်မူ မြေရှင် ကိုယ်စားလှယ်များက ဒေါသကြီးလာကြ၏။ မင်းတို့ ဒီမြေပေါ်က ထွက်မသွားလို့ မဖြစ်ဘူး။ သွားရလိမ့်မယ်။

ဒါပေမဲ့ အဲဒီမြေက ကျုပ်တို့ မြေပဲ။ စာရင်းငှားများက ပြန်အော်သည်။ ကျုပ်တို့မြေ…။

မဟုတ်ဘူးကွ၊ ဘဏ်ကပိုင်တဲ့မြေ။ မင်းတို့ ထွက်ပေးရမယ်။

ရက်အင်ဒီးယန်း လူရိုင်းတွေ ရောက်လာတဲ့ အခါမှာ အဘိုး လုပ်သလိုပဲ ကျုပ်တို့လည်း လုပ်ကြမယ်။ ကဲ ဟော့ တို့များ သေနတ်တွေ သွားယူကြရအောင်။

ထို့နောက် ဘာတွေ ဆက်၍ ဖြစ်လာပါသနည်း။

ပထမဆုံး ပုလိပ်အရာရှိချုပ် ရောက်လာသည်။ ထို့နောက် ပုလိပ်သားများ ရောက်လာကြ၏။ မင်းတို့ ဒီမြေပေါ်မှာ ဆက်ပြီးနေဖို့ အားထုတ်နေကြရင် သူခိုးတွေ ဖြစ်မယ်။ ခုခံ တိုက်ခိုက်ပြီး သတ်ကြ ဖြတ်ကြမယ်ဆိုရင် လူသတ်သမား ရာဇဝတ်ကောင်တွေ ဖြစ်မယ်။ သူတို့ ပြောခဲ့သော သတ္တဝါကြီးသည် လူများနှင့် မတူ။ လူ မဟုတ်။ သို့သော်လည်း ထိုသတ္တဝါကြီးသည် သူ လုပ်ချင်သော အရာကို လူများက လုပ်ပေးလာအောင် စေခိုင်းနိုင်လေသည်။

ဒါပေမဲ့ တကယ်လို့ ကျုပ်တို့ သွားမယ်ဆိုရင် ဘယ်ကို သွားရမလဲ။ ဘယ်လိုသွားရမလဲ။ ကျုပ်တို့မှာ ငွေကြေးလည်း မရှိဘူး။

ငါတို့ စိတ်မကောင်းပါဘူးကွာဟု မြေရှင် ကိုယ်စားလှယ်များက ပြောသည်။ မြေဧက ငါးသောင်း ပိုင်ရှင်ဖြစ်သော ဘဏ်ကလည်း ထိုအခက်အခဲများအတွက် တာဝန်မယူ။ မင်းတို့ မပိုင်တဲ့ မြေပေါ်မှာ မင်းတို့က ဝင်နေကြတာကိုးဗျ။ တစ်ခုတော့ ရှိတယ်။ ဒုက္ခသည်တွေ အဖြစ်နဲ့ ကယ်ဆယ်ရေး ရန်ပုံငွေအပေါ်မှာ မှီခိုပြီး နေနိုင်ကြသားပဲ။ အဲသလို နေသွားကြပါလား။ ဒါနဲ့ နေကြစမ်းပါဦး။ မင်းတို့ ဘာကြောင့် အနောက်ဘက် ဒေသကို မသွားကြတာလဲ။ အနောက်ဘက်ဒေသက ကယ်လီဖိုးနီးယား ပြည်နယ်အထိ အရောက်သွားကြပါလား။ အဲဒီမှာ အလုပ်တွေ ပေါတယ်။ အေးလည်း သိပ်မအေးဘူး။ ဘယ်နေရာသွားသွား လိမ္မော်သီး တစ်လုံးတော့ ရနိုင်တယ်။ ဖြစ်ထွန်းအောင် စိုက်ပျိုးနိုင်တဲ့ သီးနှံ တစ်မျိုးမျိုးကတော့ အမြဲ ရှိနေတာပဲတဲ့။ မင်းတို့ ဘာပြုလို့ အဲဒီ ဒေသကို မသွားချင်ကြတာလဲ။ ထို့နောက် မြေရှင် ကိုယ်စားလှယ်များသည် သူတို့ ကားများကို စက်နှိုးလိုက်ကြသည်။ ကားများသည် တစ်ဘီးချင်း လိမ့်၍ ထွက်ခွာသွားကြလေ၏။

စာရင်းငှားများသည် မြေကြီးပေါ် ပြန်ထိုင်ကြသည်။ လက်ထဲမှ တုတ်ချောင်းဖြင့် တောင်ခြစ် မြောက်ခြစ် လုပ်ကြသည်။ နေလောင်ထားသော သူတို့ မျက်နှာများသည် မည်းမှောင်လျက် ရှိကြ၏။ နေပူဒဏ် ခံထားရသော သူတို့ မျက်လုံးများသည် တလက်လက် တောက်ပလျက် ရှိကြသည်။ အမျိုးသမီးများသည် သူတို့ ရပ်နေသော တံခါးဝများမှနေ၍ သူတို့ ယောကျ်ားများ ရှိရာသို့ သတိထား၍ လျှောက်သွားကြသည်။

ကလေးသူငယ်များ ကလည်း သူတို့ မိခင်များနောက်မှ သတိနှင့် ကပ်လိုက်လာကြသည်။ အရေးအကြောင်းပေါ်လာလျှင် ဒုန်းစိုင်း ထွက်ပြေးရန် တာစူထားကြသည်။ ခပ်ကြီးကြီး ယောကျ်ားကလေးများကတော့ သူတို့ အဖေများ ဘေးတွင် သူတို့အဖများ ထိုင်သလို ဝင်ထိုင်လိုက်ကြ၏။ ခဏမျှ ကြာသောအခါ အမျိုးသမီးများက မေးသည်။ သူတို့က ဘာလိုချင်လို့တဲ့တုန်း။

ယောကျ်ားများက ဖျတ်ခနဲ မော့ကြည့်သည်။ သူတို့ မျက်လုံးများသည် သူတို့၏ ရင်တွင်း၌ တငွေ့ငွေ့ တောက်လောင်နေသော အပူမီး အရှိန်ကို ဖော်ပြနေပေသည်။ ငါတို့ ဒီမြေပေါ်က ဖယ်ပေးရမယ်။ ထွန်စက်တစ်ခုနဲ့ ထွန်စက်ဆရာ တစ်ယောက်က တို့နေရာကို ဝင်ယူမယ်။ စက်ရုံကြီးတွေလိုပေါ့။

ဒီလိုဆို ကျွန်မတို့ ဘယ်သွားနေကြရမှာလဲဟု အမျိုးသမီးများက မေးသည်။

မသိဘူး။ မပြောတတ်ဘူး။

အမျိုးသမီးများသည် ယောကျ်ားများ အပါးမှ လျင်မြန်စွာ ခွာသွားကြသည်။ တိတ်တိတ် ဆိတ်ဆိတ်ပင် အိမ်ထဲသို့ ပြန်ဝင်သွားကြသည်။ ကလေး တစ်အုပ်တစ်မ ကိုလည်း အိမ်ထဲသို့ ပြန်သွင်းသွားကြသည်။ နာကြည်းခြင်း၊ စိတ်ရှုပ်ထွေးခြင်းများဖြင့် ပြည့်နေသော ယောကျ်ား တစ်ယောက်သည် စိတ်တိုလွယ်တတ်သ ည်။ စိတ်အခန့်မသင့် စရာနှင့် ကြုံလိုက်ပါက မိမိတို့ အလွန် ချစ်ခင်သူများ အပေါ်မှာပင်လျှင် ရုတ်တရက်ထ၍ ဒေါသအိုး ပေါက်ကွဲ တတ်ကြ၏။ ဤသဘောကို သိနေသော အမျိုးသမီးများသည် သူတို့ ယောကျ်ားများအား ဖုန်ထဲ၌ထိုင်၍ စိတ်ကူးချင်ရာ ကူးနေပြီး ရေးချင်ရာ ရေးနေ ပေစေတော့ဟု ပစ်ထားခဲ့ကြလေ၏။

ခဏမျှ ကြာသောအခါ စာရင်းငှား ယောကျ်ားများသည် ဘေးပတ်ဝန်းကျင်ကို လျှောက်၍ကြည့်သည်။ လွန်ခဲ့သော ဆယ်နှစ်ခန့်က တပ်ဆင်ထားခဲ့သည့် ငန်းလည်ပင်းပုံ ရေဘုံပိုင်၊ ထောင်ပေါင်းများစွာသော ကြက်များကို ခုတ်ထစ် သတ်ဖြတ်ခဲ့သည့် သစ်သားတုံးကြီး၊ တဲအတွင်း၌ ချထားသည့် လက်ထိုးထယ်၊ ပြီးတော့ မြင်းစားခွက်။

အိမ်များအတွင်း၌လည်း ကလေးများသည် မိခင်များကို ဝိုင်းရံလျက် ရှိကြသည်။ ကျွန်တော်တို့ ဘာလုပ်ကြမလဲ အမေ။ ကျွန်တော်တို့ ဘယ်သွားနေကြမလဲ။

မိခင်များက အဖြေပေးသည်။ တို့လည်း မပြောတတ်သေးဘူး။ သွား သွား။ ကစားချေကြ။ ဒါပေမဲ့ နင်တို့အဖေနားကို မသွားကြနဲ့။ သူ့အနားသွားရန် အရိုက်ခံနေရမယ်။ ထို့နောက် အမျိုးသမီးများသည် သူတို့ လုပ်စရာရှိသည်များကို ဆက်၍ လုပ်ကြသည်။ သို့သော်လည်း စိတ်အေးနားအေး လုပ်ကိုင်နေခြင်းမျိုး မဟုတ်။ လုပ်ရင်းကိုင်ရင်းမှပင် ဖုန်တောထဲ၌ ထိုင်၍ တွေတွေငေးငေး ဖြစ်နေကြသော သူတို့ အမျိုးသားများ၏ အရိပ်အကဲကို တစ်ချိန်လုံး မျက်ခြည်မပြတ် စောင့်၍ အကဲခတ်လျက် ရှိကြလေသည်။

လယ်ထွန်စက်ကြီး များသည် လမ်းမကြီးများပေါ်သို့ ရောက်လာကြသည်။ ထိုမှတစ်ဆင့် လယ်ကွင်းများ အတွင်းသို့ ဆင်းကြ၏။ ကြီးမားလှသော ထွန်သွားများ၏ ရွေ့လျား သွားလာနေပုံမှာ ပိုးမွှားများ တွားသွားနေသည့်နှယ် ရှိသည်။ လှုပ်ရှားနေသော အင်အားမှာ မယုံကြည်နိုင် လောက်အောင် ကြီးမားသည်။ ထွန်သွားများသည် မြေကြီးပေါ်၌ တွား၍ သွားကာ သူတို့နောက်တွင် ထွန်ရေးထွန်ကြောင်းကြီးများ ထင်၍ ကျန်ရစ်စေခဲ့သည်။ အလုပ်မှ ခဏတစ်ဖြုတ် ရပ်နားနေသည့် အချိန်တွင် သည် လယ်ထွန်စက်ကြီးများ ဆီမှ ထွက်လာနေသည့် အသံမှာ ပြတ်တောင်း ပြတ်တောင်းနှင့် မပြည်ချင့် ပြည်ချင်။ အလုပ်လုပ်ရန် လှုပ်ရှားလာသည့်အခါမူ သူတို့အသံသည် မိုးခြိမ်းသံတမျှ ပြင်းထန်သည်။ ထို့နောက် အလွန် ကျယ်လောင်စူးရှသော ညည်းသံကြီးကို ပြုတတ်သည်။ နှာခေါင်းတို၍ ပြားသော သတ္တဝါကြီးများ ဖြစ်၏။ သူတို့သည် ဖုန်များကို ထိုးဖွကာ ထောင်းထောင်း ထနေအောင် လုပ်သည်။ သူတို့၏ နှာတံများကို ဖုန်ထဲတွင် နစ်ကာ နယ်မြေအတွင်း၌ နေရာအနှံ့ လှည့်လည်သွားလာသည်။ သူတို့သည် ခြံစည်းရိုးများ ကိုလည်း ထိုးဖောက်ဖြတ်သန်းသည်။

အိမ်ဝင်းတံခါးများကိုလည်း ကျော်နင်း ဖြတ်သန်းသည်။ ချောင်းငယ် မြောင်းငယ်နှင့် ရိုးများကိုလည်း ကျော်လွှား ဖြတ်သန်းသည်။ သူတို့သည် မြေကြီးကို တွယ်ကပ်ပြီး ပြေးသွားနေခြင်း မဟုတ်။ သူတို့၏ ကိုယ်ပိုင်ဖြစ်သော ဘီးကြီးများကို အားပြု၍ သွားနေခြင်း ဖြစ်သည်။ သူတို့သည် တောင်ပူစာကိုလည်း အရေး မလုပ်။ နက်သော ကျဉ်းမြောင်းသော ကျောက်ခဲများ ထူထပ်သော တောင်ကြား လွင်ပြင်များ ကိုလည်း ဂရုမစိုက်။ ရေစီးမြောင်းများ ဝင်းထရံများ အိမ်များ အားလုံး ရှိရှိသမျှ ဘာကိုမှ အလေးမထား။

သံဖင်ထိုင်ခုံပေါ်၌ ထိုင်နေသော လူသည် လူနှင့်မတူ။ လက်အိတ်စွပ်ထားသော နေကာမျက်မှန် တပ်ထားသော နှာခေါင်းနှင့် ပါးစပ်တွင် ဖုန်ကာ ရော်ဘာ မျက်နှာဖုံးစွပ်ထားသော ထိုလူသည် သတ္တဝါကြီး၏ အစိတ်အပိုင်း တစ်ခုမျှသာ ဖြစ်သည်။ ထိုင်ခုံပေါ်မှ စက်ရုပ် တစ်ရုပ်မျှသာ ဖြစ်သည်။ ခေါင်းတိုင်များမှ ထွက်လာနေသော မိုးခြိမ်းသံတမျှ ကျယ်လောင်လှသည့် မြည်ဟည်းသံသည် တစ်နယ်လုံးကို လွှမ်းခြုံ ထားသည်။ အသံသည် လေထု မြေထုနှင့် တစ်သားတည်း တစ်ထပ်တည်း ပေါင်းစပ်လျက် ရှိ၏။ ထို့ကြောင့်လည်း မြေကြီးရော လေထုပ် တုန်ခါလျက် ရှိလေသည်။

ထွန်စက်မောင်းသည့် သူ့ထွန်စက်၏ အရှိန်ကို မထိန်းချုပ်နိုင်ချေ။ ထွန်စက်သည် နယ်မြေကို တည့်တည့်ကြီး ဖြတ်သည်။ ထွန်ယက် စိုက်ပျိုးထားစ မြေ တစ်ဒါဇင်ခန့်ကို ဖောက်ထွင်း နင်းခြေသွားပြီး လာလမ်းအတိုင်း တည့်တည့်ကြီး ပြန်လှည့်လာသည်။ အကွေ့များနှင့် ရင်ဆိုင်ရသည့်အခါ ရုတ်တရက် ဆွဲလိုက်သည့် ဘရိတ်အရှိန်ကြောင့် ထွန်စက်သည် တုံ့ခနဲ တုံ့ခနဲ ဖြစ်သွားသည်။ သို့သော်လည်း ထွန်စက် မောင်းသူ၏ လက်များသည်။ စက်ကြီးကို အရှိန်သေသွားအောင်တော့ မလုပ်နိုင်ချေ။ အဘယ်ကြောင့် ဆိုသော် ဤလယ်ထွန်စက်ကြီးကို တည်ဆောက်ပေးလိုက်သော၊ ဤလယ်ထွန်စက်ကြီးကို စေလွှတ်လိုက်သော သတ္တဝါကြီးက ထွန်စက်မောင်း၏ လက်များကို လည်းကောင်း ထွန်စက်မောင်း၏ ဦးနှောက်နှင့် အကြောများကို လည်းကောင်း ပိုင်ပိုင်နိုင်နိုင် ထိန်းသိမ်း ချုပ်ကိုင်ထားခြင်းကြောင့်ပေတည်း။

သတ္တဝါကြီးသည် ထွန်စက်မောင်း၏ မျက်လုံးများကို မျက်မှန်စိမ်း တပ်ပေး ထားသည်။ ထွန်စက်မောင်း၏ ပါးစပ်ကို ပိတ်ဆို့ထားသည်။ ထွန်စက်မောင်း၏ စိတ်ကို မှောင်ချထားသည်။ သူ့နှုတ်ကို ဆွံ့အနေအောင် လုပ်ထားသည်။ သူ့အသိ သူ့အမြင်နှင့်

သူ့နားလည် သိတတ်မှုများကို သူ့စိတ်အတွင်းသို့ မဝင်နိုင်အောင် ပိတ်ထားသည်။ စေခိုင်းသမျှကို မငြင်းဆန်နိုင်အောင် ချုပ်ကိုင်ထားသည်။ သူသည် မြေကြီး၏ လက်ရှိ ပကတိ အခြေအနေကိုလည်း မြင်နိုင်စွမ်း မရှိ။ တသင်းသင်း ပျံ့နေသည့် မြေကြီး၏ ရနံ့ကိုလည်း ရှူနိုင်စွမ်း မရှိ။ သူ့ခြေထောက်များသည် မြေစိုင်မြေခဲများ အပေါ်၌ လျှောက်သွားခြင်း မရှိ။ သူ့စိတ်အာရုံသည် မြေကြီး၏ ပိုက်ထွေးမှုနှင့် တန်ခိုးဩဇာ ကြီးမားမှုများကိုလည်း ခံစားသိရှိခြင်း မရှိ။

သူသည် ထွန်စက်၏ သံဖင်ထိုင်ခုံပေါ်၌သာ ထိုင်၍ သူ့ခြေထောက်များသည် ထွန်စက်၏ သံခြေနင်းများပေါ်၌သာ နင်း၍ သွားလာ လှုပ်ရှားသည်။ သူ့တွင် ရှိနေသည့် အစွမ်းသတ္တိ၏ ထက်မြက်မှုကိုလည်း သူ မမြင်။ ထိုအစွမ်းသတ္တိအတွက် အားတက်ခြင်း ဂုဏ်ယူခြင်း၊ အနိုင်ယူခြင်း၊ ဝင့်ကြွားခြင်း၊ သာယာခြင်း၊ ယစ်မူးခြင်း၊ ဆုံးရှုံးခြင်း၊ ဒေါသမာန် တက်ခြင်း စသော အာရုံခံစားမှုများသည် သူ့စိတ်အစဉ်တွင် နည်းနည်းကလေးမှ ပေါ်ပေါက်လာခြင်း မရှိ။ ထိုကဲ့သို့ မပေါ်ပေါက်ခြင်းကြောင့်လည်း သူ့ကိုယ်သူ ရွှင်လန်း တက်ကြွနေအောင်၊ ဒေါသမာန် တက်နေအောင် အားပေးအားမြှောက်ခြင်း မပြု။

သူသည် မြေ၏ အနှစ်သာရကိုလည်း မသိ။ မြေကို ပိုင်ဆိုင်ရယူလိုစိတ်လည်း မရှိ။ မြေအပေါ်၌ ယုံကြည်ကိုးစားမှုလည်း မရှိ။ မြေကြီးမှ ရလာနိုင်သည့် အရာများ အပေါ်၌လည်း စုံမက် မြတ်နိုးရစကောင်းမှန်းလည်း မသိ။

အကယ်၍ မြေကြီးပေါ်၌ ကျသွားသော သစ်စေ့တစ်စေ့ အပင်ပေါက်မလာ ပါကလည်း သူ့မှာ ပူပင်သောက ရောက်စရာမရှိ။ အကယ်၍ မြေကြီးထဲမှ တွန်းထိုး တိုက်ခိုက်ပြီး ထွက်လာရသော အပင်ငယ် တစ်ပင်သည် မိုးခေါင်၍ ညှိုးနွမ်းခြောက်သွေ့ သွားသည် ဆိုပြားအံ့။ သို့တည်းမဟုတ် အဆမတန် ရွာသွန်းနေသော မိုးကြောင့် ရေတွင် နစ်မြုပ်ကာ ပျက်စီးသွားသည် ဆိုငြားအံ့။ ထိုပျက်စီးမှုသည် သူ့အား ထိခိုက်နစ်နာစရာ အကြောင်း နည်းနည်းကလေးမှ မရှိ။

သူ လယ်ယာမြေကို ချစ်ခင် တွယ်တာပုံမှာ ဘဏ်က လယ်ယာမြေပေါ်၌ ချစ်ခင် တွယ်တာပုံမျိုးသာ ဖြစ်သည်။ သည်ထက် မပို။ သူ့အဖို့တော့ လယ်ထွန်စက်သည် အံ့ဩဖွယ်ရာ အလွန်ကောင်းသည့် အရာဝတ္ထုကြီးတစ်ခု ဖြစ်ချေသည်။ လယ်ထွန်စက်၏ စက်ကိရိယာ ပစ္စည်းများ တပ်ဆင်ထားသော မျက်နှာပြင်၊ လှိုင်းလုံး တစ်လုံးသဖွယ်

အရှိန်အဟုန် ပြင်းစွာဖြင့် ဒလဟော ထိုးပြေးသွားနေသည့် စွမ်းအား။ ကျယ်လောင်စွာ မြည်ဟည်းလျက်ရှိသော စက်သံ။ ဤအရာအားလုံးသည် သူ့မျက်စိထဲတွင် အံ့မခန်း ဖြစ်လျက် ရှိလေသည်။ သို့သော်လည်း ဤလယ်ထွန်စက်သည် သူ ပိုင်သော လယ်ထွန်စက် မဟုတ်။

လယ်ထွန်စက်၏ နောက်မှ တဝင်းဝင်း တလက်လက် တောက်ပနေသော သံပြားဝိုင်းကြီးများသည် တလိမ့်လိမ့် ပြေး၍ လိုက်လာလျက် ရှိ၏။ ထိုသံပြားဝိုင်းကြီး များတွင် ပါလာသည့် ဓားသွားများသည် မြေကြီးကို ခွဲစိတ် လှီးဖြတ်လျက် ရှိသည်။ တကယ်တော့ ထွန်ယက်နေခြင်း မဟုတ်။ မြေကြီးကို ခွဲစိတ် လှီးဖြတ်နေခြင်းသာ ဖြစ်၏။ ခွဲစိတ် လှီးဖြတ်ထားသမျှ မြေလွှာ မြေခဲများကို ညာဘက်ဘေးသို့ တွန်းပို့သွားသည်။ ထိုအခါ ဘယ်ဘက်ရှိ သံပြားဝိုင်းကြီးများက ဆီး၍ ခွဲဖြတ်ကာ ဘယ်ဘက်ဘေးသို့ ပြန်၍ တွန်းပို့သည်။ အလွှာလိုက် အလွှာလိုက် ဖြစ်သွားနေသော မြေလွှာ မြေချပ်များနှင့် အဆက်မပြတ် ထိတွေ့ ပွတ်တိုက်မှုကြောင့် ထွန်သွား ဓားကြီးများသည် တလက်လက် တောက်ပလျက် ရှိကြလေသည်။ သံပြားဝိုင်းကြီးများ၏ နောက်မှ ကပ်ပါလာသော မြေလွှာ အချပ်အလွှာ ကြီးများကို သံခွေးသွားစိတ်များက မွမွကြေသွားအောင် ဝါးပစ်သည်။ ထိုအခါ မြေလွှာ မြေချပ် မြေစိုင် မြေခဲများသည် မှုန့်မှုန့်ညက်ညက် ဖြစ်သွားရလေ၏။ ခွေးသွားစိတ်များ၏ နောက်မှ တွဲလျက် ပါလာသော မျိုးကြဲစက်များသည် မျိုးစေ့များကို အဆက်မပြတ် ကြဲချလျက် ရှိလေသည်။

ထွန်စက်မောင်းသည် သံဖင်ထိုင်ခံတွင် ထိုင်လျက် ရှိသည်။ ထွန်စက်နောက်မှ ထင်ကျန်ရစ်ခဲ့သည့် တစ်ဖြောင့်တည်း ဖြစ်နေသော ထွန်ရေး ထွန်ကြောင်းများကို ကြည့်၍ ပီတိဖြစ်လျက် ရှိ၏။ သူ မပိုင်ဆိုင်သော သူ သံယောဇဉ်မရှိသော ထွန်စက်အတွက် ဂုဏ်ယူမဆုံး ဖြစ်နေသည်။ သူ မထိန်းချုပ်နိုင်သော ထွန်စက်၏ စွမ်းအားအတွက် ကျေနပ်အားရ၍ မဆုံး ဖြစ်နေသည်။ မျိုးကြဲစက်မှ ချထားပစ်သည့် မျိုးစေ့များမှ သီးနှံများ ဖြစ်ထွန်းပြီး ရိတ်သိမ်းချိန် ရောက်သည်အထိ မြေကြီးခဲ တစ်ခဲကိုပင် လက်ဖျားနှင့် တို့သည့်လူ မရှိ။ မျိုးစေ့ကို ထိခဲ့ကိုင်ခဲ့သူလည်း မရှိ။ သီးနှံများ ဖြစ်ထွန်းအောင်မြင်မှုကို တောင့်တ မက်မောမည့်သူလည်း တစ်ဦးတစ်လေမျှပင် မရှိ။ လူတို့သည် သူတို့ လက်များဖြင့် မထွန်ခဲ့ မယက်ခဲ့ မကြဲခဲ့ မပျိုးခဲ့ မစိုက်ခဲ့သော မြေမှ ထွက်ပေါ်လာသည့် သီးနှံများကို စားကြသည်။ လယ်ယာမြေများသည် သံထည်များ အောက်တွင် အသစ် မွေးဖွားလာကြသည်။ ပြီးတော့ ထိုသံထည်များအောက်မှာပင် တဖြည်းဖြည်း သေဆုံးကြရ

လေသည်။ အဘယ်ကြောင့်ဆိုသော် လယ်ယာမြေများသည် ချစ်ခင် တွယ်တာခြင်းကို မခံရ။ မုန်းတီး ရွံရှာခြင်းကိုလည်း မခံရ။ ဆုတောင်းပေးမည့် သူလည်း မရှိ။ ကျိန်ဆဲမည့် သူလည်း မရှိ ဖြစ်နေသောကြောင့်ပေတည်း။

မွန်းတည့်ချိန်တွင် ထွန်စက်မောင်းသမားသည် သူ့လယ်ထွန်စက်ကို စာရင်းငှား တစ်ယောက်၏ အိမ်အနီး၌ ရပ်နားကာ သူ့နေ့လယ်စာ ထမင်းဘူးကို ဖွင့်သည်။ ဘူးထဲတွင် ဖယောင်းစက္ကူဖြင့် ပတ်၍ ထုပ်ထားသော အသားညှပ် ပေါင်မုန့်ချပ်များနှင့် ပေါင်မုန့်ဖြူ ဒိန်ခဲ၊ အစာသွတ်မုန့်၊ ချဉ်ရည် စသည်များ ပါသည်။ သူ စားနေပုံမှာ စိတ်ပါလက်ပါ မဟုတ်။ ယခုအချိန်အထိ မြေပေါ်မှ ရွှေ့ပြောင်းမသွားကြသေးသော စာရင်းငှားများသည် သူ့အနီးသို့ ကပ်လာကြသည်။ အဖုံးအကာများ ချွတ်ထားသည့် ထွန်စက်မောင်းသမား၏ မျက်နှာကို အထူးအဆန်းလုပ်၍ ကြည့်ကြသည်။ ဖုန်ကာ ရော်ဘာ မျက်နှာဖုံး တပ်ထားရာ မျက်လုံးနစ်ဖက် ပတ်ပတ်လည်တွင် အဖြူကြောင်းများသည် အဝိုင်းလိုက် အကွင်းလိုက် ထင်လျက်ရှိ၍ နာခေါင်းနှင့် ပါးစပ် တစ်ဝိုက်တွင်လည်း အဖြူရောင် စက်ဝိုင်းကြီးတစ်ခု ထင်လျက် ရှိလေသည်။ သူသည် လယ်ထွန်စက်ကို ရပ်ထားသော်လည်း စက်ကိုတော့ သတ်မထားပေ။ အိပ်ဇောပိုက်ဆီမှ စက်သံသည် စည်းချက်မှန်မှန် ထွက်ပေါ်လျက် ရှိ၏။ ထွန်စက်အတွက် သုံးရသည့် လောင်စာဆီ ဈေးပေါခြင်းနှင့် စက်ကို အသစ်တစ်ဖန် ပြန်နှိုးပြီး သုံးရသည်ထက် ယခုကဲ့သို့ စက်မသတ်ဘဲထားပြီး သုံးရခြင်းက ပို၍ ထိရောက်သည်ဟူသော အယူအဆကြောင့် စက်ကို မသတ်ဘဲထားခြင်း ဖြစ်လေသည်။

အဝတ်အစား စုတ်စုတ်ပြတ်ပြတ် ပေပေရေရေနှင့် ကလေးတစ်အုပ်သည် ထွန်စက်မောင်း၏ အနီးတွင် ဝိုင်းအုံလျက် ရှိကြသည်။ သူတို့အဖို့တော့ ထွန်စက်မောင်း သမားသည် လူထူးလူဆန်းတစ်ယောက် ဖြစ်နေသည်။ ဆီကြော်မုန့်နှင့်သာ တင်းတိမ်ခဲ့ကြ ရသော ကလေးများသည် အသားညှပ်ပေါင်မုန့်များကို မြင်သောအခါ ဆာလောင် မွတ်သိပ်သော မျက်လုံးများဖြင့် လှမ်းကြည့်နေကြသည်။ ဒိန်ခဲနံ့နှင့် ချဉ်ရည်နံ့များကို ရသောအခါတွင်မူ ပါးစပ်တပြင်ပြင် ဖြစ်လာကြသည်။ သူတို့သည် ထွန်စက်မောင်းအား စပ်စပ်စုစု လုပ်၍ မေးမြန်းခြင်း မရှိ။ အစားကို ပါးစပ်ဆီသို့ ယူသွားနေသော လက်ကိုသာ စိတ်ဝင်တစား ကြည့်နေကြသည်။ တလှုပ်လှုပ်နှင့် ဝါးနေသည့် ပါးစပ်အပေါ်တွင် သူတို့ စိတ်ဝင်စားခြင်း မရှိ။ သူတို့ မျက်လုံးများသည် အသားညှပ်ပေါင်မုန့်ကို ကိုင်ထားသော လက်ပေါ်၌သာ စူးစိုက်လျက် ရှိကြလေသည်။ ခဏမျှ အကြာတွင် ယခုအချိန်ထိ

ဤမြေပေါ်မှ အပြီးအပိုင် ထွက်ခွာမသွားနိုင်သေးသော စာရင်းငှားများသည် ထွန်စက်၏ဘေး၌ ကျလျက်ရှိသော ထွန်စက် အရိပ်တွင် ဝင်၍ ဆောင့်ကြောင့်ထိုင် သည်။

"ဘယ်လိုလဲ၊ နေစမ်းပါဦး၊ မင်းဟာ ဂျိုးဒေးဗစ်ရဲ့သား မဟုတ်လား "

"ဟုတ်တယ်ဗျ " ဟု ထွန်စက်မောင်းသမားက ပြောသည်။

"ဒီလိုဆိုရင် ဘာပြုလို့ မင်း ဒီအလုပ်မျိုးကို လုပ်နေတာလဲ၊ ဒီအလုပ်က ကိုယ့်ဘဝတူ လူတွေကို ပြန်ပြီး ဆန့်ကျင်နေတဲ့ အလုပ်ပဲ "

"တစ်နေ့ သုံးဒေါ်လာလေဗျာ၊ ထမင်း နပ်မှန်အောင် စားရဖို့အတွက် ကျုပ်ဘယ်လောက်ပဲ လုပ်လုပ် မှန်မှန် စားရတော့တဲ့ ဘဝမှ မဟုတ်တာ၊ ကျုပ်မှာက မိန်းမနဲ့ ကလေးတွေနဲ့၊ ကျုပ်တို့ မစားဘဲ မနေနိုင်ဘူး၊ တစ်နေ့ သုံးဒေါ်လာဆိုတာ နည်းတဲ့ငွေလား၊ ပြီးတော့ နေ့စဉ်မှန်မှန် ရတာ"

"မင်းပြောတာလည်း မှားတော့ မမှားပါဘူး" ဟု စာရင်းငှားက ပြန်ပြောသည်။ "ဒါပေမဲ့ မင်းရဲ့ တစ်နေ့ သုံးဒေါ်လာက မိသားစု ဆယ့်ငါးစု နှစ်ဆယ်လောက် ထမင်းငတ်အောင် လုပ်နေတယ်ကွ၊ လူတစ်ရာနီးပါးလောက်ဟာ မင်းရဲ့ တစ်နေ့ သုံးဒေါ်လာကြောင့် မြေပေါ်က အပြီးအပိုင် ထွက်သွားပြီး လမ်းမပေါ်မှာ တလည်လည် ဖြစ်နေကုန်ပြီ၊ မင်း အဲဒါ သိရဲ့လား "

ထွန်စက်မောင်းသမားက ပြန်ပြောသည်။ "ဒါကို ကျုပ် တွေးမနေနိုင်ဘူးဗျာ၊ ကျုပ်သားသမီးအတွက်ပဲ ကျုပ် တွေးရတော့တာပဲ၊ တစ်နေ့ သုံးဒေါ်လာ နေ့စဉ်မှန်မှန် ရတယ်၊ အချိန်တွေက ပြောင်းကုန်ပြီ ဆရာရေ့၊ သိတယ် မဟုတ်လား၊ ခင်ဗျားမှ မြေဧက နှစ်ထောင်၊ ငါးထောင်၊ တစ်သောင်းနဲ့ ထွန်စက် တစ်စီးလောက်မှ မပိုင်ရင် မြေကြီးပေါ်မှာ အသက်မွေးလို့ မရနိုင်တော့ဘူး၊ သီးနှံ စိုက်လို့ရတဲ့ မြေကြီးဟာ ကျုပ်တို့ ခင်ဗျားတို့လို ပါမွှားတွေအတွက် မဟုတ်တော့ဘူးဗျ၊ အူသံ အော်သံကြီးကို မကြိုက်လို့ ကန်ထုတ်ပစ်ချင်ပေမဲ့ ခင်ဗျား ကန်ထုတ်လို့ မရတော့ဘူး၊ ဘာကြောင့်လဲဆိုတော့ ခင်ဗျားက ဖို့ဒ်ကားလည်း မထုတ်လုပ်နိုင်ဘူး၊ ပြီးတော့ တယ်လီဖုန်း ကုမ္ပဏီလည်း မဟုတ်ဘူး၊ လက်ရှိ ကောက်ပဲသီးနှံ စိုက်ပျိုးရေး အခြေအနေကတော့ ဒီပုံစံအတိုင်း ဖြစ်နေပြီ၊ ဘယ်သူမှ ဘာမှ

လုပ်လို့မရတော့ဘူး၊ ခင်ဗျားအနေနဲ့ တစ်နေ့ရာရာသွားပြီး တစ်နေ့ သုံးဒေါ်လာ မှန်မှန်ရမယ့် အလုပ်မျိုး ရဖို့သာ ကြိုးစားပေတော့၊ အဲဒီတစ်နည်းပဲ ရှိတော့တယ်"

စာရင်းငှားသည် သူ ရင်ဆိုင်နေရသည့် အခြေအနေ အရပ်ရပ်ကို သူ ဉာဏ်မီသလောက် စေ့စေ့စပ်စပ် ဆင်ခြင် စဉ်းစားသည်။ "အင်း အဖြစ်ကတော့ ရယ်စရာပဲ၊ တကယ်လို့ လူတစ်ယောက်ဟာ ပစ္စည်းတစ်ခုပိုင်တယ် ဆိုကြပါစို့၊ သူ ပိုင်ဆိုင်နေတဲ့ ပစ္စည်းဟာ နည်းနည်းများများ အဲဒီပစ္စည်းဟာ သူ့ပစ္စည်းပဲ၊ ပစ္စည်းဟာလည်းသူ၊ သူဟာလည်း ပစ္စည်းဆိုတဲ့ အခြေအနေမျိုး ဖြစ်ရမယ်၊ အဲဒီပစ္စည်းဟာ သူ့ဘဝရဲ့ အစိတ်အပိုင်းတစ်ခု ဖြစ်နေရမယ်၊ အဲဒီပစ္စည်းဟာ သူ့ဘဝနဲ့ တစ်သားတည်း ဖြစ်နေရမယ် ဆိုပါတော့၊ လူတစ်ယောက်ဟာ သူ့ခြေထောက်နဲ့ နင်းပြီး လျှောက်သွားနေနိုင်တဲ့ ပစ္စည်းမျိုး၊ သူ့လက်နဲ့ ကိုင်ချင်သလို ကိုင်ပြီး ထိချင်သလို ထိနေနိုင်တဲ့ ပစ္စည်းမျိုး၊ သူ ပြုပြင်ချင်သလို ပြုပြင်လို့ ရနေတဲ့ ပစ္စည်းမျိုးကို ပိုင်ဆိုင်တယ်၊ အဲဒီပစ္စည်းကို သူ ဖြစ်စေချင်သလို လုပ်လို့မရဘူးဆိုရင် စိတ်ကတော့ ထိခိုက်ရမှပဲ၊ အခု ငါပိုင်တဲ့မြေ ဆိုပါတော့၊ ငါ ဖြစ်ချင်သလို ဖြစ်မလာရင် စိတ်ရှုပ်ရမှာပဲ၊ ဒါပေမဲ့ မိုးလေဝသကောင်းလို့ စိုက်ပျိုး ဖြစ်ထွန်းလာရင်တော့ စိတ်ချမ်းသာ ရမှာပေါ့၊ နောက်ဆုံး ဘာပဲဖြစ်ဖြစ် သူ လုပ်ကိုင်နေသမျှ အဆင်မပြေဘူး မအောင်မြင်ဘူးပဲ ထားဦးတော့၊ ဒီပစ္စည်းကို သူ ပိုင်ဆိုင်နေရတဲ့အတွက် ဂုဏ်သိက္ခာကတော့ သူ့မှာ ရှိနေတာပဲ"

စာရင်းငှားသည် ထို့ထက် တစ်ဆင့်တက်၍ ထပ်မံ စဉ်းစားပြန်သည်။ "ဒါပေမဲ့ လူတစ်ယောက်ကို သူ့လက် သူ့ခြေထောက်တွေနဲ့ မထိနိုင် မကိုင်နိုင်၊ လုပ်ချင်သလို မလုပ်နိုင်တဲ့ ပစ္စည်းတစ်ခု ပေးထားတယ် ဆိုပါတော့၊ ဘာများ အဓိပ္ပါယ် ရှိမှာလဲ၊ သူ ရထားတဲ့ ပစ္စည်းဟာ သူ့ဘဝနဲ့ တစ်သားတည်း ဖြစ်မှာတဲ့လား၊ သူ ဆန္ဒရှိတဲ့အတိုင်းလည်း မလုပ်နိုင်၊ သူ ဆန္ဒရှိတဲ့ အတိုင်းလည်း မတွေးနိုင် ဖြစ်ရမှာပဲ၊ တကယ်တော့ ပစ္စည်းက သူ့ထက် ကြီးနေပြီ၊ သူ့ကို လွှမ်းမိုးနေပြီ၊ ဒီတော့ သူဟာ ပစ္စည်းရဲ့ ကျေးကျွန်ဘဝ ရောက်သွားရော၊ အင်း ဖြစ်နေတဲ့ အဖြစ်ကတော့ ဒီအတိုင်းပဲ"

ထွန်စက်မောင်းသည် အစာသွတ်မုန့်ကို ပါးစပ်တွင်း သွင်း၍ တပြတ်ပြတ် ဝါးလျက် ရှိသည်။ မုန့်ထုပ်သည့် စက္ကူစကို လုံးခြေပြီး ခပ်ဝေးဝေးသို့ လွှင့်ပစ်လိုက်၏။ "အချိန်တွေ ခေတ်တွေက ပြောင်းသွားပြီဗျ၊ ခင်ဗျားလည်း အသိပဲ၊ အရင်ပုံစံကို လျှောက်တွေးလို့ကတော့ အလုပ်မဖြစ်နိုင်တော့ဘူး၊ ခင်ဗျား ချာတိတ်တွေကိုလည်း

ထမင်းဝအောင် ကျွေးနိုင်မှာ မဟုတ်ဘူး၊ တစ်နေ့ သုံးဒေါ်လာ ရအောင် လုပ်ပြီး ကိုယ့်ကလေးတွေကို ဝအောင်သာ ကျွေးပေတော့ ကိုယ့်ဆရာရေ၊ တခြားလူတွေရဲ့ ကလေးတွေအတွက် ပူပန်ရမဲ့ အလုပ်က ခင်ဗျားအလုပ် မဟုတ်ပါဘူး၊ ကိုယ့်သားသမီး အတွက်ပဲ ကိုယ် ပူစမ်းပါဗျာ၊ ခင်ဗျား အခုလို အတွေးမျိုးနဲ့ အခုလို စကားမျိုးတွေ ပြောနေရင် နာမည်တော့ ကြီးချင် ကြီးလာမယ်၊ တစ်နေ့ သုံးဒေါ်လာတော့ ရမှာ မဟုတ်ဘူး ငါ့လူ၊ တစ်နေ့ တစ်နေ့ သုံးဒေါ်လာ မှန်မှန် ရနေဖို့ မတွေးဘဲ တခြား ပေါက်တတ်ကရတွေ လျှောက်တွေးပြီး ပူနေလို့ကတော့ ဘယ်သူဌေးကမှ ခင်ဗျားကို တစ်နေ့ သုံးဒေါ်လာပေးမှာ မဟုတ်ဘူး ဆရာရေ့"

"မင်းရဲ့ တစ်နေ့ သုံးဒေါ်လာကြောင့် လူတစ်ရာ နီးပါးလောက် လမ်းပေါ်မှာ လူလေလူလွင့်တွေ ဖြစ်နေပြီလေကွာ၊ ငါ မင်းကို တစ်ခု မေးစမ်းပါရစေ၊ ငါတို့ ဘယ်သွားပြီး နေကြရမလဲ"

"ဩော် ခင်ဗျား အခုပြောမှ သတိရတယ်" ဟု ထွန်စက်မောင်းက ပြောသည်။ "ခင်ဗျားတို့ မြန်မြန်ထွက်ပေးမှ ဖြစ်မယ်၊ ကျုပ် ညနေစာစားပြီးရင် အိမ်ဝင်းခြံတွေကို ဖြတ်ပြီး ထွန်ရတော့မှာ"

"မင်း မနက်က ရေတွင်းကို မြေဖို့ ပစ်ခဲ့ပြီနော်"

"ဟုတ်တယ်၊ ထွန်စက်က တစ်ဖြောင့်တည်း တည့်တည့်ကြီး မောင်းမှ ဖြစ်တာကိုးဗျ၊ ရေတွင်းက မလွတ်တော့ ပါသွားတာပေါ့၊ အခုလည်း ညနေစာ စားပြီးရင် အိမ်ခြံတွေကို ဖြတ်ပြီး ထွန်ရလိမ့်မယ်၊ တစ်ဖြောင့်တည်း ထွန်မှ ဖြစ်တာ မဟုတ်လားဗျာ၊ ပြီးတော့လည်း ... အင်း ခင်ဗျားက ကျုပ် အဘိုးကြီး ဂျိုးဒေးဗစ်ကို သိတယ်ဆိုတော့ ကျုပ် မနေနိုင်ဘူး၊ ဒီကိစ္စကို သိအောင် ဖွင့်ပြောရတော့မှာပဲ၊ မြေပေါ်က မရွှေ့မပြောင်းသေးတဲ့ လူတွေ ရှိလည်း လုပ်စရာရှိတာကို လုပ်ရမယ်လို့ အမိန့်ထုတ်ထားတယ်၊ တကယ်လို့ ကျုပ်ကြောင့် မတော်တဆ ထိခိုက်မိရင်လည်း ... ခင်ဗျား သိတဲ့ အတိုင်းပေါ့ဗျာ၊ ထွန်စက် မောင်းလာရင်တော့ အိမ်နဲ့ နီးလာရင် ... ဘာပဲဖြစ်ဖြစ်လေ ကျုပ်အဖို့တော့ နစ်ဒေါ်လာ အပို ရချင်ရမှာ၊ ကျုပ်သား အငယ်ဆုံးကောင်းမှာ ဖိနပ်စီးစရာ မရှိတာနဲ့ အတော်ပဲ"

"ဒီဝင်း ဒီခြံ ဒီစည်းရိုးတွေကို ငါ့လက်နစ်ဖက်နဲ့ တည်ခဲ့ ဆောက်ခဲ့ ကာခဲ့ရတယ်၊ သံအို သံဟောင်းတွေကို ရှာဖွေပြီး တပင်တပန်းနဲ့ ထုဟယ် ဖြောင့်ဟယ် ရိုက်ဟယ်နဲ့

နဖူးကချွေး ခြေမကျအောင် လုပ်ထားခဲ့ရတာ၊ ဒီဟာ ငါ့ပစ္စည်း ငါဆောက်ထားတာ၊ မင်းက ထွန်စက်နဲ့တိုက်ပြီး ဖြိုပစ်မယ်ဆိုရင် ငါကလည်း ငါ့ရိုင်ဖယ်သေနတ်နဲ့ ပြတင်းပေါက်ကနေ စောင့်မယ်၊ ထွန်စက် အိမ်နား ကပ်လာတာနဲ့ တစ်ပြိုင်နက် ယုန်တစ်ကောင်ကို ပစ်သလို မင်းကို ပစ်မှာပဲ"

"လုပ်တာက ကျုပ်မှ မဟုတ်တာ၊ ဒီကိစ္စမှာ ကျုပ် လုပ်နိုင်တာ ဘာတစ်ခုမှ မရှိဘူး၊ သူတို့ ခိုင်းသလို မလုပ်ပြန်ရင်လည်း ကျုပ် အလုပ်ပြုတ်မယ်၊ ဒီမှာ ကျုပ် ပြောမယ်၊ ခင်ဗျားက ကျုပ်ကို သေနတ်နဲ့ ပစ်သတ်လိုက်ပြီ ဆိုပါတော့၊ သူတို့က ခင်ဗျားလည်ပင်းကို ကြိုးကွင်းစွပ်ပြီး သတ်မှာပဲ၊ ဘာထူးလဲ၊ ပြီးတော့ ခင်ဗျားကို ကြိုးပေး မသတ်ခင်မှာပဲ ထွန်စက်ပေါ်မှာ နောက် လူသစ်တစ်ကောင် ရှာဖွေတင်ထားမှာ၊ သူက ခင်ဗျားအိမ်ကို ထွန်စက်နဲ့တိုက်ပြီး ဖြိုပစ်မှာ၊ အမှန်တော့ ခင်ဗျား သတ်တာက လက်သည်အစစ်ကို သတ်တာ မဟုတ်ဘူးဗျ"

"ဟုတ်ကဲ့လားကွာ" ဟု စာရင်းငှားက ရေရွတ်သည်။ "ဒီလိုဆိုရင် မင်းကို အမိန့်ပေးတာ ဘယ်သူလဲ၊ အဲဒီ အမိန့်ပေးတဲ့ ကောင်ကို ရှာပြီး သတ်မယ်၊ သတ်ရမယ့်ကောင်က သူပဲ"

"ခင်ဗျား မှားပြန်ပြီ၊ သူ့ကို ခိုင်းတာက ဘဏ်ဗျ၊ ဘဏ်က သူ့ကို ပြောတယ်၊ မြေပေါ်မှာ နေတဲ့လူတွေ အားလုံးကို နှင်ထုတ်၊ ဒါဟာ မင်းတာဝန်ပဲ တဲ့"

"ကဲ ကောင်းပြီ၊ ဒါဆိုရင် ဘဏ်ဥက္ကဋ္ဌ ရှိတယ်ကွာ၊ ဘဏ်ဒါရိုက်တာ အဖွဲ့ဝင် လူကြီးတွေ ရှိတယ်ကွာ၊ ငါ့ရိုင်ဖယ်သေနတ် မက်ဂဇင်းထဲမှာ ကျည်ဆန်အပြည့် ထည့်ပြီး ဘဏ်ကိုသွားမယ်"

ထိုအခါ ထွန်စက်မောင်းက ပြန်ပြောသည်။ "တချို့ကောင်တွေက ကျုပ်ကို ပြောတာတော့ ဘဏ်ကလည်း အရှေ့ဘက်က လာတဲ့ အမိန့်အရ လုပ်နေတာတဲ့ဗျ၊ အမိန့်က မြေတွေကို အမြတ်ရအောင် လုပ်ကြ၊ မလုပ်နိုင်ရင် မင်းတို့အားလုံးကို ပိတ်ပစ်မယ် တဲ့"

"ဒီလိုဆို မင်းဟာက မီးခိုးမဆုံး မိုးမဆုံးပါလား၊ ဘယ်မှာသွားပြီး ဆုံးမှာလဲ၊ ငါတို့ ဘယ်သူ့ကို ပစ်သတ်ရမလဲ၊ ငါတို့ကို ငတ်အောင် လုပ်နေတဲ့ အကောင်ကို မသတ်ရသေးခင် ငါ ငတ်ပြီးတော့ မသေချင်ဘူးကွ"

"ဒါတော့ ကျုပ်လည်း မသိဘူး၊ သတ်စရာ လူတစ်ယောက်မှ မရှိဘူး ထင်တာပဲ၊ ပြဿနာကို စတာဟာ လူတွေ ဟုတ်ချင်မှ ဟုတ်မှာ၊ ခင်ဗျား စောစောက ပြောသလို ပစ္စည်းကပဲ လုပ်နေတာ ဖြစ်ချင် ဖြစ်မယ်၊ အေးလေဗျာ၊ ဘာပဲဖြစ်ဖြစ်ပေါ့၊ ကျုပ်ကတော့ ကျုပ်ကို ပေးထားတဲ့ အမိန့်အကြောင်း ခင်ဗျားကိုပြောပြပြီးပြီ"

"ငါ စဉ်းစားရမှာပဲ" ဟု စာရင်းငှားက ပြောသည်။ "ငါတို့အားလုံး စဉ်းစားရမှာပဲ၊ ဒီကိစ္စကို ရပ်သွားအောင် လုပ်နိုင်မယ့် နည်းလမ်းဟာ ရှိရမှာပေါ့၊ မဟုတ်ဘူးလား၊ အခုဟာက မိုးကြိုးပစ်သလို မြေငလျင် လှုပ်သလို အဖြစ်မျိုးမှ မဟုတ်တာ၊ လူတွေ လုပ်ထားတဲ့ မကောင်းမှုတစ်ခု ရှိလာရင် ဘုရားသခင်ရဲ့ အကူအညီနဲ့ အကောင်းပြန်ဖြစ်သွားအောင် ပြောင်းပစ်ရမှာပေါ့

စာရင်းငှားသည် သူ့အိမ်ရှေ့တံခါးဝ၌ ပြန်ထိုင်သည်။ ထွန်စက်မောင်းသမားသည် သူ့တာဝန်အတိုင်း ထွန်စက်၏ အင်ဂျင်စက် အရှိန်ကို မြှင့်ကာ ဆက်မောင်းသည်။ မြေပြင်ပေါ်တွင် ထွန်ရေး ထွန်ကြောင်းကြီးများကို အတန်းလိုက် အတန်းလိုက် ဖြစ်ပေါ်စေသည်။ မျိုးစေ့များကို မနားမနေ ချသွားသည်။ တဖြည်းဖြည်းနှင့် ထွန်စက်သည် အိမ်ဝင်းခြံကို ဖြတ်မောင်းသည်။ နှစ်ပေါင်းများစွာ လူအများ ခြေချလာခဲ့သည့် မာကျောသော မြေအပြင်သည် မွမွကြဲကာ မှုန့်မှုန့်ညက်ညက် ဖြစ်သွားသည်။ အချိန်အနည်းငယ် အတွင်းမှာပင် မျိုးစေ့များ ကြဲထားရာ ယာမြေ အဖြစ်သို့ ဆိုက်ရောက်သွားသည်။

ထို့နောက် ထွန်စက်သည် နောက်ဘက်သို့ ပြန်လှည့်လာသည်။ မထွန်ရသေးသည့် မြေအကျယ်မှာ ဆယ်ပေမျှသာ ကျန်တော့၏။ နောက်တစ်ဖန် တစ်ကျော့ ပြန်မောင်း လာပြန်သည်။ ကာရံထားသည့် သံဆူးကြိုးများသည် ပြတ်ထွက်ကာ အိမ်၏ ထောင့်တွင် သွား၍ စုပုံနေသည်။ ထွန်စက်သည် အိမ်နံရံကို ထိုးဖောက်သည်။ အိမ်ငယ်သည် အောက်ခြေ ဖိနပ်ချွတ်မှ စ၍ ကျွတ်ထွက်ကာ ထွန်စက်၏ ဘေးတစ်ဖက် တစ်ချက်သို့ ဖရိုဖရဲ အလဲလဲ အပြိုပြို ဖြစ်ကာ ပြိုလဲကျသည်။ ကြမ်းပိုးတစ်ကောင်ကို

လက်နှင့် ခြေမွလိုက်သည့်နယ် အိမ်တစ်အိမ်လုံးသည် ထွန်စက်၏ အနင်းအခြေကို ခံရသည်။

ထွန်စက်မောင်းသမား၏ မျက်လုံးများတွင် မျက်မှန် အမည်းကြီး တပ်ထားသည်။ သူ့နှာခေါင်းနှင့် သူ့ပါးစပ်ကို ရော်ဘာမျက်နှာဖုံးကြီး အုပ်ထားသည်။ ထွန်စက်သည် သူ့လမ်းအတိုင်း ဖြောင့်ဖြောင့်ကြီး ထွက်သွားသည်။ လေထုနှင့် မြေထုသည် ထွန်စက်၏ အရှိန်ကြောင့် မိုးခြိမ်းသံတမျှ ကျယ်လောင်သော အသံများဖြင့် ပဲ့တင်ရိုက်ခတ်ကာ တုန်ဟည်းလျက် ရှိလေသည်။

စာရင်းငှား၏ မျက်လုံးများသည် ထွန်စက်သွားလေရာ နောက်မှ မျက်ခြည်မပြတ် လိုက်ကြည့် နေသည်။ သူ့လက်ထဲတွင် ရိုင်ဖယ်သေနတ်နှင့်။ သူ့မိန်းမက သူ့ဘေးမှ ရပ်လျက်။ သူတို့နောက်တွင် ငြိမ်ဆိတ် ငေးမောနေကြသော ကလေးများ။ သူတို့ အားလုံးသည် ထွန်စက်ကြီး သွားနေရာနောက်သို့ စူးစူးရဲရဲ ကြည့်နေကြလေသည်။

* * *

## အခန်း (၆)

ခင်ကြီးဘွဲ့ရ တရားဟောဆရာ ကတ်ဆီနှင့် တွမ်ဂျုတ်တို့သည် တောင်ပူစာပေါ်မှ ရပ်ကာ တွမ်ဂျုတ်မိသားစု၏ နေရာကို လှမ်းမျှော်၍ ကြည့်နေသည်။ အရောင်အဆင်း ကင်းမဲ့နေသော အိမ်ငယ်၏ တစ်ဖက်သောထောင့်သည် စိစိညက်ညက် ကြေလျက်ရှိ၏။ တစ်အိမ်လုံး ပေါက်သည့်နေရာက ပေါက်၍ ပြဲသည့်နေရာက ပြဲကာ တစ်ဖက်သို့ ယိမ်းယိုင်ပြီး ရုပ်ပျက်ဆင်းပျက် ဖြစ်လျက် ရှိလေသည်။ နံရံတစ်ဖက်ရှိ ပြတင်းပေါက်များသည် ဖောက်ထိုးမိုးမျှော် ဖြစ်ကာ ကောင်းကင်ဆီသို့ မျှော်ကြည့်နေကြသည့်နှယ် ဖြစ်လျက် ရှိသည်။ ခြံဝင်း အကာအရံများမှာ တစ်ခုမှ မရှိတော့ပေ။ ခြံဝင်းတစ်ဝင်းလုံး နေရာအနှံ့အပြားတွင် ဝါပင်များကသာ ကြီးစိုးလျက် ရှိကြလေသည်။ အိမ်နေရာနှင့် နောက်ဖေးဘက်ရှိ တဲနေရာတွင်လည်း ဝါပင်များ ပေါက်ရောက်လျက် ရှိကြသည်။ အိမ်နှင့်ဆက်၍ ဆောက်ထားသော အဆောက်အအုံမှာလည်း ဘေးဘက်သို့ လဲကျကာ ကြေမွလျက်ရှိပြီး ထိုနေရာတစ်ဝိုက်တွင်လည်း ဝါပင်များသည် တောဖြစ်လျက် ရှိသည်။

တစ်ချိန်သောအခါက နေ့စဉ်နှင့်အမျှ အမြဲတစေ ပြေးလွှားဆော့ကစား နေခဲ့ကြသော ကလေးသူငယ်များ၏ ခြေထောက်များ၊ အမြဲတစေ အဝင်အထွက် အသွားအလာ ရှိနေခဲ့ကြသော မြင်းများ၏ သံခွာများနှင့် မြင်းလှည်းများ၏ ဘီးများ အောက်တွင် တစ်နေ့ တစ်ခြား မာကျောလာခဲ့ရသော မြေအပြင်သည် ယခုတော့ဖြင့် စိုက်ခင်းမြေ ဖြစ်သွားခဲ့လေပြီ။ စိမ်းစိုမှိုင်းလျက် ရှိသော ဝါပင်များအောက်တွင် နစ်မြုပ်ပျောက်ကွယ်သွားကြလေပြီ။

တွမ်ဂျုတ်သည် ယခင်က မြင်းစားခွက် ထားရာ နေရာဘေးရှိ အရွက်ကျိုးတိုး ကျဲတဲနှင့် မရှုမလှ ဖြစ်နေသော မိုးမခပင်ကို လည်းကောင်း၊ ယခင်က ရေဘုံပိုင် ရှိခဲ့သော နေရာမှ ကွန်ကရိပေါင်ကို လည်းကောင်း စူးစိုက်၍ ကြည့်လျက် ရှိသည်။ "ဘုရားသခင် ကယ်တော်မူပါ" ဟု ရေရွတ်သည်။ "ဒီနေရာကို ငရဲမင်းကြီး ရုတ်တရက်ဝင်ပြီး မွှေများသွားသလားဗျာ၊ လူစလူနတောင် မမြင်ရတော့ပါကလား"

နောက်ဆုံးတွင် သူသည် တောင်ပူစာပေါ်မှ လျင်မြန်စွာ ဆင်းသည်။ ကတ်ဆီကလည်း နောက်မှ ခပ်သုတ်သုတ် လိုက်သည်။ တွမ်ဂျုတ်သည် ပထမဆုံး စပါးကျီဝင်းထဲသို့ ဝင်ကြည့်သည်။ လူသူလေးပါး စွန့်ခွာသွားသည်မှာ ကြာပြီ ဟူသော

အရိပ်လက္ခဏာများသည် ပေါ်လွင်လျက် ရှိ၏။ ကောက်ရိုးခြောက်များ သည် ကြမ်းပြင်ထက်၌ ဖရိုဖရဲ ပြန့်ကျဲလျက် ရှိသည်။ တစ်ဖက်သော ထောင့်ရှိ လားများ ထားခဲ့ရာ မြင်းဇောင်း ထဲတွင်လည်း ကောက်ရိုးများသည် ဟိုတစ်စု သည်တစ်စု ကျလျက် ရှိ၏။ သူ ကြည့်နေခိုက်မှာပင် ကြမ်းပေါ်၌ ပြေးသွား လှုပ်ရှားနေသော ချိုးချိုးချောက်ချောက် အသံများ ကြားရသည်။ ကြွက်မိသားစု တစ်စုသည် ကောက်ရိုးများအောက်သို့ ပြေးဝင်သွားကြသည်ကို မြင်လိုက်ရလေ၏။

တွမ်ဂျုတ်သည် လယ်ယာသုံး ကိရိယာ တန်ဆာပလာများ ထားရာ တဲပေါက်ဝ၌ ရပ်၍ အတွင်းသို့ တစ်ချက်မျှ ငုံ့ကြည့်သည်။ ကျိုးပဲ့နေသော ထွန်သွားတစ်ချောင်း၊ ထောင့်တစ်ထောင့်တွင် ပိုက်ကြိုးတစ်ထုံး၊ မြက်ဖြတ်စက်မှ သံဘီးတစ်ခု၊ ကြွက်ကိုက်ထားသော လားလည်ပတ်စာစ၊ ဆီချေးနှင့် ဖုန်အထပ်ထပ် တက်နေသော တစ်ဂါလန်ဝင် ဆီပုံးတစ်ပုံး၊ နံရံတစ်ဖက်ရှိ သံငုတ်တွင် ချိတ်ထားသော အပေါ်ဝတ် အင်္ကျီအစုတ် တစ်ထည်။ ထိုပစ္စည်းများမှတစ်ပါး အခြား ဘာပစ္စည်းမှ မရှိ။ "ဘာပစ္စည်းမှ မရှိတော့ဘူး" ဟု တွမ်ဂျုတ်က ပြောသည်။ "ကျုပ်တို့ လယ်ယာသုံး ကိရိယာ တန်ဆာပလာတွေဟာ ပစ္စည်းကောင်းတွေ ချည်းပဲဗျ၊ အခုတော့ ကြည့်ပါဦး၊ ဘာတစ်ခုမှ မကျန်ရစ်ဘူး"

"အေးကွာ၊ တကယ်လို့ ငါသာ တရားဟောဆရာတစ်ယောက် ဘဝမှာပဲ ရှိနေသေးရင်တော့ ဒီကိစ္စဟာ ဘုရားသခင်ရဲ့ အပြစ်ပေးမှုတစ်ခုပဲလို့ ပြောမိမှာပဲ၊ ဒါပေမဲ့ အခုတော့ ငါလည်း ဘာဖြစ်တယ်ဆိုတာ မသိတော့ဘူး၊ ငါ အဝေးရောက်နေတာလည်း ကြာပြီ၊ ဒီအရပ်က ဘာသတင်းမှ မကြားရတာလည်း ကြာပြီကွ" ဟု ကတ်ဆီက ပြောလေသည်။ သူတို့သည် ဝါပင်များကြားမှ ဖြတ်၍ ကွန်ကရီရေတွင်း အဖုံးကြီးရှိရာသို့ လျှောက်သွားသည်။ ဝါပင်များမှာ အသီးများပင် ထွက်စပြုနေလေပြီ။ အိမ်ဝင်းခြံတစ်ခြံလုံးမှာ စိုက်ပျိုးခင်း ဖြစ်နေလေပြီ။

"ကျုပ်တို့ ဒီနေရာမှာ ဘာပင်မှ မစိုက်ခဲ့ဘူး" ဟု တွမ်ဂျုတ်က ပြောသည်။ "ဒီနေရာကို ကျုပ်တို့က အမြဲတမ်း ပြောင်ရှင်းနေအောင် လုပ်ထားတာ၊ ဘာကြောင့် အခုလို ဖြစ်ကုန်ရတာပါလိမ့်၊ ဝါပင်တွေကို မနင်းဘဲနဲ့ မြင်းတစ်ကောင်ကို ဆွဲဝင်လို့တောင်မှ မရတော့ပါလား" သူတို့သည် ရေခန်းခြောက်နေသော မြင်းသောက်ရေခွက်ကြီး အနီး၌ ခဏ ရပ်နေကြသည်။ ဤသောက်ရေခွက်ကြီးအောက်၌ ပေါက်နေကျ ပေါင်းပင် မြက်ပင်များမှာ တစ်ပင်မှ မရှိချေ။ ပြောင်သလင်းခါလျက် ရှိ၏။ သောက်ရေခွက်အဖြစ်

ထွင်းလုပ်ထားသော သစ်သား ခွက်ကြီးသည်ပင်လျှင် ခြောက်သွေ့ကာ ကွဲအက်လျက် ရှိနေလေပြီ။ ကွန်ကရိရေတွင်း အဖုံးကြီးပေါ်ရှိ ရေပိုက်ခေါင်း အပိတ်များမှာ သံချေးများ တက်နေပြီ ဖြစ်ရုံမျှသာမက မူလီခေါင်းများမှာလည်း တစ်လုံးမျှပင် မရှိတော့ချေ။ တွမ်ဂျုတ်သည် ရေတွင်းပေါက်မှနေ၍ အောက်ထဲသို့ ငုံ့ကြည့်လိုက်ပြီး တံတွေး တစ်ချက်မျှ ထွေးချလိုက်ကာ အသံကို နားထောင်သည်။ ထို့နောက် မြေကြီးခဲ တစ်ခဲကို ကောက်၍ ပစ်ချလိုက်ကာ နားစွင့်ကြည့်ပြန်သည်။ "သိပ်ကောင်းတဲ့ ရေတွင်းတစ်တွင်းဗျ" ဟု သူက ပြောသည်။ "ရေသံ မကြားရတော့ဘူး" ဟုလည်း ရေရွတ်သည်။ သူသည် အိမ်ဘက်သို့ သွားရန် တွန့်ဆုတ်ဆုတ် ဖြစ်လျက် ရှိ၏။ သူသည် ခဲများကို တစ်လုံးပြီးတစ်လုံး ကောက်ကာ ရေတွင်းထဲသို့ ပစ်ချကြည့်သည်။ "သူတို့အားလုံး သေကုန်တာ ဖြစ်ချင်ဖြစ်မယ်" ဟု ပြောပြန်သည်။ "ဒါပေမဲ့ အဲသလို ဖြစ်ကုန်တယ်ဆိုရင်လည်း တစ်ယောက်ယောက်ဆီကတော့ သတင်းရရမှာပေါ့"

"အိမ်ထဲမှာ စာလေးတစ်စောင် ဖြစ်ဖြစ်၊ ဒါမှမဟုတ်လည်း သူတို့ ဘယ်သွားတယ်၊ ဘယ်လာတယ်၊ ဘာဖြစ်တယ် ဆိုတာလောက် သိနိုင်မယ့် အထောက်အထားလေးတစ်ခု ဖြစ်ဖြစ် ထားချင် ထားခဲ့မှာပေါ့၊ မင်း လွတ်လာလိမ့်မယ် ဆိုတာကော သူတို့ သိသလား"

"မပြောတတ်ပါဘူးဗျာ" ဟု တွမ်ဂျုတ်က ခပ်ညည်းညည်း ရေရွတ်သည်။ "သိမယ်တော့ မထင်ဘူးဗျ၊ ကျုပ် လွတ်မယ်ဆိုတာ ကျုပ်ကိုယ်တိုင်တောင်မှ လွန်ခဲ့တဲ့ တစ်ပတ်လောက်အထိ ကြိုပြီး သိခဲ့ရတာ မဟုတ်ဘူး"

"ဒီလိုဆိုလည်း အိမ်ထဲ သွားကြည့်ကြမယ်လေကွာ၊ အိမ်ကတော့ ကျွမ်းထိုး မှောက်ခုံဖြစ်ပြီး ပုံပျက်ပန်းပျက်ပဲဟေ့၊ တစ်ခုခုနဲ့ ဝင်တိုက်ပြီး လဲကျသွားပုံပဲ" နှစ်ယောက်သား တစ်ဖက်စောင်းနင်း ဖြစ်နေသော အိမ်ဆီသို့ ခပ်ဖြည်းဖြည်း လျှောက်သွားကြလေ၏။ အိမ်ရှေ့ မျက်နှာစာဘက်ရှိ ခေါင်မိုးဒေါက်တိုင် နှစ်လုံးသည် ပြုတ်ကျလျက် ရှိသဖြင့် ခေါင်မိုး တစ်ခြမ်းသည် တစ်ဖက်သို့ စောင်းကျလျက် ရှိသည်။ အိမ်၏ ထောင့်တစ်ဖက်သည် စိစိညက်ညက် ကြေနေသည်။ တစ်စစီ ပြုတ်ထွက်ကာ တိုးလို့တွဲလောင်း ဖြစ်နေသော သစ်သား အတိုအစများကြားမှ နေ၍ အိမ်၏ ထောင့်ခန်း တစ်ခန်းကို မြင်တွေ့နေရလေသည်။ အိမ်ရှေ့တံခါးသည် ပွင့်လျက်ရှိ၏။ ထိုအိမ်ရှေ့ တံခါးဆီသို့ လာရာ ဂိတ်တံခါးမှာလည်း ပတ္တာများ ပြုတ်ပျက်ထွက်ကာ ပွင့်လျက်ရှိလေသည်။

တွမ်ဂျုတ်သည် ဆယ့်နှစ်လက်မပတ်လည် သစ်သား လှေကားခုံပေါ်သို့ တက်၍ရပ်ကာ "အရင်က ဒီနေရာမှာ လှေကာရှိတယ်" ဟု လှမ်းပြောသည်။ "သူတို့ မရှိကြတော့ဘူး၊ သွားကုန်ပြီ၊ အမေများ သေလို့လား" သူသည် အိမ်ရှေ့ဘက်မှ ဂိတ်တံခါးကို လက်ညှိုးထိုးပြသည်။ "အမေသာ အိမ်မှာ ရှိနေလို့ကတော့ အဲဒီတံခါးကို အမြဲပိတ်ပြီး ကလန့်ချထားတာ၊ အမေ အမြဲ လုပ်နေကျ အလုပ်တစ်ခုပေါ့" သူ့မျက်လုံးအစုံသည် ပူနွေးလာသည်။ "ဟိုတစ်ချိန်က အပြင်က ဝက် ဝင်လာပီး ဂျက်ကော့တို့ရဲ့ ကလေး ပေါက်စကလေးကို စားပစ်တယ်၊ အဲဒီတုန်းက ပစ်လီဂျက်ကော့တို့ လင်မယားက နောက်ဖေးဘက်က စပါးကျီထဲမှာ နေကြတာ၊ မစ္စက် ဂျက်ကော့ ပြန်လာတော့ ဝက်က သူ့ကလေးကို စားနေတုန်းပဲ ရှိသေးတယ်၊ မစ္စက် ဂျက်ကော့လည်း ကယောင်ချောက်ချား ဖြစ်ပြီး စိတ်နောက်သွားတယ်၊ ကျုပ်အမေက အဲဒီအဖြစ်အတွက် စိတ်မကောင်းဖြစ်ရုံတွင် မကဘူး၊ သင်ခန်းစာလည်း ယူတယ်၊ ခြံဝင်းထဲကို ဘယ်ဝက်မှ အဝင်မခံတော့ဘူး၊ သူ အိမ်မှာ ရှိနေရင် ဘယ်တော့မှ အဲဒီ ဂိတ်တံခါးကို မဖွင့်ဘူး၊ ပိတ်ဖို့လည်း ဘယ်တော့မှ မမေ့ဘူး၊ အခုဆို ဂိတ်တံခါးက ပွင့်နေတယ်၊ တစ်အိမ်သားလုံး ထွက်သွားတာလား ဒါမှမဟုတ် အားလုံး သေကုန်လို့များလား" သူသည် လှေကားခုံမှနေ၍ အိမ်ပေါ်သို့ လှမ်းတက်သည်။ အိမ်ဦးခန်းမှ နေ၍ မီးဖိုချောင်ဘက်သို့ လှမ်းကြည့်သည်။ ပြတင်းပေါက် တံခါးအားလုံးသည် ကျိုးပြတ်ပေါက်ပြဲလျက် ရှိကြသည်။ အပြင်ဘက်မှ ပစ်ပေါက်ထားကြသော ကျောက်ခဲ များသည် ကြမ်းပြင်ပေါ်တွင် အစုလိုက် အပုံလိုက်။ ကြမ်းပြင်နှင့် နံရံများသည် နိမ့်ဆင်းသည့် နေရာများတွင် နိမ့်ဆင်းကာ စောင်းသည့် နေရာများတွင် စောင်းလျက်။ ဖုန်မှုန့်များသည် နေရာအနှံ့အပြားတွင် ထုလိုက် ထည်လိုက် တက်လျက်။

တွမ်ဂျုတ်က ကွဲနေသော ပြတင်းပေါက်မှန်နှင့် ကြမ်းပြင်ပေါ်မှ ကျောက်စရစ်ခဲ များကို ညွှန်ပြသည်။ "အဲဒါ ချာတိတ်တွေ လက်ချက်ဗျ" ဟု ပြောသည်။ "ပြတင်းပေါက် မှန်တစ်ချပ်ကိုသာ ကျောက်ခဲနဲ့ ထုခွင့်ရမယ်ဆိုရင် မိုင်နှစ်ဆယ် ခရီးတောင် အပျော် လောက်ထားပြီး သွားကြတာ၊ ဒါမျိုးက ကျုပ်ကိုယ်တိုင် လုပ်ခဲ့ဖူးတဲ့ အလုပ်မျိုး၊ အိမ်တစ်အိမ်မှာ လူမနေတော့ဘူး ဆိုရင် သူတို့ ဒါလုပ်ဖို့ပဲ စိတ်ကူးကြတာပဲ၊ အိမ်သူအိမ်သားတွေ တစ်နေရာရာကို အပြီးအပိုင် ရွှေ့ပြောင်းသွားကြပြီ ဆိုတာနဲ့ တစ်ပြိုင်နက် ချာတိတ်တွေရဲ့ ခေါင်းထဲမှာ ပထမဆုံး ဝင်လာတဲ့ စိတ်ကူးက ပြတင်းပေါက် မှန်တွေကို ထုပြီး ခွဲဖို့ပဲ"

မီးဖိုချောင်ထဲတွင် မီးဖိုချောင်သုံး ပစ္စည်းဆို၍ ဘာတစ်ခုမှ မမြင်ရ။ အဓိက ပစ္စည်းဖြစ်သည့် သံမီးဖိုပင် သူ့နေရာ၌ မရှိ။ အပြင်မှ အလင်းရောင်သည် နံရံတစ်ဖက်တွင် ကပ်ထားသော မီးခိုးခေါင်းတိုင် ပိုက်လုံးမှတစ်ဆင့် အခန်းတွင်းသို့ တိုးဝင်လျက် ရှိ၏။ ပန်းကန်ဆေး ကြွေခွက်ကြီး၏ စင်ပေါ်တွင်မူ ဘီယာဖောက်တံ တစ်ချောင်း။ တွမ်ဂျုတ်သည် မီးဖိုခန်းထဲသို့ ဝင်သည်။ သတိထား၍ လျှောက်နေသော သူ့ခြေထောက်အောက်မှ ကြမ်းပြင်သည် ဂျိုးဂျိုးဂျွတ်ဂျွတ် အော်မြည်လျက် ရှိလေ၏။ ကြမ်းပြင် တစ်နေရာတွင် နံရံအနီး၌ ကပ်၍ ကျနေသော ဗီလာဒါးလ်ဖီးယား လယ်ဂျာ သတင်းစာဟောင်း တစ်စောင်။ စာရွက်များမှာ ဟောင်းနွမ်းကျိုးကြေကာ အဝါရောင်ပင် သန်းလျက် ရှိလေပြီ။

တွမ်ဂျုတ်သည် အိပ်ခန်းတွင်းသို့ ကြည့်ပြန်သည်။ အိပ်ရာ ခုတင် မရှိ၊ ကုလားထိုင် မရှိ၊ အသုံးအဆောင် ပစ္စည်းဆို၍ ဘာမှမရှိ။ အိပ်ခန်း နံရံတစ်ဖက်ပေါ်တွင် ရက်အင်ဒီးယန်း မိန်းမပျိုတစ်ယောက်၏ပုံ ချိတ်ထားသည်။ ပုံမှာ ဆေးရောင်စုံပုံ၊ အောက်မှ ရက်ဒ်ဝင်း ဟူသော စာတန်း ထိုးထားသည်။ သစ်သား အိပ်စင် အပျက်တစ်ခုသည် နံရံတွင် မှီလျက်။ အခန်းထောင့်တွင် ပေါက်ပြဲ စုတ်ပြတ်နေသည့် မိန်းမစီး ဖိနပ်တစ်ရံ။

တွမ်ဂျုတ်က ဖိနပ်ကို ကောက်ယူပြီး ကြည့်သည်။ "ကျုပ် ဒီဖိနပ်ကို မှတ်မိတယ်" ဟု ရေရွတ်လိုက်သည်။ "ဒါ အမေ့ဖိနပ်ဗျ၊ အခုတော့ စီးလို့ မရလောက်အောင် စုတ်ပြတ်သွားပြီ၊ အမေက ဒီဖိနပ်ကို သိပ်ကြိုက်တာ၊ သူ စီးလာတာ နှစ်အတော်ကြာပြီ၊ အင်း သူတို့အားလုံး တစ်နေရာရာကို ပြောင်းသွားတာပဲ ဖြစ်မယ်၊ အိမ်မှာ ပစ္စည်းတစ်ခုမှ မကျန်ခဲ့ဘူး"

နေသည် ပြတင်းပေါက်၏ အထက်ထောင့်ကွေးနှင့် တပြေးတညီတည်း ဖြစ်လာသည်အထိ နိမ့်ဆင်းကျလာသည်။ နေရောင်ခြည်သည် မှန်ကွဲပေါက်များမှ တစ်ဆင့် အခန်းတွင်းသို့ ခုန်ဆင်း ဝင်ရောက်လာသည်။ တွမ်ဂျုတ်သည် အပြင်သို့ ပြန်ထွက်လာပြီး အိမ်ရှေ့တံခါးဝတွင် ခြေပစ်လက်ပစ် ထိုင်ချလိုက်၏။ ခြေထောက်နှစ်ဖက်ကို အောက်ဘက် လှေကားခုံပေါ်သို့ လှမ်းတင်လိုက်လေသည်။ ညနေခင်း နေရောင်ခြည်သည် လယ်ကွက်များ ပေါ်သို့ အစွမ်းကုန် ပက်ဖျန်းလျက် ရှိသည်။ ဝါပင်များ၏ အရိပ်များသည် တစ်ဖက်သို့ ကျဆင်းလျက် ရှိကြ၏။ အရွက်များ ကြွေပြီးစ မိုးမခပင်သည် အရိပ်ရှည်ရှည် ကြီးကို မြေပေါ်သို့ ချခင်းထားလေသည်။

ကတ်ဆီက တွမ်ဂျုတ်၏ဘေးတွင် ဝင်ထိုင်သည်။ "မင်းမိဘတွေက စာလေး တစ်စောင်မှ မရေးကြဘူးလား" ဟု မေးသည်။

"မရေးဘူး၊ ကျုပ် စောစောက ပြောသလိုပဲ၊ သူတို့လူစုက စာရေးလေ့ရေးထ သိပ်မရှိဘူး၊ အဖေက စာရေးနိုင်တယ်၊ ဒါပေမဲ့ မရေးဘူး၊ ရေးလိုစိတ်လည်း မရှိဘူး၊ ရေးဖို့လည်း ဝါသနာမပါဘူး၊ ရေးရမှာလည်း ကြောက်တယ်၊ စာရေးရတော့မယ်ဆိုရင် တုန်နေတာပဲ၊ ပါးစပ်နဲ့သာ အော်ဒါလုပ်ပြီး ဝယ်ရမယ် ဆိုရင်တော့ ကတ်တလောက်စာအုပ် ကြည့်ပြီး သူ လိုချင်တဲ့ပစ္စည်း ဘာပစ္စည်းမဆို ကောင်းကောင်း မှာတတ်တယ်၊ ဒါပေမဲ့ စာရေးပြီးတော့သာ ဝယ်ကြစတမ်းဆိုရင်တော့ ဘဲတောင် မဝယ်တတ်တော့ဘူး"

နှစ်ယောက်သား ဘေးချင်းယှဉ်၍ ထိုင်ကာ အဝေးသို့ လှမ်းမျှော်ကြည့် နေကြသည်။ တွမ်ဂျုတ်သည် ထွေးလုံး ပတ်ရစ်ထားသော ကုတ်အကျီကို သူ့ဘေးတွင် ချထားသည်။ အားလပ်နေသော သူ့လက်နှစ်ဖက်သည် စီးကရက်တစ်လိပ် လိပ်လျက် ရှိသည်။ ထို့နောက် စီးကရက်ကို မီးညှိပြီး တအား ရှိုက်၍ ဖွာလိုက်ကာ မီးခိုးငွေ့များကို နှာခေါင်းနှစ်ပေါက်မှ ထုတ်လိုက်လေသည်။ "တစ်ခုခုတော့ ဖြစ်တာ အမှန်ပဲဗျ၊ သိလား" ဟု သူက ပြောသည်။ "ဘာဖြစ်မှန်းတော့ ကျုပ်လည်း စဉ်းစားလို့ မရဘူး၊ ဆိုးဆိုးရွားရွား ကိစ္စမျိုး တစ်ခုတော့ ဖြစ်ပြီလို့ ကျုပ်စိတ်ထဲက သိနေတယ်၊ ကျုပ်တို့အိမ် အခုလို ဖြစ်နေတာရယ်၊ ပြီးတော့ ကျုပ် မိဘနဲ့ ညီအစ်ကို မောင်နှမတွေ တစ်ယောက်မှ မရှိတာရယ်၊ ဒါတွေ ကြည့်ရင် သိနိုင်တာပဲ"

"ငါ လူတွေကို နှစ်ခြင်းမင်္ဂလာ ပြုပေးနေကျ ရေမြောင်းဟာ ဟောဟိုဘက်က ဟာပဲကွ၊ မင်းဆိုတဲ့ အကောင်က ညံ့ဖျင်းတာတော့ မဟုတ်ပါဘူး၊ ဒါပေမဲ့ ခေါင်းက ခပ်မာမာ အကောင်စား၊ ဖွဲ့ကလည်း ကောင်းတယ်၊ ဟို ကျစ်ဆံမြီး တွဲလောင်းနဲ့ ကောင်မလေးနောက် တကောက်ကောက်နဲ့၊ ခွေးဘီလူးတစ်ကောင် ကျနေတာပဲ၊ ငါက မင်းတို့ နှစ်ယောက်စလုံးကို ဘုရားသခင်ဆီမှာ အပ်ပြီး နှစ်ခြင်းမင်္ဂလာ ပြုပေးခဲ့ပေမဲ့ မင်းက ကောင်မလေးကို ကပ်မြဲ ကပ်နေတာပဲ၊ အဘိုးကြီးတွမ်က ပြောတယ်၊ သူ့ကို ရေထဲ နှစ်ထားလေဗျာ တဲ့၊ ဒါနဲ့ ငါက မင်းခေါင်းကို အပေါ်ကနေ လက်နဲ့ တအားဖိပြီး ရေထဲ နှစ်ထားလိုက်တာ တဝူးဝူး တဝါးဝါးနဲ့ ရေမွန်းပြီး ယက်ကန်ယက်ကန် ဖြစ်လာတဲ့အထိပဲ၊ မင်းက နုံတာ ထိုင်းတာတော့ မဟုတ်ပါဘူး၊ ဒါပေမဲ့ ဖွဲ့ကြီးတယ်၊ တစ်ခါတစ်လေ

ကျတော့လည်း ဖွဲကောင်းတဲ့ လူငယ်တစ်ယောက်ဟာ စိတ်ဓာတ်အင်မတန် ကြံ့ခိုင်တတ်တယ်ကွ ”ဟု ကတ်ဆီက ပြောသည်။

ခပ်ပိန်ပိန် ကြောင်အညို တစ်ကောင်သည် နောက်ဖေးဘက် ကျီထဲမှ ကုပ်ချောင်းချောင်းနှင့် ထွက်လာသည်။ ဝါပင်များ ကြားမှ တိုးဝှေ့ ဖြတ်သန်းပြီး အိမ်ရှေ့ ကြမ်းပြင်ပေါ်သို့ ခုန်တက်လိုက်ကာ တွမ်ဂျုတ်နှင့် ကတ်ဆီတို့ နှစ်ယောက်၏ နောက်သို့ သွား၍ ကြားကျကျ နေရာတွင် ထိုင်သည်။ သူ့အမြီးကို ကြမ်းပေါ်သို့ ချထားလိုက်ပြီး လူနှစ်ယောက် ကြည့်နေသည့်ဘက်သို့ မျှော်ကြည့်နေသည်။

တွမ်ဂျုတ်က နောက်သို့ လှည့်ကြည့်သည်။ “ဟာ ကြည့်စမ်း၊ အိမ်ထဲမှာ သက်ရှိသတ္တဝါတော့ ရှိနေတုန်းပါလား” ပြောပြောဆိုဆို ကြောင်ကို ဖမ်းရန် လက်လှမ်းသည်။ သို့သော်လည်း ကြောင်က အဖမ်းမခံ။ ဖျတ်ခနဲ ခုန်ရှောင်လိုက်ပြီး တွမ်ဂျုတ် လက်လှမ်းမမီနိုင်သည့် နေရာသို့ ပြောင်းထိုင်ကာ သူ့ခြေထောက်များကို လျှာနှင့် လျက်နေသည်။ ကြောင်ကို စိတ်ဝင်တစား ကြည့်နေသော တွမ်ဂျုတ်၏ မျက်နှာသည် တစ်စုံတစ်ခုကို တွေးမိပြီး မဝေခွဲနိုင်သည့် အရိပ်လက္ခဏာများကို ဖော်ပြနေ၏။ “ဖြစ်ပုံကို ကျုပ် သိပြီဗျ”ဟု ကျယ်လောင်စွာ အော်ပြောလိုက်သည်။ “ဒီကြောင်ကို တွေ့လိုက်တော့ ကျုပ် တစ်ခု တွေးလို့ရတယ်”

“ဖြစ်တာကတော့ တစ်ခုတောင် ကမယ် မထင်ဘူးကွ၊ အများကြီး ဖြစ်ပုံရတယ်”

“ကြောင်ကို ကြည့်ရတာ သူ့သခင်တွေ ရှိဟန်မတူဘူး၊ ပြီးတော့ ကျုပ်တို့အိမ်က သစ်သားတွေကို ဖျက်ပြီး ယူမယ်ဆိုရင် ယူလို့ရတယ်ဗျ၊ နောက်ဖေးကျီက သစ်တွေဆို ဘယ်လောက် ကောင်းသလဲ၊ အိမ်ဆောက်ထားတဲ့ သစ်သားတွေကော၊ အကောင်းစားတွေ ချည်းပဲ၊ ဘယ်သူမှ လာပြီး ဖျက်မယူကြဘူး၊ ဒီအနီးအနားမှာ လူတွေသာရှိရင် ဘယ်သူ ချမ်းသာပေးမှာလဲ၊ အားလုံး ဖျက်ယူကြလို့ ပြောင်ပြီပေါ့၊ ကျုပ်ပြောတာ မမှန်ဘူးလား၊ စဉ်းစားကြည့်လေ၊ ဘယ်နည်းနဲ့မဆို ဒီနေရာတစ်ဝိုက်မှာ လူတစ်ယောက်မှ မရှိတော့ဘူးဗျ၊ လူ မရှိတာလည်း အနည်းဆုံး သုံးလေးလလောက်တော့ ရှိရော့မယ်၊ ခင်ဗျား မြင်တဲ့အတိုင်းပဲ၊ ကျုပ် ဖမ်းတာကို ကြောင်က မခံဘူး၊ ကြောင်ဟာ လူတွေနဲ့ အတော်ကြာကြာကြီးကို ကင်းကွာနေပုံရတယ်”

"ကဲ ပြောစမ်းပါဦး၊ မင်းအယူအဆ" ကတ်ဆီက ခြေထောက်များကို တွဲလောင်းချလိုက်ပြီး ဖိနပ်နှစ်ဖက်ကို ခါယမ်း၍ ချွတ်ချလိုက်ကာ ခြေချောင်းကလေးများကို လိမ်၍ ကုတ်၍ ပွတ်၍ အညောင်းဖြေနေသည်။

"အသေအချာတော့ မသိဘူး၊ ကြည့်ရတာတော့ အိမ်နီးနားချင်းတွေလည်း ရှိကြဟန် မတူဘူးဗျ၊ တကယ်လို့သာ သူတို့အားလုံး ရှိနေကြမယ်ဆိုရင် ဒီအိမ်က သစ်သားကောင်းတွေဟာ အခုလို ခြေရာလက်ရာမပျက် ရှိနေပါ့မလား၊ ခင်ဗျား စဉ်းစားကြည့်ပေါ့၊ ဟိုတစ်နှစ် ခရစ္စမတ် ပွဲတော်အတွင်းက အဲလ်ဘတ်ရန်စ်ဆိုတဲ့ လူဟာ သူ့ကလေးတွေရော ခွေးတွေရော သူ့မိသားစု တစ်စုလုံးခေါ်ပြီး အုတ်ကလာဟိုးမား မြို့တော်ကို သွားကြတယ်၊ သူတို့ သွားတာက အဲလ်ဘတ်ရဲ့ ညီဝမ်းကွဲဆီ သွားလည်ကြတာ၊ အဲဒါကိုဗျာ၊ ဒီအနားတစ်ဝိုက်က လူတွေက အဲလ်ဘတ် တစ်ယောက်တော့ ဘယ်သူ့ကိုမှ အသိမပေးဘဲ လစ်သွားပြီလို့ ထင်ကြတယ်၊ အကြွေးတွေ ဝိုင်းလို့ပဲလား၊ ဒါမှမဟုတ် မိန်းမ တစ်ယောက်ယောက်နဲ့ ဇာတ်ရှုပ်လို့လား မသိဘူး တစ်မျိုးတည်းလစ်ပြီလို့ တွေးကြတယ်၊ တစ်ပတ်လောက်ကြာတော့ အဲလ်ဘတ်တို့ ပြန်ရောက်လာတယ်၊ အိမ်ထဲမှာ ဘာတစ်ခုမှ မကျန်တော့ဘူးဗျို့ သိလား၊ မီးဖိုလည်း မရှိတော့ဘူး၊ အိပ်ရာ ခုတင်တွေလည်း မရှိတော့ဘူး၊ ပြတင်းပေါက် တံခါးပေါင်တွေ ဆိုတာလည်း တစ်ချောင်းမှ မကျန်တော့ဘူး၊ အိမ်ရဲ့ တောင်ဘက်ခြမ်းက ရှစ်ပေလောက် ရှိတဲ့ သစ်သားတိုင်တွေ အားလုံး ပြောင်တာပဲ၊ အပြင်က လှမ်းကြည့်ရင် တစ်အိမ်လုံးကို တိုးလျှိုပေါက် မြင်နေရတယ်၊ သူ ပြန်ရောက်လာချိန်မှာ မူလေးဂရေ့တို့ လူစုက သူ့အိမ် ပြတင်းပေါက်တွေနဲ့ ရေတွင်းက ပိုက်ကို ဖြုတ်ပြီး သယ်မလို့ လုပ်နေတုန်းဗျ၊ သူ့အိမ်က ယူသွားတဲ့ ပစ္စည်းတွေ ပြန်ရဖို့အတွက် အဲလ်ဘတ်ခမျာ ဒီအနီး တစ်ဝိုက်က အိမ်နီးနားချင်းတွေဆီ နှစ်ပတ်တိတိ လှည့်သွားပြီး ရှာယူရတယ်"

ကတ်ဆီက သူ့ခြေချောင်းများကို ပွတ်၍ အယားဖြေလျက် ရှိသည်။ "ယူသွားတဲ့ လူတွေက ပြန်ပေးကြရဲ့လား၊ သူတို့ပစ္စည်းပါလို့ ဆီးပြီး မငြင်းကြဘူးလား၊ အားလုံးကို ပြန်ပေးကြတာပဲလား"

"ပြန်မပေးဘဲ ဘယ်နေမလဲ၊ အမှန်တော့ သူတို့ ခိုးတာမှ မဟုတ်တာ၊ သူတို့က အဲလ်ဘတ်တို့ အပြီးအပိုင် လစ်သွားတယ်လို့ ထင်တာနဲ့ သူ့ထက်ငါ ဦးအောင် ပစ္စည်းတွေကို ဖြုတ်ဖျက်ယူကြတာ၊ သူ့ပစ္စည်း အကုန်ပြန်ရတယ်၊ ကတ္တီပါ ဆိုဖာ

ထိုင်ဖုံလေး တစ်ခုက လွဲပြီး အားလုံးပြန်ရတယ်၊ သူ့ထိုင်ဖုံကလေးက လှတော့ အလှသားဗျ၊ အပေါ်မှာ ရက်အင်ဒီးယန်းလူရိုင်းရုပ်ကလေးတစ်ရုပ်ပါတယ်၊ အဲဒီ ထိုင်ဖုံကို ကျုပ်အဘိုး အပိုင်စီး ထားတယ်လို့ အဲလ်ဘတ်က စွပ်စွဲတယ်၊ သူ့အပြောက ကျုပ်အဘိုးဟာ ရက်အင်ဒီးယန်း လူရိုင်းသွေး စပ်တယ်တဲ့၊ ဒါကြောင့်မို့ လူရိုင်းပုံ ပါတဲ့ ထိုင်ဖုံကို ပြန်မပေးတာတဲ့၊ ကျုပ်အဘိုး ဘုံးတာတော့ အမှန်ပဲဗျ၊ ဒါပေမဲ့ အဲလ်ဘတ် ပြောသလို ရက်အင်ဒီးယန်းပုံကြောင့် ဆိုတာတော့ လုံးဝ မဟုတ်ဘူး၊ အဘိုးက သက်သက်ကြိုက်လို့ ယူထားတာ၊ အဘိုးက သူ အပြင်ထွက်ရင် အဲဒီထိုင်ဖုံကို ယူယူသွားတယ်၊ တစ်နေရာ ရောက်လို့ သူ ထိုင်တော့မယ်ဆိုရင် ထိုင်ဖုံကို ချခင်းပြီး ထိုင်လိုက်ရော၊ ကျုပ်အဘိုးက အဲဒီ ထိုင်ဖုံလေးကို လုံးဝ ပြန်မပေးတော့ဘူး၊ အဘိုးက ပြောတယ်၊ တကယ်လို့ အဲဒီထိုင်ဖုံကို အဲလ်ဘတ် ပြန်လိုချင်ရင် သူကိုယ်တိုင် လာယူပေါ့ကွ၊ အေး လာရင်တော့ သတိထားပြီး လာမှ ဖြစ်မယ်၊ ဘာပြုလို့လဲဆိုတော့ ထိုင်ဖုံယူဖို့ လာတာနဲ့ တစ်ပြိုင်နက် ငါက သူ့ခေါင်းကို ဆီးပြီး ရိုက်ခွဲမှာကွ တဲ့။

"နောက်ဆုံးကျတော့ အဲလ်ဘတ်ကပဲ လက်လျှော့သွားပါတယ်၊ သူ့ထိုင်ဖုံကို ကျုပ်အဘိုးအတွက် လက်ဆောင်လို့ သတ်မှတ်ပြီး အပိုင်ပေးလိုက်တယ်၊ အဲဒီထိုင်ဖုံကြောင့် ကျုပ်အဘိုး ခေါင်းထဲ စိတ်ကူးအဆန်းဝင်ပြီး အရူးထလိုက်သေးတယ်၊ အချိန်ရှိသမျှ ကြက်မွေးတွေပဲ စုနေတယ်၊ ဘာလုပ်မလို့လဲ မေးတော့ အံမယ် ကြက်မွေး မွေ့ရာကြီး တစ်ခု လုပ်မလို့တဲ့၊ ဒါပေမဲ့ သူ့စိတ်ကူးကို ဖြစ်အောင် မလုပ်နိုင်ပါဘူး၊ အဲဒီ အချိန်က ကျုပ်အဖေကလည်း စကန့် ဖျံတစ်ကောင် မွေးပြီး အရူးထနေတဲ့ အချိန်ဗျ၊ အဖေက အိမ်အောက်မှာ အလျားနစ်ပေ၊ အနံ လေးပေ ကျယ်တဲ့ ခြံတစ်ခုဆောက်ပြီး ဖျံမွေးနေတာ၊ ခင်ဗျားသိတဲ့အတိုင်းပဲ စကန့်ဖျံမျိုးက အင်မတန် အနံ့ဆိုးတာ၊ ကျုပ်အမေကလည်း အနံ့ကို မခံနိုင်တော့ အဘိုးစုထားတဲ့ ကြက်မွေးတွေကိုယူယူပြီး မီးနဲ့ အမြဲ တိုက်နေရတယ်။ အင်း စဉ်းစားကြည့်ရင် အဘိုးရဲ့ ကြက်မွေးတွေကြောင့် ကျုပ်တို့မိသားစု ကံကောင်းလို့ အိမ်က ဆင်းမပြေးရတာ"

သူ့စကားသူ သဘောကျကာ တွမ်ဂျတ်က ရယ်သည်။ "ကျုပ်အဘိုးဟာ တကယ့်တေတဲ့ အဘိုးကြီးဗျ၊ သိလား၊ သူများထိုင်ဖုံကို သူ့ဖင်အောက် ထားပြီး ဘာပြောတယ် မှတ်လဲ၊ ဒီထိုင်ဖုံကို အဲလ်ဘတ် ဆိုတဲ့ကောင် လာယူရဲရင် ယူလှည့်ပေါ့ကွာ၊ လာများ ယူရင်တော့လား ဟင်း ... ဒီခွေးမသားကို လည်ပင်း လိမ်ချိုး ပစ်မယ်တဲ့၊ သူကပဲ တစ်ပြန်စီး ကြိမ်းနေလိုက်သေးဗျာ"

ကြောင်သည် လူနှစ်ဦးကြားသို့ ပြန်ရောက်လာပြန်သည်။ စောစောကလိုပင် သူ့ခြေထောက်များကို လျက်လိုက် ရပ်နေလိုက်။ နေသည် မိုးကုပ်စက်ဝိုင်းဆီ အထိ နိမ့်ဆင်းလာသည်။ ပတ်ဝန်းကျင် တစ်ခွင်လုံး နီရဲလာသည်။ ကောင်းကင်သည် ရွှေရောင်တောက်လျက် ရှိ၏။ ကြောင်သည် သူ့ခြေတစ်ဖက်ဖြင့် တွမ်ဂျုတ်၏ ကုတ်အင်္ကျီကို လှမ်းပုတ်သည်။ တွမ်ဂျုတ်က ဖျတ်ခနဲ လှည့်ကြည့်သည်။ "ဟာ သောက်ကျိုးနည်း၊ ကျုပ် လိပ်ကို မေ့နေလိုက်တာ၊ ကျကျနန ပြန်ထုပ်ဖို့ မေ့သွားတယ်" သူသည် ကုတ်အင်္ကျီကို ပြင်၍ထုပ်ပြီး ပြန်ချလိုက်၏။ အထဲမှ လိပ်သည် အပြင်သို့ တိုး၍ ထွက်လာသည်။ လိပ်၏ခေါင်းသည် တွမ်ဂျုတ် ယူလာစက ပုံစံအတိုင်းပင် အနောက်တောင်ဘက်သို့ လှည့်လျက် ရှိသည်။ ကြောင်က လိပ်၏ ဦးခေါင်းပေါ်သို့ ခုန်အုပ်ပြီး လက်နှင့် ပုတ်လိုက်သည်။ လိပ်ခေါင်းသည် အတွင်းသို့ စွပ်ခနဲ ပြန်ဝင်သွားသည်။ အမြီးနှင့် ခြေထောက်များသည်လည်း အခွံမာကြီးအောက်သို့ ဝင်ရောက် ပျောက်ကွယ်သွားသည်။ ကြောင်သည် လိပ်ခေါင်း ပြန်ထွက်အလာကို စောင့်မျှော်လျက် ရှိသည်။ ကြာလာတော့လည်း စောင့်နေရသည်ကို ငြီးငွေ့သွားဟန် တူ၏။ လိပ်အနီးမှ ခွာကာ တစ်ဖက်သို့ ထွက်သွားသည်။ အနောက်တောင်ဘက်သို့ ဦးတည်လျက်ရှိသော လိပ်ခေါင်းသည် တစ်ဖန် ပြန်ထွက် လာပြန်လေ၏။

တွမ်ဂျုတ်နှင့် တရားဟောဆရာတို့သည် လိပ်သွားရာနောက်သို့ စိတ်ဝင်တစား လိုက်ကြည့်နေကြသည်။ လိပ်သည် မာကျော လေးလံလှသော အခွံကြီးကို ကျောပိုးကာ ခြေထောက်များကို ခက်ခဲပင်ပန်းစွာ လှုပ်ရှား ကန်ကျောက်ပြီး အနောက်တောင်ဆီသို့ ဦးတည်၍ သွားလျက် ရှိ၏။ ကြောင်သည် ကွက်တစ်ကောင်ကို ချောင်းနေသည့်နယ် အသာကလေး ချောင်းကာ လိပ်နောက်မှ လိုက်သည်။ အတော်လှမ်းလှမ်းသို့ ရောက်သည့် အခါ ဆက်မလိုက်တော့ဘဲ မြေကြီးပေါ်၌ ဆောင့်ကြောင့်ထိုင်၍ တစ်ချက်မျှ အားရပါးရ သမ်းလိုက်သည်။ ထို့နောက် ထိုင်နေသော လူနှစ်ဦးဆီသို့ ပြန်လျှောက်လာလေသည်။

"ဒီအကောင် ဘယ်ဆီကို မှန်းပြီး သွားနေတယ်ဆိုတာ ခင်ဗျား ခန့်မှန်းလို့ ရသလား" ဟု တွမ်ဂျုတ်က မေးသည်။ "ကျုပ် လိပ်တွေ တွေ့ဖူးပေါင်း များလှပြီ၊ ဒီအကောင်တွေဟာ တစ်နေရာတည်းမှာ ကျောက်ချပြီး နေခဲတယ်၊ အမြဲတမ်း တစ်နေရာရာကို ဦးတည်ပြီး သွားနေတာပဲ၊ တစ်နေရာက တစ်နေရာကို အမြဲ ပြောင်းရွှေ့ချင်စိတ် ရှိပုံရတယ်" ကြောင်သည် သူတို့နှစ်ယောက်ကြား နောက်ဘက် ခပ်ကျကျတွင် ဝင်ထိုင်သည်။ ပျင်းရိ ငြီးငွေ့စွာဖြင့် မျက်လုံးများကို ဖွင့်ချည်ပိတ်ချည်

လုပ်သည်။ လက်တစ်ဖက်ကို မြှောက်၍ လက်သည်းများကို ထုတ်၍ ကြည့်သည်။ ပြီးတော့ ပန်းရောင်ပြေးနေသော သူ့လျှာဖြင့် ခြေတစ်ဖက်ကို လျက်နေလေသည်။

နီရဲသော နေမင်းသည် မိုးကုပ်စက်ဝိုင်းနှင့် ထိချက်ရှိလေပြီ။ သူ့အရောင်ကို အစွမ်းကုန် လွှတ်ကာ ပတ်ဝန်းကျင် တစ်ခုလုံးကို လွှမ်းခြုံမိရန် အားထုတ်လျက် ရှိလေပြီ။ မိုးကောင်းကင်သည် ပို၍ တောက်ပပြီး ပို၍ အသက်ဝင်လာသည့်နှယ် ရှိသည်။ တွမ်ဂျုတ်သည် ကုတ်အင်္ကျီအလိပ်ကို ဖြည်ပြီး အထဲမှ အဝါရောင် ဖိနပ်အသစ်ကို ထုတ်သည်။ ခြေနှစ်ဖက်ကို ပေကျံ ကပ်ငြိနေသည့် ဖုန်များကို လက်ဖြင့် ခါ၍ ထုတ်သည်။ ပြီးတော့ သူ့ဖိနပ်ကို ပြန်၍ စီးသည်။

တရားဟောဆရာသည် လယ်ကွင်းများကို ဖြတ်၍ ဟိုတစ်ဖက်သို့ လှမ်းမျှော်ကြည့်နေသည်။ "လူတစ်ယောက် လာနေတယ်၊ ဟိုမှာ မြင်လား၊ ဝါခင်းကြားက ဖြတ်လာနေတာလေ" ဟု ပြောသည်။

တွမ်ဂျုတ်က ကတ်ဆီ လက်ညှိုးထိုးပြရာသို့ လိုက်ကြည့်သည်။ "ခြေကျင်လျှောက်လာနေတာဗျ" ဟု ပြန်ပြောသည်။ "သူ့ခြေထောက်တွေ ကြားက တက်လာနေတဲ့ ဖုန်လုံးကြီးတွေက ကွယ်နေတော့ သူ့ကို ကောင်းကောင်း မမြင်ရဘူး၊ လာနေတာ ဘယ်သူများပါလိမ့်ဗျာ" ဆည်းဆာရောင် အောက်တွင် လျှောက်လာနေသောသူကို စိတ်ဝင်တစား စောင့်ကြည့်နေကြသည်။ လျှောက်လာနေသူ၏ အနီးအနားတစ်ဝိုက် တလိမ့်လိမ့် ပျံတက်နေသော ဖုန်မှုန့်များသည်ပင် နေ၏ ရောင်ပြန်ဟပ်မှုဖြင့် နီရဲလျက် ရှိကြလေသည်။ "ယောကျ်ား တစ်ယောက်ဗျ" ဟု တွမ်ဂျုတ်က စပြောသည်။ လာနေသူသည် သူတို့ဘက်သို့ တဖြည်းဖြည်း နီးလာသည်။ နောက်ဖေးဘက်ရှိ ကျီဝင်းကို ဖြတ်ကျော်လာသောအခါ ထိုလူ၏ မျက်နှာကို သဲသဲကွဲကွဲ မြင်လာရသည်။ "ကျုပ် သူ့ကို သိတယ်၊ ခင်ဗျားကော သိလား၊ အဲဒါ မူလေးဂရေ့ပေါ့ဗျ" ဟု ပြောပြောဆိုဆိုပင် လာနေသူဘက်သို့ လှည့်၍ အော်ခေါ်သည်။ "ဟေ့ မူလေး၊ ဘယ်လိုလဲ၊ နေကောင်းရဲ့လား"

အော်ဟစ်၍ နှုတ်ဆက်သံကို ကြားလိုက်ရသဖြင့် လာနေသူသည် ထိတ်လန့်အံ့ဩကာ တုံ့ခနဲ ဖြစ်သွားသည်။ လျှောက်သွားနေရာမှ ဖျတ်ခနဲ ရပ်လိုက်ပြီး အသံလာရာဘက်သို့ လှမ်းမျှော်ကြည့်သည်။ လာနေသူမှာ ပိန်ပိန်ပါးပါး၊ အတော်ကြီး

အရပ်ပုသည်။ လှုပ်ရှားသွားလာပုံမှာ လျင်မြန်သည်။ ဖျတ်လတ် သွက်လက်သည်။ သူ့လက်ထဲတွင် ဂုန်နီအိတ်တစ်လုံး ကိုင်လျက်။ သူ့ခါးမှ အပြာရောင် ဂျင်းဘောင်းဘီမှာ အရောင်အဆင်းပင် မပေါ်တော့ပေ။ အထူးသဖြင့် ဒူးခေါင်းနေရာနှင့် တင်ပါး နေရာများသည် ဖြူဖွေးလျက် ရှိ၏။ သူ့ကိုယ်ပေါ်မှ အနက်ရောင်ဝတ်စုံ အင်္ကျီဟောင်းကြီးမှာ တစ်ထည်လုံး ရစရာမရှိအောင်ပင် အစွန်းအထင်းများနှင့် ပေရေညစ်ပတ်လျက် ရှိလေသည်။ အင်္ကျီလက်၏ နောက်ကျောဘက် ပခုံးများနှင့် တံတောင်ဆစ် နေရာများမှာလည်း အစုတ်စုတ် အပြတ်ပြတ် ဖြစ်ကာ ပေါက်ပြဲလျက် ရှိသည်။ သူ့ခေါင်းမှ ဦးထုပ်အနက်မှာလည်း သူ့အင်္ကျီကဲ့သို့ပင် အစွန်းအကွက်များနှင့် ပြည့်နေရုံမျှမက ဦးထုပ်ပတ် ဖါပြားမှာလည်း ပြုတ်ပျက်ကျကာ တွဲလောင်းဖြစ်လျက် ရှိလေသည်။ မူလေး၏ မျက်နှာသည် ချောချောမွေ့မွေ့ ရှိသည်။ အရေးအကြောင်း အတွန့်အလိပ်များ မရှိ။ သို့သော်လည်း မျက်နှာပေါက်ဆိုးသည်။ ပါးစပ် ခပ်သေးသေးကို တင်းကျပ်စွာ စေ့ထားသည်။ သေးငယ် စူးရှသော မျက်လုံးအစုံသည် ကြွပ်ဆတ်ဆတ် မာကျောကျောနှင့် အလွန် ခေါင်းမာမည့်ဉာဉ်ကို ဖော်ပြလျက် ရှိလေသည်။

"ခင်ဗျား မူလေးကို မှတ်မိတယ် မဟုတ်လား" ဟု တွမ်ဂျုတ်က တရားဟောဆရာကို မေးသည်။

"ဘယ်သူလဲဟေ့" သူတို့ထံ လာနေသူက လှမ်းအော်၍ မေးသည်။ တွမ်ဂျုတ်က အဖြေမပေး။ မူလေးသည် တရွေ့ရွေ့နှင့် သူတို့နား ရောက်လာသည်။ "ဟာ တွမ်ဂျုတ်ပါလား၊ မင်း ဘယ်တုန်းက လွတ်လာတာလဲ တွမ်မီ"

"လွန်ခဲ့တဲ့ နှစ်ရက်က" ဟု တွမ်ဂျုတ်က ပြောသည်။ "လမ်းကြုံကား စောင့်စီးနေတာနဲ့ နည်းနည်းကြာသွားတယ်၊ ဒီမှာ ဖြစ်နေတဲ့ အခြေအနေကိုလည်း ကြည့်ပါဦး၊ ဘယ်လို ဖြစ်ကုန်တာလဲ၊ ငါ့မိဘတွေကော ဘယ်ရောက်ကုန်ပြီလဲ မူလေးရာ၊ အိမ်ကလည်း တစ်အိမ်လုံးကို ပြောင်းဆန်နေတာပဲ၊ ဝင်းခြံ တစ်ခြံလုံးမှာလည်း ဝါပင်တွေနဲ့ ပြည့်နေပြီ"

"အေးကွာ၊ ဘုရားသခင် စောင်မပေလို့သာ ဒီကို ငါ ရောက်လာတာ၊ တော်ပါသေးရဲ့ဟာ" ဟု မူလေးက ပြောသည်။ "မင့်အဘိုးကြီးက အရမ်း စိတ်ပူနေတာ၊ သူတို့ ပြောင်းဖို့ရွှေ့ဖို့ ပစ္စည်းတွေ ထုပ်ပိုးနေတော့ ငါ မီးဖိုခန်းထဲမှာ ရှိတယ်ကွ၊ ငါက

မင့်အဘိုးကြီးကို ပြောတယ်၊ ကျုပ်တော့ မရွှေ့သေးဘူးလို့၊ အဲဒီတော့ မင့်အဘိုးကြီးက ပြောတယ်၊ ငါ တွမ်ဂျုတ်အတွက် စိတ်ပူတယ်ကွာ၊ တကယ်လို့ သူ လွတ်လို့ အိမ်ပြန်လာရင် အိမ်မှာ ဘယ်သူနဲ့မှ တွေ့မှာ မဟုတ်ဘူး၊ မတွေ့ရင် သူ တွေးမိတွေးရာ လျှောက်တွေးပြီး စိတ်ပူနေမှာပဲ တဲ့၊ ခင်ဗျား ဘာဖြစ်လို့ စာမရေးတာလဲလို့ ငါက မေးတော့ ငါ ရေးမလို့ စိတ်ကူးသေးတယ်၊ ဒါပေမဲ့ မရေးဖြစ်ခဲ့ဘူး၊ တကယ်လို့ မင်း မရွှေ့သေးဘူး ဆိုရင်တော့ တွမ်ဂျုတ်ကို စောင့်ကြည့်လိုက်စမ်းပါကွာလို့ မှာတယ်၊ ငါကလည်း ကျုပ် မရွှေ့သေးပါဘူး၊ ငရဲပြည်ကြီး ရေခဲသွားတဲ့ အထိတော့ နေလိုက်ဦးမယ်လို့ ပြောလိုက်တယ် ”

တွမ်ဂျုတ်က စိတ်မရှည်သံဖြင့် ပြန်မေးသည်။ “ငါ့မိသားစုတွေ ဘယ်သွားကုန်ကြသလဲ၊ မင်း ဒီမှာ ဘာကြောင့် နေခဲ့တယ် ဆိုတာကို နောက်မှပြော၊ အခု သူတို့ ဘယ်ရွှေ့သွားကြသလဲ ”

“အမှန်တော့ သူတို့ မရွှေ့ချင်ဘူးကွ၊ ဘဏ်က ဒီမြေအားလုံးကို ထွန်စက်နဲ့ထွန်ပြီး ရှင်းတော့ သူတို့ မသွားဘဲ ပေခံနေသေးတယ်၊ မင့်အဘိုးဆိုရင် ရိုင်ဖယ်သေနတ်ကြီးနဲ့ ထွက်ရပ်နေတာ၊ ထွန်စက်ဆိုတဲ့ ကြောင်ကြီးရဲ့ ရှေ့မီးတွေကို သေနတ်နဲ့ ပစ်ခွဲပစ်သေးတယ်၊ ဒါပေမဲ့ မရဘူးဟေ့၊ ထွန်စက်က လာတာပဲ၊ မင်းအဘိုးက ထွန်စက်မောင်းတဲ့ ကောင်ကိုတော့ မသတ်ရက်ဘူး၊ ထွန်စက်မောင်းတဲ့ ကောင်ကလည်း တခြားလူမှ မဟုတ်တာ၊ ဝီလီဖီးလေး ဆိုတဲ့ ကောင်လကွာ၊ ဝီလီကလည်း လူချင်း သိနေပေမဲ့ မတတ်နိုင်ဘူးလေ၊ သူ မောင်းလာတဲ့ ထွန်စက်နဲ့ အိမ်ကို ဝင်တိုက်တယ်၊ ခွေးတစ်ကောင်က ကြွက်တစ်ကောင်ကို လိုက်ပြီး ဆွဲခါနေသလိုပါပဲကွာ၊ ဒီအဖြစ်ကို မြင်တော့ မင့်အဘိုးလည်း အတော် စိတ်မကောင်း ဖြစ်သွားတယ်၊ အဲဒီအချိန်ကစပြီး သူဟာ အရင်နဲ့ မတူတော့ဘူး ”

“ငါ့မိဘတွေ ဘယ်ရွှေ့သွားကြသလဲ ” ဟု တွမ်ဂျုတ်က ဒေါ်သတကြီး မေးသည်။

“အခု ငါ မင့်ကို ပြောပြနေတယ်လေကွာ၊ မင့်ဦးလေး ဂျွန်ရဲ့ ကုန်တင်ကားနဲ့ သုံးခေါက်သယ်ရတယ်၊ မီးဖိုရော ပိုက်လုံးရော ခုတင်တွေရော အိပ်ရာတွေရော အားလုံးသယ်တာ မင်း မြင်စေချင်တယ်၊ ချာတိတ်တွေရော၊ မင့်အဘိုးနဲ့ အဘွားရော အားလုံး စုပြုံပြီး ကားခေါင်းပေါ် ထိုင်လိုက်သွားကြရတာ၊ မင့်ညီ နိုအာကတော့ ကားဘေးမှာ တွယ်ပြီး လေတချွန်ချွန်နဲ့ ပါသွားတယ် ” တွမ်ဂျုတ်က ဒေါ်သတကြီးဖြင့်

ထပ်အော်မည် ပြုသည်။ ထိုအခါကျမှပင် မူလေးက ဒရောသောပါးနှင့် တွမ်ဂျုတ် လိုချင်သော အဖြေကို ပေးသည်။ "သူတို့အားလုံး မင့်ဦးလေးဂျွန်ဆီကို ပြောင်းသွားကြတာကွ"

"ဪ သူတို့အားလုံး ဦးလေးဂျွန်ဆီ ရောက်နေကြတာကိုး၊ သူတို့ ဟိုမှာ ဘာလုပ်နေကြပါလိမ့်၊ ခဏတော့ နေပါဦး မူလေးရာ၊ ငါ သိချင်တာလေးတွေ မေးစမ်းပါရစေဦး၊ သူတို့ ဟိုမှာ ဘာလုပ်နေကြသတဲ့လဲ"

"သူတို့ ဟိုမှာ ဝါပင်အိုတွေ ပေါင်းရှင်းပေးရတဲ့အလုပ် လုပ်နေကြတယ်၊ မင့်အဘိုးရော ကလေးတွေရော ရှိသမျှ လူကုန်ထွက်လုပ်နေကြတာ၊ သူတို့ရတဲ့ လုပ်ခကို စုဆောင်းပြီး ကားတစ်စီး ဝယ်မယ် ပြောတယ်၊ အဲဒီကားနဲ့ လုပ်ငန်း ကိုင်ငန်း အဆင်ပြေတယ်လို့ သတင်းကြားနေရတဲ့ အနောက်ပိုင်းဒေသကို သွားကြလိမ့်မယ်၊ ဒီမှာကတော့ အခြေအနေ မကောင်းဘူးကွ၊ ဝါပင် ဝါအို ပင်ပေါင်းတွေ ပေါင်းရှင်းပေးရတဲ့ အလုပ်ကလွဲပြီး တခြား ဘာမှ လုပ်စရာ မရှိဘူး၊ ဒီအလုပ်ကလည်း တစ်ဧကမှ ဆယ့်ငါးဆင့်ပဲ ရတာ၊ အဲဒီ အလုပ်ကလေး ရဖို့တောင်မှ သူတောင်းစားတွေလို မျက်နှာအောက်ချပြီး လိုက်တောင်းနေရတာ"

"သူတို့လူစု အခုအချိန်ထိတော့ အနောက်ပိုင်း ဒေသကို မသွားကြသေးဘူး၊ မဟုတ်လား"

"မသွားကြသေးဘူးကွ" ဟု မူလေးက ပြောသည်။ "သူတို့ မသွားဖြစ်သေး တာတော့ ငါ သိတယ်၊ လွန်ခဲ့တဲ့ လေးရက်လောက်က ယုန်ပစ်ထွက်လာတဲ့ မင့်ညီ နိုအာနဲ့ ငါ တွေ့တယ်၊ နောက်နှစ်ပတ်လောက်ကြာမှ သွားဖြစ်မယ်လို့ ငါ့ကို ပြောသွားတယ်၊ မင့်ဦးလေးဂျွန်လည်း မြေပေါ်က ထွက်ပေးဖို့ နှင်စာရထားပြီလို့ ပြောတယ်၊ မင့်ဦးလေး နေရာက သိပ်ဝေးတာမှ မဟုတ်တာ၊ အလွန်ဆုံးရှိလှ ရှစ်မိုင်ပေါ့၊ မင်း လိုက်သွားလေကွာ၊ ဟိုကျတော့လည်း ဆောင်းရာသီမှာ မြေတွင်း အောင်းနေကြတဲ့ ပွေးတွေလို တစ်ယောက်ပေါ် တစ်ယောက် ထပ်လှုခမန်း ဖြစ်နေတဲ့ မင့်မိသားစုနဲ့ တွေ့ရမှာပေါ့"

"လိုက်ရမှာပေါ့" ဟု တွမ်ဂျုတ်က ပြောသည်။ "ကဲ မင်းသွားစရာရှိတဲ့ ခရီးကို ဆက်ပေတော့၊ မင်းကတော့ ဟိုတုန်းက အတိုင်းပဲ၊ နည်းနည်းလေးမှ မပြောင်းဘူး၊ မင်းက

ငါ့ကို အနောက်မြောက်ဘက်ဒေသအကြောင်း ပြောနေပေမဲ့ မင့်နှာခေါင်းကတော့ အရှေ့တောင်ဘက်ကို တည့်တည့်ကြီး လှည့်ပြီး အနံ့ခံနေတာပဲ ”

“မင်းကော ဘာထူးလဲ၊ မပြောင်းဘူး၊ ဟိုတုန်းကလို သွက်လက် ဖျတ်လတ်တုန်းပဲ၊ မင်းက ငါ့ဘဝကို ဘယ်လို အရေလဲရမလဲ ဆိုတာများ ပြောပြနေတာလားကွာ ”

တွမ်ဂျုတ်က သွားများပေါ်အောင် ပြုံးသည်။ “မဟုတ်ပါဘူးကွာ၊ တကယ်လို့ မင်းက မုန်ကွဲပုံကြီး တစ်ခုကို မင့်ခေါင်းနဲ့ ပြေးဆောင့်ဖို့ စိတ်ကူးတဲ့ အချိန်မျိုးမှာ ဝင်ပြီး တားမယ့်လူ မရှိနိုင်ပါဘူးဟ၊ ဪ ဟေ့ ဒီမှာ၊ မင်း သူ့ကို မှတ်မိသလား ဟင်၊ တရားဟောဆရာ ကတ်ဆီ ဆိုတာလေ ”

“ဟာ မှတ်မိပြီလားကွ၊ ငါ ကောင်းကောင်း မှတ်မိပါတယ် ”

ကတ်ဆီက မတ်တတ် ထရပ်သည်။ နှစ်ယောက်သား တစ်ယောက်လက် တစ်ယောက် ဆွဲ၍ နှုတ်ဆက်ကြသည်။ “ပြန်တွေ့ရတာ ဝမ်းသာသဗျာ” ဟု မူလေးက ဆိုသည်။ “ခင်ဗျား ကျုပ်တို့ဘက် မရောက်တာ အတော်ကြီးကို ကြာပြီပဲ”

“ဒါနဲ့ ငါ မေးစမ်းပါရစေဦး” ဟု ကတ်ဆီက ပြောသည်။ “ဒီနယ်မှာ ဘာဖြစ်နေသလဲ၊ သူတို့က စာရင်းငှားတွေကို ဘာကြောင့် မြေပေါ်က ကန်ထုတ် နေရတာတဲ့လဲကွ ”

မူလေး၏ ပါးစပ်သည် တင်းကျပ်စွာ ပိတ်သွားသည်။ “ခွေးမသားတွေပေါ့ဗျာ ” ဟု တစ်ခွန်း ဆဲလိုက်သည်။ “အလွန် ညစ်ပတ် စုတ်ပဲ့ပြီး ယုတ်မာတဲ့ ခွေးသားတွေပေါ့ဗျာ၊ ကျုပ် ပြောလိုက်မယ်၊ ကျုပ်ကတော့ ဒီမြေပေါ်မှာပဲ နေမှာပဲ၊ ဒီကောင်တွေ ကျုပ်ကို နှင်လို့ ဘယ်တော့မှ မရဘူး မှတ်ပါ၊ တကယ်လို့ သူတို့က အတင်းအဓမ္မ မောင်းထုတ်လည်း ကျုပ်ကတော့ ပြန်လာမှာပဲ၊ ကျုပ်ကို အကြမ်းကိုင်လည်း ကျုပ်ကတော့ မခံဘူး၊ အနည်းဆုံး ခွေးသား သုံးကောင်လောက်တော့ အဖော် ခေါ်သွားမယ် ” မူလေးက ပြောပြောဆိုဆို လေးလံပြီး အိတ်တွဲကျနေသော သူ့ကုတ်အင်္ကျီ ဘေးအိတ်ကပ်ကို လက်နှင့် ပုတ်ပြလေသည်။ “ကျုပ်ကတော့ မသွားဘူး၊ ကျုပ်အဖေဟာ လွန်ခဲ့တဲ့ နှစ်ပေါင်း ငါးဆယ်လောက်က ဒီမြေပေါ် ရောက်လာပြီး အခြေချ နေခဲ့တာဗျ၊ အဲဒီတော့ ကျုပ် မသွားဘူး ”

"စာရင်းငှားတွေကို ကန်ထုတ်နေတဲ့ အဓိပ္ပာယ်က ဘာလဲကွ" ဟု တွမ်ဂျုတ်က ကြားဖြတ်မေးသည်။

"ဟာ ... ကွာ၊ သူတို့ပါးစပ်က ပြောနေတာတွေကတော့ အများကြီးပဲ၊ ဒါပေမဲ့ ငါတို့တစ်တွေ ဘယ်လို နှစ်မျိုးတွေနဲ့ ရင်ဆိုင်ပြီး ဖြတ်သန်း ကျော်လွှားခဲ့ရတယ်ဆိုတာ မင်းအသိဆုံးပါ တွမ်ဂျုတ်ရာ၊ ဖုန်တွေကြောင့် သီးနှံတွေ ပျက်တဲ့ အချိန်မျိုးမှာဆိုရင် ပုရွက်ဆိတ် တစ်ကောင်ရဲ့ ပါးစပ်ကိုတောင် ပြည့်အောင် အစာ သွင်းမပေးနိုင်ခဲ့ဘူး မဟုတ်လား၊ လူတိုင်းဟာ ဈေးကြွေးနဲ့ လည်ပင်မြုပ်လုခမန်း ဖြစ်နေကြရတာပါ၊ ဒါတွေဟာ မင်း အသိဆုံးပါကွာ၊ ငါက အထူး ပြောပြနေဖို့ မလိုတော့ပါဘူး၊ အဲ ခုကျတော့ မြေရှင်ကြီးတွေက ပြောတယ်၊ ငါတို့ မြေပေါ်မှာ စာရင်းငှားတွေ ဆက်ပြီး ငှားမထားနိုင်တော့ဘူးတဲ့၊ ပြီးတော့ စာရင်းငှားတစ်ယောက်ကို ခွဲပေးနေရတဲ့ လုပ်ခကြောင့် ငါတို့မှာ အမြတ်မရှိတော့ဘူးတဲ့၊ ပြီးတော့ ထပ်ပြောလိုက်သေးတယ်၊ ငါတို့ ပိုင်တဲ့ မြေအားလုံး ပေါင်းပြီး တစ်ကွက်တည်း လုပ်လိုက်ရင် စရိတ်အကုန်အကျ သက်သာသွားမှာတဲ့၊ အဲသလို ပြောပြီး စာရင်းငှားတွေကို ထွန်စက်တွေနဲ့ အတင်းအဓမ္မ မောင်းထုတ်တော့တာပဲ၊ ငါတစ်ယောက်က လွဲပြီး အားလုံး ထွက်သွားကုန်ကြပြီ၊ ငါကတော့ မသွားဘူး၊ မင်း ငါ့အကြောင်း သိပါတယ် တွမ်မီရာ၊ မင်းဟာ တစ်သက်လုံး ငါနဲ့ ပေါင်းလာတဲ့ကောင်ပါ"

"ဟုတ်တာပေါ့ကွာ၊ ငယ်ပေါင်း ဆိုတာတော့လည်း တစ်ယောက်အကြောင်း တစ်ယောက် ကောင်းကောင်း သိနေကြတာပေါ့" ဟု တွမ်ဂျုတ်က အလိုက်သင့် ပြန်ပြောသည်။

"အင်းပေါ့၊ မင်း အသိဆုံးပေါ့၊ ငါဟာ အရူးအမိုက်တစ်ယောက် မဟုတ်ဘူး တွမ်မီ၊ ငတုံးငအ တစ်ယောက်လည်း မဟုတ်ဘူးကွ၊ ဒီမြေတွေ မကောင်းတော့ဘူးဆိုတာ ငါကိုယ်တိုင် သိနေတာ ကြာပြီပဲ၊ ဒီမြေတွေကို ကျွဲနွားစားကျက်က လွဲပြီး တခြား ဘာမှလုပ်ဖို့ မသင့်တော့ဘူးကွ၊ ဒီမြေကို အောက်ခြေအထိ အနက်ကြီး ထိုးလှန်ပြီး စိုက်ထားလို့လည်း မသင့်တော့ဘူး၊ အခုတော့ ကြည့်လေ၊ မင်းမြင်တဲ့ အတိုင်းပဲ၊ ဝါတွေ စိုက်ထားတယ်၊ ဝါတွေ စိုက်လိုက်တာဟာ မြေတွေကို သေတွင်းပို့တာပဲပေါ့၊ တကယ်လို့ သူတို့က တစ်ချိန်ချိန်မှာ ကိုယ့်စိတ်နဲ့ကိုယ် ကယ်လီဖိုးနီးယား ပြည်နယ်ဘက် ပြောင်းရွှေ့ပြီး စပျစ်သီး စားလိုက် လိမ္မော်သီး ဆွတ်လိုက် လုပ်ချင် လုပ်နေမှာပါ၊ ဒါပေမဲ့ အခုတော့

ခွေးသားတွေက ငါ့ကို နှင်ထုတ်တယ်၊ ဟား ဘယ်ရမလဲကွာ၊ ငါလည်း လူတစ်ယောက်ပါ၊ လူဆိုတာ ဒီလိုလုပ်တာမျိုး ဘယ်ခံနိုင်ပါ့မလဲ ”

“ဟုတ်တာပေါ့ကွာ ” ဟု တွမ်ဂျုတ်က ထောက်ခံသည်။ “ငါ့အဖေ အလွယ်တကူနဲ့ ထွက်သွားတာကို ငါ အံ့ဩလို့ မဆုံးဘူး၊ အဘိုးက ဘယ်သူ့မှ သတ်မသွားဘူး ဆိုတာလည်း ငါ့အဖို့တော့ အံ့ဩစရာတစ်ခု ဖြစ်နေတာပဲကွ၊ သူ့ခြေထောက် ဘယ်နေရာမှာ ချနင်းရမလဲ ဆိုတာ အဘိုးကို နားလည်အောင် ပြောပြမယ့် လူတစ်ယောက်မှ ရှိပုံမရဘူး၊ ပြီးတော့ ငါ့အမေစိတ်ကိုလည်း မင်း အသိသားပဲ၊ ဟိုတစ်ခါတုန်းက လက်တွန်းလှည်းဈေးသည် တစ်ယောက်ကို ကြက်အရှင် တစ်ကောင်နဲ့ ငါ့အမေ လိုက်ရိုက်တာ မင်း မှတ်မိသေးတယ် မဟုတ်လား၊ ဈေးသည်နဲ့ စကားများတဲ့ အချိန်မှာ အမေ့ လက်တစ်ဖက်က ကြက်အရှင် ကိုင်လို့၊ တစ်ဖက်က ရဲတင်းကြီး ကိုင်လို့၊ ကြက်ကို ခေါင်းဖြတ်တော့မလို့ လုပ်နေတုန်း ထရန်ဖြစ်တာပေါ့၊ အမှန်က အမေက ဈေးသည်ကို ရဲတင်းနဲ့ ခုတ်ဖို့ လိုက်တာ၊ ဒါပေမဲ့ ဒေါသက သိပ်ကြီးနေတော့ သူ ယူသွားတဲ့ လက်နက်ဟာ ကြက်လား ရဲတင်းလား ခွဲခြားပြီး မသိတော့ဘူးပေါ့၊ တစ်ခါတည်း လက်ထဲက ကြက်အရှင်နဲ့ ဟိုအကောင်ကို ဆော်လိုက်တာ နောက်ဆုံး အမေ့လက်ထဲမှာ ကြက်ခြေထောက် နှစ်ချောင်းပဲ ကျန်တော့တယ်၊ ငါ့အဘိုး ရယ်လိုက်တာများ အသက်ထွက်ခမန်းပဲ၊ ငါတို့ လူစုဟာ ဘယ်လောက်များ နားအေးပါးအေး နေတတ်ကြသလဲကွာ ”

“ငါ့ဆီကို ငနဲတစ်ကောင် ရောက်လာတယ်ကွ၊ သိလား၊ အောင်မယ် အပြောကဖြင့် တကယ် ချိုတာပဲဟေ့၊ ခင်ဗျား မြေပေါ်က ထွက်ပေးပါတဲ့၊ ဒီကိစ္စဟာ ကျွန်တော် လုပ်တာ မဟုတ်ပါဘူးတဲ့၊ ငါက ပြန်ပြောတယ်၊ ဘယ်သူ လုပ်တာလဲ၊ လုပ်တဲ့ကောင်ဆီ ကျုပ်ကိုယ်တိုင် သွားပြီး အရေဆုတ်ပစ်မယ်လို့၊ လုပ်တဲ့လူက ရှောနီး မြေယာနှင့် ကျွဲနွားရောင်းဝယ်ရေး ကုမ္ပဏီက လုပ်တာပါ၊ ကျွန်တော့်ကို သူတို့က အမိန့်ပေးလို့ပါတဲ့၊ အဲဒီကုမ္ပဏီဆိုတာ ဘယ်သူတွေလဲလို့ ငါက ပြန်မေးတော့ ဘယ်သူမှ မဟုတ်ဘူး၊ ကုမ္ပဏီတစ်ခုပဲတဲ့၊ ဒီအကောင်ပုံက သောက်ရူးနဲ့ တူပါတယ် တွမ်မီရာ၊ သေသေချာချာ မေးတော့လည်း လက်ညှိုးထိုးပြစရာ လူမရှိဘူး၊ ငါတို့ လူတွေကလည်း ပြဿနာနဲ့ ရင်ဆိုင်ရမှာကို စိတ်ကုန်နေတယ်နဲ့ တူပါတယ်၊ ဒါပေမဲ့ ဟေ့၊ ငါကတော့ စိတ်မကုန်ဘူး၊ ငါကတော့ နည်းနည်းကလေးမှ အကျောမခံချင်ဘူး၊ ဒါကြောင့်မို့ တခြား လူတွေ ထွက်သွားပေမဲ့ ငါမထွက်ဘူးကွ၊ ငါကတော့ နေမြဲ နေမှာပဲ”

အလွန် ကြီးမားသော နေရောင် တစ်ကွက်သည် အနောက်ဘက် မိုးကုပ်စက်ဝိုင်းတွင် မေးတင်လျက် ရှိသည်။ ရောင်ခြည်တန်းများသည် ကောင်းကင်ဆီသို့ ထိုးတက်ကာ ဖြာထွက်လျက် ရှိကြလေသည်။ နေမင်း ငုပ်လျှိုးသွားရာ နေရာတွင် ကောင်းကင်သည် ထိန်လင်း တောက်ပလျက် ရှိ၏။ အရှေ့ဘက် မိုးကုပ်စက်ဝိုင်းဆီမှ အမှောင်သည် ကောင်းကင်ထက်သို့ မသိမသာ တိုးဝင်လာနေသည်။ အမှောင်ထုသည် မြေပြင်ကို လွှမ်းခြုံစပြုလာသည်။ ကြယ်များသည် ဆည်းဆာ အချိန်၏ အမှောင်ထုကို အန်တုနေသည့်နှယ် လင်းလက်စ ပြုလာသည်။ သူတို့အနီး၌ ထိုင်နေသော ကြောင်သည် ကျီရှိရာသို့ တရွေ့ရွေ့ လျှောက်သွားပြီး အတွင်းဘက်သို့ ဝင်ရောက် ပျောက်ကွယ် သွားလေသည်။

"ငါတို့ ကနေ့ညတော့ ရှစ်မိုခရီးကို ဆက်နိုင်မှာ မဟုတ်တော့ဘူး၊ ငါကတော့ ခြေကုန်နေပြီ၊ မင်းတို့အိမ်လိုက်ပြီး တစ်ညလောက် ခိုချင်တယ်၊ ရမလား၊ မင်းအိမ်ကတော့ တစ်မိုင်လောက်ပဲ ဝေးမှာပါ" ဟု တွမ်ဂျုတ်က ပြောသည်။

"အဲဒါမှ ခွကျတာပဲ" မူလေးသည် စိတ်မကောင်းဖြစ်သွားပုံ ရသည်။ "ငါ့မိန်းမနဲ့ ကလေးတွေရော သူ့အစ်ကိုပါ ကယ်လီဖိုးနီးယားကို ထွက်သွားကြပြီ၊ ဒီမှာက သူတို့အတွက် စားစရာ ဘာမှ မရှိဘူး၊ သူတို့က ငါ့လောက် စိတ်ဓာတ် မပြင်းထန်တော့ စားစရာမရှိတဲ့ နေရာမှာ မနေတော့ဘူးပေါ့၊ ဒီမှာက စားစရာ မရှိဘူးကွ"

တရားဟောဆရာသည် မူလေး၏ စကား ကြားရသောအခါ စိတ်မသက်မသာ ဖြစ်သွားသည်။ "မင်းလိုက်သွားဖို့ ကောင်းတယ်၊ မိသားစုနဲ့ ဥမကွဲ သိုက်မပျက် နေသင့်တယ်"

"ကျုပ် မနေနိုင်ဘူး" ဟု မူလေးဂရေ့က ပြန်ပြောသည်။ "တစ်စုံတစ်ခုက ကျုပ်ကို သွားခွင့်မပေးဘူး"

"ဟုတ်ပါရဲ့ကွာ၊ အေးလေ ငါတော့ အတော်ကြီးကို ဆာနေပြီ" ဟု တွမ်ဂျုတ်က ညည်းသည်။ "ငါ့ဗိုက်က လေးနှစ်တိတိ အချိန်မှန်မှန် စားနေကျ ဖြစ်နေပြီ၊ ငါ့အူတွေက တကျုတ်ကျုတ် မြည်နေပြီ၊ မင့်မှာ စားစရာ ဘာများရှိသလဲ၊ မင်း ညစာကို ဘယ်လို ဖန်တီးပြီး စားနေသလဲ မူလေး"

မူလေးက ရက်ကိုးရက်ကန်းဖြင့် ပြန်ဖြေသည်။ "အခု လတ်တလောတော့ ဖားနဲ့ ရှဉ့်ပဲ စားနေတယ်၊ တစ်ခါတစ်ရံကျတော့လည်း ပရေရီတောခွေး ရတတ်တယ်၊ ဘယ့်နှယ် လုပ်မလဲ၊ ဒီနည်းပဲ ရှိတော့တာပဲ၊ ဒါပေမဲ့ အခု ဝိုင်ယာကြိုး နည်းနည်းရထားလို့ ကွင်းလျှော လုပ်ပြီး ထောင်ဖမ်းနေတယ်၊ တစ်ခါတစ်လေ ယုန်ရတယ်၊ တစ်ခါတစ်လေကျတော့ တောကြက် ရတယ်၊ စကန့်ဖျံလည်း ရတဲ့အခါ ရတတ်ပါတယ်၊ ငါတော့ ရသမျှ အကုန်စားတာပဲ" သူသည် မြေကြီးပေါ်၌ ချထားသော ဂုန်အိတ်ကို ကောက်ယူပြီး အိမ်ရှေ့ ကပြင်ပေါ်သို့ သွန်ချလိုက်သည်။ အိတ်ထဲမှ ယုန်အငယ်မျိုး နှစ်ကောင်နှင့် ဂျက်ရတ်ဘစ် ခေါ် ယုန်ကြီးမျိုး တစ်ကောင် ထွက်ကျလာပြီး ကြမ်းပြင်ပေါ်၌ သုံးလေးပတ်မျှ လိမ့်သွား လေ၏။

"ဟန်ကျတာပဲဟေ့" ဟု တွမ်ဂျုတ်က ဝမ်းသာအားရ ပြောသည်။ "လတ်လတ် ဆတ်ဆတ် သတ်ထားတဲ့ အသားကို မစားရတာ လေးနှစ်တောင် ရှိပြီကွ"

ကတ်ဆီက ယုန်တစ်ကောင်ကို ကောက်၍ ကိုင်ထားသည်။ "မင်း ငါတို့ကို မျှတ ကျွေးနိုင်မလား မူလေး" ဟု လှမ်းမေးသည်။

မူလေး၏ စိတ်သည် ဂနာမငြိမ် ဖြစ်လျက် ရှိ၏။ "ဒီကိစ္စမှာတော့ ကျုပ်မှာ ရွေးစရာလမ်း မရှိတော့ဘူးလေဗျာ" ဟု ရေရွတ်သည်။ ထို့နောက် သူသည် ပြောလိုက်မိသော စကားအတွက် မလုံမလဲ ဖြစ်လာသည်။ "ကျုပ်ပြောတဲ့ သဘောက ဒီသဘောမျိုး မဟုတ်ပါဘူး၊ ဒါပေမဲ့ ပြောချင်တာက ဒီလို ရည်ရွယ်ချက်နဲ့ မဟုတ်ပါဘူး၊ ကျုပ် ဆိုလိုတာက ... " သူသည် စကားကို ဆက်မပြောနိုင်ဘဲ အထစ်ထစ် အငေါ့ငေါ့ ဖြစ်လျက် ရှိလေသည်။ "ကျုပ်ပြောတာက လူတစ်ယောက်ဆီမှာ စားစရာတစ်ခု ရှိတယ်၊ ဒါပေမဲ့ နောက်လူတစ်ယောက်မှာတော့ ဘာမှ မရှိဘူး၊ ဆာတာကလည်း ဆာနေတယ် ဆိုရင် ပထမလူအဖို့ ရွေးစရာလမ်း မရှိတော့ဘူးပေါ့၊ ဆိုလိုတာက ကျုပ်က ကျုပ်ရထားတဲ့ ယုန်တွေကို ယူသွားပြီး တခြားတစ်နေရာမှာ တိတ်တိတ်ကျိတ်စားမယ် ဆိုပါတော့၊ ဘယ်လို ပြောကြမလဲ"

"ငါ သဘောပေါက်ပါတယ်" ဟု ကတ်ဆီက ဆိုသည်။ "မင်း ဆိုလိုချင်တာကို ငါ နားလည်ပါတယ်ကွ၊ ဒီမှာ ဟေ့ တွမ်၊ မူလေး ပစ္စည်းတစ်ခု ရလာတယ်၊ အဲဒီပစ္စည်းက သူ့အတွက်လည်း များနေတယ်၊ ငါ့အတွက်လည်း များနေတယ်၊ သူပြောချင်တာ ဒါပဲကွ"

တွမ်ဂျုတ်က သူ့လက်ဖဝါး နှစ်ဖက်ကို အားရပါးရ ပွတ်လိုက်သည်။ "ဘယ်သူ့မှာ ဓားပါသလဲ၊ ဒီသတ္တဝါတွေကို ကိုင်ကြရအောင်"

မူလေး၏ လက်သည် သူ့ဂျင်းဘောင်းဘီ အိတ်ကပ်ဆီသို့ ရောက်သွားပြီး အရိုးခပ်ကြီးကြီး ခရီးဆောင် မောင်းချဓားတစ်ချောင်းကို ထုတ်လိုက်၏။ တွမ်ဂျုတ်က မူလေးလက်ထဲမှ ဓားကို လှမ်းယူကာ ဓားသွားကို ဆွဲထုတ်ပြီး နမ်းကြည့်လိုက်သည်။ သူသည် ဓားသွားကို မြေကြီးနှင့် အကြိမ်ကြိမ် အထပ်ထပ် ပွတ်ကာ နောက်တစ်ကြိမ် နမ်းကြည့်ပြန်သည်။ ပြီးတော့ သူ့ဘောင်းဘီနှင့် ထပ်၍သုတ်ကာ ဓားသွားကို လက်မနှင့် အသာအယာ စမ်းကြည့်လေသည်။

မူလေးက သူ့အင်္ကျီ ဘေးအိတ်ကပ်ထဲမှ ရေပုလင်းတစ်လုံးကို ဆွဲထုတ်ကာ ကြမ်းပေါ်သို့ ချထားလိုက်သည်။ "ရေကိုတော့ နည်းနည်း နည်းနည်း သောက်မှ ဖြစ်မယ်" ဟု ပြောသည်။ "ဒီရေဟာ အကုန်ပဲ၊ ဒီတစ်ပိုက်မှာ ရေတွင်း မရှိတော့ဘူး၊ အားလုံးကို ဖို့ပစ်ကြပြီ"

တွမ်ဂျုတ်က ယုန်တစ်ကောင်ကို ကောက်ယူလိုက်သည်။ "ကျီထဲက ဝိုင်ယာကြိုး တစ်ခွေလောက် သွားဖြုတ်ပါလား၊ ပြီးတော့ အိမ်ပျက်ထဲက သစ်သား အတိုအစတွေနဲ့ မီးဖိုကြတာပေါ့" သူသည် လက်ထဲမှ ယုန်သေကောင်ကို စေ့စေ့စပ်စပ် ကြည့်သည်။ "ယုန်သေကို အရေဆုတ်ရတာလောက် လွယ်တဲ့အလုပ်ဟာ လောကမှာ ရှိမယ်မထင်ဘူး" ဟု ရေရွတ်သည်။ သူသည် ယုန်၏ ကျောကုန်းဘက်မှ အရေခွံကို လက်မှနှင့် လက်ညှိုးကြားတွင် ညှပ်၍ ဆွဲယူပြီး ဓားနှင့် လှီးဖြတ်လိုက်၏။ ထို့နောက် လှီးထားသော နေရာမှ လက်ချောင်းများကို ထိုးသွင်းလိုက်ကာ အရေပြားကို ဆွဲ၍ ဆုတ်ချလိုက်သည်။ ယုန်အရေခွံသည် ခြေထောက်မှ ခြေအိတ်ကို ချွတ်ချလိုက်သည့်နှယ် ခန္ဓာကိုယ်ပေါ်မှ လည်ပင်းအထိ၊ ပေါင်များမှ ခြေဖျားအထိ ကွာကျသွားလေ၏။ တွမ်ဂျုတ်သည် ချထားသော ဓားကို ပြန်ကောက်ပြီး ခေါင်းနှင့် ခြေထောက်များကို ဖြတ်သည်။ ယုန်ရေကို အောက်မှ ဖြန့်ခင်းလိုက်ပြီး ယုန်ကို ပြောင်းပြန်လှန်၍တင်ကာ ရင်ပုံရိုးတစ်လျှောက် ခွဲချလိုက်သည်။ ထို့နောက် ဝမ်းဗိုက်ထဲမှ အူများကို ယုန်ရေပေါ်သို့ သွန်ချလိုက်ပြီး အူများကို ယုန်ရေနှင့်ထုပ်ကာ ဝါခင်းထဲသို့ လွှင့်ပစ်လိုက်လေသည်။

တွမ်ဂျုတ်သည် ယုန်၏ ပေါင်များကို ပထမ ဖြတ်သည်။ ပြီးမှ ကျောရိုးမှ၍ ရင်အုပ်ကို နှစ်ပိုင်း ပိုင်းသည်။ ဝါယာကြိုး တစ်စကိုယူ၍ ကတ်ဆီ ပြန်ရောက်လာသည့် အချိန်တွင် တွမ်ဂျုတ်သည် ဒုတိယအကောင်ကို ကိုင်လျက်ရှိလေပြီ။ "ကဲဗျာ၊ မီးဖိုပြီး တုတ်ချွန်တွေကို စိုက်ပေတော့" ဟု တွမ်ဂျုတ်က ဆီးပြောသည်။ "ကျုပ်ဖြင့် ဆာလိုက်တာ အလွန်ပဲ" သူသည် ကိုင်လက်စ ယုန်ကို ဖြတ်တောက် တုံးတစ်ပြီး ကတ်ဆီ ယူလာသည့် ဝါယာကြိုးဖြင့် ထိုး၍ သီသည်။ မူလေးနှင့် ကတ်ဆီတို့က အိမ်ထောင့်တစ်နေရာမှ သစ်သားစများကို ချိုးဖဲ့ယူပြီး မီးမွှေးသည်။ ဝါယာကြိုးကို ဟိုဘက်သည်ဘက် ချည်နှောင်ပြီး တန်းပစ်နိုင်ရန်အတွက် မီးဖို၏ တစ်ဖက်တစ်ချက်တွင် သစ်သား တုတ်ချွန်နှစ်ချောင်း စိုက်သည်။

မူလေးက တွမ်ဂျုတ်အနီးသို့ လျှောက်လာသည်။ "ယုန်ကြီးကိုကင်ရင် အဆီတွေ ယိုလာအောင် မကင်နဲ့ကွာ" ဟု ပြောသည်။ "ဒီအကောင်မျိုး အဆီတွေ ယိုနေရင် စားရတာ မကောင်းဘူး၊ ငါတော့ မကြိုက်ဘူး" သူသည် အိတ်ထဲမှ အဝတ်အိတ်ကလေး တစ်လုံးထုတ်ကာ ကြမ်းပြင်ပေါ်သို့ ချထားလိုက်လေသည်။

"ယုန်ကြီးကဖြင့် တကယ် သန့်တာပဲကွာ၊ ဟာ မင့်မှာ ဆားလည်းရှိတယ် ဟုတ်လား၊ ဒီအတိုင်းဆိုရင်တော့ မင့်အိတ်ထဲက ပန်းကန်ပြားတွေနဲ့ တဲတစ်လုံးများ နောက်ထပ် ထွက်လာဦးမှာလား" ဟု တွမ်ဂျုတ်က ပြောသည်။ သူသည် အဝတ်အိတ်ထဲမှ ဆားတစ်ဆုပ် နှိုက်ကာ ယုန်အသားစများပေါ် လိုက်၍ ဖြူးပေးနေသည်။

တဟုန်းဟုန်း တောက်လောင်လျက်ရှိသော မီးသည် မည်းမည်းအရိပ်များကို အိမ်နံရံဆီသို့ ပို့လွှတ်ပေးလျက် ရှိ၏။ ခြောက်သယောင်းလျက် ရှိသော သစ်သားစ များသည် တဖြိုးဖြိုး တဖြောက်ဖြောက် မြည်လျက် ရှိကြသည်။ မိုးကောင်းကင်သည် မည်းနက်လျက် ရှိလေပြီ။ ကြယ်များသည် ပြိုးပြိုးပြက်ပြက် လင်းလက်နေကြသည်။ ကြောင်သည် ကျီထဲမှ ပြန်ထွက်လာပြီး မီးဖိုဘက်သို့ တရွေ့ရွေ့ လျှောက်လာသည်။ သို့သော်လည်း မီးဖိုနားရောက်ခါနီးမှ သူ့အာရုံသည် ပြောင်းသွားသည်။ သူ့နှာခေါင်းဆီသို့ ရောက်လာသည့် အနံ့ကြောင့် ယုန်အူများ ပစ်ထားရာဘက်သို့ ကွေ့၍ လျှောက်သွားသည်။ ကြောင်သည် ယုန်အူနှင့် အသည်းများကို တမြုံ့မြုံ့ဝါးကာ မျိုမျိုချနေသည်။ အူစများသည် ကြောင်၏ ပါးစပ်မှ တန်းလန်းတွဲလောင်း ထွက်ကျလျက် ရှိလေ၏။

ကတ်ဆီကတော့ မြေကြီးပေါ်တွင် ဖင်ထိုင်ချကာ သစ်သားစများကို မီးဖိုထဲသို့ တစ်ချောင်းပြီး တစ်ချောင်း ထိုးသွင်းနေသည်။ တစ်ခါတစ်ရံတွင် အပြင်သို့ အန်ထွက်လာသော ထင်းစအရှည်များကို မီးဖိုထဲသို့ ပြန်၍ တွန်းထည့်သည်။ လင်းနို့များသည် မီးဖိုထက်မှ ခေါက်တုံ့ခေါက်ပြန် ပျံသန်းနေကြသည်။ ကြောင်သည် မီးဖိုဘက် ပြန်လာပြီး တွမ်ဂျုတ်တို့နှင့် မနီးမဝေး၌ ထိုင်ချလိုက်ကာ သူ့တစ်ကိုယ်လုံးကို လျှာနှင့် လျက်နေလေသည်။

တွမ်ဂျုတ်သည် ယုန်အသားများ ထိုးထားသော ဝါယာကြိုးကို လက်နှစ်ဖက်ဖြင့် ဆွဲကိုင်ကာ မီးဖိုဘက်သို့ လျှောက်လာသည်။ "ဟော့.. မူလေး၊ မင်းက အဲဒီဘက် အစကို ကိုင်ကွာ၊ အေး ဟုတ်ပြီ၊ အဲဒီအစနဲ့ တုတ်ကိုချည်လေ၊ အဲ အဲ ဟုတ်တယ်၊ တင်းတင်းဆွဲချည်ပါကွ၊ မီးတောက်တွေ သေသွားမှ ပိုပြီး ကင်လို့ကောင်းတယ်၊ ဒါပေမဲ့ မီးတောက်တွေ သေတဲ့အထိ ငါ မစောင့်နိုင်ဘူးကွာ" တွမ်ဂျုတ်က ဝါယာကြိုးစကို တင်းသည်ထက် တင်းအောင် ချည်သည်။ ထို့နောက် တုတ်ချောင်းတစ်ချောင်းဖြင့် အသားစများကို မီးဖိုနှင့် တည့်တည့်ပေါ်ရောက်အောင် တွန်း၍ ရွှေ့ပေးသည်။ မီးတောက်မီးလျှံများသည် အသားစများကို လှမ်း၍ ထိုးဟပ်လျက် ရှိ၏။ တဖြည်းဖြည်းနှင့် အသားများ၏ အပေါ်ယံအလွှာသည် တင်းမာလာပြီး အဆီတဝင်းဝင်း ဖြစ်လာလေသည်။

တွမ်ဂျုတ်သည် မီးဖိုဘေးတွင် ထိုင်ချလိုက်ကာ လက်ထဲမှ တုတ်ချောင်းဖြင့် အသားတုံးများကို မကြာ မကြာ ထိုးလှည့်၍ ပေးနေသည်။ "အခုဟာ မူလေးကပေးတဲ့ ပါတီပွဲကလေးတစ်ခုပဲ" ဟု ပြောသည်။ "မူလေးမှာ ဆားရော ရေရော ယုန်ရော ပါတယ်၊ သူ့အိတ်ကပ်ထဲက နောက်ထပ် ပြောင်းဆန်လေး တစ်အိုးစာလောက် ထပ်ထွက်လာမယ်ဆိုရင် ဘယ်လောက်များ ကောင်းလိုက်မလဲ"

မူလေးက မီးဖို၏ တစ်ဖက်မှနေ၍ လှမ်းပြောသည်။

"မင်းတို့လူစုက ငါရဲ့ နေပုံထိုင်ပုံနဲ့ ပြောဆို ဆက်ဆံပုံကို ကြည့်ပြီး ရှန့်ရှင်း ကြမ်းတမ်းတယ်လို့ ထင်ကြတယ်"

"ရှန့်ရှင်း ကြမ်းတမ်းတယ် ... ၊ ဟုတ်လား၊ မဟုတ်က ဟုတ်က၊ ဘာလို့ ထင်ရမှာလဲ" ဟု တွမ်ဂျုတ်က ပြန်ပြောသည်။ "တကယ်လို့ မင်းကို ရှန့်ရှင်း ကြမ်းတမ်း

တယ်လို့ ထင်ကြတယ်ဆိုရင် လူတိုင်း လူတိုင်းဟာ မင်းလို ရုန့်ရင်း ကြမ်းတမ်းကြပါစေလို့ ငါ ဆုတောင်းရတော့မှာပဲ ”

မူလေးက သူ့စကားကို ဆက်သည်။

“ရယ်စရာတော့ အကောင်းသား၊ သူတို့က ငါ့ကို ဒီမြေပေါ်က ထွက်ပေးရမယ်လို့ လာပြီး နှင်တဲ့အချိန်မှာ ငါ့စိတ်ထဲမှာ တစ်မျိုးဖြစ်လာတယ်၊ ပထမဆုံး ဖြစ်လာတာက သူတို့လူစုကို သတ်ပစ်ရင် ကောင်းမလားဆိုတဲ့ စိတ်ပဲ၊ နောက်တော့ ငါတို့လူတွေအားလုံး ဒီမြေပေါ်က ထွက်ပြီး အနောက်ဘက်ဒေသကို သွားကြတယ်၊ ငါကတော့ သူတို့နဲ့ မလိုက်ဘဲ ဒီမှာ နေရစ်ခဲ့တယ်၊ ခြေဦးတည့်ရာ လျှောက်သွားနေခဲ့တယ်၊ သက်သက်မဲ့ အဓိပ္ပာယ်မရှိ လျှောက်သွားနေတာ၊ အဝေးကြီးလည်း သွားတာ မဟုတ်ဘူး၊ သွားရင်းလာရင်းနဲ့ပဲ ရောက်တဲ့နေရာ ကြုံရာကျရာမှာ အိပ်တယ်၊ ကနေ့ညဆို ဒီမှာအိပ်ဖို့ ဆုံးဖြတ်ထားပြီးပြီ၊ ဒါကြောင့် ဒီကိုပဲ တန်းလာခဲ့တာ၊ ငါ့ကိုယ်ငါလည်း ပြောမိတယ်၊ ငါတို့လူတွေ ပြန်လာတဲ့အခါမှာ အဆင်ပြေပြေ ဖြစ်သွားနိုင်မဲ့ အရာတွေကို ငါ လိုက်ရှာနေတာလို့၊ ဒါပေမဲ့ ငါ့စိတ်က အဲဒီစကားဟာ လုံးဝ မမှန်ဘူးလို့ သိနေတယ်၊ အမှန်တော့ ငါ လိုက်ရှာစရာ ဘာမှ မရှိဘူး၊ ငါတို့လူတွေလည်း ဒီနေရာကို ဘယ်တော့မှ ပြန်လာမှာ မဟုတ်ဘူး၊ ငါ လုပ်နေပုံက သချိုင်းက ထလာတဲ့ တစ္ဆေသရဲ တစ်ကောင် ခြေဦးတည့်ရာ လျှောက်သွားနေတာနဲ့ အတူတူပဲ ”

“လူတစ်ယောက်ဟာ ကိုယ်နေနေကျ အရပ်ကို စွန့်ခွာပြီး ထွက်သွားဖို့ မလွယ်ဘူးကွ ” ဟု ကတ်ဆီက ဝင်ပြောသည်။ “လူဆိုတာ ကိုယ် တွေးနေကျ အတွေးကိုလည်း အလွယ်တကူနဲ့ မစွန့်နိုင်ဘူး၊ ငါ့ကိုကြည့်၊ အခုဆို ငါဟာ တရားဟော ဆရာတစ်ယောက် မဟုတ်တော့ဘူး၊ ဒါပေမဲ့ အချိန်ရှိသမျှ ဘုရားရှိခိုးဖို့ပဲ စဉ်းစားနေမိတာပဲ၊ ကိုယ် အခု ဘာလုပ်နေသလဲ ဆိုတာတောင်မှ မစဉ်းစားမိဘူး”

တွမ်ဂျုတ်ကတော့ အသားတုံးများကို တုတ်နှင့်ထိုး၍ လှည့်နေဆဲ။ အသားတုံးများ ထဲမှ အရည်များသည် မီးဖိုထဲသို့ တစ်စက်ချင်း ကျလျက် ရှိ၏။ အရည်တစ်စက် ကျသွားတိုင်း မီးဖိုထဲမှ မီးတောက်သည် ဟုန်းခနဲ ထလာတတ်သည်။ ယုန်သား၏ နူးညံ့လှသော အပေါ်ယံ မျက်နှာပြင်သည် တဖြည်းဖြည်းနှင့် အညိုနုရောင် သန်းလာသည်။

"အနံ့ ရှုကြည့်ကြစမ်း" ဟု တွမ်ဂျုတ်က လှမ်းပြောသည်။ "အသားကင်ကို ကြည့်ကြစမ်း၊ အနံ့ကို ရှုကြည့်ကြစမ်း" ဟု ထပ်ပြောပြန်သည်။

မူလေးကတော့ သူ ပြောလက်စ စကားတွင်သာ စိတ်ဝင်စားလျက် ရှိ၏။ "ခြေဦးတည့်ရာ လျှောက်သွားနေတဲ့ သရဲတစ်ကောင်နဲ့ အတူတူပဲ၊ ဘာမှမထူးဘူး၊ ကိုယ်နေခဲ့ ထိုင်ခဲ့ဖူးတဲ့ နေရာတွေကိုပဲ လျှောက်သွားနေတာပဲ၊ ဥပမာ ဆိုပါတော့ ချုံဖုတ်ကလေး တစ်ခုရှိတဲ့ ရိုးကလေးတစ်ခု၊ အဲဒီအထဲမှာ ငါ ပထမဆုံးအကြိမ် ကောင်မလေး တစ်ယောက်နဲ့ ချိန်းတွေ့ခဲ့တယ်၊ ငါ့အသက်က ဆယ့်လေးနှစ်ပဲ ရှိသေးတယ်၊ ဒရယ်ဖို တစ်ကောင်လို ဆိတ်သိုးတစ်ကောင်လို ခြေမြန်လက်မြန် သိပ်ရှိတဲ့ အရွယ်ပေါ့ကွာ၊ အဲဒီနေရာကို ငါ သွားတယ်၊ အဲဒီနေရာမှာ လှဲပြီး အိပ်နေတဲ့အခါမှာ ဟိုတုန်းက အဖြစ်တွေဟာ ငါ့မျက်စိထဲမှာ ပြန်ပေါ်လာတယ်၊ ပြီးတော့ နွားသိုးတစ်ကောင် အခွေ့ခံရလို့ ငါ့အဖေ သေသွားတဲ့ ကျီဘေးနားက နေရာ၊ ငါ့အဖေရဲ့ သွေးမြေကျခဲ့တဲ့ နေရာပေါ့၊ ငါ့အဖေရဲ့ သွေးဟာ မခြောက်သေးပါဘူး၊ အခုထက်ထိ ရှိသေးတယ်၊ ရှိလည်း ရှိရမှာပဲ၊ ဘယ်ကောင်မှ ငါ့အဖေသွေးကို ပြောင်အောင် ဆေးကြောမပစ်နိုင်ပါဘူးကွ၊ သိလား၊ ငါ အဲဒီမြေကို လက်နဲ့ ကိုင်ကြည့်ခဲ့တယ်" သူသည် စကားကို ဖြတ်၍ ရယ်လိုက်သည်။ "မင်းတို့ ငါ့ကို ရန့်ရင်း ကြမ်းတမ်းတဲ့ ကောင်လို့ ထင်သေးသလား"

တွမ်ဂျုတ်သည် သူ့စိတ်အာရုံကို ယုန်ကင်များဆီသို့ လွှတ်ထားသည်။ ယုန်ကင်များကိုသာ တုတ်နှင့်ထိုး၍ လှည့်ပေးနေသည်။ ကတ်ဆီကတော့ မီးဖိုထဲမှ မီးတောက်မီးလျှံများဆီသို့ တွေဝေ ငေးမောနေသည်။ သူတို့နှင့် ဆယ့်ငါးပေခန့် အကွာတွင် အစာဝနေပြီဖြစ်သော ကြောင်သည် ထိုင်လျက်။ ခွေ၍ ချထားသော သူ့အမြီးဖျားသည် ရှေ့ခြေများနှင့် ထိလျက်။ ဇီးကွက်ကြီး တစ်ကောင်သည် သူတို့ ခေါင်းများပေါ်မှ ဖြတ်၍ ပျံသွားသည်။ မီးရောင်ကြောင့် ဖြူဖွေးနေသော ဇီးကွက်၏ ဗိုက်နှင့် တဖျတ်ဖျတ် ခတ်သွားသော အတောင်များကို မြင်လိုက်ရလေ၏။

"မထင်ပါဘူးကွာ" ဟု ကတ်ဆီက ပြောသည်။ "မင်းဟာ အထီးကျန် ဖြစ်နေတာပါ၊ ရန့်ရင်း ကြမ်းတမ်းနေတာ မဟုတ်ပါဘူး"

မူလေး၏ မျက်နှာသည် တင်းမာလာသည်။ "ကျုပ်အဖေရဲ့သွေး ကျခဲ့တဲ့ မြေကို ကျုပ် လက်နဲ့ ကိုင်ကြည့်ခဲ့တယ်၊ ရင်ဘတ်မှာ အပေါက်ကြီး တစ်ပေါက်နဲ့

ကျုပ်အဖေကိုလည်း မြင်ခဲ့တယ်၊ ကျုပ်ကို မှီပြီး တုန်နေတဲ့ ကျုပ်အဖေ၊ ဒဏ်ရာက နာလွန်းလို့ မျက်ဖြူဆိုက်နေတဲ့ ကျုပ်အဖေ၊ မျက်ဖြူလန်နေတဲ့ကြားကပဲ သူ့မျက်လုံးတွေဟာ ကြည်ကြည်လင်လင်နဲ့ ကျုပ်ကို မော့ကြည့်နေတယ်၊ ကျုပ်ဟာ အဲဒီအချိန်က ငယ်သေးတဲ့အရွယ်မို့ ဘာမှ မသိဘူး၊ ငိုရမှန်းလည်း မသိဘူး၊ ခံစားမှုလည်း မရှိဘူး၊ အဖေ့နားမှာ ငုတ်တုတ်ကလေး ထိုင်နေတာပဲ” သူသည် ခေါင်းကို တစ်ချက်ယမ်းလိုက်သည်။ တွမ်ဂျုတ်ကတော့ အသားကင်များကို မဲ၍ လှည့်ပေးနေသည်။ “ပြီးတော့ ဂျုံးကို မွေးခဲ့တဲ့ အခန်းထဲလည်း ရောက်ခဲ့တယ်၊ အိပ်ရာကတော့ မရှိတော့ဘူး၊ ဒါပေမဲ့ အိပ်ခန်းကတော့ အခုအချိန်ထိ အိပ်ခန်းပဲ၊ အဖြစ်အပျက်တွေဟာလည်း ဘာတစ်ခုမှ အရာမယွင်းသေးဘူး၊ အဲဒီနေရာမှာ ရှိတုန်းပဲ၊ သူ ငိုလိုက်တဲ့ အသံက သိပ်ကို ကျယ်တာပဲ၊ တစ်မိုင်ကွာလောက်ကတောင်မှ ကြားနိုင်မယ် ထင်ရတယ်၊ တံခါးဝမှာ ရပ်နေတဲ့ သူ့ဘွားအေက လှမ်းပြောတယ်၊ ဒေစီပန်းကလေး တဲ့၊ ဒေစီပန်းကလေး တဲ့၊ သူ့ဘွားအေဟာ အဲဒီစကားကိုပဲ ထပ်တလဲလဲ အော်ပြောနေတယ်၊ အဲဒီညက ဝမ်းသာလုံးဆို့နေတဲ့ သူ့ဘွားအေကြီးက အရက်သုံးခွက်တောင် မော့ခဲ့တာ”

တွမ်ဂျုတ်က ချောင်းတစ်ချက် ဟန့်သည်။ “ငါတို့ အစာစားကြရင် ကောင်းမယ် ထင်တယ်”

“ကျက်ပါစေဦးကွာ၊ ကောင်းကောင်းကျက်ပြီး အရောင်ညိုလာတဲ့အထိ ကင်မှပေါ့၊ ဖြစ်နိုင်ရင် အမည်းရောင်ကလေး သန်းလာတဲ့အထိ ကင်စမ်းပါ” ဟု မှုလေးက စိတ်မရှည်သံဖြင့် ပြောသည်။ “ငါ စကားပြောချင်သေးတယ်ကွ၊ ငါ ဘယ်သူနဲ့မှ စကားမပြောခဲ့ရတာ ကြာပြီ၊ ငါဟာ သင်္ချိုင်းကုန်းက ထလာတဲ့ သရဲတစ်ကောင်လိုပဲ၊ ငါ့ရဲ့ အိမ်နီးနားချင်းတွေရဲ့ အိမ်တွေကို ညဘက်မှာ လျှောက်သွားခဲ့တယ်၊ ပီတာတို့ အိမ်၊ ဂျက်ကော့တို့ အိမ်၊ ရန်စ်တို့ အိမ်၊ တွမ်ဂျုတ်တို့ အိမ်၊ အိုကွာ အိမ်တွေ အများကြီးပဲ၊ အိမ်တွေ အားလုံးဟာ မှောင်ကြီးမည်းမည်းထဲမှာ သေတ္တာစုတ်ကြီးတွေ ချထားသလိုပဲ၊ မိုးတိုးမတ်တတ်ကြီးတွေ ရပ်လို့၊ ဘယ်လောက် စိတ်ပျက်ဖို့ကောင်းသလဲ၊ ဒါပေမဲ့ ငါ့မျက်စိထဲမှာတော့ ပါတီပွဲတွေနဲ့ ကပွဲတွေကို မြင်ခဲ့တယ်၊ ပြီးတော့ အစည်းအဝေးတွေမှာ ပြောဆိုနေကြတဲ့ အသံတွေနဲ့ ဝမ်းသာအားရ အော်ဟစ်နေသံတွေ အားလုံး ငါ့နားထဲမှာ ကြားနေရတုန်းပဲ၊ အဲဒီအိမ်တွေထဲမှာ ပြုခဲ့ကြတဲ့ လက်ထပ်ပွဲတွေကိုလည်း ငါ မြင်နေတုန်းပဲ။

“အဲဒီနောက်တော့ ငါဟာ မြို့ပေါ်က လူတွေကို သွားပြီး သတ်ပစ်ချင်တဲ့စိတ် ပေါ်လာတယ်၊ ဘာကြောင့်လဲဆိုတော့ သူတို့ ထွန်စက်တွေ ဝင်လာပြီး ငါတို့လူတွေကို နှင်ထုတ်ကြတယ် မဟုတ်လား၊ သူတို့ရဲ့ အမြတ်ရလိုမှု တစ်ခုကြောင့် ငါတို့တစ်တွေ ထွက်ပြေးကြရတယ် မဟုတ်လား၊ ဒီမြေ မကောင်းတော့ဘူး ဆိုတာ ဘုရားသခင် သိပါတယ်၊ ဘယ်သူမှ သီးနှံ ဖြစ်ထွန်းအောင် စိုက်မရတဲ့ မြေတွေပါကွာ၊ ဒါပေမဲ့ စားပွဲမှာ ထိုင်နေတဲ့ ခွေးမသားတွေက သူတို့ အမြတ်ရဖို့အတွက် ငါတို့ကို အပိုင်းပိုင်း ပြတ်သွားအောင် လုပ်ခဲ့ကြတယ်၊ တချို့က အဝေးကို ရွှေ့သွားကြတယ်၊ တချို့ကတော့ လမ်းပေါ်မှာ တလည်လည် ဖြစ်နေတယ်၊ သူတို့အားလုံး ရှင်ရက်နဲ့ သေနေတဲ့လူတွေ ဖြစ်ကုန်ပြီ၊ ဒီခွေးသားတွေ သတ်တာ ”

မူလေးသည် ငြိမ်ဆိတ်လျက် ရှိသည်။ သူ့နှုတ်ခမ်းများကတော့ တလှုပ်လှုပ်။ သူ့ရင်သည် လှိုင်းထဆဲ။ သူသည် သူ့လက်များကို မီးရောင်အောက်တွင် ထောင်၍ ကြည့်သည်။ “ငါ ... ငါ .. ဘယ်သူနဲ့မှ စကားပြောခွင့်မရတာ ကြာပြီ” ဟု တောင်းပန်သော လေသံဖြင့် ခပ်တိုးတိုး ပြောသည်။ “အင်း ငါဟာ သချိုင်းကုန်းက ထလာပြီး ခြေဦးတည့်ရာ လျှောက်သွားနေတဲ့ သရဲတစ်ကောင်လို စိတ်ကူးတည့်ရာ လျှောက်သွားနေတာ ကြာပြီ”

ကတ်ဆီသည် သစ်သားရှည်ကြီး တစ်ချောင်းကို မီးဖိုထဲသို့ ထိုးသွင်းလိုက်သည်။ မီးတောက်များသည် ဟုန်းခနဲ ထလာပြီး အသားတုံးများဆီသို့ ပြေး၍ဟပ်သည်။ အေးမြသော ညဦးပိုင်းလေ အရှိန်ကြောင့် ကျုံ့ဝင်သွားသော သစ်သားမြည်သံသည် အိမ်အတွင်းဘက်ဆီမှ ထွက်ပေါ်လာလေသည်။

ကတ်ဆီက အေးဆေး တည်ငြိမ်သော လေသံဖြင့် မူလေးအား ပြောသည်။ “လမ်းပေါ်မှာ လျှောက်သွားနေတဲ့ ငါတို့ လူတွေကို မြင်ခဲ့ပါတယ်၊ ဒီအချိန်မျိုးမှာ ငါ သူတို့ကို တွေ့သင့်တယ်၊ တွေ့ရမယ်၊ ဒါပေမဲ့ ဒီလိုအခါမျိုးမှာ ဘုရားသခင်ရဲ့ တရားတွေကို ဟောပြောနေလို့ အပိုပဲ၊ အကူအညီဖြစ်မယ်လို့ ငါ မထင်ဘူး၊ သူတို့အားလုံး ရှင်လျက်နဲ့ အသေလို ဖြစ်နေတဲ့ အချိန်မျိုးမှာ ကောင်းကင်ဘုံကို မျှော်လင့်နိုင်ကြပါ့မလား၊ သူတို့အားလုံး ဝမ်းနည်းကြေကွဲပြီး စိတ်ထိခိုက်နေတဲ့ အချိန်မှာ ဘုရားသခင်ရဲ့ မြင့်မြတ်သော စိတ်ဓာတ်ကို ဂရုစိုက်နိုင်ကြမတဲ့လား၊ သူတို့မှာ အကူအညီတော့ ရဖို့ လိုနေတာ အမှန်ပဲ၊ သူတို့တစ်တွေ သေဖို့အချိန် မကျသေးခင်မှာတော့ အသက်ရှင်သန် နေဖို့ လိုအပ်တယ် ”

တွမ်ဂျူတ်က စိတ်မရှည်သံဖြင့် ထ၍ အော်သည်။ "မစားကြသေးဘူးလား၊ အသားတုံးတွေက ခြောက်ကပ်ပြီး သေးကုန်တော့မယ်ဟ၊ တော်တော်ကြာ ကြွက်ကင် တစ်ကင်လောက်မှ မကြီးတော့တဲ့ အသားတုံးကို ကိုက်နေရလိမ့်မယ် " သူသည် ပြောပြောဆိုဆို ထိုင်နေရာမှ ခုန်ထလိုက်ကာ အသားကင်များကို မီးတောက်နှင့် လွတ်သွားအောင် ဝါယာကြိုး၏ တစ်ဖက်အစွန်းသို့ တွန်း၍ ရွှေ့သည်။ မုလေး၏ ဓားကို လှမ်းယူပြီး အသားကင်တစ်တုံးကို ဝါယာကြိုးမှ ပြုတ်ထွက်လာအောင် လှီးသည်။ "ဟောဒီမှာ ဒါက တရားဟောဆရာကြီးအတွက် " ဟု ရေရွတ်သည်။

"ငါ တရားဟောဆရာ မဟုတ်တော့ဘူးလို့ မင်းကို ပြောခဲ့ပြီးပါပကောလား "

"ကောင်းပါပြီလေ၊ ဒီလိုဆိုတော့လည်း ဟောဒီ အတုံးဟာ ဟောဒီက လူကြီး အတွက်ပေါ့ " သူသည် နောက်တစ်တုံးကို လှီးယူပြန်သည်။ "ရော့ မုလေး၊ ဒါ မင်းဖို့၊ စားချင် သောက်ချင်စိတ် မရှိလောက်အောင် စိတ်ထိခိုက်နေတယ်ဆိုရင် တစ်ကိုက်လောက် ကိုက်ပြီး မြည်းကြည့်လိုက်စမ်း၊ အဲဒီ အသားတုံးဟာ ဂျက်ရက်ဘစ် ယုန်သားပဲ၊ နွားသိုး တစ်ကောင်အသားထက် မာတယ် ငါ့လူ" သူသည် ပြန်၍ ထိုင်ချလိုက်ပြီး လက်ထဲမှ အသားကင်ကို တစ်ကိုက်မျှ ကိုက်ဖဲ့ယူကာ တမြုံ့မြုံ့ဝါးလျက် ရှိလေသည်။ "ဝါးလိုက်တော့ ထွက်လာတဲ့အသံကို နားထောင်စမ်း" သူသည် နောက်တစ်ကိုက် အငမ်းမရ ကိုက်လိုက်ပြန်လေသည်။

မုလေးကတော့ သူ့လက်ထဲမှ အသားတုံးကို ရုတ်တရက် မစားသေးဘဲ စေ့စေ့စပ်စပ် ကြည့်လျက် ရှိသည်။ "ငါ ဒီစကားမျိုးတွေ ပြောနေတာ သင့်မယ်တော့ မထင်ဘူး" ဟု ရေရွတ်သည်။ "ဒါမျိုးတွေကျတော့ ဘယ်သူ့ကိုမှ မပြောဘဲ ကိုယ့်ခေါင်းထဲမှာပဲ ထားတာဟာ အကောင်းဆုံးဖြစ်မယ် ထင်တာပဲ "

ကတ်ဆီက ဖျတ်ခနဲ လှမ်းကြည့်သည်။ သူ့ပါးစပ်သည် ယုန်သားကင်များဖြင့် ပလုတ်ပလောင်း။ သူသည် ကပျာကသီ ဝါးပြီး မျိုမျိုချနေသည်။ သူ့လည်ပင်းကြော များသည် တလှုပ်လှုပ်။ "ဘယ်ဟုတ်မလဲ၊ ပြောသင့်တာပေါ့ကွ " ဟု သူက ပြောသည်။

"တစ်ခါတစ်ရံမှာ စိတ်ထိခိုက်ပြီး ကြေကွဲဝမ်းနည်းနေတဲ့ လူတစ်ယောက်ဟာ သူ့ရင်ထဲမှာ ဖြစ်နေတဲ့ ဝမ်းနည်းမှုကို သူ့ပါးစပ်ကတစ်ဆင့် ထုတ်ပစ်သင့်တယ်ကွ၊ တစ်ခါတစ်လေ လူသတ်သမား တစ်ယောက်ဟာ သူ လူသတ်ခဲ့တဲ့ အကြောင်းကို

သူ့ပါးစပ်က ထုတ်ပြောပစ်သင့်တယ်၊ ဒီလိုပြောလိုက်ရင် နောက်ထပ် လူမသတ်ဖြစ်တော့ဘူး၊ မင်း အခုလုပ်တာဟာ မှန်ပါတယ်ကွ ”

သူသည် နောက်ထပ် အသားတစ်စ ကိုက်ယူလိုက်ပြန်သည်။ တွမ်ဂျတ်သည် လက်ထဲမှ အရိုးကို မီးဖိုထဲသို့ ပစ်ထည့်လိုက်ပြီး ထိုင်ရာမှ ထကာ နောက်ထပ် အသားတစ်တုံးကို လှီးယူပြန်သည်။ မူလေးကတော့ အသားကင်ကို ယခုမှစ၍ ခပ်ဖြည်းဖြည်းချင်း စားသည်။ စိတ်လှုပ်ရှားမှုကို ဖော်ပြနေသော သူ့မျက်လုံးအစုံသည် ဂနာမငြိမ်။ တွမ်ဂျတ်ကို ကြည့်လိုက် ကတ်ဆီကို ကြည့်လိုက်နှင့် ထိုမှသည်မှ ပြေးသွားလျက် ရှိလေသည်။ တွမ်ဂျတ် စားနေ ဝါးနေပုံမှ သရဲမင်းရဲ နိုင်လွန်းလှ၏။ သူ စားနေပုံသည် တိရစ္ဆာန်တစ်ကောင်နှင့် တူနေသည်။ သွားရေများသည် သူ့ပါးစပ်တစ်ဖိုက်တွင် စီးကျ ပေကျံလျက် ရှိလေသည်။

မူလေးသည် တွမ်ဂျတ်ကို အချိန်အတန်ကြာမျှ စူးစူးစိုက်စိုက် ကြည့်နေရာမှ အသားတုံး ကိုင်ထားသော လက်ကို အောက်သို့ချလိုက်ပြီး “ဟော့ကောင် တွမ်” ဟု လှမ်းခေါ်သည်။

တွမ်ဂျတ်က မော့ကြည့်သည်။ ပါးစပ်ကတော့ အသားတုံးကို အကိုက်မပျက်။ “အင်း ဘာလဲ” ဟု မေးသည်။

“ဒီမယ် တွမ်မီ၊ လူသတ်တဲ့အကြောင်း ပြောရင် မင်း စိတ်မဆိုးဘူး မဟုတ်လား၊ မင်း မခံချင်တော့ မဖြစ်ပါဘူးနော်”

“မဖြစ်ပါဘူးကွာ” ဟု တွမ်ဂျတ်က ပြန်ပြောသည်။ “ငါက ဘာပြုလို့ မခံချင်ဖြစ်နေရမှာလဲ၊ မတော်တဆ ဖြစ်လာတဲ့ဟာပဲ ”

“မင်းအပြစ် မဟုတ်ဘူးဆိုတာ လူတိုင်း သိပါတယ်ကွာ” ဟု မူလေးက ဆိုသည်။

“အဘိုးကြီး တန်းဘူးလ်ကတော့ မင်း ထောင်က လွတ်လာရင် ချမယ်လို့ ပြောနေတာပဲ၊ သူ့သားတွေကို ဘယ်သူမှ သတ်တာ မခံနိုင်ဘူးလို့လည်း ပြောတယ်၊ ဒီကလူတွေကတော့ သူ့စကားကို လက်မခံကြပါဘူး ”

"ငါတို့အားလုံး မူးနေကြတယ်ကွ" တွမ်ဂျုတ်က လေအေးဖြင့် ပြန်ပြောသည်။ "ကပွဲမှာ မူးကြတာ၊ ဘယ်လိုက ဘယ်လို စပြီး ဖြစ်လိုက်မှန်းလဲ မသိဘူး၊ ငါ့မှာ ဓားဒဏ်ရာတစ်ချက် ရလိုက်တာတော့ ငါ သိလိုက်တယ်၊ သိလည်းသိရော ချက်ချင်း အမူးပြေသွားတယ်၊ ပထမဆုံး ငါ မြင်လိုက်တာက ဟတ်ဘ်ဟာ ဓားကိုင်ပြီး ငါ့ကိုထိုးဖို့ နောက်တစ်ကြိမ် ပြေးလာတာပဲ၊ ငါ လက်နက် လိုက်ရှာတော့ ကျောင်းနံရံမှာ ထောက်ထားတဲ့ တူရွင်းပြားတစ်ချောင်း တွေ့တယ်၊ ငါလည်း တူရွင်းပြားကို ကောက်ပြီး သူ့ခေါင်းကို ဆီးပြီး ရိုက်ခွဲလိုက်မိတယ်၊ ငါ့အနေနဲ့ ဟတ်ဘ်ကို မုန်းစရာ ဘာမှ မရှိပါဘူး၊ သူလည်း သဘော အလွန်ကောင်းတဲ့ ကောင်ပါ၊ သူ ငယ်ငယ်တုန်းကဆိုရင် ငါ့နှမ ရှိစာဟန်ကို အမြဲ လိုက်စနေတာပဲ၊ ငါ သူ့ကို တကယ်ခင်ခဲ့တာပါ"

"ဟုတ်တာပေါ့၊ လူတိုင်းက သူ့အဖေ နားလည်အောင် ဝိုင်းပြီး ပြောကြပါတယ်၊ ပထမတော့ သွေးပူနေတုန်းမို့ လုံးဝ မရဘူးကွ၊ သိလား၊ နောက်တော့လည်း သဘောပေါက်လာပြီး စိတ်ပြေသွားပါတယ်၊ တချို့က ပြောတယ်၊ အဘိုးကြီး တန်းဘူးလ်ရဲ့ အမေဘက်က ဟက်ဖီးလ်သွေး ပါလာတယ်တဲ့၊ အဲဒီတော့ သူလည်း စိတ်ကြီးတာပေါ့ လကွာ၊ ငါတော့ ဒီအကြောင်းတွေကို မသိပါဘူး၊ သူနဲ့ သူ့မိသားစုအားလုံး လွန်ခဲ့တဲ့ ခြောက်လလောက်က ကယ်လီဖိုးနီးယား ပြည်နယ်ကို ထွက်သွားကြပြီကွ"

တွမ်ဂျုတ်သည် ဝါယာကြိုးတွင် သီထားသော နောက်ဆုံး အသားတုံးများကို ဖြုတ်ယူပြီး သုံးယောက် အညီအမျှ ခွဲဝေပေးသည်။ ထို့နောက် သူ့နေရာတွင် ပြန်၍ ထိုင်ကာ ခပ်ဖြည်းဖြည်း စားသည်။ ဝါးရာတွင်လည်း စောစောကလို အငမ်းမရ ဝါးခြင်း မပြု။ ဖြည်းဖြည်းမှန်မှန်ပင် ဝါးသည်။ သူ့ပါးစပ်တွင် ပေကျံလျက်ရှိသော သွားရည်များကိုလည်း အင်္ကျီလက်ဖြင့် ပြောင်နေအောင် သုတ်ပစ်သည်။ မည်းနက်သော သူ့မျက်လုံးအစုံသည် မပွင့်တပွင့်ဖြစ်ကာ သေလုဆဲဆဲ ဖြစ်နေသော မီးဖိုဆီသို့ ငေးမောလျက်ရှိ၏။ "အင်း လူတိုင်း အနောက်ဘက်ဒေသကို သွားကုန်ကြပြီ" ဟု ပြောသည်။ "ငါ့မှာက ခံဝန်ချုပ်နဲ့ နေရတာ၊ ငါ ဒီပြည်နယ်ထဲကနေပြီး ဘယ်ကိုမှ မသွားနိုင်ဘူး"

"ခံဝန်ချုပ်၊ ဟုတ်လား" မူလေးက မေးသည်။ "အဲဒီ ခံဝန်ချုပ်အကြောင်း ငါလည်း ကြားဖူးတယ်၊ အဲဒီစနစ်က ဘယ်လိုဟာမျိုးလဲကွ၊ ဘယ်လို လုပ်ပေးတာလဲ"

"ဒီလိုကွ၊ အခု ငါ့ကို သုံးနှစ်စောပြီး ထောင်က လွှတ်လိုက်တယ်၊ ငါ့အတွက် လိုက်နာရမယ့် စည်းကမ်းတွေ ချပေးလိုက်တယ်၊ မလိုက်နာရင် ငါ့ကို ထောင်ပြန် သွင်းထားမယ်၊ သူတို့ သတ်မှတ်ပေးထားတဲ့အတိုင်း သတင်းလည်း မှန်မှန်ပို့ရမယ်"

"မက်အေလက်စတား ထောင်မှာ နေရထိုင်ရတာကော အဆင်ပြေရဲ့လား၊ ဆက်ဆံပုံ ဘယ်လိုနေသလဲ၊ ငါ့မိန်းမရဲ့ အစ်ကို တစ်ဝမ်းကွဲ တစ်ယောက်တော့ မက်အေလက်စတား ထောင်မှာ နေခဲ့ရဖူးတယ်၊ သူ ပြောတာဖြင့် ငရဲပြည် ရောက်နေ သလိုပဲတဲ့"

"ဟာ အဲသလောက်တော့ မဆိုးပါဘူး" ဟု တွမ်ဂျုတ်က ပြောသည်။ "တခြားနေရာတွေလိုပါပဲ၊ မင်းက ငရဲသားလို လုပ်ရင် သူတို့ကလည်း ငရဲသား ဆက်ဆံသလိုပဲ ဆက်ဆံတာပေါ့၊ မင်း ကောင်းကောင်းနေလို့ကတော့ ထောင်ဝန်ထမ်းတွေ ကလည်း ကောင်းကောင်းပဲ ဆက်ဆံကြပါတယ်၊ ငါဆိုရင် ပြဿနာ မလုပ်ခဲ့ဘူး၊ တတ်နိုင်သမျှ အေးအေးပဲ နေခဲ့တယ်၊ ကိုယ့်အလုပ်ပဲ ကိုယ်လုပ်တယ်၊ စာရေးတတ် ဖတ်တတ်အောင်လည်း သင်ခဲ့တယ်၊ ငှက်ပစ်တာနဲ့ တခြား ပေါက်တတ်ကရလေး တွေလည်း လုပ်ခဲ့တယ်၊ ငှက်တစ်ကောင်ကို တစ်ချက်တည်းနဲ့ ကျအောင် ပစ်တာများ ငါ့အဘိုးကြီး မြင်ရင် ဒေါပွမှာ သေချာတယ်၊ ပေါက်တတ်ကရ အလုပ်မျိုး လုပ်ရင် ငါ့အဘိုးကြီးက ကြိုက်တာ မဟုတ်ဘူး၊ သူက စာရေးတာကိုတောင်မှ ပေါက်တတ်ကရ အလုပ်လို့ထင်ပြီး သိပ်သဘောကျတာ မဟုတ်ဘူး"

"ဒါနဲ့ နေပါဦး၊ ထောင်ထဲမှာ သူတို့က မင်းကို မရိုက်ကြဘူးလား၊ နှိပ်စက်တာတို့ ညှဉ်းပန်းတာတို့ မလုပ်ကြဘူးလား"

"မလုပ်ဘူးကွ၊ ငါကလည်း အဲသလို အလုပ်ခံရအောင် မနေဘူးလေကွာ၊ ဒါပေမဲ့ နေ့စဉ်နေ့တိုင်း ငါ လုပ်နေရတဲ့ အလုပ်က တစ်မျိုးတည်း ဖြစ်နေတော့ ကြာလေ စိတ်ညစ်လေ ဖြစ်လာရတယ်၊ ငါ စဉ်းစားမိတာ တစ်ခုရှိတယ် မူလေး၊ ဘယ်သူမဆို ကိုယ် လုပ်ခဲ့တဲ့ အလုပ်တစ်ခုဟာ ရှက်စရာကောင်းတဲ့အလုပ် ဖြစ်နေရင် တွေးပြီး နောင်တရသင့်တာတော့ အမှန်ပဲ၊ ဒါပေမဲ့ကွာ တကယ်လို့များ အခုနေ အခါမှာ ဟတ်ဘ်တန်းဘူးလ်က ငါ့ကို ဓားနဲ့ထိုးမလို့ ပြေးလာတယ် ဆိုကြပါစို့၊ ဒါဆိုရင်တော့ ငါ သူ့ခေါင်းကို တူရွင်းပြားနဲ့ ကောက်ပြီး ဆော်မိဦးမှာပဲ"

"ဟာ ဒါကတော့ မင်းတစ်ယောက်တည်းမှ မဟုတ်ဘူး၊ လူတိုင်း ဆော်မှာချည်းပဲ ငါ့လူ" ဟု မူလေးက ပြောသည်။ တရားဟောဆရာကတော့ မလှုပ်မချောက်။ သူ့ရှေ့မှ မီးပုံကိုသာ တွေတွေငေးငေး စိုက်ကြည့်နေသည်။ သူ၏ ခပ်မောက်မောက် ဖြစ်နေသော နဖူးသည် အမှောင်ထုနှင့် မီးတောက်ကြားတွင် ပြောင်လက်နေသည်။ ဒူးနှစ်လုံးကို ပိုက်ထားသော သူ့လက်များသည် လက်ဆစ်များကို ချိုးခြင်းဖြင့် အလုပ်ရှုပ်လျက် ရှိလေ၏။

တွမ်ဂျုတ်သည် သူ့လက်ထဲမှ နောက်ဆုံး အရိုးအရင်းများကို မီးဖိုထဲသို့ ပစ်ထည့်လိုက်၏။ သူ့လက်ချောင်းများကို ပါးစပ်က တပြတ်ပြတ် စုပ်ကာ ဘောင်းဘီနှင့် ပွတ်တိုက်၍ သုတ်လိုက်သည်။ ထိုင်ရာမှ ထကာ ရေပုလင်းကိုယူပြီး တစ်ငုံစာမျှ သောက်သည်။ ထို့နောက် ရေပုလင်းကို လက်ဆင့်ကမ်းလိုက်ပြီး သူ့နေရာတွင် ပြန်ထိုင်ကာ ပြောလက်စ စကားကို ပြန်ဆက်သည်။

"ငါ့စိတ်ကို သိပ်ပြီး ဒုက္ခပေးနေတာ တစ်ခု ရှိတယ်ကွ၊ သိလား၊ တခြားတော့ မဟုတ်ပါဘူး၊ ထောင်က လူကို အသိတရား ဝင်လာအောင် မလုပ်နိုင်တဲ့ ကိစ္စပဲ၊ မိုးကြိုးပစ်လို့ နွားမတစ်ကောင် သေသွားတဲ့အခါမှာ ဖြစ်ဖြစ်၊ ရေတွေ ကြီးလာတဲ့အခါမှာ ဖြစ်ဖြစ် မင်းအနေနဲ့ ဘာကြောင့် ဖြစ်တာပါလိမ့်လို့ အကြောင်းရှာနေစရာ မလိုဘူး၊ ဒါတွေဟာ သဘာဝရဲ့ ဖြစ်ရိုးဖြစ်စဉ်တွေပဲလို့ သဘောထားလို့ ရတယ်၊ ဒါပေမဲ့ လူတစ်စုကို လေးနှစ်တိတိ တစ်နေရာမှ ပိတ်လှောင်ထားတာ ဆိုရင်တော့ စဉ်းစားစရာ ဖြစ်လာပြီ၊ ဘာပဲဖြစ်ဖြစ် အဓိပ္ပာယ်ကတော့ ရှိလာပြီ၊ ရှိလည်း ရှိသင့်တယ်လေကွာ၊ လူဆိုတာဟာ အရာရာတိုင်းကို ဆင်ခြင် စဉ်းစားတတ်တဲ့ အသိဉာဏ် ရှိတယ်လို့ သတ်မှတ်ထားကြတာ မဟုတ်လား၊ ငါ့ကိုကြည့်၊ သူတို့က ငါ့ကို ထောင်ထဲမှာ ချုပ်နှောင်ပြီး လေးနှစ်တိတိ ကျွေးမွေးထားတယ်၊ အဲသလို လုပ်ထားလိုက်တဲ့အတွက် ဒီအလုပ်မျိုး နောက်ထပ် ဘယ်တော့မှ မလုပ်တော့ပါဘူး ဆိုတဲ့ အသိတရား ဝင်လာရမယ်" သူသည် ရုတ်တရက် စကားကို မဆက်ဘဲ ခဏမျှ ရပ်နေသည်။ "ဒါပေမဲ့ကွာ၊ ခက်တာက တကယ်လို့ ဟတ်ဘ်က ဖြစ်ဖြစ်၊ တခြား တစ်ယောက် ဖြစ်ဖြစ် ငါ့ကို ရန်ပြုလာရင် ငါ အခုလိုပဲ ထပြီး လုပ်မိဦးမှာပဲ၊ အသိတရား ဝင်လာအောင် မစဉ်းစားနိုင်ခင်မှာ စိတ်အလျောက် မာန်အလျောက် ထလုပ်မိဦးမှာပဲ၊ အထူးသဖြင့် အရက်မူးနေချိန်မှာဆိုရင် ပိုဆိုးမယ်၊ အမှန်တော့ အသိတရားကင်းမဲ့မှုဟာ လူတွေကို ဒုက္ခပေးနေတာပါပဲ"

မူလေးက တွမ်ဂျုတ်၏ စကားကို ဆင်ခြင် စဉ်းစားလျက် ရှိ၏။ "ဒီအမှုမှာ မင်းတစ်ဦးတည်းရဲ့ အပြစ် မဟုတ်တဲ့အတွက် မင်းကို အပြစ်ဒဏ် လျှော့ပေါ့ပြီး ပေးလိုက်တယ်လို့ တရားသူကြီးက ပြောခဲ့သေးတယ် မဟုတ်လား"

"မက်အေလက်စတား ထောင်မှာ ငါ ငနဲတစ်ကောင် တွေ့ခဲ့တယ်၊ သူက တေလေကြမ်းပိုး တစ်ကောင်ပါကွာ၊ ဒီငနဲက အချိန်ရှိသမျှ စာဖတ်နေတာပဲ၊ သူက ထောင်မှူးရဲ့ အတွင်းရေးမှူး တစ်ပိုင်း ဖြစ်နေတယ်၊ ထောင်မှူးရဲ့ ရုံးက စာတွေ ဘာတွေဆို သူ ရေးတာပဲ များတယ်၊ ဒီအကောင်က တော်တော့ တော်တယ်၊ ဥပဒေ စာအုပ်တွေ ဘာတွေလည်း ဖတ်တယ်၊ တစ်ခါမှာတော့ စောစောက ငါပြောပြတဲ့ ပြဿနာ သူ့ကို မေးကြည့်မိတယ်၊ သူက စာသိပ်ဖတ်တဲ့ကောင်ဆိုတော့ သိမှာပဲ ဆိုပြီး မေးကြည့်တာပါ၊ သူက ပြောတယ်၊ စာအုပ်တွေ ဖတ်နေလို့တော့ အဲဒါကို မသိနိုင်ဘူးတဲ့၊ သူ ထောင်တွေ အကြောင်း ရေးထားတဲ့ စာအုပ်တွေ အများကြီး ဖတ်ခဲ့ပြီးပြီတဲ့၊ အဲသလို ဖတ်လိုက်ခါမှပဲ မဖတ်ခင်က ရှိနေတဲ့ အသိတရားလေးတောင် မကျန်ဘဲ ဖြစ်သွားတယ်တဲ့၊ သူ ပြောပြတာတော့ ဒီအဖြစ်မျိုးတွေဟာ ငရဲကျပြီးမှ ပြန်လာသလိုပဲတဲ့၊ ဘယ်သူကမှ နောက်ထပ် မလုပ်အောင် တားနိုင်စွမ်း မရှိဘူးတဲ့၊ ဒီစိတ်ကို ပြောင်းပေးနိုင်တဲ့လူ မရှိသလောက် ဖြစ်သွားတယ်တဲ့၊ အဲဒီတော့ သူ ပြောတာက ဘုရားသခင်ရဲ့ အကျိုးကို လိုလားရင် ဒီကိစ္စအကြောင်းနဲ့ ပတ်သက်နေတဲ့ စာအုပ်တွေကို မဖတ်ပါနဲ့တဲ့၊ ဖတ်မိရင် ပိုဆိုးသွားမယ်တဲ့၊ ပြီးတော့ နောက်တစ်ခု ရှိတာက အစိုးရအလုပ် လုပ်နေတဲ့ ငနဲတွေ အားလုံးကို လုံးဝ အထင်မကြီးဘဲ ဖြစ်သွားလိမ့်မယ်တဲ့"

"အခုဆိုရင် ငါလည်းပဲ အစိုးရ အမှုထမ်းတွေ အပေါ်မှာ အထင်ကြီးတဲ့စိတ် အများကြီး လျော့သွားပြီကွ" ဟု မူလေးက ပြောသည်။ "ဘာကြောင့်လဲဆိုတော့ ငါတို့ကို အမိုးပြုနေတဲ့ အစိုးရ အမှုထမ်းတွေဟာ ဘဏ်တွေနဲ့ ကုမ္ပဏီတွေ အမြတ်များများ ရဖို့ပဲ လုပ်နေတယ် ထင်လို့၊ ဒါပေမဲ့ ငါ့မှာ စဉ်းစားရခက်နေတာ တစ်ခုတော့ ရှိတယ်၊ ဟို အကောင်လေကွာ၊ ဝီလီဖီးလေး ဆိုတဲ့ အကောင်ပေါ့၊ သူက ထွန်စက်ကြီးမောင်းပြီး သူနဲ့ ဘဝတူ စာရင်းငှားတွေ စိုက်ခဲ့ပျိုးခဲ့တဲ့ မြေပေါ်မှာ ဘုရင်တစ်ဆူ လုပ်နေတယ်၊ အဲဒါကျတော့ ငါခေါင်းခြောက်တယ်၊ ရပ်ဝေးကလာတဲ့ သူစိမ်းတရံ ဆိုရင် ငါ မအံ့ဩပါဘူး၊ ဒီအကောင် ဝီလီဖီးလေးကတော့ ငါတို့ အုပ်စုထဲက မဟုတ်လား၊ သူ့ကျတော့ ငါ ဘယ်လို စဉ်းစားရမှန်း မသိတော့ဘူး၊ စဉ်းစားရ ခက်လွန်းလို့ ငါ သူ့ဆီကို သွားမေးတယ်၊ အောင်မယ် သူက ဒေါ်တွေ ဘာတွေ ပွလို့ဗျား၊ ငါ့မှာ ကလေးနှစ်ယောက် ရှိတယ်ကွလို့

ပြောတယ်၊ ငါ့မှာ မိန်းမနဲ့ မိန်းမရဲ့အမေလည်း ရှိတယ်၊ ဒီလူတွေ အစာ မစားဘဲ နေလို့ မဖြစ်ဘူး၊ စားရမှ ဖြစ်မှာတဲ့၊ တခြားလူတွေ ဘာပဲ ဖြစ်နေ ဖြစ်နေ ငါ့ကိစ္စ မဟုတ်ဘူး၊ သူတို့ ဒုက္ခဖြစ်တာ သူတို့ပြဿနာလို့ ပြောတယ်၊ ဒေါသတကြီးနဲ့ ပြောတာ၊ သူ့ကြည့်ရတာ အခုလို လုပ်နေရတဲ့အတွက် ရှက်နေပုံတော့ ပေါ်တယ်၊ ရှက်တဲ့စိတ်ကြောင့် ပိုပြီး ဒေါသကြီး နေတာပဲလို့ ငါ ထင်တာပဲ"

ဂျင်ကတ်ဆီကတော့ ငြိမ်ဆိတ်နေသည်။ သေလုနီးပါး ဖြစ်နေသော မီးပုံကိုသာ ငေး၍ ကြည့်နေသည်။ တဖြည်းဖြည်းနှင့် သူ့မျက်လုံးများသည် ပြူးကျယ်လာသည်။ သူ့လည်ပင်း ကြောများသည် ထောင်ထလာသည်။ ရုတ်တရက် ထ၍ အော်ကြီးဟစ်ကျယ် ပြောသည်။ "ငါ စဉ်းစားလို့ ရပြီကွ၊ စိတ်ဓာတ်တက်ကြွလာတာနဲ့ တစ်ပြိုင်နက် စဉ်းစားလို့ ရလာတာပဲဟေ့၊ အလင်းရောင်တစ်ခု ဝင်လာသလို ဖျတ်ခနဲ ဝင်လာတာကွ" သူသည် ထိုင်နေရာမှ ခုန်၍ ထလာပြီး ခေါက်တုံ့ခေါက်ပြန် လမ်းသလားနေသည်။ ပြီးတော့ ခေါင်းတခါခါ လည်တညိတ်ညိတ်။ "တစ်ချိန်က ငါ့မှာ နေစရာအိမ် ရှိတယ်၊ ညစဉ်ညတိုင်း လိုလိုပဲ ငါ့တရားပွဲမှာ လူငါးရာလောက် အနည်းဆုံး ရှိတယ်၊ မင်းတို့ နှစ်ယောက်စလုံး ငါ့ကို မြင်ကြသားပဲ မဟုတ်လား" သူသည် ဆတ်ခနဲ ရပ်လိုက်ပြီး တွမ်ဂျုတ်တို့ နှစ်ယောက်အား မျက်နှာချင်း ဆိုင်လိုက်သည်။ "မင်းတို့ ငါ့တရားပွဲကို အမြဲလိုလို ရောက်ဖူးနေကြတာပဲ၊ ဒီနယ်က လူတွေကို တရားဟောတဲ့အခါမှာ အဆောက်အအုံထဲမှာပဲဟောဟော ကွင်းပြင်မှာပဲဟောဟော ငါ ပိုက်ဆံ အလှူခံခဲ့တာများ တွေ့ဖူးကြသလား၊ ငါ ဘယ်တော့မှ အလှူမခံဘူးကွ"

"ဟုတ်ပါတယ်၊ ခင်ဗျားက ငွေကောက်တာတွေ ဘာတွေ မလုပ်ပါဘူး" ဟု မုလေးက ထောက်ခံသည်။ "ဒီနယ်က လူတွေကလည်း အလှူငွေ မထည့်ဘဲ တရားနာနိုင်တဲ့ အလေ့အထ ရှိနေတော့ ငွေကောက်တဲ့ တရားဟောဆရာ လာရင် သူတို့ မကြိုက်ကြတော့ဘူး၊ ဒါကတော့ အမှန်ပဲ"

"အေး ငါက စားစရာတော့ စားတယ်" ဟု ကတ်ဆီက ပြောသည်။ "ငါ့ ခါးက ဘောင်းဘီ စုတ်နေတဲ့ အချိန်မျိုးမှာ ဘောင်းဘီတစ်စုံလောက် အလှူခံတယ်၊ လမ်းလျှောက်ရတာ များလို့ ဖိနပ်တွေ စုတ်ပြတ်သွားချိန်မျိုးမှာ ဖိနပ်တစ်ရံလောက်တော့ အလှူခံပြီး စီးတယ်၊ တစ်ခါတစ်လေ ငါ့လက်ထဲမှာ ဆယ်ဒေါ်လာကနေ ဒေါ်လာနှစ်ဆယ် လောက်အထိ ရှိနေတတ်တယ်၊ ငွေရှိလို့များ ပျော်တယ် ထင်သလား၊ မပျော်ပါဘူးကွာ၊

ဘာပဲဖြစ်ဖြစ် မင်းတို့ ပြောနေတဲ့ဟာကို ငါ စဉ်းစားလို့ရပြီကွ၊ သိလား၊ မင်းတို့ နားလည်သဘောပေါက်အောင် ပြောတတ်မလားတော့ မဆိုနိုင်ဘူး၊ ဒါပေမဲ့ ဒီကိစ္စကို ပြောမနေတာ ကောင်းမယ်လို့ ထင်ပါတယ်ကွာ၊ တစ်ခုရှိတာက တရားဟော ဆရာတစ်ယောက်အတွက်တော့ နေရာတစ်နေရာ ရှိလာပြီ၊ ငါ တရားဆက်ဟောရင် ကောင်းမယ်ထင်တယ်၊ ငါတို့ လူတွေခများမှာ လမ်းပေါ်ရောက်ကုန်ပြီ မဟုတ်လား၊ သူတို့ခများ မြေမဲ့ယာမဲ့ ဖြစ်ကုန်ပြီ၊ နေစရာ အိမ်လည်း မရှိကြတော့ဘူး၊ အိမ်လို နားစရာ ခိုစရာ တစ်ခုခုတော့ သူတို့မှာ ရှိမှဖြစ်မယ်ကွ၊ အဲဒီတော့ ဖြစ်လာနိုင်မယ့်ဟာ တစ်ခုက..”

သူသည် မီးပုံ အနီးတွင် ရပ်နေသည်ဖြစ်ရာ သူ့လည်ပင်းမှ ထောင်၍ ထနေသော အကြောကြီးများကို ကောင်းစွာ မြင်နေရသည်။ မီးပုံမှ ထွက်နေသော မီးရောင်အောက်တွင် သူ့မျက်လုံးများသည် တလက်လက် တောက်ပလျက် ရှိ၏။ သူသည် မီးပုံကို စူစူးရဲရဲကြည့်ကာ ငြိမ်သက်နေသည်။ သူ့မျက်နှာထားမှာ တစ်စုံတစ်ခုသော အရာကို နားထောင်နေသည့်နှယ် ရှိသည်။ ကောက်ယူရန် ကိုင်တွယ်ရန်နှင့် သူ့အတွေးအခေါ် သဘောတရားများကို ဖြန့်ဖြူးရန်အတွက် အသုံးဝင်လှသော သူ့လက်များကို အိတ်ကပ်များထဲသို့ ထိုးနှိုက်ထားသည်။ တငွေ့ငွေ့ တောက်လောင်နေသော မီးရောင်ထက်ဝယ် လင်းနို့များသည် ကူးချည် သန်းချည် ပျံလျက် ရှိကြသည်။ ခပ်လှမ်းလှမ်းမှ ရေပွက်သံ သဲ့သဲ့သည် လယ်ကွင်းများကို ဖြတ်သန်းကာ သူတို့နားများဆီသို့ ရောက်လာလေသည်။

တွမ်ဂျုတ်သည် အိတ်ကပ်ထဲမှ ဆေးအိတ်ကိုထုတ်၍ စီးကရက်တစ်လိပ် လိပ်သည်။ သူ့မျက်လုံးများသည် သူ လိပ်နေသော စီးကရက်ပေါ်သို့ စူးစိုက်လျက် ရှိ၏။ တရားဟောဆရာ ပြောနေသည့် စကားများအပေါ်တွင် စိတ်ဝင်တစား ရှိပုံမရ။ ရေးကြီးခွင်ကျယ် လုပ်၍ နားထောင်နေစရာ မလိုသည့် အရာတစ်ခုသဖွယ် လုံးဝ လျစ်လျူရှုထားလေသည်။ “တစ်ညပြီးတစ်ည ငါ့အခန်းထဲက အိပ်ရာပေါ်မှာ လှဲပြီး ဒီကိစ္စကို စဉ်းစားခဲ့တယ်၊ ငါ အိမ်ပြန်ရောက်ရင် ဘယ်လိုနေမလဲ၊ ငါ့အဘိုးနဲ့ ငါ့အဘွား တစ်ယောက်ယောက်တော့ သေချင် သေနေမှာ၊ နောက်ထပ် ကလေးတွေလည်း မွေးချင် မွေးနေမှာ၊ အဖေဟာ ဟိုတုန်းကလောက် ဆိုးချင်မှ ဆိုးတော့မှာ၊ အမေကတော့ အရင်ကလို အလုပ် သိပ်မလုပ်တော့ဘဲ နားနားနေနေ နေမယ် ထင်ပါရဲ့၊ အမေ လုပ်နေကျ အလုပ်တွေကို ရိုစာဟန်က လုပ်ပေးနေပြီ ထင်တယ်၊ ငါ ထောင်မကျခင်တုန်းက အခြေအနေမျိုးနဲ့တော့ တူမှာ မဟုတ်တော့ဘူး ဆိုတာတော့ ကျုပ် သိထားပါတယ်၊ ကဲလေ ကနေ့တစ်ညတော့ ကျုပ်တို့ ဒီမှာပဲ အိပ်ကြရမှာပဲ၊ မနက်မိုးလင်းမှ ဦးလေးဂျွန် အိမ်ကို

အရောက်သွားကြတာပေါ့၊ ကျုပ်ကတော့ သွားမှပဲ ဖြစ်မှာ၊ ခင်ဗျားကော ကတ်ဆီ၊ ဘယ်လို သဘောရသလဲ၊ ကျုပ်နဲ့ လိုက်မလား"

တရားဟောဆရာကတော့ မီးခဲများကို ငေးစိုက်ကြည့်နေဆဲ။ အတန်ကြာမှ ခပ်တိုးတိုး ပြောသည်။ "အင်း ငါကတော့ မင်းနဲ့လိုက်မှပါပဲကွာ၊ မင်းရဲ့ မိသားစုတွေ မင်းရဲ့ လုပ်ဖော်ကိုင်ဖက်တွေ လမ်းပေါ်ကို ထွက်သွားကြတဲ့ အချိန်မှာ ငါလည်း သူတို့နဲ့အတူ လိုက်သွားခဲ့တယ်၊ အခုထက်ထိ သူတို့လူစု လမ်းပေါ်မှာ ရှိနေသေးရင် ငါလည်း သူတို့နဲ့ အတူတူ ရှိနေရမှာပေါ့"

"ခင်ဗျားကို ကြိုဆိုလျက် ရှိပါတယ်ဗျာ" ဟု တွမ်ဂျုတ်က ပြောသည်။ "ကျုပ်အမေဟာ ခင်ဗျားကို သိပ်ခင်ပါတယ်၊ အလွန် ယုံကြည် အားကိုးထိုက်တဲ့ တရားဟော ဆရာ တစ်ယောက်လို့ သူ အမြဲ ပြောနေတာပဲ၊ အခုဆို ရှိစာဟန်လည်း အရွယ် ရောက်လာပြီ" သူသည် မူလေးအား လှည့်ကြည့်သည်။ "ဘယ်လိုလဲ မူလေး၊ မင်း ငါတို့နဲ့ လိုက်မလား" မူလေးက တွမ်ဂျုတ်တို့နှစ်ယောက် လျှောက်လာခဲ့သည့် လမ်းမဆီသို့ တွေတွေငေးငေး မျှော်ကြည့်နေသည်။ "ဘယ့်နှယ်လဲ၊ မင်း လိုက်မယ် မဟုတ်လား မူလေး" တွမ်ဂျုတ်က တစ်ကြိမ် ထပ်မေးသည်။

"ဟင်း ငါ မလိုက်တော့ဘူးကွာ၊ ငါ ဘယ်ကိုမှ မသွားတော့ဘူး၊ ငါ ဘယ်နေရာကိုမှ စွန့်ခွာသွားချင်စိတ် မရှိတော့ဘူး၊ ဟော့ ဟိုမှာ မြင်လား၊ မီးရောင်၊ အပေါ်ထောင်လိုက် အောက်စိုက်လိုက် လုပ်နေတယ်၊ ဝါခင်း အုပ်ချုပ်ရေးမှူး ဆိုတဲ့ ငနဲနဲ့ တူတယ်၊ ငါတို့ မီးဖိုတာ မြင်သွားပြီ ထင်တယ်"

တွမ်ဂျုတ်က လှမ်းကြည့်သည်။ မီးရောင်သည် တောင်ကုန်းထက်တွင် တလက်လက်။ "ငါတို့ မဟုတ်တာ ဘာမှ မလုပ်ဘူး" ဟု ပြောသည်။ "ငါတို့ ဒီနေရာမှာ ထိုင်တာပဲ ရှိတယ်၊ တခြား ဘာများ လုပ်လို့ပလဲ"

မူလေးက မလိုတမာသံဖြင့် ပြန်ပြောသည်။ "ငါတို့ ဒီနေရာမှာ ထိုင်နေတာကိုက တစ်စုံတစ်ခုကို လုပ်နေကြတာပဲ၊ အခွင့်မရှိ ကျူးကျော်ဝင်ရောက်ခြင်းပေါ့ကွ၊ ငါတို့ ဒီနေရာမှာ နေပိုင်ခွင့် မရှိတော့ဘူး၊ သူတို့ ငါ့ကို လိုက်ဖမ်းနေတာ နှစ်လတောင်ရှိပြီ ငါ့လူ၊ ကဲ ဒီမှာ ငါပြောမယ်၊ တကယ်လို့ အဲဒီ ငနဲရဲ့ မော်တော်ကားလာရင် ငါတို့သုံးယောက် ဝါခင်းထဲသွားပြီး ဝါပင်တွေကြားထဲမှာ အသာလေး လှဲနေကြမယ်၊ သိပ်အဝေးကြီး သွားစရာ

မလိုတော့ပါဘူး၊ ဒါပေမဲ့ သူ့ကိုတော့ ဘုရားသခင်ရဲ့ အလိုတော်အရ ငါတို့ကို ရှာဖို့ တာဝန်ပေးထား လိုက်ကြတာပေါ့၊ လုံနေတဲ့အခါမှာ သူတို့မမြင်အောင် မကြာမကြာ မော့ကြည့်ပေးဖို့တော့ လိုတယ်၊ ခေါင်းကို ငုံ့နိုင်သမျှ ငုံ့ထား"

"မင်း ဘယ်လို ဖြစ်နေတာတုန်း မူလေး၊ မင်းဟာ ဘယ်တော့မှ ထွက်ပြေးပြီး ပုန်းနေတတ်တဲ့လူစား မဟုတ်ပါဘူး၊ အခုစကားဟာ တကယ် ပြောနေတာလား" ဟု တွမ်ဂျုတ်က မေးသည်။

မူလေးက မဖြေ။ အဝေးမှ ပျောက်သွားလိုက် ပေါ်လာလိုက် ဖြစ်ကာ သူတို့ဆီ ချဉ်းကပ်လာသော မီးရောင်ကို မျက်ခြည်ပြတ်မသွားအောင် စောင့်ကြည့်နေသည်။ "အေးပေါ့၊ အတည်ပြောနေတာပေါ့ဟ၊ ငါ အခု ဝံပုလွေတစ်ကောင်လို မြွေပါတစ်ကောင်လို နေတယ်ကွ၊ သိလား၊ တကယ်လို့ မင်းက တစ်စုံတစ်ခုနောက်ကို လိုက်နေမယ်ဆိုရင် မင်းဟာ မုဆိုးပဲ၊ မင်းက အသာစီးရနေတယ်၊ မုဆိုးကို အနိုင်ယူနိုင်တဲ့လူ မရှိနိုင်ဘူး၊ ဒါပေမဲ့ မင်းက အလိုက်ခံနေရပြီ ဆိုရင်တော့ အခြေအနေက ခြားနားလာပြီ၊ မင်းမှာ တစ်စုံတစ်ခု ဖြစ်နေပြီလို့ ဆိုရလိမ့်မယ်၊ အဲဒီအချိန်မှာ မင်းဟာ အောက်စီး ရောက်နေပြီ၊ မင်းဟာ ရက်စက်ချင် ရက်စက်မယ်၊ ကြမ်းကြုတ်ချင် ကြမ်းကြုတ်မယ်၊ ဒါပေမဲ့ မင်းဟာ အပေါ်စီးက မဟုတ်တော့ဘူး၊ အခုဆိုရင် ငါ သားကောင်ဘဝ ရောက်နေတာ အတော်ကြာသွားပြီ၊ အခုဆို ငါဟာ မုဆိုးတစ်ယောက် မဟုတ်တော့ဘူး၊ လူတစ်ယောက်ကို အမှောင်ထဲက ချောင်းပြီး သေနတ်နဲ့ ပစ်ချင် ပစ်လို့ ရလိမ့်မယ်၊ ဒါပေမဲ့ လူတစ်ယောက်ကို တုတ်တစ်ချောင်းနဲ့ ပြောင်ရိုက်ဖို့ကတော့ မဖြစ်နိုင်တော့ဘူး၊ လက်ရှိ အခြေအနေက ဒါပဲ"

"ဒီလိုဆိုလည်း မင်း သွားပြီး ပုန်းနေပေတော့" ဟု တွမ်ဂျုတ်က ပြောသည်။ "ငါနဲ့ ကတ်ဆီ နေခဲ့မယ်၊ ဒီ မိမစ် ဖမစ် ကောင်တွေနဲ့ တွေ့ပြီး စကားပြောချင်သေးတယ်" မီးရောင်သည် နီးကပ်လာနေသည်။ ကောင်းကင်ဆီသို့ ဦးမော့၍ တက်သွားလိုက် ပြန်ကျလာပြီး ပျောက်သွားလိုက်။ လူသုံးယောက်သည် မီးရောင်ကို စောင့်ကြည့်နေကြလေသည်။

မူလေးက လှမ်းပြောသည်။ "သားကောင်ဘဝမှာ အားနည်းချက်တစ်ခု ရှိသေးတယ် သိလား၊ ကိုယ့်အပေါ်မှာ ကျရောက်လာနိုင်မယ့် ကြောက်စရာ ဘေးအန္တရာယ်တွေကို ကြိုတင်ပြီး တွေးထားရမယ်၊ မင်းက မုဆိုး ဖြစ်နေချိန်မှာတော့ ဒါတွေကို

တွေးဖို့လည်း မလိုဘူး၊ ကြောက်နေဖို့လည်း မလိုဘူးပေါ့၊ အေး သားကောင်ဘဝနဲ့ မင်း ဒုက္ခရောက်ပြီဆိုရင်တော့ တယ်မလွယ်ဘူး၊ သူတို့က မင်းကို မင်းရဲ့ အချိန်တွေ အလဟဿ ဖြစ်ကုန်အောင် မက်အေလက်စတား ထောင်ထဲကို ပြန်ပို့ထားမှာပဲ ”

“မင်းပြောတာ မမှားပါဘူး” ဟု တွမ်ဂျုတ်က ဆိုသည်။ “သူတို့ ငါ့ကို ပြောပြခဲ့တာ အဲဒီ အတိုင်းပါပဲ၊ ဒါပေမဲ့ မြေကြီးပေါ်မှာ ထိုင်တာ နားတာ အိပ်တာလောက်ကတော့ ဒုက္ခရောက်မယ် မထင်ပါဘူးကွာ၊ မကောင်းတဲ့အမှု ပြုတာမှ မဟုတ်တာ၊ မူးရူးပြီး ရမ်းကားတာမျိုးမှ မဟုတ်တာ ”

မူလေးက ရယ်သည်။ “အေးလေ မင်း တွေ့ပါလိမ့်မယ်၊ မင်း ဒီက ထိုင်စောင့်နေပေါ့၊ မော်တော်ကား အခုပဲ ရောက်လာမှာပါ၊ ရောက်လာမဲ့လူက ဝီလီဖီးလေး ဖြစ်ချင် ဖြစ်မယ်၊ ဝီလီက အခု လက်ထောက် ပုလိပ် အရာရှိတစ်ယောက် ဖြစ်နေပြီ၊ မင်း ဘာကြောင့် ဝါခင်းထဲကို အခွင့်မရှိဘဲ ဝင်နေရတာလဲလို့ ဝီလီက မေးလိမ့်မယ်၊ အဲ မင်း ဝီလီကို သိထားတာက သောက်သုံးမကျတဲ့ကောင် တစ်ယောက်အဖြစ် သိထားတာ၊ ဒီတော့ မင်းက မခံချင်ဘူး၊ မင်းက ဘာကောင်လဲလို့ ပြန်မေးမိမှာပဲ၊ မင်းစကား ကြားတော့ ဝီလီ ဒေါပွပြီပေါ့ကွ၊ မင်းဒီနေရာက အခုချက်ချင်း ထွက်သွား၊ မထွက်သွားရင် ဖမ်းချုပ်ရလိမ့်မယ်လို့ သူက ပြောတော့မှာပဲ၊ မင်းကလည်း ပိုပြီး ဒေါသဖြစ်မယ်၊ ဝီလီဖီးလေးက ဒီလိုပြောတာ ဒီလို လုပ်တာကို မခံချင်ဘူး၊ တကယ်တော့ ဝီလီကလည်း သတ္တိရှိတဲ့အကောင် မဟုတ်ဘူး၊ လူကြောက်၊ မင်းကလည်း နောက်ဆုတ်မှာ မဟုတ်ဘူး၊ သူကလည်း အာဏာပြမယ်၊ အဲဒီတော့ အိုကွာ ရှုပ်ပါတယ်၊ ဝါခင်းထဲ ပုန်းနေတာဟာ အလွယ်ဆုံးနဲ့ အန္တရာယ် အကင်းဆုံးနည်းပါပဲ၊ သူတို့ဘာသာ ရှာချင်သလောက် ရှာကြပစေကွာ၊ ဘာဖြစ်လဲ၊ အဲဒါက ပျော်စရာတောင် ကောင်းသေးတယ်၊ သူတို့က ရှာမတွေ့တော့ ဒေါပွ၊ ဒေါပွပေမဲ့ ဘာမှလည်း လုပ်လို့မရဘူး၊ မင်းတို့ ငါတို့က ဝါခင်းထဲက အသာလေး ကျိတ်ပြီး ရယ်ကြ၊ ဘယ်လောက် ကောင်းသလဲ၊ အဲ ဝီလီနဲ့ ဖြစ်ဖြစ် တခြား အကြီးအကဲ တစ်ကောင်နဲ့ ဖြစ်ဖြစ် မင်း စကားသွားပြောရင်တော့ ငရဲပြည်သွားပြီး ငရဲသားတွေနဲ့ စကားပြောသလို နေမှာပဲ၊ နောက်ဆုံးကျတော့ မင်းကို မက်အေလက်စတား ထောင်ကို အနည်းဆုံး သုံးနှစ်လောက် ပြန်ပို့ထားမှာပဲ ”

"မင်း ပြောတာ မှန်ပါတယ်" ဟု တွမ်ဂျုတ်က ပြောသည်။ "မင်းပြောသမျှ အားလုံးဟာ အမှန်ချည်းပါပဲ၊ ဒါပေမဲ့ အခုလို လုပ်ရတာကို ငါ မုန်းတယ်ကွာ၊ ဝီလီ ဆိုတဲ့ကောင်ကို လက်သီးတစ်ချက်တည်းနဲ့ လဲကျသွားအောင် ထိုးလှဲလိုက်ချင်တယ်ကွ"

"သူ့မှာ သေနတ်ပါတယ် ငါ့လူရေ" ဟု မူလေးက ပြန်ပြောသည်။ "သေနတ်ကို သူ မသုံးဘဲ နေမှာ မဟုတ်ဘူး၊ သုံးမှာ၊ ဘာကြောင့်လည်းဆိုတော့ သူက လက်ထောက် ပုလိပ်အရာရှိ ဖြစ်နေပြီ၊ အဲဒီတော့ သူက မင်းကို သတ်ရင်သတ် ဒါမှမဟုတ် မင်းက သူ့သေနတ်ကို ရအောင်ယူပြီး သူ့ကိုသတ်၊ ကဲကွာ၊ လာစမ်းပါ တွမ်မီရာ၊ ဒါတွေ လုပ်မနေစမ်းပါနဲ့တော့၊ ဝါခင်းထဲမှာ ပုန်းနေပြီး သူတို့ကို အရူးလုပ်ရတာ အကောင်းဆုံးပါ" ပို၍ လင်းလာသော မီးရောင်သည် သူတို့ဆီ ပြေးလာလျက် ရှိ၏။ မော်တော်ကားသံကိုပင် ကြားနေရလေပြီ။ "လာပါ တွမ်မီရာ၊ သိပ်ပြီး အကျယ်ချဲ့မနေချင်ပနဲ့တော့၊ သူတို့ ဘာလုပ်တယ်ဆိုတာ အသာ ချောင်းကြည့်ကြရအောင်ပါ"

တွမ်ဂျုတ်က ထိုင်ရာမှ ထရပ်သည်။ "အင်း မင်းပြောတာ မှန်တယ်" ဟု ရေရွတ်သည်။ "ဘာပဲ ဖြစ်လာ ဖြစ်လာ လက်ရှိ အခြေအနေ အရတော့ ငါ့ဘက်က နိုင်ခြေမရှိတာ အမှန်ပဲ"

"ကဲ လာကွာ၊ ဟောဒီဘက်ကို လာ" မူလေးက ရှေ့မှ အိမ်ကို ကွေ့ပတ်သွားကာ ဝါခင်းထဲသို့ ကိုက်ငါးဆယ်ခန့်အထိ ဝင်သည်။ "ဒီနေရာ အကောင်းဆုံးပဲ" ဟု ပြောသည်။ "ကဲ အသာလေးသာ လှဲနေကြပေတော့၊ သူတို့ မီးထိုးပြီး ရှာတဲ့အချိန်မှာ ခေါင်းကို လုံးဝ ထောင်မကြည့်နဲ့၊ အလုပ်ကတော့ ပျော်စရာကြီးပဲ" လူသုံးယောက်သည် မြေကြီးပေါ်၌ အလျား မှောက်လိုက်ကြ၏။ မူလေးသည် မှောက်လဲနေရာမှ ရုတ်တရက် ခုန်ထကာ အိမ်ဘက်သို့ ကဆုန်စိုင်းသည်။ တစ်ခဏအတွင်းမှာပင် လျင်မြန်စွာ ပြန်လှည့်ပြေးလာပြီး လက်ထဲ၌ ပါလာသည့် ကုတ်အင်္ကျီများနှင့် ဖိနပ်များကို ပစ်ချပေးသည်။ "ဒါတွေကို တွေ့ရင် ယူသွားမှာ" ဟု လှမ်းပြောသည်။ မီးရောင်သည် အိမ်ပေါ်သို့ ထိုးကျလာလေသည်။

တွမ်ဂျုတ်က ခပ်တိုးတိုး ပြောသည်။ "သူတို့ ကားပေါ်ကဆင်းပြီး လက်နှိပ် ဓာတ်မီးနဲ့ လိုက်မရှာဘူးလား၊ ငါ့လက်ထဲမှာ တုတ် ကောင်းကောင်း တစ်ချောင်းသာ ရှိရင် ဘယ်လောက်များ ကောင်းလိုက်မလဲနော်"

မူလေးက ခပ်အုပ်အုပ် ကျိတ်၍ ရယ်သည်။ "မရှာဘူးကွ၊ ငါ မင်းကို ပြောခဲ့တယ် မဟုတ်လား၊ ငါ အခု မြွေပါတစ်ကောင်လို ကျင့်နေတယ်လို့၊ အဲဒါ တစ်ကယ်ပြောတာ၊ ဟိုတစ်ညတုန်းက ငါက ခြံစည်းရိုးဝင်းတိုင် တစ်တိုင်နောက်မှာ ကပ်နေတယ်၊ ဝီလီ ရောက်လာတော့ သစ်သားချောင်း တစ်ချောင်းနဲ့ ရိုက်လွှတ်လိုက်တယ်၊ နောက်ကျတော့ သူက ဘာပြောတယ် မှတ်လဲ၊ သူ့ကို လူငါးယောက်က ဝိုင်းပြီး ရိုက်တယ်တဲ့"

မော်တော်ကားသည် အိမ်ဘက်သို့ ဦးလှည့်လာသည်။ ရှေ့မီးများ၏ အလင်းရောင်သည် အိမ်ပေါ်သို့ ဖြာဆင်းလာသည်။ "ခေါင်းငုံ့ထားကြ" ဟု မူလေးက ရေရွတ်သည်။ ကားမီးရောင်သည် သူတို့ခေါင်းများပေါ်မှ ဝင်းခနဲ လက်ခနဲ ဖြတ်ကျော်ကာ တစ်ဖက် ဝါခင်းများပေါ်သို့ ထိုးဆင်းသွားလေ၏။ ပုန်းနေကြသူများကတော့ မည်သည့် လှုပ်ရှားမှုကိုမှ မမြင်ရ။ သို့သော်လည်း ကားတံခါးပိတ်သံ တစ်ချက်နှင့် စကားပြောသံများကို ကြားနေရသည်။ "ဒီအကောင် မီးရောင်ထဲ မထွက်ရဲဘူးကွ" ဟု မူလေးက တိုးတိုးကလေး ကပ်ပြောသည်။ "ကားရှေ့မီးတွေကို ငါ တစ်ခါနှစ်ခါ ပစ်ခွဲခဲ့ဖူးတယ်၊ ဒါကြောင့် ဝီလီ သတိထားနေတာ၊ ကနေ့ည သူတစ်ယောက်တည်း မဟုတ်ဘူး၊ အဖော်ပါလာတယ်" သစ်သားပေါ် လျှောက်နင်းလာသည့် ခြေသံများကို ကြားရပြီး အိမ်ထဲ၌ လှည့်ပတ်ထိုးနေသည့် လက်နှိပ်ဓာတ်မီးရောင်ကို မြင်နေရ၏။ "အခုနေ အိမ်ထဲကို လှမ်းပစ်လိုက်မယ် ဘယ့်နှယ်လဲ" ဟု မူလေးက မေးသည်။ "ဘယ်က ပစ်လိုက်တယ် ဆိုတာ သူတို့ သိမှာမဟုတ်ဘူး၊ ဒါဆိုရင် သူတို့မှာ စဉ်းစားစရာ တစ်ခုတော့ ရသွားမယ်"

"အေး ဟုတ်တယ်၊ ချကွာ" ဟု တွမ်ဂျုတ်က အားပေးသည်။

"မလုပ်နဲ့" ကတ်ဆီက ဝင်တားသည်။ "အဲသလိုလုပ်ဖို့ မကောင်းဘူး၊ ပိုဆိုးသွားမယ်၊ တခြား လုပ်သင့်တာ ဘာရှိသလဲ၊ အဲဒါပဲ စဉ်းစားကြ"

အိမ်အနီးမှ အသံတစ်သံ ထွက်လာသည်။ "မီးဖိုကို ငြိမ်းနေတာကွ" ဟု မူလေးက ပြောသည်။ "မြေကြီးကို ခြေထောက်နဲ့ ဆောင့်နင်းနေတဲ့ အသံပဲ" ထို့နောက် ကားတံခါးများ ပိတ်သံ။ ကားရှေ့မီးရောင်သည် တစ်ဖက်သို့ လှည့်သွားပြီး လမ်းမကို မျက်နှာပြုသည်။ "ခေါင်းငုံ့ကြ" ဟု မူလေးက သတိပေးသည်။ သတို့သည် ခေါင်းများကို ငုံ့လိုက်ကြသည်။ မီးရောင်သည် သူတို့ခေါင်းများပေါ်မှ ကျော်ဖြတ်ကာ ဝါခင်းများပေါ်သို့ ဖြာကျသွား

လေသည်။ ထို့နောက် မော်တော်ကားသည် လမ်းမပေါ်သို့ ထိုးတက်သွားသည်။ ကားမီးရောင်သည် နိမ့်ချည်တစ်ခါ မြင့်ချည်တစ်လှည့် ဖြစ်ကာ ပျောက်ကွယ်သွားလေ၏။

မှုလေးက ထထိုင်သည်။ "ဝီလီ ဆိုတဲ့ကောင်က တစ်ချိုးတည်း လစ်သွားပြီ ဆိုတဲ့ အပေါက်မျိုး လုပ်တတ်တယ်၊ အဲသလို အချိုးမျိုး မကြာ မကြာ လုပ်တတ်လွန်းလို့ ငါကတော့ အကြောင်းသိ ဖြစ်နေပြီ၊ ဒါပေမဲ့ သူကတော့ သူ့ကိုယ်သူ လူနပ်လူလည်လို့ ထင်နေတုန်းပဲ"

"အိမ်ထဲမှာ လူထားချင် ထားခဲ့မှာ၊ ငါတို့လည်း အိမ်ဘက်သွားရော၊ သူတို့က ဆီးဖမ်းရော" ဟု ကတ်ဆီက ပြောသည်။

"လုပ်ချင်လုပ်မှာ၊ ခင်ဗျားတို့ ဒီက စောင့်နေကြဦး၊ ဒီအလုပ်မျိုးတော့ ကျုပ်က နောကြေနေပါပြီ" မှုလေးသည် ခြေကို ဖွဖွနင်းကာ သူတို့အပါးမှ ထွက်သွားလေသည်။ ကျန်နေခဲ့သူ နှစ်ဦးသည် မှုလေးဆီမှ အသံ ကြားလိုကြားငြား နားစွင့်နေကြသည်။ သို့သော်လည်း ဘာသံမှ မကြားရ။ အတန်ကြာသောအခါ အိမ်ဘက်မှ အော်ခေါ်နေသံကို ကြားကြရ၏။ "လူတစ်ယောက်မှ မထားခဲ့ဘူး၊ လာခဲ့ကြတော့" ကတ်ဆီနှင့် တွမ်ဂျုတ် တို့သည် အိမ်ဘက်သို့ ပြန်လျှောက်လာကြသည်။ မှုလေးက မီးဖိုနားမှာ ရပ်၍ သူတို့အား ဆီးကြိုသည်။ "သူတို့ လူစောင့်ချမထားဝံ့ပါဘူး" ဟု မှုလေးက ဝင့်ကြွားသော လေသံဖြင့် ပြောသည်။ "ငါက သူတို့ ကားမီးလုံးတွေကို ခွဲထားဖူးတော့ ဝီလီက သတိထားနေတာပေါ့၊ သူတို့အနေနဲ့ ဘယ်သူဘယ်ဝါမှန်း အတိအကျ မသိ၊ ငါ့ကိုလည်း ဖမ်းလို့မမိဆိုတော့ ခွကျနေတာပေါ့ကွ၊ ငါက ဘယ်တော့မှ အိမ်တွေနဲ့ နီးတဲ့နေရာမှာ မအိပ်ဘူး၊ မင်းတို့ ကြည့်ချင်ရင်တော့ ငါ အိပ်နေကျ နေရာကို ပြမယ်၊ ဘယ်သူမှ ငါ့ကို မတွေ့နိုင်တဲ့ နေရာကွ"

"သွားလေ" ဟု တွမ်ဂျုတ်က ပြောသည်။ "ငါတို့ လိုက်ကြည့်မယ်၊ ငါ့အဘိုးကြီးရဲ့ မြေပေါ်မှာ ပုန်းလျှိုးကွယ်လျှိုး နေရလိမ့်မယ်လို့ ငါ ဘယ်တုန်းကမှ မတွေးခဲ့မိပါဘူးကွာ"

မှုလေးက ရှေ့မှနေ၍ ဝါခင်းများကို တစ်ခင်းပြီး တစ်ခင်း ကျော်ဖြတ်သွားလျက် ရှိသည်။ တွမ်ဂျုတ်နှင့် ကတ်ဆီသည် သူ့နောက်မှ တကောက်ကောက်။ လျှောက်သွားနေရင်းမှပင် သူတို့သည် ဝါပင်များကို ခြေထောက်နှင့် ကန်ကျောက် သွားကြလေသည်။ "ဘယ်သူမှ မတွေ့အောင် ပုန်းနိုင်ပါတယ်" ဟု မှုလေးက ဆိုသည်။ သူတို့သည်

ချောင်းငယ်တစ်ခုသို့ ဆိုက်ရောက်လာကြသည်။ သုံးယောက်သား ချောင်းငယ်၏ အနိမ့်ပိုင်းဘက်သိုပ ဆင်းလာခဲ့ကြလေ၏။

"မင်း ပုန်းတဲ့နေရာကို ငါ သိပြီ" ဟု တွမ်ဂျက်က အော်ပြောသည်။ "ချောင်းစပ် လိုဏ်ဂူထဲမှာ ပုန်းတာ မဟုတ်လား"

"ဟုတ်တယ်၊ မင်း ဘယ်လိုလုပ် သိတာလဲ"

"ငါ ကိုယ်တိုင် တူးခဲ့ဖူးတာ" ဟု တွမ်ဂျက်က ပြန်ပြောသည်။ "ငယ်ငယ်တုန်းက ငါနဲ့ ငါ့ညီ နိုအာတို့ ရွှေရှာမယ်ဆိုပြီး တူးကြတာ၊ ရွှေတော့ မတွေ့ဘူး၊ တူးရင်းတူးရင်းနဲ့ ပုန်းလို့ရတဲ့ လိုဏ်ဂူကြီး ဖြစ်သွားတယ်" တဖြည်းဖြည်းနှင့် ချောက်ကမ်းပါးသည် သူတို့ခေါင်းပေါ်မှ အုပ်မိုးလာသည်။ "တူးတဲ့နေရာက ကမ်းပါးယံဘက် ကပ်လေ ကောင်းလေပဲကွ" ဟု တွမ်ဂျက်က ထပ်ပြောသည်။

"ငါ့နေရာကို ချုံနဲ့ အုပ်ထားတယ်၊ ဘယ်သူမှ ရှာလို့ မတွေ့နိုင်ဘူး" ချောင်းကမ်းပါး၏ အောက်ခြေသည် တစ်ဖြောင့်တည်း ဖြစ်လာသည်။ မြေပြင်သည် သဲမြေ ဖြစ်လာသည်။

တွမ်ဂျက်က မြေကြီးပေါ်မှာ ခြေပစ်လက်ပစ် လှဲချလိုက်သည်။ "ငါတော့ ဂူထဲမှာ မအိပ်ဘူး၊ ဒီသဲပေါ်မှာပဲ အိပ်တော့မယ်" သူသည် ကုတ်အင်္ကျီကို လိပ်၍ ခေါင်းအုံး လုပ်လိုက်သည်။

မူလေးက ဂူပေါက်၌ ဆို့ထားသည့် ချုံနွယ် သစ်ကိုင်းများကို ဖယ်ရှားလိုက်ပြီး ဂူထဲသို့ ဝင်သွားသည်။ "ငါကတော့ ဂူထဲမှာ အိပ်ရတာပဲ သဘောကျတယ်" ဟု လှမ်းပြောသည်။ "ငါ့ဆီကို ဘယ်သူမှ မလာနိုင်ဘူးဆိုတဲ့ အတွေးမျိုး ဝင်လာပြီး စိတ်မလုံမလဲ မဖြစ်တော့ဘူး"

ဂျင်ကာတ်ဆီက တွမ်ဂျက်၏ဘေးတွင် ဝင်ထိုင်သည်။

"တစ်ရေးလောက်တော့ အိပ်ဦးလေဗျာ၊ မနက်မိုးလင်းရင် ဦးလေးဂျွန်ဆီ ဆက်သွား ရမှာ"

"ငါတော့ မအိပ်တော့ဘူးကွာ" ဟု ကတ်ဆီက ပြောသည်။ "ငါ့ခေါင်းထဲမှာ စဉ်းစားစရာတွေ အများကြီး ရှိနေပြီ" သူသည် ဒူးခေါင်းများကို ထောင်လိုက်ပြီး လက်နှစ်ဖက် ပိုက်ထားသည်။ ခေါင်းကို နောက်သို့ လှန်ကာ မိုးကောင်းကင်ထက်ဆီမှ တလက်လက် တောက်ပနေသော ကြယ်များအား ကြည့်နေသည်။ တွမ်ဂျုတ်က တစ်ချက်မျှ အားရပါးရ သမ်းလိုက်ပြီး လက်တစ်ဖက်ကို သူ့ခေါင်းအောက်သို့ ထိုးသွင်းလိုက်၏။ နှစ်ယောက်သား စကားမပြောဘဲ ငြိမ်ဆိတ်နေကြသည်။ တဖြည်းဖြည်းနှင့် သူတို့ ပတ်ဝန်းကျင် ပြေပြင်သည် အသက်ဝင်လာသည်။ တွင်းကြို တွင်းကြား အပေါက်ကြို အပေါက်ကြား ချုံကြို ချုံကြားများမှ အကောင်ပလောင်များ၏ ပြေးလွှားလှုပ်ရှားနေသံများ။ မြွေပါများသည် ဖျိုးခနဲ ဖျတ်ခနဲ ပြေးသွားနေကြသည်။ ယုန်များသည် စိမ်းလန်းသော မြက်ပင် ချုံပင်များဆီသို့ ချဉ်းကပ်နေကြသည်။ အတောင်တပ် ငှက်မုဆိုးများသည် သူတို့ ခေါင်းပေါ်မှ နေ၍ အသံမထွက်စေဘဲ လှုပ်ရှားလျက် ရှိကြလေ၏။

* * *

## အခန်း (၇)

မော်တော်ကား အဟောင်းများ။ အခြေအနေကောင်းသည့် ကားဟောင်းများ။ ဈေးချိုသော သယ်ယူပို့ဆောင်ရေးယာဉ်များ။ နောက်တွဲယာဉ် သုံးစီး။ ၂၇ ခုနစ်ထုတ် ဖို့ဒ်ကားသန့်သန့်။ စမ်းသပ်ပြီးသော မော်တော်ကားများ။ အာမခံနှင့် ရောင်းသည့်ကားများ။ ရေဒီယို အခမဲ့တပ်ဆင်ပေးမည်။ ဓာတ်ဆီ ဂါလန်တစ်ရာ အခမဲ့ပေးမည့် ကားများ စသည့် ကြော်ငြာများ။ မြို့တွင်း မြို့စွန် မြို့ပြင် နေရာ အနှံ့အပြား၌ ရှိနေသော လယ်ကွင်းများ၊ မြေလွတ်များ၊ အဆောက်အအုံဟောင်းများနှင့် ဂိုဒေါင်များတွင် ကပ်၍၊ ထောင်၍၊ ချိတ်၍ ထားသော ကြော်ငြာဆိုင်းဘုတ်ကြီးများ၊ စာတန်းကြီးများနှင့် စာလုံးကြီးများကို အဝေးမှပင် မြင်နိုင်လေသည်။

တကယ်တော့ စာအုပ်ပြာတစ်အုပ် တင်ထားသည့် စားပွဲတစ်လုံး ခပ်သေးသေးနှင့် ကုလားထိုင်တစ်လုံး ဆံ့သော အိမ်တစ်လုံးနှင့် မြေလွတ် တစ်ကွက်သာ ရှိလျှင် သူတို့အတွက် အလုပ်ဖြစ်သည်။ ရောင်းသူနှင့်ဝယ်သူ နှစ်ဦးနှစ်ဖက် လက်မှတ်ထိုးပြီးသား အရောင်းအဝယ် စာချုပ် စက္ကူစည်း တစ်စည်း။ စာရွက်များတွင် ကလစ်များ ညှပ်ထားသည်။ မသုံးရသေးသော စာချုပ်ပုံစံ တစ်ထပ်၊ သပ်သပ်ရပ်ရပ် တင်ထားသည်။ ကလောင်တံတစ်ချောင်း စိုက်၍ မင်အပြည့် ထည့်ထားသည့် မင်အိုးတစ်လုံး။ အရောင်းအဝယ်က ထိုင်းနေသဖြင့် ကလောင်တံ အလုပ် မလုပ်နိုင်။

ဟို ခွေးမသားတွေက ဝယ်တာမှ မဟုတ်တာ။ ဆိုင်တိုင်းကိုတော့ လျှောက်ဝင်ကြည့်တယ်။ ဒီငနဲတွေက အကြည့်သမား သက်သက်ပါ။ တစ်ဆိုင်ဝင် တစ်ဆိုင်ထွက် လျှောက်ကြည့်ပြီး အချိန်ဖြုန်းနေတဲ့ကောင်တွေပဲ။ ဘာ ကားမှ ဝယ်မဲ့ ကောင်တွေ မဟုတ်ပါဘူး။ မင်းအချိန်ကိုလည်း သက်သက်မဲ့ အလဟဿ ဖြစ်သွားအောင် လာလုပ်သွားမယ်။ မင်းအချိန်ကိုတော့ အကုန်မခံနဲ့ကွာ။ ဟော့ ဟော့ ဟော့ ဟိုမှာ မြင်လား။ လူနှစ်ယောက်။ အဲဒါ မဟုတ်ဘူးလေ။ ဟို ချာတိတ်ကလေးတွေနဲ့ လာနေတဲ့ လူနှစ်ယောက်ကို ပြောတာ။ သူတို့ကို ကားတစ်စီးနဲ့ တင်ခေါ်ကွာ၊ မိုင်နှစ်ရာလောက်တော့ ပတ်ပြီး မောင်းပေးလိုက်ကွာ။ သူတို့ ကြည့်ရတာ သုံးပုံ တစ်ပုံလောက်တော့ ကျိန်းသေမယ့် လက္ခဏာပဲ။ ဒီနှစ်ကောင်တော့ လိမ့်လာပစေ။ ဟို ကားစုတ်ကို ထိုးပေးလိုက်ကြရအောင်။

ရုပ်အင်္ကျီ လက်မောင်းများကို ပင့်လိပ်၍ တင်ထားသော ပိုင်ရှင်များ။ အူတူတူ အတတ လူများကို ကြီးကန်းတောင်းမှောက် စောင့်ကြည့်နေကြသော သပ်သပ်ရပ်ရပ် ခံ့ခံ့ညားညား ဝတ်ဆင်ထားကြသည့် အရောင်းသမားများ။

ဟော့ ဟိုမိန်းမ မျက်နှာကို သေသေချာချာကြည့်ပြီး အကဲခတ်စမ်း။ တကယ်လို့ အဲဒီမိန်းမက မော်တော်ကားကို သဘောကျပြီဆိုရင် သူ့အဘိုးကြီးကို ငါတို့က ဝက်အူကျပ်ပေးရုံပဲ။ ကက်ကားပေါ်တင်ပြီး မောင်းပြလိုက်တာပေါ့။ ရောင်းပြီဆိုတော့မှ တို့ ၂၆ ခုနစ်ထုတ် ပြကားကြီးကို ထိုးရောင်းတာပေါ့။ တကယ်လို့ သူတို့ကို ပြကားနဲ့ တင်ပြီး အစမ်းမောင်းပြမယ် ဆိုရင်တော့ ဝယ်တဲ့အခါမှာ ဖို့ဒ်ကားကိုသာ ထိုးရောင်းပေါ့ကွာ။ ကဲ ကဲ အင်္ကျီလက်မောင်းတွေ ပင့်တင်ပြီး မင်းတို့ လုပ်ငန်းကို စကြပေတော့။ ဒါမျိုးက ကြုံရခဲပါဘိခြင်း။ အမြဲတမ်း ရနိုင်တဲ့ အခွင့်အလမ်းမျိုး မဟုတ်ဘူး။ နတ်ရှ်ကား အမျိုးအစားကို ပြသင့်လည်း ပြပေါ့။ ငါက ၂၅ ထုတ် ဒေ့ါချ်ကားကို စက်စမ်းနေမယ်။ သူတို့အရိပ်အကဲ ကြည့်ပြီး လိုအပ်လာရင်တော့ ဟေမီးကား အမျိုးအစာကို ပြဖို့ ငါ အချက်ပြမယ်။

ခင်ဗျားတို့ လိုတာက သွားဖို့ လာဖို့ အတွက်ပဲ မဟုတ်လား။ ကျွန်တော်တို့က ဘာကြောင့် လိမ်ရမှာလဲ။ မဟုတ်တာ မလုပ်တတ်ပါဘူး။ ယုံပါ။ ဟုတ်ပါတယ်။ ထိုင်ခုံကတော့ နည်းနည်း မကောင်းဘူး။ ဒါပေမဲ့ဗျာ ဘီးတွေကို လိမ့်သွားအောင် လုပ်တာက ထိုင်ခုံက လုပ်တာ မဟုတ်ပါဘူးဗျာ။

မော်တော်ကားများသည် အစီအရီ တန်းလျက် ရှိကြသည်။ ကားခေါင်း အားလုံးသည် လူအများ မြင်သာအောင် ရှေ့ဘက်သို့ ထွက်နေကြသည်။ သံချေး အထပ်ထပ် တက်နေသော ကားခေါင်းများ။ လေမရှိ၍ ပြားချပ်နေသော တာယာများ။ တစ်စီးနှင့်တစ်စီး ကပ်၍ ရပ်ထားကြခြင်း။

ဩော် လူကြီးမင်းက ဟိုကားကို ကြည့်ချင်တာလား။ ပြမှာပေါ့ ခင်ဗျာ။ အို ဒုက္ခရှာတယ်လို့ မထင်ပါဘူး။ စီထားတဲ့ အတန်းထဲက အပြင် ဆွဲထုတ်လိုက်ရင် ရတာပဲဟာ။

သူတို့ကို အားနာလာအောင် ခပ်များများ လုပ်ပေးကွ။ ကြားလား။ မင်းရဲ့အချိန်ကို ယူကြပစေ။ သူတို့ကြောင့် မင်းမှာ အလုပ်တွေများပြီး အချိန်တွေ အများကြီး ကုန်နေတယ်

ဆိုတာကို သူတို့ သတိမေ့မသွားအောင် လုပ်ထား။ လူတွေဟာ အများစုက သဘော ကောင်းကြတာ များပါတယ်။ မင်း စိတ်အနှောင့်အယှက် ဖြစ်သွားမှာကို သူတို့ စိတ်ပူတတ်ကြတယ်။ သူတို့က မင်းကို စိတ်အနှောင့်အယှက် ဖြစ်အောင် များများလုပ်ပစေ။ အဲ အဲဒီနောက်တော့ မင်း ချိုးထားတဲ့ နပ်ကြောင်းထဲ ဝင်လာတာနဲ့ တစ်ပြိုင်နက် မိမိရရသာ တွယ်ပေတော့။

အစီအရီ တန်းနေကြသော မော်တော်ကားများ။ ခေါင်းရှည်ရှည်မြင့်မြင့် တီပုံစံကားများ။ စုတ်ပြတ် ပေါက်ပြဲ ပြားချပ်နေသော ဘီးများ။ ပျက်နေသော တံဆိပ်များ။ ပြုကားများ။ နတ်ရုံကားများ။ ဒီဆိုတို့စ်ကားများ။ အမျိုးအစား ပေါင်းစုံ။ အရွယ်မျိုးစုံ အရောင်မျိုးစုံ။

မှန်ပါတယ် ခင်ဗျာ၊ ၂၂ခုနစ်က ထုတ်ခဲ့တဲ့ ဒေ့ါချ်ကားပါ။ ထုတ်လုပ်ခဲ့သမျှ ဒေ့ါချ်ကားတွေထဲမှာ အကောင်းဆုံးပေါ့ ခင်ဗျာ။ ဘယ်တော့မှ ကျသွားတယ်လို့ မရှိဘူး။ ဟိုဘက်က ကားတွေကတော့ ပလိုင်းမောက်သ်၊ ရောနီးနဲ့ စတား။

ဟာ အက်ပါဆင်၊ ချာလမာနဲ့ ချန်ဒလာ ကားအမျိုးအစားတွေကို မထုတ်တာ နှစ်အတော်ကြာပြီ ခင်ဗျ။ ဘီးတွေ လိမ့်ရုံလောက်သာ အဆင့်ရှိတဲ့ ကားမျိုးတွေကို ကျွန်တော်တို့ မရောင်းဘူး ခင်ဗျာ။ ဘာလုပ်မှာလဲ။ သုံးမရတဲ့ ကားမျိုးတွေ ရောင်းနေလို့ အကျိုးရှိနိုင်ပါ့မလား။ နာမည်ပျက်ရုံပဲ ရှိတော့မပေါ့။ ကျွန်တော်တို့ ရောင်းဈေးက ဒေါ်လာ နှစ်ရာ့ငါးဆယ်၊ သုံးရာထက် မပိုပဘူး။ တချို့ကတော့ ဒေါ်လာငါးရာ၊ ခုနစ်ရာ့ငါးဆယ်လောက်အထိ ပြောရောင်းတယ်။ အမြတ်ကောင်းကောင်း ရတာပေါ့လေ။ ဒါပေမဲ့ ဘာလုပ်မှာလဲ။ တော်သင့်ရုံရရင် တော်ရောပေါ့။ ဟုတ်ဖူးလား။ ကားသစ် ဟုတ်လား။ ဘာကြောင့် ကားသစ် စိတ်ကူးရတာလဲ။ ကိုယ့်အတွက် ဈေးသက်သက်သာသာနဲ့ အလုပ်ဖြစ်ဖို့ပဲ အရေးကြီးတယ် မဟုတ်လားဗျာ။ စိတ်ကူး မလွဲပါနဲ့။ သုံးပြီးသား တစ်ပတ်နွမ်း ဆိုရင် ဒေါ်လာ နှစ်ရာ့ငါးဆယ်ထက် မပိုဘူး။ ဟော့ကောင် ဂျင်။ ဟိုမှာ မြင်လား။ လမ်းဘေး ပလက်ဖောင်းမှာ လျှောက်လာနေတဲ့ ငနဲကြီး။ အဲဒီ ငနဲကို ကျုံးသွင်းစမ်းကွာ။ သူ့ကို အက်ပါဆင် ကားဟောင်း ပြကွာ။ အဲဒီကားကြီးလည်း မမြင်တော့ပါလား။ ဘယ်ချောင်ထဲ ရောက်နေလဲ။ ရောင်းလိုက်ပြီလား။ ပြောသာ ပြောနေရတယ်ကွာ။ ငါတို့မှာ ကားစုတ် ကားပြတ်တွေသာ မရရင် ရောင်းစရာ ဘာမှ ရှိတော့မှာ မဟုတ်ဘူးဟ။

အလံများ။ အနီရောင်နှင့် အဖြူရောင်။ အဖြူရောင်နှင့် အပြာရောင်။ လမ်းဘေး ဝဲယာ တစ်လျှောက်တွင် အပြည့်။ သုံးပြီးသား ကားဟောင်းများ။ စက်အခြေအနေ ကောင်းသည့် သုံးပြီးသား ကားများ။

ယနေ့ ဈေးကွက်၏ အရောင်းအဝယ် အခြေအနေ။ မည်သို့ ရှိသနည်း။ လုံဝ မရောင်းရ။ တစ်စီးမှ မရောင်းရ။ လူတွေကတော့ ဝင်ကြည့်ကြသည်။ တကယ်လို့ သူဆစ်တဲ့ဈေးနဲ့ ပေးရရင် အမြတ်တစ်ပြားတောင် ရမှာ မဟုတ်တော့ဘူး။ သူတို့ကို ပြောလိုက်ကွာ။ အဲဒီကား ရောင်းပြီးပြီလို့။ သွား သွား။ အင်း ငါ့မှာ ကားစုတ် ကားပြတ်တွေသာ နောက်ထပ် လုံလုံလောက်လောက် မရရင် ခြောက်လအတွင်း လုပ်ငန်း ရပ်ရတော့မှာ။

ဟော့ကောင် ဂျင်။ နားထောင်စမ်း။ ချက်ဗီကား နောက်ဘက်က ထွက်နေတဲ့အသံ။ ပုလင်းကွဲ အက်သံမျိုး ထွက်နေတယ်။ လွှစာမှုန့် နည်းနည်းလောက် ထည့်ပေးထား လိုက်ကွာ။ ဂီယာထဲကိုလည်း နည်းနည်း ဖြူးပေးထားလိုက်ဦး။ ဟောဟိုက ရောက်ခွံရောင် ကားကို သုံးဆယ့်ငါးဒေါ်လာနဲ့သာ ပေးလိုက်တော့။ အဲဒီကား အပေါ်မှာ ဟိုခွေးမသားက ငါ့ကို နပ်ချသွားတယ်။ ငါက ဆယ်ဒေါ်လာ ပေးတ ယ်။ သူက ဆယ့်ငါးဒေါ်လာ တောင်းသွားတယ်။ ပြီးတော့ ခွေးမသား ကားပြင်တဲ့ ပစ္စည်းကိရိယာ တန်ဆာပလာတွေ အားလုံး မ သွားတယ်။ ဘာပဲ ဖြစ်ဖြစ်ကွာ။ ငါ့လက်ထဲမှာ ကားဟောင်း အစီး ငါးရာလောက် ရှိထားချင်တယ်။ လက်ရှိ ကားတွေက ကြာမယ် မထင်ဘူး။ ကုန်တော့မှာ။ ဘာကွ။ ဘာ။ သူက တာယာတွေကို မကြိုက်ဘူးတဲ့လား။ သူ့ကို ပြောလိုက်ကွာ အဲဒီ တာယာတွေဟာ မိုင်တစ်သောင်း သွားပြီးပြီလို့။

ဝင်းထရံကို ကပ်မှီ၍ ပုံထားသော သံချေးတက် အပျက်အစီး ကားပစ္စည်းများသည် အစုလိုက် အပုံလိုက်။ နောက်ဘက်တွင်လည်း အတိုအထွာ ပစ္စည်းပျက်များသည် အတန်းလိုက်။ ကား ဆလင်ဒါ အပျက်များကြားမှ မြက်ပင်များသည် ထိုးထွက်လျက် ရှိကြ၏။ ဘရိတ် ရော့ဒ်တံများနှင့် အိပ်ဇောပိုက်များသည် မြွေများ ခွေနေကြသည့်နှယ် ဟိုတစ်စ သည်တစ်စ ပြန့်ကျဲလျက် ရှိကြသည်။ ပြီးတော့ ဟိုတစ်ကွက် သည်တစ်ကွက် ကျထားသော အင်ဂျင်ဝိုင်များ။

ဘာလဲကွ။ သူက ဘာပြောနေတာလဲ။ ရောင်းတာတော့ ဟုတ်တယ်လေ။

အိမ်အထိတော့ မပို့နိုင်ဘူးကွ။ ဘယ်လိုလဲ။ ဒီငနဲက ဝယ်မှာလား။ မျှော်လင့်ချက် မရှိရင်တော့ အချိန်ကုန် ခံမနေနဲ့ကွာ။ ကန်သာ ထုတ်လိုက်။ သူ့စိတ်သူ မပိုင်းဖြတ်နိုင်တဲ့ ကောင်မျိုးနဲ့ စကားပြောရတာ အချိန်ကုန် လူပန်း ဖြစ်မှာပဲ။ ဟို ဂရာဟမ် ကားရှေ့က တာယာကို ဖြုတ်ပစ်လိုက်တော့ကွာ။ ပြီးတော့ ပြောင်းပြန် ပြန်တပ်။ ကျန်တဲ့ တာယာတွေကတော့ လေအပြည့် ရှိနေသလိုပဲ။ ကြည့်ရတာ မဆိုးဘူး။

မော်တော်ကား တစ်စီးလောက် ဝယ်ဖို့ လိုက်ရှာနေတာလား။ ခင်ဗျား ဘယ်လို စိတ်ကူးထားသလဲ။ ကြည့်လေ။ ကြည့်ပါ။ ဘယ်ကား ကြိုက်မလဲ။ လာပါ။ သြော် ခင်ဗျားမိန်းမက လာဆယ်လီကားကို စိတ်ဝင်စားနေပုံ ပေါ်တယ်။ ခင်ဗျားက လာဆယ်လီကားကို မကြိုက်ဘူး။ ဟုတ်လား။ ဘာ။ ဘာပြောတယ်။ သြော် ဒီကားမျိုးရဲ့ ဘယ်ယာရင်က မကောင်းဘူး။ ဆီ သိပ်စားတယ်။ အင်းပေါ့လေ။ လူတစ်ကိုယ် အကြိုက် တစ်မျိုးပေါ့ ခင်ဗျာ။ ၂၄ ခုထုတ် လင်ကွန်းကားတစ်စီး ဝယ်ထားပါလားဗျာ။ ဟိုမှာလေ မြင်ရဲ့လား။ ရှိပါတယ်။ အဲဒီကားကတော့ အမြဲတမ်း ပြေးနေမှာပဲ။ အဲ ပြီးတော့ သူ့ကို ခေတ်မီပုံစံ ပြောင်းပြီး ထရပ်ကားတစ်စီး ဖြစ်သွားအောင် လုပ်လိုက်ရင် ရတယ်။

ပူပြင်းသော နေရောင်သည် သံချေး အထပ်ထပ် တက်နေသော သံနှင့် သတ္တုပုံများပေါ်သို့ ဖြာဆင်းလျက်ရှိ၏။ ကားတစ်စီးလောက် ဝယ်မည် ဟူသော စိတ်ကူးရှိနေကြသည့် လူအများသည် အလွန် စိတ်ရှုပ်နေသော မျက်နှာထားများဖြင့် ပတ်ဝန်းကျင် အနီးတစ်ဝိုက်တွင် လှည့်ပတ်သွားလာလျက် ရှိကြကုန်၏။

ခင်ဗျား ခြေထောက်တွေကို သုတ်ပစ်လိုက်ပါဦးဗျာ။ အို အို အဲဒီကားကို သွားပြီး မမှီနဲ့။ ဖုန်တွေနဲ့ ညစ်ပတ်နေတယ်။ ကဲ ခင်ဗျား ကားဝယ်ရင် ဘယ်လိုဝယ်မှာလဲ။ ပြောပါဦး။ တန်ဖိုးက ဘယ်လောက် မှန်းထားသလဲ။ ဟော့ ဟော့ ဟိုကလေးတွေကို ကြည့်ထားကြစမ်း။ ဒီမှာ ခင်ဗျား ဒီကားကို ဘယ်လောက်ပေးရမယ် ထင်သလဲ။ ဒေါ်လာ ခုနစ်ဆယ့်ငါး အထက်မှာ ရှိတယ်နော်။ အဲဒီထက် စျေးနည်းတဲ့ ကားဆိုရင် ကယ်လီဖိုးနီးယား ပြည်နယ်အထိ ရောက်ဖို့ မလွယ်ဘူး ဆရာရေ့။

တာယာတွေ ပေါက်နေတယ် ဟုတ်လား။ ဒါကတော့ ကားဟောင်းကိုးဗျ။ ဒီလောက်တော့ အနာအဆာ ရှိပေမပေါ့။ ဟာ ဒီအတွက်တော့ မပူနဲ့။ ဟောဒီ ဆေးပြားလေးကိုသာ ဓာတ်ဆီတိုင်ကီထဲ ထည့်မောင်း။ ဆီတစ်ဂါလန်မှာ ဆယ်မိုင်တိတိ

ပိုမောင်းရလာလိမ့်မယ်။ အပေါ်ယံက ဟာတွေကို ပြောနေလို့ ဘယ်ဖြစ်မလဲဗျာ။ ဆေး ထပ်သုတ်ပေါ့။ အသစ် ဖြစ်သွားဖို့အတွက် ဆေးသုတ်ခ ဆင့်ငါးဆယ်ပဲ ကုန်မယ်။ ဗိုက်ပါတို့ ပန်ကာကြိုးတို့ ဂတ်စကတ်တို့ ဆိုတာတွေကလည်း ဈေးသိပ်မရှိပါဘူး။ ဝယ်ထည့် လိုက်ပေါ့။ လွယ်ပါတယ်။ ဒါဆို အားလုံး အသစ်ဖြစ်လာရောပေါ့။ ကားဝယ်ရကျိုးနပ်ပြီပေါ့။

ကဲကွာ ဂျိုး။ မင်းတို့ သူ့ကို ချော့မော့ပြီး အလုပ်ဖြစ်အောင်သာ လုပ်ပေတော့။ ငါ စိတ်မရှည်တော့ဘူး။ အားလုံးကို မောင်းထုတ်ပစ်ချင်စိတ်တောင် ပေါ်နေပြီ။ ဝယ်မှာဖြင့် လည်း မြန်မြန် ဝယ်သွားရင် ကောင်းမယ်။ အခုလို လုပ်နေရင်တော့ ငါ ထသတ်မိလိမ့်မယ်။ သူတို့ကို ဖင်ချည်းသက်သက်တော့ ပြန်မလွှတ်နဲ့တော့ကွာ။ အရောင်းအဝယ် ဖြစ်ချင်တယ် ဟေ့။

ဟုတ်ပါတယ် ခင်ဗျာ။ ဒေါ်လာ ရှစ်ဆယ်ဆိုရင် ကားတစ်စီး ကောင်းကောင်းရပါပြီ။

ကျုပ်က ဒေါ်လာ ငါးဆယ်ထက် ပိုမပေးနိုင်ဘူး။ အပြင်ကကောင်က လှမ်းပြောနေတယ်။ ဒေါ်လာ ငါးဆယ်ထက် ပိုမပေးနဲ့တဲ့။

ဒေါ်လာ ငါးဆယ် ဟုတ်လား။ ဒေါ်လာ ငါးဆယ်။ တော်တော် ခေါင်းမားတဲ့ ကောင်ပါလား။ ကဲ ခုနစ်ဆယ့်ရှစ်ဒေါ်လာနဲ့ ဆင့်ငါးဆယ်ပေးလို့ ပြော။ ဟေ့ကောင် ဂျိုး။ မင်းဟာ သောက်ရူးပဲ။ မင်း လုပ်နေပုံက ငါတို့အားလုံး ဒုက္ခရောက်မယ့် အပေါက်ကွ။ မင်း အဲဒီငနာကို အချဉ်မဖမ်းနိုင်ဘူးလား။ ဒေါ်လာခြောက်ဆယ်လောက်ဆိုရင် ငါ လက်ခံနိုင်စရာ ရှိသေးတယ်။ ဒီမှာ မစ္စတာ။ ကျွန်တော်ပြောတာ နားထောင်ပါဦး။ ကျွန်တော့်မှာ ခင်ဗျား တစ်ယောက်တည်းနဲ့ တစ်နေကုန်နေပြီဗျ။ ကျွန်တော်က စီးပွားရေး သမား တစ်ယောက်။ ခင်ဗျား ကားမဝယ်ရင် ဘာဝယ်မှာလဲ။ တခြား ရှိသေးလို့လား။

ကျုပ် လားနှစ်ကောင် ဝယ်မယ်။

လား။ အောင်မယ်လေးဗျာ။ ဟေ့ ဂျိုး။ ဒီမှာ နားထောင်စမ်း။ ဒီလူက ကားမဝယ်ဘဲ လား ဝယ်သွားမလို့တဲ့။ ဒီခေတ်ဟာ စက်မှုခေတ် ဖြစ်နေပြီဆိုတာ ခင်ဗျားကို ဘယ်သူကမှ ပြောမပြဘူးလား။ အံ့ပါ့ဗျာ။ လားကို ဘယ်သူမှ မသုံးတော့ဘူး။

ခပ်ကြီးကြီး ခပ်တောင့်တောင့် လားတွေ ဝယ်မှာပေါ့ဗျ။ ငါးနှစ်ရွယ် ခုနစ်နှစ်ရွယ် လား ဆိုရင် ကောင်းကောင်း သုံးလို့ရတာပဲ။ ဒီအနားတစ်ဝိုက် လိုက်ရှာပြီး ဝယ်မယ်။

ဒီအနားမှာ လိုက်ရှာမယ် ဟုတ်လား။ ကျွန်တော်တို့ အလုပ်များနေတုန်းမှာ ခင်ဗျား ဝင်လာတယ်။ ကျွန်တော်တို့ကို အချိန်ကုန်အောင် လာလုပ်တယ်။ ပြီးတော့ မဝယ်ဘူး။ ပြန်ထွက်သွားတယ်။ သိပ်ကောင်းပေါ့ ဟုတ်လား။ ဂျိုးရေ။ မင်း စကားပြောနေတဲ့လူက တကယ့် လူ့ကန့်လန့် လူ့ခွစာပါလား။

ကျုပ် လူ့ခွစာ မဟုတ်ဘူး။ ကျုပ် မော်တော်ကား လိုချင်လို့ လာတာ။ ကျုပ်တို့ ကယ်လီဖိုးနီးယား ပြည်နယ်ကို သွားကြမှာ။ ကားရမှ ဖြစ်မှာဗျ။

ကဲဗျာ။ ဒီလိုဆိုလည်း ကျွန်တော် ပြောပြမယ်။ ကျွန်တော်တို့ လုပ်နိုင်တာ တစ်နည်းပဲ ရှိတယ်။ ခင်ဗျားက အခု ဒေါ်လာ ငါးဆယ် ပေး။ ကျန်ငွေကို တစ်လ ဆယ်ဒေါ်လာ ပေးဆပ်ပါမယ် ဆိုတဲ့ စာချုပ်ကို လက်မှတ်ထိုး။

ဒါပေမဲ့ ခင်ဗျား ပြောတဲ့ဈေးက ဒေါ်လာရှစ်ဆယ်ဆို။

ခင်ဗျား အရစ်ကျစနစ်နဲ့ ဝယ်တာတို့၊ အာမခံကြေးတို့။ အခွန်အခ ပေးရတာတို့ ဒါတွေကို မကြားဖူးဘူးလား။ အဲဒီ စရိတ်ငွေတွေက နောက် လေးလ ငါးလဆို ကျေသွားမှာပါ။ ဟောဒီ စာချုပ်ပေါ်သာ လက်မှတ်ထိုး။ ဟောဒီနေရာမှာဗျ။ ကျန်တာ တွေကို ကျွန်တော်တို့ဘာသာ ကျွန်တော်တို့ ဖြည့်လိုက်မယ်။ ခင်ဗျား စိတ်ပူနေစရာ မလိုတော့ဘူး။

အဲ အဲဒါတော့ ကျုပ် နားမလည်။

တယ်ခက်ပါလားဗျာ။ ဒီမှာကြည့်။ ကျွန်တော်က ခင်ဗျားကို အကျိုးတောင် ချွတ်ပေးထားထားပြီးပြီပဲ။ ခင်ဗျားက ကျွန်တော့်ရဲ့ အချိန်တွေကို အလဟဿဖြစ်အောင် လာလုပ်နေတာနဲ့ တူမနေဘူးလား။ ခင်ဗျား နားလည်အောင် ရှင်းပြနေရတဲ့ အချိန်တွေက နည်းတာ မဟုတ်ဘူး။ တန်ဖိုးလည်း မဖြတ်နိုင်ဘူး။ ဒီလောက်အချိန်ဆိုရင် ကားသုံးစီး လောက် ရောင်းရပြီ။ အခုတော့ ခင်ဗျားကြောင့် ကျုပ်မှာ သိပ်နစ်နာသွားပြီ။ ဟုတ်ပါတယ်။

အဲဒီနေရာမှာ လက်မှတ်ထိုးရုံပဲ။ ကောင်းပါပြီ ခင်ဗျာ။ ဟော့ ဂျိုး။ ဟောဒီလူကြီးမင်းရဲ့ ကားကို ဓာတ်ဆီတိုင်ကီထဲ ဆီဖြည့်ပေးလိုက်ပါကွာ။ တို့က ဆီ အခမဲ့ ပေးလိုက်မယ်။

ဟင်း။ တကယ့်ကို လက်ဝင်တဲ့ ငနဲပါလား ဂျိုးရာ။ ပြောလိုက်ရတာ အသက်ထွက်ခမန်းပါပဲ။ ဟော့ ငါတို့ အဲဒီ ကားစုတ်အတွက် ဘယ်လောက် ကျထားသလဲ။ ဒေါ်လာ သုံးဆယ့်ငါး ဒေါ်လာပေါ့။ အခု ငါ ရတာက လက်ငင်း ငွေငါးဆယ်နဲ့ အရစ်ကျပေးစနစ် စာချုပ်တစ်ခု။ အရစ်ကျငွေက ဒေါ်လာ လေးဆယ်။ အိုကွာ။ ငါ သိပါတယ်။ ဒီလို လူမျိုးတွေက လူတိုင်း ရိုးသားတာ မဟုတ်ပါဘူး။ ဒါပေမဲ့ စောင့်ကြည့်လိုက်ပါကွ။ ငါ လောင်းရဲတယ်။ ဒီငနဲ ငွေကို မှန်မှန် ပို့မှာပါ။ ကဲ ငါ့လူ။ အင်္ကျီလက်မောင်းတွေ ပင့်တင်လိုက်။ ပြီးတော့ အပြင်ထွက်။ ဝယ်သူကို ကြိုပြီး မိအောင် ဖမ်းပေတော့။ ရရင် ငါ့ဆီကို လွှတ်လိုက်။ အခု ရောင်းလိုက်ရတဲ့ ကားအတွက်ကတော့ မင်းအတွက် ဒေါ်လာနှစ်ဆယ် ပေးမယ်။ မင်းရဲ့ ပါးနပ်မှုကြောင့် ဖြစ်သွားတာ။ မင်း မဆိုးဘူး။

မွန်းလွဲပိုင်း နေရောင်အောက်မှ ပျော့တိပျော့ခွေနှင့် တိုးလိုးတွဲလောင်း ကျနေသော အလံများ။ ယနေ့ အရောင်းအဝယ် အခြေအနေ။ ၂၉ ခုနှစ်ထုတ် ဖို့ဒ် ပစ်ကပ် မော်တော်ကား။ အခြေအနေကောင်းသည်။

အပေါက်တွေ ဗရပွ ဖြစ်နေသော ထိုင်ခုံ ကူရှင်များ။ အတွင်းမျ မြင်းမွေးများသည် ထိုးထိုးထောင်ထောင် ထွက်နေကြသည်။ အက်သည့်နေရာက အက်၍ ကွဲသည့် နေရာက ကွဲနေသော လေကာမှန်များ။ ဘန်ပါများသည် ပြုတ်ပျက်ထွက်ကာ တွဲလောင်း ကျနေကြသည်။ တာယာအဖုံးပေါ်မှာ မိန်းမလှလေး တစ်ယောက်၏ပုံ။ ဆေးရောင်စုံနှင့် ရေးထားသည့် အမည်က ကော်ရာ။ မွန်းလွဲပိုင်း၏ ပူပြင်းသော နေရောင်သည် ဖုန်အလိမ်းလိမ်း ကပ်နေသော ကားရှေ့ မှန်ချပ်များပေါ် မညာမတာ ကျရောက်လျက် ရှိလေသည်။

ဘုရားရေ။ ငါ့မှာ အပြင်ထွက်ပြီး နေ့လည်စာ စားဖို့တောင် အချိန်မရှိတော့ပါလား။ ဟော့ ဂျိုး။ ချာတိတ်တစ်ကောင် လွှတ်ပြီး ငါ့အတွက် ဟမ်ဘာဂါ အသားသွတ် ပေါင်မုန့်တစ်ခု ဝယ်ခိုင်းပေးပါဦးဟ။

အလွန် ရေးကျသည့် မော်တော်ကား အင်ဂျင်စက်သံသည် တုံ့နှေး တုံ့နှေး ထွက်ပေါ်လာလျက် ရှိ၏။

လယ်သမားတချို့ဟာ လူလည် လူနပ်တွေကွ။ အင်မတန် စုတ်ပဲ့ ညစ်ပတ်ချင်တယ်။ သူတို့ကို တတ်နိုင်သမျှ ချော့မော့ပြီး ငါ့ဆီကိုသာ လွှတ်ပေး။ ငါ ပြောတာ ကြားရဲ့လား ဂျိုး။ မင်း စောစောက လုပ်ပုံ ကောင်းတယ်။

ဟုတ်တယ်လေ။ ကျွန်တော်တို့ ရောင်းလိုက်ပြီ။ ကျွန်တော်တို့က အာမခံနဲ့ ရောင်းတာလား။ ပြော ဗျာ။ မေးမှ မေးရက်ပလေ။ ကျွန်တော်တို့ ရောင်းလိုက်တဲ့ ပစ္စည်းဟာ မော်တော်ကား ဖြစ်ကြောင်း အာမခံထားတယ်လေ။ ဘာလိုသေးလဲ။ ကားစက် ကောင်း မကောင်း။ ဟာ ဒါတော့ ကျွန်တော်တို့ အာမ မခံနိုင်ဘူးလေ။ အားလုံး တာဝန်ယူနေလို့ ဘယ်ဖြစ်ပါ့မလဲ။ နားထောင်ပါဦးဗျာ။ ခင်ဗျားက ကားတစ်စီး ဝယ်သွားတယ်။ အခုကျတော့မှ လာပြီး ဟိုဟာ မကောင်းဘူး။ သည်ဟာ မကောင်းဘူးလို့ ပြောနေတယ်။ ဘယ်ဖြစ်ပါ့မလဲ။ ဒီအရောင်းအဝယ်နဲ့ ပတ်သက်လို့ ဘာစာရွက်စာတမ်းမှ မရှိဘူး။ စာရွက်စာတမ်း ဟူသမျှ ကျွန်တော်တို့ လက်ထဲမှာ မရှိဘူး။ ကျွန်တော်တို့ကို ငွေထုတ်ပေးတဲ့ ကုမ္ပဏီကို လွှဲပေးလိုက်ပြီ။ သူတို့ကလည်း ခင်ဗျားနဲ့ ဆက်သွယ်တော့မှာ။ ကျွန်တော်တို့က ဆက်သွယ်မှာ မဟုတ်တော့ဘူး။ ကျွန်တော်တို့က ဘာစာရွက်စာတမ်းမှ ကိုင်ထားတာ မဟုတ်ဘူး။ ဘာဗျ။ ခင်ဗျားက ကြမ်းချင် ရမ်းချင်သလား။ ကြမ်းဝံ့ရင် ကြမ်းလေ။ ပုလိပ်တစ်ယောက် ခေါ်လိုက်ရုံပေါ့။ ကဲ။ ဟော့ ဂျိုး။ ဒီငနဲကို မောင်းထုတ်လိုက်ကွာ။ သူက တို့ဆီက ကားတစ်စီး ဝယ်သွားတယ်။ အခုကျမှ လာပြီး မကျေနပ်ဘူး ဖြစ်နေတယ်။ ခင်ဗျားတို့ စဉ်းစားကြည့်ပါ။ ကျွန်တော် ဆိုင်တစ်ဆိုင်က အမဲသားကြော် မကျက်တကျက် ဝယ်သွားတယ်။ တစ်ဝက် စားပြီးခါမှ မကောင်းဘူး ဆိုပြီး ပြန်ပေးလို့ ဖြစ်ပါ့မလား။ ကျွန်တော်တို့က စီးပွားရေး လုပ်နေတာ။ အလှူဒါန ပြုနေတာ မဟုတ်ဘူး။ ဂျိုးရေ ဟိုမှာ ကြည့်စမ်း၊ လူတစ်ယောက်၊ ပွန်တီယက်ကားကို ပြလိုက်စမ်း။

ခေါင်းလေးထောင့်၊ ခေါင်းဝိုင်း၊ သံချေးအထပ်ထပ် တက်နေသော ခေါင်း။ ခေါင်း အမျိုးမျိုးနှင့် မော်တော်ကားဟောင်းများ။ ကူရှင် ထိုင်ခုံနိမ့်နိမ့်နှင့် ကားဟောင်းကြီးများ။ လူစီးယာဉ်မှ ကုန်တင်ယာဉ် ထရပ်ကားကြီးများ အဖြစ်သို့ အသွင်ပြောင်း၍ရသော ကားအိုကြီးများ။ ဝင်ရိုးများတွင် သံချေး အထပ်ထပ် တက်နေသော နောက်တွဲယာဉ်များ။ ကာဒီလက်၊ လာဆာလက်စ်၊ ပြူ ပလိုင်းမောက်သ်၊ ပက်ကပ်၊ ချီးဗီးစ်၊ ဖို့ဒ်၊ ပွန်တီးယာက်။

ကားအမျိုးပေါင်း စုံသည်။ အားလုံး အတန်းလိုက် အတန်းလိုက်။ ကားရှေ့ မီးလုံးများသည် မွန်းလွဲပိုင်း နေရောင်အောက်တွင် တလက်လက်။

ငါ့မှာ ကားဟောင်း အစီးပေါင်း တစ်ထောင်လောက်ရှိရင် ကောင်းမှာ။

ကယ်လီဖိုးနီးယား ပြည်နယ်ကို သွားမလို့လား။ ဟောဒီမှာ ခင်ဗျားအတွက် လိုအပ်နေတဲ့ကား။

အတန်းလိုက် အတန်းလိုက် ဘေးချင်းယှဉ်၍ ထိုးထားသည့် မော်တော်ကား အဟောင်းများ။

* * *

## အခန်း (၈)

တလက်လက် တောက်ပနေသော ကြယ်များ၏ ကြားတွင် မိုးကောင်းကင်သည် ညိုမှိုင်း မွဲပြာသော အဆင်းကို ဆောင်လျက် ရှိသည်။ လဆုတ်ရက်၏ လတစ်ခြမ်းပဲ့သည် မှုန်ဝါးဝါး ဖြစ်လျက်ရှိ၏။ တွမ်ဂျုတ်နှင့် တရားဟောဆရာ ဂျင်ကတ်ဆီတို့သည် လမ်းတစ်လမ်းပေါ်တွင် ခပ်သုတ်သုတ် လျှောက်သွားလျက် ရှိကြလေသည်။ လမ်းမှာ လှည်းလမ်းမျှသာ ဖြစ်၍ ဝါခင်းတစ်ခင်းကို ဖြတ်သွားသော လမ်းဖြစ်သည်။ အသွေးအရောင် အမျိုးမျိုးပြောင်းကာ မတည်မငြိမ် ဖြစ်နေသော ကောင်းကင်သည် အရုဏ်တက်တော့မည့် အခြေအနေကို ညွှန်ပြလျက် ရှိ၏။ လူနှစ်ယောက်သည် ငြိမ်ဆိတ်စွာ လျှောက်သွားလျက် ရှိသည်။ သူတို့ ခြေထောက်များကြားမှ လေထဲသို့ တက်လာနေသော ဖုန်မှုန့်များ၏ အနံ့သည် သူတို့ နှာခေါင်းများဆီသို့ ရောက်လာလျက် ရှိလေသည်။

"လမ်းကိုတော့ မင်း ကောင်းကောင်း မှတ်မိလိမ့်မယ်လို့ ငါ ထင်ပါတယ်ကွာ" ဟု ဂျင်ကတ်ဆီက စပြောသည်။ "အခုလို အရုဏ်တက်ခါနီး အချိန်မျိုးမှာ လမ်းမားပြီး ဟိုရောက် သည်ရောက်နဲ့ ချာလပတ် လည်နေမှာကို ငါ မကြိုက်ဘူး။" ဝါခင်း တစ်ခင်းလုံးသည် နိုးကြားစပြုနေသော သတ္တဝါများကြောင့် အသက်ဝင် လှုပ်ရှားလျက် ရှိသည်။ မြေကြီးမှ အစာကို ထိုးသုတ်နေကြသော ငှက်များ၏ တောင်ပံခတ်သံများ။ လန့်ဖျပ်ပြီး ပြေးလွှားနေသော ယုန်တို့၏ လှုပ်ရှားသံများ။ မြေကြီးပေါ်သို့ ချသွားနေသော လူနှစ်ယောက်တို့၏ ခြေသံများ။ ဖိနပ်များ၏ နင်းခြေခြင်းကို ခံလိုက်ရသော ခဲလုံးများဆီမှ ထွက်လာနေသော အသံများ။ ထိုအသံများသည် အရုဏ်ဦး၏ လျှို့ဝှက်နက်နဲသော အခြားအသံများနှင့် ရောနှောကာ ပွဲတင်ထပ်လျက် ရှိကြလေသည်။

"ကျုပ် ဒီလမ်းကို မျက်စိမှိတ်ပြီး သွားရင်တောင် မမှားနိုင်ပါဘူးဗျ" ဟု တွမ်က ဆိုသည်။ "ကျုပ် မှားနိုင်တဲ့ လမ်းဟာ မရှိသလောက်ပဲ၊ ကျုပ်က ဒီနယ်မှာ မွေးပြီး ဒီနယ်တစ်ဝိုက်မှာ ကြီးလာတဲ့ကောင်ပါ၊ ကျုပ် ကလေးဘဝကတည်းက ဒီတစ်ဝိုက်မှာ ကျုပ် ခြေမချခဲ့ဖူးတဲ့နေရာ မရှိဘူး၊ ဟောဟိုမှာ တွေ့လား၊ သစ်ပင် တစ်ပင်၊ တစ်ခါတုန်းက ကျုပ်အဖေဟာ ကိုယိုးတီး ဝံပုလွေ အသေတစ်ကောင်ကို ချိတ်ထားခဲ့ဖူးတယ်၊ တစ်ကောင်လုံး ပုပ်ပွပြီး ခြောက်ကပ်သွားတဲ့အထိ ချိတ်ထားတာ၊ ဆာလိုက်တာဗျာ၊

ကျုပ်ဗိုက်တော့ အူပေါင်းလောင်း ဖြစ်နေပြီ၊ ဟိုရောက်ရင်တော့ အမေ ချက်ထားတာ တစ်ခုခု စားရကောင်းပါရဲ့လို့ မျှော်လင့်ရတာပဲ ”

“အေးကွာ၊ ငါလည်း မင်းလိုပဲ၊ ဆာလိုက်တာ ဝီခေါ်နေတာပဲ” ဟု ကတ်ဆီက ပြန်ပြောသည်။ “ဆေးရွက်နည်းနည်း ဝါးမလား၊ အဆာ သက်သာသွားအောင်ပေါ့၊ ငါတို့ အစောကြီး ထွက်လာတာ မှားတယ်ကွ၊ မိုးလင်းမှ ထွက်တာ အကောင်းဆုံးပဲ” သူသည် ခဏမျှ ရပ်၍ ဆေးရွက်ကို ထုတ်ကာ တစ်ငုံစာမျှ ကိုက်ယူလိုက်သည်။ “ညက ငါ တော်တော်အိပ်လို့ ကောင်းတယ်ကွ၊ သိလား”

“ဟို အရှူး မူလေး လုပ်တာလေဗျာ” ဟု တွမ်က ရေရွတ်သည်။ ဟာသူက ကျုပ်ကို နှိုးပြီး တွမ်ရေ၊ ငါတော့ လစ်တော့မယ်၊ ငါ့မှာ သွားစရာတွေ အများကြီး ရှိနေတယ်ကွ၊ မင်းလည်း လစ်တော့၊ မိုးမလင်းခင် လစ်တာ အကောင်းဆုံးပဲ လို့ ပြောတယ်၊ ခင်ဗျားလည်း တွေ့သားပဲ၊ သူ နေပုံထိုင်ပုံက တကယ့်မြွေပါလိုပဲ၊ သူ့ကြည့်ရတာ ဝရမ်းပြေးတစ်ယောက်နဲ့ မတူဘူးလား၊ ဒီအကောင် သိပ်ခေါင်းမာတယ်လို့ကော ခင်ဗျား မထင်မိဘူးလား”

“အင်း ပြောရတော့ ခက်တယ်ကွ၊ မနေ့ညက မော်တော်ကား လာတာကို မင်းမြင်သားပဲ၊ တစ်အိမ်လုံး ရစရာ မရှိအောင် ပျက်နေတာလည်း မင်းမျက်မြင်ပဲ၊ တစ်ခုခုတော့ ဖြစ်နေတာ အမှန်ပဲ၊ မူလေး အနေနဲ့ ရှုံးနေတာလည်း ဖြစ်ချင်ဖြစ်မယ်၊ သူ အခု လုပ်နေပုံကတော့ တကယ့် ကိုယ်ယိုးတီး ဝံပုလွေတစ်ကောင် အတိုင်းပဲ၊ ပုန်းလျှိုးကွယ်လျှိုးနဲ့ အဲသလို နေရတာကြောင့်များ ရူးသွားသလားတော့ မပြောတတ်ဘူး၊ ဒီအကောင့် ဒီပုံအတိုင်းဆိုရင် တစ်ယောက်ယောက်ကို မကြာခင် သတ်လိမ့်မယ်၊ သတ်ရင်လည်း မလွယ်ဘူး၊ သူတို့က အမဲလိုက် ခွေးတွေနဲ့ လိုက်ပြီး အမိဖမ်းမှာ၊ အကြားအမြင် ရနေသလိုပဲ၊ ငါ့မျက်စိထဲမှာ အဲသလို ဖြစ်လိမ့်မယ်လို့ မြင်နေရတယ်၊ သူဟာ တစ်နေ့တစ်ခြား ပိုပိုပြီး ဆိုးလာမယ့် လက္ခဏာ ရှိနေပြီ၊ သူ ငါတို့နဲ့ မလိုက်ချင်ဘူးတဲ့လား”

“မလိုက်ချင်ဘူးတဲ့” ဟု တွမ်ဂျုတ်က ပြောသည်။ “ဒီအကောင် လူတွေနဲ့ တွေ့ရမှာကို ကြောက်နေတာလို့ ထင်တယ်၊ ကျုပ်တို့ကို မြင်တော့ ထွက်မပြေးဘဲ ကျုပ်တို့ဆီ လာတာတောင် ကျုပ် အံ့သြနေမိသေးတယ်၊ နေထွက်ချိန်ဆိုရင် ကျုပ်တို့ ဦးလေးဂျွန်ရဲ့ နေရာကို ရောက်လိမ့်မယ်” နှစ်ယောက်သား စကားမပြောဘဲ ဆက်လျှောက်ကြပြန်သည်။ အိပ်တန်းပြန် နောက်ကျနေကြသော ဇီးကွက်များသည် နေ့၏ အလင်းရောင်နှင့် ဝေးရာ၌

ပုန်းအောင်းရန် အတွက် သူတို့ အိပ်တန်းရှိရာ ကျီပျက်များ၊ သစ်ခြောက်ပင်များ၊ အိမ်ပျက်များဆီသို့ လျင်မြန်စွာ ပျံသန်းလာလျက် ရှိကြသည်။ အရှေ့ဘက် ကောင်းကင်ပြင်သည် ညို့မှိုင်းနေရာမှ တဖြည်းဖြည်းချင်း လင်းလာနေသည်။ ဝါပင်များနှင့် ခြောက်သွေ့သွေ့ မည်းပြာပြာ မြေပြင်ကိုပင် ပြက်ပြက်ထင်ထင် မြင်လာရသည်။

"သူတို့လူစု ဦးလေးဂျွန်ရဲ့ အိမ်မှာ ဘယ်လိုလုပ်ပြီး အိပ်ကြမလဲ မပြောတတ်ဘူး၊ အိမ်က သေးသေး ကျဉ်းကျဉ်းရယ်၊ အိပ်ခန်းဆိုလို့ တစ်ခန်းပဲ ရှိတာ၊ ပြီးတော့ မီးဖိုချောင်လေး တစ်ခုနဲ့ ကျီသေးသေးလေး တစ်ခု၊ တစ်အိမ်လုံး လူတွေ ပြည့်နေတော့မှာပဲ"

"ငါတော့ မင်း ဦးလေးဂျွန်ကို ကောင်းကောင်း မမှတ်မိဘူး၊ သူ့မှာ အိမ်ထောင် မရှိဘူး မဟုတ်လား၊ တစ်ယောက်တည်း နေတာ မဟုတ်လားဟင်"

"ဒီကမ္ဘာမြေကြီးပေါ်မှာ ဦးလေးဂျွန်လောက် အထီးကျန်တဲ့လူဟာ မရှိဘူးဗျ" ဟု တွမ်ဂျုတ်က ပြောသည်။ "သူလည်း မူလေးလိုပဲ၊ ခပ်ကြောင်ကြောင် ခပ်ရူးရူး လူမျိုးပဲ။ တချို့နေရာတွေမှာ သူကတောင် ပိုဆိုးသေးသဗျ၊ သူ့ကို နေရာတိုင်းမှာ တွေ့နိုင်တယ်၊ ရှောနီးသွားပြီး အရက်သောက်တယ်၊ မူးတယ်၊ ဒီကနေပြီး မိုင်နှစ်ဆယ်လောက် အကွာမှာ နေတဲ့ မုဆိုးမ တစ်ယောက်ဆီ သွားအိပ်တယ်၊ ဖယောင်းတိုင်လေး တစ်တိုင်တည်းနဲ့ သူ့မြေပေါ်မှာ တစ်ညလုံး အလုပ်လုပ်နေတတ်တယ်၊ အရူးပဲ၊ လူတိုင်းက သူ့ကို အသက်ရှည်မှာ မဟုတ်ဘူးလို့ ထင်ကြတယ်၊ ဦးလေးဂျွန်လို တစ်ယောက်တည်း အထီးကျန် ဖြစ်နေတဲ့ လူစားမျိုးဟာ အသက်တိုတတ်ကြတယ် မဟုတ်လား၊ ဒါပေမဲ့ သူဟာ ကျုပ်အဖေထက် အသက်ကြီးတယ်၊ တစ်နှစ်ထက် တစ်နှစ် ပိန်ပိန်ပြီး အသားတွေ ကျစ်ကျစ်လာတယ်၊ အဘိုးထက်တောင် သူက အသားကျစ် ပိုမာသေးတယ်ဗျာ"

"ဝင်လာနေတဲ့ အလင်းရောင်ကို ကြည့်စမ်း" ဟု တရားဟောဆရာက ပြောသည်။ "ငွေရောင် တောက်နေတာပဲကွ၊ ဒါနဲ့ စကားမစပ် မင်း ဦးလေးဂျွန်ဟာ လုံးဝ အိမ်ထောင်မပြုဖူးဘူးလားကွ ဟင်"

"ပြုဖူးတယ်ဗျ၊ သူ့အိမ်ထောင်အကြောင်း ပြောပြလိုက်ရင် သူ ဘယ်လို လူစားဆိုတာ ခင်ဗျား သိလာမှာပဲ၊ သူက သူ့နည်း သူ့ဟန်နဲ့ သူထင်သလို နေတဲ့ လူစားမျိုးဗျ၊ ဒီအကြောင်းကို ကျုပ်အဖေ ပြောပြဖူးတယ်၊ ဦးလေးဂျွန်မှာ မိန်းမငယ်ငယ်လေး

တစ်ယောက် ရှိခဲ့ဖူးတယ်၊ လက်ထပ်ပြီး အိမ်ထောင်သက် လေးလပဲ ကြာခဲ့တယ်၊ မိန်းမက အိမ်ထောင်ရှင်မ ပီသပါတယ်၊ တစ်ညမှာ သူ့မိန်းမက ဗိုက်နာလို့ ဆရာဝန် သွားခေါ်ပေးပါလို့ ဦးလေးဂျွန်ကို ပြောတယ်၊ မိန်းမအနားမှာ ထိုင်နေတဲ့ ဦးလေးဂျွန်က ဘာပြန်ပြောသလဲဆိုတော့ အစာမကြေလို့ ရိုးရိုး နာတာပါဟာ၊ ဆေးပြား သောက်လိုက်၊ အစာအိမ်ထဲမှာ အစာတွေ သိပ်ပြည့်နေရင် ဗိုက်နာတတ်တယ်တဲ့၊ နောက်နေ့ မွန်းတည့်ချိန် လောက်ကျတော့ သူ့မိန်းမ ခေါင်းမထူ နိုင်တော့ဘူး၊ ညနေ လေးနာရီ ထိုးလောက်ကျတော့ သူ့မိန်းမ သေရော ”

“ဘယ်လို ဖြစ်တာလဲကွာ ” ဟု ကတ်ဆီက မေးသည်။ “သူစားတဲ့ အစာက အဆိပ်ဖြစ်သွားတာများလား ”

“အဆိပ်ဖြစ်တာတော့ မဟုတ်ဘူး၊ ဗိုက်ထဲမှာ တစ်ခုခု ပေါက်သွားတာမျိုးပဲ၊ အူအတက် ပေါက်သွားတာလို့ ထင်ရတာပဲ၊ ဦးလေးဂျွန်ဟာ ပျော်ပျော်နေတတ်တဲ့ လူစားတစ်ယောက်ဗျ၊ ဘယ်ကိစ္စမျိုးမဆို ပေ့ါပေ့ါပဲ သဘောထားတတ်တာ၊ အခုကိစ္စ ကျတော့ သူ သိပ်ပြီး စိတ်ထိခိုက်သွားတယ်၊ သူ့ပယောဂ မကင်းဘူးလို့ သူ ယူဆတယ်၊ သူ ဘယ်သူနဲ့မှ စကားမပြောတော့ဘူး၊ တစ်ယောက်တည်း ခြေဦးတည့်ရာ လျှောက်သွား နေတော့တာပဲ၊ သူ့ မျက်စိတွေကလည်း ဘာကိုမှ မမြင်သလို မတွေ့သလိုပဲ၊ တစ်ခါတစ်လေတော့ ဘုရားရှိခိုးနေတတ်တယ်၊ အဲသလို ဖြစ်သွားလိုက်တာ နှစ်နှစ်တိတိ ကြာတယ်ဗျ၊ ဒီနောက်တော့ သူဟာ အရင်ကလို မဟုတ်တော့ဘူး၊ ကြမ်းတမ်း ရိုင်းစိုင်းလာတယ်၊ သူ နေပုံထိုင်ပုံ လုပ်ပုံ ကိုင်ပုံတွေက အနှောင့်အယှက်တစ်ခုလို ဖြစ်ဖြစ်လာတယ်၊ ကျုပ်တို့ ကလေးတွေရဲ့ ဗိုက်ထဲက သံကောင်တွေ ထွက်လာရင် ဒါမှမဟုတ် ဝမ်းဖော ဝမ်းရောင်ဖြစ်လို့ ဗိုက်နာရင် ဆရာဝန် ပြေးခေါ်တာပဲ၊ ကျုပ်အဖေက ကလေးတွေ ဗိုက်နာတိုင်း ဆရာဝန်မခေါ်ဖို့ တားယူရတယ်၊ ကလေးတွေ ဆိုတာကတော့ အမြဲတမ်း ဝမ်းဖော ဝမ်းရောင် ဖြစ်တတ်တာမျိုးပဲဗျာ၊ ဒါပေမဲ့ သူက ပြောတယ်၊ သူ့မိန်းမ သေတာဟာ သူ့အပြစ်တဲ့၊ ရယ်စရာတော့ ကောင်းတယ်၊ ကလေးတွေကို အမြဲတမ်း မုန့်ပဲသရေစာ ကျွေးတယ်၊ သူ့မှာ ရှိသမျှ အကုန်ချကျွေးတာမျိုးဗျ၊ ဒါပေမဲ့ ပျော်တဲ့ အရိပ်လက္ခဏာ မရှိဘူး၊ တစ်ခါတစ်ရံ ညကြီးမင်းကြီး တစ်ယောက်တည်း သွားချင်ရာ သွားနေတတ်တယ်၊ တကယ်တော့ ဦးလေးဂျွန်ဟာ တကယ်တော်တဲ့ လယ်သမားကြီး တစ်ယောက်ဗျ၊ သူ့မြေကို ကျကျနန ထိန်းသိမ်း ပြုပြင်ထားတတ်တဲ့ လူကြီး”

"သနားပါတယ်ကွာ" ဟု ကတ်ဆီက ရေရွတ်သည်။ "သူ့အဖြစ်က သနားစရာပါ၊ သူ့မိန်းမ သေပြီးတဲ့နောက်မှာ ဘုရားရှိခိုးကျောင်းကို ခဏ ခဏ မသွားဘူးလား"

"မသွားဘူးဗျ၊ တခြား လူတွေနားလည်း လုံးဝ မကပ်တော့ဘူး၊ အချိန်ရှိသမျှ တစ်ယောက်တည်းပဲ နေတာ၊ ကလေးတိုင်းက သူ့ကို ချစ်ကြတယ်၊ သူ့ကိုမြင်ရင် ကလေးတွေဟာ အရူးအမူးပဲ၊ တစ်ခါတစ်ရံ ညကြီးမင်းကြီးကျခါမှ ကျုပ်တို့အိမ်ကို ပေါက်ချလာတတ်တယ်၊ သူ လာတာက ကျုပ်တို့ အိပ်ရာဘေးမှာ ပီကေ ချထားပေးဖို့ လာတာဗျ၊ ကျုပ်တို့ကတော့ သူ့ကို ယေရှုသခင် ကြွလာသလားတောင် ထင်ကြတာ"

တရားဟောဆရာသည် ခေါင်းကိုငုံ့၍ လျှောက်လျက်ရှိ၏။ သူသည် တွမ်ဂျုတ်အား စကား ပြန်မပြော။ မနက်ခင်း၏ အလင်းရောင်အောက်တွင် သူ့ခေါင်းသည် ပြောင်လက်နေသည်။ ဘေးတစ်ဖက်တစ်ချက်မှ လွှဲလျက်ရှိသော လက်များသည် အလင်းရောင် အောက်သို့ ဝင်လာလိုက် ပြန်ထွက်သွားလိုက် ဖြစ်လျက်ရှိ၏။

တွမ်ဂျုတ် ကိုယ်တိုင်လည်း နှုတ်ဆိတ်လျက် ရှိသည်။ မိသားစုထဲမှ အတွင်းကျကျ အဖြစ်တစ်ခုကို ပြောလိုက်မိခြင်းသည် ကောင်းမှ ကောင်းပါလေစ။ ရှက်စရာများ ဖြစ်နေလေမလား။ ဤအတွေးကြောင့် သူ ငြိမ်ဆိတ်နေခြင်း ဖြစ်လေသည်။ သူတို့ရှေ့ ခပ်လှမ်းလှမ်းတွင် ကောင်းကင်သည် ညိုမှိုင်းနေဆဲ။ အလင်းရောင်သည် ပီပီပြင်ပြင် ဝင်လာသေး။ ပိုးတဝါးမျှသာ ရှိသေးသည်။ မြွေတစ်ကောင်သည် ဝါပင်များကြားမှ ထွက်ကာ လမ်းပေါ်သို့ တက်လာသည်။ တွမ်ဂျုတ်က ဖျတ်ခနဲ ရပ်လိုက်ပြီး သေသေချာချာ ကြည့်သည်။ "မြွေပါဗျ" ဟု ရေရွတ်သည်။ "သွားပါစေတော့" ဟု မြွေနှင့် ခပ်ဝေးဝေးမှ ကွေ့ပတ်၍ လျှောက်သွားကြသည်။ အရှေ့ဘက် ကောင်းကင်တွင် အရောင် အနည်းငယ်မျှ ထိုးဖောက် ဝင်ရောက်စ ပြုသည်။ အရုဏ်ဦး၏ ရှေ့ပြေး အလင်းရောင်သည် မြေပြင်ထက်သို့ ဖြန့်ဆင်းလာသည်။ ဝါပင်များပေါ်မှ အစိမ်းရောင်သည် ပေါ်လွင်လာသည်။ မြေပြင်သည် ညိုမွဲမွဲအရောင်ကို လှစ်ပြလာသည်။ လူနှစ်ယောက်၏ မျက်နှာများပေါ်မှ တပြောင်ပြောင် တလက်လက် ဖြစ်နေသော အရောင်သည် ကွယ်ပျောက်သွားသည်။ အလင်းရောင် အရှိန်တက်လာလေလေ တွမ်ဂျုတ်၏ မျက်နှာသည် မည်းမှောင် လာလေလေ။ "ဒီအချိန်ဟာ သိပ်ကောင်းတဲ့ အချိန်ဗျ" ဟု တွမ်ဂျုတ်က တိုးတိုးသာသာ ပြောသည်။ "ကျုပ်တို့ ငယ်ငယ်တုန်းက ဒီအချိန်မျိုးမှာ ထပြီး လမ်းလျှောက်လေ့ရှိတယ်၊ ဟိုရှေ့ကဟာ ဘာပါလိမ့်"

လမ်းပေါ်တွင် ခွေးတစ်အုပ်။ ခွေးမတစ်ကောင်ကို ဝိုင်းအုံ၍ ဂုဏ်ပြုနေခြင်း။ ခွေးထီး ငါးကောင်။ သိုးစောင့် ခွေးအစပ်များ။ သူတို့၏ လွတ်လပ်စွာ ဆက်ဆံမှုကို ဟန့်တား ပိတ်ပင်ထားသဖြင့် လူသူ ကင်းဝေးရာ ဤနေရာသို့ လာရောက်၍ ထင်တိုင်းကြဲနေကြပုံရ၏။ ခွေးတစ်ကောင်ချင်းစီသည် နှာခေါင်းကို ရှုံ့ပွရှုံ့ပွ လုပ်ကာ အနံ့ခံသည်။ ထို့နောက် ဝါပင်များဆီသို့ သွား၍ နမ်းသည်။ ပြီးတော့မှ နောက်ခြေ တစ်ချောင်းကို ကျကျနန မြှောက်ကာ ဝါပင်များကို အေးအေးဆေးဆေး သေးနှင့် ပန်းသည်။ ထို့နောက် ဝါပင်ရှိရာသို့ ပြန်သွားကာ နမ်းပြန်လေသည်။ တွမ်ဂျုတ်နှင့် တရားဟော ဆရာတို့သည် ခွေးများ လုပ်နေပုံကို ရပ်၍ ကြည့်နေမိရာမှ ရုတ်တရက် တွမ်ဂျုတ်က ဟက်ဟက်ပက်ပက် ရယ်သည်။

ခွေးများသည် တစ်ကောင့် တစ်ကောင် ကြည့်ကာ အမွေးတထောင်ထောင် ဖြစ်လာကြသည်။ တစ်ကောင့်တစ်ကောင် ဟိန်း၍ သွားဖြဲ၍ မြေကြီးကို ခြေကန်ကာ တောင့်တောင့်ကြီးရပ်၍ ရန်စောင်ကြသည်။ တစ်ကောင်က စအကိုက်ကို တစ်ကောင်က အသင့်စောင့်သည်။ ဤကြားထဲမှာပင် တစ်ကောင်သော ခွေးသည် ခွေးမပေါ် ရောက်သွားသည်။ သူ့ကိစ္စ အောင်မြင်စွာ ပြီးဆုံးသွားသည်။ ထိုအခါ အခြားခွေးများသည် လက်လျှော့ကာ စိတ်ဝင်တစား စောင့်ကြည့်နေသည်။ သူတို့လျှာများသည် အပြင်သို့ ထွက်နေကြသည်။ လျှာဖျားမှ သွားရည်များသည် တစက်စက်။

လူနှစ်ယောက်သည် သူတို့ ခရီးကို ဆက်ကြသည်။ "အပေါ်က ခွေးဟာ ကျုပ်တို့ခွေး ဖလက်ရှ်လို့ ထင်တာပဲ၊ ကျုပ်က သူ သေလောက်ပြီလို့ တွက်ထားတာ၊ ဟော့ကောင် ဖလက်ရှ်" တွမ်ဂျုတ်က သူ့အတွေးနှင့်သူ ထပ်၍ ရယ်ပြန်သည်။ "ဒီလိုအခါမျိုးမှာ တစ်စုံတစ်ဦးက ကျုပ်ကို ခေါ်တယ် ဆိုပါတော့၊ ကျုပ်လည်း ကြားမှာ မဟုတ်ပါဘူး၊ အင်း သူတို့ကို မြင်တော့ ဝီလီဖီးလေး ငယ်ငယ်တုန်းက ကြုံခဲ့ဖူးတဲ့ အဖြစ်တစ်ခုကို ကျုပ် သတိရမိတယ်၊ ဝီလီ အရှက်အကြောက် အင်မတန်ကြီးတဲ့ကောင်ဗျ၊ စိတ်ပျက်စရာ ကောင်းလောက်အောင်ကို ရှက်တာ၊ တစ်နေ့တော့ သူတို့အိမ်က နွားမတမ်းမကလေးတစ်ကောင် ဆွဲပြီး ဂရေ့စ်ရဲ့ နွားသိုးကြီးဆီ သွားတယ်၊ ဂရေ့စ်တို့ အိမ်မှာလည်း သူ့သမီး အယ်လ်ဆီဂရေ့စ် တစ်ယောက်ပဲ ရှိတယ်၊ ကျန်တဲ့လူတွေက အပြင်သွားနေကြတယ်၊ အယ်လ်ဆီက လုံးဝ ရှက်တတ် ကြောက်တတ်တဲ့ မိန်းကလေး မဟုတ်ဘူး၊ ဝီလီက မျက်နှာကြီး နီရဲပြီး ရပ်နေသတဲ့၊ ရှက်လွန်းလို့ စကားတောင် မပြောနိုင်ဘူး၊ အယ်လ်ဆီက နင် ဘာအတွက် လာတယ်ဆိုတာ ငါ သိတယ်၊ နွားသိုးကြီး

နောက်ဖေးက နွားတင်းကုပ်ထဲမှာ ရှိတယ်လို့ ပြောသတဲ့၊ ဒါနဲ့ပဲ သူတို့နှစ်ယောက် နွားမတမ်းလေးကို ဆွဲပြီး နွားသိုးကြီးဆီ ပို့ကြတာပေါ့၊ ပြီးတော့ သူတို့နှစ်ယောက် ဝင်းထရံပေါ် တက်ထိုင်ပြီး ကြည့်နေကြသတဲ့၊ မကြာခင်မှာပဲ ဝီလီ စိတ်တွေဟာ ဖောက်လာတယ်၊ စိတ်ဖောက်တော့ လူက အခြေပျက်လာတာပေါ့၊ အယ်လ်ဆီကတော့ အခြေမပျက်ဘူး၊ မရိပ်မိသလိုပဲတဲ့၊ ဝီလီကို တစ်ချက် လှမ်းကြည့်ပြီး နင် ဘာဖြစ်နေသလဲ ဝီလီလို့ မေးသတဲ့၊ တစ်မျက်နှာလုံး နီရဲနေတဲ့ ဝီလီကတော့ ကောင်းကောင်းတောင် မထိုင်နိုင်တော့ဘူးတဲ့၊ တစ်ကိုယ်လုံး တုန်နေတာပဲတဲ့၊ သူ့ပါးစပ်ကလည်း ရှက်ရှက် ကြောက်ကြောက်နဲ့ ငါလည်း နွားသိုးကြီး လုပ်သလို လုပ်ချင်လိုက်တာဟယ်လို့ ပြောမိပြောရာ ပြောလိုက်မိသတဲ့၊ အဲဒီတော့ အယ်လ်ဆီက ပြန်ပြောတယ်၊ ဘာကြောင့် မလုပ်နိုင်ရမှာလဲ ဝီလီရယ်၊ နင့်နွားမလေးပဲဟာ နင်ကြိုက်သလို လုပ်ပေါ့တဲ့”

တရားဟောဆရာက ခပ်တိုးတိုး ကျိတ်၍ ရယ်သည်။ “မင်း သိတဲ့အတိုင်းပဲ တွမ်ဂျုတ်” ဟု သူက ပြောသည်။ “တရားဟောဆရာတစ်ယောက် မဟုတ်တော့တာဟာ ငါ့အတွက် သိပ်ကောင်းသွားတယ်၊ ငါ တရားဟောဆရာ ဘဝတုန်းကဆိုရင် အခု မင်းပြောပြတဲ့ ရယ်စရာ အဖြစ်မျိုးတွေကို ပြောပြမယ့်လူ တစ်ယောက်မှ မရှိဘူး၊ ငါ့ကို မရယ်တတ်တဲ့ လူတစ်ယောက်လို့များ သဘောထားကြသလား မပြောတတ်ပါဘူးကွာ၊ ငါ ကိုယ်တိုင်ကလည်း ဒါမျိုးတွေကို မပြောဝံ့ဘူး၊ အခုတော့ ငါ ပြောချင်တာ အကုန်ပြောလို့ ရနေပြီ၊ ပြောချင်တဲ့ အချိန်ပြော၊ ကြိုက်တဲ့ဟာ ပြော”

အရှေ့ဘက် ကောင်းကင်ပြင်ဝယ် အနီရောင်သည် ကြီးမား ကျယ်ပြန့်လာသည်။ မြေပြင်တွင်မူ ကျည်ကျည်ကျာကျာ အော်မြည်လျက် ရှိသော ငှက်သံများကို ကြားနေရ လေပြီ။ “ဟိုမှာ မြင်လား” ဟု တွမ်ဂျုတ်က ပြောသည်။ “ရှေ့တည့်တည့်မှာလေ၊ အဲဒါ ဦးလေးဂျွန်ရဲ့ ရေတိုင်ကီကြီးပေါ့ဗျ၊ လေရဟတ်ကြီးရော မြင်တယ် မဟုတ်လား၊ သူ့ရေတိုင်ကီကတော့ မိုးထိုးနေတာပဲ” သူ့ခြေလှမ်းများသည် သွက်လာသည်။ “ကျုပ် မိသားစုတွေ အားလုံး ရှိကြမယ် ထင်တာပဲ” အလျင်အမြန် သွားနေသော တွမ်ဂျုတ်၏ ခြေထောက်များကြားမှ ဖုန်များသည် တထောင်းထောင်း ထလျက် ရှိလေသည်။ “တကယ်လို့ အမေသာ ... ” တွမ်ဂျုတ်၏ စကားမဆုံးမီမှာပင် သူတို့သည် ရေတိုင်ကီ၏ တိုင်ကြီးများနှင့် အိမ်ကို မြင်ကြရလေပြီ။ အိမ်မှာ ဆေးသုတ်မထားသော သေတ္တာကြီး တစ်လုံး ချထားသည်နှင့် တူသည်။ နောက်ဖေးဘက်ရှိ တင်းကုပ်၏ အမိုးကတော့ ခပ်နိမ့်နိမ့် ခပ်ကုပ်ကုပ်။ အိမ်၏ မီးဖိုခေါင်းတိုင်မှ မီးခိုးများသည် တလူလူလွင့်လျက် ရှိ၏။

အိမ်ရှေ့ခြံဝင်းထဲတွင် မွေ့ရာများ၊ အိမ်ထောင်ပရိဘောဂ ပစ္စည်းများ၊ လေရဟတ် မော်တာနှင့် ရဟတ်အရွက်များ၊ အိပ်ရာခုတင်များ၊ ကုလားထိုင်များ၊ စားပွဲများ အားလုံး အစုလိုက် အပြုံလိုက် ချထားသည်။ "ဘုရားရေ၊ သူတို့ သွားဖို့တောင် အဆင်သင့် ဖြစ်နေကြပါပေါ့လား" တွမ်ဂျုတ်က ရေရွတ်လိုက်သည်။

ခြံဝင်းထဲတွင် ထရပ်ကားတစ်စီး ရပ်ထားသည်။ ထရပ်ကား၏ ဘေးကာ နှစ်ဖက်မှာ ခပ်မြင့်မြင့်။ ထူးဆန်းသော ပုံစံမျိုး ဖြစ်၏။ ကား၏ ရှေ့ပိုင်းသည် ဆီဒင်ကား၏ ထိပ်ပိုင်းကို အလယ်တည့်တည့်မှ ဖြတ်ပြီး ထရပ်ကားဘော်ဒီ တင်ထားခြင်း ဖြစ်၏။ ခြံဝင်းဘက်သို့ နီးလာသောအခါ တူထုနေသံကို ကြားကြရလေသည်။ နေရောင်သည် အရှေ့ဘက် မိုးကုပ်စက်ဝိုင်း၏ အပေါ်သို့ တိုးထွက်လာပြီး ထရပ်ကားပေါ်သို့ ဖြာ၍ ဆင်းလာသည်။ ထိုအခါကျမှပင် သူတို့သည် ကားပေါ်မှ လူကို မြင်ကြရလေ၏။ ထိုလူ၏လက်သည် အပေါ်သို့ မြောက်သွားလိုက် အောက်သို့ ပြန်ကျလိုက်။ သူ့လက်ထဲမှ တူသည် နေရောင်အောက်တွင် ဝင်းခနဲ လက်ခနဲ။ နေရောင်သည် အိမ်ပြတင်းပေါက် မှန်များပေါ်သို့လည်း ထိုးကျကာ ရောင်ပြန်ဟပ်လျက်ရှိ၏။ မြေကြီးပေါ်၌ အစာယက် နေကြသော ကြက်အနီ နှစ်ကောင်သည် နေ၏ ရောင်ပြန်ဟပ်မှုဖြင့် ရဲရဲတောက်လျက် ရှိကြလေသည်။

"အသံမပေးနဲ့ဗျာ" ဟု တွမ်ဂျုတ်က ပြောသည်။ "ကျုပ်တို့ အသာကလေး ဝင်သွားကြတာပေါ့" သူ့ခြေလှမ်းများသည် စောစောကထက် မြန်လာသည်။ ဖုန်များသည် တထောင်းထောင်း ထကာ သူ့ခါးဆီအထိ လွင့်တက်လာကြလေသည်။ သူသည် ဝါခင်း၏ တစ်ဖက်အစွန်းသို့ ရောက်လာသည်။ အခုဆိုလျှင် သူတို့နှစ်ယောက်သည် ဝါခင်း၏ တစ်ဖက်အစွန်းသို့ ခြေချမိကြပြီ ဖြစ်၏။ အနှစ်နှစ် အလလ ပြုပြင်ထားသော မြေသည် တင်းမာလျက်ရှိပြီး နေရောင်အောက်တွင် ပြောင်လက်နေသည်။ တွမ်ဂျုတ်၏ ခြေလှမ်းများသည် စောစောကလောက် မသွက်တော့။ ရှေ့ဆက် လျှောက်ရမည်ကို စိုးရွံ့ကြောက်လန့် နေသည့်နှယ် တုံ့နေးနေး ဖြစ်လာသည်။ တွမ်ဂျုတ်၏ အရိပ်အကဲကို မျက်ခြည်မပြတ် ကြည့်နေသော တရားဟောဆရာကလည်း သူ့ခြေထောက်များ၏ အရှိန်ကို လျှော့ချ လိုက်လေ၏။

တွမ်ဂျုတ်သည် မဝံ့မရဲ ပုံမျိုးဖြင့် ထရပ်ကားဆီသို့ ချဉ်းကပ်သည်။ ထရပ်ကားမှာ ဟတ်ဒ်ဆန် ဆူပါစစ် ဆီဒင်ကား အမျိုးအစား။ ထိပ်ပိုင်းကို နှစ်ပိုင်းခွဲဖြတ်ပြီး အလယ်မှ

ဘော်ဒီကြမ်းခင်းထည့်၍ ပြန်ဆက်ထားခြင်း ဖြစ်လေသည်။ အဖေဂျုတ်သည် ဘော်ဒီကြမ်းခင်းပေါ်၌ မတ်တတ်ရပ်ကာ ဘေးကာများကို သံရိုက်လျက် ရှိသည်။ မုတ်ဆိတ်မွေး ဗရပျစ်နှင့် ခြောက်သွေ့ မွဲပြာနေသော သူ့မျက်နှာသည် သူ့အလုပ်ပေါ် ငုံ့ကာ အာရုံစိုက်လျက် ရှိလေသည်။ သူသည် သံတစ်ချောင်းကို အားသွန်ခွန်စိုက် ရိုက်သွင်းလျက် ရှိသည်။ တူသံသည် တဒိုင်းဒိုင်း မြည်ဟည်းလျက် ရှိသည်။ မီးဖိုပေါ်တွင် တင်ထားသည့် ပွက်ပွက်ဆူနေသော အိုးတစ်လုံး၏ အိုးအဖုံးနှင့် အိုးနှုတ်ခမ်းတို့ ရိုက်ခတ်နေသံ တဂျောက်ဂျောက်။ ကလေးတစ်ယောက်၏ တအီအီ ငိုကြွေးသံ။ ထိုအသံများသည် အိမ်အတွင်းဘက်မှ ထွက်လာလျက် ရှိလေသည်။

တွမ်ဂျုတ်သည် ထရပ်ကား၏ ဘေးနားမှ ကွေ့ပတ်ကာ သူ့အဖေရှိရာဘက်၌ သွား၍ ရပ်သည်။ သူ့အဖေက ဆီး၍ တစ်ချက်မျှ မော့ကြည့်လိုက်သော်လည်း ရုတ်တရက် မှတ်မိပုံ မပေါ်။ အဖေဂျုတ်သည် ဘေးကာပေါ်၌ သံတစ်ချောင်း စိုက်ကာ ရိုက်သွင်းလျက် ရှိ၏။ ရေတိုင်ကီပေါ်၌ နားနေသော ခိုတစ်အုပ်သည် ရုတ်တရက် ထပျံလာသည်။ တစ်ခဏမျှ ဝဲပျံနေပြီးသော် ရေတိုင်ကီပေါ်မှာပင် ပြန်၍ နားနေ၏။ အရောင်မျိုးစုံသည် ရောနေသော ခိုဖြူ ခိုပြာနှင့် ခိုအညိုများ။

တွမ်ဂျုတ်က ကား ဘေးကာအစွန်းကို လှမ်းကိုင်ပြီး ထရပ်ကားပေါ်မှ သူ့အဖေကို မော့ကြည့်သည်။ သူ့နှုတ်ခမ်းများကို လျှာနှင့်ထိုး၍ လျက်နေရာမှ အလွန် နူးညံ့သော အသံဖြင့် လှမ်းခေါ်သည်။

"အဖေ"

"ဟေ့ မင်း ဘာလိုချင်လို့လဲ" ဟု သူ့အဖေ ဂျုတ်က လှမ်းမေးသည်။ ပါးစပ်တွင် ကိုက်ထားသော သံချောင်းများသည် တလှုပ်လှုပ်ဖြစ်ကာ ရွေ့လျားသွားကြလေ၏။

အဖေဂျုတ်၏ ခေါင်းတွင် အလွန် ညစ်ပတ်ပေရေလျက် ရှိသော ဦးထုပ်အနက် တစ်လုံး ဆောင်းထားသည်။ ဦးထုပ်၏ အရှေ့ဘက် ကလနားစွန်းကို ချိုးခေါက်ထား လေသည်။ သူ့ကိုယ်တွင် အလုပ်ကြမ်း လုပ်သည့်အခါများတွင် ဝတ်လေ့ရှိသည့် အပြာရောင် ရုပ်အင်္ကျီနှင့်။ ထိုအင်္ကျီပေါ်မှ ထပ်၍ ကြယ်သီး မပါသော ရုပ်အင်္ကျီကို ဝတ်ထားသည်။ သူ့ခါးတွင် ဂျင်းဘောင်းဘီ။ ကြေးကွင်းတပ် သားရေခါးပတ် ပတ်လျက်။ သုံးစွဲလာသည်မှာ နှစ်ပေါင်းများစွာ ကြာပြီဖြစ်၍ ခါးပတ်ကွင်းမှာ အရောင်အဆင်းပင်

မရှိတော့ပေ။ လပေါင်းများစွာ အပူဒဏ် အအေးဒဏ်နှင့် ဖုန်ဒဏ်တို့ကို ခံထားရသော သူ့ခြေထောက်မှ ဖိနပ်များသည် အပေါက် အပြဲ အဖာများနှင့် ပြည့်လျက် ရှိသည်။ ရုပ်အင်္ကျီလက်အိုးမှာ ကျပ်လျက် ရှိသဖြင့် လုံးကျစ် ဖုထွက်နေသော ကြွက်သားများသည် အပြင်သို့ထွက်လျက် ရှိကြ၏။ ဝမ်းဗိုက်နှင့် တင်ပါးများတွင် အဆီအသား မရှိ။ ခြေထောက်နှစ်ဖက်မှာ တိုသယောင်ယောင် ရှိသော်လည်း တောင့်တင်း သန်စွမ်းသည်။ သူ့မျက်နှာကို အဖြူအနက် ရောစွက်နေပြီ ဖြစ်သော မုတ်ဆိတ်မွေးများက လေးထောင့်စပ်စပ် ဖြစ်သွားအောင် အနားသတ်ပေးထားသည်။ အဖေ တွမ်ဂျုတ်၏ အသားအရောင်မှာ ညိုမောင်းမောင်း။ သူ့မျက်လုံးများကတော့ ကော်ဖီရောင်။ နက်မှောင် တောက်ပသော မျက်လုံးအစုံသည မွဲနေပြီဖြစ်၍ တစ်စုံတစ်ခုသော အရာဝတ္ထုကို ကြည့်တော့မည် ဆိုလျှင် ဦးခေါင်းကို အတော်ကြီးငုံ့၍ ကြည့်ပါမှ သဲသဲကွဲကွဲ မြင်နိုင်သည်။ သံချောင်းများကို ကိုက်ထားသော သူ့နှုတ်ခမ်းများသည် ခပ်ပါးပါး နီရဲရဲ။

သူသည် သံကိုရိုက်ရန် လက်ထဲမှ တူကို မြှောက်ရင်း တန်းလန်းက ထရပ်ကာ ဘေး၌ ရပ်နေသော တွမ်ဂျုတ်ကို လှမ်းကြည့်သည်။ သူ့အလုပ်ကို နှောင်ယှက်သဖြင့် ဒေါပွသွားသည့် အရိပ်လက္ခဏာသည် သူ့မျက်နှာတွင် အထင်းသားပေါ်လျက် ရှိလေသည်။ ထို့နောက်တော့ သူ့မေးစေ့သည် ရှေ့သို့ငုံ့လာပြီး တွမ်ဂျုတ်၏ မျက်နှာကို စေ့စေ့ ကြည့်သည်။ တဖြည်းဖြည်း၊နှင့် သူ မြင်နေရသည့် အရာကို မှတ်မိလာသည်။ သူ့ပါးစပ်ထဲမှ သံချောင်းများကို ဆွဲထုတ်သည်။ ပြီးတော့ အလွန် အံ့သြသွားသည့် လေသံဖြင့် သူ့ကိုယ်သူ ပြောနေသည့်အလား စကားတစ်ခွန်းကို တီးတိုး ရေရွတ်သည်။ "တွမ်မီပါကလား"။ ထို့နောက် ဒုတိယအကြိမ် ထပ်မံ ရေရွတ်ပြန်သည်။ "တွမ်မီ အိမ်ပြန်လာတယ်" သူ့ပါးစပ်သည် ဟောင်းလောင်း ဖြစ်လျက် ရှိ၏။ သူ့မျက်လုံးများသည် စိုးရိမ်ထိတ်လန့်ခြင်းကို ဖော်ပြနေသည်။ "တွမ်မီ" ဟု လေသံဖြင့် လှမ်းခေါ်သည်။ "မင်း ထွက်ပြေးလာသလား၊ မင်း ပုန်းနေလို့တော့ ဖြစ်မှာ မဟုတ်ဘူး" သူသည် တွမ်ဂျုတ်ထံမှ ထွက်လာမည့် စကားကို စိုးရိမ်တကြီးဖြင့် စောင့်မျှော်လျက် ရှိသည်။

"မဟုတ်ဘူး" ဟု တွမ်ဂျုတ်က ပြန်ပြောသည်။ "ကျုပ်ကို ခံဝန်ချုပ်နဲ့ လွှတ်လိုက်တာ၊ ကျုပ် လွတ်လာတာ၊ စာရွက်စာတမ်းတွေ အားလုံး ပါလာတယ်" ဟု သူသည် ထရပ်ကား၏ အောက်ခံ သံပေါင်ကို ဆုပ်ကိုင်ကာ သူ့အဖေကို မော့ကြည့်သည်။

အဖေ ဂျူတ်သည် လက်ထဲမှ တူကို ကြမ်းပြင်ပေါ်သို့ ချလိုက်ပြီး သံများကို အိတ်ကပ်ထဲသို့ ထည့်လိုက်သည်။ ထို့နောက် ကားပေါ်မှ ခုန်ချလိုက်ကာ သူ့သားနှင့် ယှဉ်၍ ရပ်လိုက်ပြီး သူ့သားကို ခြေဆုံးခေါင်းဆုံး ကြည့်သည်။ "တွမ်မီ၊ ငါတို့ ကယ်လီဖိုးနီးယား ပြည်နယ်ကို သွားကြတော့မလို့" ဟု ပြောသည်။ "မင်းဆီကို အကျိုးအကြောင်း စာရေးပြီး ပြောဖို့ စီစဉ်ထားတယ်၊ ဒါပေမဲ့ အခု မင်းပြန်ရောက်လာပြီပဲ၊ မင်း ငါတို့နဲ့ လိုက်လာနိုင်ပြီပေါ့" အိမ်တွင်းမှ ကော်ဖီအိုး ဆူသံကို ကြားရသည်။ "သူတို့ အံ့ဩသွားအောင် လုပ်ကြမယ်ကွာ" ဟု ဆိုသည်။ သူ့မျက်လုံးများသည် ဝမ်းသာ ကြည်နူးမှုကို ဖော်ပြလျက် ရှိသည်။ "မင်းအမေက မင်းကို ဘယ်တော့မှ ပြန်တွေ့ရမှာ မဟုတ်တော့ဘူးလို့ ထင်ပြီး စိတ်ထိခိုက်နေတယ်၊ တို့မိသားစုထဲက လူတစ်ယောက် သေတဲ့အခါ ဖြစ်သလိုမျိုး ဖြစ်နေတာကွ၊ မင်းနဲ့ မတွေ့ရမှာ ကြောက်လို့ ကယ်လီဖိုးနီးယားကို မသွားချင်ဘူး ဖြစ်နေတာ" အိမ်ထဲမှ အိုးအဖုံးနှင့် အိုးနှုတ်ခမ်း အဆက်မပြတ် ရိုက်ခတ်နေသည့် တဂေါက်ဂေါက် အသံများ ကြားလာရပြန်သည်။ "ငါတို့အားလုံး အံ့ဩသွားအောင် လုပ်ကြမယ်ကွာ" ဟု အဖေ တွမ်ဂျူတ်က ထပ်ပြောပြန်သည်။ "အိမ်ထဲကို အသာကလေး ဝင်သွားကြမယ်၊ မင်းကိုတွေ့ရင် မင်းအမေ ဘာပြောမလဲ ဆိုတာ နားထောင်ကြရအောင်" နောက်ဆုံးတွင် သူသည် သူ့သား၏ ပခုံးပေါ်သို့ လက်တစ်ဖက် လှမ်းတင်သည်။ ပြီးတော့ ချက်ချင်း ပြန်၍ ရုပ်လိုက်ပြီး အနီး၌ ရပ်နေသည့် ဂျင်ကတ်ဆီအား လှည့်ကြည့်သည်။

"အဖေ သူ့ကို မှတ်မိသလား၊ တရားဟောဆရာလေ၊ ကျွန်တော်နဲ့ လိုက်လာတာ"

"သူလည်း ထောင်ကျခဲ့သလား"

"မဟုတ်ဘူး အဖေ၊ ကျုပ်နဲ့ လမ်းမှာ ဆုံမိခဲ့တာ"

အဖေဂျူတ်က ဂျင်ကတ်ဆီ၏ လက်ကို လှိုက်လှိုက်လှဲလှဲ ဆွဲ၍ နှုတ်ဆက်သည်။

"ကျုပ်တို့က ခင်ဗျားကို ကြိုဆို နှုတ်ဆက်ပါတယ်ဗျာ"

ကတ်ဆီက ပြန်ပြောသည်။ "ဒီနေရာကို ရောက်လာရတာ ဝမ်းသာပါတယ်၊

အိမ်ပြန်လာတဲ့ သားနဲ့ အဖေ ပြန်ဆုံတာကို မြင်ရတာ စိတ်ချမ်းသာစရာပဲ"

"အိမ်ပြန်လာတဲ့သား၊ ဟုတ်လား" ဟု အဖေ ဂျုတ်က ရေရွတ်သည်။

"သူ့မိသားစုဆီ ပြန်လာတာကို ပြောတာပါ" ဟု တရားဟောဆရာက သူ့စကား အများကို ပြန်ပြင်ပြောသည်။ "ကျွန်တော်တို့ မနေ့ညက တစ်နေရာမှာ အတူ အိပ်ခဲ့ကြရတယ်"

အဖေဂျုတ်သည် နောက်သို့လှည့်ကာ လမ်းမဆီသို့ တစ်ခဏမျှ ငေးစိုက်ကြည့် နေသည်။ ထို့နောက် တွမ်ဘက်သို့ လှည့်လာသည်။ "ကဲ ငါတို့ မင်းအမေကို ဘယ်လိုလုပ်ကြမလဲ၊ ငါ အရင်ဆုံး ဝင်သွားနှင့်ပြီး ဧည့်သည်နှစ်ယောက် ရောက်လာတယ်၊ မနက်စာ ကျွေးရမယ်လို့ ပြောရမလား၊ ဒါမှမဟုတ်လည်း အိမ်ထဲဝင်သွားပြီး မင်းအမေက မင်းကို မြင်တဲ့အထိ တစ်နေရာမှာ ရပ်နေမလား" အဖေဂျုတ်၏ မျက်နှာသည် ရွှင်လန်းတက်ကြွမှုဖြင့် အသက်ဝင်လျက် ရှိလေသည်။

"အမေ့ကို လန့်ဖျပ်သွားအောင် လုပ်မနေပါနဲ့တော့ အဖေရယ်" ဟု တွမ်က ပြောသည်။

သိုးစောင့် ခွေးနှစ်ကောင်သည် ခပ်လှမ်းလှမ်းမှ နေ၍ လူစိမ်းနှစ်ယောက်၏ အနံ့ကို ခံသည်။ ထို့နောက် နောက်သို့ ပြန်ဆုတ်ကာ မျှော်ကြည့်နေသည်။ သူတို့ အမြီးများသည် ခပ်ဖြည်းဖြည်း ယမ်းလျက် ရှိလေသည်။ တစ်ကောင်သော ခွေးသည် လည်ပင်းကို ရှေ့သို့ဆန့်ထုတ်ကာ အနံ့ခံပြန်သည်။ ပြီးတော့ ပြေးလာရန် ဟန်ပြင်သည်။ သို့သော်လည်း ပြေးမလာသေးဘဲ ကုပ်ချောင်းချောင်း လုပ်ကာ တွမ်ရှိရာသို့ တဖြည်းဖြည်းချင်း ကပ်လာသည်။ ထို့နောက် သူ့ဘာသာသူ လန့်ဖျပ်ကာ နောက်သို့ ပြန်ဆုတ် သွားပြီး အဖေဂျုတ်၏ မျက်နှာကို မျှော်ကြည့်နေသည်။ မနီးမဝေးမှ ဖြတ်သွားသော ကြက်မတစ်ကောင်ကို မြင်လိုက်သောအခါ သူ့အာရုံ ပြောင်းသွားသည်။ ချက်ချင်းပင် ကြက်မနောက်သို့ အပြေးအလွှား လိုက်လေ၏။ ကြက်မ၏ အော်သံသည် ကျွတ်ကျွတ်ညံသွားသည်။ နီရဲရဲ ကြက်မွေးနှင့် အတောင်များသည် လေထဲတွင် ဝဲပျံလျက် ရှိလေ၏။

"ကဲ လာကြ" ဟု အဖေဂျုတ်က ခေါ်သည်။ "မင်းကို တွေ့လိုက်တဲ့အချိန်မှာ မင်းအမေမျက်နှာ ဘယ်လိုဖြစ်သွားသလဲဆိုတာ ငါ ကြည့်ချင်တယ်၊ တစ်မိနစ်လောက် အတွင်း မနက်စာ ကျွေးနိုင်အောင် လုပ်မှာကတော့ သေချာတယ်၊ စောစောကပဲ သူ

ဝက်သားဆားနယ် ကြော်နေသံ ငါ ကြားမိသေးတယ်” အဖေဂျုတ်က သူတို့ကို ရှေ့မှဦးဆောင် ခေါ်သွားသည်။ ‘ဤအိမ်တွင် ဆင်ဝင် မရှိ။ အိမ်ရှေ့တွင် လှေကားခုံ တစ်ခုမျှသာ ရှိသည်။ ထိုလှေကားခုံပေါ် ကျော်လိုက်လျှင် အိမ်တံခါးသို့ တန်းရောက်သည်။

မိုးမခသား ထင်းမီးအနံ့သည် လေနှင့်အတူ ပါလာသည်။ သူတို့သုံးယောက်သည် တံခါးဝ အရောက်တွင် အသားကြော်နေသည့် အနံ့၊ ဘီစကွတ်မုန့်အနံ့နှင့် ကော်ဖီအနံ့ တသင်းသင်း ထွက်လာနေသည်ကို သတိပြုမိကြ၏။ အဖေဂျုတ်သည် ရှေ့ဆုံးမှနေ၍ တံခါးအဝ၌ ပိတ်ရပ်ကာ အိမ်ထဲသို့ လှမ်းပြောသည်။ “အမေကြီးရေ၊ အခုပဲ ဧည့်သည် နှစ်ယောက် ရောက်လာတယ်၊ မနက်စာ မစားခဲ့ကြရသေးဘူး၊ မျှတပြီး ကျွေးနိုင်မယ်ဆိုရင်တော့ သိပ်ကောင်းမှာပဲ”

တွမ်ဂျုတ် သူ့အမေ အသံကို ကြားရသည်။ အမေ့အသံသည် အေးဆေး တည်ငြိမ်သည် ချိုသာ နူးညံ့သည်။ ရင်းနှီး ဖော်ရွေသည်။ “အိမ်ထဲကို ခေါ်ပါ” ဟု အမေက ပြန်ပြောသည်။ “စားစရာ အများကြီး ရှိတယ်၊ သူတို့ကို လက်ဆေးထားဖို့ ပြောပါ၊ ပေါင်မုန့်လည်း အသင့်ဖြစ်နေပြီ၊ အခု အသားကြော်နေတယ်” မီးဖိုဆီမှ ဆီကြော်သံ တရှဲရှဲ ထွက်လာလျက် ရှိလေသည်။

အဖေဂျုတ် အိမ်တွင်းသို့ လှမ်းဝင်လိုက်သည့်အခါ သူ့အမေကို တွမ်ဂျုတ် မြင်ရသည်။ သူ့အမေသည် မီးဖိုထက်ရှိ ဒယ်အိုးထဲမှ ဝက်သားကြော်များကို ဆယ်ယူလျက် ရှိ၏။ မီးဖိုတစ်ဖက်ရှိ မုန့်ပေါင်းဖိုတံခါးသည် ပွင့်လျက် ရှိလေသည်။ သူ့အမေသည် အလုပ်ရှုပ်နေရာမှ နောက်သို့ လှည့်ကြည့်သည်။ တွမ်၏ နောက်ကျောဘက်မှ ထိုးထားသော နေရောင်ကြောင့် အမေသည် ရပ်နေသူကို မည်သူမည်ဝါမှန်း ခွဲခြား၍ မမြင်နိုင်။ ဝင်းဝါ တောက်ပသော နေရောင်အောက်တွင် လူရိပ်မည်းမည်းကိုသာ တွေ့နေရလေသည်။ သူသည် ချိုသာသော အပြုံးဖြင့် ခေါင်းညိတ်၍ နှုတ်ဆက်သည်။ “ဝင်ခဲ့ပါ” ဟု ဖိတ်ခေါ်သည်။ “ရှင်တို့ ကံကောင်းတယ်၊ ကနေ့မနက် ပေါင်မုန့်တွေ အများကြီး ဖုတ်ထားတယ်”

တွမ်ဂျုတ်သည် သူ့အမေကို မျက်ခြည်မပြတ် စိုက်ကြည့်လျက် ရှိသည်။ အမေ၏ လှုပ်ရှားပုံသည် ဟိုတုန်းကနှင့် မတူ။ မသိမသာကလေး နှေးကွေး လေးလံလာသယောင် ရှိသည်။ ခန္ဓာကိုယ်ကတော့ အဆီတက်ကာ ဝဖြိုးလာခြင်းမျိုး မရှိ။ ကလေးများ

မွေးမြူလာရသည့် ဒဏ်နှင့် အလုပ်ကြမ်း ဒဏ်တို့ကြောင့် အိုစာတော့ ကျလာသည်။ အမေ့ခါးမှ ဂါဝန်သည် ဟိုတစ်ချိန်က ရောင်စုံ ပန်းပွင့်ကလေးများ ဝေဝေဆာဆာနှင့် အလွန် လှပခဲ့သော ဂါဝန် ဖြစ်ပါ၏။ သို့သော်လည်း အခုတော့ဖြင့် လျှော်ရဖန်များလွန်း၍ အရောင်အဆင်း ကင်းမဲ့လျက် ရှိလေပြီ။ ပန်းပွင့်ကလေးများမှာလည်း မှေးမှိန်လျက် ရှိလေပြီ။ အမေ့ဂါဝန်သည် အမေ့ခြေဖျားကို ထိလျက်ရှိ၏။ ကြီးမားသန်စွမ်းသော အမေ့ခြေဖဝါးများသည် ဟိုတုန်းကလိုပင် ကြမ်းပြင်ထက်၌ လျင်မြန် သွက်လက်စွာ လှုပ်ရှားလျက် ရှိသည်။ စုစည်းပြီး နောက်တွဲ ထုံးထားသော အမေ့ ဆံပင်များသည် ခပ်ပါးပါး ခပ်ကျဲကျဲ ဖြစ်နေလေပြီ။ အညိုရောင်လည်း သန်းလျက် ရှိလေပြီ။ ဂါဝန်လက်မောင်းကို တံတောင်ဆစ် အထိ ပင့်လိပ်၍ တင်ထားသဖြင့် အစက်အပြောက်များ ထနေသော လက်များကို မြင်နေရ၏။ အမေ့လက်များသည် ဆူဖြိုး ကျစ်လျစ်သော်လည်း နူးညံ့လှပေသည်။

အမေသည် နေရောင်ဘက်သို့ နောက်တစ်ကြိမ် လှည့်ပြန်သည်။ အမေ့မျက်နှာသည် ပျော့ပျောင်းခြင်းတော့ မရှိ။ သို့သော်လည်း အတွင်းသဘောကို အလွယ်တကူ မဖော်ပြမိအောင် ထိန်းချုပ်ထားသည့် သဘောကို မြင်လာသည်။ မှုန်မှိုင်းရီဝေလျက် ရှိသော အမေ့မျက်လုံးများသည် ဤကမ္ဘာလောကတွင် ဖြစ်လာနိုင်သမျှသော ဝမ်းနည်း ကြေကွဲစရာ အဖြစ်များကို အကြိမ်ပေါင်း မရေမတွက်နိုင် လောက်အောင် ကြုံခဲ့ရပြီးပြီဟု ပြောနေသည့်နှယ် ရှိသည်။ စိတ်၏ ဆင်းရဲခြင်း တည်းဟူသော ဒုက္ခဝေဒနာများကု အနိမ့်ဆုံးမှသည် အမြင့်ဆုံးအထိ ခံစားခဲ့ရဖူးပြီးဖြစ်၍ တည်ငြိမ်ရင့်ကျက်စွာ ရင်ဆိုင်နိုင်ပြီ ဟူသော သဘောကိုလည်း ဆောင်လျက် ရှိသည်။ အမှန်တော့လည်း အမေသည် သာမန် လူသားများ ရှာဖွေမတွေ့နိုင်သော မဟာလူသား တစ်ယောက်၏ သိမြင်နားလည်မှုမျိုးကို ရရှိနေသည်မှာ ကြာခဲ့ပေပြီ။ အမေသည် အချိန်အခါနှင့် အခြေအနေအရ ဖြစ်ပေါ်တည်ရှိလာသည့် သဘူအဆင့်ကို အလွယ်တကူနှင့် နားလည်သည်။ လက်ခံရန်နှင့် ကြုံဆိုရန်လည်း အမြဲတစေ အသင့်ရှိသူ ဖြစ်သည်။

တကယ်တော့ အမေသည် မိသားစု တစ်စုလုံး၏ ရဲတိုက်ကြီး ဖြစ်သည်။ မည်သူကမှ မရယူနိုင်သော အလွန် တောင့်တင်း ခိုင်မာသော နေရာကို လက်ဝယ် ပိုင်ဆိုင်ထားသူ ဖြစ်ချေသည်။ စိတ်ထိခိုက်စရာ သို့မဟုတ် ကြောက်လန့်စရာတစ်ခုဟု အမေက အသိအမှတ် မပြုသေးသမျှ ကာလပတ်လုံး အဖေဂျုတ်နှင့် သားသမီးများသည် စိတ်ထိခိုက်စရာ သို့မဟုတ် ကြောက်လန့်စရာဟု မသိကြချေ။ အမေသည် စိတ်ထိခိုက်စရာ

သို့မဟုတ် ကြောက်လန့်ရာများကိုလည်း ဥပေက္ခာ ပြုနိုင်အောင် အလေ့အကျင့်ပြုထားသူ ဖြစ်လေသည်။

အကယ်၍ မိသားစု အတွင်း၌ ပျော်ရွှင်စရာ အဖြစ်တစ်ခု ပေါ်ပေါက်လာသည် ဆိုပါက အဖေဂျူတ်နှင့် သားသမီးများသည် အမေ ပျော် မပျော် အမေ့ မျက်နှာကို ကြည့်၍ အကဲခတ်လေ့ ရှိကြသည်။ သို့တစေလည်း အမေ ပျော် မပျော်ကို အလွယ်တကူနှင့် သိရှိနိုင်ကြသည် မဟုတ်ပေ။ အမှန်တော့ အမေသည် သူများ ရယ်တိုင်း လိုက်ရယ် တတ်သူတစ်ဦး မဟုတ်ပေ။ အမေသည် လောကကြီး၏ အမြီးအမောက် မတည့်မှုများကို ကြည့်၍ ရယ်တတ်သူ ဖြစ်၏။ သူ့အဖို့ ပျော်ရွှင်ခြင်းထက် တည်ငြိမ် အေးဆေးခြင်းသာလျှင် အကောင်းဆုံးဟု ယူဆလက်ခံသူ ဖြစ်သည်။ အရာရာတိုင်းသည် စိတ်ဓာတ်ကြံ့ခိုင်ခြင်းနှင့် တည်ငြိမ်ခြင်းအပေါ်တွင် လုံးဝ တည်မှီနေသည်ဟုလည်း ယုံကြည်သူ ဖြစ်လေသည်။

အမေသည် သူ့မိသားစုအတွင်း၌ ကြီးကျယ် မြင့်မြတ်သော နေရာကို ရရှိထားသူ ဖြစ်လေရာ ထည်ဝါခန့်ညားသော သိက္ခာနှင့် တည်ငြိမ် သန့်စင်သော အလှကို ပိုင်ဆိုင် ရယူထားသူ ဖြစ်လေသည်။ အနာရောဂါများမှ သက်သာပျောက်ကင်းအောင် ပြုစုကုသ ပေးသူတစ်ဦး အနေဖြင့် ဆိုပါက အမေ့လက်များသည် စေ့စပ်သေချာသည်။ တည်ငြိမ် အေးမြသည်။ မိသားစုအတွင်းရှိ ပြဿနာများကို စီရင်ဆုံးဖြတ်သူတစ်ဦး အနေဖြင့် တွက်လျှင် အမေသည် မလွဲမမှားအောင် အဆုံးအဖြတ် ပြုတတ်သူ ဖြစ်ပေသည်။

အမေသည် သူ့မျက်စိထဲ၌ အမည်းရိပ် တစ်ခုမျှသာ ဖြစ်နေသော နေရာင်အောက်က လူကို ထပ်ကြည့်ပြန်သည်။ ထိုလူ၏ဘေး၌ ရပ်နေသူမှာ အဖေဂျူတ်။ အလွန်စိတ်လှုပ်ရှားလျက် ရှိသော အဖေဂျူတ်သည် ဣန္ဒြေမဆည်နိုင်လောက်အောင်ပင် အခြေပျက်လျက် ရှိသည်။ "လာလေ၊ ဝင်ခဲ့ပါ" ဟု အဖေဂျူတ်က အော်ပြောသည်။ "အထဲကို ဝင်ပါ မစ္စတာ"

ဒယ်အိုးပေါ်၌ ငုံ့လျက်ရှိသော အမေ့မျက်နှာသည် ပြန်၍ မော့လာသည်။ ချိုအေး သာယာသော အပြုံးကို မြင်လိုက်ရသည်။ ထို့နောက် ချက်ချင်းပင် မျက်နှာထား ပြောင်းသွားလေသည်။ အမေ့လက်သည် ဘေးသို့ ဖျတ်ခနဲ ရောက်သွားသည်။ လက်တွင်းမှ ခက်ရင်းသည် ကြမ်းပေါ်သို့ ဒေါက်ခနဲ ကျသွားလေ၏။ အမေ့မျက်လုံးများသည် ပြူးလာသည်။ အသက်ကို ပြင်းစွာ ရှူပြီး ပါးစပ် ဟောင်းလောင်းဖြင့် သူ့သားအား

ငေးစိုက်ကြည့်လျက် ရှိ၏။ ထို့နောက် မျက်လုံးများကို အသာ ပြန်မှိတ်လိုက်သည်။ "ကျေးဇူးတော်ရှင် ဘုရားသခင်" အမေ့နှုတ်မှ တိုးတိုးကလေး ရေရွတ်လိုက်သည့် အသံ။ ချက်ချင်းပင် သောကငွေ့များသည် အမေ့မျက်နှာတွင် ထင်ဟပ်လာသည်။ "တွမ်မီ နင့်ကို ပြန်မလာစေချင်ဘူး၊ ဘယ်လိုနည်းနဲ့ ပြန်လာတာလဲ၊ မင်း ထွက်ပြေးလာသလား"

"မဟုတ်ပါဘူး အမေ၊ ခံဝန်ချုပ်နဲ့ လွတ်လာတာပါ၊ ကျုပ်မှာ စာရွက်စာတမ်းတွေ အပြည့်အစုံ ပါလာတယ်" တွမ်ဂျုတ်က သူ့ရင်ဘတ်ကို ပုတ်ပြသည်။ အမေသည် တုန်ရီချည့်နဲ့သော ခြေလှမ်းများဖြင့် သူ့သားထံသို့ လျှောက်လာသည်။ အမေ့မျက်နှာတွင် အံ့သြခြင်းနှင့် ဝမ်းသာခြင်း။ သေးသွယ် နုးညံ့သော လက်ဖြင့် သူ့သား၏ လက်မောင်းကို လှမ်း၍ ဆုပ်ကိုင်သည်။ ထို့နောက် အမေ၏ တဆတ်ဆတ် တုန်လျက်ရှိသော လက်ချောင်းများသည် သူ့သား၏ မျက်နှာပေါ်တွင် တရွရွ လျှောက်သွားလျက် ရှိလေ၏။ ဝမ်းသာမှု အစွန်းရောက်သွားပြန်တော့လည်း ဝမ်းနည်းစရာတစ်ခု အဖြစ်သို့ ကူးပြောင်းသွားတတ်သည်မှာ လူတို့၏ သဘာဝတစ်ခု မဟုတ်ပါလား။

သားကို တွေ့လိုက်ရသဖြင့် ဝမ်းသာလုံးဆို့လျက် ရှိရှာသော အမေသည် စိတ်နှလုံး ထိခိုက်ကြေကွဲခြင်းဘက်သို့ ယိမ်းယိုင်လာလေသည်။ တွမ်သည် သူ့အောက်နှုတ်ခမ်းကို တအားဖိ၍ ကိုက်ထားသည်။ အဖေသည် သူ့သား၏ နှုတ်ခမ်းတစ်ခုလုံး နီရဲကာ သွေးရောင်လွှမ်းလျက် ရှိနေသည်ကို သတိပြုမိသည်။ ထိုအခါကျတော့လည်း အမေသည် သတိပြန်ဝင်လာသည်။ သူ့စိတ်သူ ထိန်းချုပ်နိုင်သော အစွမ်းကိုလည်း ပြန်၍ ရယူနိုင်လာသည်။ "တော်ပါသေးရဲ့ကွယ်" ဟု အမေက ရေရွတ်သည်။ "မင်း မပါဘဲ ခရီးဝေး ထွက်ကြတော့မလို့၊ ထွက်သာသွားရင်တော့ အမေတို့ကို မင်း ဘယ်နည်းနဲ့မှ ရှာလို့တွေ့မှာ မဟုတ်ဘူး" အမေသည် ကြမ်းပေါ်၌ ကျနေသော ခက်ရင်းကို ကောက်ကာ မီးဖိုဘေး၌ ချထားသော ဒယ်အိုးထဲမှ ဝက်သားကြော် အကျန်ကို ကော်ယူလိုက်သည်။ ပြီးတော့ မီးဖိုပေါ်မှ တပွက်ပွက်ဆူနေပြီး ဝေကျလျက် ရှိနေသော ကော်ဖီအိုးကို ယူ၍ မီးဖို၏ နောက်ဘက်သို့ ချထားလိုက်လေ၏။

အဖေဂျုတ်ကတော့ ခပ်အုပ်အုပ် ကျိတ်၍ ရယ်သည်။ "ဟား... ဟား၊ တို့က မင်းကို အရှုံးလုပ်မယ်လို့ တိုင်ပင်ပြီး လုပ်လိုက်တာ အမေကြီးရေ့၊ အခုတော့ ပြီးသွားပါပြီ၊ မင်း ဖြစ်သွားပုံကိုတော့ အဘိုးဂျုတ် မြင်စေချင်သကွာ၊ သူ ဘယ်လောက်များ သဘောကျလိုက် မလဲ၊ လူတစ်ယောက်က မင်းရဲ့ နာယောင်ကြားကို တူကြီး တစ်လက်နဲ့ နက်လိုက်သလို

ခံသွားရတာပဲ မဟုတ်လားကွ၊ ပေါ၊ အဘိုးဂျုတ်သာ ဒီအဖြစ်ကို မြင်လို့ကတော့ သဘောကျလွန်းလို့ သူ့နဖူး သူရိုက်မှာ သေချာသကွ၊ မင်းအဘိုး သူ့နဖူး သူရိုက်တာကလည်း အသာအယာ ရိုက်တာမျိုး မဟုတ်ဘူးဟေ့၊ သူ့ကိုယ်သူ မထိန်းနိုင်ဘဲ သူ့ဖင် နောက်ထွက်သွားအောင်ကို ချတာ၊ ဟိုတစ်ခါ စစ်တပ်က ပိုင်တဲ့ လေယာဉ်ပျံကြီး တစ်စင်းကို မင်းညီ အယ်လ်က အောက်ကနေ သေနတ်နဲ့ ပစ်တုန်းက အဲသလိုပဲ၊ တစ်နေ့မှာ လေယာဉ်ပျံတစ်စင်း တို့ခေါင်းပေါ်က ပျံလာတယ်၊ အကြီးကြီးကွ၊ မိုင်ဝက်လောက် ကြီးတာ၊ အယ်လ်က သေနတ်ပြေးယူပြီး ပစ်ပါလေရော၊ မင်းအဘိုးက အယ်လ်ကို လှမ်းအော်တယ်၊ အတောင် မပေါက်သေးတဲ့ အကောင်ကို မပစ်နဲ့ကွ၊ သူ့ထက် အသက်ကြီးပြီး အတောင် ပါတဲ့ကောင် လာမှ ပစ်ရတယ်တဲ့၊ ပြီးတော့ စိတ်ပျက်လက်ပျက်နဲ့ သူ့နဖူးသူ ပိတ်ရိုက်လိုက်တာ သူ့ဖင်တောင် နောက်ထွက်သွားတယ်၊ သိလား"

အမေက အသံမထွက်စေဘဲ ကျိတ်၍ရယ်ပြီး ပန်းကန်စင်ပေါ်မှ သံပန်းကန်ပြား တစ်ထပ်ကို လှမ်းယူလိုက်လေသည်။

"အဘိုးကော ဘယ်သွားလဲ၊ အဘိုး ဆိုးပေကြီး ပျောက်နေပါလား" ဟု တွမ်က မေးသည်။

အမေသည် လက်ထဲမှ ပန်းကန်များကို စားပွဲပေါ် ချခင်းသည်။ ပြီးတော့ ကော်ဖီခွက်များကို ယူ၍ ပန်းကန်များဘေးတွင် လျှောက်ချသည်။ "မင်းအဘိုး နောက်ဖေး အဖီ တဲထဲမှာ အိပ်နေတုန်း၊ ညက တစ်ညလုံး ကောင်းကောင်း မအိပ်ကြရဘူး၊ ကလေးတွေကို ခလုတ်တိုက်မိပြီး လဲရာက ထပြီး ရန်ဖြစ်နေကြတယ်လေ" ဟု အမေက ဖြေသည်။

အဖေဂျုတ်က ကြားဝင်၍ ပြောသည်။ "ဟုတ်တယ်ကွ၊ အဘိုးဂျုတ်ကတော့ ညတိုင်း ဒေါသူပုန် ထနေတာပဲ၊ မနေ့ညက သူ့မြေးဝင်းဖီးကို ခလုတ်တိုက်မိပြီး ကျွမ်းပစ်ကျသွားတာ လိမ့်နေတာပဲ၊ ဝင်းဖီးက လန့်ပြီး ထအော်တော့ သူပါ ရောပြီး လန့်သွားပြီး ဒေါသကြီးတော့ တာပဲဟေ့၊ ဒီကြားထဲ သူ့သေးတွေ အတွင်းခံဘောင်းဘီထဲ ထွက်ကျလို့ ရစရာမရှိအောင် ရွှဲရွှဲစိုနေတာ တွေ့လိုက်တော့ သူ့ထုံးစံအတိုင်း ပိုပြီး ဒေါသကြီးလာတာပေါ့၊ အဲ မကြာလိုက်ပါဘူးကွာ၊ သူ့ဒေါသကြောင့် တစ်အိမ်သားလုံး နိုးပြီး ထရန်ဖြစ်ကြတော့တာပဲ၊ တစ်ယောက်နဲ့တစ်ယောက် အော်လိုက် ဟစ်လိုက်ကြတာများ

ကျွက်ကျွက်ကို ညံနေတာပဲ” ဟု ပြောနေရင်းမှပင် အဖေဂျူတ်သည် သူ့စကားသူ သဘောကျကာ ရယ်သည်။ “တွမ်မီရေ၊ တို့မိသားစုလည်း ဒီရောက်ကာမှ အရင်ကထက် ပိုပြီး နီးနီးကြားကြား ဖြစ်နေကြတယ်ကွ၊ ဟိုညကများ အားလုံး စကားပြောရင်း ငြင်းကြ ခုံကြနဲ့ ဆူညံနေတုန်းမှာ မင်းညီ အယ်လ်က သူ့အဘိုကို သွားနောက်တယ်၊ အောင်မယ် မင်းညီက အရင်ကနဲ့ မတူတော့ဘူး၊ အခု လူလည် ဖြစ်နေပြီ၊ အယ်လ်က သူ့အဘိုးကို အဘိုးက အလကားပါ အသုံးမကျပါဘူး၊ အိမ်က ထွက်သွားပြီး ပင်လယ်ဓားပြ ဖြစ်အောင် ဘာပြုလို့ မလုပ်ရတာလဲလို့ သွားပြောတယ်၊ မင်းအဘိုး ဒေါသကုမ္ဘာရက သူ့ကို မရှိမသေ ပြောရပ့်မလားဆိုပြီး သူ့သေနတ်ကို ပြေးယူတော့ အယ်လ် ထွက်ပြေးရတာပေါ့၊ အဲဒီညက အယ်လ် အိမ်ပြန်မအိပ်ဝံ့လို့ လယ်ကွင်းထဲမှာ အိပ်ရတယ်၊ အခုတော့ မင်းအဘွားရော အဘိုးပါ နောက်ဖေး အဖီထဲမှာ အိပ်နေကြတုန်းပဲ”

“သူတို့ အိပ်ရေးဝလောက်ပါပြီ၊ အဖေကြီးက တွမ်မီ ပြန်ရောက်လာတာ သွားပြောလိုက်ပါဦး၊ တွမ်မီက အဘိုးရဲ့ အချစ်တော်” ဟု အမေက လှမ်းပြောသည်။

“အေး ဟုတ်ပါရဲ့၊ သွားပြောလိုက်ဦးမှ၊ ငါ စောစောကတည်းက သွားပြောဖို့ ကောင်းတာ” အဖေဂျူတ် အိမ်ထဲမှ ထွက်ကာ နောက်ဖေးဘက်သို့ သွားသည်။ တွမ်က သူ့အဖေကို မျက်စိတဆုံး လိုက်ကြည့်နေသည်။

“တွမ်မီ” အမေက ကော်ဖီငှဲ့ထည့်နေရာမှ တွမ်ကို မော့မကြည့်ဘဲ လှမ်းခေါ်သည်။ အမေ့အသံကို ကြားကာမှပင် တွမ်သည် သတိပြန်ဝင်လာသည်။

“ဟုတ်ကဲ့ အမေ” ဟု တွမ်က အသံ ပြန်ပေးသည်။

“အမေ တစ်ခု မေးချင်တယ်၊ မင်း ရူးတော့ ရူးမလာပါဘူးနော်”

“ကျုပ် ရူးရမယ်၊ ဟုတ်လား အမေ”

“အေး ဟုတ်တယ်၊ အရူးရောဂါ ဖြစ်နိုင်တဲ့အဆိပ် မင်းဆီမှာ ကပ်မလာဘူး မဟုတ်လား ဟင်၊ ထောင်ဆိုတာ ကောင်းတဲ့နေရာ မဟုတ်ဘူး တွမ်မီ၊ ထောင်ထဲမှာ သူတို့က မင်းကို စိတ်ရိုင်းစိတ်မိုက်တွေ ဝင်အောင် လုပ်မလွှတ်လိုက်ကြဘူးလား၊ မင်းမှာ လူတွေကို မုန်းတဲ့စိတ်ကော ပါမလာဘူးလား ဟင်”

တွမ်က အမေ့မျက်နှာကို စေ့စေ့ကြည့်၍ အကဲခတ်သည်။ သူ့မျက်လုံးများသည် "ဒါတွေကို အမေ ဘယ်လိုနည်းနဲ့ သိနေတာလဲ" ဟု မေးလိုသည့် အရိပ်အငွေ့များ ယှက်သန်းလျက် ရှိနေသည်။ "ကျွန်တော် ထောင်ထဲမှာ နေခဲ့ရတာ ကြာမှ မကြာဘဲ အမေရယ်၊ ဒါတွေ မဖြစ်ခဲ့ပါဘူး" ဟု တွမ်က ဖြေသည်။ "ပြီးတော့လည်း နေခဲ့ရတဲ့ အချိန်အတွင်းမှာ ထောင်ကျရတာကို အကောင်းကြီး လုပ်ပြီး ဂုဏ်ယူနေခဲ့တဲ့ လူမှ မဟုတ်တာ၊ ထောင်ဝန်ထမ်း တွေနဲ့လည်း အဆင်ပြေအောင် နေခဲ့တာပဲ၊ ဘာပြုလို့ ဒါတွေကို မေးနေရတာလဲ အမေ"

အမေက တွမ်၏ မျက်နှာ စူးစူးရဲရဲ ကြည့်သည်။ အမေ့မျက်လုံးများသည် တွမ်ပြောနေသည့် စကားများ မှန် မမှန်ကို စူးစမ်းရှာဖွေလျက် ရှိ၏။ အမေ့မျက်နှာသည် စကားများနောက်တွင် ပုန်းကွယ်နေတတ်သည့် အဖြေမှန်ကို ရှာဖွေလျက် ရှိသည်။ အမေသည် စိတ်ရှုပ်ထွေးသော အမူအရာဖြင့် တွမ်၏ အမေးကို ဖြေသည်။

"လူချောလေး ဖလွိုက်လို့ ခေါ်တဲ့ ကောင်လေး တစ်ယောက်ကို အမေ သိခဲ့ဖူးတယ်၊ သူ့အမေနဲ့လည်း ခင်ခဲ့ဖူးတယ်၊ သူတို့ မိသားစုဟာ လူရိုး လူကောင်းတွေပဲ၊ ဖလွိုက် ကိုယ်တိုင်ကလည်း လူရိုးလူအေးလေး တစ်ယောက်ပါ"

အမေက စကားကို ဖြတ်၍ ရပ်ထားပြီး တွမ်ကို တစ်ချက် ကြည့်သည်။

"ဖြစ်သမျှ အားလုံးကိုတော့ အစအဆုံး ခရေစေ့တွင်းကျ အမေ မသိခဲ့ဘူး၊ အမေ သိသမျှကတော့ တစ်နေ့မှာ ဒီသူငယ်ဟာ အမှားတစ်ခုကို လုပ်ခဲ့မိတယ်၊ သူတို့က ဖလွိုက်ကို ဒဏ်ရာ အနာတရ ဖြစ်အောင်လုပ်ပြီး ဝိုင်းဖမ်းခဲ့ကြတယ်၊ မိပြန်တော့လည်း မညှာမတာ ဝိုင်းပြီး နှိပ်စက်ကြတယ်၊ အဲဒီတော့ ဖလွိုက်ဟာ စိတ် သိပ်နာကြည်းပြီး အရူးလို ဖြစ်သွားခဲ့တယ်၊ ဖလွိုက်ဟာ နောက်တစ်ကြိမ် အမှားတစ်ခုကို ကျူးလွန်ပြန်ရော၊ ဒီတစ်ခါကျတော့ ရိုးရိုးသားသား ဖြစ်လာတာ မဟုတ်တော့ဘူး၊ ပထမအကြိမ်က ခံခဲ့ရတဲ့ ဒဏ်ရာ ဒဏ်ချက်ကြောင့် စိတ်က မမှန်တော့လို့ ဖြစ်ရတာ၊ ဒီတစ်ကြိမ်မှာလည်း သူတို့က ဖလွိုက်ကို ရက်ရက်စက်စက် ထိခိုက်နာကျင်အောင် လုပ်ခဲ့ကြပြန်တယ်၊ မကြာလိုက်ပါဘူး၊ ဖလွိုက်ဟာ တကယ့်လူဆိုး ဖြစ်လာတယ်၊ သူတို့က ဖလွိုက်ကို လူဆိုး ဓားပြတစ်ယောက်လို သေနတ်နဲ့ လိုက်ပစ်တယ်၊ ဖလွိုက်ကလည်း ပြန်ပစ်တယ်၊ ဒီနောက်တော့ သူတို့ဟာ ဖလွိုက်ကို ကိုယိုးတီး ဝံပုလွေတစ်ကောင် လိုက်သလို

လိုက်တော့တာပေါ့၊ ဖလွှိုက်ကလည်း ရှုံးနေပြီ၊ လူနဲ့ မတူတော့ဘူး၊ ထွက်ပြေးနေရတယ်၊ ဒါပေမဲ့ သူ့အကြောင်း သိနေတဲ့ လူတွေကတော့ သူ့ကို ဒုက္ခမပေးကြဘူး၊ သူကလည်း အဲဒီလူတွေအပေါ်ကျတော့ ရန်မလုပ်ဘူး၊ နောက်ဆုံးမှာတော့ သူတို့က ဖလွှိုက်ကို မမိမိအောင်လုပ်ပြီး သတ်ပစ်လိုက်ကြတယ်၊ သူတို့က ဖလွှိုက် ဘယ်လောက် ဆိုးတယ်ဘာညာနဲ့ သတင်းစာထဲမှာ ထည့်ကြတယ်၊ ဒါကတော့ အဓိက မဟုတ်ပါဘူး၊ အမေပြောချင်တာက အဖြစ်အပျက်ကိုပါ" အမေက ခြောက်သွေ့နေသော သူ့နှုတ်ခမ်းများကို လျှာနှင့် လျက်လိုက်သည်။ "အမေ သိမှ ဖြစ်မယ် တွမ်မီ၊ သူတို့က မင်းကို သိပ်ပြီး ထိခိုက်နာကြည်းသွားစေအောင် လုပ်လွှတ်လိုက်သလား၊ သူတို့က မင်းကို ဖလွှိုက် ဖြစ်သလိုဖြစ်သွားအောင်များ လုပ်ခဲ့ကြသလား"

တွမ်သည် နှုတ်ခမ်းများကို တင်းကျပ်စွာ စေ့ကာ တုတ်ခိုင်ကြီးမားလာသော သူ့လက်နှစ်ဖက်ကို ငုံ့ကြည့်နေသည်။ "မ.. မလုပ်ဘူး အမေ" ဟု ပြောသည်။ "အဲသလောက်အထိ မဖြစ်ခဲ့ပါဘူး" သူသည် စကားကို မဆက်သေးဘဲ ခရုခွံကွဲသို့ မာကျောပြီး ပွဲနေသော လက်သည်းများကို သေသေချာချာ ပြန်ကြည့်နေသည်။ "အဲသလိုအဖြစ်မျိုး မရောက်အောင် ကျုပ်ကိုယ်တိုင်ကလည်း သတိထားပြီး ရှောင်ခဲ့ပါတယ်၊ သူ့လောက် နာကြည်းစရာ အဖြစ်မျိုးနဲ့တော့ မကြုံခဲ့ရပါဘူး"

အမေသည် သက်ပြင်းတစ်ချက် ချကာ "အမေတို့ ဘုရားသခင်ကို ကျေးဇူးတင်ရမှာ ပေါ့ကွယ်" ဟု တိုးတိုးသာသာ ရေရွတ်သည်။

တွမ်က ခေါင်းငုံ့နေရာမှ ဖျတ်ခနဲ မော့ကြည့်သည်။ "ကျုပ်တို့အိမ်ကို သူတို့ဘာလုပ် ထားကြတာလဲ အမေ၊ ကျုပ် အခုလာရင်းနဲ့ မြင်ခဲ့ရတာ"

အမေက တွမ် အနီးသို့ လျှောက်လာပြီး ကပ်၍ ရပ်သည်။ ပြီးတော့ စိတ်အားထက်သန်စွာဖြင့် ပြောသည်။ "သူတို့ကို မင်းတစ်ယောက်တည်းက အန်တုလို့တော့ မရနိုင်ဘူး တွမ်မီ၊ တစ်ယောက်တည်း ဆိုရင်တော့ မင်းကို သူတို့က ကိုယ်ယိုးတီး ဝံပုလွေတစ်ကောင် လိုက်သလို ဝိုင်းလိုက်ကြမှာပဲ၊ အမေတော့ ဒီကိစ္စကို တွေးကြည့်ပြီးပြီ၊ စိတ်ကူးယဉ်ကြည့်ပြီးပြီ၊ သူတို့က ပြောတယ်၊ အမေတို့လို လူစားမျိုးတွေ ထောင်သောင်းမက နှင်ထုတ်ပြီးပြီတဲ့၊ တကယ်လို့ အမေတို့ အားလုံး စိတ်တူ သဘောတူနဲ့

တညီတညွတ်တည်း ဖြစ်ကြမယ် ဆိုရင်တော့ သူတို့ ဘယ်သူ့ကိုမှ မောင်းထုတ်နိုင်မှာ မဟုတ်ဘူး"

တွမ်သည် အမေ့မျက်နှာကို စူးစူးစိုက်စိုက် ကြည့်နေရာမှ မျက်လွှာများကို ချလိုက်သည်။ "ကျုပ်တို့ လူတွေကကော အမေ တွေးသလို တွေးကြရဲ့လား" ဟု မေးသည်။

"ဒါတော့ အမေလည်း မသိဘူး၊ အခုတော့ဖြင့် သူတို့အားလုံး ကြောင်နေကြတယ်၊ အိပ်ချင်မူးတူးနဲ့ ဖြစ်နေတဲ့ လူတွေလို ကယောင်ချောက်ချား ဖြစ်ပြီး ခြေဦးတည့်ရာ လျှောက်သွားနေကြတာပဲ"

အပြင်မှ စကားပြောသံသည် အိမ်တွင်းသို့ ဝင်လာသည်။ အသံမှာ ဆိတ်ငြိမ်သံနှင့် တူလှ၏။ "အေး အေး အောင်မြင်မှုအတွက် ဘုရားသခင်ရဲ့ ဂုဏ်တော်ကို ပူဇော်ကြရမယ်၊ ဘုရားသခင်ရဲ့ ဂုဏ်ကို ချီးမွမ်းထောမနာ ပြုကြရမယ်"

တွမ်က နောက်သို့ လှည့်ကြည့်ပြီး ပြုံးသည်။ "ကျုပ် ပြန်ရောက်တာ အဘွား သိပြီ အမေ" ဟု ပြောသည်။ "အမေတို့ အခုလို အဖြစ်မျိုးနဲ့ အရင်က တစ်ခါမှ မကြုံခဲ့ဖူးဘူးနော်"

အမေ့ မျက်နှာထားသည် တင်းလာသည်။ မျက်လုံးအစုံသည် အေးစက်မာကျောလာသည်။ "ငါ့အိမ်ကို အခုလို ဖြိုဖျက်ပစ်တာမျိုး ငါ့တစ်သက်မှာ တစ်ခါမှ မံခဲ့ရဖူးဘူး" ဟု အလွန် နာကြည်းသော အသံဖြင့် ပြောသည်။ "မိသားစု တစ်စုလုံးကို လမ်းပေါ် ရောက်သွားအောင် ခြေသလုံးအိမ်တိုင် ဘဝမျိုး ရောက်သွားအောင် လုပ်တာလည်း ဘယ်တုန်းကမှ မခံခဲ့ရဖူးဘူး၊ ငါ့ပစ္စည်းတွေကို အခုလို တစ်ခုမကျန် ရောင်းပစ်ရတဲ့ အဖြစ်မျိုးနဲ့လည်း ဘယ်တုန်းကမှ မကြုံခဲ့ဖူးဘူး၊ ဟော သူတို့ လာကြပြီ"

အမေသည် မီးဖိုဆီ ပြန်သွားသည်။ မီးဖိုပေါ်ရှိ ဒယ်အိုးထဲမှ သီးစုံရော၍ ပြုလုပ်ထားသော ဘီစကွတ်မုန့်များကို သံပန်းကန် နှစ်ချပ်ထဲသို့ ကော်ခပ်ထည့်သည်။ အမဲဆီ အသင့် ထည့်ထားသည့် အိုးထဲသို့ ဂျုံလက်တစ်ဆုပ် ယူ၍ ထည့်သည်။ ဟင်းအရည် တစ်ခွက်ချက်ရန် ပြင်ဆင်ခြင်းပေတည်း။ ဂျုံမှုန့်များ ကပ်လျက်ရှိသော အမေ့ လက်တစ်ဖက်သည် ဖြူဖွေးလျက် ရှိလေသည်။ တွမ်သည် အမေ လုပ်ကိုင်နေပုံကို စိတ်ဝင်တစား ငေးမောနေမိသည်။ ထို့နောက် အိမ်ရှေ့တံခါးဆီသို့ လျှောက်သွားလေ၏။

လူလေးယောက်သည် အိမ်ဘက်သို့ လျှောက်လာလျက် ရှိသည်။ ရှေ့ဆုံးမှ အဘိုးဂျုတ်။ အဘိုးဂျုတ်သည် ခပ်ပိန်ပိန်လှီလှီနှင့် သွက်လက် မြူးကြွသော အဘိုးအို တစ်ယောက် ဖြစ်၏။ သူ့ခြေလှမ်းများသည် အဆစ်လွဲထားသော ညာဘက်ခြေထောက်ကို ညှာ၍ လျှောက်နေရသဖြင့် ထောက်ကြွ ထောက်ကြွ ဖြစ်လျက် ရှိသော်လည်း လျင်မြန် သွက်လက်သည်။ သူသည် လျှောက်သွားနေရင်းမှ အပေါ်မှ ထပ်ဝတ်လာသည့် အင်္ကျီ ကြယ်သီးများကို တပ်လာသည်။ တုန်ချည့်ချည့် ဖြစ်နေသော သူ့လက်များသည် ကြယ်သီး ပေါက်ရှာသည့် အလုပ်ဖြင့် ဗျာများလျက် ရှိလေသည်။ သူသည် အပေါ်ဆုံး ကြယ်သီးကို ဒုတိယကြယ်သီးပေါက်တွင် တပ်ထားမိသဖြင့် အင်္ကျီတစ်ထည်လုံး ရွဲ့စောင်းကာ ဖော်ထိုးမိုးမျှော် ဖြစ်လျက်ရှိ၏။ ခါးတွင် ဝတ်ထားသည့် အညိုရောင် ဘောင်းဘီမှာ အပေါက်အပြဲ ဗရပွနှင့် ပေရေညစ်ပတ်လျက် ရှိလေသည်။ ကိုယ်ပေါ်မှ အပြာရောင် ရှပ်အင်္ကျီသည် ရင်ဘတ်ဟောင်းလောင်း ပွင့်ကာ အောက်ဆုံးမှ ခံဝတ်ထားသည် ကြယ်သီး တပ်မထားသော စပို့ရှပ် ညစ်ထေးထေးကို လှစ်ပြထားသည့်နှယ် ဖြစ်လျက် ရှိလေ၏။ ဖြူဖွေးသော ရင်ဘတ် ပြားချပ်ချပ်ပေါ်မှ ဖြူဖြူဖွေးဖွေး အမွေးအမှင်များသည် စပို့ရှပ်အင်္ကျီ အပြင်သို့ ထိုးထွက်လျက် ရှိကြလေသည်။

သူ၏ ပိန်ပါးပါး သွယ်လျလျ မျက်နှာသည် အမြဲတစေ စိတ်တက်ကြွ လှုပ်ရှားတတ်သော သဘောကို ဖော်ပြနေသည်။ ကြည်လင်တောက်ပသော မျက်လုံး အစုံသည် ခပ်ဆိုးဆိုး ခပ်တေတေ ကလေးသူငယ်တစ်ယောက်၏ မျက်လုံးများနှင့် တူနေသည်။ သူ့မျက်နှာသည် စိတ်တိုလွယ်တတ်သော၊ ခံနိုင်ရည်အားနည်းသော၊ ပေါ့ပေါ့ တန်တန် နေတတ်သော၊ ပြောင်တတ်နောက်တတ် ပျော်ပျော်နေတတ်သော သူ၏ စိတ်နေ သဘောထား များကို ပေါ်လွင်အောင် ဖော်ပြလျက် ရှိပေသည်။

တကယ်တော့လည်း အဘိုးဂျုတ်သည် ငြင်းလိုက်ခုံလိုက် ရန်ဖြစ်လိုက်၊ ညစ်တီး ညစ်ပတ် ပုံပြင် ဝတ္ထုနှင့် အကြောင်းအရာများကို ပြောလိုက် လုပ်နေရမှ ကျေနပ်သူ ဖြစ်သည်။ သူသည် အလိုရမ္မက်ကြီးသူ ဖြစ်၏။ ခပ်ဆိုးဆိုး ခပ်တေတေသမား ဖြစ်၍ ရက်စက်သောစိတ် ရှိသည်။ ချုပ်တည်း သည်းခံနိုင်သော အလေ့အထလည်း မရှိ။ မိဘများ၏ အလိုလိုက်ခြင်းကို ခံထားရသော ကလေးဆိုးတစ်ယောက်နှင့် တူသည်။ အရက် သောက်လျှင်လည်း ရသလောက်ကို အလွန်အကျွံ သောက်ရမှ၊ အစာစားပြန်လျှင်လည်း မတန်တဆ စားရမှ၊ စကားပြောလျှင်လည်း တစ်ချိန်လုံး သူကချည်း ဒိုင်ခံ၍ အများကြီး

ပြောရမှ။ အဘိုးဂျုတ်အား သူ လုပ်ချင်သည့်အရာ မှန်သမျှကို အလွန်အကျွံ လုပ်ရမှ ကျေနပ်အားရသည့် လူစားတစ်ဦးပေတည်း။

သူ့နောက်မှ ခြေ ထော့နင်း ထော့နင်းနှင့် လိုက်ပါလာသူမှာ အဘွားဂျုတ် ဖြစ်သည်။ အစုအချိန်ထိ အဘွားဂျုတ် အသက်နှင့်ကိုယ် တည်မြဲနေခြင်းမှာ သူ့ယောက်ျား နေသလို ခပ်ဆိုးဆိုး ခပ်တေတေ လိုက်၍ နေနိုင်ခြင်းကြောင့် ဖြစ်ပေသည်။ တကယ်တော့ အဘွားဂျုတ်သည် သူ့မှာ ရှိနေသည့် မဖြစ်စလောက် ဗဟုသုတလေးအပေါ် အခြေခံ၍ ဘာသာရေးဆိုင်ရာ ဝေယျာဝစ္စများကို သူ နားလည်သဘောပေါက်သလို လိုက်နာ လုပ်ကိုင်ပြီး သူ့ကိုယ်ပိုင်မှုနှင့်သူ နေထိုင်ခဲ့သူ ဖြစ်သည်။

တစ်ခါက လင်မယားချင်း စကားများခဲ့ကြရာ ဒေါသကို မထိန်းနိုင်တော့သည့် အဘွားဂျုတ်သည် သူ့ယောက်ျား အဘိုးဂျုတ်အား ပြောင်းတို နှစ်လုံးပြူးသေနတ်ဖြင့် နှစ်ချက်တိတိ ပစ်ခဲ့ဖူးသည်။ သေနတ်ကျည်ဆန်သည် အဘိုးဂျုတ်၏ တင်ပါးတစ်ဖက်ကို ရှပ်၍ မှန်သွားခဲ့၏။ ကံကြီးလွန်း၍ တစ်ဖင်လုံး ပြုတ်ပါမသွားခြင်း ဖြစ်လေသည်။ ထိုကဲ့သို့ ဖြစ်ပွားပြီးနောက် အဘိုးဂျုတ်သည် သူ့မိန်းမအား တအံ့တသြ ချီးကျူးထောမနာ ပြုသည်။ ကလေးများက ပိုးကောင် မွှားကောင်များကို နှိပ်စက်ညှဉ်းပန်းသလို အဘွားဂျုတ်အား ကိုယ်စိတ်နှစ်ပါး ဆင်းရဲအောင် နှိပ်စက်ညှဉ်းပန်းခြင်း ပြုတတ်သည့် အလေ့အထလည်း ပျောက်သွားခဲ့၏။ အဘွားဂျုတ်သည် သူ့ဝသီအတိုင်း "အောင်မြင်မှုအတွက် ဘုရားသခင်ကို ပူဇော်ကြရမယ်" ဟူသော သူ ရွတ်နေကျ စကားကို အဆက်မပြတ် ရွတ်ကာ အဘိုးဂျုတ်နှင့် ပြိုင်၍ လျှောက်လာလျက် ရှိလေသည်။

သူတို့ နောက်မှ ခပ်ဖြည်းဖြည်း ခပ်မှန်မှန် လျှောက်လာနေသူ နှစ်ဦးမှာ အဖေဂျုတ်နှင့် နိုအာဂျုတ်တို့ ဖြစ်သည်။ အကြီးဆုံးသား ဖြစ်သော နိုအာသည် အရပ်မြင့်မြင့်နှင့် ထူးဆန်းသော အသွင်အပြင် ရှိသည်။ လမ်းလျှောက်သွားနေရသည့် အခါများတွင် နိုအာ၏ မျက်နှာထားသည် တစ်မျိုး ဖြစ်နေတတ်သည်။ သူ့ပတ်ဝန်းကျင်ရှိ အရာရာတိုင်းကို အံ့သြ တွေဝေသော နားမလည်နိုင်သော မျက်နှာထားမျိုးဖြင့် ကြည့်နေ တတ်လေသည်။ နိုအာသည် သူ့ဘဝ တစ်လျှောက်လုံးတွင် တစ်ကြိမ်တစ်ခါမျှ ဒေါသဖြစ်ခဲ့ ဖူးသူ မဟုတ်ပေ။ ဒေါသကြီးနေသည့် လူများကို တွေ့ရလျှင် တအံ့တသြ ဖြစ်ကာ နားမလည်နိုင်သည့် အမှုအရာဖြင့် ကြည့်နေတတ်သူ ဖြစ်သည်။ သာမန် လူကောင်း တစ်ယောက်က အရူးများကို ကြည့်နေရသည့်နယ် မသာယာသောစိတ်ဖြင့် ကြည့်နေ

တတ်သူ ဖြစ်၏။ နိအာသည် နေးကွေးလေးလံစွာ လှုပ်ရှားတတ်သူ ဖြစ်သည်။ နိအာသည် စကားလည်း အလွန်နည်းသည်။ အလွန် စကားပြောခဲသူ ဖြစ်သည်။ သူ၏ နေးကွေးလေးလံမှုနှင့် စကားနည်းမှုတို့ကြောင့် သူ့အား တစ်ခါတစ်ရံမျှသာ တွေ့ဖူး မြင်ဖူးသူများက သူ့အား လူအ လူနုံတစ်ယောက်ဟု အထင်ရောက်တတ်ကြသည်။ အမှန်တော့ နိအာသည် လူနုံ လူအတစ်ယောက် မဟုတ်။ လူထူး လူဆန်းတစ်ယောက်မျှသာ ဖြစ်လေသည်။

နိအာတွင် မာန်မာန မရှိသလောက် နည်းသည်။ ကာမစိတ် ဆို၍လည်း မရှိသလောက်ပင် ဖြစ်၏။ အလုပ် လုပ်သည့် အခါများနှင့် အိပ်သည့် အခါများတွင်လည်း နိအာသည် ထူးဆန်းသော အလေ့အကျင့်များကို ပြတတ်သည်။ သူသည် သူ့မိသားစုကို အလွန် ချစ်သည်။ သို့သော်လည်း သူ ချစ်ကြောင်းကို ဘယ်တော့မှ သိသာအောင်ပြခြင်း မပြုပေ။ ထိုကဲ့သို့ ဖြစ်နေရခြင်း၏ အကြောင်းရင်းကို မည်သူမျှ အတိအကျ မပြောပြနိုင်ကြသော်လည်း သူ့ဦးခေါင်း၊ သူ့ခန္ဓာကိုယ်၊ သူ့ခြေထောက်များနှင့် သူ့စိတ်တို့၏ အချိုးအစား ပုံမမှန်မှုကြောင့် ဖြစ်တန်ရာ၏ ဟူသော အတွေးအထင်မျိုး ဝင်ရောက်သွားအောင် နိအာ၏ ရုပ်အဆင်းအင်္ဂါက စေ့ဆော်ပေးလျက် ရှိလေသည်။ မည်သို့ပင် ဖြစ်စေ နိအာသည် အခြားသော ကိုယ်လက်အင်္ဂါ မသန်မစွမ်း ဖြစ်နေသူများနှင့်ကား များစွာ ခြားနားလှပေသည်။

အဖေဂျုတ်ကတော့ သူ့သား နိအာတွင် ရှိလာသည့် ထူးဆန်းသော အပြုအမူများ၏ အကြောင်းရင်းကို သူ သိသည်ဟု ထင်သည်။ သို့သော်လည်း လူအများ သိသွားမည်ကို ရှက်ကြောက်သောစိတ်ကြောင့် လုံးဝ ထုတ်ဖော် ပြောကြားခြင်း မပြုချေ။ နိအာကို မွေးခဲ့သော ညက အဖြစ်။ သူ့မိန်းမသည် ပေါင်နှစ်ချောင်း ဖြဲကားပြီး ဝက်အော်သလို အော်နေရသည်။ သူ့မိန်းမ အနီးတွင် သူတစ်ယောက်တည်း။ သူ့မိန်းမ၏ ကြောက်မက်ဖွယ်ရာ ကောင်းသည့် အော်သံကို နားထောင်ရင်း ဆောက်တည်ရာ မရနိုင်လောက်အောင် တုန်လှုပ် ချောက်ချားခဲ့ရ၏။ ဤတုန်လှုပ် ချောက်ချားမှုကြောင့် သူသည် အရူးတစ်ယောက်သဖွယ် ဖြစ်ခဲ့ရလေသည်။ သူသည် သူ၏ လက်နှစ်ဖက်နှင့် သူ၏ သန်မာသော လက်ချောင်းများကို ညှပ်သဖွယ် အသုံးပြုကာ ဗိုက်ထဲမှ ကလေးကို ဆွဲထုတ်ခဲ့ရသည်။ ကလေးငယ်သည် အချိုးအစား မကျသော ပုံပန်းဖြင့် အမိဝမ်းထဲမှ အပြင်သို့ ရောက်လာခဲ့ရ၏။

ဝမ်းဆွဲ ရောက်လာသောအခါ ကလေး၏ ဦးခေါင်းမှာ ပုံပန်းပျက်နေပြီး လည်ပင်းမှာ ရှည်ထွက်ကာ ကိုယ်ခန္ဓာတစ်ခုလုံး လိမ်တွန့် ကွေးကောက်နေသည်ကို တွေ့ရလေ၏။ ဝမ်းဆွဲသည် ရှည်ထွက်သော ခေါင်းကို သူ့နဂိုအတိုင်း ဖြစ်သွားအောင် တွန်းချပေးသည်။ အချိုးအစားမကျ ဖြစ်နေသော ခန္ဓာကိုယ်ကိုလည်း အချိုးစား ကျနိုင်သမျှ ကျလာအောင် သူ့လက်နှစ်ဖက်ဖြင့် ပြန်လည် ပြုပြင်ပေးသည်။ အဖေဂျူတ်သည် ဤအဖြစ်ကို မေ့၍မရ။ အမြဲတစေ သတိရသည်။ ကြုံခဲ့ရသည့် အဖြစ်ကို တွေး၍ ရှက်လည်း ရှက်သည်။

အဖေဂျူတ်သည် သူ့သားသမီးများထဲတွင် နိုအာကို ပို၍ သနား ကြင်နာသည်။ နိုအာ၏ ကြီးမားသော မျက်နှာတွင် မျက်လုံးနှစ်လုံးသည် တစ်လုံးနှင့်တစ်လုံး အလှမ်းများစွာ ဝေးလျက်ရှိ၏။ ပါးရိုးသည် ပုံပန်းမကျလောက်အောင်ပင် ရှည်လျားလျက် ရှိသည်။ ပါးရိုးကို မြင်လိုက်တိုင်း အဖေဂျူတ်သည် ပိန်လိမ် တွန့်ခေါက်နေသော ကလေးငယ်၏ ဦးခေါင်းကို ပြေး၍ သတိရစမြဲ။ ခန္ဓာကိုယ် အချိုးအဆက် မပြေမပြစ် ဖြစ်နေသော နိုအာသည် စာရေးနိုင် ဖတ်နိုင်သည်။ အလုပ် လုပ်နိုင်သည်။ ကောင်းစွာ မြော်မြင် မှန်းဆနိုင်သည်။ သို့သော်လည်း သတိကျတော့ ရှိပုံမရ။ သူ့ပတ်ဝန်းကျင်ရှိ လူများနှင့် အရာဝတ္ထုများပေါ်တွင် သိပ်ပြီး စိတ်ဝင်စားဟန် မတူ။ သူသည် ထူးခြား တိတ်ဆိတ်လွန်းလှသော သီးခြား ကမ္ဘာလေးအတွင်း၌ နေထိုင်ကာ ထိုကမ္ဘာလေး၏ အပြင်သို့ အေးဆေး တည်ငြိမ်သော မျက်လုံးအစုံဖြင့် လှမ်းမျှော် ကြည့်နေတတ်သည်။ သူ့ပတ်ဝန်းကျင်ရှိ လောကတစ်ခုလုံးအတွက် သူသည် လူထူးလူဆန်း တစ်ယောက် ဖြစ်သော်လည်း သူ့ဘဝသည် အထီးကျန်နိုင်ခြင်းတော့ မရှိပေ။

လူလေးဦးသည် ခြံဝင်းကို ဖြတ်ကာ အိမ်ဘက်သို့ လျှောက်လာလျက် ရှိလေသည်။ အဘိုးဂျူတ်၏ ပါးစပ်ကတော့ သူ့အကျင့်အတိုင်း အငြိမ်မနေ။ "သူ ဘယ်သူ့မှာလဲ၊ ငါ့လခွီးတဲ့မုပဲ၊ သူက အခု ဘယ်မှာလဲ" ဟု ရေရွတ်လာသည်။ သူ့လက်ချောင်းများသည် အယောင်ယောင်အမှားမှား ဖြစ်ကာ ဘောင်းဘီ ကြယ်သီး များကို ကိုင်၍ ဖြုတ်တော့မည့်ဟန် ပြုသည်။ ပြီးတော့ ချက်ချင်း သတိမေ့သွားကာ ဘောင်းဘီအိတ်ထဲသို့ ထိုးထည့်သည်။

ထို့နောက်တော့ အိမ်ရှေ့တံခါးဝ၌ ရပ်နေသည့် တွမ်ဂျူတ်ကို လှမ်းမြင်သည်။ ထိုအခါ ရုတ်တရက် ဆက်မလျှောက်ဘဲ ရပ်လိုက်သည်။ သူ ရပ်လိုက်သောအခါ ကျန်လူ

သုံးဦးလည်း ရပ်နေသည်။ အဘိုးဂျုတ်၏ သေးငယ် စူးရှသော မျက်လုံးများသည် တလက်လက် တောက်ပလျက် ရှိလေသည်။ "ကြည့်လိုက်ကြစမ်းပေါ့" ဟု အော်ကြီး ဟစ်ကျယ် ပြောသည်။ "တွေ့ကြတယ် မဟုတ်လား၊ ထောင်ထွက်ကောင်ကို၊ ငါတို့ ဂျုတ် မိသားစုထဲက တစ်ကောင်မှ ထောင်ထဲကို မရောက်ဖူးဘူး" အဘိုးဂျုတ်၏ စိတ်သည် အရှိန်မြင့်တက်လာသည်။ "သူ့ကို ထောင်ချခွင့် မရှိဘဲနဲ့ ချတာကွ၊ အမှန်တော့ သူ လုပ်တာဟာ ငယ်ငယ်က လုပ်သလို လုပ်ခဲ့တာ၊ ခွေးမသားတွေ ထောင်မချသင့်ဘဲ ချတယ်ကွာ" သူ့စိတ်သည် စောစောကထက် ပို၍ အရှိန်တက်လာသည်။ "ဟိုအကောင် တန်းဘူးလ်၊ တောင်တော် လေဖင်ခေါင်းကျယ်တယ်၊ မင်း ထောင်က ထွက်လာရင် သေနတ်နဲ့ ဘယ်လို ပစ်သတ်လိုက်မယ်လေး ဘာလေးနဲ့ ကြိမ်းဝါးနေလိုက်တာ၊ အောင်မယ်၊ သူ့မှာ ဟက်ဖီးလ်သွေး ပါတယ်တဲ့၊ လက်စားမချေရရင် မနေဘူးတဲ့၊ ဘာရမလဲကွာ၊ ငါကလည်း ပြောခိုင်းလိုက်တယ်၊ ဂျုတ်မိသားစုကို လာမထိနဲ့၊ ငါ သိသလောက် ငါလည်း မက်ကွိုင်းသွေးက ဆင်းသက် ပေါက်ဖွားလာတဲ့ကောင်၊ ဘယ်သူ့ကို မဆို ချမှာပဲ၊ သတ္တိရှိရင် တွမ်မီ အနားကပ်ရဲ ကပ်ကြည့်၊ မသာပေါ်သွားမယ်လို့၊ ဒီအကောင် ကြောက်ချေး ပါသွားတာပဲ"

အဘွားဂျုတ်ကတော့ အဘိုးဂျုတ်၏ စကားကို နားမထောင်။ သူ ရွတ်နေကျ စကားကိုသာ ရွတ်လျက် ရှိသည်။ "အောင်မြင်မှုအတွက် ဘုရားသခင်ကို ပူဇော်ကြပါ"

အဘိုးဂျုတ်သည် တွမ်ဆီသို့ လျှောက်သွားပြီး ရင်ဘတ်ကို သူ့လက်ဝါးဖြင့် လှမ်းရိုက်သည်။ တွမ်၏ တစ်ကိုယ်လုံးကို ရွှန်းရွှန်းစားစား ကြည့်သည်။ သူ့မြေး တွမ်အတွက် ဝမ်းသာ ဂုဏ်ယူခြင်းကို သူ့မျက်လုံးများက ဖော်ပြလျက် ရှိလေသည်။ "ဘယ်လိုလဲ တွမ်မီ မင်း နေကောင်းရဲ့လား"

"ကောင်းတယ်" ဟု တွမ်က ဖြေသည်။ "အဘိုးကော ဘယ်လိုလဲ"

"သေးပေါက်လိုက်၊ အရက်သောက်လိုက်ပဲပေါ့" ဟု အဘိုးဂျုတ်က ပြောသည်။ ချက်ချင်းပင် သူ့စိတ်သည် တဟုန်ထိုး အရှိန်တက်လာပြန်သည်။ "ငါ ပြောခဲ့ပြီးပြီပဲ၊ ငါတို့ ဂျုတ်မိသားစုထဲက ဘယ်ဂျုတ်ကိုမှ ထောင်ထဲမှာ ကြာကြာ လှောင်မထားနိုင်ပါဘူးကွ၊ ငါ ပြောခဲ့တယ်၊ ဟေ့ ကြည့်ထားကြ၊ ခြံစည်းရိုးကို ခေါင်းနဲ့ဝှေ့ပြီး ထိုးဖောက်ထွက်သွားတဲ့ နွားသိုးကြီး တစ်ကောင်လို ငါ့မြေး တွမ်မီလည်း ထောင်ကို ဖောက်ပြီး ထွက်လာမှာ

ပေါ့ကြွလို့၊ အခု မင်း ဒီအတိုင်းပဲ လုပ်ခဲ့ပြီ မဟုတ်လား၊ ဟား ငါ့ရှေ့က ပိတ်ရပ်မထားနဲ့ ဖယ်စမ်း ဖယ်ဖယ်၊ ငါ သောက်ရမ်းကို ဆာနေပြီကွ” သူသည် တွမ်ကို တိုးတိုက်ကာ ကျော်ဖြတ်သွားပြီး စားပွဲတွင် ဝင်ထိုင်သည်။ ပန်းကန်ထဲသို့ ဝက်သားကြော်နှင့် အကြီးဆုံးမုန့်နှစ်ခုကို ကောက်ထည့်သည်။ ပြီးတော့ ခပ်ပျစ်ပျစ် ချက်ထားသော ဟင်းရည်ကို တစ်ပန်းကန်လုံး ပြည့်လုနီးပါး လောင်းထည့်သည်။ တခြားလူများ မထိုင်နိုင်သေးခင်မှာပင် အဘိုးဂျုတ်၏ ပါးစပ်တွင် ပလုတ်ပလောင်း ဖြစ်လျက် ရှိလေပြီ။

တွမ်က သူ့အဘိုးအား အလွန် ကြည်ညိုလေးစားသော မျက်နှာထားဖြင့် ကြည့်သည်။ “ငရဲသားကြီးနဲ့ မတူဘူးလား” ဟု ရေရွတ်သည်။ အဘိုးဂျုတ်မှာ ပါးစပ်တစ်ခုလုံး ပြည့်နေသဖြင့် စကားပြန်မပြောနိုင်။ သို့သော်လည်း သူ့မျက်လုံးများ ကတော့ ပြုံးရယ်လျက် ရှိသည်။ သူ့ခေါင်း ကိုလည်း တဆတ်ဆတ် ညိတ်ပြသည်။

“တကယ့် လူပေ လူတေကြီးပါပဲ၊ ဒီလိုလူမျိုး သူတစ်ယောက်ပဲ ရှိတယ်” ဟု အဘွားဂျုတ်က ဂုဏ်ယူသော လေသံဖြင့် ပြောသည်။ “သူက ငရဲပြည်သွားမှာ၊ ငရဲပြည်ရောက်တော့လည်း ငရဲမီး ထိုးနေမယ့်လူ၊ သူက အခု ထရပ်ကား မောင်းချင်လို့တဲ့၊ အံ့ပါရဲ့တော်၊ ဒါပေမဲ့ သူ မမောင်းရပါဘူး” ဟု အော့နလုံးနာသော လေသံဖြင့် ဆက်ပြောလေသည်။

အဘိုးဂျုတ်ကတော့ နင်လျက် ရှိသည်။ ပါးစပ်ထဲမှ ဝါးလက်စ အစာများသည် သူ့ရင်ခွင်ထဲသို့ ထွက်ကျလာသည်။ ချောင်းလဲ တဟွပ်ဟွပ် ဆိုးလာသည်။

အဘွားက တွမ်ကို ကြည့်၍ ပြုံးသည်။ “ဘယ်လောက်များ ညစ်ပတ်တဲ့ လူလဲ” ဟုလည်း မလိုတမာအသံဖြင့် ရေရွတ်သည်။

နိုအာသည် လှေကားခုံတွင် ရပ်ကာ တွမ်အား လှမ်းကြည့်နေသည်။ သူ့မျက်နှာပေါ်တွင် ထူးခြားသော စိတ်ခံစားမှုမျိုး မမြင်ရ။ “နေကောင်းရဲ့လား နိုအာ” ဟု တွမ်က နှုတ်ဆက်လေသည်။

“ကောင်းပါတယ်” ဟု နိုအာက ဖြေသည်။ “မင်းကော” နိုအာ နှုတ်မှ ဒါပဲ ပြောသည်။ နောက်ထပ် သူ့ထံမှ ဘာစကားမှ ထွက်မလာတော့ချေ။ သူ့အဖို့ ဤမျှလောက် ပြောရ ဆိုရလျှင် စိတ်ချမ်းသာမှု ရရှိသွားပြီ ဖြစ်၏။

အမေသည် ဟင်းထည့် မြေပန်းကန်ကြီး၏ နှုတ်ခမ်း၌ နားလာသော ယင်ကောင်များကို လက်နှင့် ယမ်း၍ မောင်းသည်။ "တို့မှာ ထိုင်စရာ နေရာတောင် မရှိဘူး" ဟု ပြောသည်။ "မင်းပန်းကန်ကို ယူပြီး ထိုင်လို့ရတဲ့နေရာမှာ သွားထိုင်စားပေတော့၊ အပြင်ဘက် ဒါမှမဟုတ်လည်း တစ်နေရာရာပေါ့"

"ဟေး တရားဟောဆရာ ဘယ်ရောက်သွားလဲ၊ အခုနက ဒီနားမှာ ရှိတယ်၊ အခု ဘယ်ထွက်သွား သလဲ" ဟု တွမ်က အလန့်တကြား ထအော်သည်။

အဖေဂျုတ်က ဝင်ဖြေသည်။ "ငါ သူ့ကို တွေ့တယ်၊ အပြင်ထွက်သွားတာပဲ"

အဘွားဂျုတ်၏ စူးရှသော အသံသည် စာစာ စာစာနှင့် ထွက်လာသည်။ "တရားဟောဆရာ၊ ဟုတ်လား၊ မင်း တရားဟောဆရာ ခေါ်လာတယ်၊ သွားကြပါဟဲ့၊ သွားခေါ်ချေကြပါ၊ တို့များ အစာမစားခင် ဘုရားသခင်ရဲ့ ကျေးဇူးတော်ကို ချီးမွမ်းတဲ့ ပွဲကလေးတစ်ခု လုပ်နိုင်တာပေါ့" အဘွားဂျုတ်သည် အဘိုးဂျုတ်ဘက် လှည့်၍ လက်ညှိုး ငေါက်ငေါက်ထိုးသည်။ "သူလုပ်တာနဲ့ နောက်တောင် ကျသွားပြီ၊ သူက ဦးဦးဖျားဖျား စားပစ်တာကိုး၊ သွားပါ၊ တရားဟောဆရာကို ခေါ်ကြပါ"

တွမ်က အိမ်ပြင်သို့ ထွက်၍ မျှော်ကြည့်သည်။ "ဟေး ဂျင်၊ ဂျင်ကတ်ဆီ" ဟု တကြော်ကြော် အော်ခေါ်သည်။ ထူးသံ မကြားရ။ သူသည် ခြံဝင်းထဲသို့ ဆင်းလာခဲ့ပြီး ထပ်၍ ခေါ်ပြန်သည်။ "ကတ်ဆီ၊ ဂျင်ကတ်ဆီ" ရေတိုင်ကီ စင်ကြီးအောက်၌ ထိုင်နေသော တရားဟောဆရာသည် ကသောကမျော ထရပ်ကာ အိမ်ဘက်သို့ လျှောက်လာသည်။ "ဟောဗျ၊ ခင်ဗျားက ဒီမှာ လာပုန်းပြီး ဘာတွေ လုပ်နေတာလဲ" ဟု တွမ်က ဆီးမေးသည်။

"အင်း ဘာမှမလုပ်ပါဘူးကွာ၊ ဒါပေမဲ့၊ နှစ်အကြာကြီး ကွဲနေတဲ့ မိသားစုတွေ ပြန်တွေ့နေကြတဲ့ အချိန်မျိုးမှာ ငါက ကန့်လန့် ကန့်လန့် လုပ်နေလို့ ဘယ်တော်ပါ့မလဲ၊ ဟုတ်ဖူးလား၊ ဒါကြောင့် ဒီမှာ လာထိုင်ပြီး လျှောက်စဉ်းစားနေတာ"

"ကဲ လာဗျာ၊ မနက်စာတော့ စားဦးမှာပေါ့" ဟု တွမ်က ပြောသည်။

"အဘွားကလည်း မနက်စာ စားပွဲမှာ ကျေးဇူးတော် ချီးမွမ်းပွဲကလေး လုပ်ပေးဖို့ ပြောနေတယ်"

"ဟာကွာ၊ ငါက တရားဟောဆရာမှ မဟုတ်တော့တာ " ဟု ကတ်ဆီက ငြင်းသည်။

"အိုဗျာ၊ တရားဟောဆရာ မဟုတ်ကော ဘာဖြစ်လဲ၊ လာစမ်းပါ၊ သူ ကျေနပ်သွားအောင် လုပ်သာလုပ်ပေးလိုက်စမ်းပါ"

နှစ်ယောက်သား မီးဖိုထဲသို့ ဝင်ခဲ့ကြသည်။

"ကျွန်မတို့က ဖိတ်ပါတယ်" ဟု အဘွားဂျုတ်က ဆီးပြောသည်။ အဘိုးဂျုတ် ကလည်း ဝင်၍ ပြောသည်။ "ကျုပ်တို့အားလုံးက ဖိတ်ပါတယ်ဗျာ၊ လာပါ၊ ထိုင်ပါ၊ မနက်စာ စားပါ"

"ကျေးဇူးတော် ချီးမွမ်းပွဲကို အရင်ဆုံး လုပ်မှပေါ့" ဟု အဘွားဂျုတ်က သတိပေးသည်။

အဘိုးဂျုတ်သည် ဂျင်ကတ်ဆီအား စေ့စေ့စပ်စပ် ကြည့်နေသည်။ "အို ဟို တရားဟောဆရာပါလား " ဟု ရေရွတ်သည်။ "သူကတော့ အဆင်ပြေပါတယ်၊ သူ့ကို စတွေ့ကတည်းက ငါက ခင်ခဲ့တာကွ" မျက်တောင်ကို ပုတ်ခတ် ပုတ်ခတ် လုပ်၍ ကြည့်နေသော အဘိုးဂျုတ်၏ အမူအရာကို အဘွားဂျုတ်က သဘောမကျ။ ရှုတ်တီး ရှုတ်နောက် ကဖျက်ကယက် လုပ်လိမ့်မည်ဟု တွေးသည်။ "ပါးစပ် ပိတ်ထားစမ်း ဆိတ်အိုကြီး၊ တော်ဟာ တကယ့် ဒုစရိုက်ကောင်ကြီးပဲ"

ကတ်ဆီက စိတ်ပျက်လက်ပျက် သူ့ခေါင်းကို ဖျစ်ဖျစ်မြည်အောင် ကုတ်သည်။ " ကျုပ် ပြောလို့ မဖြစ်တော့ဘူး၊ ကျုပ် အခု တရားဟောဆရာ မဟုတ်တော့ဘူး၊ အခုလို ရောက်လာတာကို အားလုံးက ဝမ်းသာစွာနဲ့ ခရီးဦးကြိုပြီး ရက်ရက်ရောရောနဲ့ ကျွေးကြ မွေးကြမယ်၊ ကရုဏာတရားနဲ့ ပြုစုကြမယ်ဆိုရင် မင်္ဂလာ ရှိနေပါပြီ၊ အထူးတလည် ကျေးဇူးတော် ချီးမွမ်းပွဲ လုပ်နေဖို့ မလိုတော့ပါဘူး၊ ပြီးတော့ ကျုပ်က တရားဟောဆရာ မဟုတ်တော့ဘူး "

"အားလုံးအတွက် ဆုတောင်းပေးပါ" ဟု အဘွားဂျုတ်က ဆိုသည်။ "တစ်မိသားစုလုံး ကယ်လီဖိုးနီးယား ပြည်နယ်ဘက် သွားကြတော့မယ် ဆိုတာ ဘုရားသခင်ကို အသိပေးပြီး ဆုတောင်းပေးပါ"

တရားဟောဆရာသည် အဘွားဂျုတ်၏ ဆန္ဒကို မလွန်ဆန်နိုင်။ သူသည် ဘုရားသခင်ကို အာရုံပြုသည့် အနေဖြင့် ဦးခေါင်းကို ငုံ့လိုက်သည်။ ကျန်လူများလည်း သူ့အတုကိုယူ၍ ခေါင်းများကို ငုံ့လိုက်ကြလေ၏။ အမေသည် လက်နှစ်ဖက်ကို ဆက်ကာ သူ့ဗိုက်ပေါ်၌ အသာအယာ တင်ပြီး ခေါင်းကို ငုံ့ထားသည်။ အဘွားဂျုတ်၏ ခေါင်းမှာ ရှေ့သို့ ငိုက်လွန်းအားကြီးနေသဖြင့် သူ့နာခေါင်းသည် ဟင်းရည်များ ဆမ်းထားသော ဘီစကွတ် မုန့်များနှင့် ထိလုနီးပါးဖြစ်လျက် ရှိ၏။ နံရံကို မှီ၍ ရပ်နေသော တွမ်ဂျုတ်သည် မုန့်ပန်းကန်ကို လက်တွင် ကိုင်၍ ခေါင်းငုံ့ထားသည်။ အဘိုးဂျုတ်ကတော့ သူ့ခေါင်းကို ရှေ့တည့်တည့်သို့ မငုံ့။ ဘေးဘက်သို့ မျက်နှာလှည့်၍ ငုံ့ထားသည်။ ပြောင်စပ်စပ် ဖြစ်လျက် ရှသော သူ့မျက်လုံးများသည် တရားဟောဆရာကို စူးစူးစိုက်စိုက် ကြည့်လျက် ရှိ၏။ တရားဟော ဆရာ၏ မျက်နှာထားမှာ ဘုရားသခင်ကို အာရုံပြု နေသည်နှင့် မတူ။ တစ်စုံတစ်ရာကို အလေးအနက် ထား၍ စဉ်းစား စိတ်ကူးနေသည့် အသွင် ပေါ်လျက် ရှိလေသည်။ သူ့အသံမှာလည်း ဘုရားသခင်ထံ အသနားခံ နေသည်နှင့် မတူ။ သူ့စိတ်ကူးထဲတွင် ရှိနေသည့် အတွေးအခေါ် အယူအဆများကို ပြန်လည် ပြောပြ နေသည်နှင့် တူနေပေသည်။

"ကျုပ် စဉ်းစားနေမိတယ်" ဟု သူက ပြောသည်။ "ကျုပ် တောင်ကုန်းတွေပေါ် ရောက်သွားတဲ့ အချိန်က ငါ့အဖြစ်ဟာ အင်မတန် ကြီးမားမြားမြောင်တဲ့ ဒုက္ခတွေ ကြားက လွတ်မြောက်ရာ လွတ်မြောက်ကြောင်းအတွက် တောထွက်သွားခဲ့တဲ့ သခင်ယေရှုရဲ့ အဖြစ်နဲ့များ တူနေသလားလို့ တွေးခဲ့မိတယ် "

"ဘုရားသခင်အား ကန်တော့ပါ၏" ဟု အဘွားဂျုတ်က ရေရွတ်လိုက်သည်။ တရားဟောဆရာသည် အဘွားဂျုတ်၏ မျက်နှာကို အံ့အားသင့်သွားသော အမူအရာဖြင့် ဖျတ်ခနဲ မော့ကြည့်သည်။

"လူအားလုံး ဒုက္ခဆင်းရဲတွေနဲ့ တွေ့ကြုံနေကြရတယ်၊ သခင်ယေရှုနဲ့ ကြုံခဲ့ရသလိုပါပဲ၊ မထူးပါဘူး၊ သခင်ယေရှုဟာ သူ မြင်တွေ့ခဲ့ရတဲ့ ဒုက္ခဆင်းရဲတွေရဲ့

အကြောင်းခြင်းရာတွေကို ဆင်ခြင်စဉ်းစားလို့ မရခဲ့ရှာဘူး၊ အကောင်းကို ရှာဖွေလို့ မတွေ့နိုင်အောင် ဖြစ်ခဲ့ရတယ်၊ သူ မြင်တွေ့နေရတဲ့ ဒုက္ခတွေကို ခုခံ တွန်းလှန်ဖို့နဲ့ ဒီဒုက္ခတွေရဲ့ သဘောသဘာဝကို နားလည်အောင် ကြိုးစားခဲ့ပေမဲ့ မရခဲ့ရှာဘူး၊ အဲဒီတော့ သူဟာ စိတ်ဓာတ်ကျခဲ့ရှာတယ်၊ နောက်ဆုံးကျတော့ စိတ်ပျက်လက်ပျက်နဲ့ တောထွက်ခဲ့ရတယ်"

"အာမင်း" ဟု အဘွားဂျုတ်က ရေရွတ်သည်။ တရားတစ်ပိုဒ် ဆုံး၍ ရပ်နားလိုက်သည့် အခါတိုင်း "အာမင်း" လိုက်ရမည် ဟူသော အသိကို အဘွားဂျုတ် နားလည်ထားခဲ့သည်မှာ နှစ်ပေါင်းများစွာ ကြာခဲ့လေပြီ။ သုံးနှုန်းသွားသော စကားလုံးများကို စိတ်ဝင်တစား နားထောင်ခြင်းနှင့် တအံ့တသြဖြစ်ခြင်း အလေ့အထကို ရထားခဲ့သည် မှာလည်း ကာလများစွာ ကြာခဲ့ပေပြီ။

"ကျုပ်ကိုယ်ကျုပ် သခင်ယေရှုနဲ့ တူတယ်လို့ ပြောနေတာ မဟုတ်ပါဘူး" ဟု တရားဟောဆရာက ဆက်ပြောသည်။ "ကျုပ်ဟာ သူလိုပဲ စိတ်ဓာတ်ကျခဲ့ရတယ်၊ သူလိုပဲ လူတွေနဲ့ ရောနှော နေထိုင်ခဲ့ရတယ်၊ လူတွေရဲ့ ဒုက္ခဆင်းရဲတွေကို မြင်တွေ့ခဲ့ရတယ်၊ နောက်ဆုံး သူလိုပဲ လူတွေနဲ့ဝေးရာ တောထဲကို ထွက်ပြေးခဲ့ရတယ်လို့ ပြောချင်တာပါ၊ အဖြစ်ချင်း တူနေတာကို ပြောတာပါ၊ ညညဆိုရင် ကျုပ်ဟာ မြေကြီးပေါ်မှာ ပက်လက် လှန်လှဲပြီး ကောင်းကင်က ကြယ်တွေကို ကြည့်နေမိတယ်၊ မနက်လင်းတော့ တစ်နေရာရာမှာ ထိုင်ပြီး နေထွက်လာတာကို စောင့်ကြည့်တယ်၊ နေ့ခင်းဘက်ကျတော့ တောင်ကုန်း တစ်ခုပေါ်မှာ ထိုင်ပြီး နိမ့်ချည်တစ်ခါ မြင့်ချည်တစ်လှည့်နဲ့ တလိမ့်လိမ့် ပြေးသွားနေတဲ့ ခြောက်သယောင်းနေတဲ့ မြေပြင်ကြီးကို ကြည့်တယ်၊ ညနေပိုင်းကျတော့ ဝင်သွားတဲ့ နေကို ထိုင်ကြည့်ပြန်တယ်၊ တစ်ခါတစ်ရံကျတော့လည်း ကိုယ် လုပ်နေကျအတိုင်း ဘုရားရှိခိုးတယ်၊ တစ်ခုပဲ ရှိတယ်၊ ကိုယ် ရှိခိုးနေတာ ဘယ်သူ့ကိုလဲ၊ ဘာအတွက်လဲ ဆိုတာတော့ တွေးလို့မရဘူး၊ ကျုပ်အနားမှာ တောင်တွေ အများကြီး ရှိတယ်၊ တခြား ဘာမှ မရှိဘူး၊ ကျုပ်ရယ် တောင်ကုန်းတွေရယ် ဒါပဲ၊ ကြာလာတော့ ကျုပ်နဲ့ တောင်ကုန်းတွေကို ခွဲလို့ မရတော့ဘူး၊ ကျုပ်တို့ဟာ တစ်ခုတည်း ဖြစ်လာတယ်၊ အဲဒီလို ဖြစ်လာတဲ့ တစ်ခုတည်းသော အရာဝတ္ထုဟာ သန့်စင်တယ်၊ အပြစ်ကင်းတယ်၊ မြင့်မြတ်တယ်"

“ထာဝရ ဘုရားသခင်၏ ဂုဏ်တော်ကို ကိုးကွယ်ပါ၏” ဟု အဘွားဂျူတ်က ရေရွတ်သည်။ သူ့ခန္ဓာကိုယ်သည် ရှေ့တိုးနောက်ငင် ဖြစ်ကာ လှုပ်ရှားလျက် ရှိ၏။ အဘွားဂျူတ်သည် တရားဟောဆရာ၏ စကားများတွင် နစ်မျောကာ အားရခြင်း ကျေနပ်ခြင်း ဝမ်းမြောက်ခြင်း ဖြစ်လျက် ရှိလေသည်။

“ဒီသဘောကို အခြေခံတဲ့ အတွေးတစ်ခုဟာ ကျုပ်ခေါင်းထဲ ဝင်လာခဲ့တယ်၊ ကျုပ်ဘာသာကျုပ် အလိုလိုနေရင်းနဲ့ တွေးမိတယ် ဆိုပါတော့၊ တစ်ခါတစ်လေကျ တော့လည်း အတွေးမှ ဟုတ်ရဲ့လား ဆိုတဲ့ သံသယ ဝင်မိတယ်၊ ဘာကြောင့်လဲဆိုတော့ ကျုပ် အရင့်အရင်က တွေးနေကျ အတွေးတွေထက် အများကြီး လေးနက်တယ်ဗျ၊ ကျုပ် တွေးမိတာက ဒီလို၊ ကျုပ်တို့ လူတွေ အားလုံး တစ်စိတ်တည်း တစ်ဝမ်းတည်း တစ်သဘောတည်း ဖြစ်လာတဲ့အခါမှာ ဘာကြောင့် မြင့်မြတ်တဲ့ သဘောကို ဆောင်လာရတာလဲ၊ ဘာပဲဖြစ်ဖြစ်ပေါ့လေ၊ လူသားအားလုံး တညီတညွတ်တည်း ဖြစ်လာ ရင်တော့ လူလောကကြီးဟာ အပြစ်အနာအဆာ ကင်းပြီး သန့်စင် မြင့်မြတ်တဲ့ လောကကြီး တစ်ခု ဖြစ်လာမှာ အမှန်ပဲ။

“ဒါပေမဲ့ ဆိုကြပါစို့ရဲ့၊ စိတ်နေစိတ်ဓာတ် အလွန် အောက်တန်းကျပြီး ညံ့ဖျင်း ယုတ်မာတဲ့ လူတစ်ယောက်က အစားအစာတွေကို သူ့ပါးစပ်ထဲမှာလည်း အပြည့်အသိပ် ထိုးထည့်ထားတယ်၊ လက်နှစ်ဖက်ကလည်း အစားအစာတွေကို ကိုင်ထားတယ်၊ သူ့ဘေးမှာ ရှိတဲ့ အစားအစာတွေ အားလုံးကိုလည်း သူတစ်ယောက်တည်း အပိုင်ရ ချင်တယ်၊ အဲသလို အပိုင်ရလိုမှုအတွက် ဘေးက လူတွေကို ကန်ဟယ် ကျောက်ဟယ် တွန်းဟယ် ထိုးဟယ် တိုက်ဟယ် ခိုက်ဟယ် လုပ်လာရင် လူ့လောကကြီးဟာ မသန့်ရှင်းနိုင်တော့ဘူး၊ မမြင့်မြတ်နိုင်တော့ဘူး၊ ဒီလို ကောင်စားတွေဟာ မြင့်မြတ်မှု သန့်စင်မှုဆိုတဲ့ အရာဟူသမျှကို ဖျက်ဆီးနေကြတဲ့ လူတွေပဲ၊ ဒါပေမဲ့ သူတို့အားလုံးဟာ တစ်ဦးက တခြားတစ်ဦးအတွက် ဆိုတဲ့ သဘောမျိုး မထားနိုင်သည့်တိုင်အောင် အလုပ်ကို အတူတွဲပြီး လုပ်သွားကြမယ်ဆိုရင် ..၊ လုပ်တဲ့အခါမှာလည်း လူ့လောက တစ်ခုလုံးအတွက် တာဝန်ရှိပါကလား ဆိုတဲ့ စိတ်နဲ့ လုပ်သွားကြမယ် ဆိုရင် အဲဒီလုပ်နည်းဟာ မှန်ပါတယ်၊ မြင့်မြတ်တယ်လို့လည်း ပြောနိုင်ပါတယ်၊ ကျုပ် အဲသလို တွေးမိတယ်၊ နောက်ပိုင်းကျတော့ မြင့်မြတ်မှု ဆိုတဲ့ စကားရဲ့ အဓိပ္ပာယ်နဲ့ အနှစ်သာရကိုတောင်မှ ငါ မသိတော့ဘူးလို့ တွေးမိလာပြန်တယ်”

တရားဟောဆရာသည် သူ့စကားကို မဆက်ဘဲ ရပ်ထားလိုက်သည်။ သို့သော်လည်း သူ့ပတ်ပတ်လည်မှ ငိုက်စိုက်ချထားကြသည့် ဦးခေါင်းများကတော့ ငိုက်စိုက်ကျလျက်ပင် ရှိနေကြသည်။ ယင်းကဲ့သို့ပ ဖြစ်ရခြင်းမှာ အချက်ပြပါမှ ခေါင်းမော့တတ်လာအောင် လေ့ကျင့် သင်ကြားပေးခြင်း ခံထားရသည့် ခွေးများကဲ့သို့ "အာမင်း" ဟူသော စကားကို ကြားခါမှ ခေါင်းမော့တတ်သည့် အလေ့အထ စွဲမြဲနေခြင်းကြောင့် ပေတည်း။

"ကျုပ် အရင်က လုပ်နေကျ ဖြစ်တဲ့ ကျေးဇူးတော် ချီးမွမ်းပွဲမျိုးတော့ ကျုပ် မလုပ်နိုင်တော့ဘူး၊ လုပ်လည်း မလုပ်ချင်တော့ဘူး၊ ဒီကနေ့ နံနက်စာရဲ့ သန့်စင်မြင့်မြတ်မှုအတွက် ကျုပ် ဝမ်းမြောက်ပါတယ်၊ ဒီနေရာမှ မေတ္တာတရား ရှိနေသေးတဲ့ အတွက်လည်း ကျုပ် ဝမ်းသာ ဂုဏ်ယူပါတယ်၊ ကျုပ်မှာ ပြောစရာ ဒါပဲ ရှိပါတယ်ဗျာ"

ငုံ့ထားသည့် ဦးခေါင်းများကတော့ ပြန်မော့မလာကြသေးပေ။ တရားဟောဆရာက ပတ်ဝန်းကျင်ကို တစ်ချက်မျှ ဝေ့ကြည့်သည်။ "ခင်ဗျားတို့ ပူပူနွေးနွေး စားရမဲ့ မနက်စာကို ကျုပ်က အေးသွားအောင် လုပ်လိုက်သလို ဖြစ်သွားပြီ" ဟု ပြောသည်။ ထို့နောက် သူ မပြောမဖြစ်သည့် စကားတစ်ခွန်းကို သတိရသဖြင့် "အာမင်း" ဟု ကပျာကယာ ရေရွတ်လိုက်သည်။ ငုံ့ထားသော ခေါင်းများသည် ပြန်မော့လာကြသည်။

အဘွားဂျုတ်သည် "အာမင်း" ဟု ဆိုပြီးခါမှ သူ့ပန်းကန်ကို ကိုင်သည်။ ဟင်းရည်များ အပြည့်အမောက် ဆမ်းထားသည့် မုန့်များကို သွားဖုံးများဖြင့် ကြိတ်၍ ဝါးသည်။ ဆာလောင်နေသော တွမ်သည် သူ့နံနက်စာကို ကသောကမျော စားသည်။ အဖေဂျုတ်ကတော့ ပလုတ်ပလောင်း။ အစားအစာ မကုန်မချင်း ကော်ဖီသောက်၍ မပြီးမချင်း စကားပြောသံ တစ်ခွန်းတလေမျှပင် မကြားရ။ အစာဝါးသံ၊ ကော်ဖီသောက်သံနှင့် အစာမျိုချသံများကိုသာ ကြားနေရ၏။

အမေကတော့ အစာစားနေသည့် တရားဟောဆရာကို စိတ်ဝင်တစား ကြည့်လျက် ရှိ၏။ အမေ့မျက်လုံးများသည် မေးခွန်းများ မေးလျက် ရှိ၏။ တရားဟောဆရာ၏ အတွင်း သဘောကို နှိုက်နှိုက်ချွတ်ချွတ် ဆင်ခြင်စူးစမ်းလျက် ရှိ၏။ တရားဟောဆရာ၏ အဖြစ်ကို နားလည် သဘောပေါက်သည့် အရိပ်လက္ခဏာများကိုလည်း ဖော်ပြလျက်ရှိ၏။ အမေ့မျက်စိ ထဲတွင် တရားဟောဆရာသည် လူသားတစ်ယောက်

မဟုတ်တော့။ ဝိညာဉ်တစ်ခုဟု မြင်နေဟန် တူသည်။ ပြီးတော့ တရားဟောဆရာ၏ အသံသည် မြေကြီးပေါ်မှ အသံ မဟုတ်၊ ကောင်းကင်မှ ဆင်းလာနေသည့် အသံ။

ယောက်ျားများသည် အစားကို အလျင်ဆုံး အပြီးသတ်ကြသည်။ လက်တွင်းမှ ပန်းကန်ပြားများကို ပြန်၍ ချပြီး ကော်ဖီ လက်ကျန်ကို ကုန်အောင် မော့ကြသည်။ ထို့နောက် အားလုံး အိမ်အပြင်သို့ ထွက်ကြသည်။ အဖေဂျုတ်နှင့် တရားဟောဆရာက တစ်တွဲ။ နိုအာ၊ အဘိုးဂျုတ်နှင့် တွမ်တို့က တစ်တွဲ။ သူတို့သည် ဟိုတစ်စု သည်တစ် ပုံထားသည့် အိမ်ထောင်ပရိဘောဂများ၊ သစ်သား အိပ်ရာ ခုတင်များ၊ လေရဟတ်မှ စက်ကိရိယာ တန်ဆာပလာများနှင့် ထွန်တုံး ထွန်တံများကို ကွင်းရှောင်ကာ ထရပ်ကားဆီသို့ လျှောက်သွားပြီး ထရပ်ကား ဘေးတွင် ရပ်ကြသည်။ ထင်းရှူးသားဖြင့် တပ်ထားသော ထရပ်ကား၏ ဘေးကာများကို ကိုင်တွယ် စမ်းသပ်ကြည့်ကြလေသည်။

တွမ်သည် ထရပ်ကား စက်ဖုံးကို ဖွင့်၍ အထဲမှ အင်ဂျင်ကို ကြည့်သည်။ အဖေဂျုတ်က သူ့အပါး လာရပ်သည်။ "ဒီကားကို မဝယ်ခင် မင်းညီ အယ်လ် ကိုယ်တိုင် ကျကျနန စစ်ဆေးကြည့်တယ်၊ သူ ပြောတာတော့ အားလုံး ကောင်းတယ်တဲ့ "

"သူက ဘာသိလို့လဲ၊ ဒီကောင်က လေကြွား သက်သက်ပဲကွာ "

"သူ ကုမ္ပဏီတစ်ခုမှာ အလုပ် ဝင်လုပ်ခဲ့သေးတယ်၊ မနှစ်ကပေါ့၊ ထရပ်ကား မောင်းတယ်လေ၊ မော်တော်ကားစက် အကြောင်း သူ အတော်ကလေး နားလည်သားပဲ၊ နည်းနည်းပါးပါးလည်း ပြင်တတ်တယ် "

"သူ အခု ဘယ်သွားလို့လဲ " ဟု တွမ်က မေးသည်။

"တောလိုက်သွားတယ်၊ ဒီကောင် အခု ဆယ့်ခြောက်နှစ် ပြည့်သွားပြီ၊ ကောင်မလေး တွေနဲ့ မော်တော်ကား အင်ဂျင်တွေက လွဲပြီး တခြား ဘာကိုမှ စိတ်မဝင်စားဘူးကွ၊ ဒီကောင် တော်တော့ တော်သား၊ အခုဆို အိမ်ပြန်မအိပ်တာ တစ်ပတ်လောက် ရှိသွားပြီ"

"လမ်းလျှောက်လာနေရင်းက အင်္ကျီကြယ်သီးများကို တပ်ဖို့ အားထုတ်လာခဲ့သော အဘိုးဂျုတ်သည် ရှပ်အင်္ကျီအပြာ ကြယ်သီးများကို အတွင်းမှ ခံဝတ်ထားသည့် အင်္ကျီ၏

ကြယ်သီးပေါက်များတွင် အောင်မြင်စွာ တပ်၍ ပြီးစီးသွားသည်။ သူ့လက်ချောင်းများသည် အလွဲလွဲ အချော်ချော် ဖြစ်နေခြင်းကို သိနေသည်။ သို့သော်လည်း သူသည် လွဲမှားနေသည့် အရာကို ရှာဖို့ ဂရုစိုက်သူ မဟုတ်ပေ။ "ငါ ငယ်ငယ်က သိပ်ဆိုးတာကွ" ဟု ရွှင်လန်း မြူးထူးသော လေသံဖြင့် ပြောသည်။ "သိပ်ကို ဆိုးတာ၊ အခု ငါ့မြေး အယ်လ် အရွယ်လောက်ကပေါ့၊ ဆယ်လီဆောမှာ စခန်းချပွဲတစ်ခု လုပ်တယ်၊ ငါ ငယ်ငယ်တုန်းက အယ်လ်လို လေကြွားသက်သက် မဟုတ်ဘူးကွ၊ သိလား၊ အယ်လ် ဆိုတဲ့ အကောင်က လေသမား သက်သက်ပဲ၊ လက်တွေ့ကျတော့ သတ္တိရှိတာ မဟုတ်ဘူး၊ အဲဒီ စခန်းချပွဲမှာ ငါလည်း ပါတယ်၊ လူငါးရာလောက် တက်တာ၊ ကောင်မလေးတွေ အများကြီး ပါတာပေါ့၊ ပျော်စရာကြီး"

"အဘိုးက အခုထက်ထိ လူဆိုးတစ်ယောက်ပဲ" ဟု တွမ်က လှမ်းပြောသည်။

"အေး ဟုတ်တယ်၊ ဒါပေမဲ့ အခုတော့ ဟိုတုန်းကလောက် မဟုတ်တော့ပါဘူးကွာ၊ အသက်လည်း ကြီးလာပြီ မဟုတ်လား၊ ငါ စားချင်စိတ် ရှိတဲ့အချိန်မှာ လိမ္မော်သီးလေး တစ်လုံးလောက် ဒါမှမဟုတ် စပျစ်သီးလေး လက်တစ်ဆုပ်စာလောက် ခူးဆွတ် စားနိုင်မယ့် ကယ်လီဖိုးနီးယား ပြည်နယ်ကိုပဲ သွားချင်တော့သကွာ၊ တစ်ကြိမ်တစ်ခါလောက်တောင်မှ ငါ ဝအောင် မစားခဲ့ရသေးတဲ့ဟာ တစ်ခုရှိတယ်၊ တခြား မဟုတ်ပါဘူး၊ စပျစ်သီးပေါ့၊ ဟိုရောက်ရင်တော့ကွာ၊ စပျစ်သီးတွေကို ငါ့မျက်နှာပေးတင်ပြီး ခြေလိုက်ရင် ဟား စပျစ်ရည်တွေဟာ ငါ့မေးစေ့အထိ စီးကျနေမှာပဲ"

"ဦးလေးဂျွန် တစ်ယောက်ကော မမြင်ပါလား၊ ဘယ်ရောက်နေသလဲ၊ ပြီးတော့ ရိုစာဟန် တစ်ယောက်လည်း မတွေ့ဘူး၊ ရူသီနဲ့ ဝင်းဖီးတို့ကော ဘယ်သွားကုန်ကြသလဲ၊ ဘယ်သူကမှ သူတို့အကြောင်း မပြောကြသေးဘူး" ဟု တွမ်က မေးသည်။

"ဘယ်သူကမှလည်း မမေးကြသေးဘဲကိုးကွ၊ ဂျွန်က ပစ္စည်းတွေရောင်းဖို့ ဆယ်လီဆောကို သွားတယ်၊ ရေပိုက်တွေ လယ်ယာသုံး ပစ္စည်းကိရိယာတွေနဲ့ ကြက်တွေကောပေါ့ကွာ၊ ငါတို့ ဟိုက သယ်လာတဲ့ ပစ္စည်းတွေထဲက သယ်သွားလို့ မဖြစ်တဲ့ဟာတွေ အားလုံး ယူသွားတယ်၊ သူနဲ့အတူ ရူသီနဲ့ ဝင်းဖီးတို့ ပါသွားကြတယ်၊ ဒီကနေ့ အရုဏ်မတက်ခင်ကတည်းက ထွက်သွားကြတာ"

"သူတို့နဲ့ ကျုပ် လမ်းမှာ မတွေ့ခဲ့ပါလား၊ ဘယ်လို ဖြစ်တာပါလိမ့်"

"မင်းက မော်တော်ကား လမ်းမကြီးအတိုင်း လာတာ မဟုတ်လား၊ သူက ဒီဘက် ကောင်းလင်တန်ဘက်က လမ်းအတိုင်း သွားတာ၊ ရိုစာဟန်ကတော့ ကွန်နီ မိသားစု အသိုက်ထဲ ဝင်သွားပြီလေကွာ၊ အင်း ရိုစာဟန်နဲ့ ကွန်နီရေးဗားတို့ လက်ထပ်တာတောင် မင်း မသိလိုက်ဘဲကိုး၊ မင်း ကွန်နီရေးဗားကို မှတ်မိတယ် မဟုတ်လား၊ လူကောင်း ကလေးပါ၊ အခုဆို ရိုစာဟန်မှာ ကိုယ်ဝန်ကြီးနဲ့ ဖြစ်နေပြီ၊ သုံးလေးငါးလလောက်တော့ ရှိရောပေါ့၊ ဒါပေမဲ့ဟေ့ ဗိုက်ကတော့ စူထွက်နေလိုက်တာ၊ အယ်နေတာပဲ၊ အောင်မယ် ကြည့်လို့တော့ ကောင်းသကွ၊ သိလား"

"ရိုစာဟန်ဟာ ကလေးပဲ ရှိသေးတယ်၊ အခု သူက ကလေးတောင် မွေးတော့မှာပါလား၊ အိမ်နဲ့ ကွဲသွားတာ လေးနှစ်ပဲ ရှိသေးတယ်၊ အပြောင်းအလဲတွေက များလှချည်ကလား၊ အဖေတို့ အနောက်ဘက်ဒေသကို ဘယ်တော့လောက် ထွက်ဖြစ်မလဲ"

"အင်း၊ ငါတို့ ဒီပစ္စည်းတွေကို သယ်သွားပြီး ရောင်းရလိမ့်ဦးမယ်၊ တကယ်လို့ အယ်လ် ပြန်ရောက်လာရင် ထရပ်ကားကို နည်းနည်းပါးပါး ပြုပြင်ပြီး ထွက်ရမှာ၊ မနက်ဖြန် ဒါမှမဟုတ်လည်း သန်ဘက်ခါ လောက်တော့ ထွက်ဖြစ်မယ် ထင်တာပဲ၊ ငါတို့ လက်ထဲမှာ ငွေကြေးကလည်း များများစားစား မရှိဘူးကွ၊ အချို့လူတွေ ပြောနေတာက ကယ်လီဖိုးနီးယား ပြည်နယ်ဟာ မိုင် နှစ်ထောင်နီးပါးလောက် ဝေးတယ်တဲ့၊ မြန်မြန် ထွက်နိုင်ရင် စောစော ရောက်သွားမှာပဲ၊ ငွေကြေး မပြည့်စုံမှုကတော့ အကြီးဆုံး ဒုက္ခပါပဲကွာ၊ မင်းမှာကော ငွေလေး ဘာလေး မပါခဲ့ဘူးလား"

"နှစ်ဒေါ်လာလောက်ပဲ ပါတယ်၊ အဖေတို့ ငွေ ဘယ်လိုလုပ် ရာကြသလဲ"

"ရှိတဲ့ပစ္စည်းတွေ အကုန်ရောင်းရတာပေါ့ကွာ" ဟု အဖေဂျုတ်က ဖြေသည်။ "ပြီးတော့ ဝါပင်ပေါင်းတွေ ခုတ်ထွင် ရှင်းလင်းပေးရတဲ့ အလုပ်ကို တို့ တစ်အိမ်သားလုံး ထွက်လုပ် ကြတယ်၊ မင်းအဘိုးတောင် လိုက်လုပ်ရတာ၊ အဲဒီ အလုပ်ကလည်း နည်းနည်းပါးပါး ရတယ်"

"အေးကွ၊ ငါပါ ထွက်လုပ်တာ" ဟု အဘိုးဂျုတ်က ဝင်ပြောသည်။

"ငါတို့ ရာလို့ရသမျှငွေကို စုလိုက်တော့ ဒေါ်လာနှစ်ရာ ရတယ်၊ ဒီထရပ်ကားကို ခုနစ်ဆယ့်ငါးဒေါ်လာနဲ့ ဝယ်လိုက်တယ်၊ ပြီးတော့ ငါနဲ့ အယ်လ် တိုင်ပင်ပြီး ဘော်ဒီကို

နှစ်ခြမ်းခွဲတယ်၊ အလယ်က ပြန်ဆက်တယ်၊ ဝက်အူတွေ ကျပ်စရာ အလုပ် ရှိသေးတယ်၊ အယ်လ်ဆိုတဲ့ကောင်က အခုထက်ထိ ပြီးပြတ်အောင် မလုပ်သေးဘူး၊ အခုလို လျှောက်သွား နေတာနဲ့ပဲ အချိန်ကုန်နေတာပဲ၊ ငါတို့ ခရီးစထွက်ပြီဆိုရင်တော့ လက်ထဲမှာ ဒေါ်လာ တစ်ရာ့ငါးဆယ်လောက်တော့ ပါမယ်လို့ တွက်ထားတာပဲ၊ ခွက်ကျတာက ထရပ်ကား တာယာတွေပဲကွ၊ သိပ်ပြီး စုတ်ပြတ်နေတော့ ခရီးဝေးဝေးသွားလို့ ရမှာ မဟုတ်ဘူး၊ တာယာဟောင်း အပို နှစ်လုံးလောက်တော့ ဝယ်ပြီး ဆောင်သွားမှ ဖြစ်မယ်၊ တာယာဟောင်း ကတော့ လမ်းကျမှပဲ ဝယ်တော့မယ်ကွာ ”

နေသည် အညာအတာ ကင်းမဲ့စွာ ပူပြင်းလာသည်။ ထရပ်ကားဘော်ဒီ၏ အရိပ်မည်းမည်းကြီးသည် မြေပြင်ထက်သို့ ထိုးကျလျက် ရှိ၏။ ထရပ်ကားဆီမှာ ဆီနံ့နှင့် မကြာသေးခင်ကမှ သုတ်ထားသည့် သဘော်ဆေးနံ့တို့သည် ပျံ့နှံ့လျက် ရှိလေသည်။ ကြက်တချို့သည် နေပူဒဏ်ကို မခံနိုင်ကြသေးသဖြင့် အရိပ်ကောင်းရာ နောက်ဖေး အဖီတဲ အတွင်းသို့ ဝင်ရောက် ခိုနားနေကြလေပြီ။ ဝက်ခြံအတွင်းမှာ ဝက်များသည် လဲလျောင်းလျက် ရှိကြသည်။ ခြံဝင်းအနီး၌ ကပ်နေသော ဝက်ခြံမှာ အရိပ်ကောင်းစွာ မရ။ ဝက်များသည် တစ်ချီ တစ်ချီ ကျယ်လောင် စူးရှသော အသံဖြင့် ထ၍ အော်တတ်ကြ လေသည်။ ထရပ်ကား အောက်တွင် ဝင်၍ လှဲနေကြသော ခွေးနှစ်ကောင်သည် နေပူဒဏ်ကို မခံနိုင်သဖြင့် လျှာထွက်နေကြလေသည်။

အဖေဂျုတ်သည် သူ့ခေါင်းမှ ဦးထုပ်ကို မျက်စိများ လုံသွားအောင် ဆွဲချလိုက်ပြီး မြေကြီးပေါ် ဆောင့်ကြောင့် ထိုင်ချလိုက်သည်။ ပြီးတော့ သူ့သားတွမ်ကို ခြေဆုံးခေါင်းဆုံး ကြည့်သည်။ ဦးထုပ်အသစ်၊ အင်္ကျီဘောင်းဘီ အသစ်၊ ဖိနပ် အသစ်။

“မင်းပိုက်ဆံက အဝတ်အစားသစ်တွေ ဝယ်လို့ ကုန်ခဲ့တာ မဟုတ်လား ” ဟု မေးသည်။ “ဒီအဝတ်အစားသစ်တွေက ဘာသွားလုပ်မှာလဲ၊ မင်းအတွက် အနှောင့်အယှက် ဖြစ်နေမှာ သေချာတယ် ”

“ထောင်က ပေးလိုက်တာပါဗျာ ” ဟု တွမ်ဂျုတ်က ဖြေသည်။ “ကျုပ် ထောင်က လွတ်လို့ ပေးလိုက်တာပါ ” သူသည် ခေါင်းမှ ကက်ဦးထုပ်ကို ချွတ်ကာ စိတ်ဝင်တစား ကိုင်ကြည့်နေသည်။ ပြီးတော့ နဖူးမှ ချွေးများကို သုတ်ကာ ပြန်ဆောင်းသည်။ ဦးထုပ်လျှာကို ရှေ့သို့ ငိုက်ကျလာအောင် ခပ်တင်းတင်း ဆွဲချသည်။

အဖေဂျုတ်က မျက်တောင်ပင် မခတ်ဘဲ ကြည့်နေပြန်သည်။ "ဖိနပ်အသစ်ကလည်း သူတို့ ပေးလိုက်တာပဲလား၊ တော်တော် ကောင်းတာပဲ"

"ဒါပေါ့" ဟု တွမ်ဂျုတ်က ပြန်ပြောသည်။ "ဖိနပ်က ကောင်းတော့ ကောင်းတယ်၊ ဒါပေမဲ့ နေပူလာရင် လမ်းလျှောက်လို့ မကောင်းဘူး အဖေရ" တွမ်ဂျုတ်က သူ့အဖေဘေးတွင် ဝင်၍ တင်ပျဉ်ခွေ ထိုင်ချလိုက်သည်။

"ဘေးကာတွေ တပ်ပြီးရင် ဒီပစ္စည်းအားလုံးကို ထရပ်ကားပေါ် တင်နိုင်မှာလား၊ ဘယ်တော့ တင်မလဲ၊ အယ်လ် ရောက်လာမှ တင်မှာလား" နိုအာ စိတ်ဝင်တစားနှင့် မေးသည်။

"မောင်းဖို့ လူ လိုနေရင်တော့ ကျုပ် မောင်းတတ်ပါတယ်" ဟု တွမ်ဂျုတ်က ဆိုသည်။ "ကျုပ် မက်အေလက်စတား ထောင်မှာ နေတုန်းက ထရပ်ကား မောင်းခဲ့ရတယ်"

"အေး ကောင်းတာပေါ့" ဟု အဖေဂျုတ်က ရေရွတ်သည်။ သူ့မျက်လုံးများသည် လမ်းမပေါ်သို့ ရောက်သွားလေ၏။ "ငါ့မျက်စိမမှားရင်တော့ ဟိုက လာနေတဲ့ကောင်ဟာ မင်းညီပဲ ဖြစ်ရမယ်၊ သူ့အမြီးကို တန်းလန်းဆွဲပြီး အိမ်ပြန်လာပြီ၊ ကြည့်ရတာတော့ အတော်ကြီး မောလာပုံပဲ"

တွမ်နှင့် တရားဟောဆရာတို့က လမ်းမဘက်သို့ လှမ်းမျှော်ကြည့်သည်။ ခြေဖျားတထောက်ထောက်နှင့် မြောက်ကြွ မြောက်ကြွ လာနေသော အယ်လ်ကို မြင်သည်။ သူ့ကို လှမ်းကြည့်နေသူများအား သတိပြုမိသော အယ်လ်က လက်များကို မြှောက်၍ ဝှေ့ယမ်းပြသည်။ အိပ်တန်းမတက်မီ ဟန်နှင့် မာန်နှင့် တွန်လိုက်ရန် အားယူနေသော ကြက်ဖသဖွယ် ရင်ကိုကော့၍ ဝင့်ကြွားသော ခြေလှမ်းများဖြင့် ခြံတွင်းသို့ ဝင်လာသည်။ သူသည် ပထမတော့ တွမ်ကို မမြင်။ တွမ်ဂျုတ်ကို မမြင်မီက သူ့မျက်နှာထားသည် တစ်မျိုး။ ခပ်ကြွားကြွား။ ဘဝင် ခပ်မြင့်မြင့်နှင့် ခြေဖျားထောက်လိုသည့်ဟန် အပြည့်။ တွမ်ကို မြင်လိုက်သော အခါတွင်မူ သူ့မျက်နှာထားသည် ဖျတ်ခနဲ ပြောင်းသွားသည်။ သူ့မျက်လုံးများသည် အံ့သြခြင်း၊ လေးစားခြင်း၊ ချစ်ခင်ခြင်း၊ ကြည်ညိုခြင်းတို့ဖြင့် တောက်ပလာသည်။ ကြွားဝါလိုသော အမူအရာများ ပျောက်သွားသည်။ သူ့ဂျင်းဘောင်းဘီသည် တိုနံ့နံ့။ အောက်အနားသည် ဖိနပ်၏ အထက် ရှစ်လက်မခန့် တက်နေသည်။ သူ စီးထားသည့် ဖနောင့်သံချွန်တပ် ရှူးဖိနပ်ကို မြင်သာအောင် ဘောင်းဘီကို တမင်သက်သက်

တိုထားခြင်းပေတည်း။ ကြေးဝါပြား အရုပ်များ ကပ်ထားသော သုံးလက်မ ခါးပတ်သည် တလက်လက်။ သူ၏ အပြာရောင် ရှပ်အင်္ကျီ ရင်ဘတ်ပေါ်မှ အနီရောင် လက်ဝါး တံဆိပ်ကလည်း ကြွကြွရွရွ။

လူပျိုပေါက်ပီပီ အယ်လ်သည် မာန်အပြည့် ရှိသည်။ သူ့ကိုယ်သူ ထင်တစ်လုံး ထား၍ နေသူ ဖြစ်သည်။ သို့သော်လည်း သူသည် သူ့အစ်ကို တွမ်ကို မီသည်ဟု စိတ်ကမထင်။ သူ့အစ်ကိုသည် လူတစ်ယောက်ကို သတ်ဖူးသည်။ ဒါကို မေ့သွားမည့်သူ မရှိ။ သူနှင့် သက်တူရွယ်တူ လူငယ်များကလည်း လူတစ်ယောက် သတ်သွားသော အစ်ကိုအရှိန်ဖြင့် သူ့ကို လေးစားကြသည်။ လန့်ကြသည်။ ဒါကိုလည်း အယ်လ်က သတိပြုမိသည်။ သူ ဆယ်လီဆောမြို့ကို ဆိုက်ရောက်စဉ်က လူတစ်ယောက်က သူ့အား လက်ညှိုးထိုးပြပြီး "အယ်လ်ဂျုတ်ဆိုတာ အဲဒါပဲပေါ့ကွ၊ တလောက လူတစ်ယောက်ကို တူရွင်းပြားနဲ့ ရိုက်သတ် သွားတာ သူ့အစ်ကိုပေါ့" ဟု ပြောခြင်းကို ခံခဲ့ရ၏။

အယ်လ်သည် သူ့အစ်ကို အနီးသို့ ရှိသေကျိုးနွံမှု အပြည့်ဖြင့် ချဉ်းကပ်လာသည်။ ထောင်က ထွက်လာသော သူ့အစ်ကိုသည် ယခင်ကထက်ပို၍ ဝင့်ဝါလာလိမ့်မည်ဟု သူ မျှော်လင့်ထား၏။ အခုတော့လည်း သူ့အစ်ကိုသည် သူ ထင်ထားသလို မဟုတ်။ သူ့ကို ဆီး၍ ကြည့်နေသော မျက်လုံးအစုံတွင် အေးဆေးတည်ငြိမ်မှု အပြည့်။ ထောင်က ပေးလိုက်သော ပညာအရ ဖြစ်ပေါ်လာသည့် တည်ငြိမ်မှုနှင့် အေးဆေးမှု။ ပြီးတော့ ကြမ်းတမ်းသော မျက်နှာပေါ်မှ နူးညံ့ သိမ်မွေ့သော အကြည့်။ ထောင်ထဲတွင် အကျဉ်းသားဘဝဖြင့် နေခဲ့ရစဉ်က ထောင်ဝါဒါများကို ကြည့်ခဲ့ရသော အကြည့်နှင့် ဟန်အမူအရာများသည် ယနေ့အထိ တည်ရှိနေဆဲ။ အာခံလိုသော ရန်ပြုလိုသော အကြည့်နှင့် ဟန်အမူအရာ လုံးဝ မရှိ၊ လုံးဝ မမြင်ရ။

အယ်လ်သည် သူ့အစ်ကို တွမ်၏ အမူအရာကိုကြည့်၍ အလိုလိုပင် အချိုး ပြောင်းသွားသည်။ ချက်ချင်းပင် သူ့အစ်ကို ပုံစံမျိုး ဖြစ်သွားသည်။ သူ၏ နုနယ် ချောမောသော မျက်နှာသည် အေးဆေး တည်ငြိမ်သွားသည်။ ဟိုတုန်းက သူ့အစ်ကို တွမ်သည် ဘယ်လို ပုံစံမျိုးနှင့် နေခဲ့ ထိုင်ခဲ့သနည်း။ ဒါကိုတော့ သူ လုံးဝ မမှတ်မိတော့ပေ။

"ဟေး အယ်လ်၊ ထွားလာလိုက်တာကွာ၊ ငါဖြင့် မှတ်တောင် မမှတ်မိတော့ဘူး" ဟု တွမ်က ပြောသည်။

တွမ်ကသာ လက်ဆွဲ၍ နှုတ်ဆက်မည် ဆိုပါက သူ့လက်ကို ထိုးပေးဖို့ အသင့်။ တွမ်က သူ့လက်တစ်ဖက်ကို ဆန့်၍ ကမ်းပေးသည်။ အယ်လ်က လှိုက်လှိုက်လှဲလှဲ ဆီးဆွဲကာ နှုတ်ဆက်သည်။ သူတို့ ညီအစ်ကိုနှစ်ဦးကြားတွင် တူညီမှု တစ်ခုတော့ ရှိ၏။ "သူတို့က ပြောနေကြတယ်၊ မင်း ထရပ်ကား တစ်စီးကို ကောင်းကောင်း ကိုင်တတ်နေပြီတဲ့၊ ဟုတ်လားကွ အယ်လ်" ဟု တွမ်က မေးလေသည်။

လေကြွားသူများကို မုန်းတီး ရွံရှာတတ်သော သူ့အစ်ကို၏ သဘောကို အယ်လ် ကောင်းကောင်း နားလည်သည်။ သူ မကြွားရဲ။ "သိပ်ပြီး နားလည်တာတော့ မဟုတ်ပါဘူး၊ နည်းနည်းပါးပါးပါ"

အဖေဂျုတ်က ဝင်ပြောသည်။ "တို့နယ်မှာတော့ သူဟာ အတော်ဆုံးပဲပေါ့ကွာ၊ မင်း ကြည့်ရတာ ပင်ပန်းလာပုံပဲ၊ ဘယ်တွေလျှောက်သွားပြီး ဘာတွေများ လုပ်လာသလဲ၊ မင်း ပစ္စည်းတွေ ကားပေါ်တင်ပြီး ဆယ်လီဆောကို သွားရောင်းရဦးမယ်နော်"

အယ်လ်က သူ့အစ်ကို မျက်နှာကို တစ်ချက် လှမ်းကြည့်သည်။ "အစ်ကို ကျူပ်နဲ့ လိုက်မလား" ဟု မေးသည်။

"ငါ မလိုက်နိုင်သေးဘူး" ဟု တွမ်က ပြန်ပြောသည်။ "ငါ ဒီမှာ ကူလုပ်စရာတွေ အများကြီး ရှိသေးတယ်၊ ဟိုကို ထွက်တော့မှ မင်းနဲ့ ငါ တစ်လှည့်စီ မောင်းကြတာပေါ့"

အယ်လ်က သူ သိချင်သော အရာတစ်ခုကို မေးသင့် မမေးသင့် ချိန်ဆ အားယူလျက် ရှိသည်။ "ဟို.. ဟို၊ အစ်ကို ထောင်က ထွက်ပြေးလာတာလားဟင်"

"မဟုတ်ဘူး" ဟု တွမ်က ဖြေသည်။ "ကတိ ခံဝန်ချုပ်နဲ့ လွှတ်လိုက်တာ"

"ဪ"

သူ မျှော်လင့်ထားသော အဖြေမျိုး မဟုတ်သဖြင့် အယ်လ်ဂျုတ် အနည်းငယ် တော့ဖြင့် စိတ်ပျက်သွားလေသည်။

* * *

## အခန်း (၉)

အိမ်ငယ်များအတွင်းဝယ် လယ်စာရင်းငှားများသည် သူတို့ပိုင် ပစ္စည်းများနှင့် သူတို့၏ အဖေများ အဘိုးများ ပိုင်ဆိုင်ခဲ့ကြသော ပစ္စည်းများထဲမှ သူတို့နှစ်သက်ရာ ပစ္စည်းများကို ဆန်ကာတင် ရွေးယူလျက် ရှိကြသည်။ အနောက်ဘက် ဒေသသို့ သူတို့ အပြီးအပိုင် ထွက်ခွာသွားကြသည့်အခါ လမ်းခရီး၌ အသုံးဝင်မည့် ပစ္စည်းများကိုမူ တစ်သီးတစ်သန့် ခွဲ၍ ပုံထားလေသည်။

လယ်စာရင်းငှား ယောကျ်ားများ၏ စိတ်မှာ တည်ငြိမ် အေးဆေးခြင်း ကင်းမဲ့ကာ ဗလောင်ဆူလျက် ရှိကြ၏။ အလွန် ထန်ပြင်းသော ဒေါသမာန်ဖြင့် ပူလောင်ခြင်း ဖြစ်လျက် ရှိကြ၏။ ရက်စက် ကြမ်းကြုတ်သော စိတ်နှင့် အညှာအတာ ကင်းမဲ့သော စိတ်တို့သည် ဝင်ရောက် ပူးကပ်လျက် ရှိ၏။ အဘယ်ကြောင့်ဆိုသော် တစ်ချိန်က သာတောင့်သာယာ ရှိခဲ့သော သူတို့၏ အတိတ်ဘဝ တစ်ခုလုံး အချေအမှုန်း အဖျက်အဆီးကို ခံထားရသောကြောင့် ပေတည်း။ မိန်းမများကတော့ အခု လောလောဆယ် ဒေါသမာန် တက်နေကြသော သူတို့၏ ယောကျ်ားများသည် မကြာခင် ဆိုက်ရောက်လာတော့မည့် နေ့ရက်များ၌ အဖျက်ဆီးခံခဲ့ရသည့် အတိတ်ဘဝ အကြောင်းများကို ပြန်တွေးကာ ငိုကြွေးကြရလိမ့်မည်ဟု နားလည်နေကြ လေသည်။ ယောကျ်ားများသည် ခြံဝင်းထဲရှိ တင်းကုပ်များနှင့် အဖီတဲများအတွင်းသို့ ဝင်ကာ ရှိသမျှ ပစ္စည်းများကို စေ့စေ့စပ်စပ် လိုက်လံကြည့်ရှုလျက် ရှိလေသည်။

ထိုထယ်နှင့် ထိုထွန်။ နှစ်ခုစလုံးကို သူ ကောင်းစွာ မှတ်မိသည်။ စစ်ဖြစ်နေတုန်းက ဒီထယ်နှင့် ဒီထွန်ကို သုံးပြီး ငါတို့ မုန်ညင်းတွေ စိုက်ခဲ့ရတာ မဟုတ်လား။ မထူးပါဘူး။ ဒီပစ္စည်းတွေကိုလည်း အပြင်ထုတ်လိုက်တော့။ နှစ်ခုစလုံးကို ရောင်းလိုက်ရင် ဒေါ်လာ နည်းနည်းတော့ ရမှာပဲ၊ အဲဒီထယ်ဆိုရင် အနည်းဆုံး ဆယ့်ရှစ်ဒေါ်လာတော့ ရမှာပဲ။ ဒါတောင် သယ်ခစရိတ်ပါ ထည့်တောင်းမှ ဆယ့်ရှစ်ဒေါ်လာပဲ ရမှာ။ အမျိုးအစားကတော့ မညံ့ဘူး။ ဆီးယားစ်ရိုးဘတ်ခ်က လုပ်တဲ့ ပစ္စည်းပဲ။

ဟောဟိုဘေးက မြင်းကကြိုးတန်ဆာတွေ တွန်းလှည်းတွေ မျိုးကြဲစက်နဲ့ပေါက်တူး ပေါက်ပြားတွေကော ဘာလုပ်တော့မှာလဲ။ အားလုံး အပြင်ကိုသာ ထုတ်လိုက်တော့။ အားလုံးစုပြီး လှည်းပေါ်တင်။ မြို့ကို သယ်သွားပြီး ရသလောက်နဲ့သာ ရောင်းလိုက်တော့။

အဲဒီလှည်းနဲ့ မြင်းကိုလည်း ပြန်ယူမလာနဲ့။ အသုံးကျမှာလည်း မဟုတ်တော့ဘူး။ သူတို့ကိုပါ ရောင်းပစ်ခဲ့တော့။

ဒီလို ထယ်ကောင်း တစ်လက်ကို ဆယ့်ငါးဆင့်နဲ့ ရမလားဗျ။ မျိုးကြဲစက်က သုံးဆယ့်ရှစ် ဒေါ်လာတောင် ပေးထားရတာ။ နှစ်ဒေါ်လာပဲ ပေးနိုင်မယ်ဆိုတော့ မလွန်လွန်းဘူးလား။ အင်း ဒီစက်ကို ပြန်ယူသွားဖို့ ဆိုတာကတော့ မဖြစ်နိုင်တော့ဘူး။ ကဲလေ ရောင်းရတော့မှာပဲ။ ခင်ဗျားပေးတဲ့ ဈေးနဲ့ပဲ ယူပါတော့။ ဒီပစ္စည်းနဲ့အတူ စိတ်ဆင်းရဲမှုကိုပါ ယူသွားပေတော့။ ရေပိုက်တွေနဲ့ အပိုစွည်း ကိရိယာတွေကိုကော တစ်ခါတည်း ယူလိုက်ပါလားဗျာ။ မြင်း လည်ဆွဲကြိုးနဲ့ လည်ပတ်ကြိုးတွေကော မဝယ်ဘူး လား။ ဒါတွေကတော့ မြင်းသင်းကွပ်တဲ့ ပစ္စည်းကိရိယာတွေပေါ့ဗျာ။ ဒါတွေကော ဝယ်ဖို့ စိတ်မဝင်စား ဘူးလား။

ဟိုရှေ့ မျက်နှာစာမှာ ပုံထားတဲ့ ပစ္စည်းတွေကော။ မကြည့်တော့ဘူးလား။ ပစ္စည်းတွေကတော့ အသုံးမဝင်တော့လို့ ပစ်ထားတဲ့ ပစ္စည်းတွေပါ။

လက်ထိုးထယ် ဝယ်မယ့်လူ မရှိတော့ဘူး ဟုတ်လား။ ပိသာချိန်နဲ့ ရောင်းရမယ့် ပစ္စည်းမို့ ဆယ့်ငါးဆင့်ပဲ ပေးမယ် ဆိုပါတော့။ ဟုတ်ပေမပေါ့လေ။ အခုအချိန်မှာတော့ ထွန်စက်ကြီးတွေက အရာရောက်နေပြီကိုးဗျ။

ကဲပါလေ။ ယူလိုက်ပါတော့။ ဒီပစ္စည်းတွေအားလုံးအတွက် ကျုပ်ကို ငါးဒေါ်လာပဲ ပေးပါတော့။ တစ်ခုတော့ ပြောချင်တယ်ဗျာ။ ခင်ဗျား အခု ဝယ်နေတာဟာ လုံးဝ သုံးမရတော့တဲ့ အမှိုက်သရိုက်လို ပစ္စည်းတွေကိုသာ ဝယ်နေတာ မဟုတ်ဘူးဗျ၊ လုံးဝ သုံးမရတော့တဲ့ အသက်တွေကိုပါ ဝယ်နေတာ။ ပြီးတော့ စိတ်ဆင်းရဲခြင်းဆိုတဲ့ ဒုက္ခကိုပါ ဝယ်နေတာ။ တစ်နည်းအားဖြင့် ပြောရရင် ခင်ဗျားရဲ့ သားသမီးတွေကို ထိုးပစ်ဖို့ ထယ်တစ်လက် ဝယ်နေတဲ့ သဘော။ ကျုပ် စောစောက ပြောတာ ငါးဒေါ်လာပါဗျာ။ လေးဒေါ်လာ မဟုတ်ပါဘူး။ ဒီပစ္စည်းတွေကို ကျုပ် ပြန်ပြီး သယ်မှမသွားနိုင်တော့ဘဲကိုးဗျ။ ခင်ဗျား ပေးသလောက်နဲ့ပဲ ထားခဲ့ရတော့မှာပေါ့။ ကဲပါ ပေးပါတော့၊ လေးဒေါ်လာ။

ကိုင်း မြင်းနဲ့ လှည်းကော ဘယ်လောက် ပေးမလဲ။ မြင်းတွေက မြင်းကောင်း မြင်းချောတွေပါဗျာ။ ဘယ်လောက်လှသလဲ။ နှစ်ကောင်စလုံး အနီချည်းပဲ။ အရောင်လည်း တူတယ်။ အသွေးအမွေးလည်း တူတယ်။ သိပ် တွဲဖက်ညီတဲ့ ကောင်တွေ။ သူတို့

လျှောက်သွားတာကို မြင်တယ် မဟုတ်လား။ လေးဘက်ကျပုံ ဘယ်လောက်များ ညီလိုက်သလဲ။ မနက်ခင်း ထွက်စ နေရောင်အောက်မှာဆိုရင် သူတို့အရောင်ဟာ သိပ်ကို လှတာ။ ခြံဝင်းတိုင်နားကနေပြီး ကျုပ်တို့အလာကို အနံ့ခံပြီး မျှော်နေတဲ့အခါများ အလွန်ကို ချစ်စရာ ကောင်းတာပေါ့ဗျာ။ ထိပ်မွေး တထောင်ထောင်နဲ့။ အလွန်ကို ကြည့်လို့ ကောင်းတာပေါ့။ ကျုပ်အဆက် ကောင်မလေးက ဆိုရင် သူ့ခေါင်းက ဆံပင်ကို ဒီမြင်းနှစ်ကောင်ရဲ့ ထိပ်မွေးတွေလို ဖြစ်ချင်လို့တဲ့။ ဟား ဟား ကြည့်လေ။ ကြိုက်သလိုသာ ကြည့်ပါ။ သွားတွေလည်း ကောင်းပါသေးတယ်။ အားလုံး ကောင်းပါတယ်ဗျ။ ဘယ်လောက်ပေးမယ်။ ဆယ်ဒေါ်လာ။ မြင်းရော လှည်းပါ ဆယ်ဒေါ်လာ ဟုတ်လား။ ဖြစ်မှ ဖြစ်ရပလေဗျာ။ ဘုရားသခင် ကယ်တော်မူပါ။

အိုဗျာ။ ယူလိုက်တော့။ ယူလိုက်တော့။ မြန်မြန်ဆွဲသွားတော့ဗျာ။ ဆယ်ဒေါ်လာသာ ပေးခဲ့တော့။ ဒီမယ် ဆရာကြီး။ ခင်ဗျား အခု ဝယ်နေတဲ့ ပစ္စည်းဟာ အင်မတန် ပူပြင်းတဲ့ နေရောင်အောက်မှာ နှစ်ပေါင်းများစွာ ကုန်းရုန်းပြီး အလုပ် လုပ်ခဲ့ရတဲ့ လုပ်အားရှင် တစ်ယောက်ကို ဝယ်နေတာ။ စကားမပြောနိုင်တဲ့ ဝမ်းနည်းမှုတစ်ခုကို ဝယ်နေတာ။ ဒါပေမဲ့ တစ်ခုတော့ သတိထားပေတော့။ ခင်ဗျား အခု ဝယ်လိုက်တဲ့ ပစ္စည်းတွေနဲ့ ဟောဒီမြင်းတွေဟာ ဒုက္ခရဲ့ အစပဲ။ မကြာခင် ခင်ဗျားရဲ့ အိမ်ထဲမှာ ဒုက္ခဆိုတဲ့ မီးဟာ လောင်လိမ့်မယ်။ ကျုပ်တို့ကတော့ ခင်ဗျားကို ကယ်ဆယ်နိုင်မယ့် အခြေအနေ ရှိပါရဲ့။ ဒါပေမဲ့ ခင်ဗျားက ကျုပ်တို့ လည်ပင်းကို လှီးဖြတ်နေတာကိုးဗျ။ သိပ်တော့ ကြာမယ် မထင်ပါဘူး။ ခင်ဗျား ကိုယ်တိုင် ဝင်္ဂလည်ပါလိမ့်မယ်။ ခင်ဗျားကို လည်လှီးမယ့်သူဟာ ပေါ်လာဦးမှာပါ။ အဲဒီကျတော့ ခင်ဗျားကို ကယ်နိုင် ကူနိုင်မယ့် ကျုပ်တို့တစ်တွေဟာ တစ်ယောက်မှ ရှိတော့မှာ မဟုတ်တော့ဘူးဗျို့။

ထို့နောက် စာရင်းငှားများသည် လက်နှစ်ဖက်ကို အိတ်ကပ်များထဲ ထိုးနှိုက်၍ ဦးထုပ်များကို ရှေ့သို့ ခပ်ငိုက်ငိုက်ဖြစ်အောင် ဆွဲချ၍၊ ခေါင်းများကို ငိုက်စိုက်ချ၍ လာလမ်းအတိုင်း ခြေကျင်လျှောက်၍ ပြန်လာကြလေ၏။ တချို့ကတော့ သူတို့၏ စိတ်ထိခိုက်မှုမှ သက်သာရာရစေရန်အတွက် အရက်ဆိုင်ဝင်ကာ တစ်ခွက် တစ်ဖလား မော့လာကြသည်။ အရက်အရှိန်ဖြင့် ရီဝေဝေ နောက်တောက်တော်။ သို့သော်လည်း သူတို့သည် ပြုံးရယ်ခြင်း မရှိ။ ကခြင်း ခုန်ခြင်းလည်း မရှိ။ သီချင်းလည်း မဆို။ ဂီတာကိုလည်း သတိမရ။ သူတို့ခြေလှမ်းများသည် သူတို့ လယ်တဲများဆီသို့ ဦးတည်လျက် ရှိကြသည်။ သူတို့၏ ဖိနပ်ဦးများသည် တစ်ချက် တစ်ချက် မြေကြီးကို ဆောင့်၍ ဆောင့်၍

ကန်ကျောက်သွားလျက် ရှိ၏။ သူတို့ ကန်လိုက်သည့်အခါတိုင်း နီရဲရဲ မြေမှုန့်များသည် ထောင်းခနဲ ထောင်းခနဲ ထလာတတ်လေသည်။

သစ်သီးဝလံတွေကို စိုက်လို့ ပျိုးလို့ ဖြစ်ထွန်းတဲ့ ကယ်လီဖိုးနီးယား ပြည်နယ်ထဲက နယ်သစ် ပယ်သစ် မြေသစ်တွေပေါ် ရောက်သွားရင်တော့ ငါတို့ဘဝကို အသစ်ပြန်ပြီး ထူထောင်လို့ ရချင်ရမှာပါ။ ဘာပဲဖြစ်ဖြစ်လေ။ ငါတို့ဘဝကို ထပ်ပြီး တည်ဆောက်ကြည့် ရမှာပဲ။

ဒါပေမဲ့ မင်းဘဝကို ပြန်ပြီး တည်ဆောက်ဖို့ကတော့ မရနိုင်တော့ပါဘူး။ နို့စို့အရွယ် ကလေးတစ်ယောက်သာ ပြန်ပြီး တည်ဆောက်နိုင်မယ့် အခြေအနေမျိုး ဆိုက်နေပြီ။ မင်းနဲ့ငါ အဖို့တော့ မလွယ်တော့ဘူး။ ဘာကြောင့်လဲ။ သိလား။ ငါတို့မှာ အချိန်မရှိတော့ဘူး။ အသက်တွေ ကြီးကုန်ပြီ။

ဤအတွေး ဝင်လာသောအခါ တဒင်္ဂအားဖြင့် ဒေါသအရှိန် တက်လာသည်။

ဒီမြေ နီရဲနေတဲ့ ဟောဒီ မြေကြီးဟာ ငါတို့ဘဝပဲ။ ရေတွေကြီးတဲ့ နှစ်တွေ၊ ဖုန်တွေ တထောင်းထောင်း ထနေတဲ့ နှစ်တွေနဲ့ မိုးခေါင်လွန်းလို့ ခြောက်သွေ့နေတဲ့ နှစ်တွေ။ ဒါတွေဟာလည်း ငါတို့ဘဝပဲ။ ငါတို့ဘဝ ပြန်ပြီး စနိုင်ဖို့ဆိုတာ မလွယ်တော့ပါကလား။ ငါတို့ရဲ့ စိတ်ဆင်းရဲမှု ဟူသမျှကို တိုလီမိုလီ ပစ္စည်း အဟောင်းအမြင်းတွေ ဝယ်တဲ့လူကို ရောင်းပစ်ခဲ့တယ်။ စိတ်ဆင်းရဲမှု ဟူသမျှ သူ့ဆီ ရောက်သွားပြီလို့ ငါတို့ ထင်ခဲ့မိတယ်။ ငါတို့ ထင်နေတာ မမှန်ပါလား။ ငါတို့မှ အခုအချိန်အထိ စိတ်ဆင်းရဲမှု ရှိနေသေးတာပဲ။ မြေပိုင်ရှင်တွေက ငါတို့ကို မြေပေါ်က မောင်းထုတ်တော့ စိတ်ဆင်းရဲခဲ့ရတာ ဘယ်သူတွေလဲ။ ငါတို့ပဲ။ ထွန်စက်ကြီးတွေနဲ့ အိမ်တွေကို ဖြိုနေတော့ကော ဘယ်သူတွေ စိတ်ဆင်းရဲခဲ့ရသလဲ။ ငါတို့ပဲ မဟုတ်လား။ တကယ်တော့ ငါတို့ဟာ သေသည်အထိ စိတ်ဆင်းရဲသွားရမှာပါကလား။ ကယ်လီဖိုးနီးယား ပြည်နယ်ကိုပဲ သွား သွား၊ တခြား ဘယ်နေရာကိုပဲ သွား သွား ငါတို့နဲ့အတူ စိတ်ဆင်းရဲမှု ဆိုတဲ့ ဒုက္ခကြီးဟာ အရိပ်လို ပါလာနေမှာပဲ။ အင်း တစ်နေ့ကျရင်တော့ ဒီစိတ်ဆင်းရဲမှုကနေပြီး နာကြည်းမှုတွေ ပေါက်ဖွားလာတော့မယ်။ အဲဒီ နာကြည်းမှုတွေဟာ စစ်တပ်ကြီးတွေလို တစ်လမ်းတည်းကို ဦးတည်ပြီး လျှောက်သွားကြတော့မယ်။ အားလုံးဟာ အတူတူ လက်တွဲပြီး

လျှောက်သွားကြ လိမ့်မယ်။ အဲဒီအချိန်ကျရင်တော့ ကြောက်စရာ ကောင်းတဲ့ အရာ တစ်ခုဟာ ပေါက်ဖွားလာလိမ့်မယ်။

စာရင်းငှားများသည် ခြေထောက်များကို တရွတ်တိုက် ဆွဲကာ နေးကွေး လေးလံသော ခြေလှမ်းများဖြင့် ပြန်ရောက်လာကြသည်။

ရောင်းသင့် ရောင်းထိုက်သည့် ပစ္စည်းမှန်သမျှကို ရောင်းခဲ့ပြီးပြီ။ မီးဖိုများ၊ အိပ်ရာ ခုတင်များ၊ ကုလားထိုင်များ၊ စားပွဲများ၊ ကြောင်အိမ်ဗီရိုများ၊ ကြွေရေခွက်များ၊ ရေဇလုံများ။ ဒီပစ္စည်းတွေကတော့ အစုလိုက် အပုံလိုက် ရှိနေဆဲ။ မိန်းမများသည် ထိုပစ္စည်းပုံများ ကြား၌ ထိုင်နေကြသည်။ သူတို့ မျက်လုံးများသည် ဂနာမငြိမ်။ ပစ္စည်းပုံများကြားတွင် ဟိုကြည့်လိုက် သည်ကြည့်လိုက်။ ဓာတ်ပုတွေ၊ ဖန်ခွက်တွေမှ ရှိရဲ့လား။ ရှိသည်။ ပြီးတော့ ပန်းအိုး။ ဘယ်ရောက်နေပါလိမ့်။ ဩော် ဒီမှာ။ အရှိသားပဲ။

ငါတို့ ယူသွားသင့်တဲ့ ပစ္စည်းနဲ့ မယူသင့်တဲ့ ပစ္စည်းတွေ မင်း ခွဲပြီး သိနေတာပဲ။ ကြည့်ရှုပြီး ယူပေါ့။ ချက်ဖို့ ပြုတ်ဖို့ အိုးတွေကတော့ လိုမှာပဲ။ မွေ့ရာနဲ့ အိပ်ရာခင်းတွေလည်း လိုမယ်ထင်တယ်။ ပြီးတော့ မှန်အိမ်နဲ့ ရေပုံးတွေကော ပါရဲ့လား။ ရွက်ထည်တော့ ယူမှ ဖြစ်မှာ။ တဲထိုးရင် သုံးလို့ရတယ်။ ဒီဟာက ဘာပါလိမ့်။ ရေနံဆီပုံး။ ဟိုဘက်ကဟာက ဘာလဲကွ ဟင်။ ဩော် မီးဖိုပဲ။ အဝတ်အစားတွေကော ပါရဲ့လား။ အဝတ်အစားတော့ အားလုံးယူခဲ့မှ ဖြစ်မယ်။ ပြီးတော့ ရိုင်ဖယ်သေနတ်ကော။ ရိုင်ဖယ်သေနတ် တစ်လက် မပါဘဲနဲ့တော့ ခရီးသွားဖို့ မဖြစ်ဘူးဟော့။ ဖိနပ်တွေ၊ အဝတ်အထည်တွေ၊ အစားအစာတွေ အားလုံး မရှိတော့ဘူး ဆိုပါတော့။ အိုကွာ။ ကုန်ကုန်ပြောလိုက်မယ်။ မျှော်လင့်ချက်ဆိုတာ မရှိတော့ဘူး ဆိုရင်တောင်မှ ငါတို့ လက်ထဲမှာ ရိုင်ဖယ်တစ်လက်တော့ ရှိမှကွ။ ဒီမြေပေါ်ကို အဘိုး ရောက်လာတုန်းက ဆိုရင် ... မင်းကို ငါ ပြောခဲ့ဖူးပါတယ်လေ။ သူ့မှာ ငရုတ်ကောင်းရယ်၊ ဆားရယ်၊ ရိုင်ဖယ် တစ်လက်ရယ် ဒီသုံးမျိုးပဲ ပါတာ။ တခြား ဘာမှမပါဘူး။ ဒါနဲ့ပဲ အလုပ်ဖြစ်တာပဲ။ ဩော် မေ့လို့။ ရေတစ်ပုလင်း ပါတယ်။ ရေက ဆာရင် ဗိုက်ဖြည့်နိုင်တာပေါ့။ ဟော့ ချာတိတ်တွေကို နောက်တွဲထဲမှာ ထိုင်ခိုင်း။ အဘွားကိုတော့ ဟိုမွေ့ရာပေါ်မှာ ထားမှ ဖြစ်မယ်။ သံတူးရွင်း၊ လွှ၊ သံနတ်နဲ့ ပလာယာတွေကော ပါရဲ့လား။ ပုဆိန်ကော။ အဲဒီပုဆိန်ကို ငါတို့ သုံးလာတာ အနှစ်လေးဆယ်တောင် ရှိပြီကွ။ ကြည့်စမ်း။ ဘယ်လောက် ဟောင်းနေပြီလဲ။

ကြိုးတွေကော။ ဘယ်မှာလဲ။ ဒါလည်း ပါမှပေါ့။ ကျန်တဲ့ဟာတွေလား။ ဒါတွေကိုတော့ လွှင့်ပစ်ခဲ့ပါတော့ဟာ ။ ဒါမှမဟုတ်လည်း ပုံပြီး မီးနဲ့ရှို့ပစ်ခဲ့။

ထို့နောက် သားသမီးများ အလှည့်သို့ ရောက်လာသည်။

မေရီက အဲဒီအရုပ် ယူလာမလို့တဲ့လား။ အရုပ်က ညစ်ပတ်နေပြီ။ စုတ်လည်း စုတ်နေပြီ။ သူ အဲဒီ အရုပ်ကို ယူရင် ကျွန်တော်လည်း ရက်အင်ဒီးယန်း လေးနဲ့မြားကို ယူလာမှာပဲ။ ပြီးတော့ ဟိုတုတ်ကြီးကိုလည်း ယူလာမယ်။

မိန်းမများကတော့ ပစ္စည်းပုံများ ကြားတွင် ထိုင်နေရာမှ ဟိုကြည့် သည်ကြည့် လုပ်နေဆဲပင် ရှိသည်။ ဒီစာအုပ်ကို ယူခဲ့ရင် ကောင်းမလား။ အဖေ့စာအုပ်ပဲ။ အဖေက စာဖတ် ဝါသနာပါတယ်။ စာအုပ်နာမည်က ဘုရားဖူးတစ်ဦး၏ တိုးတက်မှု တဲ့။ အဖေ အမြဲဖတ်တဲ့ စာအုပ်ပဲ။ အဖေ့နာမည်တောင် ထိုးထားတယ်။ ဒီဓာတ်ပုံကကော။ နတ်တစ်ပါးပုံပါလား။ ပထမ ကလေးသုံးယောက် မမွေးခင်က ငါ ခဏ ခဏ ကြည့်ခဲ့ဖူးတဲ့ ပုံပဲ။ သိပ်တော့ မကောင်းတော့ပါဘူး။ အန်တီဆာဒီ စိန့်လူဝတ် ပွဲတော်က ဝယ်လာတဲ့ဟာပဲ။ ကျောဘက်မှာ သူ့လက်ရေးနဲ့ စာရေးထားတယ်။ ဒီစာရွက်က ဘာပါလိမ့်။ ငါ့မောင် မသေခင် တစ်ရက်က ရေးသွားခဲ့တဲ့ စာပဲ။ ဒီဟာကတော့ ဦးထုပ် အဟောင်းကြီးပဲ။ ဘယ်သူမှလည်း ဆောင်းလို့လည်း မရတော့ပါဘူး။ သူ့အတွက် နေရာလည်း ရှိတော့တာမှ မဟုတ်တာ။ လွှင့်ပစ်လိုက်တာပဲ ကောင်းပါတယ်။

အသက် မရှိဘဲနဲ့ ငါတို့ ဘယ်လိုလုပ်ပြီး နေကြမှာလဲ။ အတိတ်က ဖြစ်ရပ်တွေ မရှိဘဲနဲ့ ငါတို့ဘဝကို ငါတို့ ဘယ်လိုလုပ်ပြီး သိနိုင်မှာလဲ။ ဟာ ဒါတွေအားလုံး အလကားပါပဲ။ ထားလိုက်ပါတော့ မီးရှို့ပစ်လိုက်။

သူတို့သည် ထိုင်၍ စဉ်းစား တွေးတောနေရာမှ အတိတ်က ဖြစ်ရပ်များကို သူတို့စိတ်ဖြင့် မီးရှို့ကာ ပြာချပစ်လိုက်ကြသည်။

ချက်ချင်းပင် သူတို့၏ စိတ်များသည် လှုပ်ရှားလာကြပြန်သည် ။ ဒီနေရာက အခုချက်ချင်း ထွက်သွားတာ အကောင်းဆုံးပဲ။ မစောင့်နိုင်တော့ဘူး။ စောင့်နေလို့ကော ဘာများ အကျိုးရှိမှာလဲ။

သူတို့သည် သူတို့နှင့်အတူ ယူမသွားမည့် ပစ္စည်းများကို ခြံဝင်းတစ်နေရာ၌ စုပုံပြီး မီးရှို့ကြသည်။ တဟုန်းဟုန်း တောက်လောင်နေသော မီးပုံကို ရပ်၍ ကြည့်နေကြသည်။ ထို့နောက် တစ်နေရာ၌ ပုံထားသည့် ပစ္စည်းများကို ဒရောသောပါး ကောက်ယူကာ ထရပ်ကားများပေါ်သို့ တရမန်းကြမ်း ပစ်တင်ကြသည်။ ပြီးတော့ ကားများကို ခပ်ကြမ်းကြမ်း မောင်းထွက်ကြသည်။ လူအပြည့် ပစ္စည်းအပြည့် တင်ထားသော ကားများ၏ နောက်ဝယ် ဖုန်လုံးကြီးများသည် တော်တော်နှင့် ပျောက်မသွား။ ထရပ်ကားကြီးများ မျက်စိအောက်မှ ပျောက်ကွယ်သွားသော အချိန်ထိ တလူလူလွင့်၍ တက်နေဆဲ။

* * *

## အခန်း (၁၈)

ထွန်ယက် စိုက်ပျိုးရာ၌ အသုံးပြုသည့် ကိရိယာ တန်ဆာပလာ အသေးစား၊ အကြီးစား ပစ္စည်းများနှင့် မွေ့ရာ အိပ်ရာခင်းများမှ အစ ရောင်းချ၍ ရနိုင်လိမ့်မည်ဟု ထင်ရသော ပစ္စည်း မှန်သမျှကို စုပြုံထိုးသိပ်တင်ထားသည့် ထရပ်ကား ထွက်သွားသော အခါ တွမ်ဂျုတ်သည် ခြံဝင်းထဲသို့ လှည့်ပတ်၍ ကြည့်သည်။ သူသည် မြင်းများထားရာ တင်းကုပ်အတွင်းသို့ အလျင်ဆုံး ဝင်သည်။ မြင်းဇောင်းများသည် ဟောင်းလောင်း။ စိုက်ပျိုးကိရိယာ တန်ဆာပလာများ ထားရာ တဲအတွင်းသို့ ဝင်ခဲ့ပြန်၏။ အထဲတွင် ဘာပစ္စည်းမှ မရှိ။ သူသည် တစ်နေရာ၌ အထွေးလိုက် ကျနေသော အမှိုက်သရိုက်များကို ခြေထောက်နှင့် ကန်ထုတ်လိုက်သည်။ ကျိုးပဲ့နေသော ထွန်ခြစ် အသွားတစ်ခုသည် ဆတ်ခနဲ ထောင်တက်လာပြီး ခပ်လှမ်းလှမ်းသို့ လွင့်ထွက်သွားလေ၏။

တွမ်ဂျုတ်သည် သူ မှတ်မိသမျှ နေရာတိုင်းသို့ ရောက်အောင် သွားသည်။ ပျံလွှား ငှက်သိုက်များရှိရာ ကန်ပေါင်။ ဝက်ခြံကို အုပ်မိုးနေသည့် မိုးမခပင်။ ဝက်နှစ်ကောင်သည် သေးငယ် ကျဉ်းမြောင်းသော မျက်လုံးများဖြင့် တွမ်ဂျုတ်အား ဆီး၍ကြည့်ကာ တအီအီ အော်နေကြသည်။ ဝက်များမှာ အမည်းရောင်။ နေစာလှုံ၍ ဖိမ်ယူလျက် ရှိကြသည်။

ထို့နောက်တော့ သူ့မှာ ဆက်၍ သွားစရာနေရာ မရှိတော့။ သူသည် အိမ်ဘက်သို့ ပြန်လျှောက်လာပြီး အရိပ်ထိုးကျစ ပြုနေသော အိမ်ရှေ့တံခါးဝတွင် ခြေပစ်လက်ပစ် ထိုင်ချလိုက်သည်။ သူ့နောက်ဘက် အိမ်အတွင်းထဲတွင်မူ အမေသည် ကလေး အဝတ်အထည်များ လျှော်ဖွပ်လျက် ရှိ၏။ အမေ၏ သန်မာသော လက်များသည် တံတောင်ဆစ်ကွေးအထိ ဆပ်ပြာမြုပ်များထဲ၌ နစ်မြုပ်လျက် ရှိလေသည်။ တွမ်ဂျုတ် ထိုင်ချလိုက်သောအခါ အဝတ်ချင်း ပွတ်လျှော်နေသော အမေ့လက်များ ရပ်သွားသည်။ နောက်မှနေ၍ တွမ်ဂျုတ်ကို အချိန်အတန်ကြာမျှ ငေးစိုက်ကြည့်နေသည်။ ထို့နောက် အမေ့လက်နှစ်ဖက်သည် အဝတ်များကို ပွတ်တိုက်နေပြန်သည်။

"တွမ် အမေတော့ ကယ်လီဖိုးနီးယားမှာ အခြေအနေ ကောင်းလိမ့်မယ်လို့ မျှော်လင့်ထားတာပဲ" ဟု အမေက လှမ်းပြောသည်။

တွမ်က နောက်လှည့်ပြီး အမေ့ကို ကြည့်သည်။ "ဟိုမှာ အခြေအနေ မကောင်းဘူးလို့ ထင်စရာ ဘာအကြောင်းများ ရှိသလဲ အမေ"

"ဟင့်အင်း မရှိပါဘူး၊ ကြည့်ရတာ အခြေအနေ ကောင်းပုံပါပဲ၊ အမေ လက်ကမ်းကြော်ငြာတွေ ဝေတာ ဖတ်လိုက်ရတယ်၊ အလုပ်အကိုင် သိပ်ပေါတာပဲတဲ့၊ လုပ်ခပေးတာလည်း အများကြီးပဲတဲ့၊ ကြော်ငြာစာရွက်ထဲမှာတော့ စပျစ်သီး၊ လိမ္မော်သီးနဲ့ မက်မွန်သီးဆွတ်မယ့် အလုပ်သမား မရှိလို့ တနယ်တကျေးက လာပြီး အလုပ်လုပ်မဲ့လူတွေ သိပ်ပြီး လိုနေတယ်လို့ ရေးထားတာ ဖတ်ရတယ်၊ မက်မွန်သီး ဆွတ်တဲ့ အလုပ်မျိုးကတော့ ကောင်းမှာပါ၊ မင်း ခူးနေရတဲ့ မက်မွန်သီးထဲက တစ်လုံးတစ်လေမှ ယူမစားရဘူးလို့ သူတို့က ပညတ်ချင် ပညတ်မှာ။ ဒါပေမဲ့ တစ်ခြမ်းပုပ်ကလေး ဘာလေး ဆိုရင်တော့ ပြောမယ် မထင်ပါဘူး၊ စားခွင့် ပြုမှာပါပဲ၊ အသီးဆွတ်ရ ခူးရတဲ့ အလုပ်မျိုးကတော့ သစ်ပင်အောက်မှာ လုပ်ရတာမျိုးပါ၊ အရိပ်ထဲ လုပ်ရတဲ့ အလုပ်မျိုးဆိုတော့ ကောင်းမှာပဲ၊ ဒါပေမဲ့ကွယ်၊ အခြေအနေ သိပ်ကောင်းတယ်ဆိုတဲ့စကား ကြားရရင် အမေ့ရင်ထဲမှာ ကြောက်သလိုလို စိုးရိမ်သလိုလို ဖြစ်မိတယ်၊ အမေ့မှာ ယုံကြည်မှု ကင်းမဲ့နေတယ်ကွယ့် သိလား၊ သိပ်ကောင်းတယ် သိပ်ကောင်းတယ်လို့ ကြားရင် အမေ ကြောက်လာရေ"

"သင့်ရဲ့ ယုံကြည်မှုကို ငှက်တစ်ကောင် ပျံနိုင်သလောက် အမြင့်မှာ မထားပါနဲ့တဲ့၊ အဲသလောက် အမြင့်မှာသာ ထားရင် သင်ဟာ တီကောင်တွေနဲ့ အတူတူ တွဲပြီး မြေကြီးပေါ်မှာ တွားသွားနေရလိမ့်မယ်တဲ့"

"အေး ဟုတ်တယ်၊ ဒီစကားဟာ အမှန်ပဲ၊ သမ္မာကျမ်းစာထဲက စကား မဟုတ်လား"

"ဟုတ်တယ် ထင်တာပဲ" ဟု တွမ်က ပြန်ပြောသည်။ "ကျုပ်က သမ္မာကျမ်းစာ သိပ်ဖတ်တာ မဟုတ်ဘူး၊ ဒီစာပိုဒ်က ကျုပ် ဖတ်ဖူးခဲ့တဲ့ ဘာဘရာဝက်သ်၏ အောင်မြင်မှုများ ဆိုတဲ့ စာအုပ်ထဲကဟာ အမေရဲ့"

အမေ့ထံမှ ခပ်တိုးတိုး ရယ်သံ ထွက်လာသည်။ အမေ့လက်များကတော့ တလှုပ်လှုပ်။ အဝတ်များကို ရေဇလုံကြီးထဲ နှစ်လိုက် ပြန်ဆယ်လိုက်။ ပြီးတော့ တစ်ထည်ပြီး တစ်ထည် ညှစ်နေသည်။

"မင်းအဖေရဲ့ အဖေဟာ စကားပြောပြီဆိုရင် သမ္မာကျမ်းစာထဲက သူမှတ်မိသမျှ စာပိုဒ်တွေကို အမြဲ ရွတ်ပြပြီး ပြောလေ့ရှိတယ်၊ ကြာလာတော့လည်း အမှတ်တွေ မှားပြီး တခြားစာအုပ်ထဲက စာတွေနဲ့ ရောထွေးကုန်ရော၊ သူ အမြဲ မှားပြောတတ်တာက

ဒေါက်တာ မတ်စ်လ်၏ တစ်နှစ်အတွင်း ဖြစ်ရပ်များ ဆိုတဲ့ စာအုပ်ထဲက စာပိုဒ်တွေနဲ့ လွဲပြီး ပြောတာကွဲ့၊ အဲဒီစာအုပ်ကို သူက သိပ်သဘောကျတာ၊ အချိန်ရှိသရွေ့ အော် အော်ပြီး ဖတ်နေတတ်တယ်၊ ဆုံးမစရာအကြောင်း ပေါ်လာရင် သူက အဲဒီစာအုပ်ထဲက စာပိုဒ်တွေကို လျှောက်ရွတ်တာပဲ၊ ပြီးတော့ ဒီစကားဟာ သမ္မာကျမ်းစာထဲကကွလို့ ပြောတတ်တယ်၊ မင်းအဖေနဲ့ မင်းဦးလေး ဂျွန်တို့ကတော့ အကြောင်းသိတွေ ဆိုတော့ ဘေးကနေ ဝိုင်း ဝိုင်း ရယ်ကြတယ်"

အမေသည် ညှစ်ပြီးသား အဝတ်များကို စားပွဲပေါ် လှမ်းတင်သည်။

"အခု အမေတို့ သွားရမယ့် နေရာက မိုင်နှစ်ထောင်လောက် ဝေးတယ်လို့ ပြောကြတယ်၊ မင်းကော သိသလား၊ ဘယ်လောက် ဝေးသလဲ၊ အမေတော့ မြေပုံပေါ်မှာ ကြည့်ခဲ့ဖူးတယ်၊ တောင်တန်းကြီးတွေ ကာထားတဲ့ နေရာတစ်ခုပဲ၊ အမေတို့သွားရင် တောင်တန်းကြီးတွေကို ဖြတ်ရမှာ၊ တကယ်လို့ သွားကြပြီဆိုရင် ဘယ်နှစ်ရက်လောက် ကြာမယ် ထင်သလဲ တွမ်"

"ကျုပ်လည်း မပြောတတ်ဘူး အမေ" ဟု တွမ်ဂျုတ်က ဖြေသည်။ "ကျုပ်တို့ ကံကောင်းရင်တော့ အနည်းဆုံး တနင်္ဂနွေ နှစ်ပတ်လောက် ဒါမှမဟုတ် ဆယ်ရက်လောက်နဲ့ ရောက်သွားမှာပါ၊ ဒီမယ် အမေ၊ မဟုတ်က ဟုတ်ကကို တွေးပြီး ပူမနေစမ်းပါနဲ့ဗျာ၊ ထောင်ထဲ ရောက်နေတဲ့ လူတွေရဲ့ အဖြစ်ကို ကျုပ် ပြောပြမယ်၊ ငါ အပြင်ရောက်ရင် ဘယ်လို လုပ်ကိုင်စားရပါမလဲလို့ ထောင်ထဲမှာ ထိုင်တွေးနေရင် ဒီအကောင် ရူးရုံ ရှိတော့မပေါ့ဗျာ၊ အမေ တွေးရမှာက ကနေ့အတွက်၊ မနက်ဖြန်ကျတော့ မနက်ဖြန် အတွက်ပေါ့၊ ပြီးတော့ စနေနေ့မှာ လုပ်မယ့် ကပွဲမှာ ငါ ကမယ်၊ ဒါပဲ၊ အမေ တွေးရမှာက ဒါပဲ၊ ထောင်ထဲကို လူသစ် ခပ်ငယ်ငယ် တစ်ကောင် ရောက်လာရင် ငါ ဒီအထဲမှာ ဘယ်လောက်ကြာကြာ နေရမှာလဲ ဆိုတာ တွေးပြီး မှိုင်နေတာပဲ၊ အဲသလို လုပ်နေလို့ ဘာအဓိပ္ပာယ်ရှိမှာလဲ အမေရယ်၊ တစ်နေ့အတွက် တစ်နေ့စာပဲ ပူစမ်းပါဗျာ"

"အေးကွယ့်၊ အဲဒီနည်းဟာ နည်းကောင်းတစ်ခုပဲ" ဟု အမေက ရေရွတ်သည်။ အမေသည် မီးဖိုပေါ်မှ ရေနွေးအိုးကို ယူ၍ အဝတ်လျှော် ဇလုံထဲသို့ ရေနွေး ထပ်ဖြည့်သည်။ ဘေးတွင် ပုံထားသည့် အဝတ်ဟောင်းများကို ယူ၍ ဆပ်ပြာမြုပ်များ ထနေသော ဇလုံထဲသို့ နှစ်သည်။ "ဒါပေါ့၊ မင်း ပြောတဲ့နည်းဟာ အကောင်းဆုံးပဲ၊ ဒါပေမဲ့ အမေက ရှေ့လျှောက်

ကောင်းတော့မှာပဲလို့ တွေးရမှ ကျေနပ်သလို ဖြစ်နေတယ်၊ အမေ့မှာ ဝသီပါသလို ဖြစ်နေတာပေ့ါလေ၊ ဆိုပါစို့၊ အခု အမေတို့ ကယ်လီဖိုးနီးယား ရောက်ရင် အားလုံး အဆင်ပြေသွားမှာပဲလို့ တွေးချင်တယ်၊ ဟိုမှာတော့ သိပ်လည်း အေးမယ် မထင်ပါဘူး၊ သစ်သီးတွေလည်း ပေါမယ်၊ နေရ ထိုင်ရတာလည်း စိတ်ချမ်းသာမယ်၊ လိမ္မော်ပင်တွေကြားမှာ အိမ်ဖြူဖြူလေးနဲ့ ဘယ်လောက် ကောင်းလိုက်မလဲ၊ အမေတို့အတွက် အလုပ်ရကြမယ်ဆိုရင် သိပ်ကောင်းမှာပဲ၊ ပြီးတော့ အမေတို့နေဖို့ အိမ်ဖြူဖြူကလေး တစ်လုံးရရင် ပိုတောင် ကောင်းဦးမယ်၊ ကလေးတွေကတော့ လိမ္မော်သီးတွေကို ဆွတ်မစားဘဲ နေမှာ မဟုတ်ဘူး၊ စားကြမှာ၊ အဲဒါဆိုရင်တော့ ပိုင်ရှင်တွေကလည်း သည်းခံနိုင်မယ် မထင်ဘူး၊ ထွက်ပြီး အော်ကြမှာပဲ ”

တွမ်သည် အမေ အလုပ် လုပ်နေသည်ကို ငေး၍ ကြည့်နေသည်။ သူ့မျက်လုံးများသည် ပြုံးလျက် ရှိကြသည်။ “အမေ အဲသလို တွေးတော့လည်း ကောင်းတာပေ့ါ၊ ကယ်လီဖိုးနီးယားဘက်က ကောင်တစ်ကောင်နဲ့ ကျုပ် မိတ်ဆွေ ဖြစ်ခဲ့တယ်၊ သူ စကားပြောပုံ လေယူလေသိမ်းက ကျုပ်တို့နဲ့ မတူဘူး၊ သိလား၊ သူ ပြောတာကတော့ သူတို့ဒေသမှာလည်း အလုပ် လိုက်ရှာနေကြတဲ့ အလုပ်လက်မဲ့တွေ အများကြီးပဲတဲ့။ သစ်သီး အလုပ်သမားတွေ နေဖို့ ပေးထားတဲ့ အိမ်တန်းလျားတွေကလည်း ညစ်ပတ် ပေရေနေတာပဲတဲ့၊ ရတဲ့ လုပ်ခက နည်းလွန်းတော့ စားရတာလည်း မဝတဝတဲ့၊ လုပ်ခက သိပ်နည်းလွန်းပေမဲ့ တခြား လုပ်စရာ အလုပ်က မရှိတော့ ဒီအလုပ်ကိုပဲ လုပ်ကြရတယ်တဲ့ ”

အမေ့ မျက်နှာပေါ်ဝယ် အရိပ်တစ်ခု ဖြတ်သန်းသွားသည်။ ချက်ချင်းပင် မျက်နှာ ညှိုးသွားသည်။ “အိုကွယ်၊ မင်း ပြောသလောက်တော့ ဆိုးမယ် မထင်ပါဘူး” ဟု ဆိုသည်။ “မင်းအဖေ ကိုယ်တိုင် လက်ကမ်းကြော်ငြာစာရွက် အဝါတွေကို ဖတ်ခဲ့ရတာကွယ့်၊ ကြော်ငြာထဲမှာ အလုပ်သမားတွေ အများဘကြီး လိုတယ်လို့ ရေးထားတယ်တဲ့၊ အလုပ်အကိုင် ရှားတယ်လို့ ကြားရင် သူတို့အားလုံး အဲဒီဒေသကို သွားကြပါ့မလား၊ အလုပ်သမား မလိုဘဲနဲ့ လိုတယ်ဆိုတဲ့ ကြော်ငြာ စာရွက်တွေကို အလကား ပိုက်ဆံ အကုန်ခံပြီး ဘယ်သူက ရိုက်ဝေနေမှာလဲ၊ ငွေတွေ အကုန်ခံပြီး ဘာကြောင့် လိမ်ရမှာလဲ၊ အလုပ်မရှိ အလုပ်ရှာလို့ကွယ် ”

တွမ်ဂျူတ်က ခေါင်းယမ်းသည်။ "ဒါတော့ ကျုပ်လည်း မပြောတတ်ဘူး အမေ၊ သူတို့ ဘာပြုလို့ ဒီလို လုပ်ကြသလဲ ဆိုတာ တွေးရခက်တယ်၊ ဖြစ်ချင်လည်း ဖြစ်မှာပေါ့" သူသည် နီရဲသော မြေပြင်ထက်သို့ ထိုးကျနေသည့် ပူပြင်းသော နေရောင်ကို လှမ်းမျှော်ကြည့်နေသည်။

"ဖြစ်ချင်လည်း ဖြစ်မှာပေါ့ ဆိုတာ မင်း ဘာဆိုလိုတာလဲ"

"အမေ ပြောသလို အခြေအနေ ကောင်းချင်လည်း ကောင်းမှာပေါ့၊ ဒါနဲ့ အဘိုး ဘယ်ရောက်သွားလဲ၊ တရားဟောဆရာလည်း မမြင်ဘူး၊ ပျောက်သွားပြန်ပြီ"

အမေ အိမ်ပြင်သို့ ထွက်သည်။ အမေ့လက်ပေါ်တွင် ညှစ်ပြီးသား အဝတ်တွေ တစ်ပုံကြီး ပါလာသည်။ တွမ်က အမေ ထွက်သာအောင် ဘေးသို့ တိမ်းပေးလေသည်။ "တရားဟောဆရာက ခြံဝင်းထဲ လျှောက်ကြည့်ဦးမယ် ဆိုပြီး ထွက်သွားတယ်၊ အဘိုးကတော့ အိမ်ထဲမှာ အိပ်နေတယ်၊ မင်းအဘိုးက ဒီလိုပဲ နေ့ခင်းနေ့လယ်ဆိုရင် အိမ်ထဲဝင်ပြီး တရေးတမော အိပ်တတ်တယ်" အမေသည် အိမ်ရှေ့ရှိ ဝါယာကြိုး အဝတ်ကြိုးတန်းပေါ်သို့ ရှပ်အင်္ကျီများ၊ ဂျင်းဘောင်းဘီ အပြာများနှင့် အတွင်းခံ အင်္ကျီ ဘောင်းဘီများကို လှမ်းနေသည်။

တွမ်၏ နောက်မှ ခြေတရွတ်တိုက် ဆွဲ၍ လျှောက်လာနေသည့် ခြေသံ။ တွမ်က နောက် ပြန်လှည့်ကြည့်သည်။ အိပ်ခန်းထဲမှ ထွက်လာသည့် အဘိုး ဂျူတ်။ သူ့ပုံစံကတော့ မနက်က အတိုင်းပင် ဖြစ်၏။ အင်္ကျီက ဖိုးရိုးဖားရား။ ကြယ်သီးနှင့် ကြယ်သီးပေါက်များမှာ တလွဲတချော် တပ်လျက်ပင် ဖြစ်သည်။ "စကားပြောသံတွေကို ငါ ကြားနေရတယ်ကွ" ဟု လှမ်းပြောသည်။ "ခွေးမသားတွေ အဘိုးကြီးတစ်ယောက် အိပ်တာ ကောင်းကောင်း မအိပ်ရဘူး၊ သောက်စကား များနေကြတယ်၊ မင်းတို့ အိုမှပဲ လူအိုတစ်ယောက် အိပ်နေရင် မနှောင့်ယှက်သင့်ဘူး ဆိုတာ ကိုယ်ချင်းစာတတ်မယ်" သူ့လက်ချောင်းများသည် သူ့အင်္ကျီ ရင်ဘတ် ကြယ်သီးပေါက်များပေါ် ရွှေ့လျားလျက် ရှိသည်။ ထိုမှတစ်ဆင့် ဘောင်းဘီခွဆုံ ဆီသို့ ရောက်သွားသည်။ သူ့လက်ချောင်း ဘာလုပ်နေသည်ကို သူ သတိထားမိပုံ မပေါ်၊ သူ့လက်ချောင်းများသည် သူ့ဝေးစေ့များကို အားရပါးရ ပယ်ပယ်နယ်နယ် ကုတ်လျက် ရှိလေသည်။ ထိုအခိုက်မှာပင် အမေ ပြန်ဝင်လာသည်။ အမေ့လက်များမှာ ရွှဲရွှဲစိုလျက်

ရှိကြ၏။ ဆပ်ပြာရည်ထဲတွင် အကြာကြီး စိမ်လာရသဖြင့် လက်ဖဝါးနှစ်ဖက်မှာ ပဲကြီးရေစိမ် အခွံများ တွန့်လိမ်သည့်နှယ် တွန့်လျက် ရှိကြလေသည်။

"အဖေ အိပ်ပျော်နေတယ်လို့ ထင်တာ၊ ကြယ်သီးပေါက်တွေ တပ်ထားတာ ကလည်း ကိုးရိုးကားရားပါလား၊ လာ ကျွန်မ ပြင်တပ်ပေးမယ်" အဘိုးက ငြိမ်ငြိမ်မခံ။ အမေကလည်း အဘိုး ရုန်းကန်နေသည့် ကြားမှပင် အင်္ကျီကြယ်သီးများကိုရော ဘောင်းဘီ ကြယ်သီးများကိုပါ ဖွတ်တပ်ပေးလျက် ရှိသည်။ ပြီးမှပင် အဘိုးကို သူ့လက်ထဲမှ လွှတ်လိုက်သည်။ "အဖေ အညောင်းပြေ လမ်းလျှောက်ချင် လျှောက်ချေတော့" ဟုလည်း ပြောသည်။

"ကြယ်သီးကို သူများ တပ်ပေးမှပဲ မှန်ရတော့မှာလားကွ" ဟု အဘိုးက ဒေါသတကြီး ပြောသည်။ "ဒီမှာ ဟေ့၊ ကိုယ် ဘောင်းဘီ ကြယ်သီးကို မတပ်ချင်နေ တပ်ချင်တပ် ဆိုတဲ့ နေရာမျိုးမှာပဲ ငါ နေချင်တယ်ဟေ့" အဘိုး၏ ပါးစပ်မှ တံတွေးများ စဉ်လာသည်။

အမေက ပြုံးသည်။ "ကယ်လီဖိုးနီးယားမှာ အင်္ကျီနဲ့ ဘောင်းဘီ ကြယ်သီး မတပ်တဲ့လူတွေ လမ်းလျှောက်ခွင့် မပြုဘူး"

"ဘာဟ၊ သူတို့က ခွင့်မပြုဘူးတဲ့လား၊ သိကြရောပေါ့၊ ငါက အကြောင်းပြလိုက် ရဦးမှာပေါ့၊ ငါ ဘယ်လို နေရ ထိုင်ရမယ်ဆိုတာကို သူတို့က သင်ပေးဦးမလို့တဲ့လား၊ တွေ့ကြသေးတာပေါ့လကွာ၊ ဘောင်းဘီ ကြယ်သီးတွေ မတပ်ဘဲ ငါ လမ်းထွက်ပြလိုက် ဦးမယ်"

"စကားအပြောကတော့ တစ်နှစ်ထက်တစ်နှစ် ပို ပို ဆိုးလာတယ်၊ ဘဝင်မြင့်နေပြီ ထင်ပါရဲ့" ဟု အမေက ရေရွတ်သည်။

"အဘိုးဂျုတ်က အမေ့ကို စူးစူးရဲရဲ ကြည့်သည်။ "ဒီမှာ မယ်မင်းကြီးမ၊ ကျုပ်တို့ ခင်ဗျားတို့ မကြာခင် အဲဒီကို ရောက်တော့မှာပါ၊ မကြာပါဘူး၊ အကြောင်း သိရပါလိမ့်မယ်၊ ကြော် ဟေ့၊ ဟိုမှာ စပျစ်သီး သိပ်ပေါတယ်ဆိုပဲကွ တွမ်ရ၊ လမ်းမပေါ်မှာတောင် စပျစ်သီးတွေ တွဲလောင်းကျနေသတဲ့၊ ဟိုရောက်ရင် အရင်ဆုံး ငါ ဘာလုပ်မယ် ထင်သလဲ၊

ရေချိုးဇလုံကြီးထဲကို စပျစ်သီးတွေ ချုံးထည့်မယ်၊ ပြီးတော့ ငါ ဝင်ထိုင်မယ်၊ တစ်ကိုယ်လုံး စပျစ်ရည်တွေနဲ့ စိမ်ပစ်လိုက်မယ်"

တွမ်က အားရပါးရ ရယ်သည်။ "ဘုရားသခင် ကယ်တော်မူပါ၊ သူသာ အသက်နစ်ရာ ရှည်ရင်တော့ အားလုံး မွဲကုန်တော့မှာပဲ" ဟု ပြောသည်။ "အဘိုး ဒီပုံစံအတိုင်းပဲ သွားတော့မှာပဲလား"

အဘိုးဂျုတ်သည် သေတ္တာဟောင်း တစ်လုံးကို ဆွဲယူလာကာ တွမ်နှင့် မနီးမဝေးတွင် ထိုင်သည်။ "ကျုပ်ကတော့ ဒီပုံစံအတိုင်းပဲ သွားတော့မှာပါ ခင်ဗျာ" ဟု ပြောင်စပ်စပ် မျက်နှာပေးဖြင့် ပြောသည်။ "ငါ့ညီဟာ လွန်ခဲ့တဲ့ အနှစ်လေးဆယ်လောက် ကတည်းက အဲဒီဒေသဘက် ထွက်သွားတာကွ၊ မင်း သူ့အကြောင်း မကြားဖူးဘူးလား၊ အလွန်ယုတ်တဲ့ ခွေးမသားပေါ့ကွာ၊ ဘယ်သူကမှ သူ့ကို မေတ္တာမရှိကြဘူး၊ ဒီအကောင် ငါ့မြင်းပေါက်ကို ခိုးပြီး ထွက်ပြေးတာကွ၊ တကယ်လို့များ ကယ်လီဖိုးနီးယားမှာ သူ့ကိုပဲဖြစ်ဖြစ်၊ သူ့သား သမီးတွေကိုပဲ ဖြစ်ဖြစ် တွေ့ရင်တော့ ငါ့ဆီက ခိုးသွားတဲ့ မြင်းအတွက် အလျော်တောင်းရမယ်၊ ငါကတော့ ဟိုရောက်ရင် သစ်သီးဆွတ်တဲ့အလုပ် လုပ်မှာပဲပေါ့"

အမေက ခေါင်းညိတ်သည်။ "သူတကယ်ပြောနေတာ တွမ်" ဟု လှမ်းပြောသည်။ "လွန်ခဲ့တဲ့ သုံးလလောက်ကတည်းက မင်း အဘိုး အလုပ် ထွက်လုပ်နေတာ၊ သူ့တင်ပါး နိမ့်သွားလို့ နားလိုက်ရတာ"

"အေး ဟုတ်တယ်" ဟု အဘိုးဂျုတ်က ထောက်ခံသည်။

တွမ်သည် ထိုင်နေသည့် နေရာမှနေ၍ ရှေ့တူရူသို့ တစ်ချက် လှမ်းကြည့်သည်။ "ဟော ဟိုမှာ တရားဟောဆရာ ပြန်လာနေပြီ၊ အိမ်နောက်ဖေး မြင်းတင်းကုပ်ဘက်က ပြန်လာတာနဲ့ တူတယ်"

"သူ ဒီကနေ့မနက် ပြောသွားတဲ့ စကားမျိုးကို အမေ ဒီတစ်ကြိမ်ပဲ ကြားဖူးတယ်၊ သိပ်ကို နားထောင်လို့ ကောင်းတာပဲ၊ အလွန် မှန်ကန် မြင့်မြတ်တဲ့ စကားတွေလို့ အမေ ထင်တယ်၊ ပြောနေတဲ့ အသံကိုက ကျက်သရေရှိတာ"

"သူက ရယ်စရာတော့ကောင်းတယ် အမေရ၊ သူ ပြောပုံဆိုပုံကိုက ရယ်စရာ ကောင်းတာ၊ စကားပြောပြီဆိုရင် သူ့ကိုယ်သူ တစ်ယောက်တည်း ပြောနေသလိုပဲ"

"သူ့မျက်လုံးတွေရဲ့ အကြည့်ကို မင်း သတိထားမိသလား" ဟု အမေက မေးသည်။ "မထူးဆန်းဘူးလား ဟင်၊ တခြားလူတွေရဲ့ စိတ်ကို ထွင်းဖောက်ပြီး မြင်နေသလိုပဲ၊ လမ်းလျှောက်တော့လည်း ခေါင်းငိုက်စိုက်ချပြီး မြေကြီးကို ကြည့်သွားတယ်၊ ဒါပေမဲ့ သူ့မျက်စိတွေကတော့ မြေကြီးပေါ်မှာ ဘာကိုမှ မမြင်သလိုပဲ" ကတ်ဆီ သူတို့အနားသို့ ရောက်လာသဖြင့် အမေက စကားကို ဖြတ်လိုက်သည်။

"ခင်ဗျား အဲသလိုပုံမျိုးနဲ့သာ လျှောက်နေရင်တော့ မြေကြီးလှုပ်လာလိမ့်မယ်" ဟု တွမ်က ဆီးနှောက်သည်။

"အေး ဟုတ်တယ်၊ မင်းပြောသလို ဖြစ်ချင်လည်း ဖြစ်မှာ" ဟု ကတ်ဆီက အလိုက်သင့် ပြန်ဖြေသည်။ သူသည် အမေ၊ အဘိုးဂျုတ်နှင့် တွမ်တို့၏ မျက်နှာများကို တစ်လှည့်စီ လျှောက်ကြည့်သည်။ "ကျုပ်လည်း အနောက်ဘက်ဒေသကို သွားမှဖြစ်မယ်၊ သွားကိုသွားမှ ဖြစ်မယ်၊ ခင်ဗျားတို့ မိသားစုနဲ့သာ လိုက်ခွင့်ပြုမယ် ဆိုရင်တော့ ကျုပ်အတွက် သိပ်ကို အဆင်ပြေမှာပဲ" သူသည် ပြောပြီးခါမှပင် အလွန် အားတုံ့အားနာ ဖြစ်သွားဟန်ဖြင့် ငြိမ်ဆိတ်နေလေသည်။

တွမ်က အဖြေပေးလိမ့်မည် ဟူသော အထင်ဖြင့် အမေက တွမ်၏ မျက်နှာကို လှမ်းကြည့်သည်။ သို့သော်လည်း တွမ်က အဖြေမပေး။ ဤကိစ္စမျိုးတွင် အဆုံးအဖြတ် ပေးရမည့် တာဝန်မှာ ယောကျ်ားတစ်ယောက်၏ တာဝန်သာ ဖြစ်သည်ဟု အစဉ်အလာ ထုံးစံကို နားလည် လက်ခံလာခဲ့သော အမေသည် တွမ်၏ အရိပ်အခြည်ကို အကဲခတ်နေသည်။ တွမ်ကတော့ မလှုပ်မချောက်။ နောက်ဆုံးတွင် မနေသာတော့သဖြင့် အမေက ပြန်ဖြေသည်။

"ရှင် လိုက်ချင်ရင် လိုက်ပါ၊ ရှင်လိုက်မယ်ဆိုရင် ကျွန်မတို့က ဂုဏ်ယူပါတယ်၊ ဒါပေမဲ့ အခု ချက်ချင်းတော့ အတိအကျ မပြောနိုင်သေးဘူး၊ အဖေဂျုတ်က ပြောထားတယ်၊ ကနေ့ည ယောကျ်ားတွေအားလုံး ခရီး ဘယ်ရက်လောက် ထွက်ရင် ကောင်းမလဲဆိုတာ ဆွေးနွေးကြလိမ့်မယ်၊ အဲဒီတော့ ယောကျ်ားတွေ ပြန်မရောက်သေးခင် ဒီစကားကို ထပ်ပြောနေလို့ မဖြစ်သေးဘူး၊ ဦးလေးဂျွန်ရယ်၊ အဖေဂျုတ်ရယ်၊ နိုအာဂျုတ်ရယ်၊

တွမ်ဂျုတ်ရယ်၊ အဘိုးဂျုတ်ရယ်ပေါ့၊ အားလုံး စုံပြီဆိုမှ ထပ်ပြောကြတာပေါ့၊ ဒါပေမဲ့ မပူပါနဲ့ နေရာရှိလို့ကတော့ ကျွန်မတို့ အားလုံးက ရှင့်ကို ခေါ်သွားမှာပါ ”

တရားဟောဆရာက သက်ပြင်းတစ်ချက် ချသည်။ “ဘယ်လိုနည်းနဲ့ပဲ ဖြစ်ဖြစ် ရောက်အောင်တော့ ကျုပ် သွားရလိမ့်မယ် ” ဟု ဆိုသည်။ “ဒီတစ်နယ်လုံးမှာ အဖြစ်ဆိုး တစ်ခု ဖြစ်လာတာကတော့ အမှန်ပဲ၊ ကျုပ်ကိုယ်တိုင် အနံ့ လျှောက်သွားပြီး ကြည့်ခဲ့တယ်၊ အိမ်တွေအားလုံး ပေါင်းလောင်း ဖြစ်ကုန်ပြီ၊ မြေပေါ်မှာလည်း နေသူ မရှိတော့ဘူး၊ တစ်နယ်လုံးမှာ လူသူ ကင်းမဲ့သွားပြီ၊ ဘာဆို ဘာမှ မရှိတော့ဘူး၊ ကျုပ် ဒီမှာ ဆက်နေဖို့ ဘယ်နည်းနဲ့မှ မဖြစ်နိုင်တော့ဘူး၊ ကျုပ်ရဲ့ မိတ်ဆွေ ရဲဘော်ရဲဘက်တွေ သွားရာနောက်ကို လိုက်ရတော့မှာပဲ၊ ရောက်တဲ့နေရာမှာ သူတို့နဲ့အတူတူ လက်တွဲပြီး အလုပ် လုပ်ရတော့မယ်၊ ဒါဆိုရင် ကျုပ်ဘဝဟာ ပျော်စရာ ပြန်ဖြစ်လာမှာပဲ ”

“ခင်ဗျား တရား မဟောတော့ဘူးလား ” ဟု တွမ်က မေးသည်။

“ငါ တရားမဟောတော့ဘူး ”

“ရေနစ်ရေဖျန်း မင်္ဂလာကော လုပ်မပေးတော့ဘူးလား” ဟု အမေက ဝင်မေး ပြန်သည်။

“မလုပ်တော့ဘူး၊ ကျုပ် လယ်ထဲဆင်းပြီး အလုပ် လုပ်တော့မယ်လို့ ဆုံးဖြတ် ထားတယ်၊ ကျုပ်ရဲ့ ရဲဘော်ရဲဘက်တွေ အနားမှာပဲ အမြဲ နေတော့မယ်၊ ကျုပ် သူတို့ကို သင်ကြားပေးဖို့ မကြိုးစားတော့ဘူး၊ ကျုပ် သူတို့ဆီက တစ်လှည့် သင်ယူတော့မယ်၊ သူတို့ မြက်ပင်တွေကြားမှာ ဘာကြောင့် လျှောက်သွားနေရတာလဲ ဆိုတာကို နားလည်အောင် လုပ်တော့မယ်၊ သူတို့ရဲ့ စကားပြောသံနဲ့ သူတို့ရဲ့ သီချင်းဆိုသံတွေကိုပဲ နားထောင် တော့မယ်၊ ကလေးတွေရဲ့ စားသံဝါးသံတွေကိုပဲ နားထောင်တော့မယ်၊ ကျုပ် သူတို့နဲ့ အတူတူနေမယ်၊ အတူတူစားမယ်၊ အတူတူအိပ်မယ်၊ အလုပ် အတူတူလုပ်မယ်၊ ဘဝအကြောင်းကို သူတို့နဲ့တွဲပြီး လေ့လာမယ်၊ သင်ယူမယ်” ပြောရင်း ပြောရင်းနှင့် ကတ်ဆီ၏ မျက်လုံးအိမ်များတွင် မျက်ရည်များဖြင့် စိုစွတ်လာသည်။ မျက်လုံးများသည် အရောင်တဖျတ်ဖျတ် လက်လာသည်။ “ပြီးတော့ မြက်ခင်းတွေပေါ်မှာ အိပ်မယ်၊ ကျုပ်နဲ့ တွေ့သမျှ လူတွေနဲ့ ရိုးရိုးသားသား ဖြောင့်ဖြောင့်မတ်မတ် ဆက်ဆံမယ်၊ ကျုပ် သူတို့နဲ့ ဆွေးနွေးမယ်၊ ဝေဖန်မယ်၊ သူတို့ရဲ့ တေးကဗျာတွေကို နားထောင်မယ်၊ ဒါတွေ

အားလုံးဟာ မြင့်မြတ်တဲ့ အလုပ်တွေပါ၊ ကျုပ် ဟိုတုန်းက လုံးဝ မသိနားမလည်ခဲ့တဲ့ အရာတွေပေါ့၊ သူတို့ ပိုင်ဆိုင်သမျှ အားလုံးဟာလည်း ကောင်းမွန် မြင့်မြတ်တဲ့ အရာတွေချည်းပါပဲ”

“အာ မင်း” ဟု အမေက ရေရွတ်သည်။

တရားဟောဆရာသည် တံခါးဘေး၌ ချထားသော သစ်တုံးတစ်တုံးပေါ်၌ အသာအယာ ဝင်ထိုင်သည်။ “လူတစ်ယောက်မှာ ဘာကြောင့် ဒီလောက်အထိ အထီးကျန် ဖြစ်ရတာများပါလိမ့်၊ ကျုပ်ဖြင့် အံ့ဩလို့လည်း မဆုံးဘူး၊ နားလည်း မလည်နိုင်တော့ဘူး”

တွမ်က ချောင်းတစ်ချက် ဟန့်လိုက်၏။ “တရားဟောနေကျ ဆက်မဟောဘဲ ရပ်ပစ်လိုက်တဲ့ လူတစ်ယောက် အဖို့မှာ...” ဟု စကားစသည်။

“အို ကွာ၊ တရားဟောဆရာ ဆိုတာ အပြောသမားပဲကွ” ဟု ကတ်ဆီက ပြောသည်။ “ငါ့အနေနဲ့ တရားမဟောတော့ပေမဲ့ စကားကိုတော့ အမြဲမပြတ် ပြောနေတာပဲ၊ စကားအပြောကို လုံးဝ စွန့်လွှတ်သွားတာမှ မဟုတ်တာ၊ အေးလေ၊ တစ်ခုတော့ ရှိတယ်၊ တရားဟောတယ် ဆိုတာကတော့ တစ်မျိုးပေါ့၊ တရားဟောတယ် ဆိုတာက လူတွေ နားမလည်တဲ့ဟာကို စကားကြီး စကားကျယ်တွေ သုံးပြီး ပို နားမလည်အောင် လျှောက်ပြော နေတာမျိုးကွ၊ အခုဟာကတော့ ငါက သူတို့ဆီမှာ တပည့်ခံပြီး သူတို့ကို မေးရမြန်းရမှာ၊ ဒီလို ဆိုပြန်တော့လည်း တရားဟောခြင်း တစ်မျိုးလို့ မခေါ်နိုင်ဘူးလား”

“အဲဒါကျတော့ ကျုပ်လည်း မပြောတတ်တော့ဘူး” ဟု တွမ်က ပြန်ပြောသည်။ “ကျုပ် နားလည်သလောက်တော့ တရားဟောတယ် ဆိုတာ အသံပဲဗျ၊ အသံနေ အသံထားပဲ အရေးကြီးတာ၊ တခြားဟာက အရေးကြီးတာမှ မဟုတ်တာ၊ တကယ်တော့ဗျာ၊ တရားဟောတယ် ဆိုတာဟာ အရာဝတ္ထုတွေ အပေါ်မှာ မြင်ပုံမြင်နည်း သုံးသပ်ပုံ သုံးသပ်နည်း တစ်မျိုးပဲ ထင်ပါတယ်၊ ပြီးခဲ့တဲ့ ခရစ္စမတ် ပွဲတော်အတွင်းက မက်အေလက်စတား ထောင်ကို ကယ်တင်ခြင်း တပ်က လူတွေလာပြီး ဖျော်ဖြေတယ်ဗျ၊ သူတို့ တီးမှုတ်ပြတဲ့ တေးဂီတ သီချင်းတွေကို ကျုပ်တို့ ထောင်သားတွေက သုံးနာရီတိတိ ထိုင်ပြီး နားထောင်ခဲ့ကြရတယ်၊ သူတို့က ကျုပ်တို့ကို ဆက်ဆံတာများ သိပ်ကို ကောင်းတာပဲ၊ ဒါပေမဲ့ ကျုပ်တို့ထဲက တစ်ယောက်ယောက်က ထသွားပြီး လစ်ပြေးမယ်

ကြံရင်တော့ ဖမ်းပြီး တိုက်ပစ်မှာ သေချာတယ်ဗျ၊ ခင်ဗျားတို့ တရားဟောတယ် ဆိုတာလည်း ဒီသဘောမျိုးပဲ ဖြစ်မှာပါ”

အမေသည် သစ်တိုသစ်စများကို ကောက်၍ မီးဖိုထဲ ထိုးထည့်နေရာမှ “စားစရာ တစ်ခု လုံပေးမယ်၊ ဒါပေမဲ့ များများစားစားတော့ ရမယ် မထင်ဘူး” ဟု ပြောသည်။

အဘိုးဂျုတ်သည် သူ့ဖင်အောက်မှ သေတ္တာကို မ၍ ထုတ်လာပြီး အပြင်ဘက် တစ်နေရာ၌ ချခင်းကာ ထိုင်သည်။ ပြီးတော့ အိမ်နံရံကို သူ့ကျောနှင့် မှီလိုက်လေသည်။ တွမ်ဂျုတ်နှင့် ကတ်ဆီတို့က လည်း အိမ်နံရံကို မှီလိုက်ကြ၏။ မွန်းလွဲပိုင်း အရိပ်သည် အိမ်နှင့်ဝေးရာသို့ ပြေးခွာသွားရန် ရွေ့လျားစ ပြုလေပြီ။

ညနေပိုင်း အချိန် အတော်ကြီး နောက်ကျခါမှ ထရပ်ကားသည် တဝုန်းဝုန်း တဒိုင်းဒိုင်း တဂျုန်းဂျုန်း တဂျိုင်းဂျိုင်း မြည်သံများကို ပေးကာ တထောင်းထောင်း ထနေသော ဖုန်လုံးကြီးများကို တိုးဝေ့ဖြတ်သန်းပြီး ပြန်ရောကလာလေသည်။ ကားတစ်စီးလုံးမှာ ရစရာ မရှိအောင်ပင် ဖုန်တွေ အလိမ်းလိမ်း ကပ်ကာ ညစ်ပတ် ပေရေလျက် ရှိ၏။ ကားကြမ်းပြင်တွင်လည်း ဖုန်။ ကားခေါင်းတွင်လည်း ဖုန်။ ဘေး ဘော်ဒီ နစ်ဖက်တွင်လည်း ဖုန်။ နေရာအနှံ့တွင် တက်နေသည့် ဖုန်များမှာ ထုလိုက် ထည်လိုက် ဖြစ်သည်။ ကား ရှေ့မီးများမှာလည်း တက်နေသည့် ဖုန်များကြောင့် မှိန်တိန်တိန် မှုန်ဝါးဝါး။ ထရပ်ကား ပြန်ရောက်လာချိန်တွင် နေသည် အနောက်ဘက်တွင် ငုပ်လျှိုးစ ပြုလေပြီ။ အစွမ်းကုန် တောက်ပလျက်ရှိသော နေရောင်ကြောင့် မြေပြင်တစ်ပြင်လုံး နီရဲလျက် ရှိလေသသည်။

ထရပ်ကား၏ ရှေ့ခန်း ဒရိုင်ဘာ ထိုင်ခုံတွင် အယ်လ်သည် ခန့်ထည် ဝင့်ကြွားစာဖြင့် ထိုင်လျက်ရှိသည်။ အဖေဂျုတ်နှင့် ဦးလေးဂျွန်တို့ကတော့ ဒရိုင်ဘာထိုင်ခုံ၏ ဘေးရှိ သူတို့နှင့် ထိုက်တန်သော နေရာများတွင် အခန့်သားထိုင်လျက် ရှိကြလေသည်။ ထရပ်ကား၏ ကိုယ်ထည် ကြမ်းပြင်ပေါ်တွင် ဘေးတန်းများကို ကိုင်၍ ရပ်နေသူများမှာ ဆယ့်နစ်နစ်သမီး ရှုသီနှင့် ဆယ်နစ်သား ဝင်းဖီးတို့ ဖြစ်လေသည်။ သူတို့ မျက်နှာများမှာ ဖုန်များဖြင့် မည်းနက်ကာ ပေရေညစ်ပတ်လျက် ရှိ၏။ သူတို့၏မျက်လုံးများသည် ပင်ပန်း နွမ်းနယ်နေမှုကို ဖော်ပြနေကြသော်လည်း ထရပ်ကား စီးလာရသဖြင့် ဝမ်းသာမြူးထူးကာ စိတ်လှုပ်ရှားလျက် ရှိနေကြသည်မှာ ထင်ရှားလျက် ရှိ၏။ သူတို့၏ လက်ချောင်းများနှင့်

နှုတ်ခမ်းထောင့်များမှာ အချိုရည်စေးများ ကပ်လျက် ရှိသည်။ မြို့ထဲတွင် ရှိနေစဉ်က သူတို့အဖေ ဝယ်ကျွေးသည့် မုန့်ပဲ သရေစာများမှ ကပ်ငြိနေသော အချိုရည် အစေးများပေတည်း။

ဒူးဆစ်အောက် ရောက်နေသော ပန်းရောင် ဂါဝန်ကြောင့် ရူသီ၏ ပုံပန်းသည် လူကြီးဟန်ပေါက်လျက် ရှိသော်လည်း ဝင်းဖီးကတော့ နပ်ချေး တွဲလောင်းနှင့် တကယ့်ကလေးပင် ဖြစ်နေသည်။ သူတို့နှစ်ယောက် ဘေးမှ တန်းကို အသာအယာမှီ၍ ရပ်နေသူမှာ ရိစာဟန် ဖြစ်၏။ လမ်းက ဆိုးသဖြင့် ထရပ်ကားသည် ခုန်ပေါက်လျက် ရှိသည်။ တစ်ကိုယ်လုံး ယိမ်းထိုး လှုပ်ရှားလျက်ရှိသော ရိစာဟန်သည် သူ လွယ်ထားရသည့် ကိုယ်ဝန်ကြောင့် လဲကျမသွားအောင် သူ့ကိုယ်သူ သတိကြီးစွာထား၍ ထိန်းနေသည်။ ဖွတ်မြီးထိုးပြီးမှ တစ်ပတ်လျှို ပြန်၍ ထုံးထားသော ဆံပင်သည် သရဖူ အဖြူရောင်ကို ဆောင်းထားသည့်နှယ် ရှိသည်။ ဝိုင်းစက် နူးညံ့သော မျက်နှာသည် မြင်သူများ၏ ရမ္မက်ကို နိုးကြွလာအောင် စွမ်းဆောင်နိုင်စွမ်း အပြည့် ရှိသည်။ သို့သော်လည်း ရှေ့သို့ စူထွက်နေသော ဗိုက်က အဟန့်အတား ဖြစ်လျက် ရှိလေသည်။ ရိစာဟန်၏ နှစ်လိုဖွယ်ရာ အပြုံး၊ ချစ်စရာကောင်းသည့် အကြည့်၊ တောင့်တင်းသော ကိုယ်လုံးကိုယ်ပေါက်၊ ပြည့်ဖြိုးမောက် ကြွသော ရင်၊ တင်းရင်းသော တင်များနှင့် ဖြောင့်စင်းသော ပေါင်တံများ။ ဤအရာအားလုံး ပေါင်းစပ်မိသောအခါ ရိစာဟန်၏ တစ်ကိုယ်လုံးသည် စွဲမက်စရာကောင်းသော အလှ ဖြစ်လာလေသည်။

ရိစာဟန်၏ အာရုံသည် သူ့ဗိုက်ထဲမှ ကလေးထံ ရောက်နေသည်။ လှုပ်ရှားသည့် အခါတိုင်းလည်း သူ့စိတ်သည် ကလေးထံ၌သာ ရှိသည်။ သူ့အဖို့တော့ တစ်ကမ္ဘာလုံး ကိုယ်ဝန်ရှိနေသည်။ အချိန်ရှိသမျှ သူ့အတွေးအာရုံတွင် ကလေး မျက်နှာမြင်ဖို့နှင့် မိခင်လောင်းဘဝ ရောက်ဖို့ ဟူသော အချက်နှစ်ချက်သာ ရှိလေသည်။

ဝဝကစ်ကစ်နှင့် ချစ်စရာကောင်းသော မိန်းမကြမ်းလေးတစ်ယောက်ကို လက်ထပ်ခဲ့သည့် အသက် ဆယ့်ကိုးနှစ်အရွယ် ခင်ပွန်းသည် ကွန်နီသည် အခုချိန်အထိ ဇက်ရဲ လက်ရဲနှင့် ခြေမြန် လက်မြန် နိုင်လွန်းလှသော သူ့မိန်းမကို ကြောက်ဆဲ လန့်ဆဲ ဖြစ်သည်။ ပြောင်းလဲသွားသော သူ့မိန်းမ၏ အဖြစ်ကို ကြည့်ကာ တအံ့တသြ ဖြစ်လျက် ရှိသည်။ အိပ်ရာထဲရောက်လျှင် ဟိုတုန်းကလို မဟုတ်။ ဟိုတုန်းကတော့ သူ့မိန်းမသည် ခပ်ကြမ်းကြမ်း ခပ်ရမ်းရမ်း။ သူ၏ စကားတွတ်ထိုးသံများနှင့် ရယ်သံ လွင်လွင်လေးများကို

ကြားရစမြဲ။ အခုကျတော့ ထိုသို့ မဟုတ်။ သူ့ကို ရက်ပြုံးကလေးများဖြင့် ကြည့်ကာ အချိန်အဆနှင့် သတိနှင့် ဆက်ဆံလေးရှိသည်။ ကွန်နီသည် ရိုစာဟန်အတွက် ဂုဏ်လည်း ယူရသည်။ မာနလည်း တက်ရသည်။ ပြီးတော့ ရိုစာဟန်ကို ကြောက်လည်း ကြောက်ရသည်။ ဘယ်နေရာ ရောက်ရောက် သူ့လက်တစ်ဖက်သည် ရိုစာဟန်ကို ကိုင်ထားရမှ။ ရိုစာဟန် ရပ်နေလျှင် အသားချင်း ထိကပ်ပြီး ရပ်နေရမှ။ ကွန်နီအဖို့တော့ ယင်းကဲ့သို့ နေရမှ ကျေနပ်သည်။

ကွန်နီ၏ မျက်နှာသည် ခပ်သွယ်သွယ်။ ကျစ်လျစ် ပိန်ပါးသော သူ့ကိုယ်လုံး ကိုယ်ထည်သည် တက္ကဆက်စ် ပြည်နယ်သား အမျိုးအရိုးနွယ် ဖြစ်ကြောင်း ဖော်ပြလျက် ရှိ၏။ အပြာရောင် ခပ်ဖျော့ဖျော့ မျက်လုံးများ၏ အကြည့်သည် တစ်ခါတစ်ရံတွင် ကြောက်စရာ ကောင်းသည်။ တစ်ခါတစ်ရံကျတော့လည်း သိမ်မွေ့နူးညံ့သော ကြင်နာ သနားတတ်သော သဘောကို ဖော်ပြတတ်၏။ တစ်ခါတစ်ရံကျတော့လည်း ထိတ်လန့် ကြောက်ရွံ့ လွယ်တတ်သော သဘောကို ဖော်ပြတတ်တယ်။ သို့သော်လည်း သူသည် အလုပ် အလွန်လုပ်ပြီး ဝီရိယကောင်းသော အလုပ်သမားတစ်ယောက် ဖြစ်ရာ လင်ကောင်း တစ်ယောက် ဖြစ်နိုင်သည့် အရည်အသွေးနှင့် ပြည့်စုံသူတစ်ဦး ဖြစ်လေသည်။ သူသည် အရက်သောက်တတ်သော်လည်း အလွန်အကျွံ မဟုတ်။ ခိုက်ရန် ဖြစ်တတ်သော်လည်း စည်းလွတ် ဝါးလွတ် မဟုတ်။ လိုအပ်မှ ရန်ဖြစ်တတ်သူ ဖြစ်သည်။ ကြွားတတ် ဝါတတ်သော အကျင့်လည်း မရှိ။ လူအများနှင့် အဆင်ပြေအောင်၊ ဝင်ဆံ့အောင် ပေါင်းသင်းတတ်သူလည်း ဖြစ်သည်။

အကယ်၍သာ ဦးလေးဂျွန်သည် အသက် ငါးဆယ်အရွယ် မရောက်သေးလျှင်၊ အကယ်၍သာ ဦးလေးဂျွန်သည် အစဉ်အလာ ဓလေ့ထုံးစံအရ ဆွေမျိုးစု၏ အကြီးအကဲ တစ်ယောက် မဖြစ်ခဲ့လျှင် သူသည် ဒရိုင်ဘာဘေးရှိ ထိုင်ခုံတွင် ထိုင်လိမ့်မည် မဟုတ်ပေ။ သူ့အနေဖြင့် ထိုထိုင်ခုံတွင် ရိုစာဟန်ကို ထိုင်စေချင်သည်။ သို့သော်လည်း သူ့ဆန္ဒအတိုင်း မဖြစ်နိုင်။ အဘယ်ကြောင့်ဆိုသော် ရိုစာဟန်သည် မိန်းမတစ်ယောက် ဖြစ်နေရုံမျှမက အသက်ကလည်း ငယ်နေသောကြောင့်ပေတည်း။

ဦးလေးဂျွန်သည် ရှေ့ခန်း ထိုင်ခုံ၌ ထိုင်နေရသော်လည်း သက်သောင်းသက်သာ မရှိ။ သူ့စိတ်သည် ဂနာမငြိမ်။ အထီးကျန်ခြင်းကို ဖော်ပြနေကြသော သူ့မျက်လုံးများ

တွင်လည်း စိုးရိမ်ပူပန်မှု အပြည့်။ လူပိန်သလောက် ကျစ်လျစ်သန်မာသော သူ့ခန္ဓာကိုယ်သည် သောကအရှိန်ဖြင့် တောင့်တင်းလျက် ရှိလေသည်။

အထီးကျန်နိုင်ခြင်း ဟူသော ကံတိုင်းသည် ဦးလေးဂျွန်အား တခြားလူများနှင့် မရောနှော မဆက်ဆံနိုင်အောင် ကာဆီးထားရုံမျှသာမက အစားအသောက်များပေါ်တွင် မက်မော တွယ်တာခြင်း မဖြစ်အောင်လည်း တားဆီး ပိတ်ပင်ထားသည်။ သူသည် အစားကိုလည်း ဟုတ်တိပတ်တိ မစား။ အရက်ကိုလည်း များများစားစား မသောက်။ မိန်းမ ထပ်ယူဖို့ကျတော့လည်း မစဉ်းစား။ သို့သော်လည်း တစ်စုံတစ်ခုအပေါ်၌ ချင်ခြင်း တပ်လာသည့် အခါတွင်မူကား အရှိန်အစိုင်း တစ်ယောက်သဖွယ် အလွန်အကျွံ ပြုတတ်လေသည်။

တစ်ခါတစ်ရံ အစားတစ်ခုကို စားချင်သည့်စိတ် ပြင်းပြင်းပြပြ ဖြစ်လာသည့်အခါ ဦးလေးဂျွန်သည် ထိုအစားကို နောက်တစ်ကြိမ် ပြန်၍ လှည့်မကြည့်ချင်အောင် တစ်ကြိမ် တည်းနှင့် အငမ်းမရ အဝအမြဲ စားပစ်တတ်လေသည်။ ထိုနည်းတူစွာပင် အရက် သောက်ချင်စိတ် ပြင်းထန်လာသည့် အခါတွင်လည်း ခန္ဓာကိုယ် တစ်ခုလုံး နည်းနည်း ကလေးမှ လှုပ်ရှား၍ မရနိုင်လောက်အောင် ဖြစ်သွားသည်အထိ အရူးအမူး သောက်တတ် လေသည်။ ထိုနည်းတူစွာပင် မိန်းမနှင့် အိပ်ချင်လာသည့် အခါများတွင်လည်း ဆယ်လီဆောမြို့သို့ သွားကာ ပြည့်တန်ဆာမများနှင့် စည်းမဲ့ကမ်းမဲ့ နေပစ်တတ်လေသည်။

မည်သို့ပင် ဖြစ်စေ ချင်ခြင်းတပ်ချင်စိတ် ကုန်ခမ်းသွားသည့် အခါတွင်မူကား ဦးလေးဂျွန်သည် သူ ပြုခဲ့မိသမျှအတွက် အကြီးအကျယ် နောင်တရခြင်း ဝမ်းနည်းခြင်း ရှက်ကြောက်ခြင်းများ ဖြစ်နေတတ်၏။ ထို့နောက်တော့ ယခင်ကလိုပင် အထီးကျန် ပြန်ဖြစ်သွားပြန်ကာ လူအများနှင့် မတွေ့အောင် ပုန်းရှောင်ပြန်သည်။

သူ ခင်မင်ခဲ့သူများထံသို့ လူမသိ သူမသိ လက်ဆောင်ပစ္စည်းများ ပို့ပေးခြင်းအားဖြင့် သူ့စိတ်သူ ဖြေပြန်သည်။ ညများတွင် တိတ်တိတ်ကျိတ်၍ အိမ်ထဲဝင်ကာ အိပ်နေကြသော ကလေးများ၏ ခေါင်းအုံးများအောက်တွင် ပီကေများ ချိုချဉ်များ ထားပစ်ခဲ့ပြန်သည်။ အခကြေးငွေ တစ်ပြားတစ်ချပ်မှ မယူဘဲ ထင်းများ ဖြတ်ခွဲပေးခြင်း၊ မြင်းကုန်းနှီး တစ်ခု မြင်းတစ်ကောင် ဖိနပ်တစ်ရံ စသည့် သူပိုင်ပစ္စည်း တစ်ခုခုကို အဖိုးအခ မယူဘဲ အလကားပေးပစ်ခြင်း စသည့် အလုပ်များကို လုပ်လာပြန်သည်။

သူနှင့် စကားပြောနိုင်ဖို့ မည်သူမျှ ကြိုးစား၍ မရ။ သူ ပေးစရာရှိတာ ပေးပြီးလျှင် တချိုးတည်း လစ်ပြေးတတ်သည်။ အကယ်၍ ပြေးမလွတ်ပါကလည်း တစ်ဖက်လူကို စကားတုံ့ပြန်ပြောခြင်း မပြုဘဲ ရေငုံနှုတ်ပိတ်လုပ်ကာ ကြောက်ရွံ့ထိတ်လန့်သော မျက်လုံးများဖြင့် စိုးကြည့်နေတတ်သည်။ သူ့မိန်းမ သေပြီးနောက် လပေါင်းများစွာ တစ်ယောက်တည်း နေလာခဲ့သော ဦးလေးဂျွန်သည် သူ့ကိုယ်သူ အပြစ်ရှိသည် ဟူသော အတွေးကို အမြဲတစေ တွေးစမြဲ။ တွေးမိတိုင်းလည်း သူ့ကိုယ်သူ ခွင့်မလွှတ်နိုင်သော စိတ်သည် ဖြစ်ပေါ်လာစမြဲ။

ဤသို့ဖြင့် သူ့ကိုယ်သူ အပြစ်ရှိသည် ဟူသော အတွေးအထင်သည် လူများနှင့် အနေဝေးသဖြင့် ဖြစ်ပေါ်လာသော ရှက်စိတ် ကြောက်စိတ်များဖြင့် ပေါင်းစပ်ကာ အစွဲအလန်းတစ်ခု ဝင်လာသည်။ ထိုအစွဲကား တခြား မဟုတ်။ ချိုးဖျက်၍ မရနိုင်လောက်အောင် ကြီးမားသည့် အထီးကျန်နိုင်သော စိတ်ပင်တည်း။

သို့တစေလည်း ဦးလေးဂျွန် ရှောင်ပြေး၍ မလွတ်နိုင်သော အရာများသည် ဤလောက၌ တည်ရှိနေပေသေး၏။ သူသည် သူ့ဆွေမျိုး အသိုင်းအဝိုင်းတွင် အသက်အကြီးဆုံး လူတစ်ယောက် ဖြစ်နေ၏။ သူ့ဆွေမျိုးစုများကို အုပ်ချုပ်၍ စီမံခန့်ခွဲပေးရမည့် တာဝန်နှင့် စောင့်ရှောက် ကာကွယ်ပေးရမည့် တာဝန်များသည် သူ့တာဝန်များ ဖြစ်နေရ၏။ ဤသို့ဖြင့် သူသည် ထရပ်ကား ရှေ့ခန်း ဒရိုင်ဘာ ထိုင်ခုံဘေးရှိ သူနှင့် ထိုက်တန်သော နေရာ၌ ယခုလို ထိုင်နေရခြင်းပေတည်း။

ထိုင်ခုံတွင် ထိုင်နေကြသည့် ယောက်ျားသုံးဦး၏ မျက်နှာများမှာ သာသာယာယာ မရှိကြချေ။ ဖုန်အလွန်ထူသော အိမ်အပြန် လမ်းခရီးတွင် ကိုယ့်အတွေးနှင့်ကိုယ် ငြိမ်ဆိတ်စွာ လိုက်ပါလာကြသည်။ အယ်လ်ကတော့ သူ မောင်းနေရသည့် ထရပ်ကား၏ အခြေအနေကို မျက်ခြည်အပြတ် မခံ။ သူ့မျက်လုံးများကို အငြိမ်မထား။ လမ်းကို ကြည့်လိုက်၊ စပီဒိုမီတာခွက်ကို ကြည့်လိုက်နှင့် တစ်လမ်းလုံး အလုပ်ရှုပ်လာသည်။ သူသည် နားနစ်ဖက်ကိုလည်း စွင့်ထားသည်။ စက်သံ မှန် မမှန်ကိုလည်း သံသယ မကင်းသော စိတ်ဖြင့် နားထောင်သည်။ သူသည် ဓာတ်ဆီဂိတ်ကိုလည်း မကြာမကြာ ကြည့်သည်။ သူ့လက်သည် ဂီယာတံကို ဆုပ်ကိုင်ထားပြီး ထိုးသည့်အခါ ထိုးလိုက်၊ ဖရီးဖြစ်သွားအောင် ပြန်ဖြုတ်လိုက်သည့် အခါ ဖြုတ်လိုက် လုပ်ကြည့်သည်။ ကလပ်ချ်ကိုလည်း မကြာခဏ ကစားကြည့်သည်။

သူ့အာရုံသည် တစ်လမ်းလုံး ထရပ်ကားပေါ်၌သာ ရှိသည်။ တကယ်တော့လည်း ဤထရပ်ကား ပုံမှန် လည်ပတ်နေအောင် ထိန်းသိမ်းပေးရမည့် တာဝန်သည် သူ့တာဝန် ဖြစ်၏။ အကယ်၍ ထရပ်ကား စက်ချွတ်ယွင်းပြီး ရပ်သွားခဲ့ပါမူ သူ့အပြစ်ဟု ယူဆရပေလိမ့်မည်။ မည်သူမျှ သူ့ကို အပြစ်မတင်သည့်တိုင်အောင် သူကတော့ သူ့ကိုယ်သူ ခွင့်လွှတ်နိုင်လိမ့်မည် မဟုတ်။

ထို့ကြောင့်လည်း သူသည် ထရပ်ကား၏ အခြေအနေကို မျက်ခြည်အပြတ် မခံရဲ။ စက်ကို စမ်းကြည့်သည်။ စက်သံကို နားထောင်ကြည့်သည်။ သူ့မျက်နှာထားသည် တစ်လမ်းလုံး တည်ငြိမ် ရင့်ကျက်သော ဣန္ဒြေကို ဆောင်လာသည်။ သူ့တာဝန်ကို အလစ်ဟင်း မခံသည့် သဘောကို ပြလာသည်။ ကားပေါ်တွင် ပါလာသူတိုင်းကလည်း သူ့အပြုအမူကို ကြည့်၍ တလေးတစား ရှိကြသည်။ ဤခရီးတွင် ခေါင်းဆောင်နေရာကို ယူထားသော သူ့အဖေ ကိုယ်တိုင်ပင်လျှင် အယ်လ်၏ အမိန့်ကို နာခံလျက် ရှိလေသည်။

သူတို့အားလုံးသည် ထရပ်ကား အပေါ်တွင် စိတ်မော လူမော ဖြစ်လာကြသည်။ ရူသီနှင့် ဝင်းဖီးတို့လို ကလေးများပင်လျှင် ပတ်ဝန်းကျင်မှ လှုပ်ရှားမှုများကို ကြည့်ရမြင်ရလွန်းသဖြင့် မူးနောက်ရီဝေကာ စိတ်ပင်ပန်းလျက် ရှိကြ၏။ မကြာခဏ တိတ်တိတ်လေး ကျိတ်၍ သူတို့ အိတ်ကပ်များ အတွင်းသို့ ပီကေများ လာလာထည့်သော ဦးလေးဂျွန်ကိုပင်လျှင် စိတ်ပျက်လာကြလေသည်။

ယောကျ်ား အားလုံးသည် စိတ်မော လူမော ဖြစ်လာကြရုံမျှမက ဒေါသလည်း ကြီးလာကြသည်။ စိတ်ထိခိုက် ကြေကွဲခြင်းလည်း ဖြစ်လာကြသည်။ တခြားကြောင့်တော့ မဟုတ်။ သူတို့ ယူသွားသည့် ပစ္စည်းအားလုံး ရောင်းချရာ၌ ငွေ ဆယ့်ရှစ်ဒေါ်လာသာ ရရှိခဲ့သောကြောင့်ပေတည်း။ မြင်းများ၊ လယ်ယာသုံး ကိရိယာ တန်ဆာပလာများ၊ အိမ်ထောင် ပရိဘောဂ ပစ္စည်းများ၊ ပြီးတော့ လှည်း။ ထိုပစ္စည်း အားလံုးအတွက် ဆယ့်ရှစ်ဒေါ်လာ။

သူတို့သည် ဝယ်သူနှင့် လူချင်း သတ်ရ ဖြတ်ရတော့မလောက် စကားများကြရသည်။ အငြင်းအခုံ ဖြစ်ခဲ့ကြရသည်။ ရန်ဖြစ်ခဲ့ကြရသည်။ သို့သော်လည်း "ဘယ်ဈေးနဲ့ပဲ ရောင်းရောင်း ခင်ဗျားတို့ ပစ္စည်းတွေကို ကျွန်တော် မဝယ်တော့ဘူး" ဟူသော စကား ပြောလာသည့်အခါ သူတို့ဘက်မှ လက်မြှောက် အရှုံးပေးရလေတော့သည်။

ထို့နောက်တော့ သူတို့ဘက်မှ အောက်စည်းသို့ ရောက်ခဲ့ရသည်။ ဝယ်သူ ပြောသမျှကို ယုံကြည် လက်ခံရတော့သည်။ ဝယ်သူက ပထမဆုံး ပေးသည့် ဈေးထက် နှစ်ဒေါ်လာတိတိ လျှော့၍ ရောင်းခဲ့ရလေ၏။

အခုကျတော့ သူတို့မှာ ဖြစ်ပြီးခဲ့သမျှကို တနုံ့နုံ့ ပြန်တွေးကာ ဒေါသဖြစ်ကြသည်။ စိတ်မော လူမော ဖြစ်ကြသည်။ သူတို့အနေဖြင့် ဈေးရောင်း ဈေးဝယ် စနစ်ကို နားလည်ကြသည် မဟုတ်။ သူတို့၏ လှည်းနှင့် တိုလီမိုလီ ပစ္စည်းအားလုံးသည် ဆယ့်ရှစ်ဒေါ်လာမက တန်သည်ကို သူတို့ သိကြပါ၏။ သို့သော်လည်း ဈေး ထိုက်ထိုက်တန်တန် ရအောင် ဘယ်လို ရောင်းရမှန်း သူတို့ မသိပေ။ ကုန်အရောင်းအဝယ် လုပ်ငန်းသည် သူတို့အဖို့ အလွန် ထူးဆန်းသော လျို့ဝှက်ချက်တစ်ခု ဖြစ်သည် မဟုတ်ပါလား။

ကားရှေ့လမ်းမကြီးကို ကြည့်နေသော အယ်လ်၏ မျက်လုံးများသည် စပီဒိုမီတာ ခွက်ပေါ်သို့ ရောက်လာသည်။ "ဟိုလူ ကြည့်ရတာ မြို့ခံ မဟုတ်ဘူးဗျ၊ သူ စကားပြောပုံက မြို့ပေါ်က လူတွေနဲ့ မတူဘူး၊ ဝတ်ပုံ စားပုံလည်း မတူဘူး"

"ငါ ကုန်စုံဆိုင်ထဲ ရောက်တုန်းက အသိတွေနဲ့ တွေ့လို့ စကားပြောခဲ့ရတယ်ကွ၊ ငါတို့လို လူတွေ မြို့ပေါ် တက်ရောင်းတဲ့ ပစ္စည်းတွေကို ဝယ်ဖို့ အသင့်ကြိုပြီး စောင့်နေတဲ့ လူတွေ ရှိနေတယ်တဲ့၊ ဒီကောင်တွေဟာ လူစိမ်းတွေတဲ့၊ ဖျံလည်း သိပ်ကျတယ်တဲ့၊ ဒါပေမဲ့ ဘယ်လို လုပ်မလဲ၊ သိပေမဲ့လည်း ဘာမှ လုပ်လို့ မရဘူးလေကွာ၊ တွမ်မီ လိုက်လာရင် သိပ်ကောင်းမှာ၊ သူ ဆိုရင် ငါတို့ထက်တော့ နားလည်မှာပဲ" ဟု အဖေဂျုတ်က ပြောသည်။

"ဟို သောက်ကောင်က ပစ္စည်းတွေကို မဝယ်ဘူး လုပ်နေတယ်လေကွာ၊ ပစ္စည်းတွေကို ပြန်သယ်လာဖို့ ဆိုတာကလည်း မဖြစ်နိုင်ဘူး မဟုတ်လား" ဟု ဦးလေးဂျွန်က ဝင်ထောက်သည်။

"ငါ့အသိတွေက ဒီကောင်တွေ အကြောင်းကို ပြောပြလိုက်တယ်ကွ" ဟု အဖေဂျုတ်က ပြောသည်။ "ပစ္စည်းဝယ်တဲ့ ကောင်တွေဟာ ဒီအပေါက်မျိုး ချိုးတတ်တယ်တဲ့၊ ရောင်းတဲ့လူတွေ လန့်အောင် ကြောက်အောင်လည်း ခြောက်တတ်တယ်တဲ့၊ အမှန်ဆို ငါတို့ကိုယ်က ပစ္စည်းမှ မရောင်းတတ်တာ၊ မင်းအမေတော့ စိတ်ကောင်းမှာ မဟုတ်တော့ဘူး၊ ဒေါပွမှာလည်း သေချာတယ်"

"ဟိုကို ဘယ်ရက်လောက် ထွက်ဖြစ်မယ် ထင်သလဲ အဖေ" ဟု အယ်လ်က မေးသည်။

"မပြောတတ်သေးဘူး၊ မင်းအမေနဲ့ ကနေ့ည တိုင်ပင်ပြီးမှ ဆုံးဖြတ်ရမှာ၊ တွမ်မီ ပြန်ရောက်လာတာ မင်းအမေ အတော် ဝမ်းသာပုံ ရတယ်၊ ငါလည်း အားတော့ ရှိသွားတာပဲ၊ တွမ်မီဟာ အားကိုးရတဲ့ကောင်ကွ"

"တချို့က ပြောနေကြတယ် အဖေ၊ တွမ်ဟာ ခံဝန်ချုပ်နဲ့ လွတ်လာတာတဲ့၊ ဒါကြောင့်မို့ သူ ဒီပြည်နယ်ရဲ့ အပြင်ဘက်ကို ထွက်သွားလို့ မရဘူးတဲ့၊ တကယ်လို့ သူထွက်သွားရင် အဖမ်းခံရမှာပဲတဲ့၊ ဖမ်းပြီးရင်လည်း ထောင်ကို ပြန်ပို့ပြီး သုံးနှစ်ချထားမှာတဲ့"

အဖေဂျုတ်သည် အယ်လ်၏ စကားကို ကြားသောအခါ အလန့်တကြား ဖြစ်သွားသည်။ "သူတို့က အဲသလိုပဲ ပြောကြသလား" ဟု ပြူးတူးပြဲတဲ မေးသည်။ "သူတို့ ပြောပုံက ကောင်းကောင်းသိနေလို့ ပြောနေသလိုပဲ၊ သက်သက်မဲ့ ရမ်းသမ်းပြောတာတော့ မဟုတ်ဘူး ထင်တယ်ကွ"

"ဒါတော့ ကျုပ်လည်းမသိဘူး အဖေ" ဟု အယ်လ်က ပြန်ပြောသည်။ "သူတို့ကတော့ အဲဒီအတိုင်း ပြောနေကြတာပဲ၊ ကျုပ်ကတော့ ကိုယ့်အစ်ကို ဖြစ်နေတော့ ဘာပြောရမှန်း မသိလို့ မပြောပါဘူး၊ သူတို့ ပြောသမျှကို ရပ်ပြီး နားထောင်ခဲ့တာပဲ"

အဖေဂျုတ်က ဘုရားတသည်။ "သူတို့ ပြောတဲ့အတိုင်း မမှန်ပါစေနဲ့" ဟု ရေရွတ်သည်။ "ငါတို့မှာ တွမ် ရှိနေမှ ဖြစ်မှာ၊ ဒီကိစ္စ သူ့ကို မေးကြည့်ဦးမှပဲ၊ ဒီမြေပေါ်က မောင်းထုတ်လို့ ငါတို့မှာ အတော် ဒုက္ခရောက်ခဲ့ပါပြီ၊ ဒီလောက်ဆို တော်လောက်ပါပြီ၊ ဒီစကား မမှန်ပါစေနဲ့လို့ ငါ ဆုတောင်းပါရဲ့ကွာ၊ တွမ်ကို ပွင့်ပွင့်လင်းလင်း မေးကြည့်ရတော့မှာပဲ"

"အေးပေါ့၊ မေးကြည့်ပေါ့၊ တွမ်မီတော့ သိမှာပါ" ဟု ဦးလေးဂျွန်က ဆိုသည်။

သူတို့သည် ထရပ်ကား သယ်ဆောင်ရာသို့ ငြိမ်ဆိတ်စွာ လိုက်ပါလာကြသည်။ ကားစက်သံမှာ ဆူညံလျက် ရှိလေသည်။ ဂီယာထိုးသံ ဘရိတ်ဆွဲသံများ

ကြားလိုက်ရပြီးနောက် ထရပ်ကားသည် အိမ်ရှေ့ မျက်နှာစာဘက်တွင် ရပ်သည် ကားနောက်တွင် နီရဲရဲ ဖုန်လုံးကြီးများသည် တထောင်းထောင်း ထ၍ ကျန်ခဲ့လေ၏။

ရှသီနှင့် ဝင်းဖီးတို့သည် ကားဘေးကာပေါ်မှ ကျော်၍ မြေကြီးပေါ်သို့ ခုန်ချသည်။ ပါးစပ်မှလည်း "သူ ဘယ်မှာလဲ၊ တွမ် ဘယ်မှာလဲ" ဟု အော်ဟစ်၍ မေးကြသည်။ ထို့နောက်တော့ အိမ်ရှေ့တံခါးဘေး၌ ကပ်၍ ရပ်နေသော တွမ်ဂျုတ်ကို လှမ်းမြင်ကြသည်။ နှစ်ယောက်စလုံး တန့်ခနဲ ရပ်သွားကြသည်။ တအံ့တသြ ငေးမော ကြည့်နေကြသည်။ တွမ်ရှိရာသို့ ခပ်ဖြည်းဖြည်း လျှောက်သွားကြသည်။ ရှက်သလို ကြောက်သလို မျက်နှာထားများဖြင့် လှမ်းကြည့်နေကြလေသည်။

"ဟေး မင်းတို့ ချာတိတ်တွေ ဘာလုပ်နေကြလဲ၊ နေကောင်းရဲ့လား" ဟု တွမ်က လှမ်းမေးသည်။ "ဟယ်လို နေကောင်းတယ်" ဟု နှစ်ဦးစလုံးက ပြိုင်တူ ဖြေသည်။ သူတို့သည် တွမ်၏ မျက်နှာကို စိတ်ဝင်တစား ကြည့်နေကြလေသည်။ လူတစ်ယောက်ကို သတ်ပြီး ထောင်ထဲ ရောက်သွားသော သူတို့၏အစ်ကို။ ဤအစ်ကိုသည် သူတို့အတွက် အလွန်ကြီးကျယ်သော အလွန် သတ္တိကောင်းသော လူထူးလူဆန်းတစ်ဦး ဖြစ်ခဲ့၏။ ထောင်ထဲ ရောက်နေသော အကျဉ်းသား။ ပြီးတော့ ပုလိပ်။ သူတို့တစ်တွေ အကျဉ်းသားလုပ်တမ်း ကစားခဲ့ဖူးသည်များကို ပြန်၍ သတိရနေကြလေသည်။

ကွန်နီရေးဗားသည် ကားနောက်ပိတ်ကို လှန်ချလိုက်ပြီး သူ အလျင်ဆင်းသည်။ ထို့နောက် ကားပေါ်မှ ရိုစာဟန်ကို ချပေးသည်။ ရိုစာဟန်သည် ကြည်နူး ရွှင်လန်းသော မျက်နှာပေးဖြင့် ကွန်နီရေးဗား၏ လက်တွင်းသို့ အလိုက်သင့် ပါလာလေသည်။

"ဟာ ရိုစာဟန် ပါလာတယ်၊ ဟုတ်လား၊ နင် ပါလာလိမ့်မယ်လို့ ဘယ်သူမှ မပြောပါလား" ဟု တွမ်က ပြောသည်။

"ကျွန်မတို့ ခြေကျင် လျှောက်လာကြတာ" ဟု ရိုစာဟန်က ပြန်ဖြေသည်။ "ကားနဲ့ ဆုံမိလို့ လိုက်လာတာ" ရိုစာဟန်က ကွန်နီအား လှမ်းကြည့်သည်။ "ဒီဟာ ကျွန်မယောက်ျား ကွန်နီရေးဗားပေါ့" သူ့အမူအရာနှင့် လေသံသည် ဂုဏ်ယူဝင့်ကြွားသည့်ဟန် အပြည့် ပါလေသည်။

တွမ်နှင့် ကွန်နီတို့သည် တစ်ယောက်လက်ကို တစ်ယောက် အားရပါးရ ဆွဲဆုပ်ထားကြသည်။ တစ်ယောက်မျက်နှာ တစ်ယောက် စူးစူးရဲရဲ ကြည့်ကြသည်။ ဆွဲထားသည့်လက်များကို ရုတ်တရက် ပြန်မလွှတ်။ တဒင်္ဂ အတွင်းမှာပင် သမီးယောက်ဖ နှစ်ယောက်တို့သည် တစ်ယောက်ကို တစ်ယောက် သဘောတွေ့ကြသည်။ "အင်း၊ ကိုယ်ဝန်တွေဘာတွေနဲ့တောင် ဖြစ်နေပြီကော" ဟု တွမ်က ရေရွတ်သည်။

ရိုစာဟန်က မျက်လွှာကို ချလိုက်၏။ "ဟုတ်တယ်၊ အစ်ကိုမသိသေးဘူးလေ"

"ငါ သိပါတယ်၊ အမေက ပြောတယ်၊ ဘယ်တော့လောက် မွေးမလဲ"

"အို၊ သိပ်ကြာမယ် မထင်ပါဘူး၊ လာမယ့် ဆောင်းရာသီ မကျခင်လောက်တော့ မွေးမှာပါ"

တွမ်က ရယ်သည်။ "နင့်ကလေးက လိမ္မော်ခြံတွေ ကြားမှာ မွေးမှာပါကလားဟ၊ လိမ္မော်ပင်တွေ ပတ်လည် ဝိုင်းနေတဲ့ အိမ်ဖြူဖြူကလေးထဲမှာ မွေးမှာပေါ့၊ ဟုတ်ဖူးလား"

ရိုစာဟန်က သူ့လက်နှစ်ဖက်ဖြင့် စူထွက်နေသော သူ့ဗိုက်ကို စမ်းကြည့်သည်။ ပြီးတော့ ရှက်ပြုံး တစ်ချက်ပြုံးကာ အိမ်ထဲသို့ ဝင်သွားလေ၏။

နေဝင်ချိန် ရောက်နေပြီ ဖြစ်သော်လည်း အပူချိန်ကတော့ လျော့မသွားသေးပေ။ အနောက်ဘက် မိုးကုပ်စက်ဝိုင်းဆီမှ ကောင်းကင်သို့ ထိုးတက်နေသော အလင်းရောင်သည် ခြံဝင်းအတွင်းသို့ ဖြန့်၍ ဆင်းနေဆဲ ဖြစ်၏။ မည်သူကမှ တိုက်တွန်းခြင်း နှိုးဆော်ခြင်း မပြုပါဘဲလျက်နှင့် မိသားစု တစ်ခုလုံးသည် ထရပ်ကားအနီးသို့ တစ်ယောက်ပြီး တစ်ယောက် ရောက်လာကြသည်။ မိသားစု အစိုးရ အဖွဲ့ဝင်များသည် မမျှော်လင့်ဘဲ ဆုံမိကြသည်။ ထိုအခါ အစည်းအဝေး တစ်ခုသည် သူ့အလိုအလျောက် ဖြစ်ပေါ်လာ၏။

ညနေခင်း အလင်းရောင်သည် နီရဲရဲ မြေပြင်ကို ပို၍ တောက်ပလာအောင် ဖန်တီးထားသည်။ ထိုအလင်းရောင်ကြောင့် ထင်ဟပ်လာကြသော အရိပ်များ၏ အရွယ်အစား ပမာဏသည် ပို၍ နက်ရှိုင်းပြီး ပို၍ ကြီးမားသည်။ ထို့ကြောင့်လည်း ကျောက်ခဲ တစ်လုံး၊ တိုင်တစ်တိုင်နှင့် အဆောက်အအုံ တစ်ခု၏ အရိပ်ပမာဏသည် နေ့ခင်း အလင်းရောင်ကြောင့် ပေါ်ပေါက်လာရသော အရိပ်များထက် ပို၍ နက်ရှိုင်း

ကြီးမားရုံမျှမက ပို၍ တည်တံ့ ခိုင်မြဲသည်။ ပို၍ ပီပြင်သည်။ ဤအရာဝတ္ထု အားလုံးသည် ပင်ကိုဟန်၊ ပင်ကိုမူများ ထူးထူးခြားခြား ပေါ်လွင် ထင်ရှားလျက် ရှိကြ၏။ တိုင်ရိပ်သည် တိုင်နှင့် တကယ်တူ၍ မိုးမခပင် အရိပ်သည် မိုးမခပင်နှင့် တကယ်တူ၏။ ထင်လာသည့် အရိပ်တွင် သူတို့၏ နဂိုဟန်သည် ပျောက်မသွား။

နီရဲသော မြေပြင်သည် ညနေခင်း အလင်းရောင်ကို ပိုမို၍ တောက်ပလာအောင် ပံ့ပိုးလျက် ရှိ၏။ တစ်စီးလုံး ရစရာ မရှိအောင် ပေရေ ညစ်ပတ်လျက် ရှိသော အညိုရောင် ထရပ်ကားသည် ခရီးပြင်း သွားခဲ့ရသဖြင့် အဆမတန် ပင်ပန်း မောဟိုက်နေသည့်နယ် အိမ်ရှေ့တည့်တည့်တွင် ငြိမ်ဆိတ်စွာ ရပ်လျက် ရှိလေသည်။

ညနေခင်း နေကျချိန်တွင် လူတို့၏ စိတ်နေစိတ်ထားနှင့် အပြုအမူများသည် အပြောင်းအလဲ ရှိတတ်၏။ ယခုလည်း သူတို့အားလုံး ငြိမ်သက် တိတ်ဆိတ်လျက် ရှိကြသည်။ သူတို့၏ မျက်လုံးများသည် အေးစက် တည်ငြိမ်လျက် ရှိနေကြသော်လည်း တောက်ပလျက် ရှိကြလေသည်။

မိသားစုသည် အလွန် အရေးပါ အရာရောက်သော နေရာ၌ ဆုံမိကြခြင်း ဖြစ်သည်။ ထိုနေရာကား ထရပ်ကားအနီး တစ်နေရာတွင် ဖြစ်၏။ သူတို့ဘဝတွင် နေအိမ်သည် အသက်ဝိညာဉ် ကင်းမဲ့ သွားခဲ့လေပြီ။ လယ်မြေများမှာလည်း အသိဝိညာဉ် ကင်းမဲ့ သွားခဲ့ကြလေပြီ။ အသက်နှင့်ကိုယ် တည်ပြီး ရှင်သန် လှုပ်ရှားနေသော အရာဝတ္ထုဆို၍ ဤထရပ်ကား တစ်စီးသာလျှင် ကျန်တော့၏။

ထရပ်ကားမှာ အလွန် ရှေးကျသော ဟတ်ဆန် အမျိုးအစား ထရပ်ကား အဟောင်းကြီး ဖြစ်သည်။ တစ်စီးလုံး ရပ်ဆင်းအင်္ဂါ ချွတ်ယွင်းပျက်ပြားလျက် ရှိ၏။ ဒဏ်ရာဒဏ်ချက်များဖြင့် ပြည့်လျက်ရှိ၏။ သံချေးအထပ်ထပ် တက်နေသည့် နေရာများတွင် တက်နေကြ၏။ အပိန် အချိုင့် အပေါက်အပြဲတွေကလည်း ဗရပွ။ ဘယ်လိုကြည့်ကြည့် အဆင်မပြေနိုင်အောင် အကျည်းတန်း အရုပ်ဆိုးလျက်ရှိ၏။ သို့သော်လည်း ဤထရပ်ကား သည် သူတို့ မိသားစု၏ ကိုးကွယ်ရာတစ်ခု ဖြစ်လေသည်။ သူတို့၏ အိုးသစ် အိမ်သစ်လည်း ဖြစ်လေသည်။ သူတို့၏ အမိက အသက်သွေးကြောလည်း ဖြစ်လေသည်။ ထရပ်ကား တစ်ပိုင်းသည် ခရီးသည်တင်ယာဉ်၊ ကျန်တစ်ပိုင်းသည် ကုန်တင်ယာဉ်။

အဖေဂျုတ်သည် ထရပ်ကားကို တစ်ပတ်မျှ ပတ်၍ လှည့်ကြည့်လိုက်ပြီး မြေကြီးပေါ်၌ ဆောင့်ကြောင့်ထိုင်လိုက်သည်။ သူ့အနီးမှ တုတ်တစ်ချောင်းကို ကောက်ယူပြီး မြေကြီးပေါ်၌ စိတ်ကူးတည့်ရာ ပုံများကို လျှောက်ဆွဲနေသည်။ ဦးလေးဂျွန်သည် အဖေဂျုတ် ရှိရာသို့ လျှောက်လာပြီး အဖေဂျုတ်၏ ဘေး၌ ဝင်ထိုင်သည်။ ပြီးတော့ နှစ်ယောက်သား ထရပ်ကားကို လှမ်းကြည့်ကာ တွေဝေ ငေးမောနေကြလေ၏။

အိမ်ထဲမှ ထွက်လာသော အဘိုးဂျုတ်သည် ထရပ်ကားအား ထိုင်၍ ကြည့်နေသူ နှစ်ဦးကို လှမ်းမြင်သည်။ သူသည် အိမ်ပေါ်မှ ဆင်းလာပြီး ထိုင်နေသူ နှစ်ဦးနှင့် မျက်နှာချင်းဆိုင်တွင် ရှိနေသည့် ထရပ်ကား ခြေနင်းခုံပေါ်၌ ဝင်ထိုင်သည်။ တကယ်တော့ ထိုနေရာသည် အဘိုးဂျုတ်အတွက် အချက်အချာ အကျဆုံးသော နေရာ ဖြစ်၏။ သူနှင့် အထိုက်တန်ဆုံးသော နေရာလည်း ဖြစ်ပေသည်။ ထို့နောက် တွမ်၊ ကွန်နီနှင့် နိုအာတို့ သုံးဦး ရောက်လာသည်။ သူတို့အားလုံး အဖေဂျုတ်နှင့် ဦးလေဂျွန်တို့ ဘေးတွင် ဝင်၍ ထိုင်ကြသည်။ လူအားလုံး ထိုင်နေပုံသည် စက်ဝိုင်းခြမ်း ပုံသဏ္ဍာန်။ ထိုစက်ဝိုင်းခြမ်း၏ မျက်နှာစာထိပ်တွင်မူ အဘိုးဂျုတ်။

ထို့နောက် အိမ်ထဲမှ အမေဂျုတ် ထွက်လာသည်။ အမေနှင့်အတူ အဘွားဂျုတ် ပါလာသည်။ သူတို့နောက်မှ လိုက်လာသူမှာ ရိုစာဟန်။ သူတို့သည် ဆောင့်ကြောင့် ထိုင်နေကြသော ယောကျ်ားများ၏ နောက်တွင် ဝင်၍ ရပ်ကြသည်။ သူတို့ သဘာဝအတိုင်း ခါးများကို ထောက်ထားကြသည်။ ကလေးနှစ်ယောက်ဖြစ်သော ရူသီနှင့် ဝင်းဖီးတို့သည် ခြေတစ်ပေါင်ကျိုး ခုန်၍ အမျိုးသမီးများ ဘေးမှ ကပ်၍ ပါလာကြ၏။ သူတို့ ခြေချောင်းများသည် အငြိမ်မနေ။ မြေကြီးကို ထိုးဆွ၍ ဆော့ကစားလျက် ရှိကြသည်။ သို့သော်လည်း အသံတော့ မပြု။ တရားဟောဆရာ ကတ်ဆီကတော့ ဤနေရာကို မလာ။ သူသည် အရိပ်သုံးပါးကို နားလည်သည်။ အလိုက်သိတတ်သည်။ သူတစ်ဦးတည်း အိမ်နောက်ဖေးဘက်သို့ သွား၍ စိတ်အေးနားအေး ထိုင်လျက်ရှိသည်။ သူသည် တရားဟောဆရာကောင်း တစ်ဦး ဖြစ်သည့်အားလျော်စွာ သူ့လူများ၏ သဘောသဘာဝကို နားလည်သည်။

မိသားစု တစ်စုလုံး ထိုင်သူများက ထိုင်၍ ရပ်သူများက ရပ်နေကြသည့် အချိန်မှာပင် ညနေခင်း အလင်းရောင်သည် မှိန်ဖျော့လာသည်။ ထို့နောက် အဖေဂျုတ်က

စ၍ စကားပြောသည်။ တစ်ဦးတည်း တစ်ယောက်တည်းကို ရည်စူးပြီး ပြောခြင်း မဟုတ်။ အားလုံးကို ပြောခြင်း။ သူ ဆောင်ရွက် ပြီးစီးလာခဲ့သမျှကို ပြန်၍ သတင်းပို့သည့် သဘော။

"ငါတို့ ပစ္စည်းတွေရောင်းတာ အရေရွံ့ အခွာခံခဲ့ရတယ်၊ ဝယ်တဲ့ကောင်က ငါတို့ အချိန်ကုန် မခံနိုင်ဘူး ဆိုတာ သိနေတာကိုးကွ၊ ပစ္စည်း အားလုံးအတွက် ဆယ့်ရှစ်ဒေါ်လာပဲ ရခဲ့တယ်"

အမေသည် ရှုံ့ရှုံ့ရှဲ့ရှဲ့နှင့် လှုပ်လှုပ်ရှားရှား ဖြစ်လာသည်။ သို့သော်လည်း သူ့ကိုယ်သူ ထိန်းချုပ်သည်။

အကြီးဆုံးသား နိုအာက အလျင်ဆုံး မေးသည်။ "ကျုပ်တို့မှာ ရှိသမျှ ငွေအားလုံးကို ပေါင်းလိုက်ရင် ဘယ်လောက် ရှိမလဲ"

အဖေဂျုတ်က သူ့လက်ထဲမှ တုတ်ချောင်းဖြင့် မြေကြီးပေါ်တွင် ဂဏန်းများကို ချရေးပြီး ပေါင်းသည်။ ခပ်တိုးတိုး ရေရွတ်ကာ စဉ်းစားချိန်ဆလျက် ရှိသည်။ "တစ်ရာငါးဆယ့်လေးဒေါ်လာ ရှိတယ်" ဟု ပြောသည်။ "ဒါပေမဲ့ အယ်လ်က ပြောတယ်၊ ငါတို့ တာယာအသစ် ဝယ်မှ ဖြစ်မယ်တဲ့။ လက်ရှိ တာယာတွေက ဆွေးနေပြီတဲ့၊ ကြာကြာခံမှာ မဟုတ်တော့ဘူးတဲ့"

မိသားစု ညီလာခံတွင် အယ်လ်သည် ရှေ့တန်းမှ ပါဝင်လာသည်။ အလျင်ကဆိုလျှင် သူသည် မိန်းမများနှင့် တွဲရပ်ကာ သူများ ပြောသမျှကို ငေး၍ နားထောင်ခဲ့ ရ၏။ အခုတော့ သူသည် အရေးပါ အရာရောက်သည့် အခန်းမှနေ၍ တည်ငြိမ် ရင့်ကျက်သော လေသံဖြင့် အခြေအနေကို တင်ပြရသည်။

"ဒီကားက ကားအို ကားဟောင်းကြီးပဲ၊ ဒီကားကို မဝယ်ခင် ကျုပ် စဉ်းစားခဲ့တာက မောင်းလို့ ရ မရ ဆိုတဲ့အချက်ပဲ စဉ်းစားခဲ့တာ၊ ကျန်တာတွေကို ထည့်ပြီး စဉ်းစားခဲ့တာ မဟုတ်ဘူး၊ ဈေးသက်သာတာ ဝယ်ရမှာဆိုတော့ အကုန် ကောင်းအောင် လျှောက်စဉ်းစား နေလို့လည်း မဖြစ်ဘူး၊ ကျုပ်ကိုယ်တိုင် ဂီယာဘောက် ဖွင့်ကြည့်တယ်၊ ချေးမရှိဘူး၊ ကလပ်ချ်တွေကို စစ်ကြည့်တယ်၊ အပြစ် မတွေ့ဘူး၊ ကားအောက်ဝင်ပြီး သံဖရိန်ကိုလည်း သေသေချာချာ ကြည့်တယ်၊ အကောင်းပကတိပဲ၊ ဘတ်ထရီမှာ အပေါက်တစ်ခု တွေ့တယ်၊ ချက်ချင်း လဲခိုင်းတော့ ရောင်းတဲ့လူက လဲပေးတယ်၊ တာယာတွေကို စစ်ကြည့်တော့

တစ်လုံးမှ မကောင်းဘူး၊ ခဏတစ်ဖြုတ်ပဲ သုံးလို့ရတော့မယ် ဆိုတာ ကျုပ် သိတယ်၊ ဒါပေမဲ့ ဒီတာယာမျိုးတွေဟာ ဝယ်လို့ လွယ်တယ်၊ ဈေးလည်း သိပ်မပေးရဘူး၊ သက်သာတယ်၊ မောင်းရမှာလည်း ဒီကားမျိုးက အင်မတန် မောင်းလို့ ကောင်းတာ၊ စိတ်တိုင်းကျ မောင်းလို့ရတယ်၊ ဆီစားကျတော့လည်း သက်သာတယ်၊ ဒါကြောင့် ဒီကားကိုပဲ ဝယ်သင့်တယ်လို့ ကျုပ်ပြောခဲ့တာပေါ့၊ ဟတ်ဆန် ဆူပါစစ် ကားမျိုးဆိုတာ အပိုပစ္စည်းလည်း ဝယ်လို့လွယ်တယ်၊ ဈေးလည်း သက်သာတယ်၊ တခြားကားတွေ ကျတော့ အပိုပစ္စည်း ဝယ်ရတာကို မလွယ်တာ၊ ရှားလည်းရှား၊ ဈေးလည်းကြီး၊ ကျုပ်ကတော့ ကျုပ်နားလည်သလောက် အဘက်ဘက်က တွက်ချက် စဉ်းစားပြီးမှ ဝယ်ခိုင်းခဲ့တာပါ"

အယ်လ်က ကျန်လူစု၏ ထင်မြင်ချက်ကို စောင့်မျှော်နေသည်။

လက်တွေ့အားဖြင့်တော့ အဘိုးဂျူတ်သည် မိသားစု၏ ခေါင်းဆောင် မဟုတ်တော့ပေ။ သို့သော်လည်း သူတို့၏ အစဉ်အလာ ဓလေ့ထုံးစံအရ အဘိုးဂျူတ်သည် နာမည်ခံ ခေါင်းဆောင်အဖြစ် တည်နေဆဲပင် ဖြစ်သည်။ ထို့ကြောင့်လည်း သူ၏ သဘောထားကို အားလုံးက ကြားချင်ကြသည်။ ထိုင်နေကြသည့် ယောကျ်ားများနှင့် ရပ်နေကြသည့် မိန်းမများသည် အဘိုးဂျူတ်၏ မျက်နှာကို လှမ်းကြည့်ကြသည်။ "မင်း လုပ်လာပုံ မလွဲပါဘူးကွ အယ်လ်ရ" ဟု အဘိုးဂျူတ်က ပြောသည်။ "ငါ လုပ်လည်း မင်းလို လုပ်မှာပဲ၊ ကားတစ်စီးလုံးကို အမဲလိုက်ခွေး အနံ့ခံသလို အနံ့ခံရမှာပေါ့၊ ငါကတော့ဟော့၊ လုပ်စရာရှိလာရင် အပြတ်လုပ်လိုက်တာပဲ၊ အခု မင်း လုပ်လာတာ ကောင်းပါတယ်ကွ၊ မင်း တကယ့်ကို တော်တဲ့ကောင်၊ ဒီလိုမှပေါ့ကွ"

လိှုက်လှိုက်လှဲလှဲ ရှိလွန်းလှသော အဘိုးဂျူတ်၏ ချီးမွမ်းသံကြောင့် အယ်လ်မှာ ဝမ်းသာလုံးဆို့လျက် ရှိသည်။ သူ့မျက်နှာသည် ရက်စိတ်ဖြင့် မသိမသာ နီမြန်းလျက် ရှိလေသည်။

"သူ လုပ်လာတာ မမှားပါဘူး၊ အယ်လ်မှာ အပြစ်တင်စရာ လုံးဝ မရှိပါဘူး၊ တစ်အိမ်လုံးမှာ မော်တော်ကားအကြောင်း နားလည်တဲ့လူဆိုလို့ သူတစ်ယောက်ပဲ ရှိတာပဲ" ဟု အဖေဂျူတ်က ထောက်ခံသည်။

"ကျုပ်လည်း နည်းနည်းပါးပါး နားလည်ပါတယ်၊ မက်အေလက်စတား ထောင်ထဲမှာတုန်းက မော်တော်ကား ကိုင်ခဲ့ဖူးတယ်၊ အယ်လ် လုပ်ပုံ မှန်ပါတယ်" ဟု တွမ်က ဝင်ပြောသည်။ အယ်လ်၏ မျက်နှာသည် နီရဲလာသည်။ တွမ်က သူ့စကားကို ဆက်သည်။ "ကျုပ် တစ်ခုတော့ ပြောချင်တယ်၊ ဟို တရားဟောဆရာက ကျုပ်တို့နဲ့ လိုက်ချင်တယ်လို့ ပြောနေတယ်" တွမ်က စကားကို ဖြတ်ထားပြီး ငြိမ်နေသည်။ ကျန်လူစုကလည်း ငြိမ်နေကြသည်။ "ဒီလူက လူကောင်းတစ်ယောက်ပါ" ဟု တွမ်က ထပ်ပြောပြန်သည်။ "ကျုပ်တို့နဲ့ သိလာတာလည်း ကြာပြီ မဟုတ်လား၊ တစ်ခါတစ်လေ စကားအပြောအဆို ရိုင်းသလိုလို ရှိပေမဲ့ သူ ပြောတာတွေက အမှန်ချည်းပဲ" တွမ်က ဤပြဿနာကို အဆုံးအဖြတ် ပေးရန် မိသားစုသို့ ပုံအပ်လိုက်သည်။

အလင်းရောင်သည် တဖြည်းဖြည်းနှင့် အားနည်းသည်ထက် နည်းလာသည်။ အမေသည် အိမ်ထဲသို့ ဝင်သွားသည်။ အိမ်ထဲမှ မီးမွေးနေသံ ထွက်ပေါ်လာလျက် ရှိ၏။ ခဏမျှအကြာတွင် အမေသည် ပြန်ထွက်လာပြီး စောစောက နေရာ၌ ဝင်ရပ်သည်။

အဘိုးဂျုတ်က လှမ်းပြောသည်။

"ဒါကျတော့ တို့ စဉ်းစားရမှာ နှစ်ချက် ရှိနေတယ်၊ တချို့လူတွေက ပြောတယ်၊ တရားဟောဆရာ ပါလာရင် ကံမကောင်းတတ်ဘူးတဲ့"

"သူ ပြောနေတာတော့ သူဟာ တရားဟောဆရာ မဟုတ်တော့ဘူးတဲ့" တွမ်က ကြားဖြတ်၍ ပြောသည်။

အဘိုးဂျုတ်က သူ့လက်ကို ယမ်းလိုက်သည်။ "လူတစ်ယောက်ဟာ တစ်ကြိမ် တရားဟောဆရာ လုပ်ဖူးရင် နောက်လည်း တစ်သက်လည်း တရားဟောဆရာပဲ ဖြစ်နေမှာပဲ၊ သူ့ကို တရားဟောဆရာ မဟုတ်တော့ပါဘူးလို့ ဘယ်တော့မှ ပြောလို့ မရတော့ဘူးကွ၊ တချို့လူတွေက ကံမကောင်းဘူးလို့ ပြောပေမဲ့ တချို့ကတော့ တရားဟောဆရာ ပါလာရင် ဂုဏ်ရှိတယ်လို့ ဆိုကြတယ်၊ လိုအပ်လာရင် အသုံးလည်း ဝင်တတ်တယ်၊ တကယ်ဆိုရင် ငါတို့ထဲက တစ်ယောက် သေတယ် ဆိုပါတော့၊ အပင်ပန်းခံပြီး ရှာနေဖို့ မလိုတော့ဘူး၊ သူ့ကို သရဏဂုံ တင်ခိုင်းလိုက်ရုံပဲ၊ ဟုတ်ဘူးလား၊ တကယ်လို့ လက်ထပ်မင်္ဂလာလုပ်ဖို့ အကြောင်း ပေါ်လာတော့လည်း သူ့ကို သုံးလို့ရတာပဲ၊ တကယ်လို့ ကလေးတစ်ယောက် မွေးတယ် ဆိုပါတော့၊ ဘယ်မှ သွားနေဖို့ မလိုတော့ဘူး၊

ခရစ်ယာန်ဘာသာဝင် အဖြစ် နှစ်ခြင်းမင်္ဂလာ ပြုပေးဖို့ သူ့ကို ခိုင်းလိုက်ရုံပဲ၊ ဘယ်လောက် ဟန်ကျသလဲ၊ ခေါ်လာလည်း ရပါတယ်၊ ငါကတော့ သူ့ကို သဘောကျတယ်ကွ၊ ဒီကောင်က အယူအဆ သိပ်ပြီး မပြင်းထန်ဘူး"

အဖေဂျုတ်က "ကံကောင်းတယ် မကောင်းဘူး၊ သဘောကောင်းတယ် မကောင်းဘူး ဆိုတာတွေက အရေးမကြီးပါဘူး" ဟု ပြောသည်။ "တို့အနေနဲ့ အဲဒီထက် အရေးကြီးတဲ့ အချက်ကို သေသေချာချာ စဉ်းစားမှ ဖြစ်မှာ၊ ကဲ တို့အားလုံး လူ ဘယ်နှစ်ယောက်ရှိမလဲ၊ တွက်ကြည့်ရအောင်၊ အဘိုးနဲ့ အဘွားက နှစ်ယောက်၊ ပြီးတော့ ငါနဲ့ မင်းတို့ ဦးလေးဂျွန်ရယ်၊ အမေဂျုတ်ရယ်၊ အားလုံးပေါင်း ငါးယောက်၊ နောက်ပြီးတော့ နိုအာရယ်၊ တွမ်မီရယ် အယ်လ်ရယ် စုစုပေါင်း ရှစ်ယောက်၊ ရိုစာဟန်နဲ့ ကွန်နီ ထည့်ပေါင်းလိုက်ရင် ဆယ်ယောက်၊ ရူသီနဲ့ ဝင်းဖီးတို့ နှစ်ယောက်နဲ့ဆိုတော့ ဆယ့်နှစ်ယောက်၊ ပြီးတော့ ခွေးတွေပါထည့်ဦး၊ ခွေးကောင်းတွေ ဆိုတော့လည်း ပစ်မထားခဲ့ချင်ဘူး၊ သူတို့ကို ပေးခဲ့စရာ လူလည်း တစ်ယောက်မှ မရှိဘူး၊ အဲဒီတော့ အားလုံးပေါင်းလိုက်ရင် ဆယ့်လေးယောက် ဖြစ်နေပြီ"

"ကြက်တွေနဲ့ ဝက်နှစ်ကောင်ကို ထည့်မတွက်ဘူးလား" ဟု နိုအာက ဝင်မေးသည်။

"ဝက်နှစ်ကောင်ကို ဆားနယ်ပြီး ယူသွားမယ်လို့ ငါ စိတ်ကူးထားတယ်" ဟု အဖေဂျုတ်က ဖြေသည်။ "ငါတို့ လမ်းမှာ စားဖို့ အသားလေး ဘာလေး လိုရင် အဆင်သင့် ရအောင်လို့ပါ၊ ဝက်သားဆားနယ်ကို သံစည်ပိုင်းငယ်လေးနဲ့ ထည့်ပြီး သယ်သွားရင် ရတယ်၊ တကယ်လို့ ငါတို့ တရားဟောဆရာကို ခေါ်သွားမယ် ဆိုဦးတော့၊ စဉ်းစားစရာ တစ်ခုက ရှိနေသေးတယ်ကွ၊ တိုးလာတဲ့ ပါးစပ်တစ်ပေါက်ကို တို့က တစ်လမ်းလုံး ကျွေးသွားနိုင်မလား၊ ဒီအချက်ကလည်း မစဉ်းစားလို့ မဖြစ်ဘူး" အဖေဂျုတ်က အမေ့ဘက် လှည့်မကြည့်ဘဲ လှမ်းမေးသည်။ "ကျွေးနိုင်မလား အမေကြီး"

"ကျွေးနိုင်မလားလို့ မမေးပါနဲ့၊ ကျွေးမလားလို့ပဲ မေးပါ" ဟု အမေက ပြန်ပြောသည်။ "နိုင်မလားလို့ မေးရင်တော့ ဘာမှကို မလုပ်နိုင်ဘူး၊ ကယ်လီဖိုးနီးယား ကိုလည်း မသွားနိုင်ဘူး၊ ဘာမှလည်း မလုပ်နိုင်ဘူး၊ မလားလို့ မေးရင်တော့ ကိုယ်လုပ်ရမဲ့ အလုပ်ကို လုပ်ရမှာပဲ၊ ကျွန်မတို့ ဂျုတ်နဲ့ မော့ဇလက် မိသားစုမျိုးနွယ်ထဲမှာ ကျွေးသင့်

ကျွေးထိုက်သူကို မကျွေးနိုင်ဘူးလို့ ငြင်းတဲ့လူ၊ တည်းခိုစရာနေရာ မပေးနိုင်ဘူးလို့ ငြင်းတဲ့လူ၊ လမ်းမှာ ခြေကျင် လျှောက်လာနေတဲ့လူက လမ်းကြုံ လိုက်ပါရစေလို့ ပြောရင် လှည်းပေါ် ခေါ်တင်မလာတဲ့လူ ရှိဖူးသလား၊ ဂျုတ်မိသားစု မျိုးရိုးထဲမှာ လူရော် လှည့်တွေလည်း ရှိခဲ့ဖူးပါတယ်၊ ဒါပေမဲ့ အဲဒီနေရာမျိုးတွေမှာ ညံ့တာ ရော်တာ မဟုတ်ဘူး ”

“ဒါပေမဲ့ နေရာပြည့်နေတယ် ဆိုပါတော့၊ တို့ ဘယ်လိုလုပ်မလဲ ” အဖေဂျုတ်က လည်ပင်းကို စောင်းငဲ့ပြီး အမေ့ကို ကြည့်သည်။ သူသည် စောစောက ပြောခဲ့မိသော စကားအတွက် မလုံမလဲ ဖြစ်လျက် ရှိ၏။ အမေ၏ စကားကြောင့် ရှက်စိတ်လည်း ဝင်လျက် ရှိလေသည်။ “ငါပြောတဲ့အဓိပ္ပာယ်က ကားထဲမှာ အားလုံး သိပ်ပြီး ကျပ်ကျပ်သပ်သပ် ဖြစ်နေရင် ဘယ်လိုလုပ်ကြမလဲလို့ မေးတာပါ ”

“နေရာ ဆိုတာကတော့ လုံးဝကို မရှိဘူး” ဟု အမေက ပြန်ပြောသည်။ “ကားပေါ်မှာ လူ ခြောက်ယောက်ထက် ပိုပြီး မဆံ့ဘူး၊ ဒါပေမဲ့ အခု ကျွန်မတို့အားလုံး ဆယ့်နှစ်ယောက် ရှိတယ်၊ ဒီဆယ့်နှစ်ယောက်က မလိုက်မဖြစ်တဲ့လူတွေ၊ အဲဒီထဲမှာ လူတစ်ယောက် တိုးလာလို့ ဘာများ ထူးပြီး ကျဉ်းကျပ်လာစရာ ရှိလို့လဲ၊ တိုးလာမဲ့ လူကလည်း သန်သန်မာမာနဲ့ လုပ်နိုင် ကိုင်နိုင်တဲ့လူ၊ ကျန်းကျန်းမာမာကြီး၊ သူ့ကြောင့် တာဝန်တက်စရာအကြောင်း မရှိဘူး၊ ဝက်နှစ်ကောင်နဲ့ ငွေက ဒေါ်လာ တစ်ရာကျော်ကျော် ပါလာရင် လူပို တစ်ယောက်လောက်ကိုတော့ ကျွေးမွေးသွားနိုင်မှာပါ”

အဖေဂျုတ်၏ ခေါင်းသည် တစ်ဖက်သို့ ပြန်လှည့်သွားသည်။

“တရားဟောဆရာ တစ်ယောက် တို့နဲ့ ပါလာမယ်ဆိုရင် ကောင်းတာပေါ့ဟယ်၊ ကနေ့မနက်က သူ တရားဟောသွားတာ ဘယ်လောက်ကောင်းလဲ ” ဟု အဘွားဂျုတ်က ဝင်ပြောလေသည်။

အဖေဂျုတ်သည် လူတစ်ဦးချင်းစီ၏ မျက်နှာများကို လိုက်၍ ကြည့်နေသည်။ “မင်း သူ့ကို ခေါ်လာချင်တယ် မဟုတ်လား တွမ်မီ၊ သူ လိုက်မယ် ဆိုရင်တော့ သူပါ ဒီနေရာမှာ ရှိနေသင့်တယ်ကွ ”

တွမ်က ထိုင်နေရာမှ ထ၍ အိမ်ဘက်သို့ လျှောက်သွားသည်။ “ကတ်ဆီ.. ဗျို့... ကတ်ဆီ...”

အိမ်နောက်ဖေးဘက်မှ လှုပ်ရှားသံ ကြားရသည်။ တွမ်က အိမ်ထောင့်မှ ရပ်ကြည့်သည်။ တရားဟောဆရာသည် အိမ်နံရံကို ကျောနှင့်မှီထိုင်ကာ မိုးသားနနအတွင်း တလက်လက် တောက်ပနေသော ထွက်ပြူစ ကြယ်ကို မျှော်ကြည့်လျက် ရှိ၏။ "ငါ့ကို ခေါ်သလား" ဟု လှမ်း၍ မေးသည်။

"ဟုတ်တယ်၊ ခင်ဗျား ကျုပ်တို့နဲ့ လိုက်မယ်ဆိုရင်တော့ ကျုပ်တို့နဲ့ အတူတူ လာထိုင်ပြီး လုပ်သင့် လုပ်ထိုက်တာတွေကို ဝိုင်းကူ စဉ်းစားပေးမှ ဖြစ်မယ်"

ကတ်ဆီ ထရပ်သည်။ သူ့အား မိသားစု အသိုင်းအဝိုင်းအတွင်းသို့ သွတ်သွင်း လိုက်ကြလေပြီ။ မိသားစုအတွင်း၌ သူ့ကိုပေးသည့် နေရာသည် အဆင့်အားဖြင့် နိမ့်ကျလိမ့်မည် မဟုတ်။ ဤအချက်ကိုလည်း သူ သတိထားမိသည်။ သူ ရောက်သွားသော အခါ ဦးလေးဂျွန်က ဘေးဘက်သို့ တိုး၍ နေရာဖယ်ပေးသည်။ သူ ထိုင်ရသော နေရာမှာ အဖေဂျုတ်နှင့် ဦးလေးဂျွန်တို့ကြားတွင် ဖြစ်သည်။ ကတ်ဆီသည် အများနည်းတူပင် ဆောင့်ကြောင့် ထိုင်သည်။ သူသည် ကားခြေနင်းခုံပေါ်၌ အကျအန ထိုင်နေသော အဘိုးဂျုတ်အား မျက်နှာချင်းဆိုင်လျက် ရှိလေသည်။

အမေသည် အိမ်ဘက်သို့ ထွက်သွားပြန်လေ၏။ မှောင်နှင့်မည်းမည်း ဖြစ်နေသော မီးဖိုချောင်ထဲမှ ဖယောင်းတိုင် မီးရောင် တလက်လက် ထွက်ပေါ်လာသည်။ မီးဖိုပေါ်၌ တင်ထားသည့် အိုးကြီးတစ်လုံး၏ အဖုံးကို ဖွင့်လိုက်သောအခါ မုန်လာဥနှင့် အသားပြုတ်နံ့များသည် အိမ်ရှေ့တံခါးမှ ထွက်ကာ ထိုင်နေသူများဆီသို့ ရောက်လာသည်။ သူတို့သည် အမေ ပြန်ရောက်အလာကို စောင့်မျှော်နေကြသည်။ အမေသည် ဤမိသားစုတွင် ဩဇာ အရှိန်အဝါ ကြီးမားသူတစ်ဦးပေတည်း။

"ကျုပ်တို့ ဘယ်ရက်လောက် ထွက်ရင် ကောင်းမလဲ ဆိုတာ စဉ်းစားမှ ဖြစ်တော့မယ်၊ အမှန်တော့ မြန်မြန်ထွက်နိုင်ရင် အကောင်းဆုံးပဲဗျာ၊ ကျုပ်တို့ ခရီးမထွက်ခင် လုပ်ရမှာက ဝက်နစ်ကောင်ကို သတ်ရမယ်၊ ဆားသိပ်ရမယ်၊ စည်ထဲသွတ်ရမယ်၊ ဒါတွေလည်း မြန်မြန်လုပ်နိုင်မှ ဖြစ်မှာ" ဟု အဖေဂျုတ်က ပြောလေသည်။

နိုအာကလည်း သဘောတူသည်။ "တကယ်လို့ ကနေ့ ပြီးပြတ်သွားအောင် လုပ်နိုင်ရင် မနက်ဖြန်ခါကို အသင့်ဖြစ်မယ်၊ သန်ဘက်ခါမနက် ထွက်နိုင်မှာပဲ"

ဦးလေးဂျွန်ကတော့ ကန့်ကွက်စကား ပြောသည်။ "အခုလောက် နေပူနေရင် အသားတွေကို မပုပ်မသိုးအောင် လုပ်လို့ရမလား၊ အသားက အအေးခံပြီးမှ ဆားပက်လို့ရတာ၊ ဒါကတော့ မလွယ်ဘူး ထင်တယ်ကွ"

"ကနေ့ည လုပ်မယ်လေ၊ အသားတွေကို ကနေ့ည တစ်ညလုံး အအေးခံထားမယ်၊ ပြီးတော့မှ ဆားထည့်တာပေါ့"

"ဟုတ်သားပဲ၊ အသားတွေ မပုပ်မသိုးအောင် ဆားများများ ထည့်သိပ်ကြတာပေါ့၊ သံစည် နှစ်လုံးစာလောက်ရရင် လုံလောက်မှာပါ" ဟု အမေက ပြောသည်။

"ကဲ ဒီလိုဆိုရင် ဒီအလုပ်ကို ကနေ့ည ပြတ်အောင် လုပ်မယ်" ဟု တွမ်က ဆိုသည်။

အဘိုးဂျုတ်သည် သူ့လက်နှစ်ဖက်ဖြင့် ဒူးများပေါ် ထောက်လိုက်ပြီး မတ်တတ် ရပ်လိုက်သည်။ "မှောင်လာပြီကွ" ဟု ရေရွတ်သည်။ "ငါလည်း ဗိုက်ဆာလာပြီ၊ ကယ်လီဖိုးနီးယား ရောက်ရင်တော့ စပျစ်သီးတွေကို အားရပါးရ ခူးပြီး စားလိုက်ဦးမယ်ဟေ့"

အဘိုးဂျုတ် ထရပ်လိုက်သောအခါ ယောကျ်ားအားလုံး ထိုင်နေရာမှ ထလိုက်ကြလေသည်။

ရှုသီနှင့် ဝင်းဖီးတို့ကတော့ ခုန်ပေါက် မြူးထူးနေကြသည်။ ရှုသီက ဝင်းဖီး၏ နားနားသို့ကပ်၍ တိုးတိုးကလေး ပြောသည်။ "ဝက်တွေ သတ်ပြီး ကယ်လီဖိုးနီးယားကို သွားတော့မယ်၊ ဝက်တွေ သတ်ပြီး ကယ်လီဖိုးနီးယားကို သွားတော့မယ်"

ဝင်းဖီးကမူ သူ့လက်တစ်ဖက်ဖြင့် သူ့လည်ချောင်းကို ဖျစ်၍ မျက်နှာကို ရှုံ့မဲ့ကာ အသံသေး အသံကြောင်ဖြင့် အော်သည်။ "ငါဟာ ဝက်အိုကြီး တစ်ကောင်ပါကွာ၊ ကြည့်ပါဦး၊ ငါဟာ ဝက်အိုကြီး တစ်ကောင်ပါကွ၊ သွေးတွေကို ကြည့်စမ်းပါဦး ရှုသီရယ်" ဝင်းဖီးက ဒယိမ်းဒယိုင်လုပ်ကာ မြေပေါ်သို့ ပစ်လှဲလိုက်သည်။ ခြေနှင့် လက်များကို ဆန့်ငင် ဆန့်ငင် လုပ်ပြသည်။

"တို့များ ကယ်လီဖိုးနီးယားကို သွားရတော့မယ်" ရှသီက ဝမ်းသာ ရွှင်မြူးသော လေသံဖြင့် ပြောသည်။ သူသည် ဝင်းဖီးထက် အသက်ကြီးသူ ဖြစ်သည်။ သူ့ဘဝတွင် ဤအချိန်အခါသည် အလွန် ထူးခြားသည့် အချိန်အခါဖြစ်ကြောင်း နားလည်နေ၏။

လူကြီးများသည် ဖယောင်းတိုင်မီးဖြင့် လင်းနေသော မီးဖိုခန်းဆီသို့ သွားကြသည်။ အမေက အသားနှင့် မုန်လာဥ ရော၍ ပြုတ်ထားသော ဟင်းဖြင့် ညစာကျွေးသည်။ အမေသည် အများနှင့် ရော၍ မစားသေးဘဲ အိုးကြီးတစ်လုံးကို မီးဖိုပေါ်သို့တင်၍ ရေအပြည့် ခပ်ထည့်သည်။ ထို့နောက် မီးဖိုတွင် မီးထပ်ထိုးသည်။ မီးဖိုမှ မီးတောက်မီးလျှံများသည် တစ်ခန်းလုံးကို လွှမ်းခြုံထားလေ၏။ မိသားစုသည် စားစရာ ရှိသမျှကို တက်သုတ်ရိုက်၍ စားကြသည်။ ပြီးတော့ အိမ်ရှေ့သို့ထွက်၍ ထိုင်ကြသည်။ မီးဖိုထဲမှ ဖယောင်းတိုင် မီးရောင်သည် အပြင်ဘက်သို့ ထွက်အန် ဖြာဆင်းလျက် ရှိ၏။ ခါး၏ ခပ်ကိုင်းကိုင်း ဖြစ်နေသော အဘိုးဂျုတ်၏ အရိပ်မည်းမည်းသည် မြေပြင်ပေါ်၌ ထိုင်နေသူများ၏ အလယ်သို့ ထိုးကျနေသည်။ နိုအာသည် ကောက်ရိုးစ တစ်စကို သူ့သွားများနှင့် ကိုက်ဖြတ်လျက် ရှိ၏။ အမေနှင့် ရိုစာဟန်တို့ သားအမိကတော့ မီးဖိုချောင်ထဲမှ ထွက်မလာနိုင်သေး။ ပန်းကန်များကို ဆေးကြောကာ စားပွဲပေါ်၌ အထပ်လိုက် စီ၍ တင်နေကြလေသည်။

ထို့နောက် ချက်ချင်းပင် တစ်မိသားစုလုံး အလုပ်များလေ၏။ အဖေဂျုတ်သည် ထိုင်နေရာမှ ထသွားကာ ဖယောင်းတိုင် မီးအိမ်တစ်လုံး ထပ်ထွန်းပြီး ယူလာသည်။ နိုအာက မီးဖိုချောင်ထဲမှ သေတ္တာတစ်လုံးကို ဖွင့်၍ အထဲမှ သားသတ် ဓားကောက်ကို ထုတ်သည်။ ဓားသွေးကျောက်ပေါ် တင်၍ သွေးသည်။ ပြီးလျှင် သားသတ် ဓားကောက်ကို အမွေးခြစ်ဓားနှင့်တွဲ၍ စဉ်းတီတုံးပေါ် တင်ထားလိုက်၏။ အဖေဂျုတ်က သုံးပေခန့် ရှည်သော သစ်သားချောင်း နှစ်ချောင်းကို ယူလာပြီး ထိပ်များကို ပုဆိန်ဖြင့် ချွန်သည်။ ပြီးတော့ အလယ်မှ ပူး၍ ကြိုးများဖြင့် ခပ်တင်းတင်း ချည်လိုက်လေသည်။

"ငါတို့ ကိရိယာ တန်ဆာပလာတွေ အကုန်လုံး ရောင်းပစ်တာတော့ မှားတယ်ကွာ" ဟု အဖေဂျုတ်က ညည်းညည်းညူညူ ပြောသည်။

မီးဖိုပေါ်မှ ရေနွေးဆူသံ တပွက်ပွက်ကို ကြားလာရသည်။

"ရေနွေးအိုးကို ဟို သယ်သွားမှာလား၊ ဝက်တွေကို ဒီယူလာမှာလား" ဟု နီအာက လှမ်းမေးသည်။

"ဝက်တွေကို ဒီယူမယ်လေကွာ" ဟု အဖေဂျုတ်က ပြန်ပြောသည်။ "ရေနွေး အိုးကြီးကို ဟိုအထိ သယ်သွားလို့ ဖြစ်ပ့ါမလား၊ မင်းကိုယ်မင်း ရေနွေးဖြော်ပြီးသား ဖြစ်သွားမှာပေ့ါ၊ ဘယ်လိုလဲဟေ့၊ ရေနွေး အသင့်ဖြစ်ပလား"

"ဆူနေပြီ" ဟု အမေက ဖြေသည်။

"ကဲ နီအာ၊ မင်းရယ်၊ တွမ်ရယ်၊ အယ်လ်ရယ် လိုက်ခဲ့၊ ဖယောင်းတိုင်ကို ငါ ကိုင်ခဲ့မယ်၊ ဝက်တွေကို ဟိုနေရာမှာပဲ သတ်မယ်၊ ဟိုမှာတင် ဖျက်မယ်၊ ပြီးမှ ဒီကို သယ်ခဲ့ပြီး ရေနွေးဖြော်မယ်"

နီအာသည် သူ့ဓားကို ကောက်ကိုင်သည်။ အယ်လ်က ပုဆိန်ကို ဆွဲသည်။ လူလေးယောက်သည် ဝက်ခြံဘက်သို့ လျှောက်သွားကြလေသည်။ သူတို့ အရိပ်များသည် ဖယောင်းတိုင် မီးရောင်အောက်တွင် တဖျပ်ဖျပ် လှုပ်ခါလျက် ရှိကြသည်။ ရူသီနှင့် ဝင်းဖီးတို့ မောင်နှမသည် ခုန်ပေါက် မြူးထူးကာ သူတို့ဘေးမှ ကပ်လိုက်သွားကြလေသည်။ အဖေဂျုတ်သည် လက်ထဲမှ ဖယောင်းတိုင် မီးအိမ်ကို မြှောက်၍ ဝက်ခြံထဲသို့ ငုံ့ကြည့်သည်။ အိပ်ချင်မူးတူး ဖြစ်နေသော ဝက်များသည် လဲ့နေရာမှ ခေါင်းထောင်၍ ထလာကြသည်။ သင်္ကာမကင်း ဖြစ်ဟန်ဖြင့် တအီအီ အော်မြည်ကြသည်။ နှာခေါင်းများကို ရှုံ့ချည်ပွချည်လုပ်၍ အနံ့ခံကြသည်။ ဦးလေးဂျွန်နှင့် တရားဟောဆရာတို့သည် သူတို့လူစုထံ လျှောက်လာလျက် ရှိ၏။

"သူတို့ကို ဒီမှာတင်ပဲ ကိစ္စပြတ်အောင် လုပ်ကြကွာ" ဟု အဖေဂျုတ်က ပြောသည်။ "သွေးကိုလည်း ဒီနေရာမှာပဲ ကုန်အောင် ထွက်ပစေ၊ ရေနွေးဖြော်တော့ အိမ်ပေါ်မှာ ဖြော်မှာကွ" နီအာနှင့် တွမ်တို့က ဝက်ခြံကို ကျော်ဆင်းကာ ဝက်များကို သတ်ကြသည်။ သူတို့ ဝက်ပေါ်ပုံမှာ ကျွမ်းကျင် သပ်ရပ်လှ၏။ တွမ်က ပုဆိန်ဖြင့် နစ်ချက်သာ ထုသည်။ နီအာ၏ လက်များသည် လျင်မြန်သွက်လက်စွာ လှုပ်ရှားသွားသည်။ တုံးလုံးဖြစ်သွားသော ဝက်၏ သွေးလွှတ်ကြောကြီးကို သူ့လက်ထဲမှ ဓားဖြင့် လှီးလိုက်သည်။ ထို့နောက် အဆက်မပြတ် အော်နေဆဲ ဖြစ်သော ဝက်များကို ခြံပြင် ဘက်သို့ မ၍ ချပေးလိုက်၏။ တရားဟောဆရာနှင့် ဦးလေးဂျွန်တို့က ဝက်တစ်ကောင်၏

နောက်ခြေထောက် နှစ်ချောင်းကို တစ်ယောက်တစ်ဖက်ကိုင်ကာ တရွတ်တိုက် ဆွဲယူသွားကြသည်။ တွမ်နှင့် နိုအာတို့က နောက်တစ်ကောင်ကို ထိုပုံစံအတိုင်း ဆွဲယူကြသည်။ အဖေဂျုတ်က မီးအိမ်ကို ကိုင်၍ သူတို့နှင့်အတူ ခပ်သုတ်သုတ် ပြေးလိုက်သည်။ မည်းနက်သော သွေးကြောင်းကြီး နှစ်ကြောင်းသည် မြေပေါ်၌ ထင်ကျန်ခဲ့လေ၏။

အိမ်ထဲ ရောက်သည့်အခါ နိုအာက သူ့ဓားဖြင့် နောက်ခြေ နှစ်ချောင်း၏ အရိုးနှင့် အကြော ကြားကို ထိုးခွဲလိုက်သည်။ စောစောကတည်းက နှစ်ဖက်ချွန် တုတ်ဖြင့် ဟိုဘက်သည်ဘက် ထိုး၍ မေးထောက်ထားသော ဝက်၏ နောက်ခြေနှစ်ချောင်းသည် ဘေးတစ်ဖက်တစ်ချက်သို့ ကား၍ ကျသွားကြသည်။ ချက်ချင်းပင် ဝက်သေ နှစ်ကောင်ကို သံချိတ်များဖြင့် ထိုးဖောက်ကာ အိမ်ထုပ်တန်းတွင် တန်းလန်း ဆွဲချိတ်လိုက်ကြ၏။ ထို့နောက် ယောကျ်ားအားလုံးသည် ပွက်ပွက်ဆူနေသော ရေနွေးများကို တစ်ယောက်တစ်လက် ခပ်၍ သယ်ကာ မည်းနက်နေသော ဝက်သေကောင် နှစ်ကောင်၏ ကိုယ်လုံးများပေါ်သို့ နှံ့နေအောင် လောင်းပေးကြသည်။ နိုအာက ဝက်၏ရင်ကို ဒေါင်လိုက် ခွဲချလိုက်သောအခါ အတွင်းမှ အူနှင့် အသည်းများသည် အောက်သို့ ထွက်ကျသွားလေ၏။ အဖေဂျုတ်သည် တုတ်တစ်ချောင်း ယူလာပြီး ထိပ်နှစ်ဖက်ကို ချွန်ကာ ဝက်၏ ရင်နှစ်ခြမ်းကို လေသလပ်နေအောင် ခွ၍ ထောက်ထားလိုက်၏။ တွမ်က ဝက်မွေးခြစ်တံဖြင့်၊ အမေက ဓားတုံးတုံး တစ်လက်ဖြင့် ဝက်မွေးများကို ခြစ်ကြသည်။ အယ်လ်က ရေပုံးတစ်လုံး ဆွဲယူလာပြီး အောက်၌ အပုံလိုက် ကျနေသော ဝက်အူနှင့် အသည်းများကို တူရွင်းပြားနှင့် ကော်၍ ပုံးထဲသို့ ထည့်သည်။ ထို့နောက် အိမ်နှင့်ဝေးရာ နောက်ဖေးဘက်၌ ပစ်ရန် ပုံးကို ဆွဲ၍ ထွက်သွားသည်။ ကြောင်နှစ်ကောင်သည် တညောင်ညောင် အော်မြည်ကာ သူ့နောက်က လိုက်သွားကြသည်။ ခွေးများကလည်း ကြောင်များကို ဟိန်း၍ အယ်လ်၏ နောက်မှ ကပ်လိုက်သွားကြလေ၏။

အဖေဂျုတ်သည် အိမ်တံခါးဝ ခါးပန်းကို ဖင်ခုထိုင်ကာ ဖယောင်းတိုင် မီးရောင်အောက်၌ တွဲလောင်းဖြစ်နေသော ဝက်များကို လှမ်းကြည့်နေသည်။ အမွေးခြစ်သည့် အလုပ်မှာ ပြီးသွားခဲ့လေပြီ။ အနည်းငယ်မျှသာ ကျန်တော့သည့် သွေးများသည် မြေပြင်ပေါ်သို့ တစက်စက် ကျဆင်းလျက် ရှိ၏။ အဖေဂျုတ်သည် ထိုင်နေရာမှ ထကာ ဝက်များ အနီးသို့ သွားရပ်သည်။ သူ့လက်တစ်ဖက်ဖြင့် အသားများကို စမ်းကြည့်သည်။ ထို့နောက် ထိုင်လက်စ နေရာတခါင် ပြန်ထိုင်သည်။ အဘွားဂျုတ်နှင့် အဘိုးဂျုတ်သည်

အိပ်ရာဝင်ရန် နောက်ဖေးအဖီတဲဘက်သို့ ထွက်သွားကြသည်။ အဘိုးဂျုတ်၏ လက်တစ်ဖက်သည် ဖယောင်းတိုင်မီးအိမ်ကို ဆွဲလျက်။

ကျန်မိသားစုသည် အိမ်တံခါးဝ အနီးတစ်ဝိုက်တွင် ငြိမ်ဆိတ်စွာ ထိုင်နေကြလေသည်။ ကွန်နီ၊ အယ်လ်နှင့် တွမ်တို့ သုံးယောက်သည် အိမ်နံရံကို မှီ၍ မြေကြီးပေါ်၌ ဖင်ချထိုင်နေကြသည်။ ဦးလေးဂျွန်သည် သေတ္တာခွံ တစ်လုံးပေါ်၌ ထိုင်နေသည်။ အဖေဂျုတ်ကတော့ စောစောက ပုံစံအတိုင်း တံခါးဝကို ပိတ်၍ ထိုင်နေသည်။ အမေနှင့် ရိုစာဟန်တို့ကတော့ အခုအချိန်ထိ မထိုင်နိုင်သေး။ တလှုပ်လှုပ်နှင့် အလုပ်များနေဆဲ။ ရှသီနှင့် ဝင်းဖီးတို့ နှစ်ယောက်ကတော့ အိပ်ချင်မူးတူး ဖြစ်နေကြလေပြီ။ အိပ်ချင်မူးတူး ဖြစ်နေသည့်ကြားမှပင် တစ်ယောက်နှင့် တစ်ယောက် အငြင်းအခုံဖြစ်ကာ ရန်ဖြစ်လျက် ရှိ၏။ နိုအာနှင့် တရားဟောဆရာကတော့ အိမ်ဘက် မျက်နှာပြုကာ ဘေးချင်းယှဉ်၍ ထိုင်နေကြလေသည်။

အဖေဂျုတ်သည် သူ့ကိုယ်သူ ကုတ်နေရာမှ ခေါင်းမှ ဦးထုပ်ကို ချွတ်လိုက်ပြီး လက်ချောင်းများဖြင့် သူ့ဆံပင်များကို ထိုးဖွလိုက်သည်။ "မနက်ဖြန် မနက်စောစော ထပြီး ဝက်သားတွေကို ဆားနယ်မယ်၊ ပြီးရင် အိပ်ရာ ခုတင်တွေက လွဲပြီး ရှိသမျှ ပစ္စည်းတွေကို ထရပ်ကားပေါ် တင်မယ်၊ နောက်တစ်ရက် မနက်ကျတော့ ထွက်မယ်၊ မနက်ဖြန် တစ်ရက်တည်းနဲ့ လုပ်စရာ ရှိသမျှကို ပြီးအောင် လုပ်ရမှာဆိုတော့ မလွယ်ဘူး" ဟု ညည်းသည်။

"အခုညကတည်းက လုပ်စရာ ရှိတာကို ပြတ်အောင် လုပ်ထားလို့ကော မရဘူးလား" ဟု တွမ်က ဝင်ပြောသည်။ ကျန်လူစုသည် တွမ်၏ စကားကြောင့် လှုပ်လှုပ်ရွရွ ဖြစ်သွားကြလေ၏။ "အခုညသာ ပြတ်အောင် လုပ်နိုင်ရင် မနက်ဖြန် ထွက်နိုင်မှာ" ဟု တွမ်က ထပ်၍ ပြောပြန်သည်။ အဖေဂျုတ်သည် လက်တစ်ဖက်ဖြင့် သူ့ဒူးခေါင်းကို ပွတ်နေသည်။ စိတ်မငြိမ်သက်မှုသည် ကျန်လူစုကိုပါ ကူးစက်သွားလေသည်။

"ဝက်သားတွေကို အခု တစ်ခါတည်း ခုတ်ထစ်ပြီး ဆားသိပ်လိုက်လို့ကော မရဘူးလား၊ ရတာပဲ၊ ပိုပြီးတော့တောင်မှ အအေးမြန်လိုက်ဦးမယ်" ဟု နိုအာက ပြောသည်။

မတင်မကျ ဖြစ်နေသော ပြဿနာကို တစ်ထိုင်တည်းနှင့် အဆုံးအဖြတ်ပေးသူမှာ ဦးလေးဂျွန် ဖြစ်၏။ သူ၏ စကားသည် အလွန် ထိရောက်ပြီး တာသွားသည်။ "ငါတို့ အနေနဲ့

ဘာပြုလို့ အချိန်ဖြုန်းနေတော့မှာလဲကွာ၊ ငါကတော့ ဒီနေရာက မြန်မြန်ပဲ ထွက်သွားချင်တယ်၊ အခု သွားနိုင်ရင် တစ်ခါတည်း ထသွားမယ်၊ ဘာကြောင့် မသွားနိုင်ရမှာလဲ"

ထိုစိတ်ကူးသည် ချက်ချင်းပင် ကျန်လူတစ်စုထံသို့ ရောက်သွားသည်။ "ဟုတ်သားပဲ၊ ဘာပြုလို့ မသွားနိုင်ရမှာလဲ၊ တစ်လမ်းလုံး အိပ်သွားနိုင်တာပဲဟာ" အလျင်အမြန် ထွက်သွားလိုသော စိတ်သည် သူတို့လူစုအား လွှမ်းဆော်လျက် ရှိသည်။

"သူတို့ ပြောနေကြတာက မိုင်နှစ်ထောင်ဝေးတယ်တဲ့၊ မိုင်နှစ်ထောင်ဆိုတော့ သောက်ကျိုးနည်း အလွန်ဝေးတဲ့ ခရီးကွ၊ စောစောထွက်သင့်တာ အမှန်ပဲ၊ ဟေ့ နိုအာ မင်းနဲ့ ငါနဲ့က ဝက်သားတွေကို ခုတ်ထစ် တုံးတစ်ပြီး ဆားနယ်ကြရအောင်၊ ကျန်တဲ့လူစုက ပစ္စည်းတွေ ကားပေါ်တင်ကြပေါ့"

အမေက အိမ်ထဲမှနေပြီး ခေါင်းပြူ၍ ကြည့်သည်။ "မောင်ကြီးထဲ လုပ်ရကိုင်ရမှာဆိုတော့ ပစ္စည်းတွေ ဘာတွေ မေ့ကျန်ခဲ့ရင် ဘယ့်နှယ်လုပ်ကြမလဲ"

"မနက် မိုးလင်းတော့ ထပ် စစ်ကြည့်နိုင်တာပဲ အမေရယ်" ဟု နိုအာက ပြောသည်။ သူတို့သည် ထိုင်နေရာမှ ရုတ်တရက် မထသေးဘဲ လုပ်သင့် မလုပ်သင့် စဉ်းစား ချိန်ဆ နေကြပြန်သည်။ သို့သော်လည်း နောက်တစ်ခဏအတွင်းမှာပင် နိုအာက ထိုင်ရာမှ ထသွားပြီး ဓားကောက်ကို ဓားသွေးကျောက်ပေါ်တင်၍ သွေးသည်။ "အမေ" ဟု လှမ်းခေါ်ပြီး "စားပွဲကို ရှင်းလိုက်ဗျာ" ဟု ပြောသည်။ ပြီးတော့ သူသည် ဝက်တစ်ကောင်ဆီသွားကာ ကျောကုန်းဘက်မှ နေ၍ အရှည်လိုက် ခွဲချလိုက်ပြီး အသားတခြား နံရိုးတခြား ဖြစ်သွားအောင် ခွာထုတ်လိုက်လေသည်။

အဖေဂျုတ်သည် လှုပ်ရှားလျက်ရှိသော စိတ်ဖြင့် မတ်တတ်ထရပ်သည်။ "လုပ်ရင်တော့ အားလုံး ဝိုင်းလုပ်ကြမှ ဖြစ်မှာကွ" ဟု ရေရွတ်သည်။ "ကဲ လာကြကွာ"

အခုလို ကျပြန်တော့လည်း သူတို့အားလုံးသည် ဤနေရာမှ အမြန်ဆုံး ထွက်ခွာသွားချင်စိတ် အပြင်းအထန် ဖြစ်လာကြပြန်သည်။ နိုအာသည် အသားပြင်ကြီးများကို မီးဖိုထဲသို့ သယ်သွားသည်။ ဆားသိပ်၍ ကောင်းမည့် အရွယ် လေးထောင့် အတုံးကလေးများ တုံးသည်။ အမေက ဝက်သားတုံးကလေးများကို ဆားကြမ်းဖြူးပြီး လက်နှင့် သိပ်သည်။ ထို့နောက် စည်ပိုင်းငယ်ကလေးများထဲသို့ တစ်တုံးချင်းစီ စီ၍

ထည့်သည်။ အသားတစ်တုံးနှင့် တစ်တုံး အထိအောင် သတိထားသည်။ အမေ အသားတုံးများ စီနေပုံမှာ အုတ်စီနေသည်နှင့် တူလှ၏။ အသားတုံးများ၏ ကြားတွင် ဆားများကို ပုံ၍ တင်းကျပ်နေအောင် ထည့်သိပ်သည်။ နိအာသည် ဘေးသားများကို တုံးပြီးသောအခါ ပေါင်သားများကို ဆက်တုံးသည်။ နံရိုးများ ကျောရိုးများနှင့် ခြေထောက်များ၌ ကပ်နေသည့် အသားစများကို စိတ်ရှည်လက်ရှည် လှီးယူနေခိုက်တွင် အမေသည် သူ့မီးဖိုတွင် မီးပြတ်မသွားအောင် ထင်းများကို အဆက်မပြတ် ထိုးပေးလျက် ရှိ၏။ ထို့နောက် ရသမျှ အသားစများကို အရိုးများနှင့် ရော၍ အိုးတစ်လုံးတဝင် ထည့်ကာ မီးဖိုပေါ် တင်သည်။ မိသားစုတစ်စုလုံး လောလောဆယ် စားရန် ပြုတ်ကြော် လုပ်ခြင်းပေတည်း။

အိမ်ရှေ့ မျက်နှာစာ ခြံဝင်းအတွင်း၌ လည်းကောင်း၊ နောက်ဖေး အဖီးတဲ ဘက်တွင် လည်းကောင်း ဖယောင်းတိုင်မီးအိမ်များသည် သွားချည်တစ်ခါ ပြန်ချည် တစ်လှည့် ရွေ့လျားလျက် ရှိကြ၏။ ယောက်ျားအားလုံးသည် တွေ့သမျှ ပစ္စည်း များကို သယ်ထုတ်လာကြပြီး ထရပ်ကားဘေး၌ စုပုံထားသည်။ ရိုစာဟန်သည် မိသားစု ပိုင်ဆိုင်သမျှ အဝတ်အထည်များကို တစ်ပွေ့တစ်ပိုက်ကြီး ဆွဲထုတ်လာသည်။ သူ ယူလာသည့် အဝတ်အထည်များတွင် အနွေးထည်များ၊ အပေါ်ဝတ် အင်္ကျီများ၊ ရော်ဘာ ရှူးဖိနပ်များ၊ ဘောင်းဘီများ၊ ဆွယ်တာများ၊ သိုးရေနှင့် ချုပ်ထားသည့် ကုတ်အင်္ကျီများ ပါသည်။ ရိုစာဟန်သည် ထိုအဝတ်အထည်အားလုံးကို သစ်သားသေတ္တာ တစ်လုံးတဝင် အပြည့်အသိပ် စုပြုံထိုးထည့်ကာ မနိုင့်တနိုင်ချင့် မထုတ်လာခြင်း ဖြစ်၏။ ထို့နောက် မိန်းမဝတ်အင်္ကျီများ၊ ဂါဝန်များ၊ ခြေအိတ်များနှင့် ကလေးဘောင်းဘီ အင်္ကျီများ ထိုးသိပ်ထည့်ထားသော သေတ္တာတစ်လုံးကို မနိုင့်တနိုင်နှင့် မ၍ ထုတ်ယူလာပြန် လေသည်။

တွမ်သည် ကိရိယာ တန်ဆာပလာများ ထားရာ တဲအတွင်းသို့ ဝင်၍ လမ်းခရီးတွင် အသုံးဝင်မည့် ပစ္စည်းများ ရလိုရငြား ရှာသည်။ လွှတစ်ချောင်း၊ ဂဏန်းလက်မတစ်စုံ၊ တူတစ်လက်၊ သံမျိုးစုံ ထည့်ထားသည့် သေတ္တာတစ်လုံး၊ ပလာယာတစ်စုံ၊ တံစဉ်းပြား တစ်ချောင်းနှင့် ကြွက်မြီး တံစဉ်းတစ်စုံကို တွေ့သဖြင့် ယူလာခဲ့လေ၏။

ရိုစာဟန်သည် တာပေါ်လင် ရွက်ထည်စကြီး တစ်စကို ဆွဲထုတ်လာပြီး ထရပ်ကား၏ နောက်ဘက် မြေကြီးပေါ်၌ ဖြန့်ခင်းလိုက်သည်။ သူသည် အိမ်ထဲသို့

ပြန်ဝင်သွားကာ မွေ့ရာများကို မနိုင့်တနိုင် မ၍ ပြန်ထွက်လာသည်။ သူ့လက်ထဲတွင် နှစ်ယောက်အိပ် မွေ့ရာသုံးခုနှင့် တစ်ယောက်အိပ် မွေ့ရာတစ်ခု။ သူသည် မွေ့ရာများကို တာပေါ်လင် ရွက်ထည်ပေါ်၌ ချထားသည်။ ထို့နောက် စောင်ထုပ်ကြီး တစ်ထုပ်ကို ပွေ့ထုတ်လာပြီး ရွက်ထည်ပေါ်သို့ ပုံပြန်လေ၏။

အမေနှင့် နိုအာတို့မှာ ဝက်သေကောင်များဖြင့် အလုပ်ရှုပ်လျက် ရှိကြ၏။ မီးဖိုပေါ်မှ ဝက်သားပြုတ်ကြော်အနံ့သည် တသင်းသင်း ထွက်လာလျက် ရှိသည်။ ကလေးများမှာ အိပ်ပျော်နေကြလေပြီ။ ဝင်းဖီးသည် အိမ်ပြင်ဘက် မြေကြီးပေါ်တွင် ကွေးကွေးကလေး အိပ်ပျော်နေသည်။ ရှုသီကတော့ မီးဖိုချောင်ထဲရှိ သေတ္တာပျက် တစ်လုံးထဲ ထိုင်ပြီး ဝက်သား ခုတ်ထစ် လှီးဖြတ်နေသည်ကို စောင့်ကြည့်ရင်း နံရံကို ခေါင်းမှီကာ အိပ်မောကျလျက် ရှိသည်။ သူသည် အသက်ကို မှန်မှန်ရှူလျက် ရှိ၏။ ပါးစပ်ဟောင်းလောင်း ဖြစ်နေသဖြင့် ဖြူဖွေးသော သွားများသည် ပေါ်လျက် ရှိလေသည်။

သူ လိုချင်သော ပစ္စည်းများကို ရလာခဲ့သော တွမ်သည် ဝမ်းသာအားရဖြင့် မီးဖိုချောင်ထဲ ဝင်လာသည်။ တရားဟောဆရာသည် သူ့နောက်မှ ကပ်၍ လိုက်လာလေ၏။ "နောက်ဖေး စတိုခန်းထဲမှာ ဘုရားသခင် ရှိတယ်ဗျ" ဟု တွမ်က ပြောသည်။ "ဝက်သားအနံ့ကို ရှူကြည့်စမ်း၊ မမွှေးဘူးလား၊ အိုးထဲက ဖြိုးဖြိုးဖြောက်ဖြောက် မြည်နေတဲ့အသံကို နားထောင်ကြည့်ပါဦး"

အမေကတော့ ဝက်သားတုံးများကို စည်ပိုင်းငယ်များအတွင်းသို့ ထည့်၍ ဆားသိပ်နေဆဲ ဖြစ်သည်။ စည်တစ်လုံး ပြည့်သွားသည့် အခါတိုင်း အမေသည် အပေါ်ဘက်မှ ဆားတစ်ထပ် ထူထူခင်းကာ လက်နှစ်ဖက်ဖြင့် ဖိ၍ ဖိ၍ သိပ်ပေးသည်။ သူသည် တွမ်ကို မော့ကြည့်ပြီး ပြုံးသည်။ သို့သော်လည်း အမေ့ အပြုံးသည် နွမ်းလျသောအပြုံး ဖြစ်၏။ အမေ့မျက်လုံးများသည် ပင်ပန်း နွမ်းနယ်ခြင်းကို ဖော်ပြနေကြသည်။ "မနက်စာကို ဝက်ရိုးဟင်းနဲ့ စားရမှာ၊ စားလို့ကောင်းလိမ့်မယ်" ဟု ပြောသည်။

တရားဟောဆရာက အမေ့ဘေးတွင် ဝင်ရပ်သည်။ "ကျန်တဲ့ အသားတုံးတွေကို ကျုပ် ဆက်ပြီး ဆားသိပ်လိုက်မယ်" ဟု ပြောသည်။ "ကျုပ်လည်း လုပ်တတ်ပါတယ်၊ ခင်ဗျားမှာ တခြား လုပ်စရာ တောက်တိုမယ်ရတွေ ရှိသေးတယ် မဟုတ်လား"

အမေသည် သူ့အလုပ်ကို ရပ်ထားလိုက်ပြီး တရားဟောဆရာအား မော့ကြည့်သည်။ အမေ့ အကြည့်မှာ စူးစမ်းသော အကြည့်။ အလွန် ထူးဆန်းသော စကားကို ကြားလိုက်ရသဖြင့် တအံ့တသြ ဖြစ်ပြီး ကြည့်သော အကြည့်။ အမေ့ လက်နှစ်ဖက်မှာ ဆားခဲတွေ ကပ်ငြိလျက် ရှိ၏။ လတ်လတ်ဆတ်ဆတ် ရှိနေသော ဝက်သားတုံးများမှ ထွက်သည့် အရည်များ ပေကျံလျက် ရှိသဖြင့် ပန်းနုရောင်သန်းလျက် ရှိလေသည်။ "ဒီအလုပ်က မိန်းကလေးတွေရဲ့ အလုပ်ပဲ" ဟု အမေက ဆိုသည်။

"ဒီအလုပ်ဟာ အားလုံးရဲ့ အလုပ်ပါ" ဟု တရားဟောဆရာက ပြန်ပြောသည်။ "ယောကျ်ားတွေရဲ့ အလုပ်၊ မိန်းမတွေရဲ့ အလုပ်လို့ ခွဲခြားထားတာတွေက သိပ်များတယ်၊ ခင်ဗျားမှာ တခြား လုပ်စရာတွေ ရှိနေသေးတာပဲ၊ သွားလုပ်ပါ၊ ဒီဆားသိပ်တဲ့ အလုပ်ကို ကျုပ် လုပ်ထားပါ့မယ် "

အမေသည် ရုတ်တရက် ထိုင်ရာမှ မထသေးဘဲ တရားဟောဆရာကို မျက်လုံးပြူး၍ ကြည့်နေသည်။ ပြီးမှ ရေပုံးတစ်လုံးထဲမှ ရေကို လက်ဆေးရေဇလုံထဲသို့ လောင်းထည့်ကာ သူ့လက်များကို ဆေးသည်။ တရားဟောဆရာသည် အမေ့နေရာတွင် ဝင်ထိုင်ကာ ဝက်သားတုံးများကို ဆားနယ်ပြီး စည်ပိုင်းထဲသို့ စီထည့်သည်။ အမေသည် သူ့အလုပ်ကို စိတ်မချသည့်နှယ် စောင့်ကြည့်လျက် ရှိလေ၏။ အသားတုံးများကို တရားဟောဆရာ စီထည့်နေပုံမှာ သူ လုပ်သည့် ပုံစံအတိုင်းပင် ဖြစ်သည်။ ဝက်သားတုံးများ စီပြီးသွားသည့် အခါတိုင်း တရားဟောဆရာသည် အပေါ်မှ ဆားတစ်ထပ် ထူထူခင်းသည်။ ထိုအခါကျမှပင် အမေသည် စိတ်အေးလက်အေး ဖြစ်သွားပြီး ရွှဲရွှဲစိုလျက် ရှိသော သူ့လက်များကို အဝတ်တစ်ထည်ဖြင့် ခြောက်သွားအောင် သုတ်လေသည်။

တွမ်က မေးသည်။ "မီးဖိုချောင်ထဲက အမေ ဘာပစ္စည်းတွေ ယူမလဲ"

အမေ့မျက်လုံးများသည် မီးဖိုချောင် တစ်ခုလုံးကို သိမ်းကျုံး၍ ကြည့်လိုက်သည်။

"ရေပုံးရယ်၊ ပြီးတော့ လမ်းမှာ စားဖို့ သောက်ဖို့ ထမင်းစား ပန်းကန်ပြားတွေနဲ့ ကော်ဖီ ပန်းကန်လုံးတွေရယ်၊ ပြီးတော့ ဇွန်းတွေ၊ ဓားတွေ၊ ခက်ရင်းတွေ၊ အဲဒါတွေ အကုန်လုံးကို ဟောဟို အံဆွဲထဲ စုထည့်ပြီး အံဆွဲကို ယူသွား၊ ဟိုဒယ်အိုးကြီးနဲ့ ရေနွေးအိုးကြီးလည်း ယူမယ်၊ ရေနွေးအိုးကြီးက ကော်ဖီအိုး လုပ်ထားတာ၊ အခုတော့ ပူနေသေးတယ်၊ အေးသွားမှ မီးဖိုပေါ်က ချပေါ့၊ ရေနွေးအိုး ဆိုတာမျိုးက မီးဖိုပေါ် ရှိနေတာ

ကောင်းတယ်၊ အမေကတော့ ဟောဟိုနားက အဝတ်လျှော်တဲ့ စည်ပိုင်းကိုလည်း လိုချင်တာပဲ၊ ဒါပေမဲ့ သူ့ကိုယူရင် ဝန်ကျယ်မယ်၊ နေရာက မရှိတော့ဘူး၊ အမေ အဝတ်လျှော်တဲ့အခါ ရေပုံးနဲ့ လျှော်လည်း ရပါတယ်၊ အသေးအမွှားတွေ ယူနေလို့ကတော့ အသုံးကျမှာလည်း မဟုတ်ပါဘူး၊ တစ်ခု ရှိတာက နည်းနည်းပါးပါး ချက်တာ ပြုတ်တာကို အိုးကြီးထဲ ထည့်ချက်လို့ ရတယ်၊ များများစားစား ချက်ချင် ပြုတ်ချင်ရင်တော့ အိုးအသေးထဲ ထည့်ချက်လို့ မရနိုင်ဘူး၊ ပေါင်မုန့်ဖုတ်တဲ့ အိုးတွေကိုတော့ အမေ အကုန်ယူမယ်ကွယ်၊ သူတို့က တစ်လုံးပေါ်တစ်လုံး ထပ်ပြီး ယူသွားလို့ရတယ်"

အမေသည် စကားကို မဆက်သေးဘဲ အခန်းထဲ လျှောက်ကြည့်နေပြန်သည်။

"အခု အမေပြောတဲ့ ဟာတွေပဲ ယူသွားဦးပေါ့ တွမ်ရယ်၊ ကျန်တာတွေကတော့ အမေ ရွေးလိုက်ဦးမယ်၊ ငရုတ်ကောင်းထည့်တဲ့ ခွက်ရယ်၊ ဆားခွက်ရယ်၊ အမှုန့်ကြိတ်စက် ကလေးရယ်၊ ဒါလေးကလည်း သိပ်လည်း လေးလေးပင်ပင် မရှိပါဘူး၊ အမေ ယူသွားမယ်"

အမေသည် ဖယောင်းတိုင် မီးအိမ်ကို ကောက်ယူကာ နေးကွေးလေးလံသော ခြေလှမ်းများဖြင့် အိပ်ခန်းအတွင်းသို့ ဝင်သွားသည်။ အမေ့ ခြေထောက်များတွင် ဖိနပ်စီးမထားသဖြင့် ခြေသံကို မကြားရချေ။

"သူ့ကြည့်ရတာ အတော်ကြီး ပင်ပန်းနေပုံပဲ" ဟု တရားဟောဆရာက ထင်မြင်ချက် ပေးသည်။

"မိန်းမတွေဟာ အမြဲတမ်း မောနေ ပန်းနေကြတာပါပဲဗျာ" ဟု တွမ်က ပြန်ပြောသည်။ "ဒါက မိန်းမတွေရဲ့ အကျင့် မိန်းမတွေရဲ့ သဘာဝပါ၊ ဟိုဟာကျတော့ တစ်ကြိမ်တွေ့ပြီး နောက်တစ်ကြိမ် ထပ်တွေ့လည်း သူတို့ မမောပါဘူး"

"အင်းပေါ့လေ၊ ဒါပေမဲ့ သူ့ကြည့်ရတာ တကယ် ပင်ပန်းနေပုံပဲကွ၊ လူမမာရုပ်တောင် ပေါက်နေသလိုပဲ"

အိပ်ခန်းအဝင် တံခါးဝ၌ ရောက်နေသော အမေသည် တရားဟောဆရာ၏ စကားကို ကြားသည်။ တင်းနေသော သူ့မျက်နှာကို လျှော့ချလိုက်၏။ မျက်နှာပေါ်၌ ထင်းနေသော အရေးအကြောင်းများသည် ချက်ချင်းပင် ပျောက်သွားကြလေသည်။

စောစောက မှုန်မှိုင်းနေသော အမေ့မျက်လုံးများသည် စူးရှ တောက်ပြောင်လာသည်။ အမေသည် ကုပ်နေသော သူ့ပခုံး နှစ်ဖက်ကို ပြန်၍ မတ်လိုက်သည်။ အိပ်ခန်း တစ်ခန်းလုံးမှာ ပြောင်တလင်းခါလျက် ရှိလေပြီ။ အသုံးမဝင်တော့သည့် အစုတ်ပလုတ် ပစ္စည်း အတိုအထွာများမှတစ်ပါး ဘာပစ္စည်းမှ အခန်းထဲ၌ မရှိတော့ပေ။ ကြမ်းပေါ်၌ စုပုံချထားသော မွေ့ရာများကိုလည်း သွယ်သွားကြလေပြီ။ အံဆွဲ ဗီရိုကြီးများကိုမူ ရောင်းပြီးခဲ့လေပြီ။ ကြမ်းပြင် တစ်နေရာတွင် ဘီးကျိုးတစ်ချောင်းနှင့် ကိုယ်လိမ်းပေါင်ဒါ ဘူးလွတ်တစ်ခု။ ပြီးတော့ ဖုန်မှုန့်များ အလိမ်းလိမ်း ကပ်နေသော ကြွက်အချို့။

အမေသည် လက်ထဲမှ ဖယောင်းတိုင် မီးအိမ်ကို ကြမ်းပြင်ပေါ်သို့ ချထားလိုက်သည်။ ကုလားထိုင်များ အဖြစ် သုံးခဲ့ကြသော သေတ္တာဟောင်းများသည် နံရံတစ်ဖက်တွင် ကပ်၍ တန်းစီလျက် ရှိကြ၏။ အမေသည် သေတ္တာဟောင်း တစ်လုံး အနီးသို့ လျှောက်သွားလေသည်။ ထိုသေတ္တာမှာ စာရွက်စာတမ်းများနှင့် အမေ့၏ တိုလီမိုလီ ပစ္စည်း အသေးအမွှားများ သိမ်းဆည်းရာ သေတ္တာ ဖြစ်သည်။ အမေသည် ထိုသေတ္တာကို အပြင်သို့ ဆွဲထုတ်လိုက်သည်။ သေတ္တာမှာ အိုမင်း ဟောင်းနွမ်းလှလေပြီ။ ဖုန်အလိမ်းလိမ်း တက်လျက်ရှိ၏။ သေတ္တာထောင့်များမှာ ပေါက်နေကြလေပြီ။ အမေသည် သေတ္တာရှေ့၌ ထိုင်ချလိုက်ပြီး သေတ္တာကို ဖွင့်သည်။ အထဲတွင် စာများ၊ သတင်းစာ ဖြတ်ပိုင်းများ၊ ဓာတ်ပုံများ၊ ပြီးတော့ နားကပ်တစ်ရံ၊ ရွှေသားတံဆိပ် လက်စွပ်တစ်ကွင်းနှင့် ရွှေအနားကွပ်ထားသည့် ဖွတ်မြီးထိုး အိတ်ဆောင် နာရီကြိုးတစ်ကုံး။ အမေသည် စာများကို ကိုင်ကြည့်သည်။ တွမ်၏ အမှု သတင်းပါသော သတင်းစာ ဖြတ်ပိုင်းများကိုလည်း ကောက်ကြည့်သည်။ အမေသည် အချိန် အတန်ကြာမျှ သေတ္တာ အဖုံးကို ကိုင်ကာ တွေဝေ ငေးငိုင်လျက် ရှိသည်။ သူသည် စာများကို တစ်စောင်ချင်းစီ ယူကြည့်သည်။ ထို့နောက် ပြန်၍ စီကာစည်းလိုက်သည်။ အမေသည် အောက်နှုတ်ခမ်းကို တင်းကျပ်စွာ ကိုက်ထားသည်။ အတိတ်က အကြောင်းခြင်းရာများသည် အမေ့ စိတ်အာရုံတွင် ထင်ယောင်မြင်ယောင် ဖြစ်လာလျက် ရှိ၏။ အမေ့ဦးနှောက်သည် အတွေးများဖြင့် ပင်လယ်ဝေလျက် ရှိလေသည်။

နောက်ဆုံးကျတော့လည်း အမေသည် သူ့စိတ်သူ ပိုင်ပိုင်နိုင်နိုင် ပိုင်းဖြတ်လို့ ရလာသည်။ သေတ္တာထဲမှ လက်စွပ်၊ နာရီကြိုးနှင့် နားကပ်နှစ်ဖက်ကို ယူလိုက်သည်။ စာရွက်ထပ်များ အောက်မှ နောက်ထပ်တွေ့သော ရုပ်အင်္ကျီ ရွှေလက် ကြယ်သီး တစ်ဖက်ကိုလည်း ထုတ်ယူလိုက်သည်။ ပြီးတော့ စာအိတ်တစ်လုံးထဲမှ စာတစ်စောင်ကို

အပြင်သို့ ထုတ်လိုက်သည်။ သူ ယူထားသည့် လက်ဝတ်လက်စား အားလုံးကို သူ့အင်္ကျီအိတ်ကပ် အတွင်းသို့ ထိုးထည့်လိုက်သည်။ အမေသည် သေတ္တာကို ဖြည်းညင်းစွာ ပြန်ပိတ်ပြီး ထိပ်ဘက်ရှိ ကွင်းမှ ကိုင်ဆွဲကာ မတ်တတ်ရပ်လိုက်သည်။ ကြမ်းပေါ်၌ ချထားသည့် ဖယောင်းတိုင် မီးအိမ်ကိုလည်း ကျန်လက်တစ်ဖက်ဖြင့် ကောက်ယူလိုက်၏။ ထို့နောက် မီးဖိုခန်းထဲသို့ ပြန်ဝင်သည်။ အမေသည် မီးဖို အံဖုံးကို မ၍ ဖွင့်လိုက်ပြီး သေတ္တာကို ကျောက်မီးသွေးများပေါ်သို့ ချလိုက်လေ၏။ သေတ္တာသည် အပူရှိန်ကြောင့် ချက်ချင်းပင် ညိုမည်းလာသည်။ မီးတောက် တစ်တောက်သည် ဟုန်းခနဲ ထ၍ တောက်ကာ သေတ္တာကို လှမ်းဟပ်သည်။ အမေက မီးဖို အံဖုံးကို ပြန်ပိတ်လိုက်၏။ မီးတောက် မီးလျှံများသည် အဖုံးအောက်သို့ ငုပ်လျှိုး ဝင်ရောက်သွားပြီးသော် သေတ္တာကို ဝါးမျိုးပစ်လေ၏။

အိမ်ရှေ့ ခြံဝင်းထဲတွင် အဖေဂျုတ်နှင့် အယ်လ်တို့ သားအဖသည် ဖယောင်းတိုင်မီးအိမ်ဖြင့် ပစ္စည်းများကို ထရပ်ကားပေါ်သို့ တင်နေကြသည်။ ကိရိယာ တန်ဆာပလာများကို အောက်ဆုံးမှ ထားကြသည်။ သို့သော်လည်း လမ်းတွင် မတော်တဆ ကားပျက်သည့် အဖြစ်မျိုးနှင့် ကြုံလာရပါက လိုအပ်သည့် ပစ္စည်းများကို အလွယ်တကူ ယူ၍ ရစေရန် လက်လှမ်းမီနိုင်သော နေရာ၌ ထားသည်။ ထိုပစ္စည်းများ အပေါ်မှ အလွယ်တကူ ယူ၍ ရစေရန် လက်လှမ်းမီနိုင်သော နေရာ၌ ထားသည်။ ထိုပစ္စည်းများ အပေါ်မှ အဝတ်အစား သေတ္တာများကို တင်၍ ဂုန်နီအိတ်တစ်လုံးနှင့် ထည့်ထားသည့် မီးဖိုချောင်သုံး ပစ္စည်းများကို သေတ္တာများပေါ်မှ ထပ်တင်သည်။ ဇွန်း၊ ခက်ရင်း၊ ဓားနှင့် ပန်းကန်ပြားများကို သေတ္တာတစ်လုံးဖြင့် သီးသန့်ထည့်၍ တင်သည်။ ဓာတ်ဆီထည့်သည့် ဂါလန်ဝင်ပုံးကို ကားနောက်တွင် ကြိုးတစ်ချောင်းဖြင့် ချည်ထားလိုက်၏။ သူတို့သည် အောက်ဆုံးမှ ထားသည့် ပစ္စည်းများကို ညီနိုင်သမျှ ညီအောင် စီ၍ ထားကြသည်။ ပစ္စည်းများကြားရှိ လပ်နေသော နေရာများတွင် ကော်ဇောလိပ်များနှင့် စောင်လိပ်များ ထိုးထည့်ကြသည်။ ထို့နောက် ပစ္စည်းအားလုံး၏ အပေါ်မှ မွေ့ရာများကို ဖြန့်၍ တင်သည်။ နောက်ဆုံးအနေဖြင့် ပစ္စည်းအားလုံးကို တာပေါ်လင် ရွက်ဖျင်ကြီးဖြင့် ဖုံးအုပ်လိုက်လေသည်။ အယ်လ်က ရွက်ဖျင်၏ အစွန်းနှစ်ဖက်တွင် နှစ်ပေခန့် ခွာ၍ အပေါက်များ ဖောက်ပြီး ထိုအပေါက်များ အတွင်းသို့ ကြိုးစများ ထိုးသွင်းကာ ထရပ်ကား၏ ဘေးနံရံ တစ်ဖက်တစ်ချက်တွင် ချည်ထားလိုက်၏။

"တကယ်လို့ မိုးရွာရင် ဒီကြိုးတွေကို ဖြုတ်ပြီး အပေါ်တန်းမှာ ချည်လိုက်၊ အမိုး ဖြစ်သွားမယ်၊ နောက်က စီးတဲ့လူတွေ ဒီအောက် ဝင်ထိုင်နေလိုက်ရင် မိုးမစိုတော့ဘူး၊ ရှေ့ခန်းထဲက လူတွေအတွက်တော့ ပူစရာ မရှိဘူး၊ မိုးလုံတယ်" ဟု အယ်လ်က ပြောသည်။

"မင်းစိတ်ကူးပုံ မဆိုးဘူး၊ တကယ် ကောင်းတယ်ကွာ" ဟု အဖေဂျုတ်က တအံ့တသြဖြင့် ချီးမွမ်းသည်။

"အခုလုပ်ထားတာ အပြီး မဟုတ်သေးဘူး အဖေရ" ဟု အယ်လ်က ထပ်ပြောပြန်သည်။ "ကျုပ် သစ်သားရှည်ရှည်တစ်ချောင်း ထပ်ရှာရဦးမယ်၊ ရရင် အပေါ်က တန်းပစ်ပြီး ရွက်ဖျင်ကို တင်လိုက်မယ်၊ ဒါဆိုရင် နေပူမခံရတော့ဘူးပေါ့"

အဖေဂျုတ်က သဘောကျသွားပြန်သည်။ "အေး ဒီစိတ်ကူးလည်း ကောင်းတာပဲ၊ စောစောတုန်းကတော့ ဒီစိတ်ကူးတွေကို မင်း ဘာပြုလို့ မရခဲ့တာလဲ"

"ကျုပ်မှာ စိတ်ကူးဖို့ အချိန်မှ မရခဲ့ဘဲကိုး အဖေရ" ဟု အယ်လ်က ဖြေသည်။

"အချိန်မရဘူး၊ ဟုတ်လား၊ ဘာကြောင့် အချိန် မရ ရမှာလဲ အယ်လ်ရ၊ မင်း ဝံပုလွေလိုက်ပြီး ပစ်ဖို့ကျတော့ အချိန်ရတာပဲ၊ ပြီးခဲ့တဲ့ နှစ်ပတ်အတွင်းက မင်း ဘယ်တွေ လျှောက်သွားနေတယ်ဆိုတာ ဘုရားသခင် အသိပါကွာ"

"လူတစ်ယောက်ဟာ သူ့မွေးရပ်ဇာတိနဲ့ အပြီးအပိုင် ခွဲသွားရတော့မယ်ဆိုရင် လုပ်နေကျ အလုပ်ကို လုပ်ခဲ့ချင်တာပေါ့ အဖေရာ" ဟု အယ်လ်က ပြောသည်။ ထို့နောက် သူ့ရှေ့ရေးကို တွေးပြီး မရေမရာ ဖြစ်သွားပုံရ၏။ "အဖေ" ဟု ခေါ်သည်။ "အခုလို သွားရမှာကို အဖေ ဝမ်းသာသလားဟင်" ဟု မေးသည်။

"အင်း ဝမ်းသာတယ်ပဲ ဆိုပါတော့ကွာ၊ သဘောလောက် ပြောရရင်တော့ ဝမ်းသာတယ်ပဲ ပြောရမှာပေါ့၊ ငါတို့ဘဝက ဒီမှာ ခက်ခဲနေပြီ မဟုတ်လား၊ ဟိုရောက် ရင်တော့ အခြေအနေ ပြောင်းလွဲသွားလိမ့်မယ်လို့ မျှော်လင့်နိုင်တယ်၊ အလုပ်တွေကလည်း သိပ်ပေါတယ်၊ အားလုံး အဆင်ပြေတယ်၊ အိမ်တွေ ဘာတွေလည်း ရမယ်၊ အိမ်ကလည်း တိုက်အိမ် ဖြူဖြူကလေးတွေတဲ့၊ ပတ်ပတ်လည်မှာကလည်း လိမ္မော်ပင်တွေ ရှိတယ်လို့ ဆိုကြတယ်"

"နေရာတိုင်းမှာ လိမ္မော်ပင်တွေ ရှိတယ် ဆိုတာကော ဟုတ်သလား အဖေ"

"အေး နေရာတိုင်းမှာတော့ ဟုတ်ချင်မှ ဟုတ်မှာပေါ့ကွာ၊ ဒါပေမဲ့ နေရာအတော်များများမှာတော့ ရှိပုံပေါ်ပါတယ်"

နေ့တစ်နေ့၏ ရွှေ့ပြေးဖြစ်သော ခပ်မှိုင်းမှိုင်း အလင်းရောင်သည် အရှေ့ဘက် မိုးကောင်းကင်တွင် ထိုးဖောက် ဝင်ရောက်စ ပြုလေပြီ။ လုပ်စရာ ရှိသမျှ အလုပ်အားလုံးမှာလည်း ပြီးပြတ် သွားခဲ့လေပြီ။ ဝက်သားဆားနယ်များ သိပ်ထားသည့် သံစည်များလည်း အသင့် ဖြစ်နေကြလေပြီ။ ထရပ်ကား၏ ရှေ့ခေါင်းပေါ်တွင် တင်သွားရမည့် ကြက်ခြင်းမှာလည်း အဆင်သင့် ဖြစ်ပြီ။ အမေသည် မီးဖိုပေါ်မှ အိုးအဖုံးကို ဖွင့်၍ အထဲမှ ပြုတ်ထားသည့် ဝက်ရိုးများနှင့် အသားများကို ခပ်ယူသည်။ ရှသီသည် အသံဗလံများကြောင့် လန့်နိုးလာသည်။ ပီပီပြင်ပြင် နိုးလာခြင်းတော့ မဟုတ်။ ချက်ချင်းပင် ပြန်အိပ်ပျော် သွားလေသည်။ လူကြီးများသည် တံခါးဝတွင် စု၍ ရပ်နေကြသည်။ အအေးဓာတ်ကြောင့် သူတို့၏ ခန္ဓာကိုယ်သည် အနည်းငယ်မျှ တုန်ရီ လှုပ်ရှားလျက် ရှိကြသော်လည်း အမေ လာပေးထားသည့် ဝက်ရိုးကိုတော့ အကိုက်မပျက်ကြချေ။

"အဘွားနဲ့ အဘိုးကို သွားပြီး နှိုးကြရင် ကောင်းမယ် ထင်တယ်" ဟု တွမ်က ပြောသည်။ "သိပ်မကြာတော့ဘူး၊ လင်းတော့မယ်"

"မနှိုးပါနဲ့ဦး၊ အိပ်ရေးဝအောင် အိပ်ကြပါစေဦး၊ လူကြီးတွေ ဆိုတော့ အိပ်ရေးဝဖို့ လိုတယ်ကွယ့်၊ ရှသီနဲ့ ဝင်းဖီးတို့လည်း တစ်နေ့လုံး ကောင်းကောင်း နားကြရတာ မဟုတ်ဘူး" ဟု အမေက ဆိုသည်။

"သူတို့ကတော့ ပစ္စည်းတွေအပေါ်မှာ အိပ်လိုက်လာရင်လည်း ရပါတယ်ကွာ" ဟု အဖေဂျုတ်က ပြောသည်။ "ပစ္စည်းပုံပေါ်မှာဆိုရင် ဖိမ်ကျသွားမှာပါ"

ရုတ်တရက် ဖုန်ထဲမှာ ခွေအိပ်နေကြသော ခွေးများသည် ခေါင်းများကို ထောင်၍ နားစွင့်ကြသည်။ ထို့နောက် သွားများကို ဖြဲ၍ တစ်ချက်မျှ ဟိန်းလိုက်ကာ အမှောင်ထုဘက်သို့ ထိုး၍ ဟောင်ကြသည်။ "ဟာ ဘာများ မြင်လို့ ဒီလောက် ဟောင်နေကြရတာလဲဟ" အဖေဂျုတ်က ထအော်သည်။ နောက်တစ်ခဏအတွင်းမှာပင် ဟောင်နေသော ခွေးများကို ချော့မော့ ပြောဆိုလိုက်သည့် လူသံတစ်သံကို ကြားရသည်။

ခွေးဟောင်သံများသည် ရပ်မသွားသော်လည်း စောစောကလောက် အသံမမာတော့ပေ။ ထို့နောက် ခပ်သုတ်သုတ် လျှောက်လာနေသည့် ခြေသံများ။ ပြီးတော့ သူတို့ဆီ ချဉ်းကပ်လာနေသည့် လူတစ်ယောက်။ တခြားလူ မဟုတ်။ မူလေးဂရေ့။ သူသည် ဦးထုပ်ကို ခပ်ငိုက်ငိုက် ဆောင်းထားလေသည်။

သူသည် မဝံ့မရဲသော ခြေလှမ်းများဖြင့် တိုးကပ်လာသည်။ "မင်္ဂလာ နံနက်ပါ" ဟု လှမ်း၍ နှုတ်ဆက်သည်။

"မူလေး ပါလား၊ ဘယ်လိုလဲ" အဖေဂျုတ်က ဝက်ရိုးတစ်ချောင်း ဆုပ်ကိုင်ထားသည့် လက်ကို ဇေ့ယမ်းပြသည်။ "လာလေကွာ၊ မီးဖိုထဲမှာ ဝက်သားပြုတ်အိုး ရှိတယ်၊ သွားယူပြီး စားပေတော့"

"မစားတော့ဘူးဗျာ" ဟု မူလေးက ပြန်ပြောသည်။ "ကျုပ်မဆာဘူး၊ တကယ်ပြောတာပါ"

"အိုကွာ၊ ဘာလို့ မဆာရမှာလဲ၊ မဟုတ်တာ၊ လာ လာစမ်းပါကွ၊ ဟောဒီမှာ" အဖေဂျုတ်က မီးဖိုထဲသို့ ဝင်သွားကာ ဝက်နံရိုးတစ်ချောင်း ယူလာပြီး မူလေးလက်ထဲသို့ ဖွတ်ထည့်သည်။

"ကျုပ်လာတာ ခင်ဗျားတို့ဆီက တစ်ခုခု စားဖို့ လာတာ မဟုတ်ပါဘူးဗျာ" ဟု မူလေးက ပြောသည်။ "ခြေဦးတည့်ရာ လျှောက်နေရင်းက ခင်ဗျားတို့သွားတာ ကြည့်ရရင် ကောင်းမှာပဲလို့ တွေးမိတာနဲ့ လှည့်လာတာပါ၊ နှုတ်ဆက်ရအောင် ဆိုတဲ့ စိတ်ကူးလည်း ပါသပေါ့ဗျာ"

"ငါတို့ မကြာခင် ထွက်ကြတော့မှာကွ" ဟု အဖေဂျုတ်က ပြန်ပြောသည်။ "နောက် တစ်နာရီလောက် ကြာမှသာ မင်းရောက်လာမယ်ဆိုရင် တို့နဲ့ လွဲတော့မှာ သေချာတယ်၊ မြင်တယ် မဟုတ်လား၊ ပစ္စည်းအားလုံး တင်ပြီးနေပြီကွ"

"အင်း ဟုတ်သားပဲ၊ အားလုံး တင်ပြီးနေပြီကိုး" မူလေး၏ မျက်လုံးများသည် ထရပ်ကားဆီသို့ ငေးနေသည်။ "တစ်ခါတစ်လေတော့လည်း ကျုပ်ရဲ့ မိသားစုတွေကို လိုက်ရှာချင်စိတ် အပေါ်သားဗျာ"

"နင် သူတို့ဆီက ဘာသတင်းမှ မကြားဘူးလား၊ ကယ်လီဖိုးနီးယားကလေ"

"မကြားဘူးဗျ၊ ကျုပ်ကလည်း စာတိုက်ဘက် မရောက်ဘူး၊ တစ်ခါတစ်လေ စာတိုက်တော့ သွားသင့်တာ အမှန်ပဲ"

"ဟေ့ အယ်လ်၊ သွား သွား၊ မင်းအဘွားနဲ့ အဘိုးကို နှိုးချေတော့၊ မနက်စာ လာစားလှည့်တော့လို့ ပြော၊ ငါတို့ မကြာခင် ထွက်ရတော့မှာ" ဟု အဖေဂျုတ်က ခိုင်းသည်။ အယ်လ် ထွက်သွားသောအခါ အဖေဂျုတ်က "ဟေ့ကောင် မူလေး၊ မင်း ငါတို့နဲ့ လိုက်ချင်သလား၊ လိုက်ချင်ရင် လိုက်ခဲ့၊ မင်းအတွက် တစ်နေရာတော့ ဖြစ်အောင် လုပ်ပေးမယ်" ဟု လှမ်းပြောသည်။

မူလေးသည် လက်ထဲမှ ဝက်နံရိုးကို တစ်ချက် ကိုက်လိုက်ပြီး အသားစကို တမြုံ့မြုံ့ ဝါးနေသည်။ "တစ်ခါတစ်လေတော့လည်း စိတ်ထဲက အသွားချင်သား၊ ဒါပေမဲ့ ကျုပ် သိပါတယ်၊ ကျုပ် သွားလို့ မဖြစ်ပါဘူးဗျာ" ဟု ပြောသည်။ "ကျုပ်အနေနဲ့ နောက်ဆုံးအချိန်အထိ ဒီမှာပဲနေပြီး သင်္ချိုင်းကုန်းက သရဲတစ္ဆေတစ်ကောင် ပုန်းသလို ပုန်းနေတာ အကောင်းဆုံးပါပဲ"

"အခုပုံမျိုးနဲ့သာ နေသွားလို့ကတော့ ခင်ဗျား တစ်နေ့ကျရင် ဒီလယ်ကွင်းတွေ ထဲမှာ တစ်ယောက်တည်း သေရမှာ မူလေး" ဟု နိုအာက ဝင်ပြောသည်။

"ငါသိပါတယ်၊ ငါလည်း အဲဒါကို တွေးမိပါတယ်၊ တစ်ခါတစ်လေကျတော့လည်း တစ်ယောက်တည်း သိပ်ပြီး အထီးကျန်နိုင်သလိုပဲ၊ တစ်ခါတစ်လေတော့လည်း နေရထိုင်ရတာ ဘာမှ မဖြစ်သလိုပဲ၊ ဟန်ကျသား၊ ဘာမှလည်း မထူးခြားသလိုပဲ၊ ဒါပေမဲ့ ဟိုရောက်လို့ ကျုပ် မိသားစုနဲ့ တွေ့ရင်တော့ ကျုပ်အကြောင်းကို ပြောပြစေချင်တယ်၊ ကယ်လီဖိုးနီးယား ပြည်နယ်ထဲမှာ သူတို့နဲ့ ဆုံမိရင်ပေါ့လေ၊ ပြောပြလိုက်ကြပါ၊ ကျုပ် ကျန်းကျန်းမာမာ ရှိပါတယ်လို့၊ ကျုပ် နေရထိုင်ရတာလည်း အဆင်ပြေပါတယ်လို့၊ ကျုပ် အခုလို နေရတယ် ဆိုတာတော့ သူတို့ကို အသိမပေးလိုက်ကြပါနဲ့ဗျာ၊ ပြီးတော့လည်း ကျုပ် ငွေကြေး အဆင်ပြေတာနဲ့ တစ်ပြိုင်နက် လိုက်လာလိမ့်မယ်လို့ ပြောလိုက်ပါ"

"အခု တစ်ခါတည်း ငါတို့နဲ့ မလိုက်ဘူးလား" ဟု အမေက မေးသည်။

"မလိုက်တော့ပါဘူးဗျာ" ဟု မူလေးက လေအေးကလေးဖြင့် ဖြေသည်။ "ကျုပ် ဒီအရပ်ကနေပြီး အဝေးကို မသွားချင်တော့ပါဘူး၊ လောလောဆယ်ကတော့ ဒီမှာ နေရတော့မှာပဲ၊ ဒီနေရာက ထွက်သွားရမယ့် တစ်ရက်ကတော့ ရှိလာဦးမှာပါ၊ ဒါပေမဲ့ အခုတော့ မဟုတ်သေးဘူး"

အလင်းရောင်သည် မဆိုစလောက်ကလေး ပို၍ ပီပြင်လာသည်။ ဖယောင်းတိုင် မီးသည် အနည်းငယ်မျှ မှေးမှိန် ဖျော့တော့လာလေသည်။ အယ်လ်သည် သူ့အဘိုးကို တွဲ၍ ပြန်ရောက်လာသည်။ အဘိုးဂျုတ် လျှောက်လာနေပုံမှာ ကတုန်ကရီနှင့် အတော် အားခဲ၍ လျှောက်လာနေရသည့် ပုံစံမျိုး ဖြစ်သည်။ "သူ မအိပ်ဘူးဗျ" ဟု အယ်လ်က ပြောသည်။ "အဖီတဲ နောက်မှ ထွက်ပြီး ထိုင်နေတယ်၊ သူ့ကြည့်ရတာ တစ်ခုခု ဖြစ်နေသလိုပဲ"

အဘိုးဂျုတ်၏ မျက်လုံးများသည် ထိုင်းထိုင်းမှိုင်းမှိုင်း ဖြစ်လျက် ရှိ၏။ အမြဲ တွေ့နေကျဖြစ်သော ရွှင်မြူးခြင်း တက်ကြွခြင်းနှင့် ကြည်လင်ခြင်းများ ကင်းမဲ့လျက် ရှိသည်။ "ငါ ဘာမှ မဖြစ်ဘူး" ဟု ပြောသည်။ "ဒါပေမဲ့ ငါ ဘယ်ကိုမှ မသွားတော့ဘူး"

"ဘာ" အဖေဂျုတ်က အံ့သြခြင်း ကြီးစွာဖြင့် ရေရွတ်သည်။ "ဘယ်ကိုမှ မသွားတော့ဘူး ဆိုတဲ့စကားက ဘာအဓိပ္ပာယ်လဲ၊ ဘာပြုလို့လဲ၊ ပစ္စည်းတွေအားလုံး တင်ပြီးကုန်ပြီ၊ ကျုပ်တို့ သွားရတော့မှာ၊ မသွားလို့ မဖြစ်ဘူး၊ ကျုပ်တို့မှာ နေစရာ နေရာမှ မရှိတော့တာ"

"ငါက မင်းကို နေဖို့ ပြောနေလို့လားကွ" ဟု အဘိုးဂျုတ်က ပြန်ပြောသည်။ "မင်း သွားမယ်ဟာ သွားပေါ့ကွ၊ ငါကတော့ မသွားဘူး၊ ဒီမှာပဲ နေခဲ့မယ်၊ ငါ ညက တစ်ညလုံး စဉ်းစားပြီးပြီ၊ ဒီနေရာမှ ငါ့အရပ်၊ ငါ့ဇာတိ၊ ငါ့နိုင်ငံ၊ ငါပိုင်တဲ့ မြေကွ၊ လိမ္မော်ခြံတွေ စပျစ်ခြံတွေ ဘယ်လောက်ပဲ ပေါပေါ ဘာလုပ်မှာလဲ၊ ငါ မသွားဘူး၊ ဒီဒေသဟာ ကောင်းချင်မှ ကောင်းမယ်၊ ဒါပေမဲ့ ဒီဒေသက ငါ့ဒေသကွ၊ မင်းတို့အားလုံး သွားချင် သွားကြပေါ့၊ ငါကတော့ မသွားဘူး၊ ဒီမှာပဲ နေမယ်"

အားလုံး အဘိုးဂျုတ် အနီးတွင် စုပြုံ၍ ရပ်နေကြသည်။ "ဒီလိုလုပ်လို့ မဖြစ်ဘူး အဘိုးဂျုတ်၊ ဒီမြေတွေက ထွန်စက်တွေအောက် ရောက်သွားပြီ၊ ခင်ဗျားကို ဘယ်သူက လာပြီး ချက်ပြုတ်ကျွေးမလဲ၊ ခင်ဗျား တစ်ယောက်တည်း ဘယ်လိုလုပ်ပြီး နေမှာလဲ၊ မဖြစ်နိုင်တာ၊ အဖော် တစ်ယောက်မှ မရှိဘဲ နေရင် ခင်ဗျား ငတ်ပြီး သေသွားမှာပေါ့"

အဘိုးဂျုတ်က ဒေါ်သတကြီး ပြန်အော်သည်။ "တော်စမ်းကွာ၊ မဟုတ်တာတွေ လာပြောမနေနဲ့၊ ငါ အဘိုးကြီး ဖြစ်နေပေမဲ့ ငါ့ကိုယ်ငါ ထိန်းနိုင်တယ်ဟေ့၊ ငါ ပြောလိုက်မယ်၊ ငါ ဒီနေရာက ဘယ်မှ မသွားဘူး၊ မင်းတို့ ကြိုက်သလို လုပ်နိုင်တယ်၊ အဘွားကြီးကို ခေါ်ချင် ခေါ်သွားကြ၊ ဒါပဲ၊ ငါ့ကိုတော့ လာမခေါ်နဲ့၊ မလိုက်ဘူး၊ ဒါ စကားကုန် ပြောတာပဲဟေ့"

အဖေဂျုတ် ကြံရာမရ ဖြစ်သွားသည်။ "ဒီမှာ အဘိုးဂျုတ်၊ ကျုပ် ပြောတာ နားထောင်ပါဦး၊ ခဏလေး နားထောင်ပါ၊ ခဏလေး"

"မထောင်ဘူးကွာ၊ မထောင်ဘူး၊ ငါ ဘာလုပ်မယ်ဆိုတာ မင်းတို့ကို ပြောပြပြီးပြီ မဟုတ်လား"

တွမ်က သူ့အဖေ၏ လက်မောင်းကို လှမ်းကိုင်သည်။ "အဖေ အိမ်ထဲ ခဏ လိုက်ခဲ့စမ်းပါ၊ ကျုပ် ပြောစရာတစ်ခု ရှိလို့" သားအဖနှစ်ယောက် အိမ်ဘက်သို့ လျှောက်သွားနေရာမှ တွမ်က နောက်လှည့်ကြည့်သည်။ "အမေ ခဏ"

မီးဖိုထဲတွင် ဖယောင်းတိုင် မီးအိမ်တစ်လုံးသည် လင်းနေဆဲ။ စားပွဲပေါ်ရှိ ပန်းကန်ပြားထဲတွင် ဝက်ရိုးများသည် အပုံလိုက်။ "ဒီမယ် အဖေ၊ အဘိုးအနေနဲ့ ငါ မလိုက်ဘူး ဆိုတဲ့ စကားကို ပြောပိုင်ခွင့် ရှိတာတော့ အမှန်ပဲ၊ ဒါပေမဲ့ ဒီမှာ တစ်ယောက်တည်း နေခဲ့ဖို့ မဖြစ်နိုင်ဘူး မဟုတ်လား၊ ဒါကို ကျုပ်တို့ သိနေကြတာပဲ"

"ဒါပေါ့ဟ၊ သူ နေခဲ့လို့ ဖြစ်မတဲ့လား"

"အဲဒီတော့ သူ့ကို ကျုပ် တစ်ခုပြောမယ်၊ တကယ်လို့ သူ့ကို ဖမ်းပြီး ကြိုးနဲ့ တုပ်ခေါ်ရမယ့် အခြေအနေမျိုးဆိုရင် တယ်မလွယ်ဘူး၊ သူ့မှာ ဒဏ်ရာ အနာတရ ဖြစ်ကုန်မှာ၊ သူကလည်း အလွယ်တကူနဲ့ အဖမ်းခံမှာ မဟုတ်ဘူး၊ ဒေါ်သ သိပ်ကြီးလာပြန်ရင်လည်း သူ့ကိုယ်သူ လုပ်မှာ ကြောက်ရတယ်၊ အခု လောလောဆယ် သွေးပူနေတုန်း သူနဲ့ ငြင်းနေလို့လည်း မကိုက်ဘူး၊ အဲဒီတော့ တကယ်လို့သာ သူ့ကို မူးနေအောင် အရက်တိုက်ထားနိုင်ရင်တော့ အဆင်ပြေစရာရှိတယ်၊ အဖေ့မှာ ဝီစကီ မရှိတော့ဘူးလား"

"မရှိတော့ဘူးကွ" ဟု အဖေက ပြောသည်။ "အိမ်မှာ ဝီစကီ တစ်စက်တောင် မရှိတော့ဘူး၊ ဂျွန်မှာလည်း မရှိဘူး၊ သူ မသောက်ဘဲ ဖြတ်ထားတဲ့ အချိန်ဆိုရင် မူးလို့တောင် ရှူစရာ မရှိတော့ဘူး"

"တွမ်၊ အမေ့မှာ အိပ်ဆေးရည်တစ်မျိုးတော့ ရှိတယ်၊ ဝင်းဖီး နားကိုက်တုန်းက ဝယ်ထားတဲ့ ဆေးကွယ့်၊ ပုလင်းတစ်ဝက်လောက် ကျန်သေးတယ်၊ အဲဒါ တိုက်ရင်ကော မဖြစ်ဘူးလား၊ သူလည်း မူးတာပဲ၊ ဝင်းဖီး နားကိုက်နေတုန်းကများ အဲဒီဆေး တိုက်ထားရင် အိပ်ပျော်သွားရော"

"ရချင် ရလိမ့်မယ်" ဟု တွမ်က ပြောသည်။ "အဲဒီ ဆေးပုလင်းပေး အမေ၊ ကျုပ်တို့ စမ်းတိုက်ကြည့်ရအောင်"

"အမေ အမှိုက်ပုံးထဲ လွှင့်ပစ်လိုက်တယ်" အမေသည် ပြောပြောဆိုဆိုနှင့်ပင် ဖယောင်းတိုင် မီးအိမ်ကို ဆွဲကာ အပြင်သို့ ထွက်သွားသည်။ တစ်ခဏနှင့် အမေ ပြန်ရောက်လာသည်။ လက်ထဲတွင် ဆေးပုလင်းတစ်လုံး ပါလာသည်။ ဆေးတစ်ဝက်ခန့်သာ ကျန်တော့၏။ ဆေးအရောင်က မည်းမည်း။

တွမ်က အမေ့လက်ထဲမှ ပုလင်းကို လှမ်းယူလိုက်ပြီး အဖုံးကို ဖွင့်ကာ လျှာနှင့် တို့ကြည့်သည်။ "ဘလက်ကော်ဖီ ကျကျ ပြင်းပြင်း တစ်ခွက်ဖျော်ဗျာ အမေ၊ ကျုပ်တို့ စမ်းကြည့်ရအောင်၊ ဆေးကို ဇွန်းနဲ့ တစ်ဇွန်းထည့်မယ်၊ အင်း နှစ်ဇွန်းလောက်ထည့်မှ ပိုထိမယ် ထင်တယ်"

အမေက မီးဖို အဖုံးကို ပြန်ဖွင့်ပြီး ရေနွေးကရားကို ပြန်တင်သည်။ အထဲမှ ရေနှင့် တိုင်းဆပြီး ကော်ဖီမှုန့် ထည့်သည်။ "လက်ဖက်ရည် ပန်းကန်လုံးတွေက သိမ်းပြီးကုန်ပြီ၊ သူ့ကို တိုက်ရင် သံခွက်နဲ့ တိုက်မှ ဖြစ်မယ်"

တွမ်နှင့် အဖေဂျုတ်တို့သည် အပြင်သို့ ပြန်ထွက်သွားကြလေသည်။ "ဘယ်ကောင်မဆို သူ ဘာလုပ်မယ်ဆိုတာ ပြောပိုင်ခွင့် ရှိတယ်ကွ၊ သိလား၊ ဟေ့ ဝက်နံရိုး ကိုက်နေတာ ဘယ်သူလဲ၊ ဘယ်က ရလဲ" ဟု အဘိုးဂျုတ်က မေးသည်။

"ကျုပ်တို့ စားနေကြတာ အဘိုးရ" ဟု တွမ်က ဖြေသည်။ "အဘိုးအတွက် အမေ ကော်ဖီ ဖျော်နေတယ်၊ ဝက်ရိုးပြုတ်လည်း ရှိတယ်"

အဘိုးဂျုတ်က အိမ်ထဲသို့ ဝင်သွားပြီး အမေ ပြင်ပေးထားသည့် ဝက်နံရိုးကို စား၍ ကော်ဖီကို သောက်သည်။ တဖြည်းဖြည်းချင်း တက်လာနေသော အရုဏ်ဦး၏ အလင်းရောင်အောက်၌ ရပ်နေကြသူများသည် အဘိုးဂျုတ် စားသောက်နေသည်ကို အပြင်မှနေ၍ လှမ်းကြည့်နေကြလေသည်။ အဘိုးဂျုတ်သည် မကြာခဏ သမ်းဝေလျက် ရှိ၏။ သူ့ကုလားထိုင်တွင် ငြိမ်ငြိမ်မတ်မတ် မထိုင်နိုင်။ ဟိုယိမ်း သည်ယိုင် ဖြစ်နေသည်။ နောက်ဆုံးတါင် သူသည် လက်နှစ်ဖက်ကို စားပွဲပေါ် တင်လိုက်သည်။ ပြီးတော့ သူ့ခေါင်းကို လက်များပေါ် တင်ကာ အိပ်မောကျသွားလေ ၏။

"သူ မောသွားပြီ" ဟု တွမ်က ရေရွတ်သည်။ "နေပစေ၊ သူ့ကို ခဏ ပစ်ထားလိုက်ဦး"

အားလုံး အဆင်သင့် ဖြစ်နေကြလေပြီ။ အခုမှ ရောက်လာသည့် အဘွားဂျုတ် ကတော့ နားဝေတိမ်တောင် ဖြစ်နေဆဲ။ "ဟဲ့ ဒါတွေက ဘာတွေလဲ၊ စောစောစီးစီး နင်တို့ ဘာလုပ်နေကြတာလဲ" ဟု မေးသည်။ သို့သော်လည်း အဘွားဂျုတ်သည် အဘိုးဂျုတ် လိုတော့ မဟုတ်။ အဝတ်အစား အသင့်လဲထားသည်။ ကလန်ကဆန်လည်း မလုပ်။ ရှုသီနှင့် ဝင်းဖီးတို့လည်း အိပ်ရာမှ နိုးလာကြပြီ။ ပင်ပန်းနွမ်းနယ်မှုနှင့် အိပ်ရေးမဝမှုကြောင့် သူတို့ နှစ်ယောက်စလုံး ငြိမ်ဆိတ်နေကြ၏။

အလင်းရောင်သည် မြေပြင်ထက်သို့ တဖြည်းဖြည်းချင်း ဆင်းလာနေသည်။ စောစောက လှုပ်လှုပ်ရွရွ ဖြစ်နေသော မိသားစုသည် ငြိမ်ဆိတ်သွားသည်။ သူတို့သည် ဟိုတစ်စု သည်တစ်စု ရပ်ကာ တွေဝေ ငေးငိုင်နေကြသည်။ တကယ်တမ်း သွားကြရတော့မည် ဆိုတော့လည်း တွန့်ဆုတ်ဆုတ် ဖြစ်လာကြသည်။ ထိတ်လန့် ကြောက်ရွံ့ခြင်းသည် သူတို့ရင်တွင် ကပ်ငြိလာသည်။ သွားဖို့ အချိန်ကတော့ ကျလာပြီ။ သို့သော်လည်း အခုအချိန်ကျခါမှ အဘိုးဂျုတ် ခံစားခဲ့ရသည့် ကြောက်လန့်မှုမျိုး ခံစားနေရသည်။ အိမ်သည် အလင်းရောင်အောက်တွင် သူ့ပုံသဏ္ဌာန်ကို ပီပီပြင်ပြင် ရုပ်လုံးပေါ်လာအောင် အားထုတ်လျက် ရှိ၏။ ဖယောင်းတိုင် မီးအိမ်များ၏ အရောင်သည် ဖျော့တော့ မှေးမှိန်လာသည်။ တဖြည်းဖြည်းနှင့် ဖယောင်းတိုင်မီးစာ၏ ပတ်ပတ်လည်တွင်

စက်ဝိုင်းကလေးများ သဖွယ် ဖြစ်နေသော အဝါရောင်သည် ပျောက်သွားသည်။ ကောင်းကင် ထက်မှ ကြယ်များသည် တစ်စုပြီးတစ်စု အနောက်ဘက်သို့ ရွေ့လျား သွားလျက် ရှိ၏။ ထိုအချိန်ထိ မိသားစုသည် အိပ်မက်ဖြင့် ထ၍ လမ်းလျှောက် နေသူများသဖွယ် ငေးငိုင်ဆဲပင် ရှိသည်။ သို့သော်လည်း ချက်ချင်းပင် အရုဏ်သည် ပီပြင်လာသည်။ မြေပြင် တစ်ပြင်လုံးသည် ပြက်ပြက်ထင်ထင် ပေါ်လာသည်။ မျက်စိ တဆုံးမျှ အပြောကျယ်လှသော ဒေသတစ်ခုလုံးသည် ပြတ်ပြတ်သားသား ပေါ်ထွက် လာသည်။၏။

မူလေး တစ်ယောက်ကတော့ မငြိမ်သက်သော စိတ်ဖြင့် ဟိုလျှောက် သည်လျှောက် လုပ်လျက် ရှိသည်။ ထရပ်ကားထဲသို့ ငုံ့ကြည့်သည့်အခါ ကြည့်သည်။ ကားနောက်မီးတွင် ချိတ်ထားသည့် စပယ်ယာဘီးများကို တစ်ချက် တစ်ချက် ထုကြည့်သည့်အခါ ထုသည်။ နောက်ဆုံးကျတော့ သူသည် တွမ်၏ အနီးသို့ ရောက်လာသည်။ "မင်း ပြည်နယ် အပြင်ဘက်ကို ထွက်သွားမှာလည်း၊ မင်းရဲ့ ခံဝန်ချုပ်ကို ဖောက်ဖျက်ရာ မရောက်ဘူးလား" ဟု မေးသည်။

တွမ်သည် ထုံထိုင်းထိုင်း ဖြစ်နေခြင်းမှ ပျောက်ကွယ်သွားရန်အတွက် ခေါင်းကို ယမ်းခါလိုက်သည်။ "ဟာ နေထွက်တော့မှာပါလား" ဟု အလန့်တကြား ရေရွတ် လိုက်သည်။ "ကျုပ်တို့ သွားမှ ဖြစ်မယ်" ထိုအခါကျမှပင် ထိုင်းထိုင်းမှိုင်းမှိုင်းနှင့် သတိလက်လွတ် ဖြစ်နေကြသော ကျန်လူစုသည် လှုပ်ရှားလာကြသည်။ ထရပ်ကားဆီသို့ လျှောက်သွားကြသည်။

"ကဲ လာကြ" ဟု တွမ်က ခေါ်သည်။ "အဘိုးကို ပွေ့တင်ကြမယ်" အဖေဂျုတ်၊ ဦးလေးဂျွန်၊ တွမ်နှင့် အယ်လ်တို့သည် အဘိုးဂျုတ် အိပ်ပျော်နေသည့် မီးဖိုခန်းထဲသို့ ဝင်သွားကြသည်။ အဘိုးဂျုတ်၏ ဦးခေါင်းသည် လက်နှစ်ဖက်ပေါ် မှေးမှီကာ ရှေ့သို့ စိုက်ကျလျက် ရှိ၏။ သူတို့သည် အဘိုးဂျုတ်၏ လက်မောင်းများကို တစ်ယောက် တစ်ဖက် ဝင်ဆွဲကာ ထူမကြသည်။ အဘိုးဂျုတ်သည် တည့်တည့်မတ်မတ် မရပ်နိုင်။ အရက်မူးသမား တစ်ယောက်သဖွယ် ယိမ်းထိုးလျက် ရှိသည်။ ပါးစပ်မှလည်း ညည်းညူကာ ပျစ်ပျစ်နစ်နစ် ဆဲရေး တိုင်းထွာလျက် ရှိ၏။ အပြင်ရောက်သောအခါ လေးယောက်သား ဝိုင်း၍ မကြသည်။ ထရပ်ကားနား အရောက်တွင် တွမ်နှင့် အယ်လ်တို့က ကားပေါ်သို့ ခုန်တက်လိုက်ကြသည်။ အပေါ်မှနေ၍ အဘိုးဂျုတ်၏ လက်များကို လှမ်းဆွဲကာ

အသားအယာ မတင်လိုက်ကြသည်။ အဖေဂျူတ်နှင့် ဦးလေးဂျွန်တို့က အောက်မှနေ၍ တွန်းတင်ပေးကြလေသည်။

ကားပေါ်ရောက်လာသော အဘိုးဂျူတ်ကို တွမ်နှင့် အယ်လ်တို့က အသာပွေ့ပြီး ပစ္စည်းပုံပေါ်တွင် ချထားလိုက်သည်။ အယ်လ်က တာပေါ်လင် ရွက်ထည်ကြိုးတစ်ဖက်ကို ဖြည်လိုက်ပြီး ပက်လက်ဖြစ်နေသော အဘိုးဂျူတ်ကို ရွက်ထည်အောက်သို့ တွန်းလိုမ့်ပြီး သွင်းလိုက်သည်။ ထို့နောက် သေတ္တာတစ်လုံးကို ဆွဲယူကာ အဘိုးဂျူတ်၏ ဘေး၌ ချထားလိုက်သည်။ ဤသို့ဖြင့် လေးလံလှသော ရွက်ထည်သည် အဘိုးဂျူတ်အပေါ် ပိမကျတော့ဘဲ သူ့အား အကာအကွယ်ပေးနေသည့် အမိုး ဖြစ်သွားလေ၏။

"အမေကြီးရေ" ဟု အဖေဂျူတ်က အသံပြုသည်။ "မင်းနဲ့ အဘွားဂျူတ်က ရှေ့ခန်းမှာ အယ်လ်နဲ့ အတူတူ ထိုင်ကြ၊ နောက်တော့ ငါတို့နဲ့ လူချင်း လဲထိုင်သွားကြတာပေါ့၊ ဒါမှလည်း အားလုံး သက်သာမှာ၊ ဘာပဲဖြစ်ဖြစ် ထွက်စမှာတော့ မင်းတို့ပဲ ထိုင်ကြ"

အမေဂျူတ်နှင့် အဘွားဂျူတ်သည် ကားရှေ့ခန်းထဲ ဝင်ထိုင်ကြသည်။ ကျန်လူစုက နောက်ဘက်မှနေ၍ ကားပေါ်သို့ တက်ကြသည်။ အသင့် တင်ထားသည့် ပစ္စည်းအပေါ်တွင် တက်ထိုင်ကြသည်။ ကွန်နီနှင့် ရိုစာဟန်။ အဖေဂျူတ်နှင့် ဦးလေးဂျွန်။ ရူသီနှင့် ဝင်းဖီး။ ပြီးတော့ တွမ်နှင့် တရားဟောဆရာ။ နိုအာကတော့ မြေပေါ်တွင် ရပ်နေဆဲ။ သူသည် ပစ္စည်းပုံကြီးပေါ်၌ ထိုင်နေကြသော လူစုကို ငေးကြည့်နေသည်။

အယ်လ်က ထရပ်ကားကို တစ်ပတ်မျှ လှည့်ကြည့်သည်။ ထို့နောက် ကားအောက်မှ စပရင်ကို ငုံ့ကြည့်သည်။ "ဟာ စပရင်တွေ ပြားနေလိုက်တာ ကြောက်စရာပါလား၊ တော်ပါသေးရဲ့၊ ကျုပ် သူတို့အောက်က ခံပေးထားမိလို့"

နိုအာက လှမ်းပြောသည်။ "ခွေးတွေကို ဘယ်လိုလုပ်မလဲ အဖေ"

"အေး ဟုတ်ပါရဲ့၊ ငါ ခွေးတွေကို မေ့နေတယ်" ဟု အဖေဂျူတ်က ပြောသည်။ သူသည် ခွေးများကို လေချွန်၍ ခေါ်သည်။ ခွေးတစ်ကောင်သည် ကားပေါ်သို့ လွှားခနဲ ခုန်တက်သည်။ ဤတစ်ကောင်တည်းသာ ကားပေါ် ရောက်သည်။ နိုအာက ခွေးကို ဖမ်းဆွဲပြီး ပစ္စည်းပုံပေါ်သို့ ပစ်တင်လိုက်၏။ ခွေးသည် ရောက်သွားသည့် နေရာတွင်

တောင့်တောင့်ကြီး ဖင်ချထိုင်ကာ တစ်ကိုယ်လုံး တုန်လျက် ရှိသည်။ ဟိုနှစ်ကောင်တော့ ထားခဲ့မှ ဖြစ်မယ်ကွ” ဟု အဖေဂျုတ်က ဆိုသည်။ “ဟေ့ မူလေး၊ အဲဒီ ခွေးနှစ်ကောင်ကို မင်း မွေးထားမလား၊ မငတ်အောင် နည်းနည်းပါးပါး ကျွေးထားပေါ့ကွာ”

“ကောင်းသားပဲ” ဟု မူလေးက ပြန်ပြောသည်။ “ကျုပ်လည်း ခွေးနှစ်ကောင်လောက် လိုချင်နေတာနဲ့ အတော်ပဲ၊ ကောင်းပြီလေ၊ ကျုပ် မွေးထားလိုက်မယ်”

“အေ အေး၊ ကြက်တွေကိုလည်း မင်းပဲ ယူလိုက်တော့” ဟု အဖေဂျုတ်က ထပ်ပြောသည်။

အယ်လ်က ဒရိုင်ဘာခုံတွင် ဝင်ထိုင်သည်။ စတတ်တာသံကို ကြားရသည်။ ထို့နောက် ဆလင်ဒါ ခြောက်လုံးတပ် စက်သံသည် ကျယ်လောင်စွာ ထွက်ပေါ်လာသည်။ နောက်ဘက်တွင်မူ ပြာလဲ့လဲ့ မီးခိုးတန်း။ “ကျုပ်တို့ သွားတော့မယ် မူလေး” ဟု အယ်လ်က နှုတ်ဆက်သည်။

မိသားစု တစ်စုလုံးကလည်း နှုတ်ဆက်သည်။ “သွားတော့မယ် မူလေး”

အယ်လ်က ဂီယာကို တစ်ချက်ထိုးလိုက်ပြီး ကလပ်ချ်ကို လွှတ်ပေးလိုက်သည်။ ထရပ်ကားသည် ခြံဝင်းထဲမှ ထွက်သည်။ ထို့နောက် စက္ကင်း ဂီယာ။ ထရပ်ကားသည် တောင်ကုန်းပေါ်သို့ တက်သည်။ “တင်ထားတဲ့ အလေးချိန်ကတော့ မနည်းပါလားဗျာ” ဟု အယ်လ်က ရေရွတ်သည်။

ထရပ်ကား ရှေ့ခန်းထဲ၌ ထိုင်နေသော အမေက နောက်သို့ လှည့်ကြည့်သည်။ သို့သော်လည်း အစုလိုက် အပြုံလိုက် တင်ထားသော ပစ္စည်းပုံကြီးက ကွယ်နေသဖြင့် ဘာကိုမှ မမြင်ရတော့ချေ။ အမေသည် ခေါင်းကို မတ်မတ် မော့ကာ ကားရှေ့တည့်တည့်မှ လမ်းမကို မျှော်ကြည့်ပြီး ပါလာသည်။ အမေ့မျက်လုံးအစုံတွင် အလွန်အမင်း ပင်ပန်း နွမ်းလျမှုကို မြင်တွေ့နေရ၏။

ပစ္စည်းပုံပေါ်၌ ထိုင်၍ လိုက်ပါလာကြသော လူစုသည် နောက်သို့ လှည့်ကြည့်ကြသည်။ အိမ်နှင့် အဖီတဲကို ပြက်ပြက်ထင်ထင် မြင်နေရ၏။ ခေါင်းတိုင်မှ မီးခိုးငွေ့များသည် တလွင့်လွင့်ထွက်ကာ ကောင်းကင်ဆီသို့ တလူလူ ထိုးတက်လျက်

ရှိလေသည်။ အိမ် ပြတင်းပေါက် မှန်များပေါ်သို့ ပထမဆုံး ထင်ဟပ်လာသည့် နီရဲရဲ နေရောင်ကိုပင် မြင်ရလေပြီ။ အိမ်တံခါးဝမှ ရပ်၍ အလွန် ညှိုးငယ်သော မျက်နှာထားဖြင့် သူတို့အား မျှော်ကြည့်နေရှာသည့် မူလေး။ ထို့နောက် တောင်ကုန်းငယ်သည် မူလေးနှင့် သူတို့အား တစ်ကမ္ဘာစီ ဖြစ်သွားအောင် ခြားပစ်လိုက်သည်။ လမ်းဘေး တစ်ဖက်တစ်ချက်တွင် ရှုမျှော်၍ မဆုံးနိုင်သော ဝါခင်းကြီးများ။ ထရပ်ကားသည် ထူထပ်သောဖုန်များကို ဖြတ်သန်းကာ အဝေးပြေး လမ်းမကြီးနှင့် အနောက်ဘက် ဒေသဆီသို့ ဦးတည်ပြီး ဖြည်းဖြည်းမှန်မှန် ပြေးသွားလျက် ရှိလေ၏။

* * *

## အခန်း (၁၁)

မြေပေါ်၌ ရှိနေသမျှသော အိမ်များသည် လူသူလေးပါး ကင်းမဲ့ကာ ဟာလာ ဟင်းလင်း ဖြစ်၍ ကျန်ရစ်ခဲ့ကြကုန်၏။ ထိုအခါ မြေပြင်သည်လည်း ဟာလာဟင်းလင်း ဖြစ်သွား ရလေသည်။ ပူပြင်းသော နေရောင်အောက်တွင် တံလျှပ်ရောင် လက်လက် ပြေးနေသည့် သံထည်မိုး သံထည်ကာ ထွန်စက်တဲများသည်သာလျှင် အသက်ရှင်လျက် ရှိကြ၏။ တကယ်တော့ သူတို့သည် သံ၊ သတ္တု၊ ဓာတ်ဆီ၊ အင်ဂျင်ဝိုင်၊ ထယ်ပြားဝိုင်းတို့ဖြင့် အသက်ရှင်နေကြသော အရာဝတ္ထုများ ဖြစ်ချေသည်။

ထွန်စက်များတွင် အလွန် အားကောင်းသော မီးလုံးများ ရှိကြသည်။ အဘယ်ကြောင့် ဆိုသော် ထွန်စက်တစ်စီးသည် နေ့ညမရွေး အလုပ် လုပ်ရခြင်းကြောင့် ပေတည်း။ ထွန်သွားများသည် ည အမှောင်ထုအောက်တွင်လည်း မြေကြီးကို ထိုးခွဲသည်။ နေ့၏ အလင်းရောင်အောက်တွင်လည်း ပြိုးပြိုးပြက်ပြက် လင်းလက်သော အရောင်များ ထွက်ကာ မြေကြီးကို ထိုးခွဲသည်။

အလုပ်ခွင်ဝင်နေသော မြင်းတစ်ကောင်သည် အလုပ်သိမ်းသည့်အခါ မြင်းဇောင်း အတွင်းသို့ ဝင်ရ၏။ ထိုအခါ မြင်းဇောင်းထဲ၌ ဘဝတစ်ခုသည် တည်ရှိလာသည်။ ရှင်သန်မှု တစ်ခုသည် တည်ရှိလာသည်။ အသက်ရှူခြင်းနှင့် နွေးထွေးခြင်းသည်လည်း တည်ရှိ လာသည်။ ခင်းထားသည့် ကောက်ရိုးများပေါ်၌ မြှောက်ချည်တစ်ခါ ချချည်တစ်လှည့် လုပ်နေသော ခြေထောက်များ။ မြက်ခြောက်များကို ဝါးနေသည့် သွားများ။ ပြီးတော့ တဖျတ်ဖျတ် ခတ်နေသည့် နားရွက်များနှင့် ပတ်ဝန်းကျင်ကို ကြည့်နေသည့် မျက်လုံးများ။ ဤအရာအားလုံးသည် အသက်ဝင်လျက် ရှိကြ၏။ လှုပ်ရှားလျက် ရှိကြ၏။ ရှင်သန်လျက် ရှိကြ၏။ ဘဝ၏ နွေးထွေးမှု တစ်ခုသည် မြင်းဇောင်းထဲ၌ ရှိနေသည်။ အသက်တစ်ခု၏ အပူငွေ့နှင့် အနံ့သည် ရှိနေသည်။

သို့သော်လည်း ထွန်စက်တစ်စီး စက်ရပ်သွားသည့် အခါတွင်မူကား ထွန်စက်သည် ယင်း၏ မူလ ဇာတိရုပ် ဖြစ်သော သတ္တုကျောက်ကဲ့သို့ လုံးဝ လှုပ်ရှားခြင်း မပြုနိုင်တော့သည့် အသေကောင် ရုပ်ဝတ္ထုပစ္စည်း အဖြစ်သို့ ရောက်သွားရလေ၏။ လူသေကောင် တစ်ကောင် အတွင်းမှ အပူဓာတ် ထွက်သွားသကဲ့သို့ ထွန်စက်အတွင်းမှ အပူငွေ့သည် ထွက်သွားသည်။ ထို့နောက် သံတံခါးကြီးများ ပိတ်သွားသည်။

ထွန်စက်မောင်းသမားသည် မြို့ပေါ်ရှိ သူ့အိမ်သို့ ကားနှင့် ပြန်သည်။ သူ့အိမ်သည် မိုင်နှစ်ဆယ်ခန့် ဝေးကောင်း ဝေးမည်။ သူ့အနေဖြင့် ရက်သတ္တပေါင်းများစွာ သို့မဟုတ် လပေါင်းများစွာ ဤနေရာသို့ ပြန်လာဖို့ မလိုတော့။ အဘယ်ကြောင့်ဆိုသော် ထွန်စက် သေသွားခြင်းကြောင့်ပေတည်း။

ဤပြဿနာမှာ လွယ်လည်း လွယ်သည်။ အကျိုးလည်း ဖြစ်ထွန်းသည်။ လွယ်လွန်းသဖြင့် အလုပ်ထဲမှ အံ့ဩဖွယ်ရာများသည် ပျောက်ကွယ်သွားသည်။ အကျိုးရှိလွန်း သဖြင့် မြေနှင့် ထိုမြေ အသုံးဝင်မှုများ အတွင်းမှ အံ့ဩဖွယ်ရာများ သည်လည်း ပျောက်ကွယ်သွားသည်။ ထိုအံ့ဩဖွယ်ရာများနှင့်အတူ နားလည်မှုနှင့် ဆက်စပ်မှုများ သည်လည်း ပျောက်ကွယ်သွားလေသည်။ ဤသို့ဖြင့် အရာဝတ္ထုတစ်ခု အပေါ်၌ အနည်းငယ်မျှသာ နားလည်မှု ရှိပြီး ထိုအရာဝတ္ထုနှင့် လုံးဝ အဆက်အစပ် မရှိသော လူစိမ်းတစ်ယောက်တွင် ဖြစ်ပေါ်နေတတ်သည့် မရှိမသေ မလေးမစား ပြုမှုမျိုးသည် ထွန်စက်သမား၏ ရင်တွင်း၌ ပေါက်ဖွား လာလေတော့၏။ ယင်းကဲ့သို့ ဖြစ်ရခြင်းမှာ နိက်ထရိတ်ဓာတ်များနှင့် ဖော့စဖရပ်ဓာတ်များသည် မြေကြီး မဟုတ်။ ဝါပွင့်ထဲမှ ရလာသည့် ချည်မျှင်၏ အရှည်သည် မြေကြီး မဟုတ်။ ကာဗွန်ဓာတ်သည် လူတစ်ယောက် မဟုတ်။ ဆားရေနှင့် ထုံးဓာတ်တို့သည်လည်း လူတစ်ယောက် မဟုတ်။ လူသည် ဤအရာအားလုံး၏ ပေါင်းစပ်ဖွဲ့စည်းမှုတစ်ခု ဖြစ်သည်။ သို့သော်လည်း လူသည် ထိုပေါင်းစပ်ဖွဲ့စည်းမှုထက် ပို၍ ပို၍ အဆပေါင်းများစွာ သာလွန်သော အနှစ်သာရ ရှိသော သဘောကို ဆောင်လျက် ရှိသည်။ ထိုနည်းတူစွာပင် မြေသည်လည်း ယင်း၏ မူလ ပေါင်းစပ် ဖွဲ့စည်းထားသည့် ဓာတ်ပေါင်းစုထက် အဆပေါင်းများစွာ သာလွန်သော အနှစ်သာရရှိသော သဘောကို ဆောင်လျက် ရှိလေသည်။

မည်သို့ပင်ဖြစ်စေ အခြေခံ ဓာတ်ကြီးလေးပါး ဖွဲ့စည်းမှုထက် အဆပေါင်းများစွာ အဓိပ္ပာယ် ရှိနေသော လူသည် မြေကြီးပေါ်၌ လမ်းလျှောက်ခြင်း၊ ကျောက်ခဲတစ်လုံးနှင့် တိုက်မိနေသည့်အခါ သူ့ထွန်ကို ထိုကျောက်ခဲနှင့် လွတ်သွားအောင် နေရာရွှေ့ပေးခြင်း၊ မြေ၏ အပြင်သို့ ထိုးထွက်နေသော အပင်ပေါက်ကလေးများကို မထိခိုက်မိအောင် ရှောင်ခြင်း၊ မြေကြီးပေါ် ထိုင်၍ နေ့လည်စာ စားခြင်း စသည့် အလုပ်များကို လုပ်သည်။ ဓာတ်လေးပါး ဖွဲ့စည်းမှုထက် အဆများစွာ သာလွန်သော လူအနေဖြင့် မြေကြီးသည် အခြေခံ ဖွဲ့စည်း ဖြစ်ပေါ်မှုထက် အဆများစွာ ပို၍ လေးနက်သော အနှစ်သာရ ရှိသော သဘော သဘာဝကို ဆောင်လျက် ရှိနေကြောင်း သိသည်။ သို့သော်လည်း အသက်မဲ့

ဖြစ်သော ထွန်စက်တစ်စီးကို မြေကြီးပေါ်၌ မောင်းနေရသည့် စက်လူဘဝသို့ ရောက်လာသောအခါ သူ့တွင် အသိလည်း မရှိ။ ချစ်ခင်တွယ်တာမှုလည်း မရှိ။ သူ့အနေဖြင့် ဓာတုဓာတ်သဘောကိုသာ နားလည်သည်။ ဤသို့ဖြင့် သူသည် မြေကိုလည်း တန်ဖိုးမထားတော့ဘဲ မထီမဲ့မြင် ပြုလာသည်။ သူ့ကိုယ်သူလည်း တန်ဖိုးမထားတော့ဘဲ မခန့်မညား ပြုလာသည်။ ထို့ကြောင့် သူသည် သံတံခါးကြီးများကို ပိတ်လိုက်သည့်အခါ အိမ်သို့ ပြန်သည်။ သူ့အိမ်သည် မြေ မဟုတ်။

ဟောင်းလောင်းဖြစ်၍ ကျန်ခဲ့သော အိမ်များ၏ တံခါးအားလုံးသည် ပွင့်နေကြလေသည်။ တံခါးရွက်များသည် လေတိုက်တိုင်း ပွင့်လိုက် ပိတ်လိုက် ဖြစ်လျက် ရှိကြ၏။ မြို့များဆီမှ ကလေးများသည် အုပ်လိုက် သင်းလိုက် ဖွဲ့ကာ ဟောင်းလောင်း ဖြစ်နေသော အိမ်များဆီသို့ ရောက်လာကြသည်။ ပြတင်းပေါက် တံခါးရွက်များကို ဖြုတ်ချကြသည်။ အိမ်အတွင်းအပြင်၌ စုပုံလျက် ရှိနေသော အကျိုးအပဲ့ အစအနများကို မွှေနှောက်ကာ အဖိုးတန် ပစ္စည်းများ ရလိုရငြား ရှာဖွေကြသည်။ ဓားတစ်ချောင်း ကောက်ရသည်။ ဓားသွား တစ်ဝက်ကတော့ ပဲ့နေပြီ။ သို့သော်လည်း သုံးမည်ဆိုက သုံးလို့ ရသေးသည်။ ဒီအနားတစ်ဝိုက်ကတော့ ကြွက်တစ်ကောင် သေပြီး ပုတ်နေသည့် အနံ့မျိုး ထွက်နေသည်။ ဟေ့ ဟိုမှာ ကြည့်စမ်း။ ဝုစ်နေး ဆိုတဲ့ အကောင် နံရံပေါ်မှာ ဘာတွေ ရေးနေတာလဲ။ ဒီအကောင် ကျောင်းက အိမ်သာထဲမှာလည်း ဒီစာမျိုး ရေးဖူးတယ်။ ဆရာက သူ့ကို ပြန်ဖျက်ခိုင်းလို့ ဖျက်ပစ်ခဲ့ရတယ်ကွ။

အိမ်သူ အိမ်သားများ အပြီးအပိုင် ထွက်ခွာသွားကြပြီးသည့်နောက် ထိုနေ့ ညနေခင်းတွင် လယ်ကွက်များဘက်သို့ အစာရှာ ထွက်သွားကြခဲ့သော ကြောင်များသည် ကုပ်ချောင်းချောင်းဖြင့် ပြန်ရောက်လာကြသည်။ အိမ်ရှေ့တံခါးဝ၌ ထိုင်ကာ တညောင်ညောင် အော်ကြသည်။ အိမ်ထဲမှ လူတစ်ယောက်မျှ ထွက်မလာသောအခါ ကြောင်များသည် ပွင့်နေသော တံခါးမှနေ၍ အတွင်းသို့ ဝင်ကြသည်။ တညောင်ညောင် အော်မြည်ကာ တစ်ခန်းဝင် တစ်ခန်းထွက် လျှောက်သွားကြသည်။ ထို့နောက် လယ်ကွက်များဆီသို့ ပြန်သွားကြလေ၏။ ထိုအချိန်မှစ၍ အိမ်ကြောင်များသည် လယ်ကွက်များနှင့် ပွေးများကို ဖမ်းဆီး စားသောက်ပြီး နေ့ခင်း နေ့လည်ဘက်တွင် မြောင်းကြို မြောင်းကြား ချောင်ကြို ချောင်ကြား၌ အိပ်နေတတ်သော တောကြောင်များ အဖြစ်သို့ ကူးပြောင်းသွားကြလေသည်။ ညပိုင်းသို့ ရောက်သောအခါ ဟိုယခင်က မီးရောင်ကို ကြောက်၍ အိမ်ရှေ့ တံခါးရွက်များ၌သာ ခိုကပ်နေလေ့ရှိသော လင်နို့များသည် အိမ်ထဲသို့

ဝင်ကြသည်။ မှောင်မည်း တိတ်ဆိတ်နေသော ထောင့်ကြိုထောင့်ကြားများ၌ ဝင်ကပ်နေကြသည်။ သူတို့သည် အတောင်များကို ဖြန့်ထားကြသည်။ အိမ်၏ ထုပ် ဒိုင်း စသည့်နေရာများ၌ တွဲလောင်းခိုကာ ဦးခေါင်းများကို ငိုက်စိုက် ချထားကြသည်။ လူသူကင်းမဲ့သော အိမ်များသည် လင်းနို့ချေးများဖြင့် ပုပ်ဟောင် နံစော်လျက် ရှိကြ၏။

ထို့နောက် ကြွက်များ ရောက်လာကြသည်။ လယ်ကွင်းများထဲမှ ကိုက်ဖြတ်သယ်ဆောင်လာသော တောပင် ပေါင်းပင် မြက်ပင်များ၏ အစေ့များကို အိမ်၏ ထောင့်ကြိုထောင့်ကြားများ၌ လည်းကောင်း၊ သေတ္တာ အကျိုးအပျက်များ အတွင်း၌ လည်းကောင်း၊ မီးဖိုချောင်ထဲမှ ကြောင်အိမ်ပျက် အံဆွဲများနောက်၌ လည်းကောင်း ဖွက်၍ သိုလှောင်ကြသည်။ ထိုအခါ မြွေပါများသည် ကြွက်များကို ဖမ်းဆီး စားသောက်ရန် လိုက်လာကြသည်။ အညိုရောင် ဖီးကွက်ကြီးများကလည်း အိမ်ထဲသို့ ဝင်လိုက် ထွက်လိုက် လုပ်လာကြသည်။

ထို့နောက် မိုးအနည်းငယ် ရွာသည် အိမ်ရှေ့တံခါးခုံ အနီးတစ်ပိုက်တွင် ပေါင်းပင်များနှင့် မြက်ပင်များ ပေါက်လာသည်။ ဟိုတုန်းက သူတို့ ပေါက်ရောက်ကြီးထွားခွင့် မရခဲ့ကြသည့် နေရာများတွင် ဝင်၍ ပေါက်ကြခြင်း ဖြစ်၏။ အိမ်များသည် ဟောင်းလောင်း။ ဟောင်းလောင်းဖြစ်နေသော အိမ်များသည် လျှင်မြန်စွာပင် ဖရိုဖရဲဖြစ်ကာ အလဲလဲ အပြိုပြို ဖြစ်လာသည်။ ကွဲသည့်နေရာက ကွဲ၍ အက်သည့် နေရာက အက်လာသည်။ ကြမ်းပြင်များပေါ်တွင် ဖုန်များ ထူထပ်စွာ တက်လာသည်။ ထိုဖုန်များအပေါ်တွင် ကြွက်၊ မြွေပါနှင့် ကြောင်များ၏ ခြေရာများသည် ထပ်ထပ်ရံလျက် ရှိလေသည်။

တစ်ညတွင် လေပြင်းတစ်ချက် ဝှေ့ယမ်း တိုက်ခတ်မှုကြောင့် အုတ်ကြွပ်တစ်ချပ်သည် လွင့်စဉ်ထွက်ကာ မြေပေါ်သို့ ကျသွားသည်။ နောက်တစ်ရက်တွင် လေသည် ထိုအုတ်ကြွပ်တစ်ချက် လပ်သွားသည့် အပေါက်မှနေ၍ အတွင်းသို့ တိုးဝင်သည်။ ထိုအခါ အုတ်ကြွပ်သုံးချပ်သည် လွင့်စင်၍ ကျပြန်သည်။ ထို့နောက် အုတ်ကြွပ် တစ်ဒါဇင်ခန့် ပြုတ်ထွက်သွားသည်။ နေ့လည်ခင်း၏ ပူပြင်းသော နေရောင်သည် ထိုအပေါက်မှတစ်ဆင့် အိမ်ထဲသို့ ဝင်သည်။ အလွန် ပူပြင်း တောက်ပသော အလင်းရောင် အကွက်ကြီးတစ်ကွက်ကို ချသည်။ ညဘက်တွင် တောကြောင်များသည် လယ်ကွက်များဘက်မှ အိမ်ဘက်သို့ ကူးလာကြသည်။ သို့သော်လည်း ယခင်ကလို အော်မြည်ခြင်း မပြု။ အသံလုံးဝ မပေး။ လအပေါ်မှ ဖြတ်သန်းသွားသည့် တိမ်လိပ် တစ်လိပ်၏ အရိပ်များရွှေ့လျားသည့်နယ် အခန်းများ အတွင်းသို့ ဖြည်းညှင်းစွာ ဝင်ရောက်ပြီး ကြွက်များကို

ဖမ်းဆီး ချောင်းမြောင်းကြသည်။ လေထန်သော ညများတွင်မူ တံခါးရွက်များသည် တဝုန်းဝုန်း တဒိုင်းဒိုင်း ရိုက်ခတ်နေကြသည်။ ကျိုးပျက်နေကြသော ပြတင်းပေါက်များမှ အပိုင်းပိုင်း စုတ်ပြတ်နေကြသော ခန်းဆီးများသည် တလွင့်လွင့်။

* * *

## အခန်း (၁၂)

အမှတ် ၆၆ အဝေးပြေး မော်တော်ကား လမ်းမကြီးသည် ရေကြည်ရာ မြက်နုရာ ရွှေ့ပြောင်း နေထိုင်ကြသူများ၏ အဓိက အားထားရာ လမ်းမကြီး ဖြစ်သည်။ ၆၆ သည် တစ်နိုင်ငံလုံးကို ဖြတ်၍ ဖောက်ထားသည့် ကွန်ကရိ လမ်းမကြီး ဖြစ်၏။ မြေပုံပေါ်၌ ကြည့်မည်ဆိုပါက မစ်စစ်စပီမှ ဘေးကားစ်ဖီးလ် အထိ မြင့်ချည်တစ်ခါ နိမ့်ချည်တစ်လှည့် သွားနေသော လမ်းမကြီး ဖြစ်သည်။ နီရဲသော မြေများနှင့် ညိုမှိုင်းသော မြေများအပေါ်မှ ကျော်ဖြတ်သည် တောင်တန်းကြီးများ အပေါ်သို့ မြွေလိမ် မြွေကောက် တက်သည်။ မြစ်ကြီးနှစ်ခုကို ပိုင်းခြားရာ အမြင့်ဆုံးသော ရေဝေကြောကို ဖြတ်၍ တစ်ဖက် အနိမ့်ထဲရှိ အပူရှိန်ဖြင့် ဝင်းဝင်းတောက်နေသော သဲကန္တာရကြီးကို ကျော်ဖြတ်ပြီးသောအခါ လမ်းမကြီးသည် တောင်တန်းကြီးများပေါ် တစ်ဖန် ပြန်တက်သည်။ ထို့နောက် အလွန် မြေဩဇာကောင်းသော ကယ်လီဖိုးနီးယား တောင်ကြားများ အတွင်းသို့ ဆင်းသွား လေသည်။

၆၆ သည် ဖုန်လုံးကြီးများ၊ တစ်နေ့တခြား အဆီအနှစ် ဆုတ်ယုတ်လာနေသော မြေများ၊ မိုးခြိမ်းသံတမျှ ကျယ်လောင် စူးရှသော အသံများကို ပြု၍ ကျူးကျော် ဝင်ရောက်လာသည့် ထွန်စက်များ၊ တစ်နေ့ထက်တစ်နေ့ နယ်ကျဉ်းလာနေသော မြေယာပိုင်ဆိုင်မှု၊ မြောက်ဘက်သို့ ဖြည်းဖြည်းမှန်မှန် ရွှေ့လျားပြီး နယ်ချဲ့လာနေသော သဲကန္တာရကြီး၊ တက္ကဆတ်ပြည်နယ် အတွင်းမှ ထွက်လာပြီး တရကြမ်း ဖေ့ယမ်း တိုက်ခိုက်လျက်ရှိသော လေပြင်းမုန်တိုင်းနှင့် အဆီအနှစ် လုံးဝ သယ်မလာဘဲ ထိုအရပ်ဒေသရှိ မြေပေါ်၌ ရှိနေသည့် မြေဩဇာ အကြွင်းအကျန် ကလေးများကို ရသလောက် ခိုးယူသွားလေ့ရှိသော ရေကြီးမှု အစရှိသော ဘေးအန္တရာယ်များမှ ထွက်ပြေး လာကြသည့် ဒုက္ခသည်များ၏ လမ်း ဖြစ်သည်။ ထိုဘေးဒုက္ခကြီးများကြောင့် လူအများသည် ထွက်ပြေးနေကြရ၏။ သူတို့သည် လှည်းလမ်း၊ လူသွားလမ်းနှင့် တောလမ်း စသော ဘေးတစ်ဖက်တစ်ချက်ရှိ လမ်းသိမ် လမ်းမြွာများမှ တစ်ဆင့် ၆၆ လမ်းမကြီး အတွင်းသို့ ဝင်ရောက်လာကြခြင်း ဖြစ်သည်။ ၆၆ သည် မိခင် လမ်းမကြီး ဖြစ်၏။ လူအများ ထွက်ပြေးရာ လမ်းမကြီးလည်း ဖြစ်၏။

ကလတ်စ်ဗီးလီးမြို့၊ အိုဇတ်မြို့၊ ဗင်ဘူရီမြို့နှင့် ဖို့တ်စမစ်မြို့များကို လွန်လျှင် အာကင်ဆတ်စ် ပြည်နယ် ဆုံးသည်။ ပြီးတော့ ဒုတ်ကလာဟိုးမား စီးတီးမြို့ အတွင်းသို့

ဝင်သည့် လမ်းအားလုံးသည် တူလ်ဆာ၊ မက်အေလက်စတား၊ တောင်ဘက်တွင် ဝီချီတာဖော်လ်၊ မြောက်ဘက်တွင် အီးနစ် စသည့် မြို့များမှ လာရာ လမ်းများ ဖြစ်သည်။ ထို့နောက် အက်ဒမွန်၊ မက်က်လောက်၊ ပါဆဲလ်မြို့များ။ အုတ်ကလားဟိုးမားစီးတီးမြို့ အပြင်ရောက်၍ ၆၆ လမ်းမကြီးအတိုင်း အနောက်ဘက်သို့ ထွက်သွားမိသောအခါ အယ်လ်ရီးနိုးမြို့နှင့် ကလင်တန်မြို့။ တစ်ဆက်တည်း ဟိုဒရို၊ အက်ခ်စီးတီးနှင့် တက္ကဆိုးလားမြို့များကို ကျော်ဖြတ်သွားရသည်။ ထိုမြို့များကို လွန်သော် အုတ်ကလာဟိုးမား ပြည်နယ် အပြင်သို့ ရောက်သည်။ ၆၆ လမ်းမကြီးသည် တက္ကဆတ် ပြည်နယ်၏ ပန်ဟန်ဒယ်လ်မြို့ကို ဖြတ်၍ ရှင်မရောခ်၊ မက္ကလင်း၊ ကွန်ဝေးနှင့် အောမာရီလို မြို့များကို ရောက်သည်။ ဝစ်လ်ဒိုရာဒို၊ ဗွီဂါးနှင့် ဘွဲ့ကိုစ် မြို့များကို လွန်သောအခါ တက္ကဆတ်ပြည်နယ် ဆုံးသည်။ ထို့နောက် ဘူတမ်ကာရီမြို့နှင့် ဆန်တာရိုစာ မြို့နှစ်မြို့ကို ဖြတ်ကာ နယူးမက္ကဆီကို တောင်တန်းများကို ကျော်၍ ဆန်တာဖီးမြို့ဘက်မှ လာသော လမ်းနှင့် ဆုံတွေ့ရာ အယ်လ်ဘူကွာကွေး မြို့သို့ ဦးတည်သွားသည်။ ထို့နောက်တော့ လမ်းမကြီးသည် တောင်စွန်မြို့ တစ်မြို့ ဖြစ်သော ရီအိုဂရန်းဒီးမြို့ကို ဖြတ်၍ လော့စ်လူနာမြို့သို့ သွားပြီး အနောက်စူးစူး ဂါလပ်မြို့သို့ ရောက်သည်။ ထိုနေရာ ရောက်သော် နယူးမက္ကဆီကို ပြည်နယ်၏ နယ်စပ်ကို တွေ့ရလေသည်။

နယ်စပ်ကို ဖြတ်မိသောအခါ မြင့်မားသော တောင်တန်းများပေါ် တက်လာသည်။ ထိုအခါ အရီဇိုးနား ပြည်နယ် အတွင်းမှ ခွဲထွက်လာသော တောင်မြင့်မြင့်ကြီးများပေါ်ရှိ ဟိုးဘရွတ်၊ ဝင်းစလိုးနှင့် ဖလက်စတတ်မြို့များသို့ ရောက်သည်။ ထို့နောက် ကျယ်ပြန့်ကြီးမားသော လွင်ပြင်ကြီးသည် ရှေ့မှနေ၍ ပြေးသွားလျက် ရှိ၏။ အက်ရှ်ဖော့ခ်နှင့် ကင်းမင်းနစ်မြို့ကို လွန်သော် လွင်ပြင်ဆုံးကာ တောင်တန်းများနှင့် ထပ်တွေ့ရပြန်သည်။ ထိုနေရာ ဒေသကျတော့ ရေရှားသည်။ ရေကို တွင်းထဲမှ ငင်၍ ရောင်းသည်။ ထို့နောက် နေပူဒဏ်ကြောင့် အက်ကွဲ ကြေမွနေသော အရီဇိုးနား တောင်တန်းများကို လွန်ကာ ကမ်း တစ်ဖက်တစ်ချက်တွင် စိမ်းလန်း စိုပြည်သော ကျူပင်များ ဖုံးလွှမ်းနေသည့် ကော်လိုရားဒိုး မြစ်သို့ ရောက်သည်။ ဤနေရာသည် အရီဇိုးနား ပြည်နယ် ဆုံးသော နေရာဖြစ်၏။ ကယ်လီဖိုးနီးယား ပြည်နယ်သည် မြစ်၏ တစ်ဖက်ကမ်းတွင် တည်ရှိသည်။

ဤပြည်နယ်၏ မြေပေါ် ခြေချသည့်အခါ အလွန် သာယာလှပသော မြို့ကလေး တစ်မြို့မှ စ၍ ခြေချသည်။ ကော်လိုရားဒိုး မြစ်ကမ်းနဖူးပေါ်ရှိ နီးဒဲမြို့။ သို့သော်လည်း ဤနေရာ ဤဒေသ၌ ဤမြစ်သည် အာဂန္တု လူစိမ်းတစ်ယောက်သဖွယ် ဖြစ်လျက် ရှိ၏။

နီးဒဲမြို့မှ အထက်သို့ တက်သွားလျှင် အပင်ငယ်များ ပေါက်ရောက်ပြီး သက်ရှိ သတ္တဝါများ နေနိုင်သည့် အလွန် ပူပြင်းသော နေရာတစ်ခုကို တွေ့ရသည်။ ထိုနေရာကို လွန်သောအခါ သဲကန္တာရ။ ၆၆ လမ်းမကြီးသည် ကြောက်မက်ဖွယ်ကောင်းသော ထို သဲကန္တာရကြီး အပေါ်မှ ကျော်ဖြတ်သည်။ သူ့ရှေ့တည့်တည့်တွင် မည်းနက်သော တောင်တန်းကြီး များသည် မကြည်မလင် ပုံမျိုးဖြင့် မားမားမတ်မတ် ရပ်လျက် ရှိကြလေသည်။ နောက်ဆုံးတွင် ဘားစတိုးမြို့သို့ ဆိုက်ရောက်သည်။ ဘားစတိုးကို လွန်သော် နောက်ထပ် ကောင်းကင်သို့ ထိုးတက်နေကြသော တောင်တန်းကြီးများဆီ မရောက်မချင်း သဲကန္တာရကိုပင် ကျော်ဖြတ်ပြန်သည်။ အခု ဆိုက်ရောက်သွားသည့် တောင်တန်းကတော့ တောင်ကောင်းများ ဖြစ်၏။ ၆၆ သည် ထိုတောင်များကို လျှင်မြန်သော အဟုန်ဖြင့် ဖြတ်ကျော်သည်။ ထို့နောက် ရုတ်တရက် ချက်ချင်း တောင်ကြားလမ်းတစ်ခုကို ဘွားခနဲ တွေ့ရသည်။ ထိုတောင်ကြားလမ်း၏ အောက်ဘက်တွင်မူ အလွန် လှပသော တောင်ကြားလွင်ပြင်။ ပြီးတော့ ဥယျာဉ်ခြံများ။ စပျစ်ခြံများနှင့် အိမ်ငယ်ကလေးများ။ ခပ်လှမ်းလှမ်းတွင် မြို့။ အို ဘုရားသခင်။ တပည့်တော်တို့ လာခဲ့ရတဲ့ ခရီးကတော့ အဆုံးသတ်ပါပြီ။

ထွက်ပြေးလာနေကြသော လူများသည် ၆၆ လမ်းမကြီး အတွင်းသို့ ချောင်းရေများ ဒလဟော ထိုးစီး ဝင်လာသည့်နှယ် ဝင်ရောက်လာနေကြခြင်း ဖြစ်၏။ တစ်ခါတစ်ရံတွင် ကားတစ်စီးတည်း ဖြစ်သော်လည်း တစ်ခါတစ်ရံကျတော့ အစုလိုက် အပြုံလိုက် ဖြစ်သည်။ ကားများသည် လမ်းမကြီးပေါ်တွင် တစ်နေကုန် တစ်နေခမ်း ဖြည်းဖြည်းမှန်မှန် လိမ့်သွားနေကြသည်။ ညပိုင်းကျမှပင် ရေနှင့်နီးရာ နေရာများ၌ ရပ်နားကြ၏။ နေ့ခင်းဘက်တွင်မူ ရှေးကျလွန်းသဖြင့် ခေတ်ကုန်နေပြီ ဖြစ်သော ရေဒီယေတာမှ မီးခိုးငွေ့များသည် အလုံးလိုက် အခဲလိုက် ထောင်းထောင်းထနေအောင် ထွက်လျက်ရှိ၏။ ချောင်နေပြီဖြစ်သော ကော်နက်တင်း ရော့ဒ်တံသည် ဂိုးဂိုးဂေါက်ဂေါက် မြည်လျက် ရှိလေသည်။ ထရပ်ကားများနှင့် ပစ္စည်းများ အဆမတန် တင်ထားသည့် ကားများကို မောင်းလာသူများသည် တစ်လမ်းလုံး သူတို့ကားများ၏ အသံကို စိုးရိမ်ကြီးစွာဖြင့် နားစွင့်လာကြသည်။ တစ်မြို့နှင့် တစ်မြို့ကြား မည်မျှဝေးသနည်း။ တစ်မြို့နှင့် တစ်မြို့ အကူးကြားတွင် ကာလအချိန်သည် ကြောက်စရာ ကောင်းလှ၏။ အကယ်၍ ကားတွင် တစ်စုံတစ်ခု ချွတ်ယွင်းခဲ့ပါမူ ရောက်သည့်နေရာ၌ ရပ်ထားဖို့က လွဲပြီး တခြား ဘာမှ လုပ်၍ ရနိုင်မည် မဟုတ်။ ဂျင်ကို နီးရာမြို့သို့ ခြေကျင် ပြန်လွှတ်ပြီး လိုသောပစ္စည်း

ဝယ်ခိုင်းရသည်။ သူ ပြန်လာမှပဲ ပစ္စည်းကို လဲထည့်ပြီး ခရီးဆက်ရမည်။ ယူလာသည့် အစားအစာနှင့် လောက်ပါ့မလား။ ဘယ်လောက်များများ ကျန်သေးသနည်း။

စက်သံကို နားထောင်စမ်းပါဦး။ ဘီးသံတွေကိုရော။ ကြားရဲ့လား။ မင်း နားနစ်ဖက်နဲ့ရော စတီယာတိုင် ကိုင်ထားတဲ့ မင်းလက်တွေနဲ့ပါ နားထောင်ပါဟ။ မော်တော်ကား ဘော်ဒီ ကြမ်းခင်းပေါ်မှာ ချထားတဲ့ မင်းရဲ့ ခြေထောက်တွေနဲ့ပါ နားထောင်ကြည့်။ မင်း ကားအို ကားဟောင်း အစုတ်အပြတ်ကြီးက တစ်စီးလုံး မြည်နေတာကွ။ မင်းမှာ ရှိသမျှ အာရုံငါးပါးနဲ့ နားထောင်နေမှ ဖြစ်မှာ။ ကြားတယ် မဟုတ်လား။ ချက်ချင်း အသံပြောင်းသွားပြီ။ ကြားရတဲ့ အသံကတော့ တယ်မနိုပ်ဘူး။ ဒီနေရာမှာ တစ်ပတ်လောက်တော့ ပျက်နေမယ့် လက္ခဏာပဲဟေ့။ ဂလောက် ဂလောက် မြည်နေတဲ့ အသံက ဘာသံလဲ။ တောက်လျှောက် မြည်နေပါကလား။ ဟို ဟို ကားသွားနေတဲ့အခါ မြည်နေတဲ့ အသံကြီးကကော။ ဘာသံများပါလိမ့်။ ဘဲယာရင်များ ဖြစ်နေရော့သလားကွာ။ ဘုရား ဘုရား။ ဘဲယာရင်သာ ဆိုရင်တော့ ပြီးပါလေရော။ တကယ့် မလွယ်ကြော ဆိုက်တော့မှာ။ ငါတို့ ဘယ်လို လုပ်ကြမလဲ။ ငွေကတော့ သောက်သောက်လဲ ထပ်ကုန်ဦးတော့မှာပဲ။

တောက် နေကလဲဗျာ။ ကနေ့ကျမှ ဘာပြုလို့ ဒီလောက် ပူနေရတာပါလိမ့်။ ရှေ့လျှောက်ပြီး လမ်းအတက် မရှိတော့ပါဘူး။ ဟ ဘာဖြစ်ပြန်တာလဲ။ ဘုရားသခင် ကယ်တော်မူပါဦး။ သွားပြီ။ ပန်ကာကြိုးပြတ်သွားပြီ။ ရော့ကွာ။ ဟောဒီကြိုးကို တပ်။ ယာယီ ပန်ကာကြိုးပေါ့။ အဲ အဲ ဟုတ်ပြီ။ ကဲ ဖြည်းဖြည်းပဲ မောင်းမှ။ ရှေ့ မြို့အထိ ရောက်အောင်တော့ ခံမှာပါ။ ဟာ အကြာကြီးတော့ ဘယ်ခံမလဲကွာ။

အင်း ဒီကားစုတ် ကားပျက်ကြီး ပေါက်ကွဲမသွားခင် လိမ္မော်ပင်တွေနဲ့ ပြည့်နေတဲ့ ကယ်လီဖိုးနီးယားကတော့ ရောက်တန်ကောင်းပါရဲ့။ အဲဒီရောက်ရင် တော်ပါပြီကွား

တာယာတွေကကော။ တာယာတွေကလည်း ပေါက်ပြဲနေပြီ။ နောက်ထပ် မိုင်တစ်ရာလောက်တော့ သွားနိုင်လိမ့်ဦးမယ် ထင်ပါရဲ့။ တကယ်လို့ ကျောက်တုံးကြီးတွေနဲ့ ဝင်တိုက်ပြီး ကွဲမသွားရင်ပေါ့လေ။ အင်း နောက်ထပ် မိုင်တစ်ရာ ဆိုတော့ အထဲက ကျွတ်က ခံပါဦးမလား။ ဒါက မစဉ်းစားလို့ မဖြစ်ဘူး။ စဉ်းစားထားမှ ဖြစ်မှာ။ ကျွတ်မှာလည်း ဖာရာတွေ ဗရပွ ဖြစ်နေပြီ။ တစ်ပေါက်တစ်လေတော့လည်း ထပ်ပေါက်ချင်

ပေါက်ဦးမှာပေါ့။ ဖိနပ်တစ်ရံလောက် ချုပ်ရရင် ဘယ်လိုနေမလဲ မပြောတတ်ဘူး။ အေးလေ။ နောက်ထပ် မိုင်ငါးရာလောက်တော့ သွားလို့ ရတန်ကောင်းပါရဲ့။ အိုကွာ မထူးတော့ပါဘူး။ ကွဲထွက်ပြီး သုံးမရတော့တဲ့ အချိန်အထိတော့ ဆက်သွားကြတာပေါ့။

တာယာတစ်လုံးတော့ ငါတို့ ဝယ်မှ ဖြစ်တော့မယ်။ အမယ်လေးဗျာ။ တာယာဟောင်း တစ်လုံးအတွက် ဆိုလိုက်တဲ့ ဈေးကလည်း အဆမတန်ပါကလား။ သူတို့ ဟောဟိုဘက်က ငနဲကို ကြည့်နေကြတယ်။ ဟိုငနဲ ကြာကြာ မစောင့်နိုင်ဘူးဆိုတာ သူတို့ သိတယ်ကွ။ အေး အဲသလိုသိရင် တာယာဈေးက မိုးအထိ တက်မှာတော့ သေချာနေပြီ။

ယူချင်လည်းယူ၊ မယူချင်လည်း ထားခဲ့။ ကျုပ် ဈေးရောင်းနေတာက နေလို့ ကောင်းအောင်လို့ အပျင်းပြေ ရောက်နေတာ မဟုတ်ဘူး။ ကျုပ်က တာယာဟောင်းတွေကို ရောင်းနေတာ။ အလကားပေးနေ့ မဟုတ်ဘူး ကိုယ့်လူ။ ခင်ဗျားမှာ ဘာဖြစ်နေတယ် ဆိုတာက ကျုပ်အလုပ် မဟုတ်ဘူး။ ကျုပ်လည်း မတတ်နိုင်ဘူး။ ကျုပ်မှာ ဘာဖြစ်နေတယ် ဆိုတာသာ ကျုပ်က တွေးရမှာ။

နောက်တစ်မြို့က ဘယ်လောက် ဝေးသလဲ။ ဟုတ်လား။

မနေ့က ခင်ဗျားတို့လို ခရီးသည် မော်တော်ကား လေးဆယ့်နှစ်စီးတောင် သွားတာ တွေ့ရတယ်။ ခင်ဗျားတို့ လူစုတွေ ဘယ်က လာပြီး ဘယ်ကို သွားကြမှာလဲဗျ။

အင်း...။ ကယ်လီဖိုးနီးယား ဆိုတော့ ပြည်နယ်က အကြီးကြီးပဲဗျ။

ဒါပေမဲ့ သိပ်တော့လည်း ကြီးတယ်မထင်နဲ့ ကိုယ့်လူရေ။ တကယ်တမ်းကျတော့ အမေရိကန် တစ်နိုင်ငံလုံးလည်း သိပ်တော့ ကြီးလှတာ မဟုတ်ဘူး။ ခင်ဗျားတို့ ကျုပ်တို့ ကောင်းကောင်းမွန်မွန် နေနိုင်လောက်အောင်ကို မကြီးပါဘူး။ ခင်ဗျားလို လူစားနဲ့ ကျုပ်လို လူစားတွေ ချမ်းသာတဲ့လူနဲ့ ဆင်းရဲတဲ့လူတွေ သူခိုးဓားပြတွေနဲ့ လူရိုးလူကောင်းတွေ အားလုံး အတူတူ တွဲပြီး နေနိုင်လောက်အောင်ကို မကျယ်ဘူး။ ငတ်နေတဲ့လူတွေနဲ့ ဝဝလင်လင် စားနေရတဲ့ လူတွေအတွက်လည်း ဒီပုံစံအတိုင်းပါပဲ။ ခင်ဗျား အခု ထွက်လာခဲ့တဲ့ အရပ်ဒေသကို ဘာပြုလို့ မပြန်ချင်ရတာလဲဗျာ။

ဒါဟာ လွတ်လပ်တဲ့ နိုင်ငံ တစ်နိုင်ငံပဲဗျာ။ လူတစ်ယောက်အနေနဲ့ သူသွားချင်တဲ့ အရပ်ကို သွားနိုင်ပါတယ်။ ဟုတ်ဖူးလား။

ဒါကတော့ ခင်ဗျား အထင်ကိုးဗျ။ ကယ်လီဖိုးနီးယား ပြည်နယ်ရဲ့ နယ်စပ်မှာ ကင်းလှည့်နေတဲ့ ကင်းစောင့်ပုလိပ်အဖွဲ့ အကြောင်း ခင်ဗျား ကြားဖူးရဲ့လား။ လော့စ်အိန်ဂျယ်လိစ်မြို့က ပုလိပ်တွေနဲ့ တွေ့ရင် ခင်ဗျားတို့လို ကောင်တွေကို ဆီးပြီး တားမယ်၊ စစ်မယ်၊ ပြီးရင် ပြန်မောင်းထုတ်မှာပဲ၊ "မင်းတို့လို မြေများများ မဝယ်နိုင်တဲ့ ကောင်တွေကို ငါတို့ပြည်နယ်က လက်မခံဘူး" လို့ ပြောမှာ သေချာတယ်။ "ကဲ ယာဉ်မောင်းလိုင်စင် ရှိရဲ့လား၊ ပြစမ်း" လို့လည်း မေးလိမ့်မယ်။ ခင်ဗျား ထုတ်ပြတဲ့ စာရွက်ကိုလည်း ဆွဲဆုတ်ပစ်မှာပဲ။ ပြီးရင် ပြောလိမ့်မယ်။ "မင်းမှာ ကားမောင်းလိုင်စင် မရှိဘဲနဲ့ ဒီကို ဝင်ခွင့်မရဘူး" လို့။

ဒီနိုင်ငံဟာ လွတ်လပ်တဲ့ နိုင်ငံ တစ်နိုင်ငံပါဗျ။

ဒီလိုဆိုလည်း လွတ်လပ်စွာ လုပ်ခွင့်ကလေး နည်းနည်းပါးပါးရအောင် ခင်ဗျား ကိုယ်တိုင်ပဲ ကြိုးစားကြည့်ပေါ့လေ။

ကယ်လီဖိုးနီးယားမှာ အလုပ်သမားတွေဟာ လုပ်ခ အများကြီး ရတယ်တဲ့။ ကျုပ် ရထားတဲ့ လက်ကမ်းကြော်ငြာ စာရွက်ထဲမှာ သေသေချာချာကြီးကို ရေးထားတာဗျ။

တောက်တီးတောက်တဲ့။ ဘယ်ကလာ ဟုတ်ရမှာလဲ။ အဲဒီက ပြန်လာတဲ့ လူတွေနဲ့ ကျုပ် တွေ့ခဲ့ပြီးပြီ။ တစ်ယောက်ယောက်က ခင်ဗျားကို နောက်လှောင်လိုက်တာ ဖြစ်မယ်။ ကဲ ကဲ ခင်ဗျား စောစောက ကြည့်ထားတဲ့ တာယာကို ယူမှာလား။ မယူဘူးလား။

မယူလို့တော့ မဖြစ်တာ အမှန်ပဲ မစ္စတာ။ ဒါပေမဲ့ ဈေးက သိပ်များနေတယ်။ ကျုပ်တို့မှာလည်း ငွေက သိပ်မကျန်တော့ဘူး။ နည်းနည်းပါးပါးတော့ ဈေးပြင်ပေးပါဦး။

ကောင်းပြီလေ။ ဒီလိုဆိုလည်း ဒါနပြုတဲ့သဘောနဲ့ ဈေးလျှော့ပေးပါ့မယ်း။ ယူသွားပါတော့။

ယူရမှာလဲ ထင်ပါရဲ့ဗျာ။ တာယာကိုတော့ သေသေချာချာ ထပ်ကြည့်ဦးမှပဲ။ ဖွင့်ပြစမ်းပါဦး။ ဒီမယ် ကိုယ့်ဆရာ ခင်ဗျား တာယာကို ခင်ဗျား ပြန်ကြည့်စမ်းပါဦး။ ပါးစပ်က

ပြောတော့ အကောင်းတဲ့။ ခင်ဗျား တော်တော် သဘောကျချင့်ယုတ်တဲ့ လူပဲ။ ဟောဒီ နေရာမှာ အပေါက်ကြီးနဲ့။

ဟုတ်ပ့ါဗျာ။ အပေါက်ကြီးနဲ့ပါလား။ ဘယ်လိုဖြစ်တာပါလိမ့်။ ကျုပ် မမြင်မိတာ အမှန်ပဲ။

ခင်ဗျား သိရက်သားနဲ့ လုပ်တာပါဗျာ။ ကျုပ်တို့ကို ညာပြီး ချမလို့ပါ။ ကျုပ်တို့ သိပါတယ်။ အပေါက်ကြီးနဲ့ တာယာတစ်လုံးအတွက် ခင်ဗျားက ကျုပ်တို့ဆီက လေးဒေါ်လာတောင် ဆော်လို့ပါလား။ ခင်ဗျား မျက်ခွက်ကြီးကို လက်သီးစာ ကျွေးချင် လိုက်တာဗျာ။

ဒေါ်သမကြီးနဲ့လေ။ အပေါက်ကို ကျုပ် တကယ် မမြင်ခဲ့တာ။ အမှန်ပြောတာ။ ကဲ ဒီလို လုပ်ပေးမယ်။ ဒီတာယာကို သုံးဒေါ်လာခွဲနဲ့ ယူတော့။ ဟုတ်လား။

တော်ပြီ။ နောက်တစ်မြို့ရောက်မှပဲ ဝယ်တော့မယ်။

အဲဒီ တာယာနဲ့ အလုပ်မဖြစ်နိုင်ဘူးလား။ စဉ်းစားပါဦးကွာ။ ဖြစ်ရင်တော့ ယူလိုက်ပါတော့။

မယူဘူးဗျာ။ ဒီလူလိမ်ကောင်ကို ကျုပ် တစ်ပြားမှ မပေးတော့ဘူး။ တာယာမပါဘဲ ဝှေ့နဲ့ မောင်းရ မောင်းရ မောင်းမယ်။

မင်းကလဲကွာ။ ဈေးသည်ကို ဘယ်လိုများ မြင်နေလို့လဲ။ သူ ပြောသားပဲ မဟုတ်လားကွ။ နေထိုင်ကောင်းအောင်လို့ ဈေးရောင်းနေတာ မဟုတ်ဘူးတဲ့။ ရှင်းနေတာပဲ။ အမြတ်ရချင်လို့ ရောင်းတာပဲဟာ။ ဈေးသည်ဆိုတာ ဒီလိုပဲ ပြောမှာပေ့ါဟ။ ဒါက သူ့စီးပွားရေးပဲ။ သူ့ စီးပွားရေး လုပ်နေတာကို မင်းက ဘယ်လိုများ ထင်နေလို့လဲ။ စီးပွားရေးသမား ဆိုတဲ့ ကောင်မျိုးဟာ လိမ်ညာ ပြောရမှာပဲ။ သူ့အလုပ်က လိမ်ညာပြီး ယူဖို့ပဲကွ။ ဒါပေမဲ့ သူကတော့ အဲဒါကို နာမည်တစ်မျိုး ပေးထားတယ် ဆိုပါတော့ကွာ။ စောစောက တာယာကို မင်း သွားခိုးရင် မင်း သူခိုးတစ်ယောက် ဖြစ်သွားမယ်။ ဒါပေမဲ့ သူ လုပ်ပုံကလဲ တာယာအစုတ်တစ်လုံးပြပြီး မင်းဆီက လေးဒေါ်လာ ခိုးယူဖို့ ကြိုးစားခဲ့တာ မဟုတ်လား။ အေး အဲဒါကျတော့ သူတို့က စီးပွားရေးလုပ်ငန်းလို့ ခေါ်တယ်ကွ။

ဟာ ကားနောက်ထဲက ဒင်နီက ရေတစ်ခွက်လောက် သောက်ချင်လို့တဲ့။

စောင့်ရဦးမှာပဲ။ ဒီနေရာမှာ ရေမရနိုင်ဘူး။

နားထောင်စမ်း။ နောက်ဘက် အစွန်က ထွက်နေတဲ့အသံ။ အဲဒါ ဘာသံလဲ။

မပြောတတ်ဘူး။

ကြေးနန်းခုံပေါ်မှာ ကြေးနန်းရိုက်နေတဲ့ အသံလိုပဲ။

ဂတ်စကက် ပေါက်ပြီ ထင်တယ်။ မတတ်နိုင်ဘူးဗျာ။ ဆက်သွားရတော့မှာ။ ဂတ်စကက်က ထွက်နေတဲ့ လေချွန်သံကို နားထောင်စမ်း။ နားလို့ ကောင်းမယ့် နေရာ ကြည့်စမ်းပါဦးဗျာ။ ကျုပ် စက်ဖုံးဖွင့်ကြည့်ဦးမှ ဖြစ်မယ်။ ဒါပေမဲ့လေ ယူလာတဲ့ အစားအစာကလည်း ကုန်ခါနီးနေပြီ။ ငွေကလည်း သိပ်မကျန်တော့ဘူး။ ဘယ်လို လုပ်ကြမလဲ။ ဓာတ်ဆီသာ ထပ်ပြီး မဝယ်နိုင်ကြဘူး ဆိုရင်တော့ ခက်ပြီ။ ကျုပ်တို့ ဘယ်လို လုပ်ကြမလဲ။

ဒင်နီက ရေတစ်ခွက်လောက် သောက်ချင်လို့တဲ့။ ကောင်လေး အတော်ကို ရေငတ်နေပြီ။

ဂတ်စကက်က ထွက်လာနေတဲ့ အသံကို နားထောင်စမ်းပါ။ ကြားရဲ့လား။

အဲ အဲ သွားပြီ။ ဘီးပေါက်ပြီ။

ကားများသည် လမ်းဘေးသို့ ဆင်းလာသည်။ စက်ဖုံးများကို ဖွင့်ကြည့်သည်။ တာယာများကို ပြန်၍ ပြုပြင်သည်။ ထို့နောက် ကားများသည် ၆၆ လမ်းမပေါ်သို့ ဒယိမ်းဒယိုင်ဖြင့် ပြန်တက်ပြီး လမ်းမပေါ်အတိုင်း ဟိုယိမ်းသည်ထိုးဖြင့် ဆက်သွားသည်။ ကားတစ်စီးလုံး ပူလျက် ရှိ၏။ ပစ္စည်းများအားလုံးမှာလည်း ချောင်လျက် ရှိ၏။ ကားတစ်စီးလုံး အသံပေါင်းစုံ ထွက်လျက် ရှိလေသည်။

ဒင်နီက ရေသောက်ချင်လို့တဲ့။

၆၆ လမ်းမကြီး တစ်လျှောက် ထွက်ပြေးနေကြသည့် လူများ။ ပူပြင်းသော နေရောင်အောက်ဝယ် ကွန်ကရီ လမ်းမကြီးသည် မှန်ရောင် ထနေသည်။ သူတို့ရှေ့ ခပ်လှမ်းလှမ်း လမ်းမကြီးပေါ်၌ တလက်လက် ထနေသည့် တံလျှပ်များသည် ရေကန် တစ်ကန်ဟု ထင်ရလောက်ပေသည်။

ဒင်နီက ရေငတ်လို့တဲ့။

စောင့်ရဦးမှာပဲ။ သနားတော့ သနားစရာပဲ။ ရေ အတော်ဆာနေပုံ ရတယ်။ ပူတာလည်း သိပ်ပူတာကိုး။ နောက် ဓာတ်ဆီဆိုင်တစ်ဆိုင် ရောက်ရင်တော့ ရမှာပါ။

လမ်းမကြီးပေါ်မှ ထွက်ခွာသွားကြသည့် လူပေါင်း နှစ်သိန်းနှင့် ငါးသောင်းရှိသည်။ ကားအို ကားဟောင်း ငါးသောင်း ရှိသည်။ ဒင်္ဂါရာဒင်္ဂါချက် မျိုးစုံ ရထားသည့် ကားများ ဖြစ်၏။ ကားများမှ ထွက်နေသည့် မီးခိုးများမှာလည်း လမ်းပေါ်တွင် ထောင်းထောင်း ထလျက် ရှိ၏။ လမ်းဘေး တစ်ဖက်တစ်ချက်တွင် စွန့်ပစ်ထားခဲ့ကြသည့် ကားပျက်များ မှာလည်း အစုလိုက် အပြုံလိုက်။ ဒီလိုဆို သူတို့ ဘယ်လို ဖြစ်ကုန်ကြပါလိမ့်။ အဲဒီ ကားပျက်ထဲက လူတွေ ဘာဖြစ်ကုန်သလဲ။ သူတို့ ခြေကျင်သွားကြသလား။ အခု သူတို့ ဘယ်ရောက်နေကြသလဲ။ ခြေကျင် ဆက်သွားဖို့ သတ္တိ ဘယ်ကရပါလိမ့်။ သူတို့ရဲ့ ယုံကြည်ချက်ဟာ ဘယ်ကများ လာတာပါလိမ့်။

ဤအဖြစ် ဤပုံပြင်သည် ယုံကြည်ရန် ခက်ခဲသော ပုံပြင်တစ်ပုဒ် ဖြစ်ချေသည်။ သို့သော်လည်း ဤပုံပြင်သည် တကယ့် အဖြစ်မှန် ပုံပြင် ဖြစ်ပါ၏။ ဤပုံပြင်သည် ရယ်စရာလည်း ကောင်း၏။ အလွန် လှပသော ပုံပြင်တစ်ပုဒ်လည်း ဖြစ်၏။ စုစုပေါင်း ဆယ့်နှစ်ဦးမျှ ပါဝင်သော မိသားစုတစ်စု ရှိသည်။ ထိုမိသားစုသည် မြေပေါ်မှ ထွက်မပေးလျှင် မရသည့် အခြေအနေနှင့် ကြုံခဲ့ရ၏။ သူတို့တွင် ကားတစ်စီးပင် မရှိ။ ထိုအခါ ကတ္တူ တစ်စီးကို အနည်းငယ်မျှ ပြုပြင်ပြီး ထရပ်ကား နောက်မှ တွဲ၍ ဆွဲရသည့် နောက်တွဲ ပုံစံမျိုး ဖြစ်အောင် တည်ဆောက်သည်။ ထို့နောက် သူတို့ ပစ္စည်းများကို ထိုနောက်တွဲ အတွင်းသို့ စုပြုံထည့်ကာ ကြိုးဖြင့် ဆွဲယူပြီး ၆၆ လမ်းမကြီး ဘေး၌ ချ၍ ကူမည့်လူကို စောင့်မျှော်ကြသည်။ မကြာခင်မှာပင် ဆီဒင်ကား တစ်စီးက သူတို့အား ခေါ်သွားသည်။ ငါးယောက်က ဆီဒင်ကားထဲ၌ ထိုင်၍ ခုနစ်ယောက်နှင့် ခွေးတစ်ကောင်က နောက်တွဲထဲ၌ ထိုင်၍ လိုက်သွားကြသည်။ သူတို့သည် ကယ်လီဖိုးနီးယားသို့

ရောက်သွားကြလေသည်။ သူတို့ကို ခေါ်သွားသူကပင် သူတို့အား အစားအသောက် တာဝန်ယူ၍ ကျွေးမွေးသွားသည်။ ဤအဖြစ်သည် အဖြစ်မှန် တစ်ခုပင် ဖြစ်သည်။ သို့သော်လည်း ထိုသတ္တိမျိုး သူတို့တွင် ဘယ်လို ဖြစ်ပေါ်လာခဲ့သနည်း။ သူတို့ကိုယ်သူတို့ ယုံကြည်သော စိတ်မျိုးသည် ဘယ်နည်း ဘယ်ပုံဖြင့် တည်ရှိလာရပါသနည်း။ ထိုသတ္တိမျိုးနှင့် ထိုယုံကြည်မှုမျိုး ရရှိလာအောင် သင်ကြားပေးနိုင်သည့် အရာများမှာ မရှိသလောက်ပင် နည်းပါးလှပေသည်။

သူတို့သည် သူတို့နောက်ရှိ ကြောက်စရာ လန့်စရာ ဘေးဆိုးကြီးမှ လွတ်မြောက်ရာ လွတ်မြောက်ကြောင်း ထွက်ပြေးလာကြသော လူများ ဖြစ်သည်။ သူတို့အပေါ်၌ ကျရောက်လာသည့် အဖြစ်များမှာ အလွန်ထူးဆန်း၏။ အဖြစ်တချို့မှာ အလွန်တရာ နာကြည်းဖွယ် ကောင်းလောက်အောင်ပင် ရက်စက် ကြမ်းကြုတ်လွန်းလှပြီး အချို့ ဖြစ်ရပ်များမှာ အလွန် လှပလွန်းသဖြင့် သူတို့ ရင်ထဲ၌ ရာသက်ပန် တည်တံ့ နိုင်မြဲသွားမည့် ယုံကြည်မှုသည် အသစ်တစ်ဖန် ပြန်လည် နိုးထ ရှင်သန်လာရခြင်း ပေတည်း။

* * *

## အခန်း (၁၃)

ဝန်ပိုများ အဆမတန် တင်ထားသည့် အလွန်ရှေးကျသော ဟတ်ဆန် ကားအိုကြီးသည် ဆယ်လီဆောမြို့ ကားလမ်းမကြီးတစ်လျှောက် မောင်းလာပြီး အနောက်စူးစူးသို့ ဦးတည်နေသည့် လမ်းမ အတွင်းသို့ ချိုးဝင်သည်။ နေရောင်သည် မည်သည့်အရာကိုမှ ပြက်ပြက်ထင်ထင် မမြင်နိုင်အောင် ကာဆီးလျက် ရှိလေ၏။ သို့သော်လည်း အယ်လ်သည် ကွန်ကရိလမ်းမကြီးပေါ်၌ ကျရောက်နေသော သူ့ထရပ်ကား အရိပ်ကို တည်တည်ငြိမ်ငြိမ် ဖြစ်နေအောင် သတိနှင့် ထိန်း၍ မောင်းလျက် ရှိသည်။ ဆယ်လီဆောမြို့နှင့် ဂိုရီးမြို့သည် နှစ်ဆယ့်တစ်မိုင်မျှသာ ကွာ၏။ ဟတ်ဆန် ကားအိုကတော့ တစ်နာရီလျှင် သုံးဆယ့်ငါးမိုင်နှုန်းဖြင့် ပြေးသွားလျက် ရှိလေသည်။ ဂိုရီးမှ ဝါနာသို့ ဆယ့်သုံးမိုင်တိတိ ရှိ၍ ဝါနာမှ ချီကိုတာ အရောင် ဆယ့်လေးမိုင် ဝေးသည်။ ချီကိုတာမှ ထွက်သော် ဟင်ရက်တာ ရောက်သည်အထိ တောင်တက်လမ်း ခရီးရှည်တစ်ခု ဖြစ်၍ သုံးဆယ့်လေးမိုင်မျှ ဝေးသည်။ သို့သော်လည်း ထိုခရီး၏ အဆုံးတွင် မြို့အင်္ဂါရပ်နှင့် ညီညွတ်ပြည့်စုံသော မြို့တစ်မြို့ ရှိလေသည်။ ဟင်ရက်တာနှင့် ကာဆယ်လ်မြို့မှာ ဆယ့်ကိုးမိုင်မျှ ကွာသည်။ နေသည် သူတို့၏ ခေါင်းများအထက် တည့်တည့်တွင် ရောက်လျက် ရှိလေပြီ။ မွန်းတည့်နေ၏ ပြင်းထန်သော အပူရှိန်ကြောင့် လယ်ကွက် များသည် နီရဲသော အဆင်းကို ဆောင်လျက် ရှိကြကုန်၏။

အယ်လ်၏ မျက်နှာထားသည် တည်ငြိမ် ရင့်ကျက်သော ဣန္ဒြေကို ဆောင်လျက် ရှိသည်။ သူ့တစ်ကိုယ်လုံးသည် သူ့ကားအပေါ်၌သာ အာရုံစူးစိုက်လျက် ရှိ၏။ သူ့မျက်လုံးအစုံသည် လမ်းပေါ် ရောက်သွားလိုက် ကားဒိုင်ခွက်ပေါ်သို့ ပြန်ရောက် လာလိုက်နှင့် ဂနာမငြိမ် ဖြစ်လျက် ရှိသည်။ ကားတစ်စီးလုံးတွင် ကားအင်ဂျင်စက်နှင့် နှစ်ကိုယ့်တစ်စိတ် တွဲ၍ လိုက်လာသူမှာ အယ်လ် တစ်ဦးတည်းသာ ရှိလေသည်။ သူ့ခန္ဓာကိုယ်ပေါ်မှ ရှိရှိသမျှသော အကြောများသည် ကားတစ်စီးလုံးမှ ထွက်ပေါ် လာနေသမျှ အသံများ အပေါ်သာ ရောက်လျက်ရှိသည်။ သူ့ကားကို ရပ်သွားစေမည့် အသံများ ဖြစ်လေမလား ဟူသော စိုးရိမ်စိတ်ဖြင့် သူ့နားများကို အမြဲ စွင့်ထားသည်။ အယ်လ်သည် သူ့ကား၏ အသက်ဝိညာဉ် ဖြစ်လျက် ရှိလေသည်။

အယ်လ်၏ ဘေး၌ ထိုင်နေသော အဘွားဂျုတ်သည် အိပ်ချင်မူးတူး ဖြစ်နေရာမှ လန့်နိုးလာသည်။ မျက်လုံးများကို ဖွင့်၍ ကားလမ်းမကြီးဆီသို့ တစ်ချက်မျှ

မျှော်ကြည့်သည်။ ထို့နောက် ပြန်၍ မှိန်းကာ ငိုက်မြည်းနေပြန်လေသည်။ အဘွားဂျူတ်ဘေးရှိ အမေဂျူတ်၏ တံတောင်တစ်ဖက်သည် ကားပြတင်း၏ အပြင်သို့ ထွက်လျက်ရှိသည်။ ရက်ရက်စက်စက် ပူပြင်းလျက်ရှိသော နေရောင်အောက်တွင် အမေ့အသားများသည် နီမြန်းလျက် ရှိသည်။ အမေသည် ရှေ့တည့်တည့်ကိုသာ ကြည့်လျက်ရှိ၏။ သို့သော်လည်း အမေ့မျက်လုံးများသည် လမ်းမကြီးနှင့် လယ်ကွင်းများကိုလည်း မမြင်။ ဓာတ်ဆီဆိုင်များနှင့် လမ်းဘေး စားသောက်ဆိုင်ကလေးများကိုလည်း မတွေ့။ အမေ့မျက်လုံးများသည် တိမ်သလွှာ ဖုံးသည့်နှယ် ရှိသည်။ တကယ်တော့ အမေသည် ထရပ်ကား သွားနေစိုက်တွင် လမ်းဘေး ဝဲယာရှိ အရာဝတ္ထုများ အပေါ်၌ စိတ်ဝင်တစားနှင့် ကြည့်သွားသည် မဟုတ်။

ကျိုးပဲ့ပေါက်ပြဲနေသော ထိုင်ခုံပေါ်၌ ထိုင်နေသည့် အယ်လ်သည် နေရာပြင်ထိုင်လိုက်ကာ စတီယာရင် အပေါ်၌ ဆုပ်ကိုင်ထားသည့် လက်ကိုပါ နေရာပြောင်းလိုက်သည်။ ပြီးတော့ သက်ပြင်းချသည်။ "ကားတစ်စီးလုံး ကျွက်ကျွက်ကို ညံနေတာပဲ၊ ဒါပေမဲ့ ဘာမှတော့ ဖြစ်မယ် မထင်ပါဘူး၊ ကျုပ်တို့ အခု တင်လာတဲ့ ပစ္စည်းတွေနဲ့ တောင်တက်လမ်းကိုသာ တက်ရမယ် ဆိုရင်တော့ သူ ဘာဖြစ်သွားမလဲ ဆိုတာ ဘုရားသခင်မှပဲ သိမယ်၊ အခု ကျုပ်တို့ ရောက်နေတဲ့ နေရာနဲ့ ကယ်လီဖိုးနီးယား ကြားမှာ တောင်ကုန်းတွေ ရှိသေးသလား အမေ"

အမေ၏ ဦးခေါင်းသည် အယ်လ်ဘက်သို့ လှည့်လာသည်။ အမေ့မျက်နှာများသည် အသက်ပြန်ဝင်လာကြသည်။ "တောင်ကုန်းတွေတော့ ရှိတယ် ထင်တာပဲ" ဟု ပြောသည်။ "သေသေချာချာတော့ အမေလည်း မသိဘူး၊ ပြောသံ ကြားဖူးတာကတော့ တောင်ကုန်းတွေတင် မကဘူး၊ တောင်တန်းကြီးတွေတောင် ရှိတယ်တဲ့၊ အကြီးကြီးတွေတဲ့"

အဘွားဂျူတ်ထံမှ ပေါက်သံ တစ်ချက် ထွက်လာသည်။

"ဒီလိုဆိုရင်တော့ ခွကျတာပဲ၊ တောင်ပေါ်အတက်မှာ မီးထလောင်မှာတောင် ကြောက်ရတယ်၊ ကားပေါ်က ပစ္စည်း တချို့ကို ချပစ်ခဲ့ရင် ကောင်းမယ် ထင်တယ်၊ ကျုပ်တို့ ဟိုတရားဟောဆရာကို မတင်ခဲ့ရင် ကောင်းမှာ"

"အမေတို့ ခရီးမဆုံးခင်မှာပဲ ဒီတရားဟောဆရာကို တင်လာခဲ့မိတဲ့အတွက် ဝမ်းသာရမှာပါကွယ်" ဟု အမေက ပြောသည်။ "တရားဟောဆရာဟာ အမေတို့ကို

ကူညီသွားမှာပါ" အမေ့ဦးခေါင်းသည် ရှေ့သို့ ပြန်လှည့်သွားပြီး တပြောင်ပြောင် တလက်လက် ဖြစ်နေသော လမ်းမကြီးဆီသို့ ငေးမောနေသည်။

အယ်လ်သည် စတီယာရင်ကို လက်တစ်ဖက်ဖြင့် ကိုင်ထားပြီး ကျန်တစ်ဖက်ဖြင့် ဂီယာတံကို လှမ်းကိုင်သည်။ သူသည် စကားပြောလိုသော်လည်း မပြောနိုင်။ ပါးစပ်ကတော့ စကားပြောရန် အားယူလျက် ရှိသည်။ "အမေ" ဟူသော ခေါ်သံ ထွက်လာသည်။ အမေက ဖြည်းညင်းစွာ လှည့်ကြည့်သည်။ အမေ့ခေါင်းသည် ကားလှုပ်နေသည့် အရှိန်ဖြင့် မသိမသာကလေး ဘယ်ယိမ်းညာနွဲ့ ဖြစ်လျက် ရှိလေသည်။ "အမေ အခုလို သွားရတာ မကြောက်ဘူးလားဟင်၊ နေရာသစ် သွားရတာ ဆိုတော့ အမေ ကြောက်မှာပေါ့နော်"

အမေ့မျက်လုံးများသည် နူးညံ့ သိမ်မွေ့လာသည်။ အလေးအနက် ဆင်ခြင် စဉ်းစားနေသည့် အရိပ်လက္ခဏာများကိုလည်း ဖော်ပြလာသည်။ "နည်းနည်းပါပါးပေါ့ကွယ်" ဟု ဖြေသည်။ "သိပ်ပြီး ကြောက်လန့်နေတဲ့ ဟာမျိုးတော့ မဟုတ်ဘူးပေါ့လေ၊ အမေကတော့ ဖြစ်လာမယ့် ဟာတွေကို ထိုင်စောင့်နေတဲ့ သဘောပါပဲ၊ တစ်စုံတစ်ခု ဖြစ်လာလို့ အမေ လုပ်ရမယ့်အလုပ် ရှိလာရင် ထပြီး လုပ်လိုက်မှာပဲ"

"ကျုပ်တို့ ဟိုရောက်တဲ့အခါမှာ ဘာတွေများ ဖြစ်လာဦးမလဲ ဆိုတာမျိုးကော အမေ မတွေးမိဘူးလား၊ တကယ်လို့ ငါတို့ ထင်ထားတဲ့အတိုင်း မဖြစ်ရင်တော့ ဒုက္ခပါပဲလို့ တွေးပြီး ကြောက်တာမျိုးကော မဖြစ်ဘူးလား"

"မဖြစ်ဘူး" ဟု အမေက ချက်ချင်း အဖြေပေးသည်။ "အဲဒါမျိုးတော့ အမေ မဖြစ်ဘူး၊ မင်းလည်း မဖြစ်သင့်ဘူး၊ အမေလည်း မဖြစ်သင့်ဘူး၊ အဲသလောက် ဖြစ်ရင်တော့ သိပ်လွန်လွန်းသွားပြီ၊ အမေတို့ အသက်ရှင်ပြီး နေရဦးမယ့် အချိန်တွေက အများကြီး ကျန်သေးတယ်၊ တစ်ခုဖြစ်လာရင် အဲဒီတစ်ခုကိုပဲ အမေတို့ စဉ်းစားရမယ်၊ အားလုံးကို တွေးပြီး မပူပါနဲ့၊ မင်းအသက် ငယ်ငယ်လေးပဲ ရှိသေးတယ်၊ အမေ အခု လောလောဆယ် တွေးနေတာက ဒီလမ်း အကြောင်းပဲ၊ ပြီးတော့ သူတို့တစ်တွေကို ဘယ်အချိန်လောက်မှာ ဝက်ရိုးပြုတ် ထပ်ကျွေးရဦးမလဲ ဆိုတာ တွေးတယ်" အမေ့မျက်နှာသည် တင်းမာလာသည်။ "လောလောဆယ် အမေ လုပ်နိုင်တာက ဒါပဲ ရှိတယ်၊ ဒီထက်ပိုပြီး ဘာမှ မလုပ်ပေးနိုင်ဘူး၊ အမေက ဒီထက်ပိုပြီး လုပ်မပေးပြန်တော့လည်း ကျန်တဲ့လူတွေက စိတ်ထိခိုက်ကြ လိမ့်ဦးမယ်၊ သူတို့အားလုံးက အမေ့ကို မှီဖို့ စဉ်းစားနေကြတာကိုးကွယ့်"

အဘွားဂျုတ်သည် တစ်ချက်မျှ သမ်းလိုက်ပြီး မျက်လုံး ဖွင့်ကြည့်သည်။ သူ့မျက်လုံးများသည် ပျာယာခတ်လျက် ရှိသည်။ "ဟဲ့ ဟဲ့ ငါ ကားပေါ်က ဆင်းမှဖြစ်မယ်" ဟု ပြောသည်။

"ချုံပုတ်နားရောက်မှဆင်း အဘွား၊ ဟိုရှေ့မှာ ချုံပုတ်တစ်ခု ရှိတယ်" ဟု အယ်လ်က ပြောသည်။

"ချုံပုတ် ရှိရှိ မရှိရှိ ငါ ကားပေါ်က ဆင်းမှဖြစ်တော့မယ်၊ အခုချက်ချင်း ဆင်းမှဖြစ်မှာ ဟဲ့" အဘွားဂျုတ်ထံမှ ညည်းသံတစ်ချက် ထွက်လာသည်။ "ငါ ဆင်းမှ ဖြစ်မှာဟဲ့၊ ငါ ဆင်းမှ ဖြစ်တော့မှာ"

အယ်လ်က ကားအရှိန်ကို မြှင့်လိုက်သည်။ ခပ်လှမ်းလှမ်းရှိ ချုံပုတ်နားရောက်မှ ကားကို ရပ်ပေးသည်။ အမေက ကားတံခါးကို ကပျာကယာ ဖွင့်၍ အဘွားဂျုတ်ကို ဆွဲချသည်။ လမ်းဘေး ချုံပုတ်အတွင်းသို့ ဆွဲသွင်းသည်။ အမေက ဘေးမှကိုင်၍ ထိန်းပေးထားသဖြင့် အဘွားဂျုတ် ဆောင့်ကြောင့် ထိုင်ချလိုက်သည့် အချိန်တွင် လဲမကျသွားခြင်း ဖြစ်သည်။

ကားနောက်ထဲမှ လူစုသည် လှုပ်လှုပ်ရွရွ ဖြစ်လာကြသည်။ နေလောင်ထားသဖြင့် သူတို့ မျက်နှာများသည် နီရဲလျက် ရှိသည်။ တွမ်နှင့် ကက်ဆီ၊ နိုအာနှင့် ဦးလေးဂျွန်တို့သည် ကားပေါ်မှ ဆင်းကြသည်။ ရှုသီနှင့် ဝင်းဖီးတို့က ကားဘေးမှ ကျော်ခွ၍ ဆင်းကာ လမ်းဘေးရှိ ချုံပုတ်များဆီသို့ ပြေးကြသည်။ ကွန်နီကတော့ ရိုစာဟန်ကို ကားပေါ်မှ အသာအယာ ချီမပြီး ချပေးသည်။ ရွက်ထည်အောက်မှ အဘိုးဂျုတ်သည် အိပ်ပျော်နေရာမှ နိုးလာပြီး ရွက်ထည်အပြင်သို့ ခေါင်းပြူကြည့်သည်။ သူ့မျက်လုံးများသည် ဆေးမူး ပြေသေးဟန် မတူ။ အခုအချိန်ထိ ရီဝေမှုန်မှိုင်းနေဆဲ။ သူသည် တခြားလူများ လုပ်သမျှကို လိုက်၍ ကြည့်နေသော်လည်း သူတို့ ဘာလုပ်နေကြသည်ကို ရေရေရာရာ သိပုံမရ

တွမ်က သူ့ကို လှမ်းခေါ်သည်။ "အောက်ဆင်းဦးမလား အဘိုး"

အဘိုးဂျုတ်က နားဝေတိမ်တောင် ဖြစ်နေသော မျက်လုံးများဖြင့် တွမ်ကို လှမ်းကြည့်သည်။ "မဆင်းဘူး" ဟု ပြောသည်။ ဒေါသ အရိုးအငွေ့များသည် သူ့မျက်လုံး များတွင် တလက်လက် ထလာပြန်သည်။ "ငါ မလိုက်ဘူးလို့ မင်းတို့ကို ပြောခဲ့တယ်

မဟုတ်လား၊ ငါ မူလေး နေသလို နေခဲ့မယ်လို့ ပြောရက်သားနဲ့၊ ဟင်း" ထို့နောက် သူသည် သူ့စကားတွင် စိတ်ဝင်စားမှု ကင်းမဲ့သွားပြန်သည်။ အမေသည် အဘွားဂျုတ်ကို တွဲ၍ ပြန်ရောက်လာသည်။

"တွမ်ရေ" ဟု အမေက အသံပြုသည်။ "ဟို နောက်ဘက် ရွက်ထည်အောက်က ဝက်ရိုးပြုတ်အိုး ယူလိုက်တော့၊ အမေတို့ တစ်ခုခု စားကြဦးမှ ဖြစ်မယ်၊" တွမ်က အိုးကိုယူပြီး အားလုံးကို လက်ဆင့်ကမ်းသည်။ မိသားစုသည် လမ်းဘေးတွင် မတ်တတ် ရပ်ကာ ဝက်ရိုးများတွင် ကပ်နေသည့် အသားစများကို ကိုက်ဝါးကြသည်။

"ဒီဟင်းအိုးကို ယူလာမိတာ ငါတို့ ကံကောင်းတာပဲပေါ့" ဟု အဖေဂျုတ်က ရေရွတ်သည်။ "ကားပေါ်မှာ ထိုင်လိုက်ရပေမဲ့ မသက်သာပါဘူးကွာ၊ နည်းနည်းကလေး လှုပ်ချင်လို့တောင် လှုပ်လို့မရတော့ တစ်ကိုယ်လုံး တောင့်တင်းနေတာပဲ၊ ဩော် ဒါနဲ့ ငါတို့မှာ သောက်ရေ ပါလာတယ် မဟုတ်လား၊ ဘယ်နား ထားကြသလဲ"

"ကားနောက်ထဲမှာ ရှင်တို့နဲ့အတူတူ ထားတာပဲ၊ ကျွန်မ ဂါလန်ဝင်ပုံးနဲ့ ထည့်လာတယ်လေ" ဟု အမေက ပြောသည်။

အဖေဂျုတ်က ကားပေါ် ပြန်တက်ပြီး ရွက်ထည်အောက်တွင် ရေပုံးကို ရှာသည်။ "ဒီမှာတော့ မတွေ့ဘူး၊ ငါတို့ မေ့ကျန်ခဲ့ပြီနဲ့ တူတယ်ကွ"

ရေငတ်ခြင်းသည် အားလုံးကို ဖိစီးနှိပ်စက်သည်။ "ရေသောက်ချင်တယ်ဗျာ၊ ရေသိပ်ငတ်တာပဲ" ဟု ဝင်းဖီးက ညည်းသည်။ လူကြီးများသည် သူတို့ နှုတ်ခမ်းများကို လျှာနှင့်ထိုး၍ လျက်ကြသည်။ ချက်ချင်းပင် ရေကို အငမ်းမရ သောက်ချင်သောစိတ် ဖြစ်လာသည်။ သောက်ချင်နေသောရေ မရှိသောအခါ စိုးရိမ်ထိတ်လန့်စိတ် ဝင်လာသည်။

အားလုံး ပူပင်သောက ရောက်နေကြောင်း အယ်လ်က ရိပ်မိသည်။ "ဟိုရှေ့ကျရင် ဓာတ်ဆီဆိုင် တွေ့မှာပါ၊ ဓာတ်ဆီဆိုင်ရှိရင် ရေရှိရမှာပေါ့၊ ကားအတွက်လည်း ဓာတ်ဆီ ထည့်ရလိမ့်ဦးမယ်" အားလုံး တစ်ယောက်ပြီး တစ်ယောက် ကားပေါ် ပြန်တက်ကြသည်။ အမေသည် အဘွားဂျုတ်ကို တွဲ၍ ကားရှေ့ခန်းထဲ ပြန်တင်ပြီး သူ့နေရာတွင် ပြန်ထိုင်သည်။ အယ်လ်က ကားစက်ကို နှိုးသည်။ သူတို့သည် မဆုံးသေးသည့် ခရီးကို ဆက်ကြပြန်လေသည်။

ကာဆယ်မြို့နှင့် ပက်ဒင်းမြို့သည် နှစ်ဆယ့်ငါးမိုင်မျှ ကွာသည်။

မွန်းတိမ်းခဲ့လေပြီ။ နေသည် အောက်သို့ ဆင်းစပြုပြီ။ ရေတိုင်ကီအဖုံးသည် အပေါ်တက်သွားလိုက် အောက်ပြန်ကျလိုက်နှင့် တလှုပ်လှုပ် ယမ်းခါလျက် ရှိသည်။ အတွင်းမှ အခိုးအငွေ့များသည် အပြင်သို့ ကန်ထွက်လာလျက် ရှိ၏။ ပက်ဒင်းမြို့အဝင် လမ်းဘေးတစ်ဖက်တွင် သစ်သား တဲတစ်လုံး။ ထိုတဲ၏ရှေ့တွင် ဓာတ်ဆီပန့် နှစ်ခု။ တဲ၏ ဝင်းထရံဘေးတွင် ပိုက် အသင့်တပ်ထားသော ရေဘုံပိုင် တစ်ခု။ အယ်လ်သည် ကားကို ဝင်းထဲသို့ မောင်းဝင်သွားပြီး ရေပိုက်ကို ခေါင်းတိုက်၍ ရပ်သည်။ သူတို့ကို မြင်သောအခါ ဓာတ်ဆီပန့်နောက်၌ ကုလားထိုင် တစ်လုံးဖြင့် ထိုင်နေသည့် လူတစ်ယောက် ထလာသည်။ ကိုယ်လုံး ကိုယ်ထည် ဝဝတုတ်တုတ်။ မျက်နှာနှင့် လက်များမှာ နီရဲလျက် ရှိ၏။ ဇင်ထည် အထူစား အညိုရောင် ဘောင်းဘီရှည်နှင့်။ ကိုယ်ပေါ်တွင် ပိုလိုရှပ်လက်တို ဝတ်ထားသည်။ ခေါင်းပေါ်တွင် ဖိုက်ဘာ အထူစား ငွေရောင် နေကာဦးထုပ် ဆောင်းထားလေသည်။ သူ့နှာခေါင်းနှင့် သူ့မျက်လုံးများအောက်တွင် ချွေးသီး ချွေးပေါက်များ တွဲလွဲခိုနေကြသည်။ သူ့လည်ပင်းရှိ အရေးအကြောင်းများ ပေါ်တွင်လည်း ချွေးစီးကြောင်းများ အကြောင်းလိုက် ထင်လျက် ရှိကြ၏။ သူသည် ထရပ်ကားအနီးသို့ လျှောက်လာပြီး စူးစူးရဲရဲ ကြည့်သည်။ မျက်နှာထားက ခပ်ဆိုးဆိုး ခပ်တင်းတင်း၊ ရန့်ရင်းကြမ်းတမ်းမည့်ပုံ ပေါက်နေသည်။

"ဘာများ ဝယ်ကြမလို့လဲ၊ ဝယ်ဖို့ ခြမ်းဖို့ကော စိတ်ကူးရှိကြရဲ့လား၊ ဓာတ်ဆီလား၊ အစားအသောက်လား " ဟု မေးသည်။

အယ်လ်သည် ကားပေါ်မှ အောက်သို့ ဆင်းနှင့်ပြီးလေပြီ။ သူသည် ရေတိုင်ကီ အဖုံးကို ကပျာကယာ လှည့်ဖွင့်ပြီး သူ့လက်ကို အပူငွေ့ မဟပ်အောင် ဖျတ်ခနဲ ဆွဲယူလိုက်သည်။ "ဓာတ်ဆီ ထည့်မလို့ မစ္စတာ"

"ပိုက်ဆံကော ပါရဲ့လား"

"ပါတာပေါ့ဗျ၊ ဘာလဲ ခင်ဗျားက ကျုပ်တို့ကို သူတောင်းစားတွေ ထင်လို့လား"

လူဝကြီး၏ မျက်နှာပေါ်မှ တင်းမာမှုသည် တစ်မဟုတ်ချင်း ပျောက်သွားသည်။ "ဒီလိုဆိုတော့လည်း မင်းတို့ လူစုက ဘယ်ဆိုးလို့လဲ၊ ရေလေး ဘာလေး ဆင်းသောက် ကြဦးလေ" ဟု ဖိတ်မန္တကပြုသည်။ သူ ပြောလိုသည့် စကားများကိုလည်း အရေးတကြီးနှင့်

ဆက်ပြောသည်။ "လမ်းပေါ်မှာ သွားနေကြတဲ့ လူတွေက လမ်းနဲ့အပြည့် ဖြစ်နေတယ်၊ ဒီနားရောက်ရင် ရေဝင်သောက်ကြတယ်၊ သေးဝင်ပေါက်ကြတယ်၊ ချေးဝင်ယိုကြတယ်၊ အိမ်သာဆိုရင် ရစရာ မရှိတော့ဘူး၊ ညစ်ပတ် နံစော်နေတာပဲ၊ ပြီးတော့ ဘာလုပ် သွားကြတယ် ထင်သလဲ၊ ရသမျှ ပစ္စည်း အတိုအထွာတွေကို ခိုးသွားကြတယ်၊ ဘာမှဝယ်တာ ခြမ်းတာ မရှိဘူး၊ သူတို့မှာ ဝယ်စရာလည်း ပိုက်ဆံ မပါကြဘူး၊ ဒီကို ဝင်လာပြီး ဓာတ်ဆီ တစ်ဂါလန်လောက် ပေးပါလို့ တောင်းလိုက်ကြသေးတယ် "

တွမ်က ဒေါသတကြီးနှင့် ကားပေါ်မှ ခုန်ဆင်းပြီး လူဝကြီးထံသို့ လျှောက်သွားသည်။ "ကျုပ်တို့ ကိုယ့်ပိုက်ဆံနဲ့ကိုယ် ခရီးသွားနေတာဗျ" ဟု စိတ်ဆိုးမာန်ဆိုးဖြင့် ပြောသည်။ "ကျုပ်တို့ ခင်ဗျားဆီက ဘာကိုမှ အလကား မယူဘူး၊ နားလည်လား၊ ခင်ဗျား ကျုပ်တို့ကို အထင်သေးစရာ ဘာမှ မရှိဘူး"

"မသေးပါဘူးကွာ " ဟု လူဝကြီးက ပြန်ပြောသည်။ ချွေးသီးချွေးပေါက်များသည် ပိုလိုရှပ် လက်တိုအောက်မှ အပြင်သို့ ပေါက်ထွက်လာသည်။ အင်္ကျီတစ်ထည်လုံး ချွေးများဖြင့် နစ်လျက် ရှိလေသည်။ "ကဲ ကဲ ရေဆင်းသောက်ကြပါ၊ အိမ်သာဝင်ချင်လည်း ဝင်ကြပေါ့"

ဝင်းဖီးက ရေဘုံပိုင်ဆီ သွား၍ ဘုံပိုင်ခေါင်းကို ဖွင့်ကာ အောက်မှ ပါးစပ်ဟာခံပြီး ရေသောက်သည်။ ထို့နောက် သူ့ခေါင်းကို ရေဘုံပိုင်အောက်သို့ ထိုးခံလိုက်၏။ "ရေကလည်း မအေးဘူး " ဟု ရေရွတ်လေသည်။

"ဒီလူတွေ ဘယ်အရပ် ဘယ်ဒေသက လာကြမှန်းလဲ မသိဘူး" လူဝကြီးက သူ့စကားကို ဆက်သည်။ အခုကျတော့လည်း သူ အပြစ်ပြောလိုသူများသည် ဂျုတ်မိသားစု မဟုတ်တော့ပေ။ "နေ့စဉ် ဒီလမ်းပေါ်မှာ သွားနေတဲ့ မော်တော်ကား စီးရေ ငါးဆယ် ခြောက်ဆယ်လောက် ရှိတယ်၊ ကားတွေပေါ်မှာ ကလေးတွေရော အိမ်ထောင် ပရိဘောဂတွေရော စုပြုံပြီး တင်လာကြတာ ရှုပ်ပွနေတာပဲ၊ အားလုံး အနောက် ဘက်ကိုချည်း သွားနေကြတာ၊ ဘယ်အရပ်ကို သွားတာမှန်းလဲ မသိဘူး၊ ဘာများ လုပ်ကြမလို့လဲ မပြောတတ်ပါဘူး "

"သူတို့လည်း ကျုပ်တို့နဲ့ တစ်ခရီးတည်း သွားနေကြတဲ့ လူတွေပေါ့ဗျာ" ဟု တွမ်က ပြောသည်။ "အခြေစိုက်လို့ရမယ့် နေရာ တစ်နေရာကို လိုက်ရှာနေကြတာပေါ့၊ အဆင်ပြေပြေ နေသွားနိုင်ဖို့ပေါ့ဗျာ၊ ဒါပါပဲ"

"ဒီလူတွေ ဘယ်အရပ်ဒေသက လာကြတယ်ဆိုတာ ငါ မပြောတတ်ပါဘူး၊ ငါ ကိုယ်တိုင်လည်း ငါ့ဘဝလေး အဆင်ပြေအောင်လို့ ဒီနေရာမှာ လာပြီး အခြေစိုက်နေတာ၊ ငါ့ဆိုင်မှာ ကားသစ် ကားဟောင်းကြီးတွေ ဝင်ပြီး ဓာတ်ဆီ ထည့်ကြတယ်လို့ မင်း ထင်သလား၊ ဟင်း ဝေးပါသေးတယ်ကွာ၊ မထည့်ကြဘူးဟေ့၊ သူတို့က မြို့ထဲရောက်မှ ဆေးဝါရောင် သုတ်ထားတဲ့ ကုမ္ပဏီဆိုင်ကြီးတွေမှာ ဝင်ထည့်ကြတာ၊ ဒီလိုနေရာမျိုးကို သူတို့ မဝင်ဘူး၊ ဒီနေရာမှာ ရပ်ပြီး ဓာတ်ဆီထည့်တဲ့ လူတွေကတော့ အများအားဖြင့် ပိုက်ဆံများများ မရှိတဲ့ လူတွေပဲ များပါတယ်ကွာ"

အယ်လ်က ရေတိုင်ကီ အဖုံးကို သူ့လက်ညှိုးဖြင့် တောက်လိုက်သည်။ အဖုံးသည် တိုင်ကီထဲမှ ရေငွေ့၏ တွန်းကန်အားကြောင့် လေထဲသို့ ခုန်တက်သွားလေ၏။ တိုင်ကီထဲမှ ရေဆူသံ တပွက်ပွက် ထွက်လာနေသည်။ ထရပ်ကား အတွင်းရှိ ပစ္စည်းပုံထိပ်တွင် ရောက်နေသော အမဲလိုက်ခွေးသည် ဆောင့်ကြောင့် ထိုင်နေရာမှ ထရပ်သည်။ ကြောက်ရွံ့ တွန့်ဆုတ်သော ခြေလှမ်းများဖြင့် ပစ္စည်းများ၏ တစ်ဖက်အစွန်းသို့ လျှောက်သွားပြီး အောက်ဘက်သို့ ငုံ့ကြည့်သည်။ ဘုံပိုင်မှ ထွက်ကျနေသော ရေကို လှမ်းမျှော်ကြည့်ကာ တအီအီ ညည်းသံပေးသည်။ ဦးလေးဂျွန်က ကားပေါ်သို့ တက်သွားပြီး ခွေးကို လည်ပတ်ကြိုးမှ စုဆွဲကာ အောက်သို့ ချပေးသည်။ ခဏတော့ဖြင့် ခွေးသည် ကောင်းစွာ လမ်းမလျှောက်နိုင်။ သူ့ခြေထောက်များသည် မြေကြီးပေါ်၌ ကောင်းစွာ မထောက်နိုင်ဘဲ ပျော့တိ ပျော့ခွေ ဖြစ်လျက် ရှိသည်။ ထို့နောက် ရေဘုံပိုင်အောက်မှ ရေအိုင်သို့ သွား၍ ရေသောက်နေသည်။

လမ်းမကြီးပေါ်ဝယ် မော်တော်ကားများသည် ဝူးခနဲ ဝေါခနဲ ဖြတ်သန်းသွားလျက် ရှိကြ၏။ ကားများ ဖြတ်သန်းသွားသည့်အခါတိုင်း လမ်းမကြီးဘက်မှ လေပူကြီးသည် ဓာတ်ဆီဆိုင်ဝင်း အတွင်းသို့ ပြေးဆင်း ဝင်ရောက်လာတတ်သည်။ အယ်လ်လည်း ရေဘုံပိုင်မှ ပိုက်ဖြင့် ရေတိုင်ကီတွင် ရေဖြည့်လျက် ရှိလေသည်။

“ငါကလည်း လူချမ်းသာတွေဆီက ပိုက်ဆံများများ ရအောင်ယူပြီး ချမ်းသာအောင် လုပ်မယ်ဆိုတဲ့ စိတ်ကူးမျိုး မရှိပါဘူးကွာ” ဟု လူဝကြီးက ဆက်ပြောသည်။ “ကိုယ်ပိုင် စီးပွားရေး လုပ်ငန်းလေးတစ်ခု ရှိလာအောင်လို့ ကြိုးစားကြည့်နေတာပါ၊ အရောင်းအဝယ် လုပ်ငန်းလေးတစ်ခု ဆိုပါတော့ကွာ၊ ဘာပြုလို့လဲ ဆိုတော့ အခုသွားရင်းလားရင်းနဲ့ ငါ့ဆိုင်မှာ ဓာတ်ဆီကို ဝင်ထည့်တဲ့ လူတချို့ဟာ ဓာတ်ဆီဖိုး ပိုက်ဆံမပေးနိုင်တော့ ပစ္စည်းနဲ့ လဲသွားကြတယ်၊ သူတို့ ဓာတ်ဆီနဲ့ လဲသွားတဲ့ ပစ္စည်းတွေ ဟိုနောက်ခန်းထဲမှာ ရှိတယ်၊ အများကြီးပဲ၊ အိပ်ရာတွေ၊ ကလေး လက်တွန်းလှည်းတွေ၊ အိုးခွက် ပန်းကန်တွေ အမျိုးကို စုံနေတာပဲ၊ မိသားစုတစ်စု ဆိုရင် ဓာတ်ဆီ တစ်ဂါလန်အတွက် သူတို့ကလေးရဲ့ အရုပ်ကလေးတစ်ခု ပေးသွားတယ်၊ အဲဒီတော့ ဒီပစ္စည်းတွေနဲ့ ငါ ဘာလုပ်ရမလဲ၊ ပစ္စည်းအဟောင်း ရောင်းတဲ့ ဆိုင်တစ်ဆိုင် ဖွင့်ရမလား၊ ဟိုလူ တစ်ယောက်ဆိုရင် ဓာတ်ဆီ တစ်ဂါလန်အတွက် သူ့ဖိနပ်တွေကို ချွတ်ပေးတယ်၊ ရသမျှ ယူမယ်ဆိုတဲ့ ကောင်မျိုးသာဆိုရင် ဘာပြောကောင်းမလဲ၊ ပွပေါက်ပေါ့ကွာ” သူသည် အမေရျတ်ကို လှမ်းကြည့်ကာ စကားကို မဆက်တော့ဘဲ ရပ်လိုက်လေသည်။

ဂျင်ကက်ဆီသည် သူ့ခေါင်းကို ရေဘုံပိုင်အောက်၌ ထိုးခံထားသည်။ တစ်ခေါင်းလုံး ရွှဲရွှဲစိုလျက် ရှိ၏။ သူ၏ နဖူးပြောင်ကြီးပေါ်မှ ရေစက်များသည် လည်ပင်းအထိ စီးဆင်းကာ ထိုမှတစ်ဆင့် ရှပ်အင်္ကျီပေါ်သို့ ကျသည်။ သူသည် တွမ်၏ ဘေးတွင် ဝင်၍ ရပ်သည်။ “ဒီလိုဖြစ်ရတာ ဒီလူတွေရဲ့ အပြစ် မဟုတ်ဘူးဗျ” ဟု ဆိုသည်။ “ခင်ဗျား အိပ်နေတဲ့ အိပ်ရာကို ဓာတ်ဆီ တစ်ဂါလန်နဲ့ လဲရမယ်ဆိုရင် ခင်ဗျား လဲချင်မလား၊ စဉ်းစားကြည့်ပေါ့”

“ဟုတ်ပါတယ်၊ သူတို့ရဲ့အပြစ် မဟုတ်ဘူးဆိုတာ ကျုပ်လည်း သိပါတယ်၊ ဒီလမ်းပေါ်မှာ သွားနေကြတဲ့ လူတွေထဲက ကျုပ်နဲ့ စကားပြောခွင့်ရလိုက်တဲ့ လူမှန်သမျှဟာ လုံလောက်တဲ့ အကြောင်းတစ်ခုနဲ့ သွားနေကြတယ်ဆိုတာ ကျုပ် သိထားပါတယ်၊ ဒါပေမဲ့ သူတို့ ဘယ်ဒေသကို သွားကြမှာလဲ၊ ကျုပ် သိချင်နေတာ အဲဒါပဲ၊ ပြီးတော့ သူတို့ ဘာ လုပ်ကိုင်စားကြမှာလဲ၊ သူတို့မှာ အခု လုပ်စရာ ဘာအလုပ်မှ မရှိကြတော့ဘူးတဲ့၊ စိုက်ပျိုးရေးလည်း လုပ်လို့ မရတော့ဘူးတဲ့၊ အဲသလိုဆိုတော့ ကျုပ် မေးချင်တယ်၊ ခင်ဗျားတို့ ဘာလုပ်စားကြမလဲ၊ ကျုပ်ဖြင့် စဉ်းစားလို့မရဘူး၊ လူတိုင်းကိုလည်း ကျုပ် မေးကြည့်ခဲ့ဖူးတယ်၊ သူတို့လည်း မပြောတတ်ဘူး၊ လူတစ်ယောက်ဟာ သူ့ဖိနပ်နဲ့ ဓာတ်ဆီတစ်ဂါလန် ရအောင် လဲပြီး မိုင်တစ်ရာ ခရီးကို ဆက်ခဲ့တယ်၊ ဟိုရောက်ပြီဆိုတော့

သူ ဘာလုပ်မလဲ၊ ကျုပ်တော့ စဉ်းစားလို့ကို မရတော့ဘူး" သူသည် ငွေရောင် ဦးထုပ်ကို ချွတ်၍ နဖူးပေါ်မှ ချွေးစေးများကို လက်ဖဝါးဖြင့် သုတ်သည်။ တွမ်ကလည်း သူ့ခေါင်းပေါ်မှ ကတ်ဦးထုပ်ကို ချွတ်ကာ သူ့နဖူးတွင် စို့နေသည့် ချွေးသီးချွေးပေါက်များကို ဦးထုပ်နှင့် သုတ်သည်။ ရေဘုံပိုင်ဆီသို့ လျှောက်သွားပြီး သူ့ဦးထုပ်ကို ရေဆွတ်သည်။ ထို့နောက် ရေစင်သွားအောင် ညှစ်ပစ်လိုက်ပြီး ပြန်ဆောင်းသည်။

အမေသည် ကားထဲမှ သံခွက်တစ်လုံးကို အောက်မှနေ၍ လှမ်းနိုက်ကာ ရေသွားခပ်ပြီး အဘွားဂျုတ်ကို အလျင်တိုက်သည်။ ပြီးတော့မှ ကား ခြေနင်းခုံပေါ် တက်ရပ်ကာ အဘိုးဂျုတ်အား လှမ်း၍ တိုက်သည်။ အဘိုးဂျုတ်သည် ရေကို အာစိုသည် ဆိုရုံမျှသာ သောက်သည်။ အမေက ထပ်တိုက်တော့ ခေါင်းခါသည်။ အမေ့ကို ကြည့်နေသည့် အဘိုးဂျုတ်၏ မျက်လုံးများသည် ယခုအချိန်အထိ ကြည်ကြည်လင်လင် မရှိသေး။

အယ်လ်သည် ကားစက်နှိုးပြီး ဓာတ်ဆီပန့်ရှေ့ရောက်အောင် ပြန်ဆုတ်သည်။ "ကဲဗျာ ဆီ ထည့်ပေးပါတော့၊ ခုနစ်ဂါလန် ဆံ့တယ်" ဟု အယ်လ်က ပြောသည်။ "ဒါပေမဲ့ ခြောက်ဂါလန်ပဲထည့်၊ လျှံကျကုန်မှာ စိုးရတယ်"

လူဝကြီးက ဓာတ်ဆီပန့် ပိုက်ခေါင်းကို ဓာတ်ဆီတိုင်ကီ အပေါက်တွင်းသို့ ထိုးသွင်းလိုက်သည်။ "တကယ်ပြောတာပါ" ဟု သူပြောလက်စ စကားကို ပြန်ဆက်သည်။ "သူတို့ ဘယ်သွားကြမယ် ဆိုတာ ကျုပ် မသိဘူး"

"ကျုပ်ရဲ့ အရပ်ဒေသထဲမှာ ကျုပ်ကိုယ်တိုင် ခြေသလုံးအိမ်တိုင်လုပ်ပြီး ခြေကျင် လျှောက်သွားနေတာ အကြာကြီးပဲ၊ လူတိုင်း ဒီမေးခွန်းကို မေးနေကြတာပဲ၊ ငါတို့ ဘယ်သွားကြမလဲ၊ ကျုပ်စိတ်ထဲမှာတော့ ဘယ်ကိုမှ ရောက်မယ် မထင်ဘူး၊ အမြဲတမ်း လမ်းပေါ်မှာပဲ ရှိနေမှာပဲ၊ အမြဲတမ်း သွားနေရမှာပဲ၊ သွားပြီးရင်း သွားရင်းနဲ့ပဲ အချိန်တွေ ကုန်မှာပဲ၊ ဒီလူတွေ ဘာကြောင့် ဒါကို မတွေးမိကြတာလဲ၊ အခုဆိုရင် သူတို့အားလုံး ငြိမ်ငြိမ် မနေနိုင်ဘူး၊ သွားနေရတယ်၊ လူတွေအားလုံး တောက်လျှောက် သွားနေရတာပဲ၊ ဘာကြောင့်လဲဆိုတာ ကျုပ် သိနေတယ်၊ ဘယ်လိုဖြစ်ရတယ် ဆိုတာလည်း ကျုပ် သိနေတယ်၊ သူတို့ အခုလို သွားနေကြတာဟာ မသွားမဖြစ်လို့ သွားနေရတာပဲ၊ သွားကို သွားနေရမှ ဖြစ်မယ့် အခြေအနေ ဆိုက်နေတယ်၊ သူတို့ အခု ရနေတဲ့ဟာထက် ပိုပြီး

ကောင်းတဲ့ဟာကို လိုချင်ကြတော့ သွားနေရမှာပေါ့၊ သူတို့ လိုချင်တာကို ရနိုင်အောင် လုပ်ဖို့ကလည်း တခြားနည်းလမ်း မရှိတော့ဘူး၊ ဒီတစ်လမ်းပဲ ရှိတယ်၊ လိုလည်း လိုချင်နေတယ်၊ လိုလည်း လိုအပ်နေတယ်၊ ဒီလိုဆိုရင် ဘာလုပ်မလဲ၊ အပြင်ထွက်ရမယ်၊ ရအောင် လုပ်ရမယ်၊ လူတွေဟာ သိပ်ပြီး နာကြည်းလာတဲ့အခါမှ အရူးတွေလို ဖြစ်ပြီး တိုက်ချင် ခိုက်ချင် သတ်ချင် ဖြတ်ချင် ဖြစ်လာတတ်တယ်၊ ကျုပ်ဟာ ကျုပ်ရဲ့ နယ်မြေထဲမှာ လျှောက်သွားနေတဲ့ ကောင်ပါ၊ လူတွေအားလုံး အခု ခင်ဗျား ပြောသလို ပြောနေကြတာကို ကျုပ် ကြားခဲ့ရတာပဲ ”

လူဝကြီးသည် ဓာတ်ဆီပိုက်ကို ပြန်ဆွဲထုတ်လိုက်သည်။ ဓာတ်ဆီပန့် ဒိုင်ခွက်ပေါ်မှ မြားတံသည် သူ ထည့်ပေးခဲ့သည့် ဂါလန် အရေအတွက်ကို ညွှန်ပြနေသည်။ “ခင်ဗျား ပြောတာ ဟုတ်ပါတယ်၊ ဒါပေမဲ့ သူတို့ ဘာလုပ်ကြမလဲ၊ ကျုပ် သိချင်နေတာ အဲဒါပဲ”

တွမ်က စိတ်မရှည်သဖြင့် ဝင်ပြောသည်။ “အဲဒီဟာကိုတော့ ခင်ဗျား ဘယ်တော့မှ သိရမှာ မဟုတ်ဘူး၊ ကက်ဆီက ခင်ဗျား နားလည်အောင် ကြိုးစားပြီး ရှင်းပြနေတယ်၊ အဲဒီ ကြားထဲကပဲ ခင်ဗျားက ဒီမေးခွန်းကို ထပ်မေးနေတယ်၊ ခင်ဗျားဟာ မေးခွန်း မဟုတ်တော့ဘူး၊ သီချင်း ဖြစ်နေပြီ၊ သံပြိုင်ဆိုတဲ့ အပိုဒ်မျိုး ဖြစ်သွားပြီ၊ ကျွန်တော်တို့ ဘာလုပ်ကြမလဲ၊ ကျွန်တော်တို့ ဘာလုပ်ကြမလဲ၊ ဒါပဲ ထပ်တလဲလဲ ဆိုနေပေတော့၊ ခင်ဗျား ပတ်ဝန်းကျင်မှာ တစ်နယ်လုံး လှုပ်လှုပ်ရွရွ ဖြစ်နေတယ်၊ တစ်နေရာက တစ်နေရာကို သွားနေကြတယ်၊ လူတွေအားလုံး သေငယ်ဇောနဲ့ မျောနေကြတယ်၊ ခင်ဗျားလည်း မကြာခင်မှာ သူတို့နဲ့ရောပြီး သေချင် သေသွားမှာ၊ ဒါပေမဲ့ ခင်ဗျား ဘာမှတော့ သိသွားမှာ မဟုတ်ဘူး၊ ခင်ဗျားလို လူစားမျိုးတွေ ကျုပ် အများကြီး တွေ့ခဲ့ဖူးတယ်၊ တကယ်တမ်းကျတော့ ခင်ဗျားတို့ လူစားတွေဟာ ဘာကိုမှ ရေရေရာရာ သိချင်တဲ့ လူစားတွေ မဟုတ်ပါဘူး၊ အဲဒီတော့ ကျွန်တော်တို့ ဘာလုပ်ကြမလဲ ဆိုတဲ့ မေးခွန်းကို အိပ်ရာဝင်တဲ့အခါတိုင်း အိပ်ရာဝင် သီချင်းလေး လုပ်ပြီး ဆိုနေပေတော့”

တွမ်က စကားကို အဆုံးသတ်လိုက်ပြီး ဓာတ်ဆီပန့်ကို လှမ်းကြည့်သည်။ ဆီပန့်မှာ သံချေး အထပ်ထပ် တက်နေသော ပစ္စည်းဟောင်း ဖြစ်၏။ ဓာတ်ဆီပန့်၏ နောက်ဘက်ရှိ တဲမှာလည်း သစ်ရိုင်း အဟောင်းအမြင်းများဖြင့် ဆောက်ထားခြင်း ဖြစ်၏။ ပထမတစ်ကြိမ် သုံးစဉ်က ကျန်ရစ်ခဲ့သော သံရာ အပေါက်များကို မြင်တွေ့နေရသည်။ အဆောက်အအုံတစ်ခုလုံးကို ဆေးဝါရောင် သုတ်ထားသည်။ မြို့ပေါ်မှ ကုမ္ပဏီပိုင်

ဓာတ်ဆီဆိုင်များနှင့် တူအောင် ဖန်တီးထားခြင်းပေတည်း။ သို့သော်လည်း သုတ်ထားသည် ဆေးဝါရောင်များသည် သစ်သားများပေါ်မှ သံအရာပေါက်ဟောင်းများနှင့် အကွဲအအက် များကို လုံးဝ ကွယ်ပျောက်သွားအောင် ဖုံးကွယ်နိုင်စွမ်း မရှိချေ။ ဆေးအထပ်ထပ် သုတ်ထားသော်လည်း အဟောင်းသည် အသစ် ဖြစ်မလာတော့ပေ။ ကုမ္ပဏီပိုင် ဆိုင်များနှင့် တူအောင် လိုက်၍ အတုခိုးပါသော်လည်း မတူချေ။ ဆိုင်ပိုင်ရှင် ကိုယ်တိုင်ကလည်း မတူမှန်း သိနေ၏။

အိမ်ရှေ့ဘက်ရှိ ပွင့်နေသော တံခါးမှ လှမ်းကြည့်လျှင် အတွင်းဘက်မှ ဓာတ်ဆီပီပါ နှစ်လုံးကို မြင်နေရသည်။ ပီပါမှ နှစ်လုံးမျှသာ ရှိ၏။ စင်ငယ်တစ်ခုပေါ်တွင်မူ ချိုချဉ်၊ အဖျော်ရည်နှင့် စီးကရက်မျိုးစုံ တင်ထားသည်။ ပစ္စည်းအားလုံးမှာ လတ်ဆတ် သန့်ရှင်းပုံမရ။ ပြီးတော့ ကျိုးပျက်နေသော ကုလားထိုင် တစ်လုံးနှင့် ပေါက်နေသော ယင်လုံ သံဇကာ တစ်ချပ်ကိုလည်း မြင်တွေ့နေရသည်။ နောက်ဘက်တွင် သမံတလင်း ခင်းထားသင့်သည့် မြေကွက်လပ်တစ်ခု ရှိ၍ ထိုမြေကွက်လပ်၏ နောက်တွင် ဂျုံခင်းတစ်ခင်း။ ဂျုံပင်များသည် ပူပြင်းသော နေရောင်အောက်တွင် အသက်ငင်လျက် ရှိကြလေသည်။ အိမ်ဘေးတွင်မူ တာယာအဟောင်းပုံ တစ်ပုံ ရှိသည်။

တွမ်သည် လူဝကြီး၏ ကိုယ်ပေါ်မှ အပေါစား ပိုလိုရှပ်၊ ခါးပေါ်မှ အပေါစား ဘောင်းဘီနှင့် ခေါင်းပေါ်မှ အပေါစား ဖိုက်ဘာစက္ကူ ဦးထုပ်များကို အခုမှပင် သတိထားမိသည်။ "ကျုပ် ခင်ဗျားကို ရန်စကား ပြောနေတာ မဟုတ်ပါဘူး၊ ရာသီဥတုက ပူလွန်းအားကြီးတာနဲ့ စိတ်တိုသလို ဖြစ်သွားရတာပါ၊ အမှန်အတိုင်း ပြောရရင်တော့ ခင်ဗျားအနေနဲ့ ဘာမှဖြစ်မှာလည်း မဟုတ်ပါဘူး၊ ဘာမှ ရမှာလည်း မဟုတ်ဘူး၊ မကြာခင် ခင်ဗျား ကိုယ်တိုင် လမ်းပေါ် ရောက်သွားမှာပဲ၊ ခင်ဗျားကို လမ်းပေါ်ရောက်သွားအောင် လုပ်တဲ့အရာတွေက ထွန်စက်တွေတော့ မဟုတ်ပါဘူး၊ မြို့ပေါ်က ဆေးဝါရောင် သုတ်ထားတဲ့ ဓာတ်ဆီဆိုင်ကြီးတွေပဲ ဖြစ်မယ်၊ အခု လူတွေအားလုံး လမ်းပေါ်မှာ လျှောက်သွားနေကြရတယ် မဟုတ်လား" တွမ်က ရုတ်တရက် စကားမဆက်။ ဆက်ပြော ရမည်ကို အားတုံ့အားနာ ဖြစ်ဟန်ဖြင့် ရပ်ထားသည်။ "ပြီးမှ ခင်ဗျားလည်း လမ်းပေါ် လျှောက်သွားနေရတော့မှာပါ မစ္စတာ"

လူဝကြီးသည် ဓာတ်ဆီပိုက်ကို ကိုင်၍ တွမ် ပြောနေသမျှကို စိတ်ဝင်တစား နားထောင်သည်။ စိုးရိမ်သောက မကင်းသော မျက်နှာထားဖြင့် တွမ်၏ မျက်နှာကို

ကြည့်သည်။ ကြံရာမရ ဖြစ်နေသော လေသံဖြင့် "မင်းက ဒါတွေကို ဘယ်လိုနည်းနဲ့ သိနေတာလဲ" ဟု မေးသည်။

"ဒီကိစ္စက လူတိုင်းမှာ ဖြစ်နေတာပဲ" ဟု ကက်ဆီက ဝင်ဖြေသည်။ "ကျုပ်ဟာ မသမာတဲ့ နတ်ဆိုးနတ်ယုတ် နတ်မိစ္ဆာတွေကို ရှိသမျှ အင်အားနဲ့ ဆန့်ကျင် တိုက်ခိုက်နေတဲ့ လူတစ်ယောက်ပါ၊ ဒါပေမဲ့ အခု ဖြစ်နေတာက နတ်ဆိုး နတ်ယုတ်တွေထက် အဆပေါင်းများစွာ ပိုပြီး ဆိုးရွားတဲ့ အရာတစ်ခုက ဒေသတစ်ခုလုံးကို လွှမ်းမိုးချုပ်ကိုင် နေတာ၊ ဖြစ်နိုင်ရင်တော့ အဲဒီဟာကြီးကို မိမိရရ ချုပ်ကိုင်ပြီး လည်ပင်းကနေ ပိုင်းလိုက်၊ ဒါတောင်မှ သူ့ခေါင်းက ပြတ်မသွားဘဲ တွဲလောင်း ဖြစ်နေမှာ စိုးရသေးတယ်၊ အဲဒီတော့ မိမိရရ ဖြတ်ပြီး ခေါင်းကို တစ်နေရာမှ သံမှိုနဲ့ အသေရိုက်ထားလိုက်မှ ဖြစ်မှာ၊ ဒါတောင် မြေပေါ်မှာ လဲကျ ကျန်ရစ်ခဲ့တဲ့ သူ့အလောင်းကောင်ထဲက အဆိပ်သွေးတွေဟာ သူ သွားနဲ့ ကိုက်ဖြတ်ထားလို့ ဖြစ်ပေါ်နေတဲ့ အပေါက်ထဲကို တစ်စက်ချင်း တစ်စက်ချင်း ကျနေမှာ ကြောက်ရ သေးတယ်" ဟု ကကတ်ဆီက စကားကို ဆက်မပြောတော့ဘဲ တွမ်ကို လှမ်းကြည့်သည်။

လူဝကြီးသည် ခါတ်ဆီပိုက်ကို ပြန်မချိတ်သေးဘဲ မျှော်လင့်ချက် ကင်းမဲ့သော မျက်နှာထားဖြင့် သူ့ရှေ့တည့်တည့်ကို မျှော်ကြည့်ကာ တွေဝေ ငေးမောနေသည်။ "ကျုပ်တို့မှာ ဘာတွေ ဖြစ်လာဦးမလဲဆိုတာ ကျုပ်လည်း မသိတော့ဘူး" ဟု ခပ်တိုးတိုး ရေရွတ်သည်။

ကွန်နီနှင့် ရိုစာဟန်တို့ကတော့ ရေဘုံပိုင် အနီးတွင် ရပ်ကာ နှစ်ကိုယ်ကြား တီးတိုးလေသံဖြင့် စကားပြောလျက် ရှိကြလေ၏။ ကွန်နီသည် သူ့လက်ထဲမှ သောက်ရေခွက်ကို အလျင်ဆေးသည်။ ထို့နောက် ရေအေး မအေး သူ့လက်ချောင်းများနှင့် ခံ၍ စမ်းကြည့်သည်။ ရိုစာဟန်သည် လမ်းမကြီးပေါ်မှ တဝေါဝေါ ဖြတ်သန်း သွားလာ နေကြသော ကားများကို ကြည့်နေသည်။ ကွန်နီက သောက်ရေခွက်ကို ရိုစာဟန်အား လှမ်းပေးသည်။ "ရေကတော့ မအေးဘူး" ဟု ပြောသည်။

ရိုစာဟန်က သူ့ကို ကြည့်၍ ပြုံးသည်။ ရိုစာဟန်၏ အပြုံးမှာ ပဟေဠိဆန်သော အပြုံး။ အခုအချိန်မှာတော့ဖြင့် ကိုယ်ဝန်သည် ဖြစ်နေသော ရိုစာဟန်သည် နေရာတိုင်းတွင် ပဟေဠိ ဆန်နေရုံမျှမက နှုတ်လည်း အလွန်ဆိတ်သည်။ ယင်းကဲ့သို့ ပဟေဠိ

ဆန်နေခြင်းနှင့် နှုတ်ဆိတ်နေခြင်းများသည် လေးနက်သော အဓိပ္ပာယ်များကို ဆောင်နေသည်ဟု ထင်ရသည်။ ရိစာဟန်သည် ကိုယ်ဝန်ရှိကတည်းက သူ့ကိုယ်သူ အလွန် အားရ ကျေနပ်လျက် ရှိ၏။ ရေးကြီးခွင်ကျယ် မလုပ်သင့်သည့် အသေးအဖွဲ ကလေးများကိုပင် အကြီးအကျယ် သဘောထားကာ ပြဿနာ လုပ်ချင်တတ်သည်။ ကွန်နီအပေါ်တွင် နွဲ့ဆိုးဆိုးချင်သည်။ မဟုတ်က ဟုတ်က အလုပ်တွေကို ကြံကြံဖန်ဖန် ရှာရှာပေါက်ပေါက် ခိုင်းချင်တတ်သည်။ ကလေးကလားဆန်ပြီး ငယ်မူ ပြန်နေကြသည့် သူတို့အဖြစ်ကို သူတို့ကိုယ်တိုင်လည်း သတိထားမိကြ၏။ ကိုယ်ဝန်ရှိနေခြင်း ဟူသော အံ့သြစရာ အဖြစ်ကလည်း သူ့စိတ်ကို အလွန် ကြည်နူးစေခဲ့သည်။ ရိစာဟန်က နောက်ပြောင် ကျီစယ်လိုသော အပြုံးကို ပြုံးလျှင် သူကလည်း နောက်တောက်တောက် ပြောင်စပ်စပ် မျက်နှာပေးဖြင့် ပြန်၍ ပြုံးတတ်သည်။ ပြီးတော့ နှစ်ယောက်သား တီးတိုးစကား ဆိုတတ်ကြသည်။ ဤသို့ဖြင့် သူတို့သည် သူတို့၏ သီးသန့်ကမ္ဘာလေး တစ်ခုကို တည်ဆောက်ထားကြလေသည်။ ထိုကမ္ဘာလေး၏ အလယ်တွင် သူတို့နှစ်ဦးသာ ရှိ၏။ သူတို့နှစ်ဦး ပြောနေကြသည့် စကားများမှာလည်း သူတို့နှစ်ဦးသာလျှင် နားလည်သည့် လျှို့ဝှက်နက်နဲသော စကားများသာလျှင် ဖြစ်ချေသည်။

ရိစာဟန်သည် လမ်းမကြီးပေါ် စူးစိုက်ထားသည့် သူ့အကြည့်ကို ပြန်၍ သိမ်းလိုက်သည်။ "ရေတော့ သိပ်မငတ်ပါဘူး၊ ဒါပေမဲ့ သောက်ထားမှ ကောင်းမယ် ထင်တယ်နော်" ဟု ပြောသည်။

ရိစာဟန်၏ စကားအဓိပ္ပာယ်ကို နားလည်လိုက်သော ကွန်နီက ခေါင်းညိတ်ပြသည်။ ရိစာဟန်က ရေခွက်ကို လှမ်းယူပြီး တစ်ခွက်လုံးကုန်အောင် သောက်လိုက်သည်။ "ယူဦးမလား" ဟု ကွန်နီက မေးသည်။

"တစ်ဝက်လောက် "

ကွန်နီက ရေတစ်ဝက် ထပ်ခပ်ပေးသည်။ ငွေရောင် ပြေးနေသော လင်ကွန်းဇက်ဖာ အမျိုးအစား ကားငယ်တစ်စီးသည် ဝှီးခနဲ ဖြတ်သွားသည်။ ရိစာဟန်က တခြားလူများ ရှိရာဘက်သို့ တစ်ချက်မျှ လှမ်းကြည့်ပြီး အကဲခတ်သည်။ အားလုံး ထရပ်ကား အနီးတွင် စုပြုံနေကြသည်။ သူတို့ကို ကြည့်နေသူ မရှိ။ "အဲဒီကားနဲ့ နှစ်ယောက်တည်း မသွားချင်ဘူးလား"

ကွန်နီက သက်ပြင်းချသည်။ "ကောင်းတာပေါ့၊ နောက်ကျတော့ ဖြစ်လာမှာပေါ့" ကွန်နီ ဆိုလိုသည့် အဓိပ္ပာယ်ကို ရိုစာဟန်က နားလည်သည်။ "တကယ်လို့ ကယ်လီဖိုးနီးယားမှာ အလုပ်အကိုင်ပေါရင် တို့မှာ ကိုယ်ပိုင်ကား ရှိလာမှာပေါ့၊ ဒါပေမဲ့ ဒီကားတွေက..." သူတို့ မျက်စိများအောက်မှ ပျောက်ကွယ်သွားသည့် ဖက်ဖာကားဆီသို့ လက်ညှိုးထိုးပြသည်။ "ဈေးသိပ်ကြီးတယ်၊ အိမ်ကောင်းကောင်း တစ်လုံးဖိုးလောက် ပေးရတာ၊ ကိုယ်ကတော့ အိမ်ပဲ လိုချင်တယ်"

"ကျွန်မလည်း အိမ်ပိုင် လိုချင်ပါတယ်၊ ပြီးတော့ အဲဒီ ကားမျိုး တစ်စီးလည်း ရချင်တယ်" ဟု ရိုစာဟန်က ဆိုသည်။ "ဒါပေမဲ့ အိမ်ကိုတော့ ပထမ ဦးစားပေးရမှာပေါ့ ဘာပြုလို့လဲ ဆိုတော့.." ရိုစာဟန်က စကားကို အဆုံးမသတ်။ သို့သော်လည်း သူ ဘာဆိုလိုသည်ကို နှစ်ဦးစလုံးကို သဘောပေါက်သည်။ သူတို့သည် ကိုယ်ဝန်အတွက် အလွန်အမင်း စိတ်လှုပ်ရှားလျက် ရှိကြလေသည်။

"မင်း နေကောင်းပါတယ်နော် " ဟု ကွန်နီက မေးသည်။

"နည်းနည်း မောတယ်၊ နေပူကြီးထဲမှာ ကားစီးလာရတော့ ပင်ပန်းတာပေါ့"

"ဒီလိုမှ မလာရင်လည်း မဖြစ်ဘူး၊ ကယ်လီဖိုးနီးယားကို ရောက်မှာ မဟုတ်တော့ဘူး "

"သိပါတယ် " ဟု ရိုစာဟန်က ဖြေသည်။

ခွေးသည် အနံ့တရှူရှူလုပ်ကာ ဟိုမှ သည်မှ လူးလာ ခေါက်ပြန် လျှောက်သွားလျက် ရှိသည်။ ပထမဆုံး ထရပ်ကားဘက်သို့ သွားသည်။ ချက်ချင်း ပြန်လှည့်လာပြီး ရေဘုံပိုင် အနီးသို့ ရောက်လာသည်။ ရွံ့ဗွက်များ ထနေသော ရေအိုင်ထဲတွင် တစွပ်စွပ်လျှောက်သည်။ ထို့နောက် နှုတ်သီးကို အောက်စိုက်ပြီး နားရွက်နှစ်ဖက်ကို စွင့်ထောင်ကာ နောက်သို့ ပြန်လှည့်သွားသည်။ လမ်းမကြီးဘေးရှိ ဖုန်များ ကပ်ငြိနေသော ချုံပုတ်များကြားသို့ ဝင်ရောက် ပျောက်ကွယ်သွား သည်။ ခဏနေတော့ လမ်းမကြီး၏ ဘေးပလက်ဖောင်းပေါ်တွင် ပြန်ပေါ်လာသည်။ ခွေးသည် ခေါင်းကို မော့လိုက်ပြီး လမ်းမကြီး၏ တစ်ဖက်ကို မျှော်ကြည့်သည်။ ထို့နောက် လမ်းမကြီးပေါ်သို့ ဆင်းသည်။ ရိုစာဟန်၏ စူးစူးဝါးဝါး အော်သံ။ အရှိန်ပြင်းစွာ

မောင်းလာသော ကားကြီးတစ်စီး၏ ဘရိတ်အုပ်သံ။ လမ်းမနှင့် ပွတ်ဆွဲသွားသည့် ဘီးသံများ။ လမ်းလယ်တွင် ရောက်နေသော ခွေးသည် မရှောင်နိုင် မတိမ်းနိုင်ဖြစ်ကာ ကားကြီး၏ ဘီးများအောက် ရောက်သွားသည်။ ကားကြီးသည် တစ်ခဏမျှ အရှိန်တန့်သွားပြီး ကားခေါင်းသည် နောက်သို့ ပြန်လည်သွားသည်။ သို့သော်လည်း ချက်ချင်းပင် ပြန်လှည့်ကာ အရှိန်ပြင်းစွာဖြင့် ဆက်ထွက်သွားသည်။ ခွေးသည် လမ်းမ အလယ်ရှိ သွေးအိုင်ထဲတွင် လဲကျ ကျန်ရစ်ခဲ့သည်။ အူများသည် အခွေလိုက် ထွက်ကျလိုက် ရှိ၏။ ခြေထောက်များသည် ဆိုးခနဲ ဆတ်ခနဲ လှုပ်ကာ အသက်ငင်လျက် ရှိလေသည်။

ရိုစာဟန်၏ မျက်လုံးများသည် ပြူးလျက် ရှိသည်။ "သူ့ကိုများ ထိခိုက်မလားဟင်၊ သူ့ကိုများ ထိခိုက်မလား"

ကွန်နီက သူ့လက်ဖြင့် ရိုစာဟန်၏ ခါးကို ဖက်လိုက်သည်။ "လာ လာ ဟိုမှာ ထိုင်ရအောင်၊ အလကားပါ၊ ဘာမှ မဖြစ်ပါဘူး" ဟု ပြောသည်။

"ဒါပေမဲ့ အထဲက လှုပ်သွားတယ်၊ ကျွန်မ လန့်ပြီး အော်လိုက်တော့ အထဲက လှုပ်သွားတယ်၊ စူးခနဲလည်း နာသွားတယ်"

"လာပါ၊ ဒီမှာ ထိုင်စမ်းပါ၊ ဘာမှ မဖြစ်နိုင်ပါဘူး" ကွန်နီက ရိုစာဟန်ကို ထရပ်ကားဆီသို့ ပြန်ခေါ်လာသည်။ အသက်ငင်နေသော ခွေးကို မမြင်နိုင်မည့် ကားခြေနင်းခုံပေါ် ထိုင်ခိုင်းသည်။

တွမ်နှင့် ဦးလေးဂျွန်တို့က သွေးအိုင်ထဲ လဲနေသော ခွေးကို သွားကြည့်သည်။ ကြေမွနေသော ခန္ဓာကိုယ်ထဲမှ နောက်ဆုံး လှုပ်ရှားမှုကို မြင်လိုက်ရသည်။ တွမ်က ခွေးသေကောင်ကို ခြေတစ်ဖက်မှ တရွတ်တိုက်ဆွဲကာ လမ်းဘေးသို့ ပို့သည်။ ဦးလေးဂျွန်၏ မျက်နှာမှာ မသာမယာ ဖြစ်လျက် ရှိ၏။ "ငါ သူ့ကို ကြိုးနဲ့ ချည်ပေးထားရင် အကောင်းသားကွာ" ဟု စိတ်မကောင်းသံဖြင့် ရေရွတ်သည်။

အဖေသည် ခွေးသေကို အတန်ကြာမျှ ငုံ့ကြည့်သည်။ "ကဲကွာ၊ ဒီနေရာက သွားကြပါစို့ရဲ့" ဟု ပြောသည်။ "တကယ်တော့လည်း သူ့ကို ဘယ်လို ကျွေးမွေး ထားရမှန်းတောင် မသိသေးပါဘူးလေ"

လူဝကြီးသည် ထရပ်ကားနောက်မှ ထွက်လာသည်။ “စိတ်မကောင်းစရာပဲဗျာ” ဟု ပြောသည်။ “ကားလမ်းမကြီးနား နေတဲ့ ခွေးများဟာ သက်ဆိုးမရှည်လှပါဘူးဗျာ၊ ကျုပ် ခွေးသုံးကောင်ဟာ ဒီနှစ်ထဲမှာ ကားတိုက်လို့ချည်း သေတာပဲ၊ ကျုပ်လည်း စိတ်ပျက်တာနဲ့ နောက်ထပ် မမွေးတော့ဘူး၊ ဒီခွေးသေ အတွက်တော့ ခေါင်းရှုပ်ခံမနေပါနဲ့၊ ဟောဟို ဘက်က ဂျုံခင်းထဲမှာ တွင်းတူးပြီး မြှုပ်လိုက်ပါ့မယ်”

အမေသည် ရိုစာဟန်၏ အနီးသို့ ရောက်လာသည်။ ရိုစာဟန်သည် ယခုအချိန်ထိ တုန်လှုပ်ဆဲ။ “နင် ဘာမှ မဖြစ်ဘူးနော်” ဟု မေးသည်။ “စိတ်ထဲမှာ ဘယ်လိုမှ မနေဘူးနော်”

“သမီး မြင်လိုက်ရတယ် အမေ၊ သမီးကို တွဲပါဦး”

“အင်း၊ နင့်အော်သံကို ငါ ကြားလိုက်တယ်၊ ကဲ ထ”

“ဗိုက်ထဲက ကလေး ဘာမှမဖြစ်နိုင်ပါဘူးနော် အမေ”

“ဖြစ်ပါဘူး” ဟု အမေက ပြောသည်။ “တကယ်လို့ စိတ်ထိခိုက်တာတွေ ဘာတွေ ဖြစ်နေရင်တော့ ကလေးကို ထိခိုက်ချင် ထိခိုက်မှာပေါ့၊ ကဲ လာ၊ ထ၊ အမေနဲ့လိုက်ပြီး အဘွားကို လုပ်စရာရှိတာ လုပ်ပေးစမ်း၊ ဗိုက်ထဲက ကလေးကို ခဏတစ်ဖြုတ် မေ့ထားလိုက်၊ သူ့ဘာသာ သူ အဆင်ပြေအောင် နေသွားမှာပါ”

“အဘွားက ဘယ်မှာလဲ”

“အမေလည်း မသိဘူး၊ ဒီအနီးအနားမှာပဲ ရှိမှာပါ၊ အိမ်သာ ဝင်ချင် ဝင်နေမှာပေါ့”

ရိုစာဟန်က အိမ်သာဘက်သို့ ထွက်သွားသည်။ ခဏနေတော့ အဘွားဂျုတ်ကို ဆွဲ၍ ပြန်ထွက်လာသည်။ “အဘွားက အိမ်သာထဲမှာ အိပ်ပျော်နေတယ် အမေ” ဟု ပြောသည်။

အဘွားဂျုတ်က ပြုံးဖြဲဖြဲ လုပ်နေသည်။ “နေရာလေးက သိပ်ကောင်းတာပဲ” ဟု ပြောသည်။ “သီးသန့်ကလေးဟဲ့၊ သိလား၊ သန့်ကလည်း သန့်ပါဘိသနဲ့၊ ရေကလည်း တောက်လျှောက်လာနေတာ၊ ငါတော့ သိပ်သဘောကျတယ်၊ ငါ့ကိုသာ လာမနှိုးရင်” “ဟာ၊

အသွားကလည်း မပယ်တဲ့တာ၊ အိပ်လို့ကောင်းတဲ့နေရာ မဟုတ်ပါဘူး” ဟု ရိုစာဟန်က ပြန်ပြောပြီး အသွားဂျုတ်ကို ကားထဲသို့ ပြန်ပို့သည်။

အမြူးသလို ဖြစ်လျက်ရှိသော အသွားဂျုတ်က “ပါတီပွဲတွေ ဘာတွေ လုပ်ဖို့တော့ ကောင်းချင်မှ ကောင်းမှာပေါ့ပါဟယ်၊ ဒါပေမဲ့ ကောင်းတာကတော့ တကယ် ကောင်းတာပါ” ဟု ရေရွတ်သည်။

“ကဲ သွားကြစို့၊ ဆက်ရမည့် ခရီးက မိုင် အများကြီး ကျန်သေးတယ်” ဟု တွမ်က နှိုးဆော်သည်။

အဖေဂျုတ်က လေချွန်သံ ပေးသည်။ “ချာတိတ်တွေ ဘယ်ရောက်ကုန်လဲ” ဟု မေးသည်။ သူသည် လက်ခေါက်မှုတ်၍ အသံ ထပ်ပေးပြန်သည်။

ရှသီက ရှေ့မှ၊ ဝင်းဖီးက နောက်မှ၊ နှစ်ယောက်သား ဂျုံခင်းထဲမှ ပြေးထွက်လာကြသည်။ “ဥတွေ” ဟု ရှသီက လှမ်းအော်သည်။ “ဥတွေ ကောက်ရလာတယ်” ရှသီက မောကြီးပန်းကြီး ဖြစ်လျက် ရှိ၏။ “ဒီမှာ မြင်လား ဥတွေ” ဟု ရှသီက သူ့လက်ထဲမှ အဖြူရောင်တွင် အညိုရောင် သန်းနေသော ဥများကို ပြသည်။ ဥများမှာ ခပ်ပျော့ပျော့။ အားလုံးပေါင်း ဆယ့်နှစ်လုံး ရှိသည်။ ထိုအခိုက်မှာပင် ရှသီ၏ မျက်လုံးများသည် လမ်းဘေးမှ ခွေးသေကောင်ကို လှမ်းမြင်သည်။ ရှသီနှင့် ဝင်းဖီးတို့သည် ခွေးသေကောင်ဆီ သွားကာ သေသေချာချာ ငုံ့ကြည့်နေကြလေသည်။

“ဟေး လာကြတော့၊ မင်းတို့ ကျန်ခဲ့ကြလိမ့်မယ်” ဟု အဖေဂျုတ်က လှမ်းအော်သည်။

သူတို့သည် ထရပ်ကားဆီသို့ လျှောက်သွားကြသည်။ ရှသီက လက်ထဲမှ ဥများကို ငုံ့ကြည့်ပြီး အဝေးသို့ လွှင့်ပစ်လိုက်၏။ နှစ်ယောက်သား ကားဘေးမှ တွယ်၍ တက်ကြသည်။ “သူ့မျက်လုံးတွေက အခုထက်ထိ ပွင့်နေတုန်းပဲနော်” ဟု ရှသီက တိုးတိုးကလေး ရေရွတ်သည်။

ဝင်းဖီးကတော့ သူ တွေ့ခဲ့ရသည့် မြင်ကွင်းကြောင့် စိတ်ထိခိုက်ပုံ မပေါ်။ “အူတွေ အခွေလိုက် ထွက်ကျနေတယ်” ဟု ရေရွတ်ပြီး ငြိမ်နေသည်။ ထို့နောက် ကားဘေးသို့

အပြေးအလွှား သွားရပ်သည်။ ပြီးတော့ အောက်သို့ ငုံ့၍ အန်ချသည်။ သူ့နေရာတွင် ပြန်ထိုင်မိသော အခါတွင်မူ "ခွေးသေက ဝက်သေနဲ့ မတူဘူးနော်" ဟု ထင်မြင်ချက် ပေးသည်။

အယ်လ်က ကားစက်ဖုံးကို ဖွင့်ကာ အင်ဂျင်ဝိုင်ကို တိုင်းကြည့်နေသည်။ သူသည် သူ့ထိုင်ခုံအနီး၌ ချထားသော ဂါလန်ဝင်ပုံး တစ်ပုံးကို သွားယူကာ အင်ဂျင်ဝိုင် ထပ်ဖြည့်သည်။ ပြီးတော့ ထပ်၍ တိုင်းကြည့်ပြန်သည်။

တွမ်က သူ့ဘေး၌ ဝင်ရပ်သည်။ "ငါ တစ်လှည့် မောင်းပေးရဦးမလား"

"ရပါတယ်၊ ကျုပ် မပင်ပန်းသေးပါဘူး" ဟု အယ်လ်က ပြန်ပြောသည်။

"မင်း မနေ့ညက တစ်ညလုံး မအိပ်ခဲ့ရဘူး၊ အခု အချိန်ထိလည်း မအိပ်ရသေးဘူး၊ ငါက ကနေ့မနက် တစ်မနက်လုံး မှေးခဲ့ရသေးတယ်၊ မင်း တစ်လှည့်နား၊ ငါ မောင်းမယ်"

"မောင်းလေ" ဟု အယ်လ်က စိတ်မပါ့တပါဖြင့် ဖြေသည်။ "ဒါပေမဲ့ ဆီဂိတ် ကိုတော့ သတိထားမှ၊ မောင်းရင်လည်း ဖြည်းဖြည်းပဲ မောင်းမှ၊ မိုင်ခွက်ထဲက မြားတံကိုလည်း မျက်ခြည်မပြတ် ကြည့်ပေးနေမှ ဖြစ်မယ်၊ ဖြည်းဖြည်းပဲ မောင်းနော် အစ်ကို၊ ကားက ပစ္စည်းတွေ အဆမတန် တင်ထားရတော့ အိုဗာဝိတ် ဖြစ်နေတယ်ဗျ"

တွမ်က ရယ်သည်။ "ငါ ဂရုစိုက်ပြီး မောင်းပါ့မယ်ကွာ၊ မင်း စိတ်အေးလက်အေးနဲ့ နားစမ်းပါ"

မိသားစုသည် ကားပေါ်ရှိ ပစ္စည်းပုံထိပ်သို့ တက်၍ ထိုင်ကြရပြန်လေသည်။ အမေကတော့ စောစောကလိုပင် အဘွားဂျုတ် ဘေး၌ ထိုင်သည်။ တွမ်က ဒရိုင်ဘာခုံတွင် နေရာယူသည်။ သူသည် စက်ကို စမ်းကြည့်ပြီး "အတော့်ကို ချောင်နေတာပဲ" ဟု ရေရွတ်သည်။ ပြီးတော့ ဂီယာကို ထိုးသည်။ ကားက လမ်းမကြီးပေါ်သို့ ပြန်တက်ကာ သူ့ခရီးကို ဖြည်းဖြည်းမှန်မှန် ဆက်သွားလေ၏။

မော်တော်ကား စက်သံသည် ပုံမှန် အနေအထားမှာပင် ရှိသည်။ သူတို့ ရှေ့တည့်တည့်တွင် ရောက်နေသော ကျနေသည် ပုံမှန်ပင် ဆင်းသွားလျက် ရှိလေသည်။ အဘွားဂျုတ်သည် အိပ်ပျော်နေပြီ ဖြစ်၏။ စောစောက အိပ်မပျော်ခဲ့သော အမေသည်ပင်

ရှေ့သို့ ခေါင်းငိုက်စိုက်ချကာ ငိုက်မြည်းလျက် ရှိလေပြီ။ တွမ်သည် သူ့မျက်လုံးများကို နေရောင်မထိုးစေရန် ခေါင်းမှ ဦးထုပ်လျှာကို ရှေ့သို့ ဆွဲချလိုက်လေသည်။

ပက်ဒင်းမှ မီကာသို့ ဆယ့်သုံးမိုင်။ မီကာမှ ဟာရာသို့ ဆယ့်လေးမိုင်။ ထိုနစ်မြို့ကို လွန်သော် အုတ်ကလာဟိုးမားစီးတီး။ မြို့ကြီး တစ်မြို့။ တွမ်သည် သူ့ကားကို အရှိန်မပျက် မောင်း၍ ဝင်သည်။ အမေသည် ငိုက်နေရာမှ နိုးလာပြီး မြို့တွင်း လမ်းမကြီးများကို ငေးကြည့်နေသည်။ ကားနောက်ထဲမှ မိသားစုသည် စတိုးဆိုင်ကြီးများ တိုက်အိမ်ကြီး များနှင့် ရုံးအဆောက်အအုံများကို စိတ်ဝင်တစား ကြည့်လာကြသည်။ ထို့နောက် အဆောက်အအုံများသည် တဖြည်းဖြည်းနှင့် သေးလာကြသည်။ စတိုးဆိုင်များသည်လည်း သေးလာကြသည်။ ဖရိုဖရဲနှင့် အလဲလဲ အပြိုပြို ဖြစ်နေကြသော ခြံဝင်းများ၊ ဟော့ဒေါ့ဂ် အသားသွတ်ပေါင်မုန့် ရောင်းသည့် ဆိုင်ငယ်ကလေးများ၊ မြို့ပြင် ကပွဲရုံကြီးများ။

ရူသီနှင့် ဝင်းဖီးတို့သည် ဤအရာ အားလုံးကို မြင်ကြသည်။ ကြီးမားခြင်းနှင့် ထူးဆန်းခြင်းသည် သူတို့ကို တအံ့တသြ ဖြစ်စေသည်။ တွေဝေ ငေးမောစေသည်။ ဝတ်ကောင်းစားလှများ ဝတ်၍ သွားလာနေကြသော လူများသည် သူတို့အား ထိတ်လန့် ကြောက်ရွံ့ခြင်းကို ဖြစ်စေသည်။ သူတို့သည် တစ်ယောက်နှင့်တစ်ယောက် စကားပင် မပြောနိုင်ကြ။ အခု လောလောဆယ်တော့ ပြောဖြစ်ကြဦးမည် မဟုတ်ပေ။ နောက်မှသာ ပြောဖြစ်ကြဖို့ ရှိသည်။ သူတို့သည် မြို့တွင်းနှင့် မြို့စွန်ရှိ ရေနံ တိုင်စင်ကြီးများကိုလည်း မြင်ရသည်။ ရေနံ တိုင်စင်ကြီးများသည်။ မည်းနက်နေကြသည်။ ရေနံနှင့် ဓာတ်ဆီရနံ့များသည် လေထဲတွင် တသင်းသင်း ပျံ့လျက်ရှိသည်။ သို့သော်လည်း သူတို့သည် တအံ့တသြ ဖြစ်လွန်း၍ အမှတ်တမဲ့ ထ၍ အော်ခြင်း ဟစ်ခြင်းများကို မပြု။ တစ်ခုတော့ ရှိ၏။ အရာရာတိုင်းသည် ကြီးလွန်း၍ ထူးဆန်းလွန်း၍ ကြောက်ရွံ့ထိတ်လန့်ခြင်းတော့ ဖြစ်ကြလေသည်။

လမ်းတစ်လမ်းပေါ်တွင် ပါးလွှာသော အဝတ်အစားများ ဝတ်ဆင်ထားသည့် လူတစ်ယောက်။ ရိုစာဟန်က ထိုလူကို မြင်သည်။ ထိုလူသည် အဖြူရောင် ရှူးဖိနပ် စီးပြီး ကောက်ရိုးဦးထုပ်ပြား ဆောင်းထားသည်။ ရိုစာဟန်က ကွန်နီကို လက်နှင့်တို့ကာ မျက်ရိပ်မျက်ခြည်ဖြင့် ထိုလူကို ညွှန်ပြသည်။ သူတို့ မျက်စိထဲ၌ အချိုးအစားမကျ ဖြစ်နေသော ထိုလူကို ကြည့်ကာ နှစ်ယောက်သား ကျိတ်၍ ရယ်ကြသည်။ ရယ်လို့က ကောင်းနေသဖြင့် အရယ် မရပ်နိုင်။ အသံထွက်မည် စိုး၍ သူတို့ ပါးစပ်များကိုပါ

လက်နှင့်အုပ်၍ ရယ်ကြပြန်သည်။ ရယ်စရာ ကောင်းလွန်းနေသဖြင့် တခြား လူများကိုပါ အသိပေးသည်။ သူတို့နှစ်ယောက် ရယ်နေသည်ကို မြင်သော ရှသီနှင့် ဝင်းဖီးတို့သည် ထိုလူကို ကြည့်ပြီး သူတို့လိုက် လိုက်၍ ရယ်ရန် ကြိုးစားသည်။ သို့သော်လည်း သူတို့ကျတော့ မရယ်နိုင်။ ကွန်နီနှင့် ရိုစာဟန်တို့ကတော့ အသက်ပင် ကောင်းစွာ မရှုနိုင်။ ရယ်ရလွန်း၍ မျက်နှာများပင် နီရဲလာကြသည်။

မြို့၏ ဆင်ခြေဖုံး ကျတော့လည်း ကျယ်ကျယ်ပြန့်ပြန့် ရှိသည်။ တွမ်သည် ကားကို သတိကြီးစွာ ထား၍ ဖြည်းညင်းစွာ မောင်းသည်။ ထို့နောက် သူတို့ကားသည် ၆၆ လမ်းမကြီးပေါ် ပြန်ရောက်လာသည်။ အလွန် ရှည်လျားပြီး အလွန် ကြီးမား ကျယ်ပြန့်သော အနောက်ဘက်ဒေသ၏ လမ်းမကြီး။ နေသည် လမ်းမကြီး၏ မျက်နှာပြင်နှင့် တပြေးတညီတည်း ဖြစ်သော နေရာသို့ ရောက်လုဆဲဆဲ ဖြစ်နေလေပြီ။ ကားရှေ့ရှိ နေကာမှန်သည် နေရောင်အောက်တွင် ဖုန်များဖြင့် တောက်ပြောင်လျက် ရှိ၏။ တွမ်သည် သူ့ဦးထုပ်ကို ရှေ့သို့ ငိုက်သည်ထက် ငိုက်ကျသွားအောင် ဆွဲချပြန်သည်။ ရှေ့သို့ စိုက်လွန်းအားကြီးသဖြင့် ဘေးပတ်ဝန်းကျင်ကို ကြည့်လိုလျှင် ခေါင်းကို နောက်သို့ တအား လှန်ပြီးမှ ကြည့်လို့ရသည်။

အဘွားဂျုတ်ကတော့ အိပ်ပျော်ဆဲ။ နေရောင်သည် ပိတ်နေသော သူ့မျက်လုံးများ ပေါ်သို့ ထိုးကျလျက် ရှိ၏။ သူ့နားထင် နှစ်ဖက်ပေါ်မှ အကြောများသည် အပြာရောင် သန်းနေကြသည်။ သူ့ပါးနှစ်ဖက်ပေါ်မှ အကြောသေး အကြောမြွှာကလေးများသည် ဝိုင်အရက်ရောင် ပေါက်နေသည်။ သူ့မျက်နှာပေါ်မှ အညိုရောင် အရေးအကြောင်းများ ကတော့ မည်းနက်နေကြလေသည်။

"ကျုပ်တို့ ဒီလမ်းမကြီးအတိုင်း တောက်လျှောက် သွားရမှာ" ဟု တွမ်က ပြောသည်။

အမေသည် အတန်ကြာမျှ စကားပြန် မပေးဘဲ ငြိမ်နေသည်။ "ဒီလိုဆိုရင်တော့ နေမဝင်ခင် အမေတို့ နားလို့တော်မယ့် နေရာတစ်ခု ရှာရင် ကောင်းမလား" ဟု အမေက ပြောသည်။ "ဝက်သား နည်းနည်း ထပ်ချက်ရမယ်၊ ပေါင်မုန့် လုပ်ရမယ်၊ ဒီအလုပ်တွေက အချိန်ကုန်တယ်"

"ဟုတ်တယ် အမေ" ဟု တွမ်က ထောက်ခံသည်။ "ဒီခရီးက လမ်းမှာ မရပ်မနားဘဲ သွားလို့လည်း ဆုံးမှာမှ မဟုတ်သေးတာ"

အုတ်ကလားဟိုးမား စီးတီးမှ ဘတ်သာနေး ရောက်ဖို့ ဆယ့်လေးမိုင် လိုသေးသည်။

"ကျုပ်တော့ နေမဝင်ခင် နားမှ ကောင်းမယ် ထင်တယ်၊ အယ်လ်ကလည်း ကားပေါ်မှာ တာလပတ် မိုးဖို့ လုပ်ရလိမ့်ဦးမယ်၊ အမိုး မလုပ်ဘဲ ဆက်သွားနေရင်တော့ ပစ္စည်းပုံပေါ် ထိုင်လိုက်ရတဲ့လူတွေ နေပူတာနဲ့ပဲ သေကုန်လိမ့်မယ်"

အမေသည် ထပ်၍ မှိန်းနေပြန်သည်။ ပြီးတော့ ဖျတ်ခနဲ ပြန်၍ ခေါင်းထောင် လာသည်။ "ညစာကိုတော့ ချက်မှ ဖြစ်မှာကွယ့်" ဟု ပြောသည်။ အမေသည် တစ်စုံ တစ်ခုကို စဉ်းစားနေသည့်နှယ် ငြိမ်ဆိတ်နေပြန်သည်။ "တွမ် မင့်အဖေက မင်း ပြည်နယ်ကူးရမယ့်ကိစ္စကို အမေ့ကို ပြောပြတယ်"

တွမ်သည် အမေ့ကို ချက်ချင်း အဖြေမပေးနိုင်။ အချိန်အတန်ကြာမှ "ဟုတ်လား အမေ၊ အဖေက ဘာပြောသလဲ" ဟု ပြန်မေးသည်။

"အေးကွယ်၊ အဲဒီကိစ္စတော့ အမေ စိတ်ပူတယ်၊ အခုလို ထွက်လာတာဟာ ထွက်ပြေးတာနဲ့ တူမနေဘူးလား၊ သူတို့က မင်းကို ပြန်ဖမ်းချင် ဖမ်းကြမှာ"

စောစောကထက် နိမ့်ကျလာသော နေရောင်သည် တွမ်၏ မျက်နှာသည် တည့်တည့်ကြီး ထိုးလျက် ရှိသည်။ တွမ်သည် လက်ဝါးတစ်ဖက်ဖြင့် သူ့မျက်လုံးများကို ကာထားလေသည်။ "မပူပါနဲ့ အမေရယ်" ဟု သူ ပြန်ပြောသည်။ "ကျုပ် တွက်ကြည့်ပြီးပါပြီ၊ ခံဝန်ချုပ်နဲ့ လွတ်လာတဲ့လူတွေ အများကြီး ရှိတယ် အမေရဲ့၊ သူတို့လည်း အခု သွားနေကြတာပဲ၊ တကယ်လို့ အနောက်ဘက်ဒေသ ရောက်မှ ကျုပ်က ရာဇဝတ်မှုတစ်ခု ကျူးလွန်တယ် ဆိုပါတော့၊ ဒါဆိုရင်တော့ ကျုပ်ကို ဖမ်းမယ်၊ အဲဒီအခါမှာတော့ ဝါရှင်တန်မှာ နေတဲ့ ကျုပ်ရဲ့ လက်ဗွေပုံစံတွေနဲ့ ကျုပ်ရဲ့ ဓာတ်ပုံကို သူတို့ ရသွားမယ်၊ အဲဒီကျရင်တော့ သူတို့က ကျုပ်ကို ပြန်ပို့ရမှာပဲ၊ ဒါပေမဲ့ ကျုပ်က ဘာအပြစ်မှ မကျူးလွန်ရင် သူတို့ ဘာမှလုပ်လို့ မရဘူး"

"အမေကတော့ စိတ်ပူတယ်၊ တစ်ချိန်က မင်း အပြစ်တစ်ခု ကျူးလွန်ခဲ့တယ်၊ ကျူးလွန်ခဲ့တုန်းက ကိုယ် လုပ်လိုက်မိတဲ့ အလုပ်ဟာ ကောင်းသလား ဆိုးသလား ဆိုတာတောင် မင်း သိတာမဟုတ်ဘူး၊ ကယ်လီဖိုးနီးယား ပြည်နယ်မှာလည်း အမေတို့ မသိသေးတဲ့ ပြစ်မှုမျိုးတွေ ရှိချင် ရှိနေမှာ၊ တကယ်လို့ ဟိုရောက်ခါမှ အပြစ် ဖြစ်နိုင်သလား မဖြစ်နိုင်ဘူးလား ဆိုတာ မသိဘဲနဲ့ တစ်ခုခုလုပ်မိတယ် ဆိုပါတော့၊ အဲဒီ အလုပ်က သူတို့ဆီမှာ အပြစ်လို့ သတ်မှတ်ထားတာ ဖြစ်နေရင် ဘယ်လိုလုပ်မလဲ"

"ဒါကျတော့လည်း ခံဝန်ချုပ် ရှိရှိ မရှိရှိ အတူတူပါပဲ အမေရာ" ဟု တွမ်က ပြန်ပြောသည်။ "ကဲပါ အမေရယ်၊ ပူမနေစမ်းပါနဲ့၊ ကျုပ်တို့မှာ ပူစရာတွေက အများကြီး ရှိနေတယ် မဟုတ်လား"

"ဒါကျတော့ အမေ မပူဘဲ နေလို့မရဘူး တွမ်" ဟု အမေက ဆိုသည်။ "သတ်မှတ်ထားတဲ့ နယ်နိမိတ်ကို ကျော်တာနဲ့ တစ်ပြိုင်နက် မင်းဟာ အပြစ်တစ်ခု ကျူးလွန်ရာ ရောက်သွားတယ် မဟုတ်လား"

"ဒီလို စဉ်းစားမယ် ဆိုရင်တော့ အမေရယ်၊ ဆယ်လီဆောမြို့ အနီးအနားမှာ ကပ်နေပြီး အစာငတ်ခံ သေရတာက ကောင်းဦးမှာပေ့ါ၊ မဟုတ်ဘူးလား၊ ကဲပါ အမေရယ်၊ ကျုပ်တို့ နားလို့ ကောင်းမယ့်နေရာ ရှာကြရအောင်"

သူတို့သည် ဘက်သာနေးမြို့ကို ကျော်ဖြတ်ကာ မြို့ပြင်သို့ ရောက်လာသည်။ လမ်းမကြီး၏ ဘေးတစ်ဖက် လျှပ်စစ်ကြိုးများ မြှုပ်ရာ မြောင်းတစ်ခု အနီးတွင် ခရီးသည်တင် လူစီးကားဟောင်းတစ်စီး ရပ်လျက် ရှိသည်။ ကားဘေးတွင် ရွက်ထည်တဲ တစ်လုံး။ ထိုရွက်ထည်တဲအတွင်းမှ မီးခိုးငွေ့များ တလူလူ ထွက်လာနေသည်။ တွမ်က ရွက်ထည်တဲကို ညွှန်ပြသည်။ "ဟိုမှာ တချို့ နားနေကြတယ်၊ သူတို့ ရွေးထားတဲ့ နေရာက နေရာကောင်းပဲ" သူသည် ကားအရှိန်ကို လျှော့ချလိုက်ပြီး လမ်းဘေးသို့ ချ၍ ရပ်လိုက်သည်။ ရပ်နားနေသည့် ကား၏ စက်ဖုံးသည် ပွင့်လျက် ရှိ၏။ သက်လတ်ပိုင်းအရွယ် လူတစ်ယောက်သည် စက်ဖုံးအနီးတွင် ရပ်ကာ အထဲမှ စက်ကို ငုံ့ကြည့်လျက် ရှိလေသည်။ သူသည် အပေါစား ကောက်ရိုး ဦးထုပ်အဝိုင်း ဆောင်းထားသည်။ ကိုယ်တါင် အနက်စင်း အတွင်းခံရှပ်နှင့် အပြာရောင် ဂျက်ကက်များ ဝတ်ထားသည်။ သူ့ခါးမှ ဂျင်းဘောင်းဘီသည် ချေးအထပ်ထပ် တက်ကာ မာခေါက်ခေါက်

ဖြစ်လျက် ရှိသည်။ ပိန်ကြုံလွန်းလှသော သူ့မျက်နှာတွင် ပါးရိုးများသည် ငေါ်ထွက်နေကြသည်။ သူသည် ဂျုတ်မိသားစု၏ ထရပ်ကားကို မော့ကြည့်သည်။ သူ့မျက်ဖုံးများသည် ဒေါသရောင် တောက်လျက် ရှိနေကြလေသည်။

တွမ်က သူ့ဦးခေါင်းကို ကားပြတင်း၏ အပြင်သို့ ထုတ်လိုက်လေသည်။ "ဒီနေရာမျာ တစ်ညလောက် နားမယ်ဆိုရင် ဖြစ်မလား၊ မနားရဘူး ဆိုတဲ့ စည်းကမ်းများ ရှိသလား"

ထရပ်ကားကိုသာ စိတ်ဝင်တစား ကြည့်နေသော ထိုလူ၏ မျက်လုံးများသည် တွမ်၏ အပေါ်သို့ ရောက်လာသည်။ "ကျုပ်လည်း မသိဘူး" ဟု ပြောသည်။ "ကျုပ်တို့ နားနေတာက တခြားကြောင့် မဟုတ်ဘူး၊ ရှေ့ဆက် မသွားနိုင်တော့လို့"

"ဒီနေရာမှာ ရေကော ရရဲ့လား"

ထိုလူက ရှေ့ခပ်လှမ်းလှမ်းမှ ဓာတ်ဆီဆိုင်ကို လက်ညှိုးထိုးပြသည်။ "အဲဒီမှာ ရေရှိတယ်၊ တစ်ပုံးတစ်လေတော့ ရပါတယ်"

တွမ်သည် တုံ့ဆိုင်းဆိုင်း ဖြစ်နေသည်။ "ကျုပ်တို့ နားချင်လို့၊ ခင်ဗျားတို့ ဘေးမှာ ဝင်နားရင် ရမလား"

ထိုလူသည် တွမ်၏စကားကို နားမလည်သဖြင့် နားဝေတိမ်တောင် ဖြစ်လျက် ရှိသည်။ "ဒီမြေက ကျုပ်တို့ ပိုင်မှ မဟုတ်တာ၊ ကျုပ်တို့လည်း ဒီ သောက်ကားစုတ်ကို ဆက်ပြီး မောင်းလို့မရတော့လို့သာ ဝင်နားနေတာ"

"ဘာပဲဖြစ်ဖြစ်လေ၊ ခင်ဗျားတို့က အရင်ရောက်တာပဲ၊ အဲဒီတော့ နောက်မှလာတဲ့ လူကို ခင်ဗျားတို့ အနားမှာ နေခွင့်ပေးမယ် မပေးဘူးဆိုတဲ့ ဆုံးဖြတ်ပိုင်ခွင့်ဟာ ခင်ဗျားတို့မှာ ရှိနေပြီဗျ" ဟု တွမ်က ထပ်ပြောသည်။

ထိုစကားကျတော့ ထိရောက်သည်။ ထိုလူ၏ မျက်နှာသည် ချက်ချင်းပင် ပြုံးရယ်လာသည်။ "ဟာဗျာ၊ မဟုတ်တာဘဲ၊ ကျုပ်တို့က ဒီလို သဘောမထားပါဘူးဗျာ၊ လာပါ၊ ကားကို မောင်းချခဲ့ပါ၊ ခင်ဗျားတို့ကို ဝမ်းသာစွာနဲ့ ကြိုဆို လက်ခံပါတယ်ဗျာ" သူသည် တဲဘက်သို့ လှည့်၍ အော်သည်။ "ဆေရီရေ၊ ဟောဒီမှာ ငါတို့နဲ့ ဘဝတူ

ခရီးသွားတွေ ရောက်လာတယ်၊ ထွက်ပြီး နှုတ်ဆက်ပါဦး” ပြီးတော့ တစ်ဆက်တည်းပင် တွမ်ဘက်သို့ လှည့်၍ “ဆေရီက သိပ် မမာရှာဘူးဗျ” ဟု ပြောသည်။

တဲ၏ ရှက်ထည်တံခါး ပွင့်လာသည်။ အတွင်းမှ ပိန်ခြောက်ခြောက် အမျိုးသမီးတစ်ယောက် ထွက်လာသည်။ အမျိုးသမီး၏ မျက်နှာမှာ အသားအရေ ခြောက်ခန်းလွန်းလှသဖြင့် သစ်ရွက်ခြောက် တစ်ရွက်နှင့် တူနေသည်။ ပိန်လှီ ရှုံ့တွနေသော မျက်နှာပေါ်မှ အဆမတန် ပြူးထွက်နေသော မျက်လုံးများသည် နီရဲလျက် ရှိ၏။ တစ်ကိုယ်လုံး ကတုန်ကယင် ဖြစ်လျက် ရှိသဖြင့် လေလာလျှင် လဲကျသွားမလားဟု ထင်ရလောက်သည့် ပုံမျိုး ဖြစ်သည်။ ရှက်ထည် တံခါးရွက်ကို ကိုင်ထားသော သူ့လက်တွင်လည်း အသားမရှိ။ အရိုးနှင့် အရေခွံသာလျှင် ရှိလေသည်။

စကားပြောလိုက်သည့် အခါတွင်မူ သူ့အသံမှာ ပျော့ပျောင်း နူးညံ့လှ၏။ အသံမှာ တိုးလည်း မတိုးလွန်း။ ကျယ်လည်း မကျယ်လွန်း။ ကြည်ကြည်လင်လင်နှင့် ချိုသာလှပေသည်။ “ကျွန်မတို့က ကြိုဆိုနေပါတယ်လို့ ပြောလိုက်ပါ”

တွမ်က သူ့ကားကို လမ်းဘေးသို့ မောင်းချလိုက်ပြီး လယ်ကွက်အတွင်းသို့ ဝင်၍ ခရီးသည်တင် ကားဟောင်းဘေး၌ ထိုးသည်။ ကားပေါ်မှ လူစုသည် ကသောကမျော ဆင်းလာကြသည်။ ရူသီနှင့် ဝင်းဖီးတို့ နှစ်ယောက်ကတော့ ထုံးစံအတိုင်း ရှေ့ဆုံးမှ ဖြစ်၏။ အမေသည် ကားနောက်တွင် ချိတ်ထားသည့် သုံးဂါလန်ဝင် ပုံးကို ဖြုတ်၍ ကလေးနှစ်ယောက်ကို ပေးသည်။ “ကဲ နင်တို့ နှစ်ယောက်က ရေသွားခပ်ချေ။ ဟိုမှာ မြင်လား ဓာတ်ဆီဆိုင်၊ အဲဒီမှာ သွားခပ်၊ ကောင်းကောင်းမွန်မွန် ပြောပြီးခပ်၊ ရေတစ်ပုံးလောက် ပေးနိုင်မလားလို့ မေး၊ ပြီးတော့ ကျေးဇူးတင်ပါတယ်လို့ ပြောခဲ့၊ ရေပုံးကို တစ်ယောက်တစ်ဖက် ဆွဲခဲ့၊ တစ်စက်မှ မဖိတ်စေနဲ့၊ လမ်းမှာ ထင်းခြောက်တို့ ဘာတို့ တွေ့ရင်လည်း ကောက်ခဲ့” ကလေးနှစ်ယောက်သည် ဓာတ်ဆီဆိုင်ဘက်သို့ ပြေးထွက် သွားကြလေသည်။

တစ်ခဏ အတွင်းမှာပင် ရှက်ထည်တဲအနီး၌ လူမှုဆက်ဆံရေး ပတ်ဝန်းကျင် ကလေး တစ်ရပ်သည် ပေါက်ဖွားလာသည်။ “မင်းတို့အုပ်စုက အုတ်ကလာဟိုးမား အုပ်စု မဟုတ်ဘူး ထင်တယ်” ဟု အဖေဂျုတ်က မေးသည်။

ကားအနီးတွင် ရပ်နေသော အယ်လ်က လိုင်စင်ပလိတ်ပြားကို ကြည့်သည်။ "ကင်းဆတ်စ် ပြည်နယ်က" ဟု လှမ်းပြောသည်။

လူပိန်က ဝင်ဖြေသည်။ "ဂယ်လီနာက ထွက်လာတာ၊ အဲဒီနားက ဆိုပါတော့၊ ကျုပ်နာမည်က ဝီလ်ဆန်၊ အိုင်ဗီဝီလ်ဆန်"

"ငါတို့က ဂျုတ် မိသားစုကွ" ဟု အဖေက ပြောသည်။ "တို့က ဆယ်လီဆောမြို့နားက ထွက်လာတာ"

"တွေ့ရတာ ဝမ်းသာပါတယ်ဗျာ" ဟု အိုင်ဗီဝီလ်ဆန်က ပြောသည်။ "ဆေရီရေ၊ ဟောဒီမှာ ဂျုတ်မိသားစု"

"မင်း အုတ်ကလာဟိုးမားက မဟုတ်ဘူးဆိုတာ ငါ သိတယ်၊ မင်း စကားပြောပုံ လေယူလေသိမ်းနဲ့ အသံထွက်က တစ်မျိုးကြီး ဖြစ်နေတာကိုးကွ၊ ဒါကတော့ ဒီလိုပါပဲကွာ"

"လူတိုင်း တစ်ယောက်တစ်မျိုး ပြောနေကြတာပါပဲဗျာ" ဟု အိုင်ဗီက ပြောသည်။ "အာကင်းဆတ်စ် ပြည်နယ်ဘက်က လူတွေကျတော့ တစ်မျိုးပြောတယ်၊ အုတ်ကလာဟိုးမား ပြည်နယ်ဘက်က လူတွေကျတော့ တစ်မျိုးပြောတယ်၊ ကျုပ်တို့ မက်ဆာချူးဆက် ပြည်နယ်က မိန်းမကြီးတစ်ယောက်နဲ့ တွေ့ဖူးပါတယ်၊ သူ့ကျတော့ တစ်မျိုးဗျ၊ သူ ဘာပြောနေတယ်ဆိုတာ နားလည်ဖို့ မလွယ်ပေါင်ဗျာ"

နိုအာ၊ ဦးလေးဂျွန်နှင့် တရားဟောဆရာတို့သည် ထရပ်ကားပေါ်မှ ပစ္စည်းများနှင့် အဘိုးဂျုတ်တို့ကို အောက်သို့ ချကြသည်။ အဘိုးဂျုတ်သည် မြေပေါ်၌ ဖင်ချထိုင်လျက် ရှိ၏။ သူ ထိုင်နေပုံမှာ တောင့်တောင့်ရောင့်ရောင့် မဟုတ်။ ခွေတီး ခွေးခေါက် ဖြစ်သည်။ သူသည် ရှေ့တည့်တည့်ကိုသာ စူးစိုက် ကြည့်နေသည်။ "နေမကောင်းဘူးလား အဘိုး" ဟု နိုအာက မေးသည်။

"အေး နေမကောင်းဘူး" ဟု အဘိုးဂျုတ်က အားအင် ချည့်နဲ့သော လေသံဖြင့် ဖြေသည်။ "ငရဲပြည် ရောက်နေသလား ထင်ရတယ်ဟေ့"

ဆေရီဝီလ်ဆန်သည် အဘိုးဂျုတ်ထံ လျှောက်လာပြီး စေ့စေ့စပ်စပ် ကြည့်သည်။ "အဘိုး တဲထဲ ဝင်နေပါလား ဟင်၊ အိပ်ရာပေါ် လှဲနေလို့ ရတာပေါ့" ဟု ပြောသည်။

ဆေဝရီ၏ သိမ်မွေ့နူးညံ့သော အသံကြောင့် အဘိုးက မော့ကြည့်သည်။ "ကဲ ထလေ အဘိုး၊ တဲထဲမှာဆိုရင် နားနားနေနေ နေနိုင်တာပေါ့၊ ကျွန်မတို့ကလည်း ပြုစုပါ့မယ်"

အဘိုးဂျုတ်သည် စကားတစ်ခွန်းမှ ပြန်မပြောဘဲ ရှိုက်ကြီးတငင် ငိုကြွေးသည်။ သူသည် အသံမထွက်အောင် နှုတ်ခမ်းများကို တအားကိုက်ထားသည်။ ကျိတ်၍ ငိုနေခြင်း ဖြစ်သဖြင့် သူ့မေးစေ့သည် တလှုပ်လှုပ် ဖြစ်လျက် ရှိ၏။ အမေသည် အဘိုးဂျုတ်ထံသို့ အပြေးအလွှား ရောက်လာပြီး သူ့လက်နှစ်ဖက်နှင့် သိမ်း၍ ဖက်ကာ အသာတွဲ၍ ထူသည်။ ထို့နောက် ရွက်ထည်တဲဆီသို့ ဆွဲခေါ်သွားလေ၏။

"သူ နေမကောင်းဘူး ဆိုတာ ဟုတ်လိမ့်မယ်၊ သူ ဘယ်တုန်းကမှ ဒီလို မလုပ်ခဲ့ဖူးဘူး၊ ငါ့တစ်သက်မှာ သူ အခုလို ငိုတာမျိုး တစ်ခါမှ မတွေ့ခဲ့ဖူးဘူး" ဟု ဦးလေးဂျွန်က ပြောသည် သူသည် ထရပ်ကားပေါ်သို့ ခုန်တက်ကာ အိပ်ရာတစ်ခုကို အောက်သို့ ပစ်ချလိုက်၏။

အမေသည် တဲထဲမှ ထွက်လာပြီး ကက်ဆီထံ လျှောက်သွားသည်။ "ဖျားနာနေတဲ့ လူမမာတွေကို ရှင် ကြည့်ရှု စောင့်ရှောက်ခဲ့ဖူးတယ် မဟုတ်လား" ဟု မေးသည်။ "အဘိုးဂျုတ် နေမကောင်း ဖြစ်နေတယ်၊ သူ့ကို ကြည့်ပေးစမ်းပါ"

ကက်ဆီသည် တဲဘက်သို့ လျင်မြန်စွာ လျှောက်သွားပြီး အတွင်းသို့ ဝင်သွားသည်။ တဲထဲတွင် နှစ်ယောက်အိပ် မွေ့ရာကြီး တစ်ခုကို မြေကြီးပေါ်၌ ခင်းထားသည်။ စောင်များကိုလည်း သပ်သပ်ရပ်ရပ် ဖြန့်တင်ထားသည်။ သံုးချောင်းထောက် သံမီးဖိုအောက်တွင် မီးတောက်များသည် မညီမညာ တောက်လောင်လျက် ရှိလေသည်။ တဲ၏ တစ်ဖက်ထောင့်တွင် ရေပုံးတစ်ပုံး၊ တိုလီမိုလီ ပစ္စည်းများ ထည့်ထားသည့် သစ်သား သေတ္တာတစ်လုံးနှင့် စားပွဲအဖြစ် သုံးရန် ချခင်းထားသည့် သေတ္တာတစ်လုံး။ ပစ္စည်းများမှာ အားလုံး ဤမျှသာ ရှိသည်။ ဝင်လုဆဲ နေရောင်သည် တဲနံရံကို ဖောက်၍ အတွင်းသို့ ဝင်ရောက်လျက် ရှိသည်။ အဘိုးဂျုတ်ကတော့ အိပ်ရာပေါ်တွင် လှဲနေသည်။ သူ့မျက်လုံးများသည် ပွင့်နေကြသည်။ တဲခေါင်မိုးကို ငေးကြည့်လျက် ရှိသည်။ သူ့ပါးနှစ်ဖက်တွင် နီရဲနေသည်။ သူသည် အသက်ကို ပြင်းထန်စွာ ရှူလျက် ရှိလေသည်။

ကက်ဆီသည် သေးကွေး ပိန်လှီလှသော အဘိုးဂျူတ်၏ လက်ကောက်ဝတ်ကို စမ်းကြည့်ပြန်သည်။ "အဘိုး မောနေသလား ဟင်" ဟု မေးသည်။ ငေးစိုက်နေသော အဘိုးဂျူတ်၏ မျက်လုံးများသည် ကက်ဆီ၏ အသံကို လိုက်၍ ရှာလျက် ရှိသည်။ သို့သော်လည်း ကက်ဆီကို မတွေ့။ အဘိုးဂျူတ်၏ နှုတ်ခမ်းများသည် တလှုပ်လှုပ် တရွရွ။ စကားပြောဖို့ အားထုတ်နေဟန် ရှိသည်။ သို့သော်လည်း အသံထွက်မလာ။ ကက်ဆီသည် အဘိုးဂျူတ်၏ သွေးကြောကို စမ်းကြည့်ပြီး လက်ကို အိပ်ရာပေါ် ပြန်ချပေးလိုက်သည်။ သူ့လက်တစ်ဖက်ကို အဘိုးဂျူတ်၏ နဖူးပေါ် တင်ကာ စမ်းကြည့်ပြန်သည်။ အဘိုးဂျူတ်၏ ခန္ဓာကိုယ်သည် မသိမသာ ရုန်းကန် လှုပ်ရှားခြင်း ပြုသည်။ ခြေထောက်များကလည်း မငြိမ်မသက် ဖြစ်လာသည်။ သူ့လက်များကလည်း တလှုပ်လှုပ် ဖြစ်လာသည်။ ပါးစပ်အောက်မှ မပီကလာ ပီကလာနှင့် မရေရာသော အသံများ ထွက်လာနေသည်။ ပါးမုန်းမွေးများ အောက်ရှိ အဘိုးဂျူတ်၏ မျက်နှာတစ်ခုလုံးမှာ နီရဲလျက် ရှိလေသည်။

"ဘာဖြစ်တယ်ဆိုတာ သိသလား" ဆေရီဝီလ်ဆန်က လေသံဖြင့် မေးသည်။

ကက်ဆီက ဆေရီ၏ မျက်နှာကို မော့ကြည့်သည်။ "ခင်ဗျားကော မသိဘူးလား"

"ကျွန်မ… ကျွန်မ သိတယ် ထင်တာပဲ"

"ဘယ့်နှယ်" ကက်ဆီက ရေရွတ်သည်။

"ကျွန်မ ပြောတာ မှားချင် မှားသွားနိုင်တယ်၊ ဒါကြောင့်မို့ ကျွန်မ မပြောချင်ဘူး"

ကက်ဆီက ဆေရီ၏ မျက်နှာကို ထပ်ကြည့်ပြန်သည်။ "ခင်ဗျား ပြောချင်တာက ဟို.. ဟို.. နလုံး.. မဟုတ်လား"

"ဟုတ်တယ်" ဟု ဆေရီက ပြောသည်။ "ကျွန်မ အရင်တုန်းက ဒါမျိုး သုံးကြိမ် တွေ့ခဲ့ဖူးတယ်"

အပြင်မှ တဲထိုးသံ၊ ထင်းခွဲသံနှင့် အိုးခွက် ထိမိ ခိုက်မိသံများသည် တဲအတွင်းသို့ ဝင်လာနေသည်။ အမေသည် တဲတံခါးဝမှ နေ၍ အတွင်းသို့ ငုံ့ကြည့်သည်။ "အဘွားက လာချင်နေတယ်၊ လာလို့ ဖြစ်မလား"

"မလာရရင်လည်း စိတ်မကောင်း ဖြစ်နေမှာ" ဟု တရားဟောဆရာက ရေရွတ်သည်။

"သူကော သက်သာရဲ့လား" ဟု အမေက မေးသည်။

ကက်ဆီက ခေါင်းကို ဖြည်းညင်းစွာ ယမ်းသည်။ အမေက ခံစားနေရသည့် ဝေဒနာကြောင့် ရှန်းလိုက် ကန်လိုက် ဖြစ်နေသော အဘိုးဂျုတ်၏ မျက်နှာကို တစ်ချက် လှမ်းကြည့်ပြီး အကဲခတ်သည်။ အမေ့ခေါင်းသည် အပြင်သို့ ပြန်ထွက်သွားသည်။ ချက်ချင်းပင် အမေ၏ စကားပြောသံကို ကြားရ၏။ "သူ သက်သာတယ် အဘွား၊ သူ ပင်ပန်းလို့ ခဏတစ်ဖြုတ် လှဲနေတာ"

မကျေမနပ် ဖြစ်နေပုံရသော အဘွားဂျုတ်၏ တစာစာ အသံကို ကြားလာရသည်။ "ဒီလိုဆိုလည်း ငါ သူ့ကို ကြည့်ချင်တယ်၊ သူက သိပ်ကို ကလိမ်ကျတတ်တဲ့ နတ်ဆိုးကြီးဟဲ့၊ နင်တို့ကို အမှန်အတိုင်း ပြောလိမ့်မယ်လို့များ မထင်လိုက်နဲ့" အဘွားဂျုတ်သည် ရွက်ထည်စ တံခါးကို ဆွဲဖယ်ကာ တဲအတွင်းသို့ ဝင်လာသည်။ မွေ့ရာ အနီးတွင် လာရပ်ကာ အဘိုးဂျုတ်ကို ငုံ့ကြည့်သည်။ "တော်က ဘာဖြစ်နေရပြန်တာလဲ" ဟု အဘိုးဂျုတ်အား မေးသည်။ အဘိုးဂျုတ်၏ မျက်လုံးများသည် အသံလာရာဆီသို့ ကြည့်သည်။ သူ့နှုတ်ခမ်းများသည် တွန့်သွားကြလေသည်။ "သူ စိတ်ကောက်နေတာ ဟဲ့" ဟု အဘွားဂျုတ်က ရေရွတ်သည်။ "ငါ ပြောခဲ့တယ် မဟုတ်လား၊ သူက ညဏ်အလွန်များတယ်လို့၊ သူ ကနေ့မနက် မလိုက်ချင်တာနဲ့ လစ်ပြေးဖို့ ကြံခဲ့တယ် မဟုတ်လား၊ အဲဒါမရတော့ စိတ်ကောက်နေတာပေါ့၊ သူ စိတ်ကောက်လို့ ဘယ်သူနဲ့မှ စကားမပြောချင်တော့ဘူးဆိုရင် အခုလို လုပ်တတ်တယ်၊ ငါကတော့ ကြုံခဲ့ဖူးပေါင်း များပြီ"

"သူ စိတ်ကောက်နေတာ မဟုတ်ဘူး အဘွား၊ ဒီတစ်ခါ တကယ် နေမကောင်းတာ" ကက်ဆီက အေးဆေး ညင်သာသော အသံဖြင့် ပြောသည်။

"အို ဟုတ်လား" အဘွားဂျုတ်သည် အဘိုးဂျုတ်အား ထပ်မံပြီး ငုံ့ကြည့်ပြန်သည်။ "သူ နေမကောင်းတာ သိပ်ဆိုးသလား"

"ဆိုးတယ် အဘွား"

အဘွားဂျူတ်သည် ဘာပြောရမှန်းမသိ ဖြစ်ကာ ငြိမ်နေသည်။ အတန်ကြာမှ "ဒီလိုဆိုရင် မင်းက ဘာပြုလို့ ဆုတောင်းစာ မရွတ်တာလဲ၊ မင်းဟာ တရားဟော ဆရာတစ်ယောက် မဟုတ်လားကွယ့်" ဟု ပြောလေသည်။

ကက်ဆီ၏ လက်များသည် အမှတ်တမဲ့နှင့် အဘွားဂျူတ်၏ လက်ကောက်ဝတ်ကို လှမ်း၍ ဆုပ်ကိုင်သည်။ "ကျုပ် ပြောခဲ့ပြီးပြီ မဟုတ်လား အဘွားရယ်၊ ကျုပ်ဟာ တရားဟောဆရာ မဟုတ်တော့ဘူးလို့"

"ဘာပဲ ဖြစ်ဖြစ်လေ၊ မင်း ဆုတောင်းစာ ရွတ်ပါ" ဟု အဘွားဂျူတ်က ခိုင်းသည်။ "ဆုတောင်းစာတွေ အားလုံးကို မင်းက အလွတ်ရတဲ့ လူပဲ၊ ရွတ်မှပေါ့ကွယ့်"

"ကျုပ် မလုပ်နိုင်ဘူး အဘွား" ဟု ကက်ဆီက ငြင်းသည်။ "ကျုပ် ဘာဆုကို တောင်းရမှန်းလဲ မသိဘူး၊ ဘယ်သူ့ဆီမှာ တောင်းရမှန်းလဲ မသိဘူး"

အဘွားဂျူတ်၏ မျက်လုံးများသည် ကက်ဆီထံမှ ခွာသွားပြီး ဆေရီ၏ အပေါ်သို့ ရောက်သွားသည်။ "သူက ဆုတောင်း မပေးတော့ဘူးတဲ့" ဟု ပြောသည်။ "ရူသီ ငယ်ငယ်က ဘုရား တရားစာတွေ အလွတ်ရတယ်၊ သူ ရွတ်တာတွေ ငါ ကြားဖူးတယ်၊ ဘာတဲ့ကွယ်၊ ဟိုဟာလေ၊ အစ တပည့်တော် အိပ်ပါတော့မည်၊ ဘုရားသခင်အား ကန်တော့ပါသည်၊ တပည့်တော်မ၏ စိတ်ကို အေးငြိမ်းမှု ပေးတော်မူပါ အတည်တဲ့၊ ပြီးတော့ ရှိသေးတယ်၊ သူ ရောက်သွားသောအခါ ကြောင်အိမ်ထဲမှာ ဗလာနတ္ထိပါ၊ ထိုအခါ သနားစရာကောင်းတဲ့ ခွေးခမျာ ဘာမှ မရတော့ပါ အာမင်း တဲ့၊ အဲဒီ ရူသီ ရွတ်ခဲ့ဖူးတဲ့ ဟာတွေပေါ့" တစ်စုံတစ်ယောက်သော သူ၏ အရိပ်သည် တဲနှင့် နေ၏ကြားမှ ဖြတ်သွားသည်။ အရိပ်မည်းမည်းသည် တဲ၏ ရွက်ထည်အပေါ်သို့ ကျလာလေသည်။

အဘိုးဂျူတ်၏ လက်များနှင့် ခြေထောက်များသည် ရှန်းကန် လှုပ်ရှားနေဆဲ ဖြစ်သည်။ သူ့တစ်ကိုယ်လုံးရှိ အကြောများသည် တဆိုးဆိုး တဆတ်ဆတ် ဖြစ်လျက် ရှိ၏။ အလွန် ပြင်းထန်သော ထိုးနက်ချက်ကို ခံလိုက်ရသည့်နှယ် အဘိုးဂျူတ်၏ နှုတ်မှ ရုတ်တရက် အသံထွက်လာသည်။ ထို့နောက် တစ်ကိုယ်လုံး ငြိမ်သက်သွားသည်။ အသက်ရှူ ရပ်သွားသည်။ ကက်ဆီက အဘိုးဂျူတ်၏ မျက်နှာကို ငုံ့ကြည့်သည်။ အဘိုးဂျူတ်၏ မျက်နှာသည် တဖြည်းဖြည်းနှင့် ပြာနမ်းနမ်း ဖြစ်လာသည်။ ဆေရီက

ကက်ဆီ၏ လက်မောင်းကို လှမ်းတို့သည်။ "သူ့လျှာကို ကြည့်၊ သူ့လျှာကို" ဟု ခပ်တိုးတိုး ကပ်ပြောသည်။

ကက်ဆီက ခေါင်းညိတ်သည်။ "အဘွားဂျုတ် မမြင်အောင် ကွယ်ထား" ဟု ပြန်ပြောသည်။ သူသည် အဘိုးဂျုတ်၏ ပါးစပ်ကိုဖြဲကာ လည်ချောင်းအတွင်းသို့ လက်ညှိုးဖြင့် ထိုးနှိုက်သည်။ လိပ်၍ဝင်နေသော လျှာကို ဆွဲထုတ်သည်။ လျှာပြန်ထွက်လာသည်နှင့် တစ်ပြိုင်နက် လည်ချောင်းအတွင်းမှ ချွဲနှင့် သလိပ် ရောနေသော အသံ ထွက်လာသည်။ ခပ်မျှင်းမျှင်း အသက်ရှူသံကိုလည်း ကြားရသည်။ ကက်ဆီသည် သူ့အနီး မြေကြီးပေါ်မှ တုတ်တစ်ချောင်းကို ကောက်ယူကာ အဘိုးဂျုတ်၏ ပါးစပ်အတွင်းသို့ ထိုးသွင်းပြီး လျှာ ပြန်ဝင်မသွားစေရန် ကလန့်ထားလိုက်လေသည်။ အဘိုးဂျုတ်၏ အသက်ရှူသံသည် မှန်သလို ပြန်ဖြစ်လာသည်။

အဘွားဂျုတ်သည် ကြက်မကြီး တစ်ကောင်သဖွယ် ခုန်ပေါက်လျက် ရှိ၏။ ပါးစပ်မှလည်း "ဆုတောင်းစာ ရွတ်ပါဟဲ့" ဟု အော်သည်။ "ဆုတောင်းပေးပါလို့ နင့်ကို ငါ ပြောနေတာ မကြားဘူးလား ဟင်" ဆေရီက အဘွားဂျုတ်ကို ချုပ်ကိုင်ဖို့ ကြိုးစားသည်။ "ဟဲ့ အကောင်၊ ဆုတောင်းပေးပါဟဲ့" အဘွားဂျုတ်က သံကုန်ဟစ်၍ အော်သည်။

ကက်ဆီသည် အဘွားဂျုတ်ကို ကြည့်ကာ ငေးငိုင်လျက် ရှိသည်။ အဘိုးဂျုတ်ထံမှ အသက်ရှူသံသည် တိုးသွားလိုက် ကျယ်လာလိုက်။ တစ်ချက် တစ်ချက်တွင် အလွန် ပြင်းထန်သော အသံကို ပြုသည်။

"ကောင်းကင်ဘုံ၌ စံနေတော်မူသော ကျွန်ုပ်တို့၏ အဘ ဘုရားသခင်သည် သင်၏ အမည်ကို လက်ခံတော်မူပါစေသတည်း"

"ကျက်သရေ မင်္ဂလာနဲ့ ပြည့်စုံပါပြီကွယ်" ဟု အဘွားဂျုတ်က အော်ပြောသည်။

"ဤကမ္ဘာမြေပြင်ထက်၌ တည်ရှိခဲ့သော သင်၏ ဘဝသည် ကောင်းကင်ဘုံ၌ တည်နေစဉ်က အတိုင်းပင် ဖြစ်ပါ၏"

"အာမင်း"

ဟထားသည့် ပါးစပ်မှ ထွက်လာသည့် လေးတွဲ့သော သက်ပြင်းချသံ တစ်ချက်ပေါ်လာသည်။ ထို့နောက် ကျိတ်၍ ရှိုက်လိုက်သော ငိုရှိုက်သံ တစ်ချက်။

"ယနေ့အတွက်လည်း တပည့်တော်တို့၏ အာဟာရ ဖြစ်သော နေ့စဉ် စားသုံးမြဲ ဖြစ်သော အစားအသောက်ကို ပေးတော်မူပါ အဘ ဘုရားသခင်၊ တပည့်တော်တို့အား ခွင့်လွှတ်တော်မူပါ" အသက်ရှူသံသည် ရပ်သွားသည်။ ကက်ဆီက အဘိုးဂျုတ်၏ မျက်လုံးများကို ငုံ့ကြည့်သည်။ အဘိုးဂျုတ်၏ မျက်လုံးများသည် ကြည်လင်လျက် ရှိသည်။ နားလည် သဘောပေါက်သည့် အရိပ်အငွေ့များကို ဖော်ပြလျက် ရှိသည်။ စိတ်တည်ငြိမ်မှု ရှိနေခြင်းကိုလည်း ဖော်ပြလျက် ရှိသည်။

"ဘုရားသခင်၏ ဂုဏ်တော်ကို ဆင်ခြင်ပါ၏" ဟု အဘွားဂျုတ်က ရွတ်ဆိုသည်။ "ဆက်ဆိုလေကွယ် " ဟု လှမ်းပြောသည်။

"အာမင်း " ဟု ကက်ဆီက ရေရွတ်သည်။

အဘွားဂျုတ်သည် ငြိမ်ဆိတ်လျက် ရှိ၏။ အပြင်ဘက်မှလည်း ဘာသံမှ မကြားရ။ တိတ်ဆိတ် ငြိမ်သက်လျက် ရှိသည်။ လမ်းမကြီးပေါ်မှ ဝေါခနဲ ဖြတ်သန်းသွားသည့် မော်တော်ကားတစ်စီး အသံ။ ကက်ဆီသည် မွေ့ရာဘေး၌ ဒူးထောက် ထိုင်နေဆဲ။ အပြင်ဘက်မှ လူစုသည် တိတ်ဆိတ်စွာ ရပ်၍ အတွင်းမှ အသံများကို နားစွင့်နေကြသည်။ ဆေရီက အဘွားဂျုတ်၏ လက်မောင်းကို ဆွဲကာ တဲအပြင်ဘက်သို့ ပို့ပေးသည်။ အဘွားဂျုတ်သည် သူ့ဂုဏ်သိက္ခာကို အကျမခံ။ ဦးခေါင်းကို မော့၍ တည်ငြိမ် အေးဆေးစွာ လိုက်ပါလာသည်။ သူ့မိသားစု ရှိရာသို့ ဣန္ဒြေမပျက် လျှောက်သွားသည်။ ဆေရီက အဘွားဂျုတ်အား မြေပေါ်၌ ဖြန့်ခင်းထားသည့် မွေ့ရာပေါ်၌ ထိုင်ပေးသည်။ အဘွားဂျုတ်သည် ဦးခေါင်းကို မော့ထားဆဲ။ သူ့အနေဖြင့် စိတ်ထိခိုက် ကြေကွဲခြင်းကို မပြ။ တည်ငြိမ်သော စိတ်ဖြင့် ကြံ့ကြံ့ခံနိုင်ခြင်းကို ဖော်ပြနေရသဖြင့် ဂုဏ်ယူသည်။ ရွက်ထည်တဲ အတွင်း၌မူ ပကတိ တိတ်ဆိတ်ငြိမ်သက်ခြင်း။ နောက်ဆုံးတွင် တဲ၏ ရွက်သည် ပိတ်တံခါး ပွင့်လာပြီး အတွင်းမှ ကက်ဆီ ထွက်လာသည်။

"ဘာဖြစ်တာလဲ " ဟု အဖေဂျုတ်က ညင်သာစွာ ဆီးမေးသည်။

"နလုံးပေါ့" ဟု ကက်ဆီက ပြောသည်။ "အတော့်ကို မြန်တာပဲ၊ တစ်မျိုး ကောင်းတာပေါ့လေ"

ဘဝသည် ပြန်လည် အသက်ဝင် လှုပ်ရှားစ ပြုသည်။ နေသည် မိုးနှင့် မြေအစပ်သို့ ဆင်းကာ သူ့ရောင်ခြည်များကို အစွမ်းကုန် ဖြန့်လွှတ်လျက် ရှိလေပြီ။ လမ်းမကြီး တစ်လျှောက်တွင် ဘေးနစ်ဖက် ဆေးနီရောင် သုတ်ထားသော ကုန်တင်ကားကြီးများသည် အတန်းလိုက် သွားလျက် ရှိကြသည်။ မိုးချုန်းသံတမျှ ကျယ်လောင်လှသော ကားသံ များသည် ပတ်ဝန်းကျင်တွင် ပဲ့တင်ထပ်လျက် ရှိသည်။ မြေပြင်သည် ငလျင်လှုပ် နေသည့်နှယ် တုန်ခါလျက် ရှိ၏။ အိပ်ဇောပိုက်များမှ ထွက်လာနေသော ဒီဇယ်ဆီ အခိုးအငွေ့ အပြာရောင်များသည် တလွင့်လွင့်မျောလျက် ရှိကြလေသည်။ ထရပ်ကား တစ်စီးလျှင် တစ်ယောက်က မောင်း၍ တစ်ယောက်က နားသည်ဖြစ်ရာ အနားရသူသည် ကားနောက် ပစ္စည်းပုံပေါ်တွင် အိပ်မောကျလျက် ရှိလေ၏။ ထရပ်ကားများသည် အလာပြတ်သွားသည်ဟု မရှိပေ။ တောက်လျှောက်သာ လာလျက် ရှိသည်။ နေ့ရော ညပါ မိုးချုန်းသံတမျှ ကျယ်လောင်သော အသံများကို အဆက်မပြတ် ပြုလျက် ရှိသည်။ ကုန်ပစ္စည်းများ အပြည့်တင်ထားသော လေးလံလှသည့် သူတို့၏ ကိုယ်ထည်များ အောက်မှ မြေကြီးသည် အဆက်မပြတ် တုန်ခါလျက် ရှိလေသည်။

မိသားစုသည် စုစည်းလာကြပြန်သည်။ အဖေဂျုတ်သည် မြေပေါ်တွင် ဆောင့်ကြောင့်ထိုင်လျက် ရှိ၏။ သူ့ဘေးတွင် ဦးလေးဂျွန်။ အခုဆိုလျှင် အဖေဂျုတ်သည် မိသားစုကို ဦးစီးဦးဆောင် ပြုရမည့် ခေါင်းဆောင် ဖြစ်လာခဲ့လေပြီ။ အမေသည် အဖေဂျုတ်အနီးတွင် ရပ်နေသည်။ နိုအာ၊ တွမ်နှင့် အယ်လ်တို့လည်း သူတို့အဖေ နည်းတူ မြေပေါ်တွင် ဆောင့်ကြောင့် ထိုင်နေကြသည်။ တရားဟောဆရာ ကက်ဆီကတော့ ဖင်ချထိုင်ကာ ပေါင်ပေါ်တွင် ထောက်ထားသည့် သူ့တံတောင်တစ်ဖက်တွင် မေးထောက်၍ တွေဝေ ငေးမောလျက် ရှိသည်။ ကွန်နီနှင့် ရိုစာဟန်တို့ကတော့ ခပ်လှမ်းလှမ်းတွင် လမ်းလျှောက်နေသည်။ ရူသီနှင့် ဝင်းဖီးတို့ မောင်နှမသည်။ ရေပုံးကို တစ်ယောက်တစ်ဖက် ဆွဲကာ စကားတပြောပြောနှင့် ပြန်လာလျက် ရှိသည်။ သူတို့သည် လူကြီးများ၏ အရိပ်အခြည်ကို ကြည့်၍ တစ်ခုခုတော့ ဖြစ်နေပြီဟု ရိပ်မိကြသည်။ စောစောက ခပ်သွက်သွက် လှမ်းနေသော ခြေလှမ်းများသည် တုံ့ဆိုင်းသွားသည်။ လက်တွင်းမှ ရေပုံးကို မနီးမဝေးတွင် ချထားခဲ့ကာ အမေ၏ ဘေး၌ အသာ ဝင်ရပ်နေကြသည်။

အဘွားဂျုတ်သည် သူ့နေရာ၌ ဣန္ဒြေမပျက် ထိုင်နေသည်။ ထို့နောက် မွေ့ရာပေါ်သို့ အသာအယာ လှဲလိုက်ပြီး သူ့လက်မောင်းတစ်ဖက်ကို သူ့မျက်နှာပေါ် တင်ထားသည်။ ဝင်လုဆဲ နေသည် မြေပြင်ပေါ်သို့ နီရဲသော ရောင်ခြည်များ လွှတ်ပေးလျက် ရှိ၏။ လူအားလုံး၏ မျက်နှာများသည် ညနေခင်း နေရောင်အောက်တွင် တောက်ပြောင်လျက် ရှိကြသည်။ ကောင်းကင်မှ ရောင်ပြန်ဟပ်သည့် အရောင်ကြောင့် မျက်လုံးများသည် တလက်လက် တောက်ပနေကြ၏။ ညနေခင်းသည် ရှိသမျှ အလင်းရောင်ကို စုပ်ယူဝါးမျိုစ ပြုလေပြီ။

"မစ္စတာ ဝီလ်ဆန်ရဲ့ တဲထဲမှာ ဖြစ်သွားတာ" ဟု အဖေဂျုတ်က စကား စသည်။

ဦးလေဂျွန်က ခေါင်းညိတ်သည်။ "သူကလည်း တဲကို သုံးဖို့ ခွင့်ပြုခဲ့တယ်"

"မိတ်ဆွေကောင်း ပီသပါတယ်" ဟု အဖေဂျုတ်က ရေရွတ်သည်။

ဝီလ်ဆန်သည် သူ့ကားပျက် အနီးတွင် ရပ်နေဆဲ။ ဆေရီက မွေ့ရာရှိရာသို့ သွားကာ အဘွားဂျုတ်၏ ဘေးတွင် ဝင်ထိုင်သည်။ သို့သော်လည်း ဆေရီသည် အဘွားဂျုတ်ကို နည်းနည်းကလေးမှ မထိမိအောင် သတိထားလေသည်။

"မစ္စတာ ဝီလ်ဆန်" ဟု အဖေဂျုတ်က လှမ်းခေါ်သည်။ ဝီလ်ဆန်သည် အဖေဂျုတ် ရှိရာသို့ လျှောက်လာပြီး အနီးတွင် ဆောင့်ကြောင့်ထိုင်သည်။ ဆေရီသည် ထိုင်နေရာမှ ထလာပြီး ဝီလ်ဆန်၏ ဘေး၌ ရပ်သည်။ အဖေဂျုတ်က "မင်းတို့ လင်မယားကို ကျုပ်တို့ မိသားစုက သိပ်ပြီး ကျေးဇူးတင်ပါတယ်ကွာ" ဟု ပြောသည်။

"ကျုပ်တို့ကလည်း အခုလို ကူညီခွင့်ရတာကိုပဲ ဝမ်းသာနေကြပါတယ်ဗျာ" ဟု ဝီလ်ဆန်က ပြန်ပြောသည်။

"တို့မိသားစုပေါ်မှာ တင်လာတဲ့ မင်းတို့ ကျေးဇူးဟာ ကြီးပါတယ်ကွယ်" ဟု အဖေဂျုတ်က ဆိုသည်။

"နာရေးကိစ္စမှာ ကျေးဇူးခံ ကျေးဇူးစား ဖြစ်ရတယ် ဆိုတာမျိုး မရှိပါဘူးဗျာ" ဟု ဝီလ်ဆန်က ပြန်ပြောသည်။ ဆေရီကပါ ဝင်၍ "ဟုတ်ပါတယ်ရှင်၊ ကျွန်မတို့ ဒီလို သဘောမထားပါဘူး" ဟု ပြောသည်။

"ကျုပ် ခင်ဗျားကားကို ပြင်ပေးမယ်၊ ကျုပ်နဲ့ ကျုပ်အစ်ကို တွမ်နဲ့ ပြင်ပေးမယ်" မိမိ၏ မိသားစုအပေါ်၌ တင်လာသော ကျေးဇူးကို မိမိ တတ်နိုင်သည့် နည်းဖြင့် တုံ့ပြန်နိုင်ခြင်း အတွက် အယ်လ်က ဂုဏ်ယူသည်။

"ရပါတယ်ကွာ၊ တို့ အတူတူ ဝိုင်းလုပ်ကြတာပေါ့" ဟု ဝီလ်ဆန်က ဆိုသည်။

"ကဲ တို့ ဘယ်လိုလုပ်ရင် ကောင်းမလဲဆိုတာ စဉ်းစားကြမှ ဖြစ်မယ်၊ ဥပဒေကလည်း ရှိတယ် မဟုတ်လား၊ သေရင် သက်ဆိုင်ရာကို အကြောင်းကြားရမယ်၊ အကြောင်းကြားရင် သင်္ဂြိုဟ်စရိတ် ဒေါ်လာ လေးဆယ် တောင်းလိမ့်မယ်၊ မပေးနိုင်ရင် လူဆင်းရဲ အဖြစ် စာရင်းသွင်းပြီး သူတို့စရိတ်နဲ့ သင်္ဂြိုဟ်ပေးမယ်" ဟု အဖေဂျုတ်က တင်ပြသည်။

"ငါတို့အထဲမှာ လူဆင်းရဲ အဖြစ် သင်္ဂြိုဟ်ခဲ့တာ တစ်ယောက်မှ မရှိဘူး" ဟု ဦးလေဂျွန်က ဝင်ပြောသည်။

"စဉ်းစားဖို့တော့ လိုလိမ့်မယ်၊ ကျုပ်တို့ မိသားစုထဲက သေခဲ့တဲ့ လူတွေကို ကိုယ့်မြေပေါ် ကိုယ်မြှုပ်ခဲ့ကြတာ" ဟု တွမ်က ပြောပြန်သည်။

"တို့ လုပ်ခဲ့တာ အလွန် ရှင်းပါတယ်" ဟု အဖေဂျုတ်က ပြောသည်။ "တို့အပေါ် ဘယ်သူကမှ လာပြီး အပြစ်တင်လို့ မရပါဘူး၊ တို့အနေနဲ့ တန်ရာတန်ကြေး မပေးနိုင်ရင် ဘယ်သူ့ဆီက ဘာမှ မယူခဲ့ပါဘူး၊ သူတစ်ပါး ပေးတာ ကမ်းတာကို လက်ဖြန့်ခံပြီး စားခဲ့တဲ့ လူတွေမှ မဟုတ်တာ၊ တွမ် အမှုဖြစ်တုန်းက ဆိုရင် ငါတို့ ဘယ်သူ့ဆီကမှ အကူအညီ မတောင်းခဲ့ပါဘူး၊ ငါတို့ မိသားစု ခေါင်းချင်းဆိုင်ပြီး ကိုယ့်အားနဲ့ကိုယ် ဖြေရှင်းခဲ့ကြတာပဲ"

"ကဲ ဒီလိုဆို အခု ဘယ်လိုလုပ်ကြမလဲ" ဦးလေးဂျွန်က လိုရင်းကို မေးသည်။

"ဥပဒေက ပြောထားတဲ့အတိုင်းသာ လုပ်ကြမယ် ဆိုရင်တော့ သူတို့က သူ့အတွက် ကုန်ကျစရိတ်ငွေ တောင်းမှာ သေချာတယ်၊ တို့မှာ ကျန်တဲ့ လက်ကျန်ငွေက ဒေါ်လာ တစ်ရာ့ငါးဆယ်၊ အဘိုးဂျုတ်ကို မြေမြှုပ်ဖို့အတွက် ဒေါ်လာလေးဆယ် ပေးလိုက်ရင် ငါတို့ ကယ်လီဖိုးနီးယားကို ရောက်မှာ မဟုတ်တော့ဘူး၊ အဲဒီတော့ သင်္ဂြိုဟ်စရိတ် မကုန်အောင် လူဆင်းရဲအဖြစ် သင်္ဂြိုဟ်မလား" ယောကျ်ားများ အားလုံး

စိတ်လှုပ်ရှားလျက် ရှိကြသည်။ သတို့သည် သူတို့ မျက်စိအောက်များမှ မည်းနက် တောက်ပြောင်နေသော မြေကြီးကို စူးစိုက်၍ ကြည့်ကာ ဉာဏ်မီသမျှ စဉ်းစား ကြံဆလျက် ရှိကြလေ၏။

အဖေဂျုတ်က အေးအေးသာသာဖြင့် ရှင်းပြပြန်သည်။ "အဘိုးဂျုတ်ဟာ သူ့အဖေကို သူ့လက်နဲ့ မြှုပ်ခဲ့တယ်၊ သိက္ခာရှိရှိ ဂုဏ်ရှိရှိနဲ့ တွင်းကို သူကိုယ်တိုင် စိတ်တိုင်းကျ တူးပြီး မြှုပ်ခဲ့တယ်၊ အဲဒီတုန်းကတော့ အဖေတစ်ယောက် သေရင် သားရဲ့ အမြှုပ်အနှံကို ခံနိုင်ခွင့် ရှိတဲ့အချိန်၊ သားလုပ်သူကလည်း သူ့အဖေကို သူ့လက်နဲ့ သူကိုယ်တိုင် မြှုပ်နှံခွင့် ရှိတဲ့ အချိန်ကိုးကွ"

"အခုတော့ ဥပဒေက တစ်မျိုးပြောနေပြီလေကွာ" ဟု ဦးလေးဂျွန်က ပြောသည်။

"တစ်ခါတစ်လေ ကျတော့လည်း ဥပဒေက ပြောထားတဲ့အတိုင်း လုပ်နိုင်တဲ့ အခြေအနေ မရှိဘူးကွ" ဟု အဖေဂျုတ်က ဆိုသည်။ "အံ့ဝင်ခွင်ကျကို မဖြစ်ဘူး၊ သူ ပြောထားတဲ့အတိုင်း မလုပ်နိုင်တာတွေ အများကြီးပဲ၊ ဖလွိုက်ဆိုတဲ့ကောင် လူဆိုး ဖြစ်သွားတုန်းက ကြည့်ပါလား၊ ဥပဒေက ပြောတယ်၊ ဖလွိုက်ကို တို့အားလုံးက ဝိုင်းဖမ်းပြီး အပ်ရမယ်တဲ့၊ ငါတို့ အပ်ခဲ့သလား၊ ဘယ်သူမှ မအပ်ခဲ့ဘူး၊ တစ်ခါတစ်ရံမှာတော့ လူတစ်ယောက်ဟာ ဥပဒေကို မေ့ထားရတာပဲပေါ့ကွာ၊ အခု ငါ ပြောနေတဲ့ သဘောက ငါ့အဖေကို ငါကိုယ်တိုင် မြှုပ်နှံခွင့် ရှိတယ် ဆိုတဲ့ သဘော ပြောနေတာပါ၊ ကဲ မင်းတို့မှာ ဘာများ ပြောစရာ ရှိသေးသလဲ"

တရားဟောဆရာ ကက်ဆီက "ဥပဒေတွေကတော့ ပြောင်းနေတာပဲ" ဟု ဆိုသည်။ "ဒါပေမဲ့ လုပ်ရမယ့် အလုပ်တွေကိုတော့ လုပ်နေကြတာပဲ၊ ခင်ဗျား လုပ်ရမယ့် အလုပ်ကိုတော့ ခင်ဗျား လုပ်ရမှာပဲ၊ လုပ်လည်း လုပ်ပိုင်ခွင့် ရှိနေတာပဲ"

အဖေဂျုတ်က ဦးလေးဂျွန်ကို လှည့်ကြည့်သည်။ "ဒီအခွင့်အရေးကို မင်းလည်း ပိုင်တာပဲ၊ ငါ တစ်ဦးတည်း ပိုင်တာ မဟုတ်ဘူး၊ အခုနက ငါပြောတာကို မင်း သဘောတူရဲ့လား"

"သဘောမတူစရာ ဘာရှိလဲ" ဟု ဦးလေးဂျွန်က ဆိုသည်။ "တစ်ခုပဲ ရှိတယ်၊ သူ့ကို ညကြီးမင်းကြီး အမှောင်အောက်မှာ ပုန်းလျှိုးကွယ်လျှိုး မြှုပ်သလို ဖြစ်မနေဘူးလား၊ ပြီးတော့ သိကြတဲ့အတိုင်းပဲ၊ အဘိုးဂျုတ်က အမဲလိုက်တောင် လိုက်တာ မဟုတ်ဘူး"

"အဘိုးဂျုတ် စိတ်တိုင်းကျတော့ ငါတို့ မလုပ်နိုင်တော့ဘူးပေါ့ကွာ၊ ငါတို့ လက်ထဲမှာ ကျန်တဲ့ငွေကလေး မကုန်ခင် ကယ်လီဖိုးနီးယားကို ရောက်အောင် သွားဖို့က လိုသေးတယ် မဟုတ်လားကွ"

တွမ်က ကြားဖြတ်၍ ပြောသည်။ "တစ်ခါတစ်လေကျရင် တွင်းကို ပြန်တူးပြီး မြှုပ်ထားတဲ့ လူသေကို ဖော်တတ်တယ်ဗျ၊ ရိုးရိုးသေတာလား၊ လူသတ်လို့ သေသွားတာလား ဖြစ်တတ်တယ်၊ အစိုးရက အသက်ရှင်နေတဲ့ လူတစ်ယောက်ထက် သေသွားတဲ့ လူတစ်ယောက်အပေါ်မှာ ပိုပြီး စိတ်ဝင်စားတတ်တယ်၊ သေသွားမှပဲ ဘယ်သူလဲ၊ ဘယ်လို သေတာလဲနဲ့ လျှောက်စစ်နေလိုက်တာ မီးခိုးမဆုံး မိုးမဆုံးပဲ၊ အဲဒီတော့ ကျုပ် တစ်ခု လုပ်ချင်တယ်၊ စာရွက် တစ်ရွက်ပေါ်မှာ သေတဲ့သူ ဘယ်သူ၊ ဘယ်လို သေတယ်၊ ဘာကြောင့် ဒီနေရာမှာ မြှုပ်ထားခဲ့ရတယ် ဆိုတာတွေ ရေးပြီး ပုလင်းတစ်လုံးနဲ့ထည့်၊ အဘိုးအလောင်းနဲ့ အတူတူ မြှုပ်ထားခဲ့ချင်တယ်"

အဖေဂျုတ်က ခေါင်းတစ်ချက် ညိတ်ကာ သဘောတူကြောင်း ဖော်ပြသည်။ "အေး ကောင်းသားပဲ၊ လက်ရေးလှလှလေး ရေးပေါ့၊ သူ့မှာလည်း မြေကြီးထဲမှာ အထီးကျန် မဖြစ်တော့ဘူးပေါ့၊ သူ့နာမည် သူနဲ့ အတူတူ ရှိနေရင် တစ်မျိုး ကောင်းတာပေါ့၊ ကဲ ဘာများ ပြောစရာ ရှိကြသေးလဲ"

အားလုံး ငြိမ်နေကြသည်။

အဖေဂျုတ်က အမေဂျုတ်ဘက် လှည့်၍ "သူ့အလောင်းကို မင်း ပြင်မလား" ဟု မေးသည်။

"ကျွန်မပဲ ပြင်မယ်လေ" ဟု အမေက ဖြေသည်။ "ဒါပေမဲ့ ညစာကို ဘယ်သူ ချက်မလဲ"

ဆေရီဝီလ်ဆန်က လှမ်းပြောသည်။ "ကျွန်မ ချက်ပေးမယ်၊ ရှင် လုပ်စရာရှိတာသာ လုပ်ပါ၊ ကျွန်မနဲ့ ဟို ရှင့်သမီး အကြီးမလေးနဲ့ ချက်ရင် ဖြစ်ပါတယ်"

"ကျေးဇူးတင်ပါတယ်" ဟု အမေက ပြောသည်။ "နိုအာရေ၊ အသားစည်သွတ်ဗူး တစ်ဗူး ဖွင့်ပြီး ဝက်သားနည်းနည်း ထုတ်ပါကွယ်၊ ဆားကတော့ သိပ်ဝင်ဦးမယ် မထင်ဘူး၊ ဒါပေမဲ့ စားလို့တော့ ကောင်းမှာပါ"

"ကျွန်မတို့မှာလည်း အာလူး တစ်ဝက်လောက် ကျန်ပါသေးတယ်" ဟု ဆေရီက ပြောသည်။

အမေက အဖေဂျုတ်ကို လှမ်းကြည့်ပြီး "ကျွန်မကို ဆင့်ငါးဆယ်စေ့ နှစ်စေ့ ပေးပါ" ဟု တောင်းသည်။ အဖေဂျုတ်က သူ့အိတ်ကပ်ထဲမှ ဆင့်ငါးဆယ် ငွေပြား ထုတ်ပေးသည်။ အမေသည် ဇလုံတစ်ခုကို ယူပြီး ရေအပြည့်ထည့်ကာ တဲထဲသို့ ဝင်သွားသည်။ တဲအတွင်း၌ မှောင်လျက် ရှိလေပြီ။ ဆေရီက နောက်မှ ဝင်လိုက်လာသည်။ ဖယောင်းတိုင် တစ်တိုင် ထွန်း၍ သေတ္တာတစ်လုံးပေါ် စိုက်ပေးကာ ပြန်ထွက်သွားလေ၏။

အမေသည် အသက် ကင်းမဲ့နေပြီ ဖြစ်သော အဘိုးဂျုတ်၏ မျက်နှာကို တစ်ခဏမျှ ငေးကြည့်နေမိသည်။ အဘိုးဂျုတ်အပေါ်၌ ကြင်နာသနားသော စိတ်သည် အမေ့ရင်တွင် လှိုက်လှိုက်လှဲလှဲ ဖြစ်ပေါ်လာသည်။ သူသည် သူ့ခါးမှ မီးဖိုချောင်သုံး ခါးစည်းအဝတ် အောက်စကို အနည်းငယ် ဆုတ်ယူလိုက်ပြီး အဘိုးဂျုတ်၏ ဟနေသော ပါးစပ် စေ့သွားစေရန် မေးမှနေ၍ သိုင်းချည်ပေးသည်။ လက်နှစ်ဖက်ကို ဆွဲဆန့်ကာ ရင်ဘက်ပေါ်သို့ ထပ်၍ တင်ပေးသည်။ ပွင့်ဟနေသည့် မျက်ခွံများကို အောက်သို့ ဆွဲချကာ အပေါ်မှ လက်ချောင်းများဖြင့် အသာ ဖိပိတ်ပေးထားပြီး ဆင့်ငါးဆယ်စေ့ နှစ်စေ့ကို မျက်ခွံနှစ်ခု ပေါ်သို့ တင်ထားပေးသည်။ ထို့နောက် ဟောင်းလောင်း ဖြစ်နေသော အင်္ကျီရင်ဘတ် ကြယ်သီးများကို တပ်ပေးပြီး မျက်နှာကို ရေပတ် တိုက်ပေးလေသည်။

ဆေရီက တဲတံခါးရွက်ကို ဆွဲဖွင့်ကာ အပြင်မှနေ၍ ငုံ့ကြည့်သည်။ "ကျွန်မ ဘာလုပ်ပေးဖို့ လိုဦးမလဲ"

အမေက မော့ကြည့်သည်။ "ခဏလောက် အထဲ ဝင်ခဲ့ပါဦးလား" ဟု ခေါ်သည်။ "ကျွန်မ ပြောစရာ နည်းနည်းရှိနေလို့"

ဆေရီ တဲထဲ ရောက်လာသည်။ "ရှင်သမီးလေးက တော်သားပဲ၊ လုပ်တတ်ကိုင်တတ်တယ်၊ အခု သူ အာလူး အခွံခွာနေခဲ့တယ်၊ ကဲ ကျွန်မ ဘာလုပ်ပေးရမလဲ"

"အဘိုးဂျူတ် တစ်ကိုယ်လုံးကို ကျွန်မ ရေပတ်တိုက်ပေးတော့မလို့" ဟု အမေက ပြောသည်။ "ဒါပေမဲ့ သူ့ကို အဝတ်အစား ထပ်လဲပေးဖို့ အပိုကလည်း မရှိဘဲ ဖြစ်နေတယ်၊ အလောင်းအောက်မှာ ရှိနေတဲ့ ရှင်တို့ ဂွမ်းစောင်ကလည်း အခုပုံအတိုင်းဆိုရင် ဆက်သုံးလို့ကောင်းမှာ မဟုတ်တော့ဘူး ထင်တယ်၊ လူသေ အနံ့အသက် စွဲသွားတဲ့ စောင်တို့ မွေ့ရာတို့ ဆိုတာ မသုံးတာဘဲ ကောင်းပါတယ်၊ လွန်ခဲ့တဲ့ နှစ်နှစ်ဧလောက်က ကျွန်မအမေ သေတော့ သုံးခဲ့တဲ့ မွေ့ရာကို ခွေးတစ်ကောင်က ကိုက်ဝါးပစ်တာ တွေ့ခဲ့ဖူးတယ်၊ အဘိုးဂျူတ်ရဲ့ အလောင်းကို ကျွန်မ ရှင်တို့စောင်နဲ့ ထုပ်လိုက်ချင်တယ်၊ ဂွမ်းစောင် တစ်ထည် အစား ပြန်ပေးပါ့မယ်"

"အဲသလို မပြောပါနဲ့၊ အစားပြန်ပေးဖို့ မလိုပါဘူး၊ ကျွန်မတို့အနေနဲ့ ဘာပဲ ကူညီရ ကူညီရ ဝမ်းမြောက်ဝမ်းသာနဲ့ ကူညီမှာပါ၊ လူတွေ အကူအညီ လိုလာရင် လူတွေကပဲ ကူညီရမှာပေါ့၊ မဟုတ်ဘူးလား"

အမေက ခေါင်းညိတ်သည်။ "ရှင် ပြောတာ မှန်ပါတယ်" ဟု အလိုက်သင့် ပြန်ပြောသည်။ အမေသည် အဘိုးဂျူတ်၏ မျက်နှာကို တစိမ့်စိမ့် ကြည့်နေသည်။ မျက်ခွံများပေါ်မှ ငွေပြား နှစ်ပြားသည် ဖယောင်းတိုင် မီးရောင်အောက်တွင် တလက်လက် တောက်ပလျက် ရှိလေသည်။ "မျက်နှာက နဂိုအတိုင်း မဟုတ်တော့ဘူး၊ သိပ်ပျက်သွားပြီ၊ တစ်ကိုယ်လုံး စောင်နဲ့ လုံအောင် ထုပ်လိုက်တာပဲ ကောင်းမယ်"

"အဘွားကြီးက အတော့်ကို ခံနိုင်ရည် ရှိသားပဲနော်"

"သူလည်း အိုလှပြီ မဟုတ်လား၊ ဘာဖြစ်နေတယ် ဆိုတာတောင် တိတိကျကျ သိရဲ့လား မပြောတတ်ဘူး၊ သိချင်မှ သိမှာ၊ တစ်ခုတော့ ရှိတယ်၊ အခုလို ခံနိုင်ရည်ရှိတာကို ကျွန်မတို့ မိသားစု ဂုဏ်ယူတတ်ကြတယ်၊ ကျွန်မ အဖေ ပြောလေ့ပြောထရှိတဲ့ စကားတစ်ခွန်း ရှိတယ်၊ ဘယ်သူမဆို ငိုနိုင်တယ်၊ ဒါပေမဲ့ ယောကျ်ားကတော့ မငိုရဘူးတဲ့၊ ဒါကြောင့်မို့ ကျွန်မတို့ စိတ်ဓာတ် ကြံ့ခိုင်အောင် အမြဲ ကြိုးစားပြီး နေခဲ့ကြတယ်" အမေသည် အဘိုးဂျူတ်၏ ခြေထောက်များနှင့် လက်များကို စောင်ဖြင့် ကျစ်ကျစ်ပါအောင် ထုပ်သည်။ ထို့နောက် စောင်၏ အပေါ်ဘက် ထောင့်စများကို ခေါက်၍ အဘိုးဂျူတ်၏ ခေါင်းကိုအုပ်ကာ

မျက်နှာတစ်ခုလုံး လုံသွားအောင် ဖုံးလိုက်သည်။ ပြီးမှ ဆေရီ လှမ်းပေးသည့် ဆံထိုး အကြီးစား တစ်ဒါဇင်ဖြင့် စောင်စချင်း ထပ်၍ ထိုးလိုက်၏။ အချိန်အနည်းငယ် အတွင်းမှာပင် အဘိုးဂျူတ်၏ အလောင်းသည် အမေ၏ ကျွမ်းကျင်သော လက်များအောက်တွင် ကျစ်ကျစ်လစ်လစ်နှင့် သပ်သပ်ရပ်ရပ် ရှိသော အလောင်းထုပ် တစ်ထုပ် ဖြစ်သွားလေ၏။

အမေသည် ထိုင်ရာမှ ထရပ်လိုက်သည်။ "မြေမြှုပ်တဲ့အခါမှာ သပ်သပ်ရပ်ရပ် မြှုပ်လို့တော့ ရသွားပြီ" ဟု ရေရွတ်သည်။ "သူ့အတွက် တရားဟောဆရာလည်း အသင့်ရှိတယ်၊ မိသားစုလည်း စုံတယ်၊ မဆိုးပါဘူး" ရုတ်တရက် အမေ့ ခန္ဓာကိုယ်သည် နောက်သို့ ယိမ်းယိုင်သွားသည်။ ဆေရီသည် အမေ့အနီးသို့ ဖျတ်ခနဲ ရောက်လာပြီး လဲကျမသွားအောင် ထိန်းပေးသည်။ "အိပ်ရေးပျက်လို့" အမေက ရှက်ရွံ့သော လေသံဖြင့် ပြောသည်။ "ကိစ္စမရှိပါဘူး၊ ကျွန်မ ကောင်းသွားပါပြီ၊ ရှင် မြင်တဲ့အတိုင်းပဲ၊ အလုပ်ကလည်း များတယ် မဟုတ်လား"

"ကဲ လာ၊ အပြင်ထွက်ရအောင်" ဟု ဆေရီက ခေါ်သည်။

"ဒီမှာ လုပ်စရာ ရှိသမျှတော့ ပြီးသွားပြီ"

ဆေရီက ဖယောင်းတိုင်မီးကို မှုတ်လိုက်ပြီး နှစ်ယောက်သား အပြင်သို့ ထွက်ခဲ့ကြလေ၏။

ကျောက်တုံး နှစ်တုံးကြားရှိ မီးဖိုသည် တထိန်ထိန် တညီးညီး တောက်လောင်လျက် ရှိလေသည်။ တွမ် လုပ်ထားသော ထောက်တိုင် နှစ်တိုင်ပေါ်တွင် တန်းပစ်၍ ချိတ်ဆွဲထားသည့် အိုးနှစ်လုံးသည် ပွက်ပွက်ဆူလျက် ရှိ၏။ အိုးများအတွင်းမှ အခိုးအငွေ့များသည် အဖုံးများ ကြားမှနေ၍ အပြင်သို့ တွန်းကန်၍ ထွက်လာလျက်ရှိသည်။ မီးဖိုနှင့် ခပ်လှမ်းလှမ်းတွင် ရိုစာဟန်သည် ယောက်ချိုဖွန်းကြီး တစ်ချောင်းကိုင်၍ ထိုင်နေသည်။ သူသည် အမေ တဲထဲမှ ထွက်လာသည်ကို မြင်သောအခါ ထိုင်ရာမှ ထလာလေ၏။

"အမေ" ရိုစာဟန်က ဆီး၍ ခေါ်သည်။ "အမေ့ကို မေးစရာရှိလို့"

"ညည်းက ကြောက်နေပြန်ပြီလား" ဟု အမေက မေးသည်။. "ဘာမေးမှာလဲ၊ ဘာဖြစ်လို့လဲ၊ ညည်းကိုယ်ဝန်က ကိုးလကြီးတောင် လွယ်ထားရမှာ၊ ဝမ်းနည်းစရာ အဖြစ်တစ်ခုခုနဲ့ မကြုံရဘဲ ဒီကိုးလကို ကျော်ဖြတ်မသွားနိုင်ဘူး ရှီစာဟန်"

"ဒါပေမဲ့ အမေရယ်၊ ကလေးကိုများ ထိခိုက်မလားလို့ပါ"

"လူတွေ ပြောလေ့ပြောထ ရှိတဲ့ စကားတစ်ခွန်း ရှိတယ်၊ ဝမ်းနည်းကြေကွဲမှုများကြားမှ မွေးဖွားလာသော ကလေးသည် ပျော်ပျော်နေတတ်သော ကလေးတစ်ယောက် ဖြစ်လာလိမ့်မည်တဲ့၊ ကြားဖူးတယ် မဟုတ်လား မစ္စက် ဝီလ်ဆန်"

"ဟုတ်တယ်၊ ကျွန်မ ကြားဖူးတယ်" ဟု ဆေရီက ပြောသည်။ "ကျွန်မ နောက်တစ်မျိုး ကြားဖူးသေးတယ်၊ ပျော်ရွှင် သာယာမှုများ အတွင်းမှ မွေးဖွားလာသော ကလေးသည် အလွန် ပူပင်သောကကြီးသော ကလးတစ်ဦး ဖြစ်လာလိမ့်မည်တဲ့"

"ဗိုက်ထဲက သိပ်လှုပ်နေတယ် အမေ" ဟု ရှီစာဟန်က ထပ်ပြောသည်။

"ဒီလိုချည်းပါပဲအေ၊ သူ လှုပ်နေတာဟာ တမင်သက်သက် ပျော်လို့ အပျင်းပြေ လှုပ်နေတာ မဟုတ်ပါဘူး" ဟု အမေက ပြန်ပြောသည်။ "ညည်း တခြား ဘာမှ တွေးမနေနဲ့၊ မီးဖိုပေါ်က အိုးတွေကိုသာ ဂရုစိုက်ပြီး ကြည့်"

ထင်းမီးဖိုမှ ထွက်နေသည့် မီးရောင် မရောက်တရောက် နေရာတွင် ယောက်ျားအားလုံး စုဝေးလျက် ရှိကြသည်။ သူတို့တွင် လက်နက်ကိရိယာ ဆို၍ ဂေါ်ပြားတစ်ချောင်းနှင့် ပေါက်ချွန်းတစ်ချောင်းသာ ရှိလေသည်။ အဖေဂျုတ်သည် မြေကြီးပေါ်တွင် အလျား ရှစ်ပေ အကျယ် သုံးပေခန့် ကွက်၍ နေရာ သတ်မှတ်ထားသည်။ အလုပ်ကို အလှည့်ကျ စနစ်ဖြင့် လုပ်ကြသည်။ အဖေဂျုတ်က မြေကို ပေါက်တူးနှင့် ပေါက်သည်။ ဦးလေဂျွန်က မြေကြီးများကို ဂေါ်ပြားနှင့် ကော်၍ ထုတ်သည်။ အယ်လ်က မြေပေါက်သည့်အခါ တွမ်က မြေကော်သည်။ နိုအာက ပေါက်ချွန်း ကိုင်သည့်အခါ ကျွန်နီက ဂေါ်ပြား ကိုင်သည်။ ဤသို့ဖြင့် တွင်းသည် အောက်သို့ နက်၍ နက်၍ လာသည်။ အလှည့်ကျ စနစ်ဖြင့် မရပ်မနား လုပ်သွားခြင်း ဖြစ်၍ အလုပ်သည် လျင်မြန်သည်။ တွင်းထဲမှ ကော်၍ ပက်ထုတ်လိုက်သော မြေကြီးများမှာ တွင်း၏ ဘေးတွင် အပုံလိုက်။

လေးထောင့်စပ်စပ် တူးထားရသော တွင်း၏ အနက်သည် တွမ်၏ပခုံး မြုပ်လာသည်။ "ဘယ်လောက် အနက် တူးရမှာလဲ အဖေ" ဟု တွင်းထဲမှ တွမ်က လှမ်းမေးသည်။

"နောက်ထပ် နှစ်ပေလောက် နက်ရင် တော်ပြီ၊ ကဲ မင်း အပေါ်ပြန်တက်၊ မင်း ပြောထားတဲ့ စာကို ရေးတော့"

တွမ်က တွင်းဘေးနှစ်ဖက်ကို ခြေကန်၍ အပေါ်သို့ တက်သည်။ နိအာက တွမ်၏ နေရာကို ယူသည်။ တွမ်သည် မီးဖိုနားတွင် ထိုင်၍ မီးထိုးနေသော အမေ့ထံ ရောက်လာသည်။ "ကျုပ်တို့မှာ စာရွက်နဲ့ ဖောင်တိန် ပါသလား အမေ"

အမေက ဖြည်းညင်းစွာ ခေါင်းကိုယမ်းသည်။ "မပါဘူး၊ အမေတို့ မယူခဲ့တဲ့ ပစ္စည်းတစ်မျိုးပဲ" အမေသည် ဆေရီကို လှမ်းကြည့်သည်။ ဆေရီသည် တဲဘက်သို့ ပြန်လျှောက်သွားသည်။ ပြန်ထွက်လာသည့်အခါ သူ့လက်ထဲတွင် သမ္မာကျမ်းစာအုပ်နှင့် ခဲတံတိုတစ်ချောင်း ပါလာလေသည်။ "ဒီစာအုပ်ထဲက ရှေ့ဆုံးစာရွက်ဟာ အလွတ်ပဲ၊ အဲဒီစာရွက်ကို ဆုတ်ပြီး သုံးပြီး" ပြောပြောဆိုဆိုပင် သူ့လက်ထဲမှ စာအုပ်နှင့် ခဲတံကို တွမ်၏ လက်သို့ ကမ်းပေးသည်။

တွမ်သည် မီးဖိုဘေးတွင် ထိုင်သည်။ သူသည် မျက်တောင်များကို တဖျတ်ဖျတ် ခတ်ကာ စဉ်းစား စိတ်ကူးလျက် ရှိ၏။ ထို့နောက် သတိကြီးစွာထား၍ စာလုံးများကို ခပ်ကြီးကြီး ပီပီသသ ဖြစ်အောင် ဖြည်းဖြည်းမှန်မှန် ရေးသည်။

"ဒီပုတ်ကိုသည် နလုံးရောဂါဖြင့် ရုတ်တရက် ကွယ်လွန်ခဲ့ရသော အဘိုးအို ဝီလျံ ဂျိမ်းစ်ဂျုတ် ဖြစ်ပါသည်။ သင်္ဂြိုဟ်ရန် စရိတ်မရှိ၍ သူ့သားသမီး မိသားစုက ဒီနေရာမှာ မြှုပ်ခဲ့ခြင်း ဖြစ်ပါသည်။ သူ့ကို ဘယ်သူမှ မသတ်ပါ။ နလုံးရောဂါကြောင့် ရုတ်တရက် သေရခြင်း ဖြစ်ပါကြောင်း"

သူသည် စာကို ဤနေရာတွင် အဆုံးသတ်လိုက်သည်။ "အမေ ကျုပ်ရေးထားတာ နားထောင်စမ်းပါဦး" ဟု ပြောကာ ဖတ်ပြသည်။

"ကောင်းသားပဲ" ဟု အမေက ဆိုသည်။ "သမ္မာကျမ်းစာထဲက စာပိုဒ်လေး တစ်ပိုဒ်လောက် မထည့်တော့ဘူးလား၊ ထည့်လိုက်ရင် ပိုကောင်းသွားမယ်၊ ဘာသာ ကိုင်းရှိုင်းရာလည်း ရောက်သွားမယ်၊ အဲဒီ သမ္မာကျမ်းစာအုပ်ထဲမှာ ရှာကြည့်ပါလား"

"တိုတိုရေးမှ ဖြစ်မှာ အမေရ" ဟု တွမ်က ပြောသည်။ "စာရွက်ပေါ်မှာ ရေးစရာ နေရာက သိပ်မရှိတော့ဘူး"

"ဘုရားသခင်သည် သူ့ဝိညာဉ်အပေါ်တွင် ကရုဏာထားတော်မူစေသတည်း ဆိုတဲ့ စာတန်းကို မကြိုက်ဘူးလား" ဟု ဆေရီက မေးသည်။

"မကောင်းဘူး ထင်တယ်" ဟု တွမ်က အဖြေပေးသည်။ "ဒီစကားဆိုရင် သူ့ကို နိမ်ရာကျသွားမှာ၊ ကျုပ် ဒီစာအုပ်ထဲက သင့်တဲ့ စာတန်းတစ်ခု ရှာကြည့်လိုက်ဦးမယ်" ဟု တွမ်က သမ္မာကျမ်းစာအုပ်ကို တစ်ရွက်ပြီး တစ်ရွက် လှန်သည်။ ခပ်တိုးတိုး အသံထွက်၍ ဖတ်သည်။ "တွေ့ပြီ၊ တိုတိုကလေးနဲ့ ကောင်းတယ်" ဟု ရေရွတ်သည်။ "ဘုရားသခင်သည် သူ့တို့အား မိန့်ကြားတော်မူသည်၊ အို၊ အဘ ဘုရားသခင်၊ ဤကဲ့သို့ မဟုတ်ပါ"

"မင်းဟာ ဘာအဓိပ္ပာယ်မှန်းမှ မသိတာ" ဟု အမေက ပြောသည်။ "အဓိပ္ပာယ် တစ်ခုခုရှိမှ ကောင်းမှာပေါ့ကွယ်"

"ဆာလမ် ကျမ်းစာ အခန်းမှာ ရှာကြည့်ပါလား၊ ရှေ့နား လှန်လိုက်၊ ဆာလမ် ကျမ်းစာ အခန်းမှာ အပိုဒ် ကောင်းကောင်းလေးတွေ တွေ့တတ်တယ်" ဟု ဆေရီက ပြောသည်။

တွမ်က စာရွက်များကို ထပ်၍ လှန်ပြန်သည်။ "ဒီမှာ တစ်ခုတွေ့ပြီ၊ ဒီဟာကတော့ တကယ်ကောင်းတယ်၊ နားထောင်၊ ပြုခဲ့သော မကောင်းမှု ဒုစရိုက်များမှ ခွင့်လွှတ်ခြင်း ခံရသူအား ကောင်းချီးမင်္ဂလာ ပြုပါစေသတည်း၊ ဒီစာပိုဒ် မကောင်းဘူးလား"

"သိပ်ကောင်းတယ်၊ အဲဒါကိုပဲ ရေးထည့်လိုက်တော့" ဟု အမေက ပြောသည်။

တွမ်သည် စာပိုဒ်ကို သတိထား၍ ကူးရေးသည်။ အမေက သစ်သီးပုလင်းအလွတ် တစ်လုံးကို ယူ၍ ရေနင့်ကျင်းကာ အဝတ်တစ်ထည်နှင့် ပြောင်စင်သွားအောင် သုတ်ပြီး တွမ်အား ပေးသည်။ တွမ်က သူရေးထားသည့် စာရွက်ကို ပုလင်းထဲသို့ ထည့်၍

ကျပ်သွားအောင် ပိတ်လိုက်လေသည်။ "တရားစာကျတော့ တရားဟောဆရာ ရေးရင် ကောင်းမယ် ထင်တယ် အမေ" ဟု ပြောသည်။

"မလိုပါဘူးကွယ်၊ သူ့ခိုင်းလည်း ရေးမှာ မဟုတ်ပါဘူး" ဟု အမေက ပြန်ပြောသည်။ သူသည် တွမ်၏ လက်ထဲမှ ပုလင်းကို ယူ၍ တဲထဲသို့ ဝင်ခဲ့သည်။ တဲအတွင်းဝယ် မှောင်မိုက်လျက် ရှိ၏။ အမေသည် အလောင်းတွင် ပတ်ထားသည့် စောင်ကို ပြန်ဖွင့်ကာ အဘိုးဂျုတ်၏ လက်အောက်၌ ပုလင်းကို ထည့်ထားလိုက်ပြီး စောင်ကို လုံအောင် ပြန်ပိတ်သည်။ ထို့နောက် တဲထဲမှ ပြန်ထွက်ကာ မီးဖိုဆီသို့ ပြန်လျှောက်သွားလေ၏။

ယောကျ်ားများသည် မြေပုံဆီမှ ပြန်လာကြသည်။ သူတို့ မျက်နှာများမှာ ချွေးသီး ချွေးပေါက်များဖြင့် ပြောင်လက်နေကြလေသည်။ "ကဲ သယ်ကြစို့" ဟု အဖေဂျုတ်က ပြောသည်။ သူသည် ဦးလေးဂျွန်၊ နိုအာ၊ အယ်လ်တို့နှင့်အတူ တဲထဲသို့ ဝင်သည်။ သူတို့သည် အဘိုးဂျုတ်၏ အလောင်းကို မထုတ်လာကြပြီး မြေပုံဆီသို့ တောက်လျှောက် သယ်သွားကြလေ၏။ မြေပုံသို့ ရောက်သောအခါ အဖေဂျုတ်က တွင်းထဲသို့ ခုန်ဆင်းသည်။ အောက်မှနေ၍ အလောင်းထုပ်ကို အသာလှမ်းယူပြီး တွင်းထဲသို့ ဖြည်းဖြည်းချင်း ချပေးသည်။ ဦးလေးဂျွန်က လက်တစ်ဖက် ကမ်းပေးပြီး အဖေဂျုတ်ကို တွင်းပေါ်သို့ ဆွဲတင်သည်။ "အဘွားဂျုတ်ကို ခေါ်ဦးမလား" ဟု အဖေဂျုတ်က မေးသည်။

"ကျွန်မ သွားကြည့်လိုက်ဦးမယ်" ဟု ဆိုကာ အမေဂျုတ်သည် မွေ့ရာအနီးသို့ သွား၍ အဘွားဂျုတ်ကို ငုံ့ကြည့်သည်။ ထို့နောက် မြေပုံဆီသို့ ပြန်လာသည်။ "အိပ်ပျော်နေတယ်" ဟု ပြောသည်။ "သူ ကျွန်မကို စိတ်ဆိုးချင် ဆိုးမှာပဲ၊ ဒါပေမဲ့ ကျွန်မ သူ့ကို မနှိုးချင်ဘူး၊ သူ သိပ်ပင်ပန်းနေပြီ"

"တရားဟောဆရာ ဘယ်ရောက်သွားလဲ၊ ငါတို့ ဆုတောင်းပွဲတော့ လုပ်သင့်တယ်" ဟု အဖေဂျုတ်က ပြောသည်။

"လမ်းဟိုဘက် ဆင်းသွားတာ မြင်လိုက်တယ်၊ သူ့ကြည့်ရတာ ဟောချင် ပြောချင်ပုံ မရဘူး" ဟု တွမ်က ဖြေသည်။

"ဘုရားသခင်ကိုတောင် မရှိခိုးချင်တော့ဘူးတဲ့လား"

"အဲသလိုတော့ မဟုတ်ပါဘူး၊ သူက အခု တရားဟောဆရာ တစ်ယောက် မဟုတ်တော့ဘူး၊ တရားဟောဆရာ မဟုတ်ဘဲနဲ့ တရားဟောဆရာလို လုပ်ပြီး လူတွေကို ဟောနေ ပြောနေရင် လူတွေကို အရူးလုပ်သလို ဖြစ်နေမှာ သူ စိုးရိမ်နေတယ်၊ ဒါကြောင့်မို့ သူ့ကို ဘယ်သူကမှ မပြောသေးခင် လစ်ပြေးတာ ဖြစ်မယ်"

သူတို့အနီးသို့ တိတ်တိတ်ကလေး ကျိတ်၍ ရောက်လာသော ကက်ဆီသည် တွမ်၏ စကားကို ကြားသည်။ "ငါ မပြေးပါဘူး တွမ်ရာ" ဟု ပြောသည်။ "ခင်ဗျားတို့ကို ကျုပ် တတ်နိုင်သလောက် ကူညီပါ့မယ်၊ ဒါပေမဲ့ ခင်ဗျားတို့ကို ကျုပ် အရူး မလုပ်ချင်တော့ဘူး"

"နည်းနည်းပါးပါးလေးမှ စကား မပြောတော့ဘူးလားဗျာ၊ ကျုပ်တို့ မိသားစုထဲမှာ ဆုတောင်းစာလေး ဘာလေး မရွတ်ဘဲ မြေမြှုပ်ခဲ့တဲ့လူ တစ်ယောက်မှ မရှိခဲ့ဘူးဗျ" ဟု အဖေဂျုတ်က ပြောသည်။

"ကျုပ် ပြောပါ့မယ်" ဟု တရားဟောဆရာက ပြန်ပြောသည်။

ကွန်နီက ရိုစာဟန်ကို တွဲ၍ ခေါ်လာသည်။ ရိုစာဟန်ကတော့ တွန့်ဆုတ်ဆုတ်။ "မလာလို့ မဖြစ်ဘူး ရိုစာဟန်၊ လာမှပေါ့၊ မလာရင် ရိုင်းရာ ကျသွားမှာပေါ့၊ ခဏလေးပါ၊ ဘာမှလည်း မဖြစ်နိုင်ပါဘူး" ဟု ကွန်နီက ဖျောင်းဖျနေသည်။

မီးဖိုရှိ မီးတောက် မီးလျှံများ၏ အရောင်သည် မြေပုံအနီးမှ လူစုလူဝေးပေါ်သို့ ကျရောက်လျက် ရှိသည်။ သူတို့၏ မျက်နှာများနှင့် သူတို့၏ မျက်လုံးများကို အထင်အရှား မြင်တွေ့နေရ၏။ အားလုံး ဦးထုပ်များကို ချွတ်၍ ကိုင်ထားကြလေသည်။ မီးရောင်သည် ယိမ်းကနေသည့်နှယ် လှုပ်ရှားလျက် ရှိသည်။ မီးရောင်နှင့်အတူ လူရိပ်များသည် ဖျိုးခနဲ ဖျပ်ခနဲ ယိမ်းထိုး လှုပ်ရှားလျက် ရှိကြ၏။

"ကျုပ် တိုတိုပဲ ပြောမှာပါ" ဟု ကက်ဆီက ပြောသည်။ သူသည် ခေါင်းကို ရှေ့သို့ ငုံ့လိုက်သည်။ ကျန်လူများကလည်း သူတို့ခေါင်းများကို ငုံ့ထားလိုက်ကြ၏။ ကက်ဆီ၏ နှုတ်မှ တည်ငြိမ် အေးဆေးသော အသံသည် မှန်မှန် ထွက်ပေါ်လာသည်။

"ဤအဘိုးအိုသည် တစ်ခုသော ဘဝတွင် အသက်ရှင်နေရာမှ အသက် သေဆုံးကာ ထိုဘဝ၏ အပြင်သို့ ထွက်ခွာ သွားခဲ့ပါသည်၊ သူ ကောင်းခဲ့သလား၊

ဆိုးခဲ့သလား ကျွန်ုပ် မသိပါ၊ သို့သော်လည်း ဤအချက်သည် အရေးကြီးသော အချက် မဟုတ်ပါ၊ သူသည် တစ်ချိန်က အသက်ရှင်နေခဲ့သူ ဖြစ်သည် ဟူသော အချက်သာလျှင် အရေးကြီးပါသည်။ ယခုအခါတွင် သူ သေဆုံးခဲ့ပါပြီ၊ ဤအချက်သည်လည်း အရေးကြီးသော အချက် မဟုတ်ပါ၊ တစ်ချိန်က မိတ်ဆွေတစ်ဦး ရွတ်ပြခဲ့သည့် ကဗျာတစ်ပုဒ်ကို သတိရမိပါသည်၊ ထိုကဗျာထဲမှ ဘဝ ဟူသမျှ အပြစ် အနာအဆာ ကင်းပြီး မြင့်မြတ်သည်ချည်း ဖြစ်ပါသည် ဟူသော အပိုဒ်ကို သတိရမိပါသည်၊ ထိုအပိုဒ်၏ အဓိပ္ပာယ်ကို ဆင်ခြင် စဉ်းစားလိုက်သည့်အခါ အလွန် ကျယ်ဝန်းပြီး အလွန် နက်နဲသည့် အဓိပ္ပာယ်ကို ဆောင်နေကြောင်း သတိထားမိခဲ့ပါသည်၊ ယခု သေဆုံးသွားပြီ ဖြစ်သော ဤအဘိုးအိုအတွက် ကျွန်ုပ်သည် ဘုရားသခင်အား ရှိခိုးခြင်း ဆုတောင်းခြင်း စသည်များကို ပြုလိမ့်မည် မဟုတ်ပါ၊ သူ့တွင် ဘာပြဿနာမှ မရှိနိုင်ပါ၊ သူ့တွင် လုပ်စရာ အလုပ်တစ်ခု ရသွားပြီ ဖြစ်ပါသည်၊ ထိုအလုပ်မှာ သူ့အတွက် စနစ်တကျ သတ်မှတ်ထားပေးခြင်း ဖြစ်ပြီး ထိုအလုပ်ကို လုပ်ရန် နည်းလမ်း တစ်လမ်းသာ ရှိနေပါသည်၊ ကျွန်ုပ်တို့တွင်လည်း လုပ်စရာ အလုပ်များ ရှိနေပါသည်၊ သို့သော်လည်း လုပ်ရမည့် နည်းလမ်းများမှာ ထောင်နှင့်ချီ၍ ရှိနေသည်ဖြစ်ရာ ဘယ်လမ်းကို ရွေးရမှန်းမသိ ဖြစ်နေကြပါသည်၊ အကယ်၍ ကျွန်ုပ်သည် ဘုရားသခင်ထံ၌ ဆုတောင်းရမည် ဆိုပါက ဘယ်လမ်းလိုက်ရမည်ကို မသိဘဲ ဖြစ်နေကြရှာသော ကျွန်ုပ်၏ မိတ်ဆွေများအတွက် လမ်းပြတော်မူပါ ဟုသာ ဆုတောင်းမိပါလိမ့်မည်၊ ယခု ဤနေရာတွင် အဘိုးဂျုတ်သည် လဲလျောင်းလျက် ရှိပါသည်၊ သူ့အဖို့တော့ ဘဝမှ လွတ်မြောက်သွားခဲ့ပြီ ဖြစ်ပါသည်၊ သူ့အား မြေဖို့လိုက်ကြပါတော့၊ သူ့အလုပ်ကို လုပ်ပါစေတော့"

တရားဟောဆရာသည် စကားကို ဖြတ်လိုက်ပြီး ခေါင်းကို ပြန်မော့လိုက်သည်။

အဖေဂျုတ်က "အာမင်း" ဟု ရေရွတ်သည်။ ထိုအခါ ကျန်လူများကလည်း "အာမင်း" ဟု ရေရွတ်လိုက်ကြလေသည်။ ထို့နောက် အဖေဂျုတ်သည် မြေဘကီးကို ဂေါ်ပြားနှင့် တစ်ချက် ထိုးကော်ပြီး တွင်းထဲရှိ အဘိုးဂျုတ်၏ အလောင်းထုပ်ပေါ်သို့ ညင်သာစွာ ဖြန့်ချသည်။ သူ့လက်ထဲမှ ဂေါ်ပြားသည် ဦးလေးဂျွန်၏ လက်တွင်းသို့ ကူးသွားသည်။ ဦးလေးဂျွန်သည် မြေကြီးကို ဂေါ်ပြားနှင့် တစ်ချက် ထိုးကော်ကာ တွင်းထဲသို့ ချသည်။ ထို့နောက် ဂေါ်ပြားသည် တစ်လက်မှ တစ်လက်သို့ ကူးပြောင်းသွားသည်။ နောက်ဆုံး လူစေ့သွားသောအခါ ဂေါ်ပြားသည် အဖေဂျုတ်၏ လက်တွင်းသို့ ပြန်ရောက်လာ၏။ အဖေဂျုတ်သည် တွင်းထဲမှ ကော်၍ တင်ထားသော မြေများကို

တွင်းထဲသို့ ပြန်ယက်ချသည်။ မိန်းမများသည် ညစာပြင်ရန်အတါက် မီးဖိုဆီသို့ ပြန်သွားကြသည်။ ရှူသီနှင့် ဝင်းဖီးကတော့ မြေဖို့နေသည်ကို စိတ်ဝင်တစား စောင့်၍ ကြည့်နေဆဲ။

"အဘိုးတော့ မြေကြီးအောက် ရောက်သွားပြီ" ဟု ရှူသီက ပြောသည်။ ဝင်းဖီးက သူ့မျက်နှာကို ထိတ်လန့်တကြား မော့ကြည့်သည်။ ထို့နောက် မီးဖိုဘက်သို့ ပြေးထွက်သွားကာ မြေကြီးပေါ်၌ ခြေပစ်လက်ပစ် ထိုင်ချလိုက်ကာ ဝမ်းနည်းပက်လက် ငိုကြွေးသည်။

အဖေဂျုတ်သည် တွင်းကို မြေဖို့နေရာမှ ရပ်နားလိုက်ပြီး ဦးလေးဂျွန်အား တစ်လှည့်ပေးသည်။ ဦးလေးဂျွန်က တွင်းကို အပြီးသတ်သွားအောင် ဆက်ဖို့သည်။ ပြီးတော့ မြေပုံကို ခပ်မို့မို့ ဖြစ်နေအောင် ထပ်၍ ပြုပြင်သည်။ တွမ်က ဦးလေးဂျွန်အား တားသည်။ "ကျုပ်တို့ အနေနဲ့ မြေပုံကို မြေပုံနဲ့ တူအောင် လုပ်ထားခဲ့လို့ မဖြစ်ဘူး ထင်တယ် ဦးလေးဂျွန်၊ မြေပုံမှန်း သိရင် တွေ့တဲ့လူက ပြန်ဖော်ကြည့်လိမ့်မယ်၊ လူမသိအောင် လုပ်ပစ်ခဲ့မှ ကောင်းမှာ၊ မြေကို ညီနေအောင် ညှိပြီး အပေါ်က မြက်ခြောက်ပင်တွေ ဖြန့်ပစ်ခဲ့ရအောင်၊ ဒါကတော့ မလုပ်လို့ မဖြစ်ဘူး"

"လိုမယ် မထင်တော့ပါဘူးကွာ၊ မြေပုံဆိုတာ အပေါ်က မို့မို့မောက်မောက်ကလေး ဖို့ထားမှ မြေပုံနဲ့ တူတော့မပေါ့" ဟု အဖေဂျုတ်က ကန့်ကွက်သည်။

"မြေပုံနဲ့ မတူလည်း မတတ်နိုင်ဘူး အဖေ" ဟု တွမ်က ပြောသည်။ "တွေ့တဲ့လူက မြေပုံမှန်းသိလို့ တူးရင် ကျုပ်တို့ကို ဥပဒေ ချိုးဖောက်မှုနဲ့ လိုက်ပြီး အရေးယူနေလိမ့်မယ်၊ ကျုပ်တို့က ဘယ်သူ့မှ အကြောင်းမကြားဘဲ ကိုယ့်ဘာသာကိုယ် မြှုပ်ထားတာ မဟုတ်လား"

"အေး ဟုတ်သားပဲ" ဟု အဖေဂျုတ်က ဝန်ခံသည်။ "ငါ အဲဒါကို မေ့သွားတယ်" သူသည် ဦးလေးဂျွန် လက်ထဲမှ ဂေါ်ပြားကို လှမ်းယူပြီး မြေပုံကို ပြန်ညှိသည်။ "ဆောင်းဝင်လာရင်တော့ မြေကြီးတွေ ကျွံကျသွားမှာ ကျိန်းသေတယ်ကွ"

"မတတ်နိုင်ဘူး အဖေ" ဟု တွမ်က ဆိုသည်။ "ဆောင်းဝင်တဲ့ အချိန်မှာ ကျုပ်တို့အားလုံး ဒီနေရာနဲ့ အဝေးကြီးကို ရောက်နေမှာပါ၊ ကိုင်း မြေသိပ်သွားအောင် ဝိုင်းပြီး ခြေထောက်နဲ့ နင်းကြမယ်၊ ပြီးရင် မြက်ပင်တွေ ချုံပင်တွေ ဖြန့်ချပစ်ခဲ့မယ်"

ဝက်သားနှင့် အားလူး ကျက်သောအခါ မိသားစု နှစ်စုသည် မြေကြီးပေါ်မှာပင် အတူတူ ဝိုင်းထိုင်ကာ စားကြ သောက်ကြလေ၏။ သူတို့အားလုံး နှုတ်ဆိတ်နေသည်။ ဝက်သားတစ်ဖက်ကို တမြုံ့မြုံ့ ဝါးနေသော ဝီလ်ဆန်သည် အလွန် စိတ်ချမ်းသာ ကိုယ်ချမ်းသာ ဖြစ်သွားဟန်ဖြင့် သက်ပြင်းတစ်ချက် ချလိုက်သည်။ နှုတ်မှလည်း "အတော့်ကို စားလို့ အရသာရှိတဲ့ ဝက်သားပဲဗျ" ဟု ရေရွတ်သည်။

"ဟုတ်ပါတယ်" ဟု အဖေဂျုတ်က အလိုက်သင့် ထောက်ခံပြောသည်။ "တို့ ဝက်နှစ်ကောင် ပေါ်ပြီး အသားတွေကို ဆားနယ် လုပ်လာတယ်၊ ဟိုမရောက်ခင် လုံလုံလောက်လောက် စားသွားရလိမ့်မယ်လို့ ထင်ရတာပဲ၊ မင်း မြင်တယ် မဟုတ်လား၊ ဝက်သားထည့်တဲ့ စည်နှစ်စည်၊ ကားပေါ်မှာ တင်ထားတယ်လေ၊ ဒါနဲ့ စကားမစပ် မေးရဦးမယ်၊ မင်းတို့ လမ်းပေါ် ရောက်လာတာ ဘယ်လောက်ကြာပြီလဲ"

ဝီလ်ဆန်သည် သွားကြားတွင် ညပ်နေသည့် အသားစ တစ်စကို လျှာနှင့် ထိုးထုတ်လိုက်ပြီး မျိုချလိုက်သည်။ "ကျုပ်တို့ ကံသိပ်မလိုက်ဘူးဗျို့၊ ကျုပ်တို့ အိမ်က ထွက်လာတာ သုံးပတ်တောင် ရှိနေပြီ"

"ဘယ်လို ဖြစ်လို့တုံးဟ၊ ဘုရားသခင် ကယ်တော်မူပါ၊ ငါတို့ကတော့ ကယ်လီဖိုးနီးယားကို ဆယ်ရက်အတွင်း ရောက်ရမယ်လို့ မှန်းပြီး ထွက်လာတာ"

အယ်လ်က ကြားဝင်ပြောသည်။ "ကျုပ်တော့ သိပ်မထင်ဘူး အဖေ၊ ကျုပ်တို့ တင်လာတဲ့ ပစ္စည်းတွေနဲ့ဆိုရင် မှန်းထားတဲ့အတိုင်း ဖြစ်ဖို့ မလွယ်ဘူး၊ လမ်းမှာ တောင်တက်လမ်းတွေသာ ကျော်ရ ဖြတ်ရမယ် ဆိုတော့ ပိုဆိုးမယ်"

သူတို့သည် မီးဖိုဆီသို့ကြည့်ကာ တွေဝေ ငေးငိုင်နေကြပြန်သည်။ အားလုံး မျက်နှာများကို အောက်စိုက်ပြီး ငြိမ်ဆိတ်နေကြသည်။ သူတို့၏ ဆံပင်များနှင့် နဖူးပြင် များသည် မီးရောင်အောက်တွင် ပြောင်လက်နေကြလေသည်။ မီးဖိုအလင်းရောင်၏ အထက် ကောင်းကင်ယံတွင်မူ နွေရာသီ၏ အဆင်းတန်ဆာ ဖြစ်သော ကြယ်များသည် ပြိုးပြိုးပြက်ပြက် တလက်လက် တောက်ပနေကြသည်။ နေ့၏ အပူသည် ဖြည်းဖြည်းချင်း ဆုတ်ခွာသွားလျက် ရှိ၏။ မီးဖိုနှင့် အလှမ်းဝေးနေသော မွေ့ရာပေါ်မှ အဘွားဂျုတ်သည် ခွေးပေါက်ကလေး တစ်ကောင် ညည်းသည့်နှယ် ညည်းညူလျက် ရှိသည်။ ထိုင်နေသူများ၏ ဦးခေါင်းများသည် အဘွားဂျုတ်ဘက်သို့ လှည့်သွားကြလေ၏။

"ရှိစာဟန်" ဟု အမေက ခေါ်သည်။ "သမီးက လိမ္မာပါတယ်၊ အဘွားဂျုတ်နား သွားပြီး လှဲနေလိုက်စမ်းပါ၊ သူ့အနားမှာ အဖော်တစ်ယောက် ရှိနေဖို့ လိုလာပြီ အခုဆိုရင် ဖြစ်သွားတဲ့ကိစ္စကို သူ ကောင်းကောင်း နားလည်သွားလောက်ပြီ"

ရှိစာဟန်သည် မွေ့ရာဆီသို့ ထသွားကာ အဘွားဂျုတ်၏ ဘေးတွင် ကပ်၍ လှဲအိပ်လိုက်သည်။ သူတို့ မြေးအဘွားသည် နှစ်ကိုယ်ကြား စကားတွတ်ထိုးလျက် ရှိကြ၏။ သူတို့၏ တီးတိုးသံများသည် မီးဖိုဘက်သို့ လွင့်မျောလာလျက် ရှိလေသည်။

"ရယ်စရာ ကောင်းသလိုပဲ" ဟု နိအာက ပြောသည်။ "အခု အဘိုး သေသွားတာ ကျုပ် စိတ်ထဲမှာ ဘာမှ မဖြစ်သလိုပဲ၊ ဝမ်းနည်းတဲ့စိတ်လည်း မဖြစ်ဘူး"

"မထူးပါဘူး၊ အတူတူပါပဲ" ဟု ကက်ဆီက ပြောသည်။ "အဘိုးဂျုတ်နဲ့ နေရာဟောင်း၊ သူတို့ နှစ်ခုစလုံး အတူတူပါပဲ"

"သိပ်နာတာပဲ" ဟု အယ်လ်က ရေရွတ်သည်။ "ဟိုရောက်ရင် သူ ဘာတွေ လုပ်မယ်ဆိုတာ ခဏခဏ ပြောတယ်၊ စပျစ်သီးတွေနဲ့ ရေချိုးလိုက်မယ်တဲ့"

"အဘိုးဂျုတ်ဟာ အချိန်ရှိသမျှ နောက်ပြောင်နေရမှ နေတတ်တာ၊ သူများကို လည်း လိုက်ပြီး အရှုးလုပ်နေရမှ" ဟု ကက်ဆီက ပြောသည်။ "သူ အဲဒီစကား တွေကို ပြောလို့သာ ပြောနေတာ၊ အခြေအနေမှန်ကိုတော့ သိဟန် တူတယ်၊ အမှန်တော့ အဘိုးဂျုတ် သေတာဟာ ကနေ့ည သေတာ မဟုတ်ဘူး၊ နေရာဟောင်းက ထွက်ခွာလာတဲ့ အချိန်ကတည်းက သေခဲ့တာ"

"ဟုတ်ရဲ့လား၊ တကယ်ပြောတာလား" ဟု အဖေဂျုတ်က အော်ကြီးဟစ်ကျယ် မေးသည်။

"တကယ် ပြောတာပေါ့၊ သူ အသက်တော့ ရှူနေတယ်လေ" ဟု ကက်ဆီက ပြောသည်။ "ဒါပေမဲ့ သေနေပြီ၊ သူဟာ အဲဒီနေရာ၊ အဲဒီနေရာဟာ သူပဲ၊ ကျုပ် ကောင်းကောင်း သိတာပေါ့"

ဦးလေးဂျွန်က တအံ့တသြဖြင့် ဝင်မေးသည်။ "သူ ပြောနေတာကိုရော ခင်ဗျား သိခဲ့သလား"

"သိခဲ့တာပေါ့၊ ကျုပ် ကောင်းကောင်းသိခဲ့တာပဲ "

ဦးလေးဂျွန်က ကက်ဆီကို စူးစူးဝါးဝါး ကြည့်နေသည်။ သူ့မျက်နှာတွင် ထိတ်လန့်အံ့ဩသည့် လက္ခဏာ ဝင်လာသည်။ "ဒီလို သိရက်သားနဲ့ ဘယ်သူ့ကိုမှ ခင်ဗျား အသိမပေးခဲ့ဘူးပေါ့၊ ဟုတ်လား"

"အသိပေးတော့ရော အကျိုးထူးလာမှာလား" ကက်ဆီက မေးသည်။

"ကျုပ် ကျုပ်တို့ တစ်ခုခုတော့ လုပ်ချင် လုပ်နိုင်မှာပေါ့"

"ဘာလုပ်မလဲ၊ ပြောပါဦး"

"အတိအကျတော့ မပြောတတ်ဘူးပေါ့၊ ဒါပေမဲ့...."

"ခင်ဗျားတို့ ဘာမှ မလုပ်နိုင်ပါဘူး" ဟု ကက်ဆီက ပြောသည်။ "ခင်ဗျားတို့ လိုက်မဲ့လမ်းကို ခင်ဗျားတို့က တိတိကျကျ သတ်မှတ်ထားပြီးပြီ၊ အဘိုးဂျုတ်က အဲဒီအထဲမှာ ဘယ်အခန်းကမှ မပါခဲ့ဘူး၊ သူ့မှာ ဘာခံစားမှုမှလည်း မရှိခဲ့ဘူး၊ သူ့စိတ်က သူ တစ်သက်လုံး နေခဲ့တဲ့ မြေနဲ့ပဲ နေတာ၊ ဒီမြေကို သူ မစွန့်နိုင်ဘူး"

ဦးလေးဂျွန်က သက်ပြင်းရှည်ကြီးတစ်ချက် လေးလေးတွဲ့တွဲ့ ချသည်။

"ကျုပ်တို့လည်း ကျုပ်အစ်ကို ဝီလ်ကို ထားခဲ့ရတာပါပဲ" ဟု ဝီလ်ဆန်က ပြောသည်။ ခေါင်းအားလုံးသည် သူ့ဘက်ကို လှည့်သွားသည်။ "သူနဲ့ ကျုပ်နဲ့က အသက်လေးဆယ် အတွင်း မတိမ်းမယိမ်းဗျ၊ သူက ကျုပ်ထက် နည်းနည်းပဲ ကြီးမယ်၊ ကျုပ်တို့နှစ်ယောက်စလုံး ကားမမောင်းတတ်ကြဘူး၊ ကျုပ်တို့နှစ်ယောက် မြို့ပေါ်တက်ပြီး ပစ္စည်းတွေ ရောင်းကြတယ်၊ ဝီလ်ကလည်း ကားတစ်စီး ဝယ်တယ်၊ ရောင်းတဲ့လူက သူ့ကို ကောင်လေးတစ်ယောက်နဲ့ ကားမောင်း သင်ပေးတယ်၊ ဒါနဲ့ပဲ ကျုပ်တို့ ခရီးမထွက်ခင် တစ်ရက် မွန်းလွဲပိုင်းမှာ ဝီလ်ဆင်နဲ့ အဒေါ် မီနီတို့ ကားကို အစမ်းမောင်းကြတယ်၊ လမ်းပေါ်မှာ မောင်းသွားရင်းနဲ့ လမ်းကွေ့တစ်ခု ရောက်တော့ လူတစ်ယောက်ကို တိုးမိမယ်ဖြစ်ရော၊ သူက ဟေးလို့ အော်ပြီး ရှောင်လိုက်တာ၊ ကားက လမ်းဘေး ခြံစည်းရိုးကို ဝင်တိုးပြီး နောက်ဆုံး ကျောက်တုံးနှစ်တုံးကြား ဝင်သွားပါလေရောဗျား၊ သုံးမရအောင် ပျက်သွားတော့တာပေါ့၊ သူ့မှာ ထပ်ပြီး ရောင်းစရာ ပစ္စည်းကလည်း

မကျန်တော့ဘူး၊ အဲဒီတော့ နောက်ထပ် ကားတစ်စီး မဝယ်နိုင်တော့ဘူးပေါ့၊ အပြစ်က လည်း သူ့အပြစ် ဖြစ်နေတော့ ခက်တာပေါ့၊ လူကလည်း အရူးတစ်ပိုင်း ဖြစ်နေပြီ၊ ကျုပ်တို့နဲ့ လိုက်ဖို့ ခေါ်ပေမဲ့ မရတော့ဘူး၊ ထိုင်ပြီး ဆဲလိုက် ကျိန်ဆဲလိုက်နဲ့ ကျန်နေခဲ့တော့တာပဲ"

"သူ ဘာလုပ်နေခဲ့သလဲ"

"ကျုပ်တို့လည်း မပြောတတ်ဘူး၊ သူကလည်း အရူးတစ်ပိုင်းလို ဖြစ်နေတော့ မှန်းရခက်တယ်၊ ကျုပ်တို့ကလည်း သူ့ကို စောင့်မနေနိုင်ဘူး၊ ကျုပ်တို့ လက်ထဲမှာလည်း ငွေက ရှစ်ဆယ့်ငါးဒေါ်လာပဲ ရှိတော့တယ်၊ သူ့ကို ခွဲပေးလို့ကလည်း မဖြစ်ဘူး၊ ဒါနဲ့ပဲ မျက်စိမှိတ်ပြီး ဖွတ် ထွက်လာခဲ့ရတာ၊ လမ်းကျတော့ မော်တော်ကားက မိုင်တစ်ရာ ပြည့်အောင် မသွားရသေးဘူး၊ နောက်ဘီး တာယာတစ်လုံးက ကွဲပါလေရော၊ အဲဒီတော့ တာယာ သွားဝယ်ရပြန်ရော၊ ဒီကြားထဲ ဆေရီက ဖျားပြန်တော့ ဆယ်ရက်တိတိ ခရီးမဆက်နိုင်တော့ဘူး၊ ဟော အခုတစ်ခါ ကားက ပျက်ပြန်ပြီ၊ ငွေကလည်း လျော့သည်ထက်သာ လျော့လိုက်လာတယ်၊ ကယ်လီဖိုးနီးယားကို ရောက်ပါတော့မလား မပြောတတ်ပါဘူးဗျာ၊ ကျုပ်က ကားတောင် အဖြစ်လောက် မောင်းတတ်တာ၊ ပြင်တတ်တာ မဟုတ်ဘူး"

"ကားက ဘာဖြစ်တာလဲ" ဟု အယ်လ်က မေးသည်။

"ဘာဖြစ်မှန်း မသိပါဘူး၊ မောင်းလို့ မသွားတာဘဲ သိတယ်၊ စတတ်တာကလည်း လုပ်လို့ မရဘူး၊ တစ်ချက် တစ်ချက် စက်နိုးလာပေမဲ့ မောင်းမလို့လည်း လုပ်ရော ရပ်သွားပြန်ရော"

"စက်နိုးလာပြီးမှ ရပ် ရပ်သွားတယ် ဆိုပါတော့၊ ဟုတ်လား"

"အဲ ဟုတ်တယ်၊ ဆီ ဘယ်လောက်ပဲ ထည့်ထားထား ကားက သွားကို မသွားတော့ဘူး၊ ပို ပိုပြီးတော့သာ ဆိုးလာတယ်၊ အခုကျတော့ လုံးဝကို စက်နိုးလို့ မရတော့ဘူး"

အယ်လ်၏ အမူအရာနှင့် လေသံသည် တကယ့် လူကြီးတစ်ယောက်သဖွယ် ဝင့်ဝင့်ကြွားကြွား ဖြစ်လာသည်။ "ဆီပေါက် ပိတ်နေတာ ဖြစ်မယ်၊ ပလပ်မှာ ချေးရှိလို့ ပိတ်နေတာ၊ ကျုပ် မှုတ်ထုတ်ပေးမယ် "

အဖေဂျုတ်ကလည်း သူ့သား အယ်လ်အတွက် ဝင့်ကြွားချင်လာသည်။ "ဒီကောင်က ကားတော့ တော်တော်ကလေး ကိုင်တတ်တယ် " ဟု ဝင်ပြောသည်။

"အေးဗျာ၊ ကူညီနိုင်ရင်တော့ ကျေးဇူးပါပဲ၊ ကယ်လီဖိုးနီးယား ရောက်ရင်တော့ ကားကောင်းကောင်း တစ်စီး ဝယ်ဦးမယ်လို့ စိတ်ကူးထားတာပဲ၊ အဲဒီကားကျရင်တော့ အခုလို ပျက်မယ် မထင်ပါဘူး "

"အင်းပေါ့လေ၊ ဟိုရောက်ရင်ပေါ့၊ ဟိုရောက်ဖို့ ရင်းနီးနေရတဲ့ ဒုက္ခကတော့ တယ်မသေးဘူး " ဟု အဖေဂျုတ်က ရေရွတ်သည်။

"အိုဗျာ၊ ဒီလောက် ဒုက္ခကတော့ ခံထိုက်ပါတယ်ဗျာ " ဟု ဝီလ်ဆန်က ဆိုသည်။ "ဘာပြုလို့လဲ ဆိုတော့ သူတို့ဆီက လက်ကမ်းကြော်ငြာတွေ ကျုပ် ရတယ်၊ အဲဒီအထဲမှာ သစ်သီးဆွတ် လုပ်သားတွေ လိုတယ်လို့ ရေးထားတယ်၊ လုပ်ခကလည်း ကောင်းတယ်၊ ဟိုရောက်ရင် ဘယ်လို နေရ ထိုင်ရမလဲဆိုတာ တွေးကြည့်ပါလား၊ သစ်ပင်တွေရဲ့ အရိပ်အောက်မှာ သစ်သီးခူးရမှာ၊ ကိုယ် စားချင်တဲ့ အချိန်မှာ သစ်သီးကိုလည်း စားနိုင်ဦးမယ်၊ ခင်ဗျားအနေနဲ့ သစ်သီးတွေကို အဝစားလို့လည်း ဘယ်သူကမှ အရေး လုပ်ပြီး ပြောနေမှာ မဟုတ်ဘူး၊ ဘယ်ပြောမလဲဗျာ၊ သစ်သီးတွေက အရမ်း ပေါနေတာကိုးဗျ၊ ဟုတ်ဖူးလား၊ လုပ်ခ ပေးထားတာလည်း အများကြီးဆိုတော့ ကြာရင် ကိုယ်ပိုင်မြေလေး ဝယ်ပြီး အပိုဝင်ငွေရအောင် စိုက်နိုင် ပျိုးနိုင်ဦးမှာ၊ လူတစ်ယောက်ဟာ နှစ်နှစ်လောက် အတွင်းမှာ ကိုယ်ပိုင်မြေနဲ့ ကိုယ်ပိုင်အိမ်နဲ့ ဖြစ်သွားမှာ သေချာတယ်၊ သိလား၊ ဒီပုံအတိုင်းကတော့ ကျုပ် လောင်းရဲပါတယ်ဗျာ "

"အေးကွ ငါတို့လည်း ကြော်ငြာတွေ တွေ့တယ်၊ ငါ့မှာတောင် တစ်ရွက် ရှိသေးတယ် " ပြောပြောဆိုဆို အဖေဂျုတ်သည် သူ့အိတ်ကပ်ထဲမှ ပိုက်ဆံအိတ်ကို ထုတ်ကာ အတွင်းမှ ခေါက်ထားသော လိမ္မော်ရောင် ကြော်ငြာတစ်ရွက် ထုတ်သည်။ စာရွက်ပေါ်မှ စာလုံးအနက်ဖြင့် ရေးထားသော စာများကို ဖတ်ပြသည်။ "ကယ်လီဖိုးနီးယား

ပြည်နယ်တွင် ပဲသီးဆွတ် အလုပ်သမားများ အလိုရှိသည်၊ တစ်နှစ်ပတ်လုံး အလုပ်ရှိမည်၊ လုပ်ခ ကောင်းကောင်းပေးမည်၊ အလုပ်သမား ၈၀၀ တိတိ အလိုရှိသည် ”

ဝီလ်ဆန်က တအံ့တသြဖြစ်ကာ ငေးကြည့်နေသည်။ “ဘယ်လိုလဲဗျာ၊ ကျုပ်ရတာလဲ အဲဒီကြော်ငြာမျိုးပဲ၊ အတူတူပဲ၊ ခင်ဗျား ဘယ်လိုထင်လဲ၊ ပြည်နယ် တစ်ခုလုံး အတွက် အလုပ်သမား ရှစ်ရာ လိုတယ်လို့ ပြောတာများလား၊ ဒါဆိုရင်တော့ အခုလောက်ဆို ရသွားရောပေါ့”

“တစ်ပြည်နယ်လုံးအတွက် ဟုတ်မယ် မထင်ပါဘူးကွာ၊ ဒါက ပြည်နယ်ထဲက ဒေသ တစ်ခုခု ဖြစ်မှာပေါ့၊ မင်းထင်သလို ဖြစ်ဖို့က မလွယ်ပါဘူး၊ တို့နိုင်ငံမှာ ဒုတိယ အကြီးဆုံး အကျယ်ဆုံး ပြည်နယ်ကြီး တစ်ခုပဲဟာ၊ အခု ပြောတဲ့ လူရှစ်ရာစလုံး ရသွားပြီ ဆိုဦးတော့၊ တခြားဒေသတွေ နယ်တွေက အများကြီးပဲ၊ လူ လိုဦးမှာပေါ့၊ ငါကတော့ သစ်သီးပဲ ဆွတ်ချင်တယ်ကွာ၊ မင်း စောစောက ပြောသလို သစ်ပင်တွေအောက် လုပ်ရမှာ၊ ချာတိတ်တွေတောင်မှ သဘောကျလိမ့်မယ် သိလား”

ရုတ်တရက် အယ်လ်သည် ထိုင်နေရာမှ ဖြုန်းခနဲ ထကာ ဝီလ်ဆန်၏ ကားဆီသို့ လျှောက်သွားသည်။ သူသည် အတန်ကြာမျှ ကားကို ကြည့်နေပြီးမှ ပြန်လျှောက်လာကာ နေရာတွင် ပြန်ထိုင်သည်။

“မင်း ကနေ့ည ပြင်နိုင်တာပဲ ” ဟု ဝီလ်ဆန်က ပြောသည်။

“ဒါပေါ့၊ မနက်ကျ အဆင်သင့် ဖြစ်နေအောင် လုပ်ထားမယ် ”

တွမ်က သူ့ညီ အယ်လ်၏ မျက်နှာကို စေ့စေ့စပ်စပ် ကြည့်၍ အကဲခတ်နေရာမှ “ငါ ကိုယ်တိုင်လည်း မင်း တွေးသလိုပဲ တွေးနေမိတယ် ” ဟု ပြောသည်။

“မင်းတို့နှစ်ယောက် ဘာပြောနေကြတာလဲ ” ဟု နိုအာက ကြားဖြတ်မေးသည်။

တွမ်နှင့် အယ်လ်တို့သည် ငြိမ်ဆိတ်နေကြသည်။ သူ ပြောနိုး ငါ ပြောနိုး စောင့်နေကြသည်။ နောက်ဆုံးတွင် အယ်လ်က ခင်ဗျားပဲ “ပြောပြလိုက်ပါတော့ဗျာ ” ဟု ပြောသည်။

"ကောင်းပဲ့မလား မသိဘူး၊ အယ်လ်ရဲ့စိတ်ကူးနဲ့ ကျုပ်စိတ်ကူးကလည်း တူချင်မှ တူမှာပါ၊ ဘာပဲဖြစ်ဖြစ်လေ ပြောရတော့မှာပဲ၊ တွေးမိတာက ဒီလို၊ ကျုပ်တို့ကားက ဝန်ပိုနေတယ်၊ ဒါပေမဲ့ မစ္စတာဝီလ်ဆန်တို့ ကားမှာတော့ ပစ္စည်းများများစားစား မပါဘူး၊ တကယ်လို့ ကျုပ်တို့ လူစုထဲက တချို့က မစ္စတာ ဝီလ်ဆန်တို့ကားနဲ့ လိုက်နိုင်မယ်ဆိုရင် ထရပ်ကားမှာ အများကြီး ဝန်ပေါ့သွားမယ်၊ ဒါဆိုရင် တောင်တက်လမ်းတွေကို ချောချောမောမော တက်နိုင်မယ်၊ လေးတွေ ဘာတွေ ကျိုးမှာလည်း မကြောက်ရတော့ဘူး၊ ကျုပ်နဲ့ အယ်လ်က ကားအကြောင်း နားလည်တော့ ကျုပ်တို့ နှစ်ယောက်က ကားတွေ ပုံမှန် သွားနေအောင် တာဝန်ယူမယ်၊ ဒီလိုဆိုရင် ကျန်တဲ့ လူတွေအတွက်လည်း အဆင်ပြေသွားမယ်၊ အဲဒါ စိတ်ကူးမိလို့ပါ"

ဝီလ်ဆန်က ထခုန်သည်။ "သိပ်ကောင်းတာပေါ့၊ ဘာကြောင့် မဖြစ်ရမှာလဲ၊ သိပ်ဖြစ်တယ်၊ ကျုပ်တို့က သဘောမတူစရာ ဘာမှ မရှိဘူး၊ တူတယ်၊ ဟေ့ ဆေရီ ပြောတာ ကြားလား"

"သိပ်ကောင်းတာပေါ" ဟု ဆေရီက ပြောသည်။ "ရှင်တို့မှာ သိပ်ပြီး တာဝန်ကြီးမသွားဘူးလား ဟင်"

"ဟာ ဘုရားသခင် ကယ်တော်မူပါ" ဟု အဖေဂျုတ်က ရေရွတ်သည်။ "ဘယ်ကလာ ငါတို့အပေါ် တာဝန်ကြီးရမှာလဲဟ၊ အမှန်တော့ နင်တို့ကို့ကို ကူညီတာ"

ဝီလ်ဆန်သည် စိတ်ပျက်လက်ပျက်ဖြင့် ပြန်ထိုင်ချလိုက်သည်။ "အင်း ခွတော့ ကျနေတယ်၊ ကျုပ်လည်း မပြောတတ်ဘူး"

"ဘာဖြစ်လို့လဲ၊ ခင်ဗျား သဘောမကျလို့လား"

"အဲသလိုတော့ မဟုတ်ပါဘူး၊ ဒါပေမဲ့ ခင်ဗျားတို့ သိတဲ့အတိုင်းပဲလေ၊ ကျုပ်မှာ ဒေါ်လာ သုံးဆယ်လောက်ပဲ ကျန်တော့တယ်၊ ကျုပ်အတွက် တာဝန် မတက်စေချင်ဘူး"

"ရှင့်ကြောင့် တာယန် မတက်နိုင်ပါဘူး၊ တစ်ယောက်ကို တစ်ယောက် ကူညီသွားကြမယ်ဆိုရင် ကျွန်မတို့အားလုံး ကယ်လီဖိုးနီးယားကို ချောချောမောမော ရောက်သွားမှာပါ၊ အဘိုးဂျုတ် အလောင်း မြေချတဲ့ ကိစ္စမှာ ဆေရီဝီလ်ဆန်တို့က

ကူညီခဲ့တယ် မဟုတ်လား၊ အဲသလိုပဲ…” အမေက စကားကို အဆုံးမသတ်ဘဲ လမ်းခုလတ်တွင် ရပ်ထားလိုက်သည်။ အမေ့စကားအရ နှစ်ဦးနှစ်ဖက် ဆက်ဆံရေးမှာ ရှင်းနေသည်။

အယ်လ်က လှမ်းအော်ပြောသည်။ “ဒီကားမှာ လူခြောက်ယောက်တော့ ကောင်းကောင်း ဆံ့တယ်၊ ကျုပ်က ကားဒရိုင်ဘာ နေရာယူလိုက်ရင် ရိုစာဟန်နဲ့ ကွန်နီတို့ လင်မယားရယ်၊ အဘွားရယ် လိုက်လို့ရမယ်၊ ကျုပ်တို့ ထရပ်ကားပေါ်က ပေ့ါပေ့ါပါးပါး ပစ္စည်းတစ်ချို့ကိုပါ ပြောင်းတင်နိုင်သေးတယ်” ဝန်နှင့်အား မမျှ ဖြစ်နေသည့် ထရပ်ကားအတွက် တစ်လမ်းလုံး သောကကြီးစွာ ရောက်လာခဲ့ရသော အယ်လ်သည် အခုမှပင် စိတ်သက်သာရာ ရကာ ရွှင်မြူးလျက် ရှိလေသည်။

လူအားလုံး ရွှင်ပြုံးနေကြသည်။ အဖေဂျုတ်သည် သူ့လက်ချောင်းထိပ်များဖြင့် မြေကြီးပေါ်၌ ရောက်တတ်ရာရာ ပုံများကို ရေးဆွဲနေရာမှ “မအေကြီးကဖြင့် လိမ္မော်ပင်တွေ ပတ်လည်ဝိုင်းနေတဲ့ ခြံထဲက အိမ်ဖြူဖြူလေးကိုပဲ စိတ်ကူးယဉ်နေသဗျ၊ ယဉ်ပေမပေ့ါလေဗျာ၊ သူက ပြက္ခဒိန်တစ်ခု အပေါ်မှာ ဓာတ်ပုံ မြင်ခဲ့ဖူးပေသကိုး” ဟု ပြောလေသည်။

“တကယ်လို့များ ကျွန်မ နောက်တစ်ကြိမ် ထပ်ပြီး နေမကောင်းဖြစ်ရင် ကျွန်မအတွက်တော့ တာဝန် မတက်ပါစေနဲ့၊ ရှင်တို့ဘာသာ ရှင်တို့ ဟိုကို ရောက်အောင် ဆက်သွားပါ” ဟု ဆေရီက ဆိုသည်။

အမေက ဆေရီကို စေ့စေ့စပ်စပ် ကြည့်သည်။ ဆေရီ၏ မျက်လုံးများသည် အလွန် ပြင်းထန်သော ရောဂါဝေဒနာ တစ်ခု၏ ဖိစီး နှိပ်စက်မှုဒဏ်ကို ခံထားရကြောင်း ဖော်ပြနေလေသည်။ မျက်နှာမှာလည်း ဖြူဖပ်ဖြူရော်နှင့် ရွှင်လန်း တက်ကြွမှု မရှိ “ကျွန်မတို့ရော၊ ရှင်တို့ရော အတူတူ ဟိုကို ရောက်ကြမှာပါ” ဟု အမေက အားပေးသည်။

ဆေရီသည် အကြော တပြိုင်းပြိုင်း ထနေသော သူ့လက်များကို မီးရောင်အောက်တွင် ထောင်၍ ကြည့်သည်။ “ကျွန်မတို့ တရေးတမောတော့ အိပ်ဦးမှ ဖြစ်မယ်” ဟု ဆိုကာ ထိုင်ရာမှ ထလေသည်။

"ကျွန်မ စိတ်ထဲမှာတော့ အဘိုးဂျုတ်ဟာ လွန်ခဲ့တဲ့ တစ်နှစ်လောက်က ဆုံးသွားတယ်လို့ ထင်နေတယ်" ဟု အမေက ပြောသည်။

မိသားစုသည် ပျင်းရိ လေးကန်စွာဖြင့် အိပ်ရာဝင်ကြသည်။ အမေကတော့ ဂျုံအိတ်ဟောင်း တစ်လုံးဖြင့် သံပန်းကန်ပြားများ၌ ကပ်နေသော ဝက်ဆီများကို ပြောင်စင်အောင် တိုက်ချွတ်နေသည်။ မီးဖိုမီးသည် သေစ ပြုလေပြီ။ ကောင်းကင်မှ ကြယ်များသည် အောက်သို့ လျှောဆင်းလာနေကြ၏။ လမ်းမကြီးပေါ်ဝယ် လူစီးကား တစ်ချို့သည် ကြိုးကြား ကြိုးကြား ပြေးသွားလျက် ရှိသည်။ ရံဖန်ရံခါတွင်မူ ခပ်ကြမ်းကြမ်း မောင်းနှင်လာသော ကုန်တင်ကားကြီးများ၏ အရှိန်ကြောင့် မြေကြီးသည် မြေငလျင် လှုပ်သည့်နှယ် မြည်ဟည်း တုန်ခါသွားလေ၏။ လမ်းဘေးတစ်ဖက် မြောင်းထဲ၌ ရပ်ထားသော ကားနှစ်စီးမှာမူ ကြယ်ရောင်များ အောက်တွင် မှုန်ဝါးဝါး။ လမ်းမကြီး၏ ရှေ့ဘက်ရှိ ဓာတ်ဆီဆိုင်မှ ခွေးတစ်ကောင်သည် တစ်ခါတစ်ရံတွင် ထ၍ အူတတ်လေသည်။

မိသားစုအားလုံး တိတ်ဆိတ် ငြိမ်သက်သွားသည်။ အိပ်ပျော်နေကြလေပြီ။ သူတို့ ပတ်ဝန်းကျင်တွင် ချိုးချိုးချောက်ချောက် မြည်သံများ ကြားလာရသည်။ လယ်ကြွက်များ သည် အတင့်ရဲလာကြသည်။ မွေ့ရာများပေါ်တက်ကာ ချောင်ကြို ချောင်ကြား ဟူသမျှ ဝင်ကြ ထွက်ကြလေသည်။

ဆေရီဝီလ်ဆန် တစ်ယောက်ကတော့ အိပ်မပျော်နိုင်သေး။ သူ၏ ပြူးကျယ်သော မျက်လုံးအစုံသည် မိုးကောင်းကင်ဆီသို့ပ ငေးစိုက်၍ ကြည့်လျက် ရှိသည်။ သူသည် အံကိုကြိတ်၍ စိတ်ကိုတင်းကာ နာကျင်ကိုက်ခဲမှု ဝေဒနာကို ခုခံ တိုက်ခိုက်လျက် ရှိလေ၏။

* * *

## အခန်း (၁၄)

အနောက်ဘက်ပိုင်း ဒေသရှိ မြေယာများသည် အစပြုနေပြီ ဖြစ်သော ပြောင်းလဲမှုကြီး၏ အရှိန်ဖြင့် မငြိမ်မသက် ဖြစ်နေကြသည်။ အနောက်ဘက်ပိုင်းဒေသရှိ ပြည်နယ်များသည် မုန်တိုင်းကျတော့မည်ကို ကြိုတင်၍ သိနေကြသော မြင်းများကဲ့သို့ လှုပ်ရှားနေကြသည်။ ပြောင်းလဲမှုကြီးတစ်ရပ် ဖြစ်လာတော့မည်ကို ရိပ်စား နားလည်နေကြသော ငွေရှင် ကြေးရှင်နှင့် မြေရှင်ကြီးများသည် ယင်း ပြောင်းလဲမှုကြီး၏ သဘောသဘာဝကို လည်းကောင်း၊ အခြေခံ အကြောင်းအရင်းများကို လည်းကောင်း ခြေခြေမြစ်မြစ် ယထာဘူတ ကျကျ နားမလည်ကြပါဘဲလျက်နှင့် ကြောက်လန့်တကြား ဖြစ်နေကြလေသည်။ ပိုင်ရှင်ကြီးများသည် လတ်တလော ပေါ်ပေါက်လာသည့် အရေးအခင်းများကို လတ်တလော ငြိမ်သက်သွားအောင် သူတို့နည်း သူတို့ဟန်ဖြင့် အရေးယူ ဖြေရှင်းကြသည်။ အုပ်ချုပ်မှု အာဏာစက် ကြီးမားကျယ်ပြန့်အောင် တိုးချဲ့လာခြင်း၊ အလုပ်သမားများ၏ စည်းလုံးညီညွတ် တိုးတက်ခိုင်မာလာခြင်း၊ အခွန်သစ်များ ကောက်ခံမှုအပေါ်၌ မကျေနပ်ခြင်း စသော ဖြစ်ရပ်များသည် အကျိုး သက်ရောက်မှု များမှန်း မသိ။ ယင်း ဖြစ်ရပ်များသည် အကြောင်းရင်းများ မဟုတ်။ အကျိုးသက်ရောက်မှုများသာ ဖြစ်၏။ အကြောင်းရင်းများ လုံးဝ မဟုတ်။ သူတို့အနေဖြင့် ယင်းနှစ်ခု၏ ခြားနားမှုကို နားမလည်ကြ။

အကြောင်းရင်းများသည် နက်နဲသော်လည်း ရိုးရိုးရှင်းရှင်းကလေး ဖြစ်၏။ အကြောင်းရင်းများမှာ ပထမတွင် လူတစ်ယောက်၏ ဆာလောင်ငတ်မွတ်ခြင်း ဖြစ်၏။ ထို့နောက် ယင်းဆာလောင်ငတ်မွတ်မှုသည် တစ်ယောက်မှ တစ်ရာအထိ တိုးတက် လာသည်။ တစ်ရာမှ တစ်ဆင့် ထောင်ဂဏန်း သောင်းဂဏန်း အထိ တိုးတက်လာသည်။ လူတစ်ယောက်သည် စိတ်ချမ်းမြေ့မှုကို ဆာလောင် ငတ်မွတ်လျက်ရှိ၏။ ယင်း ဆာလောင် ငတ်မွတ်မှုမှာလည်း တစ်ယောက်မှ တစ်ရာ၊ တစ်ရာမှ ထောင်ဂဏန်း သောင်းဂဏန်း အထိ တိုးတက်လာ၏။ လူတစ်ယောက်သည် မိမိ၏ဘဝ လုံခြုံမှုကို ဆာလောင် ငတ်မွတ်လျက် ရှိ၏။ ထို့နောက် တစ်ယောက်မှ တစ်ရာ၊ တစ်ရာမှ ထောင်ဂဏန်း သောင်းဂဏန်းအထိ တိုးတက်လာပြန်၏။ အစားအစာ ဝဝလင်လင် စားလိုမှု ဟူသော ဝမ်းဗိုက်မှ ဆာလောင်ခြင်း၊ သာယာပျော်ရွှင်မှုနှင့် ဘဝလုံခြုံမှုများကို ရယူ ခံစားလိုသော စိတ် ဆာလောင်ခြင်းတို့သည် အကြောင်းရင်းများ ဖြစ်၏။ ဤဆာလောင်မှုများကို

အကြောင်းပြု၍ ကိုယ်ရောစိတ်ပါ မငြိမ်သက်ခြင်းသည် ဖြစ်ပေါ်လာရ၏။ ဖွံ့ဖြိုးတိုးတက်လို၍၊ အလုပ်လုပ်လို၍၊ တီထွင်ဖန်တီးလို၍ ကိုယ်ရောစိတ်ပါ လှုပ်ရှားလာကြရ၏။ ယင်းလှုပ်ရှားမှုများမှာလည်း တစ်ယောက်မှ တစ်ရာ၊ တစ်ရာမှ ထောင်ပေါင်း သောင်းပေါင်းများစွာအထိ တိုးတက်လာရ၏။ တကယ်တော့ ယင်း လှုပ်ရှားမှုသည်ပင်လျှင် လူဖြစ်လေသည်။ အလုပ်လုပ်လို၍ ခန္ဓာကိုယ်၏ အကြော အခြင်များ နာကျင် ကိုက်ခဲရခြင်းနှင့် မိမိ၏ အခြေခံ လိုအပ်ချက်ထက် ပိုလွန်၍ တီထွင် ဖန်တီးလိုသော ဆန္ဒဖြင့် စိတ်နာကျင်ပင်ပန်းရခြင်းတို့သည် လူ ဟူသော သတ္တဝါ၏ အဓိကကျသော အလုပ် ဖြစ်၏။ ပို၍ရှင်းအောင် ပြောရမည် ဆိုပါက ယင်းတာဝန် နစ်ရပ် ပေါင်းစပ် ဖွဲ့စည်းထားခြင်းသည်ပင်လျှင် "လူ" ဖြစ်လေသည်။ နံရံတစ်ခု တည်ဆောက်ခြင်း၊ အိမ်တစ်လုံး တည်ဆောက်ခြင်း၊ ရေကာတာတစ်ခု တည်ဆောက်ခြင်းတို့သည် ထိုနံရံ ထိုအိမ်နှင့် ထိုရေကာတာ အတွင်း၌ လူ၏ အတ္တကို တည်ဆောက်လိုက်ခြင်းပင် ဖြစ်သည်။ လူသည် ထိုနံရံ ထိုအိမ်နှင့် ထိုရေကာတာတို့မှ ပေါ်ထွက်လာသော အကျိုးစီးပွားကို ရယူခံစား၏။

လူသည် ဤစကြဝဠာအတွင်းရှိ သက်ရှိသက်မဲ့များနှင့် တူသည် မဟုတ်။ မိမိလုပ်လိုသမျှကို လုပ်နိုင် ကိုင်နိုင်အောင် ဖွံ့ဖြိုးတိုးတက်နေသူ ဖြစ်၏။ အတွေးအခေါ်နှင့် ခံယူချက်များတည်း ဟူသော လှေကားထစ်များပေါ်၌ အမြဲတစေ တက်သွားနေသူ ဖြစ်၏။ တတ်သိလိမ္မာမှုတွင် အမြဲတစေ ရှေ့မှပြေးသူ ဖြစ်၏။ အကယ်၍ အမျိုးသားရေး၊ ဘာသာရေး၊ စီးပွားရေးနှင့်ဆိုင်သော သဘောတရားများနှင့် ဒဿနိက အမြင်များ ပြောင်းလဲခြင်း၊ ပျက်စီးခြင်း၊ ဖွံ့ဖြိုးတိုးတက်ခြင်း၊ ဖရိုဖရဲဖြစ်ခြင်း စသည်များနှင့် ကြုံတွေ့ရသည့် အခါ လူသည် မိမိကိုယ်ကို မထိန်းနိုင်ဘဲ ကျွမ်းထိုးမှောက်ခုံ ဖြစ်သွားတတ်၏။ ထိုအဖြစ်မျိုးနှင့် ကြုံရသည့်အခါ တစ်ခါတစ်ရံတွင် ပြင်းထန်စွာ ခံရတတ်သည်။ လေယာဉ်ပျံများပေါ်မှ လူစည်ကားရာ ဈေးကွက်ပေါ်သို့ ဗုံးများ ကြဲချလာသည့်အချိန်၊ လူများအား ထောင်သွင်း အကျဉ်းချကာ ဝက်များသဖွယ် ထား၍ နှိပ်စက် ညှဉ်းပန်းနေသည့် အချိန်နှင့် မြေကြီးပေါ်တွင် လူသေအလောင်းများ အပုံလိုက် အပုံလိုက် ထပ်နေသည့် အချိန်များတွင် အပြောင်းအလဲ တစ်ခုကြောင့် မထိန်းနိုင် မသိမ်းနိုင် ဖြစ်ရသည့် လူတို့၏ ဘဝ အခြေအနေကို ကောင်းစွာ မြင်နိုင် သိနိုင်၏။ မည်သို့ပင် ဖြစ်စေ ဤအဖြစ်များကြောင့် လူတို့၏ စိတ်ဓာတ်သည် ပျက်စီးချုပ်ငြိမ်းသွားမည် မဟုတ်။ ဤအဖြစ်များကြောင့် လူ့အတ္တသည် ပျက်သုဉ်းချုပ်ငြိမ်းသွားသည် မဟုတ်။ လူ့အတ္တ၏ အခြေခံ ဖြစ်သော ခံယူချက်သည်လည်း ပျက်သုဉ်း

ချုပ်ငြိမ်းသွားသည် မဟုတ်။ ယင်းအချက်သည် ဤစကြဝဠာ အတွင်းရှိ သက်ရှိ သက်မဲ့များနှင့် ကွဲပြားခြားနားနေသော လူ၏ အရည်အသွေးတစ်ရပ်ပင် ဖြစ်လေသည်။

အနောက်ဘက်ပိုင်း ဒေသရှိ ပြည်နယ်များသည် အစပြုနေပြီ ဖြစ်သော ပြောင်းလဲမှုအောက်တွင် တည်ငြိမ်မှု ကင်းမဲ့လျက် ရှိလေသည်။ တက္ကဆတ်စ် ပြည်နယ်နှင့် အုတ်ကလာဟိုးမား ပြည်နယ်။ ကင်းဆတ်စ် ပြည်နယ်နှင့် အာကင်ဆတ်စ် ပြည်နယ်။ ပြီးတော့ နယူးမက္ကဆီကို၊ အရီဇိုးနားနှင့် ကယ်လီဖိုးနီးယား ပြည်နယ်များ။

မိသားစုတစ်စုသည် သူ့မြေပေါ်မှ နေ၍ တခြား တစ်နေရာသို့ ပြောင်းရွှေ့ ခဲ့ရသည်။ အဖေက ဘဏ်မှ ငွေချေးခဲ့၏။ အခုကျတော့ ဘဏ်မှ ထိုချေးငွေကို ပြန်လိုချင်သည်။ မြေယာ ကုမ္ပဏီ သို့မဟုတ် မြေပိုင်ရှိလာသော ဘဏ်က သူ့မြေပေါ်တွင် စာရင်းငှား မိသားစုများ နေထိုင်ခြင်းကို မလိုမရှိ။ စာရင်းငှား မိသားစုများအစား လယ်ထွန်စက်ကြီးများကို အလိုရှိလာသည်။

ထွန်စက်ဟာ မကောင်းတဲ့ ပစ္စည်းတစ်ခုလား။ အင်မတန် ရှည်လျားတဲ့ ထယ်ရေး ထယ်ကြောင်းကြီးတွေ ဖြစ်ပေါ်လာအောင် ဖန်တီးပေးနိုင်စွမ်းရှိတဲ့ စွမ်းအင်တစ်ခု ပေါ်ပေါက်လာတာဟာ မှားနေသလား။ တကယ်လို့ ဒီထွန်စက်ဟာ ငါတို့ အားလုံး ပိုင်တဲ့ ပစ္စည်းတစ်ခု ဆိုရင်တော့ ဘယ်ဆိုးမလဲ။ ကောင်းမှာပေါ့၊ ငါပိုင်လို့ မပြောပါဘူး။ ငါတို့ပိုင်လို့ ပြောတာပါ။ တကယ်လို့ ငါတို့ ထွန်စက်က ငါတို့မြေပေါ်မှာ ထွန်ယက်ပေးနေတယ် ဆိုရင် ဒီထွန်စက်ဟာ အကောင်းဆုံးပေါ့။ အဆိုး ဘယ်ဟုတ်ပါ့မလဲ။ ငါ့မြေ လို့ မဆိုပါဘူး။ ငါတို့မြေလို့ ဆိုတာပါ။ ငါတို့ပိုင် ဖြစ်လာတဲ့ မြေကို ငါတို့ ချစ်မြတ်နိုးသလို ထွန်စက်ကိုလည်း ငါတို့ ချစ်မြတ်နိုးနိုင်လာမှာပေါ့။ ဒါပေမဲ့ ဒီထွန်စက်က နှစ်ခုတော့ လုပ်သွားပြီ။ တစ်ခုက မြေကြီးကို ထိုးလှန်ပစ်တယ်။ နောက်တစ်ခုကတော့ မြေပေါ်ကနေပြီး ငါတို့ကို မောင်းထုတ်ပစ်လိုက်တယ်။ ဒီထွန်စက်နဲ့ တင့်ကားတစ်စီးရဲ့ ကြားမှာ ခြားနားချက်ကလေး နည်းနည်းတော့ ရှိတယ်။ ဒါပေမဲ့ လူတွေဟာ ဒီနှစ်မျိုးစလုံးရဲ့ ခြိမ်းခြောက်မှု၊ မောင်းထုတ်မှုနဲ့ ထိခိုက် နာကျင်အောင် လုပ်မှုကိုတော့ ခံကြရတယ်။ ဒီတစ်ချက်ကိုတော့ ငါတို့ တွေးရမယ်။

လူတစ်ယောက်၊ မိသားစုတစ်စုသည် မြေပေါ်မှ မောင်းထုတ်ခြင်းကို ခံရသည်။ သံချေးအထပ်ထပ် တက်နေသော မော်တော်ကားသည် အနောက်သို့ ရှေးရှုလျက်ရှိသော

လမ်းမကြီးပေါ်တွင် တကျွိကျွိ မြည်သံပေးကာ ပြေးသွားလျက် ရှိသည်။ ငါ့မြေကို ငါ လက်လွှတ်ခဲ့ရပြီ။ ထွန်စက်တစ်စီးက ငါ့မြေကို အပိုင် သိမ်းထားလိုက်တာပဲ။ ငါ တစ်ယောက်တည်း ဖြစ်သွားပြီ။ ငါ ဘာလုပ်ရမလဲ။ ငါ့စိတ်တွေ ရှုပ်ထွေး နောက်ကျိကုန်ပြီ။

ညပိုင်းတွင် မိသားစု တစ်စုသည် လမ်းဘေး၌ ရွက်ထည် တဲတစ်လုံး ထိုး၍ ရပ်နားသည်။ ထိုအခါ တခြား မိသားစုတစ်စု ရောက်လာပြီး အတူတူ ပေါင်း၍ ရပ်နားသည်။ မိသားစု နှစ်ခု၏ အကြီးအကဲများ ဖြစ်ကြသော ယောကျ်ားနှစ်ယောက်သည် မြေကြီး ပေါ်တွင် တင်ပျဉ်ခွေထိုင်၍ စကားစမြည် ပြောကြသည်။ မိန်းမများနှင့် ကလေးများက ဘေးမှ ဝိုင်းထိုင်ပြီး နားထောင်နေကြလေသည်။ ဤတွင် ပြဿနာသည် ပေါ်ပေါက်လာ ရ၏။ အပြောင်းအလဲကို မုန်း၍ တော်လှန်ရေးကို ကြောက်ရွံ့သော သင့်အဖို့ စဉ်းစားစရာ ဖြစ်လာသည်။ အတူတူ တွဲ၍ ထိုင်နေသော ယောကျ်ားနှစ်ယောက်ကို တကွဲတပြားစီ ဖြစ်နေအောင် လုပ်ထားမှ ဖြစ်မည်။ သွေးကွဲနေအောင် လုပ်ထားမှ ဖြစ်မည်။ သူတို့နှစ်ယောက် တစ်ယောက်ကိုတစ်ယောက် မုန်းနေမှ။ တစ်ယောက်ကို တစ်ယောက် မယုံကြည်မှ။ တစ်ယောက်ပေါ် တစ်ယောက် အမြဲတစ်စေ သံသယ ဝင်နေမှ။

တကယ်တော့ အလွန်ကြောက်နေသော အရာကို ပေါက်ဖွားစေမည့် မျိုးစေ့သည် ဤနေရာ၌ ရှိနေသည်။ ဤလူနှစ်ယောက် ဆုံမိခြင်းသည် ပွင့်ဖိုဝတ်ဆံနှင့် ပွင့်မဝတ်ဆံတို့ ရောယှက် ပေါင်းစပ်မိပြီး အစေ့ငယ်တစ်စေ့ ပေါက်ဖွားလာမည့် အခြေအနေ တစ်ရပ်သို့ ဆိုက်ရောက်လာခြင်းပေတည်း။ သူတို့နှစ်ဦး ဆုံမိသော ဤနေရာတွင် ငါ့မြေကို ငါ လက်လွှတ်ခဲ့ရချေပြီ ဟူသော စကားအသုံးအနှုန်းသည် ပြောင်းသွားသည်။ ကလာပ်စည်း လေး တစ်ခုသည်လည်း ကွဲသွားသည်။ ထိုကွဲသွားသော ကလာပ်စည်း အပိုင်းအစ လေးများမှ တစ်ဆင့် သင်စက်ဆုပ်မုန်းတီး ရွံရှာနေသော အရာသည် ရှင်သန် ကြီးထွားလာသည်။ ငါ့မြေကို ငါ လက်လွှတ်ခဲ့ရပြီ ဟူသော စကားတွင် ငါတို့မြေကို ငါတို့ လက်လွှတ်ခဲ့ရပြီ ဟု ဖြစ်လာသည်။ အန္တရာယ်သည် ဤနေရာတွင် တည်ရှိသည်။ အဘယ်ကြောင့် ဆိုသော် လူနှစ်ယောက်သည် တစ်ယောက်တည်းသမား ကဲ့သို့ အထီးကျန်လည်း မဖြစ်။ တစ်ယောက်တည်းသမား ကဲ့သို့ ကြံရာမရလည်း မဖြစ်။ အားကိုးရာလည်း မမဲ့။ ပထမဆုံး သုံးလိုက်သည့် ငါတို့ ဟူသော အသုံးအနှုန်းမှတစ်ဆင့် ပို၍ ဘေးအန္တရာယ်များသော၊ ပို၍ ကြောက်စရာကောင်းသော အရာတစ်ခုသည် ထပ်မံ ပေါက်ဖွား ရှင်သန်လာပြန်သည်။ ငါ့မှာ စားစရာ နည်းနည်းပဲ ရှိတယ် ဟူသော စကားတွင် ငါ့မှာ စားစရာ ဘာမှ မရှိတော့ဘူး ဟူသော စကားတစ်ခွန်းက လာ၍ ပေါင်းစပ်သည်။

အကယ်၍ ဤပြဿနာမှ ထွက်ပေါ်လာသော အပေါင်းရလဒ်သည် ငါတို့မှာ စားစရာ နည်းနည်းပဲ ရှိတော့တယ် ဟု ဖြစ်လာပါမူကား သင် ကြောက်နေသော အရာသည် လမ်းပေါ် ရောက်လာပြီ ဖြစ်၏။ လှုပ်ရှားမှုသည် ဦးတည်ချက် ရှိနေပြီ ဖြစ်၏။ နောက်ထပ် တစ်ဆင့်တက်၍ အနည်းငယ်မျှသာ တိုးပွားလာဖို့ လိုသည်။ ဤမြေနှင့် ဤထွန်စက် တို့သည် ငါတို့ပိုင် ဖြစ်သည်။ ငါတို့ပိုင် ပစ္စည်းများ ဖြစ်သည်။

ယောကျာ်းနှစ်ယောက်သည် ကားလမ်းမကြီး၏ ဘေးရှိ မြောင်းတစ်ခုထဲ၌ ထိုင်လျက် ရှိကြသည်။ သူတို့အနီးရှိ မီးဖိုမှာ ခပ်သေးသေး။ ထိုမီးဖိုပေါ်တွင် အသားပြုတ်အိုး တစ်လုံး။ မီးဖိုရှေ့တွင်မူ မာကျော အေးစက်သည့် မျက်လုံးများဖြင့် တွေတွေငေးငေး ဖြစ်ကာ နှုတ်ဆိတ်နေကြသော မိန်းမများ။ သူတို့နောက်တွင်မူ ကလေးများ။ ကလေးများသည် အဖေများ ပြောနေကြသည့် စကားများကို စိတ်ဝင်တစား နားထောင်နေကြသည်။ သို့သော်လည်း စကားများ၏ အဓိပ္ပာယ်ကို နားမလည်။ တဖြည်းဖြည်းနှင့် ညသည် အုံမင်းရင့်ရော်လာသည်။ နို့စို့ကလေးတော့ဖြင့် အအေးမိနေပြီ။ ဒီလိုဆိုရင် ဟောဒီ စောင်ကိုယူ။ ရော့ ခြုံထားပေးလိုက်။ သိုးမွေးစောင်ရှင့်။ ကျွန်မအမေ ခြုံခဲ့တဲ့ စောင်ပေါ့။ ကလေးအတွက် ယူထားလိုက်တော့။ ဤအရာသည် ဗုံးကို ပေါက်ကွဲစေမည့် အရာပင် ဖြစ်၏။ ဤအရာသည်ပင်လျှင် အစ ဖြစ်သည်။ ငါမှ ငါတို့ ဟု ဖြစ်လာစေမည့် လမ်းစ ဖြစ်လေသည်။

အကယ်၍ သင်သည် အကျိုးတရားများနှင့် အကြောင်းတရားများကို ခွဲခြားနိုင်မည် ဆိုပါက…။ အကယ်၍ သင့်အနေဖြင့် ပိန်း၊ မတ်က်စ်၊ ဂျက်ဖာဆန်၊ လီနင် စသော ပုဂ္ဂိုလ်များသည် အကျိုးတရားများ ဖြစ်သည်၊ အကြောင်းတရားများ မဟုတ်ဟု နားလည် သဘောပေါက်နိုင်မည် ဆိုပါက သင် အသက်ရှင်ကောင်း ရှင်ပေလိမ့်မည်။ သို့သော်လည်း သင် ခွဲခြားနိုင်လိမ့်မည်လည်း မဟုတ်။ နားလည် သဘောပေါက်နိုင်လိမ့်မည်လည်း မဟုတ်။ အဘယ်ကြောင့်ဆိုသော် ပိုင်ဆိုင်ခြင်းပေတည်း ဟူသော အရည်အချင်းက သင့်အား ငါတို့ ဟူသော အသိနှင့် ရာသက်ပန် အဆက်ပြတ်နေအောင် ဖန်တီးထားခြင်း ကြောင့်ပေတည်း။

အနောက်ဘက်ပိုင်း ဒေသရှိ ပြည်နယ်များသည် အစပြုနေပြီ ဖြစ်သော ပြောင်းလဲမှု အောက်တွင် တည်ငြိမ်မှု ကင်းမဲ့လျက် ရှိကြလေသည်။ အလိုဆန္ဒသည် အယူအဆကို ပေါက်ဖွားအောင် လှုံ့ဆော်ပေးသော အရာ ဖြစ်၏။ အယူအဆသည်

လှုပ်ရှားမှုကို ဖြစ်ပေါ်အောင် လှုံ့ဆော်၏။ သန်းဝက်မျှသော လူများသည် တစ်နိုင်ငံလုံးရှိ ဒေသအနှံ့အပြားတွင် ခြေသလုံးအိမ်တိုင် ဘဝဖြင့် တစ်နေရာမှ တစ်နေရာသို့ လှုပ်ရှားသွားလာနေကြ၏။ နောက်ထပ် လူတစ်သန်းခန့်သည် တည်ငြိမ်မှု ကင်းမဲ့နေကြ၏။ ရွှေ့ဖို့ ပြောင်းဖို့ အသင့်ဖြစ်နေကြ၏။ နောက်ထပ် လူဆယ်သန်းသည် ပထမဆုံး ဖြစ်ပေါ်ခဲ့သည့် စိတ်လှုပ်ရှားမှုမျိုးကို ရရှိခံစားနေကြရ၏။ ထွန်စက်များသည် လူသူလေးပါး ကင်းမဲ့ပြီး တိတ်ဆိတ် ခြောက်သွေ့လျက် ရှိသော မြေပေါ်တွင် ထယ်ရေး ထယ်ကြောင်း အမြောက်အမြား ပေါ်လာအောင် အကြိမ်ကြိမ် အထပ်ထပ် ထွန်ယက်လျက် ရှိလေ၏။

* * *

## အခန်း (၁၅)

၆၆ ကားလမ်းမကြီး တစ်လျှောက်တွင် ဟမ်ဘာဂါ အသားညှပ်ပေါင်မုန့် ဆိုင်ကလေးများသည် တန်းစီလျက် ရှိကြ၏။ အယ်လ်နှင့် ဆူစီ၏ ဟမ်ဘာဂါ။ ကားလ်၏ နေ့လည်စာဒ ဂျိုးနှင့် မီနီမုန့်ဆိုင်။ ဝီလ်၏ စားသောက်ဆိုင် စသည်ဖြင့် နာမည်အမျိုးမျိုး ပေးထားသည့် ဆိုင်များ ပြီးတော့ တည်းခိုရိပ်သာနှင့် စားသောက်ခန်းများ။ ရှေ့တည့်တည့်တွင် ဓာတ်ဆီပန့်နှစ်ခု။ အတွင်းဘက်တွင် အလျားရှည်ရှည် အရက်ဘား တစ်ခု။ အရက်ဘား ကောင်တာရှေ့တွင် စီချထားသည့် ခြေတံရှည် ထိုင်ခုံများ။ ပိုက်ဆံထည့်လိုက်လျှင် ချိုချဉ်၊ ချော့ကလက်၊ စီးကရက် စသော ပစ္စည်းများ အလိုအလျောက် ထွက်လာသည့် စက်သုံးလုံးသည် ဝင်ပေါက် တံခါးနားတွင် တန်းစီလျက် ရှိကြလေသည်။ ထိုစက်များ၏ ဘေးတွင် အလိုအလျောက် ဓာတ်ပြားဖွင့်စက် တစ်လုံး ရှိ၏။ စက်ထဲတွင် ဓာတ်ပြားများသည် အစီအရီ တန်းလျက် ရှိကြသည်။ ငါးဆင့်ပြား တစ်ပြားသာ ထည့်လိုက်လျှင် ရွေးချယ်ထားသည့် သီချင်းဓာတ်ပြားကို ဖွင့်ပေးဖို့ အသင့်။ လောလောဆယ်တွင် "သတိရခြင်းအတွက် ကျေးဇူးကမ္ဘာသီချင်း"။ သီဆိုသူက ဘင်ကရော့စဘီနှင့် ဘင်နီ ဂွတ်ဒ်မင်း။ အရက်ကောင်တာ၏ တစ်ဖက်အစွန်းတွင် မှန်ဗီရိုတစ်လုံး ချခင်းထားသည်။ ဗီရိုထဲတွင် ချောင်းဆိုးပျောက်ဆေး၊ ကက်ဖင်းဆာလ်ဖိတ် ဆေး၊ သကြားလုံး၊ ချော့ကလက်၊ စီးကရက်၊ မုတ်ဆိတ်ရိတ်ဓားနှင့် အက်စပရင်ဆေးပြား၊ တိုလီမိုလီ အသုံးအဆောင် ပစ္စည်းများ စုံအောင် ထည့်ထားသည်။ နံရံများနှင့် ကြော်ငြာပိုစတာများဖြင့် ပြည့်နေသည်။ ရေကူးဝတ်စုံနှင့် မလုံ့တလုံ မိန်းမများ၊ ရင်သားထွားထွား မိန်းမချော မိန်းမလှများ။ အဖြူရောင် ရေကူးဝတ်စုံများ ဝတ်ပြီး ကိုကာကိုလာ ပုလင်းတစ်လုံးကို ကိုင်၍ ပြုံးရယ်နေသော ခါးသေးသေး၊ ရင်ချီချီ ဖယောင်းသား မျက်နှာများ ပိုင်ရှင် မိန်းမလှများ။ ကိုကာကိုလာ တစ်ပုလင်းဖြင့် သင်ဘာရမလဲဆိုတာ ကြည့်ပါ။

အရက်ဘား ကောင်တာပေါ်တွင် ဆားပုလင်းများ၊ ငရုတ်ကောင်းမှုန့် ပုလင်းများ၊ မှန်ညင်း ချဉ်ဖတ်အိုးများနှင့် စက္ကူ လက်သုတ်ပဝါများ။ ကောင်တာနောက်တွင် ဘီယာတစ်စည်။ ဘီယာစည်၏ နောက်ဘက်တွင် ကော်ဖီအိုးကြီး။ အိုးအတွင်းမှ အငွေ့များသည် တထောင်းထောင်း ထလျက် ရှိ၏။ ပြီးတော့ မှန်သေတ္တာများဖြင့် ထည့်ထားသည့် မုန့်မျိုးစုံနှင့် တစ်လုံးပေါ်တစ်လုံး ဆင့်၍ လှနေအောင် တင်ထားသည့်

လိမ္မော်သီးများ။ အရက်ကောင်တာ၏ ကျန် အစွန်းတစ်ဖက်တွင်မူ ဟင်းအိုးများ ရှိသည်။ အာလူး၊ အမဲသား၊ ဝက်သား။ အပြုတ်အိုး၊ အကြော်အိုး၊ အိုးမျိုးစုံ။ အမဲသားနှင့် ဝက်သားပြုတ်ကြော် အတုံးကြီးများသည် အလှီးခံရန် စောင့်နေကြလေသည်။

မီနီ သို့မဟုတ် ဆူစီ သို့မဟုတ် မေ။ အသက်အရွယ်က အလယ်အလတ်။ အမျိုးသမီးသည် ကောင်တာနောက်တွင် ရပ်နေသည်။ ဆံပင်များကို ကောက်ထားသည်။ ထူထဲသော မျက်နှာချေများကြောင့် တစ်မျက်နှာလုံး နီရဲနေသည်။ ချွေးပြန်နေသော မျက်နှာကို ပေါင်ဒါဖို့ထားသည်။ အစားအသောက်မှာသူ ရှိလာလျှင် နူးညံ့ သိမ်မွေ့သော အသံဖြင့် ပြောဆို လက်ခံသည်။ ထို့နောက် ဒေါင်းတစ်ကောင်သဖွယ် လည်ပြန်လှည့်ကာ နောက်သို့ တစ်ဆင့် ထပ်ပြောသည်။ သူ့လက်ထဲမှ အဝတ်ဖြင့် ကောင်တာကို မကြာခဏ ပွတ်သည်။ တစ်ခါတစ်ရံ ကော်ဖီအိုးကြီးကို သုတ်သည်။ စားဖိုမှူးကတော့ ဂျိုး သို့မဟုတ် ကားလ် သို့မဟုတ် အယ်လ်။ စားဖိုမှူးသည် အဖြူရောင် ကုတ်အင်္ကျီကို ဝတ်၍ မီးဖိုချောင်သုံး အဖြူရောင် ခါးစည်းအဝတ်ကို ခါးတွင် ပတ်ထားသည်။ စားဖိုမှူးဦးထုပ် အဖြူရောင် အောက်ရှိ နဖူးပြင်တွင် ချွေးသီးချွေးပေါက်များ စို့လျက် ရှိသည်။ သူ့ပုံပန်းသည် စိတ်လက်မကြည်မလင် ဖြစ်နေသည့်ဟန် ပေါက်နေသည်။ စကားများများ မပြော။ ဆိုင်ထဲသို့ လူသစ်တစ်ယောက် ဝင်လာသည့် အခါတိုင်းတော့ မော့ကြည့်တတ်၏။ မှန့်ဖုတ်သည့် သံအိုးကို ယောက်မဖြင့် ခြစ်လိုက်ပြီး အဝတ်ဖြင့် ထပ်သုတ်သည်။ ထို့နောက် မကြည်မလင် ဖြစ်နေသည့် မျက်နှာထားဖြင့် ပြန်၍ ငြိမ်ဆိတ်နေပြန်လေသည်။

မေသည် စားသုံးသူများနှင့် ချက်ပြုတ်သူများ ကြားတွင် အောင်သွယ်တော် ဖြစ်သည်။ ရှေ့ဘက်တွင် ဖော်ရွေသော အပြုံးကို ပြသော်လည်း နောက်ဘက်ကျတော့ စိတ်မရှည်သည့် မျက်နှာထားကို ပြသည်။ တစ်ခါတစ်ရံတွင် ဒေါသအိုး ပေါက်ကွဲတော့မည့် အမူအရာမျိုးကို ဖော်ပြတတ်လေသည်။ မည်သို့ပင်ဖြစ်စေ ရှေ့ဘက်လှည့်နေသည့် အခါများတွင် သူ့မျက်နှာသည် အစဉ် ချိုပြုံးနေတတ်သည်။

အထူးသဖြင့် ထရပ်ကား ဒရိုင်ဘာများ။ သူတို့ စားသောက်ဆိုင် လုပ်ငန်းတွင်လည်း အဆက်အသွယ်ကောင်းတွေ မွေးထားရသည်။ ထရပ်ကားကြီးတွေ များများ ရပ်လျှင် ဖောက်သည်များများ ကျလာတတ်၏။ ထရပ်ကား ဒရိုင်ဘာတွေကိုတော့ အရှုးလုပ်၍ မရ။ သူတို့က နယ်တကာ အနံ့ ရောက်နေသူများ ဖြစ်သည်။ ဘာမဆို နားလည်နေသော လူလည်များ ဖြစ်သည်။ ဖောက်သည်များများ သယ်လာနိုင်သည့် သူတို့

အခြေအနေကို ကောင်းစွာ နားလည်သည်။ သူတို့ကို မလတ်ဆတ်သော ကော်ဖီတစ်ခွက်လောက်များ သွား၍ မတိုက်လေနှင့်။ တစ်ခါတည်း ဆိုင်နှင့် အဆက်ဖြတ်သွားလိမ့်မည် ဖြစ်၏။ သူတို့ကို မှန်မှန်ကန်ကန်နှင့် ကောင်းကောင်းမွန်မွန် ပြန်၍ ဆက်ဆံပါမှ သူ ပြန်လာလိမ့်မည် ဖြစ်သည်။ ထရပ်ကား ဒရိုင်ဘာများနှင့်သာ တွေ့လို့ကတော့ မေသည် တစ်ကိုယ်လုံးရှိ အင်အားများကို သုံး၍ ပြုံးပြတတ်သည်။ သူ့ကိုယ်သူပင် ဇက်မသတ်။ လက်နှစ်ဖက်ဖြင့် သူ့ဆံပင်ကို မကြာခဏ သပ်တတ်သည်။ ဆံပင်ကို သပ်ဖို့ လက်မြှောက်လိုက်သည့် အခါတိုင်း သူ့ရင်သားများသည် နိမ့်ချည်တစ်ခါ မြင့်ချည်တစ်လှည့် ဖြစ်ကာ မြင်ရသူများကို အသည်းတယားယား ဖြစ်အောင် လှုံ့ဆော်သည်။

အယ်လ်ကတော့ ဘယ်တော့မှ စကားမပြော။ သူသည် အောင်သွယ် မဟုတ်။ တစ်ခါတစ်ရံ ရယ်စရာ ပြောလျှင် မဆိုစလောက်ကလေး ပြုံးတတ်သည်။ ဘယ်သောအခါမှ ဟက်ဟက်ပက်ပက် ရယ်လေ့မရှိ။ တစ်ခါတစ်ရံတွင် ဖျတ်လတ် မြူးကြွသော မေ၏အသံကို ကြားလျှင် ဖျတ်ခနဲ မော့ကြည့်တတ်သည်။ ထို့နောက် ချက်ချင်းလိုလိုပင် ခေါင်းပြန်ငုံ့သွားကာ သူ့လက်ထဲမှ ဆီကြော် ဂေါ်ပြားဖြင့် ဒယ်အိုးကို မွှေသည်။ အနီးရှိ ဆီအိုးထဲမှ ဆီကို ခပ်၍ ထည့်သည်။ ပြီးတော့ နှံ့သွားအောင် ထပ်မွှေသည်။ ကျန်လက်တစ်ဖက်ကလည်း ပေါင်မုန့်များကို မီးကင်သည်။ တစ်ခါတစ်ရံတွင်မူ သူ့လက်သည် အနီးရှိ လင်ပန်းထဲမှ ခပ်ပါးပါး လှီးထားသော ကြက်သွန်နီများကို ယူ၍ ကြော်လက်စ အသားတုံးများပေါ်သို့ ဖြန့်ချသည်။ ဆီကြော် ဂေါ်ပြားဖြင့် အပေါ်မှ ဖိပေးသည်။ တစ်ဆက်တည်း ပေါင်မုန့်ချို တစ်ချပ်ကို ဂေါ်ပြားနှင့် ကော်ယူလိုက်ပြီး အသားတုံးပေါ် တင်၍ အပေါ်ယံဘက်မှ ထောပတ် သုတ်ပေးသည်။ ပြီးတော့ ဒယ်အိုးထဲမှ ပြန်ဆယ်ယူကာ အနီးရှိ ပန်းကန်ပြားထဲသို့ ထည့်လိုက်သည်။ ထို့နောက်တော့ သူသည် တပွက်ပွက်ဆူနေသော ဟင်းချိုရည်အိုးဆီသို့ စိတ်ဝင်စားမှု ကင်းမဲ့စွာဖြင့် ငေးမောနေတတ်လေသည်။

၆၆ လမ်းမကြီးပေါ်မှ တဝေါဝေါ ဖြတ်သွားနေကြသော မော်တော်ကားများ။ လိုင်စင် ပလိတ်ပြားများက အရပ်ဒေသ မျိုးစုံကို ဖော်ပြနေကြသည်။ မက်ဆာချူးဆက် ပြည်နယ်။ တင်နက်စီယံ ပြည်နယ်။ နယူးယောက် ပြည်နယ်။ အိုဟိုင်းယို ပြည်နယ်။ အနောက်ကိုသာ ရှေးရှု၍ သွားနေကြသည်။ ဇိမ်ခံ အပျံစား ကားကြီး ကားဟောင်းများ။ တစ်နာရီ ခြောက်ဆယ့်ငါးမိုင်နှုန်းဖြင့် ပြေးသွားနေကြခြင်း။

အံမယ်၊ လမ်းပေါ်မှာ ကော့ဒ် အမျိုးအစား ကားတစ်စီး သွားနေပါရောလား။ ဘီးလေးဘီးပေါ် အသုဘ ခေါင်းတစ်လုံး တင်ထားသလိုပါပဲပြဲဘား။ ဟာ ဖြစ်မှဖြစ်ရလေ။

ဘုရားသခင် ကယ်တော်မူပါ။ ဒီကားမျိုးနဲ့ သူတို့ ဘယ်လိုလုပ်ပြီး သွားကြပါလိမ့်။

ဟောဟိုမှာ လာဆယ်လီ ကားတစ်စီး မြင်တယ် မဟုတ်လား။ ငါကတော့ အဲဒီကားမျိုးပဲ ကြိုက်တယ်။ လောဘ ကြီးတာတော့ မဟုတ်ပါဘူး။ စီးမှတော့ လာဆယ်လီ တစ်စီးပဲ ဝယ်စီးလိုက်ချင်တယ်။

အကောင်ကြီး ဖြစ်လာလို့ကတော့ ကတ်ဒ်ကားပဲ စီးတော့မှာပေါ့ကွာ။ လာဆယ်လီထက် ပိုလည်း ကြီးတယ်။ ပိုလည်း မြန်တယ်။

ငါကတော့ ဇက်ဖာပဲ ကြိုက်တယ်ပေါ့။ အဆင့်အတန်း အရှိဆုံး ကားဟာ ဇက်ဖာပဲ။ မြန်လည်း အင်မတန် မြန်တယ်။

ဇက်ဖာတဲ့။ ဟား ဟား။ ရယ်စရာတောင် ကောင်းသေး။ ငါလိုကောင်ကတော့ မင်း ဇက်ဖာ ဘာလုပ်ဖို့လဲ။ ပြကား စီးတော့မပေါ့ကွ။ ဘယ်လောက်ကောင်းတဲ့ ကားမျိုးလဲ။

ဒါပေမဲ့ မင့် ပြကာ ဈေးသိပ်ကြီးတယ်။ ဇက်ဖာလောက် မဟန်ပါဘူး။

ဈေးကြီးလည်း ဂရုမစိုက်ဘူး။ ဟင်နရီဖို့ဒ်ရဲ့ ကားများကတော့ တစ်သက် မစီးဘူးပေါ့။ ငါ လုံးဝ မကြိုက်ဘူး။ ဘယ်တော့မှ ဝယ်မစီးဘူး။ အဲဒီစက်ရုံမှာ ငါ့အစ်ကိုတစ်ယောက် အလုပ် လုပ်နေတယ်။ သူ ပြောတာ မင်းတို့ ကြားစေချင်သကွာ။

အရွယ်စား အမျိုးမျိုး၊ ပုံစံအမျိုးမျိုးနှင့် ကားကြီးကားကောင်းများသည် လမ်းမကြီးတစ်လျှောက် အပြေးအလွှား သွားလျက် ရှိကြ၏။ ကားများအတွင်း အပူဒဏ်ကို ခံထားရသဖြင့် ပန်းလျလျ ဖြစ်နေသည့် အမျိုးကောင်းသမီးများ။ အဖိုးတန် ဝတ်ကောင်းစားလှများ ဝတ်၍ အပေါ်ယံ ရွှေမှုန်ကြဲထားသူများ။ အပြင်အဆင် အမွမ်းအမံများဖြင့် ဟန်ရေးပြနေသူများ။ မျက်နှာချေ ပေါင်ဒါများ။ မိတ်ကပ်၊ စနိုး၊ အလှဆီ၊ လက်သည်းဆိုးဆေး၊ နှုတ်ခမ်းဆိုးဆေး စသည့် စသည့် အလှပြင် ပစ္စည်းများ။ အနက်၊ ပန်းရောင်၊ အနီ၊ အဖြူ၊ အစိမ်း၊ ငွေရောင် စသည့် အရောင်ဆိုးဆေး အမျိုးမျိုး။ ထိုပစ္စည်းများ၏ အကူအညီဖြင့် ဆံပင်၊ မျက်လုံး၊ နှုတ်ခမ်း၊ လက်သည်း၊ မျက်ခုံး၊ မျက်ခွံ၊

မျက်တောင်များကို အရောင်အဆင်း ပြောင်းအောင် ပြုပြင် ဖန်တီးထားကြသည်။ ပြီးတော့ ဆေးရည်၊ ဆေးပြားနှင့် ဆေးမှုန့်မျိုးစုံ ထည့်ထားသည့် အိတ်တစ်လုံး။ ထိုအိတ်ထဲတွင် ကမြင်းချင်သလို ကမြင်းသော်လည်း ရောဂါ မရနိုင်အောင်၊ ကလေး မရနိုင်အောင် ကာကွယ်ပေးမည့် ဆေးများပါ ဆောင်ထားကြသည်။ သူတို့အဖို့တော့ ဝတ်ကောင်းစားလှမှ လွဲလျှင် ဤပစ္စည်းများသည် အဖိုး အတန်ဆုံးနှင့် အလိုအပ်ဆုံး။

ပင်ပန်း နွမ်းနယ်မှု ဒဏ်ကြောင့် မျက်ကွင်းများ ညိုလျက် ရှိသည်။ စိတ်အလိုမကျမှုကြောင့် ပါးစပ်က မဲ့နေသည်။ ရင်သားများသည် အောက်သို့ ပျော့အိ တွဲကျလျက် ရှိ၏။ မောဟိုက်ခြင်းကြောင့် ပါးစပ်များသည် ဟလိုက် စေ့လိုက် ဖြစ်နေကြသည်။ သူတို့သည် နေကိုရော၊ လေကိုရော၊ မြေကိုပါ သဘောမကျ။ အစားအသောက်နှင့် ပင်ပန်းနွမ်းနယ်မှုကိုလည်း မနှစ်သက်။ သူတို့၏ အလှကို တဖြည်းဖြည်းချင်း ယိုယွင်း ပျက်ပြားစေပြီး အိုမင်း ရင့်ရော်သွားအောင် ပြုလုပ်နေသည့် အချိန်ကိုလည်း သူတို့ မုန်းတီးသည်။ ရွံရှာ စက်ဆုပ်သည်။

အမျိုးသမီးများ၏ ဘေးတွင် အရပ်ပုပု၊ အိုးစရည်း ဗိုက်ကြီးများနှင့် ဝဝဖိုင့်ဖိုင့် အမျိုးသားများ ပါလာကြသည်။ အဖိုးတန် အဝတ်အစားများကြောင့် ခန့်ညား ထည်ဝါသည်။ အသားအရေက သန့်စင် နူးညံ့ပြီး ပန်းရောင် ထနေသည်။ သူတို့၏ မျက်လုံးများသည် ဂနာမငြိမ်။ စိတ်ရှုပ်ထွေးခြင်းနှင့် သောက မအေးခြင်းများကို ဖော်ပြလျက် ရှိကြသည်။ မုန်သည်။ သူတို့ လုပ်ကိုင်ထားသည့် လုပ်ငန်းများ မအောင်မမြင် ဖြစ်မည်ကို တွေးတော ပူပန်နေကြသည်။ သူတို့၏ ဘဝ လုံခြုံမှုကို တောင့်တနေကြသည်။ တောင့်တနေသည့် ကြားမှပင် လုံခြုံမှုသည် ဤမြေပေါ်မှ ကွယ်ပျောက်သွားပေတော့မည် ဟူသော ကြောင့်ကြစိတ်က ဝင်နေသည်။ သူတို့၏ အင်္ကျီ ရင်ဘတ်များတွင်မူ သူတို့၏ အဆင့်အတန်းကို ဖော်ပြနေသည့် ဟိုမှ သည်မှ ရထားသော ဂုဏ်ထူးဆောင် ဘွဲ့တံဆိပ်များ ပလူပျံအောင် တပ်ဆင်ထားသည်။

သောကမအေး ဖြစ်နေကြသော ဤလူစုသည် စီးပွားရေးလုပ်ငန်း ဆိုသည်မှာ မြင့်မြတ်သော လုပ်ငန်းဖြစ်၍ ဘုရားသခင်၏ တရားတော်နှင့် ညီညွတ်အောင် အာပတ်လွတ် စီမံပြုလုပ်ထားသော သူခိုးအလုပ် မဟုတ် ဟူသော မူလ ယုံကြည်ချက် ပြန်လည် ခိုင်မာလာအောင် အဖန်တလဲလဲ ဆင်ခြင်နှလုံးသွင်းကာ သူတို့ကိုယ် သူတို့ အားပေးလာကြသည်။ မိုက်မဲမှုများ ရှိသော်လည်း စီးပွားရေးသမားများသည် ဉာဏ်ရည်

ဉာဏ်သွေး ထက်မြက်ကြသည်ဟု လည်းကောင်း၊ ခိုင်မာသော စီးပွားရေး လုပ်ငန်းများတွင် စောင့်ထိန်း လိုက်နာရမည့် အခြေခံမှုများ ရှိသော်လည်း သူတို့ စီးပွားရေးသမားများသည် ကရုဏာတရား ရှိပြီး ရက်ရောစွာ ဒါနပြုတတ်သည်ဟု လည်းကောင်း၊ လုပ်နေကျ အလုပ်ကိုသာ ပုံမှန် လုပ်နေရသဖြင့် စီးပွားရေးလုပ်ငန်းသည် ငြီးငွေ့ဖွယ်ရာ ကောင်းသော်လည်း သူတို့ဘဝကတော့ သာယာစိုပြည်သည်ဟု လည်းကောင်း၊ သူတို့ဘဝတွင် ဘာကိုမှ ကြောက်စရာ မလိုတော့သည့် အချိန်သည် လာနေပြီဟု လည်းကောင်း တွေးတောကာ သူတို့ကိုယ်သူတို့ အားပေးလာကြသည်။

ဤလူစုထဲမှ စုံတွဲတစ်တွဲသည် ကယ်လီဖိုးနီးယားကို သွားနေခြင်း ဖြစ်၏။ ဘီဗာလေး ဝစ်လ်ရှိုင်းယား ဟိုတယ် ခန်းမကြီးထဲ၌ ထိုင်ရန်နှင့် တောင်တန်းကြီးများ သစ်ပင်ကြီးများကို ကြည့်ရန် သွားခြင်း ဖြစ်၏။ ယောကျ်ားဖြစ်သူက သောက မဒေးသော မျက်လုံးများဖြင့် ကြည့်မည်။ မိန်းမကတော့ နေပူစာလှုံလိုက်လျှင် သူ့အသားရောင် ဘယ်လို ဖြစ်သွားမလဲ ဟူသော အတွေးဖြင့် ကြည့်မည်။ ပြီးတော့ ပစိဖိတ် သမုဒ္ဒရာ ရေပြင်ကြီးကို ကြည့်ကြမည်။ ယောကျ်ားဖြစ်သူက "ငါ ထင်ထားသလောက် မကြီးပါဘူး" ဟု ပြောမည်။ မိန်းမကတော့ ပင်လယ်ကမ်းခြေ၌ နေပူစာလှုံနေကြသော ကိုယ်လုံး အလှပိုင်ရှင် မိန်းမငယ်ကလေးများကို ကြည့်ပြီး မနာလို တိုရှည် ဖြစ်မည်။ ကယ်လီဖိုးနီးယားကို သွားခြင်းသည် အိမ်ပြန်ရောက်သည့်အခါ ကြွားဖို့လည်း ဖြစ်သည်။ "ကျွန်မတို့ ထရိုကာဒီရိုမှာ ညစာ စားကြတော့ ကျွန်မတို့ စားပွဲနဲ့ ကပ်ရက် စားပွဲမှာ ဟိုနာမည်ကြီး အမျိုးသမီး ထိုင်နေတယ်ရှင် သိလား၊ နာမည်ကြီးသလောက်လည်း လှပါရဲ့၊ လှပေမပေါ့လေ၊ သူ ဝတ်ထားတဲ့ အဝတ်အစားတွေကလည်း ထိပ်ဆိုတဲ့ အဝတ်အစားတွေကိုးရှင်" ဟူသော စကားမျိုးကို မိန်းမက ပြောမည်။ ယောကျ်ားကလည်း "ကျွန်တော်ကတော့ တကယ့် ထိပ်ဆိုတဲ့ စီးပွားရေး လုပ်ငန်းရှင်ကြီးတွေနဲ့ စကားပြောခွင့် ရခဲ့တယ်၊ အိမ်ဖြူတော်ထဲက ဟိုငနဲကို မောင်းမထုတ်နိုင်သေးသမျှတော့ ကျွန်တော်တို့အတွက် အခါအခွင့်သင့်မှာ မဟုတ်သေးဘူးလို့ သူတို့က ယူဆကြတယ်" ဟု လည်းကောင်း၊ "သူ့အကြောင်း ကောင်းကောင်း သိနေတဲ့ လူတစ်ယောက်ဆီက ကျွန်တော် ရခဲ့တဲ့ သတင်းပဲဗျာ၊ ဒီအမျိုးသမီးမှာ ဆစ်ဖလစ်ရောဂါ ရှိနေတယ်၊ ဝါနာဘရားသား ရုပ်ရှင် ကုမ္ပဏီက ထုတ်သမျှ ဇာတ်ကားတွေထဲမှာတော့ သူ အမြဲ ပါလျက်ပဲ၊ သူက လူတကာနဲ့ အိပ်နေတာပဲလို့ ဟိုလူက အခိုင်အမာ ပြောသွားတာ၊ ဒါပေါ့လေ၊ အမျိုးသမီး အနေနဲ့ သူလိုချင်တာတော့ ရသွားတာပေါ့၊ ဟုတ်ဖူးလား" ဟု လေသံဖြင့် ပြောမည်။

သို့သော်လည်း သောကရိပ်များ ဖုံးလွှမ်းနေသော သူ့မျက်လုံးများသည် ဘယ်တော့မှ အေးဆေး တည်ငြိမ်သွားသည်ဟု မရှိ။ စူအောက်အောက် ဖြစ်နေသော သူ့ပါးစပ်နှင့် မှုန်သိုးသိုး ဖြစ်နေသော သူ့မျက်နှာသည် ဘယ်တော့မှ ဝမ်းသာသည့် လက္ခဏာမပြ။ သူတို့ကားကြီးကတော့ တစ်နာရီ မိုင်ခြောက်ဆယ်နှုန်းဖြင့် တစ်ဟုန်ထိုး သွားနေဆဲ။

ကျွန်မ အအေးတစ်ခွက်လောက် သောက်ချင်တယ်။

ဟိုရှေ့မှာ ရလိမ့်မယ် ထင်တယ်။ မင်း ဆင်းသောက်မလား။

သန့်သန့်ပြန့်ပြန့် ရှိရဲ့လား။

ဘုရားသခင်က မျက်နှာလွှဲထားတဲ့ ဒီလို အရပ်ဒေသမျိုးမှာ အသင့်အတင့် သန့်တဲ့ ဆိုင်မျိုးပဲ ရှိမှာပေါ့ကွာ။

ရပါတယ်။ ဆိုဒါ တစ်ပုလင်းလောက် သောက်ရရင် တော်ပါပြီ။

မော်တော်ကားကြီး အရှိန်လျော့လာသည်။ ဘရိတ်အုပ်သံ တစ်ချက် ထွက်လာပြီး ရပ်သွားသည်။ သောကသည် လူဝကြီးက ကားတံခါးကို ဖွင့်၍ သူ့မိန်းမအား ဆင်းခိုင်းသည်။

သူတို့ ဆိုင်ထဲဝင်သွားသည့်အခါ မေက ဆီး၍ ကြည့်သည်။ မီးဖိုကိုသာ အာရုံစိုက်နေသော စားဖိုမှူး အယ်လ်ကလည်း ဖျတ်ခနဲ မော့ကြည့်လိုက်ပြီး ပြန်ငုံ့သွားသည်။ မေကတော့ ဒီလူစားတွေအကြောင်း ကောင်းကောင်း သိနေသည်။ သူတို့သည် ငါးဆင့်တန် ဆိုဒါ တစ်ပုလင်း သောက်မည်။ မိန်းမဖြစ်သူက စက္ကူ လက်သုတ်ပဝါ ခြောက်ရွက်လောက်ကို သုံးပြီး ကြမ်းပေါ်သို့ ပစ်ချမည်။ ယောကျ်ား လုပ်သူက ဒေါသဖြစ်မည်။ ပြီးတော့ မေ့ကို ပြစ်တင် ကြိမ်းမောင်းဖို့ အားထုတ်မည်။ မိန်းမလုပ်သူသည် ဆိုင်ထဲမှ အသားပုပ်နံ့များကို ရှူရှိုက်နေရသည့်အလား မျက်နှာကို မဲ့၍ နှာခေါင်းကို ရှုံ့ချည်ပွချည် လုပ်ပြနေလိမ့်မည်။ သူတို့နှစ်ယောက်စလုံး ဆိုင်ထဲမှ ပြန်ထွက်သွားကြမည်။ အနောက်ဘက်ဒေသက လူတွေဟာ အလွန်ဆိုးတယ် ဟူသော သားပုပ်လေလွင့် စကားကို ရာသက်ပန် ပြောကြတော့မည်။ မေသည် သူနှင့် အယ်လ်

နှစ်ယောက်တည်း ဆုံမိခဲ့စဉ်က ဤလူစားမျိုးကို နာမည်တစ်ခု ပေးခဲ့ဖူး၏။ မေ ပေးခဲ့သော နာမည်မှာ လူချေး လူညံ့များ။

ဘာပဲပြောပြော ထရပ်ကား ဒရိုင်ဘာတွေကမှ တကယ့် လူ့အဖိုးတန်၊ လူ့အကောင်းစားတွေ။

ဟော ဟိုမှာ မြင်လား၊ ထရပ်ကားတွေ လာနေပြီ။ တသီတတန်းကြီးပဲ။ ဆိုင်ရှေ့ ရပ်လိမ့်မယ် ထင်တယ်။ ဟို နှစ်ကောင် သွားပြီ မဟုတ်လား။ သူတို့ ချေးနံ့တွေ ကျန်ခဲ့သေးသလား။ ကျွန်မ အယ်ဘာကွေးကွီးမြို့က ဟိုတယ်မှာ အလုပ် လုပ်နေတုန်းက ကြုံဖူးတာ ပြောပြရဦးမယ် အယ်လ်။ သိလား။ ဒီလူချေးလူညံ့တွေဟာစာလေ သူခိုးတွေ။ ရသမျှ အကုန်ခိုးတာပဲ။ ကားကြီး ကားကောင်း စီးရလေလေ၊ ပိုပြီး ခိုးလေလေးပဲ။ မျက်နှာသုတ်ပဝါတွေ၊ ဆပ်ပြာခွက်တွေ၊ ငွေထည်ပစ္စည်းတွေ၊ အို အဖိုးတန်တာရော မတန်တာရော အကုန်ခိုးတာ။ ရေတွက်လို့တောင် မရဘူး။

အယ်လ်က မျက်မှောင်ကြုတ်၍ ကြည့်သည်။ သူတို့ စီးနေတဲ့ ကားကြီးတွေနဲ့ သူတို့ သုံးစွဲနေတဲ့ ပစ္စည်းတွေကို သူတို့ ဘယ်က ရကြသလဲ။ သူတို့ မွေးတုန်းက တစ်ခါတည်း ပါလာတာလား။ ဘယ်လိုလုပ် ဖြစ်နိုင်မှာလဲ။ မခိုးဘဲနဲ့ ဘယ်က ရမှာလဲ။ ခိုးလို့ ရလာတာပေါ့။ ရှင်းပါတယ်။

ကုန်တင် ထရပ်ကားကြီး တစ်စီး။ ဒရိုင်ဘာနှင့် အကူ ဒရိုင်ဘာ။ ဘယ်လိုလဲ။ ခဏနားပြီး တစ်ခွက် တစ်ဖလား မော့ဦးမလား။ ငါ ဒီအမှိုက်ပုံဆိုင်က လူတွေနဲ့ အဖွဲ့ကျပါတယ်ကွ။

အချိန်ရပ့်မလား။

သိပ်ရတာပေါ့။ တို့က သတ်မှတ်ချိန်ထက် အများကြီး စောရောက်နေပါတယ်ကွ။

ဒီလိုဆိုလည်း နားကြတာပေါ့။

ထရပ်ကား ဘရိတ်ဆွဲသံ။ ကာကီရောင် ဘောင်းဘီရှည်၊ စစ်ဖိနပ်၊ ခါးတိုဂျက်ကက်၊ စစ်ဦးထုပ် စသော ဒရိုင်ဘာ ဝတ်စုံများ အကျအန ဝတ်ထားသည့် လူနှစ်ယောက်။ ကားပေါ်မှ ဆင်းလာသည်။ ဆိုင်တံခါး ဖွင့်သံနှင့် ပိတ်သံ။

ဟေး မေ။

ဘီလီကြွက်ကြီး မဟုတ်လား။ ရှင်ဘယ်တုန်းက ဒီလမ်းပေါ် ပြန်ရောက်လာသလဲ။

လွန်ခဲ့တဲ့ တစ်ပတ်ကျော်လောက်က။

အဖော် အမျိုးသားသည် သီချင်းဖွင့်စက်ထဲသို့ ငါးဆင့်ပြား တစ်ပြား ထည့်သည်။ စက်ထဲမှ ဓာတ်ပြား၏ လှုပ်ရှားမှုကို မျက်ခြည်မပြတ် စောင့်ကြည့်နေသည်။ ဘင်ကရော့စဘီ၏ အသံ။ "သတိရခြင်းအတွက် ကျေးဇူးကမ္ဘာ၊ ပင်လယ်ဆိပ်က နေရောင်အောက်မှာ၊ သင် ခေါင်းခဲချင် ခဲမှာ၊ ဘယ်သောအခါမှ ငြီးငွေ့လိမ့်မည် မဟုတ်ပါ" ထရပ်ကား ဒရိုင်ဘာက သူ့ပါးစပ်ကို မေ၏ နားတစ်ဖက်တွင် ကပ်၍ ကျန်အပိုဒ်ကို ဆိုသည်။ "သင် ပင်လယ်ငါး ဖြစ်ချင် ဖြစ်မှာ၊ မိန်းမရွှင်တစ်ယောက် ဘဝကိုတော့ ဘယ်တော့မှ ရောက်လိမ့်မည် မဟုတ်ပါ"

မေက ဟက်ဟက်ပက်ပက် ရယ်သည်။ ရှင့်သူငယ်ချင်းက ဘယ်သူတဲ့လဲ ဘီလ်။ လမ်းကို အခုမှ လာရတဲ့ လူသစ်နဲ့ တူတယ်။ ဟုတ်လား။

ဒရိုင်ဘာ၏ အဖော်သည် ကောင်တာဆီသို့ လျှောက်လာသည်။

ကဲ ဆို၊ ဘာသောက်မလဲ၊ ဘာစားမလဲ။

အိုး ကော်ဖီတစ်ခွက်ပေး။ ဘာမုန့် ရှိသလဲ။

ငှက်ပျောသီးမုန့်၊ နာနတ်ယိုသွတ်မုန့်၊ ချော့ကလက်မုန့်၊ ပန်းသီးမုန့်။

ပန်းသီးမုန့်ပေး။ နေဦး။ ဟို ခပ်ကြီးကြီးနဲ့ ထူထူကြီး လုပ်ထားတဲ့ မုန့်က ဘာမုန့်လဲ။

မေက မုန့်ပုံးထဲမှ မုန့်ကို ထုတ်၍ နမ်းကြည့်သည်။ ငှက်ပျောသီးမုန့်။

တစ်ဝက် လှီးပေး၊ အတုံးကြီးကြီး လှီးနော်။

အလိုအလျောက် ပစ္စည်းရောင်းစက် အနီးသို့ ရောက်နေသော ဒရိုင်ဘာက လှမ်းမေးသည်။ ဆိုင်ထဲမှာ တို့နှစ်ယောက်တည်းလား မေ။

နှစ်ယောက်တည်းပေါ့။ နောက်ထပ် လူလာစရာ ရှိနေသေးသလား ဘစ်လ်။

ဘယ်ကလာ နှစ်ယောက်တည်းလဲ။ ဟိုမှာ မမြင်ဘူးလား။ တစ်ယောက်။

ခင်ဗျား ပြောပုံကြီးက ဘာလိုလိုနဲ့။ အမျိုးသမီးတစ်ယောက်ရှေ့မှာ အထင်လွဲစရာကြီး။

အံမယ်ကွာ။ ငါ ပြောတာ ရိုးရိုးပါ။ မင်းက အဓိပ္ပာယ်ကောက် လွဲနေလို့ပါ။ အင်း ငါ့အဖြစ်က ဟိုအဖြစ်နဲ့ တူနေပါပေါ့လား။ တစ်နေ့မှာ ချာတိတ်တစ်ကောင် ကျောင်းတက်နောက်ကျသတဲ့။ ဆရာမက မင်း ဘာပြုလို့ ကျောင်းနောက်ကျနေရတာလဲလို့ မေးတယ်။ နွားမတမ်းမလေး သွားပို့နေရလို့၊ နွားမတမ်းမလေးကို ကလေးမွေးအောင် လုပ်တာလို့ ကောင်လေးက ဖြေတယ်။ မင်းအဖေက မလုပ်နိုင်လို့လားလို့ ဆရာမက ပြန်မေးတော့ ချာတိတ်က အဖေလည်း လုပ်နိုင်ပါတယ်၊ ဒါပေမဲ့ နွားသိုးကြီးလောက် ကောင်းအောင်တော့ ဘယ်လုပ် နိုင်မလဲလို့ ပြောသတဲ့။

မေ့ထံမှ ခပ်အုပ်အုပ်ကျိတ်၍ ရယ်သံ ထွက်လာသည်။ ကြက်သွန်နီများကို စဉ်းတီတုံးပေါ် တင်၍ လှီးနေသော အယ်လ်က တစ်ချက်မျှ မော့ကြည့်ပြီး ပြုံးသည်။ ထို့နောက် သူ့ခေါင်းသည် သူ့အလုပ်ပေါ် ပြန်ငုံ့သွားလေ၏။ ထရပ်ကား ဒရိုင်ဘာတွေကမှ တကယ့်လူသားတွေ။ သူတို့ကမှ ပိုက်ဆံပေးဖို့ လာတာ။ မုန့်နဲ့ ကော်ဖီအတွက် ဆင့်ငါးဆင့်နှင့် မေ့အတွက် ဆယ်ဆင့် တစ်ပြားတော့ အနည်းဆုံး ရမည်။

ဒရိုင်ဘာ နှစ်ယောက်သည် ခြေတံရှည် ခွေးခြေဝိုင်း နှစ်လုံးပေါ်၌ တွဲထိုင်ကာ ကော်ဖီသောက်ရင်း စကားလက်ဆုံ ကျလျက် ရှိကြ၏။ အယ်လ်သည် သူ့အလုပ်ကို အဆက်မပြတ် လုပ်နေရာမှ နားစွင့်လျက် ရှိသော်လည်း သူတို့ စကားဝိုင်းတွင် ဝင်၍ ထင်မြင်ချက် ပေးသည့် အလုပ်ကိုတော့ မလုပ်ပေ။ စက်အတွင်းမှ ဘင်ကရော့စဘီ၏ အသံသည် ရပ်သွားလေပြီ။ ဓာတ်စက်ခုံပေါ်မှ ဓာတ်ပြားသည် အောက်သို့ လျှောကျကာ သူ့မူလနေရာ ဖြစ်သော ဓာတ်ပြားများ ကြားသို့ ပြန်ဝင်သွားလေသည်။ စက်အတွင်းမှ ခရမ်းရောင် မီးလုံးသည် ဖျတ်ခနဲ ပိတ်သွားသည်။ ဤ စက်တစ်လုံးကို အသက်ဝင် လှုပ်ရှားသွားအောင် ဖန်တီးခဲ့သော ငါးဆင့်ပြား တစ်ပြားသည် ဘင်ကရော့စဘီကိုလည်း သီချင်းဆိုနိုင်းခဲ့၏။ သံစုံ တီးဝိုင်းကြီး တစ်ခုကိုလည်း ဖျော်ဖြေနိုင်းခဲ့၏။ ဤငါးဆင့်ပြားသည် စက်၏ ရှေ့မျက်နှာစာ အပေါ်ဘက် ဘေးနားရှိ အပေါက်သေးသေးကလေးမှ နေ၍

အမြွတ်များထားရာ လမ်းကြောင်းတစ်ခု ဖြစ်သော စက်အတွင်း တစ်နေရာမှ သေတ္တာထဲသို့ ဆင်းသွားခြင်း ဖြစ်လေသည်။ ဤငါးဆင့်ပြားသည် အခြား ငွေများလို မဟုတ်။ အလုပ်တစ်ခုကို ပြီးမြောက်သည်အထိ လက်တွေ့ လုပ်ပေးသွားသည်။

ကော်ဖီအိုးထဲမှ ရေနွေးငွေ့များသည် တထောင်းထောင်းထလျက် ရှိသည်။ ရေခဲသေတ္တာဆီမှ စက်သံသည် ရပ်သွားလိုက် ပြန်ပေါ်လာလိုက်။ ထောင့် တစ်ထောင့်တွင် ရှိနေသော လျှပ်စစ်ပန်ကာသည် မှန်မှန်လည်ကာ အခန်း တစ်ခန်းလုံးကို နွေးထွေးသော လေဖြင့် ပက်ဖျန်းပေးလျက် ရှိ၏။ ၆၆ အဝေးပြေး ကားလမ်းမကြီးပေါ်တွင် ပြေးသွားနေသည့် မော်တော်ကားသံများမှာ အဆက်ပြတ်သွားသည် မရှိ။

"မက်ဆာချူးဆက် ပြည်နယ်က ကားတစ်စီး စောစောက ဆိုင်ရှေ့မှာ လာရပ်သွား သေးတယ်" ဟု မေက ပြောသည်။

ဘစ်လ်က ကော်ဖီခွက်ကို အပေါ် နှုတ်ခမ်းနားမှာ ကိုင်ထားသဖြင့် ကော်ဖီခွက်ထဲမှ ဖွန်းသည် သူ့လက်ညိုးနှင့် လက်ခလယ်ကြားတွင် ရောက်လျက် ရှိလေသည်။ သူသည် ကော်ဖီကို အေးသွားအောင် ပါးစပ်နှင့် မှုတ်ပေးနေသည်။ "မင်း လမ်းမပေါ် ထွက်ကြည့်ပါလား၊ တစ်နိုင်ငံလုံးက လာနေတဲ့ ကားတွေဟာ လမ်းမနဲ့ အပြည့်လောက် ဖြစ်နေပြီ၊ အားလုံး အနောက်ဘက်ကိုချည်း သွားနေကြတာ၊ ဒီလောက် ကားသွား ကားလာများတာမျိုး အရင်တုန်းက မကြုံခဲ့ဖူးပါဘူး"

"ငါတို့ ဒီမနက် ကားတိုက်မှုတစ်ခု မြင်ခဲ့ရသေးတယ်" ဟု ဒရိုင်ဘာ၏ အဖော်က ပြောသည်။ "ကားကြီးပဲ၊ အရောင်က နို့နှစ်ရောင်၊ ကက်ဒ် အမျိုးအစား အကောင်းစား ကားပေါ့၊ ထရပ်ကားကြီးကို ဝင်တိုက်တာ၊ ကြည့်ရတာတော့ တစ်နာရီ မိုင်ကိုးဆယ်နှုန်းလောက် ဆော်လာတယ် ထင်ပါတယ်၊ စတီယာတိုင်က မောင်းလာတဲ့ အကောင်ကို ညှပ်ထားလိုက်တာ ပြားနေတာပဲ၊ ပွဲချင်းပြီးပေါ့၊ တစ်ယောက်တည်း မောင်းလာတာ"

အယ်လ်က တစ်ချက် လှမ်းကြည့်သည်။ "ထရပ်ကားပေါ်က လူတွေရော နိက်မိသေးသလား"

"ထရပ်ကားက မှားတာတော့ မဟုတ်ဘူး၊ ဟိုအကောင် မှားတာ၊ သူက တစ်နာရီ မိုင်ကိုးဆယ်နှုန်းနဲ့ မောင်းလာတာကိုး၊ ထရပ်ကားပေါ်မှာတော့ လူရော၊ ပစ္စည်းရော၊ ကြက်တွေရော တင်လာလိုက်တာ အပြည့်အလျှံပဲ၊ သူတို့က အနောက်ပိုင်း သွားမဲ့ လူတွေပဲ၊ ဟိုအကောင်က ကျုပ်တို့ကားကို ကျော်တတ်တာ၊ သောက်ရမ်း ကျော်တက်တော့ ထရပ်ကားကို ဝင်အောင်းတာပေါ့၊ မောင်းလာပုံက လူမှန်း မသိအောင် မူးပြီး မောင်းလာတဲ့ ပုံမျိုးပဲ၊ ဟာ ထရပ်ကားပေါ်က အိပ်ရာခင်းတွေ၊ ကြက်တွေ၊ စောင်တွေ ဆိုတာ လေထဲမှာ ပျံနေတာပဲ၊ ထရပ်ကားပေါ်က ချာတိတ်တစ်ယောက် သေတယ်၊ ထရပ်ကား မောင်းလာတဲ့ အဘိုးကြီးတော့ သေနေတဲ့ ချာတိတ်ကို ကြည့်ပြီး စကားမေး မရတော့ဘူး၊ သွေးလန့်သွားတာနဲ့ တူပါတယ်၊ ဟုတ်ပဲ့ဗျာ၊ လမ်းမပေါ်မှာ အနောက်ဘက်ကို သွားတဲ့ မိသားစုတွေဟာ တစ်နေ့တခြား ပို ပိုများလာတယ်၊ ဘာဖြစ်တာမှန်းလည်း မသိပါဘူး၊ ဒီလောက်များတာ တစ်ခါမှ မတွေ့ခဲ့ဖူးဘူး၊ ဒီလောက်များတဲ့လူတွေ ဘယ် ငရဲပြည်ကများ ထွက်လာနေကြသလဲ မသိဘူး၊ အံ့စရာပဲ"

"သူတို့ ဘယ်သွားကြမလဲ မသိဘူးနော်၊ အံ့သြစရာပဲ" ဟု မေက ပြောသည်။ တစ်ခါတစ်လေ ဆိုင်ရှေ့မှာ ကားရပ်ပြီး ဓာတ်ဆီ ထည့်ကြတယ်၊ ဒါပေမဲ့ သူတို့မှာ ပိုက်ဆံလည်း များများစားစား ပါဟန် မတူဘူး၊ တချို့ လူတွေက ပြောတော့ သူတို့က လစ်ရင် ခိုးတယ်တဲ့၊ ကျွန်မတို့ ဆိုင်ကတော့ ပစ္စည်းတွေကို ပစ်စလက်ခတ် ထားတာ မဟုတ်ဘူး၊ သူတို့ ကျွန်မတို့ဆီကတော့ ဘာပစ္စည်းမှ မခိုးကြပါဘူး"

ဘစ်လ်သည် မုန့်ကို တမြုံ့မြုံ့ ဝါးနေရာမှ ပြတင်းပေါက်မှတစ်ဆင့် အပြင်သို့ ငေးကြည့်နေသည်။ "ပြောနေတုန်း ရှိသေးတယ်၊ သူတို့ လူစုထဲက ကားတစ်စီးတော့ ရောက်လာပြီ၊ မင်း သွားကြည့်နေရင် ကောင်းမယ် ထင်တယ်"

၁၉၂၆ ခုနှစ်ထုတ် နတ်ရှ် အမျိုးအစား ဆီဒင် ကားဟောင်းတစ်စီးသည် လမ်းမကြီးပေါ်မှ ဘေးသို့ ဖဲ့ဆင်းလာသည်။ ကားနောက်ထဲတွင် အိုးခွက် ပန်းကန်များ၊ မွေ့ရာများ၊ ရွက်ထည်စများနှင့် ရွက်ထည်တဲတိုင်များ ပစ္စည်းမျိုးစုံ အပြည့်အမောက် တင်ထားသည်။ ပစ္စည်းပုံထိပ်တွင် သူငယ်နှစ်ယောက် ထိုင်လိုက်လာသည်။ ကားသည် ဓာတ်ဆီပန့်များ ရှေ့တွင် လာ၍ ထိုးသည်။ ဒရိုင်ဘာခန်းထဲမှ ဆံပင်နက်နက်၊ မေးချွန်ချွန်၊ မျက်နှာသွယ်သွယ်နှင့် လူတစ်ယောက် ဆင်းလာသည်။ သူငယ် နှစ်ယောက်ကတော့ ကားစက် သတ်လိုက်သည်နှင့် တစ်ပြိုင်နက် မြေပေါ်သို့ ခုန်ချလိုက်ကြလေသည်။

မေသည် ကောင်တာနောက်မှ ထွက်ကာ ဆိုင်တံခါးဝသို့ သွားရပ်သည်။ ကားပေါ်မှ ဆင်းလာသူသည် အညိုရောင် သိုးမွေးဘောင်းဘီရှည် ဝတ်ထားသည်။ သူ့ကိုယ်ပေါ်မှ နက်ပြာရောင် ရှပ်အင်္ကျီ၏ နောက်ကျောနှင့် ချိုင်းနှစ်ဖက် အကြားတွင်မူ ချွေးများဖြင့် စိုရွှဲလျက် ရှိသည်။ သူငယ်နှစ်ယောက်၏ ကိုယ်ပေါ်တွင် အပေါက်အပြဲ ဗရပွနှင့် ပေရေ ညစ်ပတ်နေသည့် ရှပ်အင်္ကျီဟောင်းများမှ တစ်ပါး အခြား ဘာမှ ထူထူထဲထဲ ဝတ်ထားခြင်း မရှိပေ။ သူတို့၏ နနပါးပါး ဆံပင်များသည် ခေါင်းများပေါ်တွင် ဖွာရရာကြဲလျက် ရှိ၏။ သူတို့မျက်နှာများတွင် ဖုန်များ အလိမ်းလိမ်းကပ်လျက် ရှိလေသည်။ သူတို့သည် ရေပိုက်အောက်တွင် အိုင်ထွန်းနေသည့် ဗွက်ရှိရာသို့ သွားကာ ခြေချောင်းများဖြင့် ထိုးကော်၍ ဆော့နေကြလေ၏။

"ကျုပ်တို့ ရေနည်းနည်းလောက် ရနိုင်မလား"

စိတ်ပျက်သွားသည့် အရိပ်လက္ခဏာသည် မေ၏ မျက်နှာပေါ်မှ ဖြတ်သွားသည်။ "ရပါတယ်၊ ယူပါ" ဟု မေက ချိုချိုသာသာပင် ပြန်ပြောသည်။ "ကျွန်မ ပိုက်ကို ကြည့်ထားပေးမယ်" ကားရေတိုင်ကီထဲ ရေထည့်နေခိုက်တွင် မေက ပိုက်ကို ပြုတ်မသွားအောင် ကြည့်ထားပေးသည်။

ကားထဲမှ ဆံပင် ထိုးထိုးထောင်ထောင် ပွရောင်းရောင်းနှင့် မိန်းမတစ်ယောက်က လှမ်းပြောသည်။ "ဟိုဟာ သူတို့ဆီမှာ မရနိုင်ဘူးလား၊ မေးကြည့်ပါလား"

အမျိုးသားသည် ရေတိုင်ကီပေါက်ထဲမှ ရေပိုက်ကို ပြန်ဆွဲထုတ်ပြီး တိုင်ကီဖုံးကို လှည့်၍ ပိတ်နေသည်။ သူငယ်နှစ်ယောက်က သူ့ထံမှ ရေပိုက်ကို လှမ်းယူပြီး ထွက်ကျလာနေသည့် ရေကို အငမ်းမရ သောက်နေကြသည်။ အမျိုးသားသည် သူ့ခေါင်းပေါ်မှ အစွန်းအထင်းများကြောင့် အရောင်အဆင်း ပျက်နေပြီ ဖြစ်သော ဦးထုပ်ကို ချွတ်၍ ကိုင်ထားပြီး မဝံ့မရဲသော မျက်နှာထားဖြင့် မေ့ကို လှမ်းကြည့်သည်။ "ကျုပ်တို့ကို ပေါင်မုန့်တစ်လုံးလောက် မရောင်းနိုင်ဘူးလား"

"ဒီဆိုင်က ကုန်စုံဆိုင် မဟုတ်ဘူးရှင့်၊ ကျွန်မတို့မှာရှိတဲ့ ပေါင်မုန့်က ဆင်းဒဝစ် လုပ်ရောင်းဖို့ ဝယ်ထားတာ"

"ကျုပ်လည်း သိပါတယ်" သူ့ဂုဏ်သိက္ခာသည် သူ့အား တွန့်ဆုတ်ဆုတ်ဖြစ်အောင် လုပ်လျက် ရှိလေသည်။ "ကျုပ်တို့မှာလည်း ပေါင်မုန့်ကုန်သွားလို့၊ သူတို့ ပြောနေတာက တစ်ဖွဲ့လောက်တောင် ဝါးစရာ မကျန်တော့ဘူးတဲ့"

"ကျွန်မတို့က ရောင်းလိုက်ပြန်ရင်လည်း ကျွန်မတို့မှာ ပေါင်မုန့် ပြတ်သွားမှာမို့.." မေ၏ အသံမှာ ပြောထွက်ရန် ဝန်လေးနေသကဲ့သို့ ဖြစ်လျက် ရှိ၏။

"ကျုပ်တို့မှာလည်း စားစရာ မရှိတော့လို့ပါ"

"ရှင်တို့ ဆင်းဒဝစ် ဘာလို့ မဝယ်တာလဲ၊ ဆင်းဒဝစ် ဝယ်သွားပါလား၊ ကျွန်မတို့ဆိုင်က ဆင်းဒဝစ်က သိပ်ကောင်းပါတယ်၊ ဒါမှမဟုတ်လည်း ဟမ်ဘာဂါ အသားသွတ်ပေါင်မုန့် ဝယ်သွားပေါ့"

"ကျုပ်တို့လည်း အဲဒါတွေကို ဝယ်သွားချင်ပါတယ်၊ ဒါပေမဲ့ မဝယ်နိုင်ဘူးဗျ၊ ဆယ်ဆင့်ပြား တစ်ပြားနဲ့ လူအားလုံး ဝအောင် စားရမှာ၊ လက်ထဲမှာ ငွေက နည်းနည်းပဲ ကျန်တော့တယ်"

"ဆယ်ဆင့်ပြားတစ်ပြားနဲ့ ပေါင်မုန့်ကြီးတစ်လုံး မပြောနဲ့၊ ပေါင်မုန့် အသေးတောင် ရမှာ မဟုတ်ဘူး၊ ကျွန်မတို့ ဆင့်ငါးဆင့်တန် ပေါင်မုန့်အသေးကလေးတွေတော့ ရှိတယ်" ဟု မေက ပြောသည်။

ကောင်တာနောက်မှ အယ်လ်၏ ကြိတ်မနိုင် ခဲမရ ဖြစ်လွန်းသော အော်သံ ထွက်လာသည်။ "ဘုရား ဘုရား၊ နင် ဘယ်လိုဟာတွေ လျှောက်ပြောနေတာလဲဟာ၊ သူတို့ကို ပေါင်မုန့် ပေးလိုက်စမ်းပါ၊ ပေးလိုက်စမ်းပါ"

"ဖြစ်ပုံ့မလား၊ ပေါင်မုန့်ကား နောက်တစ်ခေါက် မလာခင် ကျွန်မတို့မှာ ပေါင်မုန့် ပြတ်သွားရင် ဘယ့်နှယ်လုပ်မလဲ"

"ပြတ်သွားရင်၊ ဟုတ်လား၊ ပြတ်ပစေဟာ ပြတ်ပစေ၊ ငါလန်းတွဲ့မှာပဲ" အယ်လ်က ဒေါသတကြီးနှင့် ရေရွတ်သည်။ သူသည် ဒယ်အိုးထဲမှ သူ ရောမွှေနေသော အာလူးနှင့် ဆလတ်ရွက်များကို မျက်မှောင်ကြုတ်၍ ကြည့်နေသည်။

မေက ပခုံးနစ်ဖက်ကို တွန့်လိုက်ပြီး ထရပ်ကား ဒရိုင်ဘာများကို လှမ်းကြည့်သည်။ သူ့မျက်နှာထားသည် အယ်လ်၏ သဘောထားကို ဆန့်ကျင်ကြောင်း ဖော်ပြလျက် ရှိ၏။

မေက တံခါးကို ဖွင့်ပေးသည်။ အမျိုးသားသည် ချွေးနံ့ တထောင်းထောင်းဖြင့် ဆိုင်တွင်းသို့ ဝင်လာသည်။ သူငယ် နစ်ယောက်သည် သူ့နောက်မှ ထပ်ကြပ်မကွာ ကပ်၍ ပါလာကြလေ၏။ သူတို့သည် ချိုချဉ်နှင့် ချော့ကလက်များ ထည့်သည့် မှန်ဗီရိုရှေ့ သွားရပ်ကာ အထဲသို့ ငေးကြည့်နေကြသည်။ သူတို့အကြည့်တွင် လိုချင်မက်မောသည့် ပုံလည်း မပေါ်။ ရလိမ့်မည်ဟူသော မျှော်လင့်ချက်လည်း ထားဟန်မရှိ။ ဤကမ္ဘာလောကတွင် ဤအရာမျိုးတွေ ရှိနေသကိုး ဟူသော အံ့သြမှုကိုသာ ဖော်ပြလျက် ရှိ၏။ ကလေးနစ်ယောက်စလုံးမှာ ရွယ်တူ။ မျက်နှာပေါက်တွေကလည်း ခပ်ဆင်ဆင်။ တစ်ယောက်သော ကလေးသည် သူ၏ ညစ်ပတ်ပေရေနေသော တံကောက်ကွေးကို တစ်ဖက်သော ခြေထောက်မှ ခြေချောင်းများဖြင့် ကုတ်လျက် ရှိလေသည်။ အခြား တစ်ယောက်က သူ့အား ကပ်၍ တီးတိုး တီးတိုး ပြောသည်။

မေသည် အံဆွဲတစ်လုံးကို ဆွဲဖွင့်ကာ အထဲမှ စက္ကူပါးဖြင့် ပတ်ထားသော ပေါင်မုန့်အလတ်စားတစ်လုံးကို ထုတ်ပေးသည်။ "ဆယ့်ငါးဆင့်တန်ဆိုတာ ဒီပေါင်မုန့်ပဲ"

အမျိုးသားသည် သူ့ဦးထုပ်ကို ခေါင်းပေါ် ပြန်စွပ်လိုက်သည်။ "ဟို ဟို ဆယ်ဆင့်တန်လောက် လှီးမရောင်းဘူးလား"

အယ်လ်က ဒေါသတကြီးနှင့် ထပ်အော်ပြန်သည်။ "နင့်အမေ... တဲ့မှပဲ၊ ဘယ်လို လုပ်နေတာလဲဟ၊ သူတို့ကို ပေါင်မုန့်ပေးလိုက်ပါလို့ ငါ ပြောနေတယ် မဟုတ်လား"

အမျိုးသားသည် အယ်လ်ဘက်သို့ လှည့်လာသည်။ "မဟုတ်ပါဘူး မစ္စတာ၊ ကျုပ်တို့က ဆယ်ဆင့်တန်ပဲ တတ်နိုင်လို့ပါ၊ ပိုက်ဆံကလည်း များများ မပါလို့ပါ၊ ခရီးကလည်း မဆုံးသေးဘူး၊ ကယ်လီဖိုးနီးယားအရောက် သွားရမှာမို့ပါ"

မေက အလျှော့ပေးသည့် လေသံဖြင့် ပြောသည်။ "ဒီဟာကို ဆယ်ဆင့်နဲ့ ယူပေါ့"

"ဒီလိုဆိုတော့လည်း ခင်ဗျားဆီက လုယက်ယူသလို ဖြစ်နေမှာပေါ့ဗျာ"

"ယူသာသွားပါ၊ အယ်လ်က ယူသွားလို့ ပြောနေပြီပဲဟာ" မေက ပေါင်မုန့်ကို ကောင်တာပေါ် ချပေးလိုက်ပြီး တွန်းပို့ပေးသည်။ အမျိုးသားသည် သူ့ဘောင်းဘီ နောက်အိတ်ကပ်ထဲမှ သားရေအိတ်ကလေး တစ်လုံး ထုတ်သည်။ အပေါ်မှ အထပ်ထပ် ရစ်ပတ်ပြီး ချည်ထားသော ကြိုးကို ဖြည်သည်။ ထည့်ထားသော အကြွေများကြောင့် အိတ်မှာ ခပ်လေးလေး ခပ်တွဲတွဲ။ ငွေစက္ကူများမှာမူ ချေးအထပ်ထပ် ကပ်နေသဖြင့် အရောင်အဆင်းပင် မပေါ်။

"ခက်ခက်ခဲခဲ ချည်ထားရတော့ ဖွင့်ရတာ မလွယ်ဘူး" အမျိုးသားက မေ စောင့်နေရသည်ကို အားတုံ့အားနာ ဖြစ်ဟန်ဖြင့် တောင်းပန်စကား ဆိုသည်။ "ကျုပ်တို့သွားရမယ့် ခရီးက မိုင်ထောင်ကျော် မဟုတ်လားဗျာ၊ လမ်းမှာ ထွက်ပြုကျပြီး ပျောက်သွားမှာစိုးလို့ အခုလို လုပ်ထားရတာ" သူသည် အိတ်ထဲသို့ လက်ညှိုးဖြင့် ထိုးနှိုက်ပြီး ဆယ်ဆင့်ပြား တစ်ပြားကို ထုတ်ကာ ကောင်တာပေါ်သို့ ချပေးသည်။ ဆယ်ဆင့်ပြားနှင့်အတူ ကပ်ပါလာသော ပဲနီပြားသည် ကောင်တာပေါ်တွင် လိမ့်သွားပြီး တစ်နေရာတွင် လဲကျသွားသည်။ သူသည် ပဲနီပြားကို ကောက်ကာ သားရေအိတ်ထဲသို့ ပြန်ထည့်ရန် ဟန်ပြင်နေရာမှ သူ့မျက်လုံးများသည် ချိုချဉ် ဗီရိုရှေ့၌ ကျောက်ရပ်များ ဖြစ်နေကြသော ကလေးများပေါ် ရောက်သွားသည်။ သူသည် ကလေးများဆီသို့ ခပ်ဖြည်းဖြည်း လျှောက်သွားသည်။ "တစ်ပဲနီတန် ချိုချဉ် ရှိသလား" ဟု မေ့အား လှမ်းမေးသည်။

မေက မုန့်ဗီရိုရှိရာသို့ လျှောက်သွားပြီး အထဲသို့ ငုံ့ကြည့်သည်။ "ဘယ်ဟာ လိုချင်တာလဲ" ဟု ထပ်မေးသည်။

"ဟိုဟာ၊ ဟိုဘက်ကဟာ၊ အစင်း အစင်းတွေနဲ့ ဟာလေ"

ကလေး နှစ်ယောက်သည် မေ့မျက်နှာကို မော့ကြည့်သည်။ နှစ်ယောက်စလုံး အသက်မရှူဘဲ အောင့်ထားကြသည်။ ပါးစပ်များကို "ထားကြသည်။ မလှုံ့တလှုံ ဖြစ်နေသော သူတို့၏ ကိုယ်များသည် တောင့်လျက် ရှိကြ၏။

"အဲဒါက... အင်း... မရဘူး၊ အို နှစ်ခုကို တစ်ပဲနီပဲ ပေးပါတော့"

"ဒီလိုဆို နှစ်ချောင်းပေးပါ" သူသည် တစ်ပဲနီ ကြေးပြားကို ကောင်တာပေါ် ပြန်ချပေးသည်။ ကလေးနှစ်ယောက်သည် အောင့်ထားသော အသက်ကို အသာ ပြန်လွှတ်လိုက်သည်။ မေက ချိုချဉ်နှစ်ချောင်း လှမ်းပေးသည်။

"ယူကြလေကွာ" ဟု အမျိုးသားက ပြောသည်။

သူတို့ လက်များသည် တွန့်ဆုတ် တွန့်ဆုတ်ဖြင့် လှမ်းယူသည်။ သူတို့သည် ချိုချဉ်ချောင်းများကို ကိုင်ထားရင်း တစ်ယောက်မျက်နှာ တစ်ယောက် ကြည့်၍ ပြုံးကြလေသည်။

"ကျေးဇူးတင်ပါတယ်ဗျာ" အမျိုးသားသည် ကောင်တာပေါ်မှ ပေါင်မုန့်ကို ကောက်ယူပြီး အပြင်သို့ ပြန်ထွက်သည်။ ကလေးနှစ်ယောက်က နောက်မှ လိုက်သည်။ အပြင်သို့ ရောက်သည်နှင့် တစ်ပြိုင်နက် ကလေးနှစ်ယောက်သည် ရှဉ့်ပေါက်စ နှစ်ကောင်သဖွယ် ခုန်ပေါက် ပြေးလွှားကာ မော်တော်ကား ရှေ့ခန်းသို့ တက်သည်။ ထိုမှတစ်ဆင့် ကားနောက်ရှိ ပစ္စည်းပုံထိပ်သို့ ရောက်အောင် ဟိုတွယ် သည်ဖက် လုပ်ကာ တက်သွားကြသည်။ ပြီးတော့ နှစ်ယောက်သား မျက်နှာချင်းဆိုင် ထိုင်ပြီး ချိုချဉ်ချောင်းကို စုပ်ကြလေသည်။

အမျိုးသားသည် ကားရှေ့ခန်းထဲ ပြန်ထိုင်သည်။ စက်ကို နှိုးသည်။ ဆူညံသော စက်သံနှင့်အတူ အပြာရောင် မီးခိုးငွေ့များ အလုံးလိုက် အခဲလိုက် ထွက်လာသည်။ အလွန် ရှေးကျလှပြီ ဖြစ်သော နတ်ရုံကားအိုသည် လမ်းမကြီးပေါ်သို့ ပြန်တက်ကာ အနောက်စူးစူးသို့ ရှေးရှု၍ ဆက်လက် ထွက်ခွာသွားလေ၏။

စားသောက်ဆိုင်အတွင်းမှ မေ၊ အယ်လ်နှင့် ထရပ်ကား ဒရိုင်ဘာများသည် မိသားစု ထွက်သွားရာသို့ မျက်စိတဆုံး ကြည့်၍ ကျန်ခဲ့ကြလေသည်။

ဘစ်လ်က ကောင်တာဘက်သို့ ပြန်လှည့်လာပြီး "ချိုချဉ်က တစ်ဆင့် နှစ်ချောင်းတန် မဟုတ်ဘူး" ဟု ပြောသည်။

"အဲဒီတော့ ဘာဖြစ်သလဲ" ဟု မေက သဘောမကျသည့် လေသံဖြင့် မေးသည်။

"တစ်ချောင်းကို ဆယ်ဆင့်တန် ချိုချဉ်တွေပဲ" ဟု ဘစ်လ်က ထပ်ပြောပြန်သည်။

"ဟော့လူ၊ ကျုပ်တို့ သွားကြဖို့ အချိန်တန်ပြီ" ဟု အဖော်က ဆိုသည်။ "အချိန်တောင် တော်တော်ကုန်သွားပြီ" နှစ်ဦးစလုံး၏ လက်များသည် အိတ်ကပ်များထဲသို့ ရောက်သွားကြလေသည်။ ဘစ်လ်က လက်ထဲတွင် ပါလာသည့် ငွေစ တစ်ပြားကို ကောင်တာပေါ် ချလိုက်သည်။ သူ့အဖော်က ငွေစပြားကို တစ်ချက် လှမ်းကြည့်ပြီး သူ့အိတ်ထဲမှ ငွေစကို ထုတ်၍ ချလိုက်သည်။ နှစ်ဦးသား ထိုင်နေရာမှ ထကာ တံခါးဘက် လျှောက်သွားကြသည်။

မေက နောက်မှနေ၍ လှမ်းအော်သည်။ "ဟေး နေကြပါဦး၊ ရှင်တို့မှာ အကြွေလေးမှ မပါတော့ဘူးလား"

"အကြွေတော့ မရနိုင်ဘူး၊ မင်း ငရဲပြည်သာ သွားနေပေတော့" ဟု ဘစ်လ်က ပြန်အော်ပြောသည်။ သူ့နောက်တွင် တံခါးချပ်သည် ဂျိုင်းခနဲ မြည်ဟည်းကာ ပိတ်သွားလေ၏။

မေသည် ဒရိုင်ဘာနှစ်ယောက် ကားပေါ်တက်ပြီး စက်နှိုးနေသည်ကို လှမ်းမျှော်ကြည့်နေရာမှ "အယ်လ်" ဟု ခေါ်သည်။

အယ်လ်က ဖျတ်ခနဲ မော့ကြည့်သည် ။ "ဘာလဲ"

"ဟိုမှာ ကြည့်ပါဦး" ကော်ဖီခွက်များဘေးမှ ဆင့်ငါးဆယ်ပြား နှစ်ပြားကို လက်ညှိုးထိုးပြသည်။ အယ်လ်က ကောင်တာနား အထိ လျှောက်လာပြီး ငုံ့ကြည့်သည်။ ထို့နောက် သူ့အလုပ် ရှိရာသို့ ပြန်သွားသည်။

"ထရပ်ကား ဒရိုင်ဘာတွေတဲ့၊ ဟင်း၊ ဘာထူးလဲ၊ သူတို့လည်း လူချေး လူညံ့တွေပဲ" ဟု မလိုတမာသံဖြင့် ရေရွတ်သည်။

ယင်ကောင်များသည် တံခါးခန်းဆီးကို ဝင်တိုး ဝင်တိုက်ကာ ဆက်၍ ပျံသန်းသွားကြသည်။ ရေခဲသေတ္တာမှ တဒီးဒီး မြည်သံသည် ပေါ်လာလိုက် ပျောက်သွားလိုက်။ ၆၆ လမ်းမပေါ်ဝယ် ကားပေါင်း အများအပြားသည် တဝီးဝီး တဝေါဝေါ မြည်ဟည်းကာ သွားနေကြဆဲ။ မေသည် ကောင်တာပေါ်မှ ပန်းကန်များကို သိမ်းသည်။ မုန့်အစအနများကို အမှိုက်ပုံ တစ်ခုထဲသို့ သွန်ချလိုက်လေသည်။ သူသည်

အဝတ်စိုတစ်ခုကို ယူကာ ကောင်တာကို သုတ်သည်။ ပြီးတော့ သူ့မျက်လုံးများသည် ကားသံ မျိုးစုံဖြင့် အသက်ဝင် လှုပ်ရှားနေသော လမ်းမကြီးဆီသို့ ပြန်ရောက်သွားလေသည်။

အယ်လ်သည် သူ့လက်နှစ်ဖက်ကို ခါးစည်းအဝတ်ဖြင့် သုတ်လိုက်၏။ သူ့ရှေ့ သံမီးဖို တစ်ဖက်နံရံတွင် ချိတ်ထားသည့် စာရွက်ကို လှမ်းမော့ကြည့်သည်။ စာရွက်ပေါ်တွင် ဇယားကွက် သုံးကွက် ရှိသည်။ တစ်ကွက်ချင်းစီ၏ ဘေးတွင် မျဉ်းကြောင်းများ ရှိသည်။ သူသည် ကောင်တာ၏ တစ်ဖက်ထိပ်ရှိ ငွေသေတ္တာဆီသို့ လျှောက်သွားပြီး ဖွင့်ကြည့်သည်။ အထဲမှ အကြွေများကို လက်တစ်ဆုပ်စာ နှိုက်ယူလိုက်လေသည်။

"ရှင် ဘာလုပ်နေတာလဲ အယ်လ်" ဟု မေက မေးသည်။

"နံပါတ်သုံး စက်ကတော့ ငွေသိမ်းဖို့ အသင့်ဖြစ်နေပြီ" ဟု အယ်လ်က ပြောသည်။ သူသည် အမှတ်သုံး အလိုအလျောက် စက်ဆီသို့ သွားကာ သူ့လက်တွင်းမှ အကြွေပြားတချို့ကို ထိုးထည့်သည်။ စက်သည် သူ့အလိုအလျောက် လည်ပတ်ကာ အတွင်းမှ ပိုက်ဆံထည့်ခွက် ထွက်လာသည်။ အယ်လက် ခွက်ထဲမှ ငွေအားလုံးကို သိမ်းယူလိုက်ပြီး ကောင်တာဘက်သို့ ပြန်သည်။ ကောင်တာ အံဆွဲကို ဆွဲဖွင့်ကာ လက်ထဲမှ အကြွေအားလုံးကို ထည့်လိုက်ပြီး ပြန်ပိတ်လိုက်သည်။ "နံပါတ်သုံးစက်က တခြားစက်တွေထက် ပိုရတယ်" ဟု ပြောသည်။ "စက်တွေကို နေရာတော့ ပြောင်းပေးဖို့ သင့်နေပြီ"

"ဒီလူတွေ ကယ်လီဖိုးနီးယား ရောက်ရင် ဘာများ လုပ်စားကြမလဲနော်" ဟု မေက ပြောသည်။

"ဘယ်က လူတွေလဲ"

"အခုနက ဆိုင်ထဲ ဝင်လာပြီး ပေါင်မုန့် ဝယ်သွားတဲ့ လူတွေလေ"

"ဘုရားသခင်မှပဲ သိမယ်" ဟု အယ်လ်က ပြန်ပြောသည်။

"သူတို့ ဟိုရောက်ရင် အလုပ်ကော ရပ့ါမလား"

"ငါလစ္စီးတယ်မှပဲ၊ ငါက ဘယ်လိုလုပ်ပြီး သိမလဲဟ"

မေသည် လမ်းမကြီးတစ်လျှောက် ရှေ့တည့်တည့်သို့ လှမ်းမျှော်ကြည့်သည်။ "အဲဒီဘက်ကချည်း လာကြတာပဲ၊ အရင်က လာနေကျထက် နှစ်ဆလောက် များလာတယ်၊ ဒီမှာသာ လာနားကြရင် ဘယ်လောက် ကောင်းမလဲ။ နားကြကောင်းပါရဲ့" ထိုအခိုက်တွင် ထရပ်ကားကြီးတစ်စီးသည် လမ်းမကြီးအပေါ်မှ လေးလံစွာ ဆင်းလာပြီး ဆိုင်ရှေ့ ရပ်သည်။ မေက အဝတ်ကို ကပျာကယာ ပြန်ကောက်ကာ ကောင်တာတစ်ခုလုံးကို လျှောက်၍ သုတ်သည်။ တံခါး ပွင့်သွားပြီး ထရပ်ကား ဒရိုင်ဘာနှစ်ယောက် ဆိုင်တွင်းသို့ ဝင်လာသောအခါ မေ၏ မျက်နှာသည် ကြည်လင် ဝင်းလက်သွားလေ၏။

"ဟေး ညီမ"

"ကျွန်မဟာ ဘယ်ယောက်ျားနဲ့မှ ညီမ မတော်ဘူး" ဟု မေက လှမ်းပြောသည်။ သူ့စကားကြောင့် ဒရိုင်ဘာ နှစ်ယောက်စလုံးက ရယ်သည်။ သူတို့နှင့်အတူ မေကပါ လိုက်၍ ရယ်သည်။ "ကဲ ဘာစားလို့ ဘာသောက်ကြမှာလဲ "

"ကော်ဖီတစ်ခွက်၊ ဘာမုန့်တွေရှိသလဲ"

"နာနတ်ယိုမုန့်၊ ငှက်ပျောသီးမုန့်၊ ချော့ကလက်မုန့်၊ ပန်းသီးမုန့်"

ကိုယ့်ကို ပန်းသီးမုန့်ပေး၊ သြော် နေဦး၊ ဟိုထဲက ထူထူကြီးကြီးမုန့်က ဘာလဲ "

မေက မုန့်ကို ထုတ်ယူလိုက်ပြီး နမ်းကြည့်သည်။ "နာနတ်ယိုမုန့်" ဟု ပြောသည်။

"ဒီလိုဆို အဲဒါပဲပေး၊ တစ်ဝက်လှီးလိုက် "

ကားများသည် ၆၆ လမ်းမပေါ်ဝယ် ဆူညံသော အသံများကို ပြု၍ အဆက်မပြတ် သွားနေဆဲ။

* * *

## အခန်း (၁၆)

ဂျုတ်မိသားစုနှင့် ဝီလ်ဆန် မိသားစုသည် တစ်ဖွဲ့တည်း ပေါင်းစည်းမိကာ အနောက်စူးစူးသို့ ရှေးရှု၍ ခရီးဆက်ခဲ့ကြလေ၏။ သူတို့သည် အယ်လ်ရီနို၊ ဘရစ်ချ်ပိုက်၊ ကလင်တန်၊ အက်ခ်စီးတီး၊ ဆေရီနှင့် တက္ကဆိုးလား စသော မြို့များကို တစ်မြို့ပြီး တစ်မြို့ ကျော်ဖြတ်လာခဲ့ကြရသည်။ နောက်ဆုံးတွင် နယ်စပ်သို့ ဆိုက်ရောက်ခဲ့ကြလေ၏။ အုတ်ကလာဟိုးမား ပြည်နယ်သည် သူတို့နောက်ဘက် မိုင်ပေါင်းများစွာ အဝေး၌ ကျန်ရစ်ခဲ့လေပြီ။ ယနေ့အဖို့လည်း သူတို့ ကားနှစ်စီးသည် အခြားကား အမြောက်အမြားနှင့်အတူ တက္ကဆတ်စ်ပြည်နယ်၏ ပန်ဟန်ဒဲလ်နယ်ကို ဖြတ်သန်းလာခဲ့ရ၏။ သူတို့သည် ရှင်မရောခ်၊ အေလန်ရိဒ်၊ ဂရွမ်းနှင့် ရာနဲလ် စသော မြို့များကို တစ်မြို့ဝင် တစ်မြို့ထွက် ဖြတ်ခဲ့ကြရပြန်သည်။

ယနေ့ လာခဲ့ရသော ခရီးမှာ ခရီးရှည်ကြီးတစ်ခု ဖြစ်၍ နာရီပေါင်းများစွာ မောင်းခဲ့ကြရသည်။ နေစုံးစုံးမြုပ်၍ မိုးချုပ်သွားသောအခါ သူတို့သည် လမ်းဘေး တစ်နေရာတွင် ရပ်နား၍ စခန်းချကြသည်။ တစ်နေကုန် တစ်နေခန်း နေပူပူ ဖုန်ထူထူကြားတွင် လာခဲ့ရသဖြင့် အားလုံးမှာ ခရီးပန်းနေကြလေပြီ။ အပူဒဏ်ကြောင့် အဘွားဂျုတ်မှာ ကတုန်ကရီ ဖြစ်လျက် ရှိ၏။ သူတို့ ရပ်နားချိန်တွင် အဘွားဂျုတ်မှာ အဆမတန် အားနည်းကာ ပင်ပန်းနွမ်းဟိုက်လျက် ရှိလေပြီ။

ထိုညတွင် အယ်လ်သည် ဝင်းထရံ သံတိုင်တစ်ချောင်းကို လူအလစ်တွင် ဝင်ခိုးလာခဲ့သည်။ ထို့နောက် သံချောင်းကို ကွေး၍ ကားခေါင်မိုးကိုင်း လုပ်သည်။ ထိုနေ့ညအဖို့တော့ သူတို့တွင် မနက်စာ စားစဉ်က ချန်ထားခဲ့သော ဘီစကွတ်မုန့် အနည်းငယ်မှတစ်ပါး တခြား ဘာမှ စားစရာ မရှိ။ အေးစက် မာကျောနေသော ဘီစကွတ်မုန့်ကိုပင် ခွဲဝေမျှတကာ ဝါးကြရလေ၏။ ထို့နောက် ကားပေါ်မှ မွေ့ရာများကို ချကာ အဝတ်အစားပင် လဲဖယ်ခြင်း မပြုတော့ဘဲ အိပ်ကြလေ၏။ ဝီလ်ဆန် မိသားစုမှာလည်း သူတို့ရပ်နားသည့်အခါတိုင်း ထိုးနေကျဖြစ်သော ရွက်ထည်တဲကိုပင် မထိုးကြတော့ဘဲ ဖြစ်သလိုပင် အိပ်ကြလေ၏။

ကျရောက်လာသည့် ဘေးအန္တရာယ်မှ လွတ်မြောက်ရာ လွတ်မြောက်ကြောင်း အတွက် ထွက်ပြေးလာကြသော ဂျုတ်နှင့် ဝီလ်ဆန် မိသားစုသည် ယခင့်ယခင်က

အကြိမ်ပေါင်းများစွာ ရေကြီးခဲ့သည့်ဒဏ် ခံထားရသဖြင့် မညီမညွတ် မလုမပ ဖြစ်နေသော ညိုမှိုင်းမှိုင်း မွဲခြောက်ခြောက် ပန်ဟန်ဒဲလ်နယ်မြေကို ဖြတ်လာခဲ့ရ၏။ ယခုဆိုလျှင် သူတို့သည် အုတ်ကလာဟိုးမား ပြည်နယ် အပြင်သို့ ရောက်ကာ တက္ကဆက်ပြည်နယ်ထဲတွင် ခြေချနေကြလေပြီ။ ကုန်းလိပ်ကြီးများသည် ထုထပ်လှသော ဖုန်တောကြီးကို ဖြတ်၍ တရွေ့ရွေ့ တလှုပ်လှုပ် သွားလျက် ရှိကြ၏။ နေသည် မြေပြင်ကို အလွန် ပူပြင်းသော အရောင်ဖြင့် မခံမရပ်နိုင် ဖြစ်အောင် ဖိစီးနှိပ်စက်လျက် ရှိ၏။ ညနေပိုင်းတွင် ကောင်းကင်ထက်မှ အပူရှိန်သည် သိသိသာသာပင် လျော့နည်းသွားသည်။ သို့သော်လည်း တစ်နေ့လုံး အပူဒဏ်ကို ခံလာခဲ့ရသော မြေပြင်သည် ညပိုင်း ရောက်သည့်အခါ အတွင်း၌ ကိန်းအောင်းသမျှ အပူငွေ့များကို အဆက်မပြတ် ထုတ်လွှတ်နေပြန်လေ၏။

မိသားစုများသည် နစ်ရက်တိတိ ပင်ပန်းကြီးစွာ လာခဲ့ကြရ၏။ တတိယနေ့တွင်မူ သူတို့သည် ရှုမျှော်၍ မဆုံးနိုင်လောက်အောင် ကြီးမားကျယ်ပြန့်လှသော မြေပြင်ထက်သို့ ဆိုက်ရောက်ခဲ့ကြလေ၏။ ယခုဆိုလျှင် သူတို့သည် ပတ်ဝန်းကျင် အနေအထား ပြောင်းလျှင် ပြောင်းသလို သူတို့၏ အနေအစားကိုလည်း ပြုပြင် ပြောင်းလဲ၍ နေထိုင်တတ်သော အလေ့အထများကို ရရှိလာခဲ့ကြလေပြီ။ မော်တော်ကား လမ်းမကြီး သည် သူတို့၏အိမ် သူတို့၏ဘဝ လှုပ်ရှားမှုများကို ဖော်ပြရာ နေရာ ဖြစ်ခဲ့လေပြီ။ ဤသို့ဖြင့် သူတို့သည် သူတို့ နေ့စဉ် ရင်ဆိုင်နေရသော ဘဝသစ်တွင် အံဝင်ခွင်ကျ ဖြစ်လာကြသည်။ ပထမဆုံး အဆင်ပြေပြေ ဖြစ်အောင် နေနိုင်ခဲ့သူများမှာ ရှသီနှင့် ဝင်းဖီးတို့ ဖြစ်၏။ ထို့နောက် အယ်လ်။ ထို့နောက်တော့ ကွန်နီနှင့် ရိုစာဟန် လင်မယား။ နောက်ဆုံး အစုမှာ လူကြီးများ ဖြစ်လေသည်။

မြေပြင်သည် နိမ့်ချည်တစ်ခါ မြင့်ချည်တစ်လှည့် ဖြစ်လာပြန်သည်။ ဝိုင်းလ်ဒိုရားဒိုး၊ ဗီဂါ၊ ဘိုစီနှင့် ဂလင်းရီးယိုး မြို့များကို လွန်သောအခါတွင်မူ တက္ကဆက် ပြည်နယ် အဆုံးသို့ ဆိုက်ရောက်သည်။ တစ်ဖက်တွင် နယူးမက္ကဆီကို ပြည်နယ်နှင့် တောင်စဉ် တောင်တန်းကြီးများ။ သူတို့ရှေ့ အလွန် အလှမ်းဝေးလှသော နေရာတွင် လှိုင်းလုံးကြီးများ သဖွယ် နိမ့်လိုက် မြင့်လိုက် ဖြစ်ကာ မိုးကောင်းကင်ဆီသို့ ထိုးတက်နေသော တောင်စဉ် အထပ်ထပ်သည် မားမားမတ်မတ် ရပ်လျက် ရှိကြသည်။ သူတို့ ပတ်ဝန်းကျင်တွင် ကားဘီးများသည် တဝီးဝီး အော်မြည်လျက် ရှိကြသည်။ အင်ဂျင်စက်များမှာလည်း ပူလျက် ရှိသည်။ တိုင်ကီများအတွင်းမှ ရေဆူသံများနှင့်အတူ ရေခိုး ရေငွေ့များသည်လည်း

ထွက်လာလျက် ရှိ၏။ သူတို့ ကားများသည် ပီးကောစ်မြစ်ဆီသို့ ချဉ်းကပ်ကြသည်။ ထို့နောက် ဆန်တာရိစာကို ဖြတ်သည်။ ထို့နောက်တော့ မိုင်နစ်ဆယ် ခရီးကို ဆက်ကြလေသည်။

အယ်လ်ဂျုတ်က ဝီလ်ဆန်၏ ကားကို မောင်း၍ သူ့အမေက သူ့ဘေးမှ ထိုင်သည်။ သူ့အမေ ဘေးတွင်မူ ရိစာဟန်။ ထရပ်ကားသည် သူတို့ရှေ့မှ လေးတွဲ့စွာ သွားလျက် ရှိ၏။ လေပူကြီးသည် မြေပြင် တစ်ပြင်လုံးကို လွှမ်းခြုံထားသည်။ တောင်များသည် ပြင်းထန်သော အပူအောက်တွင် တုန်ခါလျက် ရှိကြလေသည်။ အယ်လ်သည် ထိုင်ခုံကို ကျောနှင့် မှီထိုင်ပြီး သူ့လက်တစ်ဖက်ကို စတီယာရင် ဂွေပေါ်၌ အသာမှေးတင်ကာ ကားကို အေးအေးဆေးဆေး မောင်းလာသည်။ ရှေ့သို့ တစောင်းစိုက်၍ ဆွဲချထားသော သူ့ခေါင်းပေါ်မှ အညိုရောင် ဦးထုပ်သည် မျက်စိတစ်ဖက်ကို ဖုံးလျက် ရှိ၏။ သူသည် ကားမောင်းနေရင်းမှ မကြာခဏ ဘေးသို့ လှည့်၍ တံတွေး ထွေးလာသည်။

သူ့ဘေးမှ အမေသည် လက်နှစ်ဖက်ကို ယှက်၍ ရင်ခွင်ထက်၌ တင်ကာ သက်သောင့်သက်သာ ဖြစ်အောင် ထိုင်၍ လိုက်ပါလာသည်။ အမေ ထိုင်နေပုံမှာ ပျော့ခွေခွေ။ အမေ့ခေါင်းနှင့် ကိုယ်သည် ကားလှုပ်တိုင်း ယိမ်းထိုးလျက် ရှိ၏။ အမေ့ မျက်လုံးများသည် ရှေ့တည့်တည့်ရှိ တောင်စဉ် တောင်တန်းများဆီသို့ ငေးမောလျက် ရှိလေသည်။ ရိစာဟန်ကတော့ တောင့်တောင့်ကြီး လုပ်၍ ထိုင်လျက် ရှိ၏။ ရိစာဟန်သည် သူ့ကိုယ် လှုပ်မသွားအောင် သတိနှင့် ထိန်းလာသည်။ သူ့ခြေထောက် နှစ်ဖက်ဖြင့် ကားကြမ်းပြင်ကို တအားကန်ထားသည်။ သူ့ညာဘက်လက်ကိုမူ တံခါးပေါ်၌ ကွေး၍ တင်ထားသည်။ ပြည့်ဖောင်းနေသော သူ့မျက်နှာသည် သူ့ကိုယ်ခန္ဓာ လှုပ်မသွားအောင် သတိထားနေရသဖြင့် တင်းမာလျက် ရှိလေသည်။ တောင့်တင်းနေသော လည်ပင်းကြောများကြောင့် သူ့ဦးခေါင်းသည် လှုပ်သည် ဆိုရုံမျှကလေး လှုပ်လျက် ရှိ၏။ အထဲမှ သန္ဓေသားအား ထိခိုက်မည်ကို စိုးရိမ်သော စိတ်ဖြင့် သူ့တစ်ကိုယ်လုံးကို နောက်သို့ မှီကာ ဗိုက်ကို ရှေ့သို့ ထုတ်ထားသည်။ သူသည် သူ့ဦးခေါင်းကို သူ့အမေဘက်သို့ လှည့်လိုက်လေသည်။

"အမေ" ဟု ရိစာဟန်က ခေါ်သည်။ အမေ့ မျက်လုံးများသည် မှုန်မှိုင်းနေရာမှ ကြည်လင် တောက်ပလာသည်။ ချက်ချင်းပင် ရိစာဟန်အပေါ်၌ အာရုံစိုက်လာသည်။ ပင်ပန်းနွမ်းနယ်နေပုံရသော သမီး၏ မျက်နှာကိုကြည့်၍ ပြုံးလာသည်။ ရိစာဟန်က

နောက်တစ်ကြိမ် ထပ်၍ "အမေ" ဟု ခေါ်ပြန်သည်။ "သမီးတို့ ဟို ရောက်သွားတဲ့ အခါမှာ အားလုံး သစ်သီးဆွတ်တဲ့ အလုပ် လုပ်ကြမှာလား၊ နေတော့လည်း တောပိုင်းမှာ နေခဲ့ရသလိုပဲ နေကြမှာလားဟင်"

အမေက ပြုံးသည်။ အမေ့အပြုံးတွင် ပြက်ရယ်ပြုလိုသော အရိပ်အငွေ့ အနည်းငယ်ပါသည်။ "အမေတို့ ဟိုကိုတောင်မှ မရောက်ကြသေးဘူး" ဟု အမေက ပြောသည်။ "အမေတို့ ဘယ်လိုနေကြ စားကြရမယ် ဆိုတာ အမေ ဘယ်လိုလုပ်ပြီး ပြောတတ်ပါ့မလဲ သမီးရယ်၊ ဟိုရောက်မှပဲ သိမှာပေါ့"

"သမီးနဲ့ ကွန်နီကတော့ တောပိုင်းမှာ မနေချင်တော့ဘူး အမေ" ဟု ကလေးမက ဆိုသည်။ "ဟိုရောက်ရင် ဘယ်လို လုပ်ကြမယ် ဆိုတာ သမီးနဲ့ သူနဲ့ စီစဉ်ထားပြီးပြီ"

သောကအငွေ့သည် အမေ့မျက်နှာတွင် ပေါ်လာသည်။ "ဒီလိုဆို သမီးတို့က အမေတို့နဲ့ မနေဘူးပေါ့ ဟုတ်လား၊ မိသားစုနဲ့ ဥမကွဲ သိုက်မပျက် မနေကြတော့ဘူး ဆိုပါတော့"

"သမီးနဲ့ ကွန်နီ ဒီကိစ္စကို တိုင်ပင်ကြတယ် အမေ၊ သမီးတို့တော့ မြို့ပေါ်မှာ နေချင်တော့တယ်" ဟု ရိုစာဟန်က ပြန်ပြောသည်။ "မြို့ပေါ်မှာ ကွန်နီက စတိုးဆိုင် တစ်ခုမှာ ဖြစ်ဖြစ်၊ စက်ရုံတစ်ရုံမှာ ဖြစ်ဖြစ် အလုပ် ဝင်လုပ်မယ်၊ အလုပ်လုပ်ရင်းနဲ့ အိမ်မှာ ပညာတစ်ခုခု တတ်အောင် သင်မယ်၊ ရေဒီယို ပြင်တဲ့ ပညာလိုဟာမျိုး တစ်ခုခုပေါ့ အမေရယ်၊ တကယ် ကျွမ်းကျွမ်းကျင်ကျင် ပြင်တတ်လာတဲ့ အခါကျတော့ ကိုယ်ပိုင်ဆိုင်လေး ဘာလေး ဖွင့်မှာပေါ့၊ တစ်ခါတစ်လေ ရုပ်ရှင်လေး ဘာလေး ကြည့်မယ်၊ ကွန်နီက ပြောတယ်၊ သမီး ကလေးမွေးရင် ဆရာဝန်နဲ့ မွေးရမယ်တဲ့၊ ပြီးတော့ အမေရယ်၊ သူပြောတာ ကားလေးတစ်စီးလည်း ဝယ်မယ်တဲ့၊ သမီးတို့နှစ်ယောက် စီးသာရုံပေါ့ အမေရယ်၊ ညပိုင်းကျရင် ပညာဆက်သင်ဦးမယ်တဲ့။

"ဟို အနောက်ပိုင်း ဒေသမှ အချစ်ပုံပြင်များ ဆိုတဲ့ မဂ္ဂဇင်းထဲက ကြော်ငြာတစ်ရွက်ကို သူ ဖြုတ်ယူထားတယ်၊ အဲဒီအထဲမှာ သင်တန်းတစ်ခု တက်ဖို့ ပါတယ်၊ စာရွက်ကလေး ဖြတ်ပို့ရမယ်တဲ့၊ စရိတ်ပေးစရာ မလိုဘူးတဲ့၊ ဘာပြုလို့မှန်းတော့ သမီးလည်း မသိဘူး၊ သူတို့ လုပ်တာတွေဟာ အံ့ဩစရာ ကောင်းတယ်၊ သူတို့သင်တန်း တက်ပြီးရင် အလုပ်တောင် ပေးမယ်လို့ ရေးထားတာပဲ၊ ရေဒီယိုပြင်တဲ့ပညာ ဆိုတော့လည်း

အမေရယ်၊ အလုပ်က သန့်သန့်ပြန့်ပြန့် ရှိတာပေါ့၊ ဘဝအာမခံချက်လည်း ရှိမှာပေါ့ အမေရယ်၊ သမီးတို့အနေနဲ့ မြို့ပေါ်မှာ နေပြီး တစ်ခါတစ်လေ ရုပ်ရှင်လေး ဘာလေး သွားကြည့်လိုက်ဆိုတော့ ကောင်းတာပေါ့၊ သမီးမှာလည်း ဓာတ်မီးပူတစ်လုံး ဝယ်ထားမယ်၊ သမီးမွေးလာမယ့် ကလေးအတွက် ပစ္စည်းအဆန်းတွေ သုံးရမယ်တဲ့၊ ကွန်နီက ပြောတယ်၊ ခေတ်မီတဲ့ ပစ္စည်းတွေပေါ့ အမေရယ်၊ အမေ ကတ်တလောက် စာအုပ်တွေထဲမှာ မြင်ဖူးမလား မပြောတတ်ဘူး၊ နို့စို့ကလေးအတွက် သုံးတဲ့ ပစ္စည်း အသစ်အဆန်းတွေ အများကြီးပဲ။

"ပထမတော့ ကွန်နီ အိမ်မှာ ပညာသင်ဖို့ဆိုတာ ဖြစ်ချင်မှလည်း ဖြစ်ဦးမှာပေါ့ အမေရယ်၊ ကလေးမွေးစ ဆိုရင် အားချင်မှ အားမှာ၊ ကလေးမွေးပြီးလို့ ကြီးလာတော့လည်း အားသွားမှာပေါ့၊ ရောက်စတော့ နေရာ ခပ်သေးသေး ငှားရမှာပဲ၊ သမီးတို့အိမ်ထောင်ရဲ့ ဘဝအစမှာတော့ အလှအပတွေ မလိုပါဘူး အမေရယ်၊ ဒါပေမဲ့ ကလေးအတွက်တော့ အားလုံး ကောင်းတာလေးတွေ လုပ်ပေးချင်တယ်"

ရိုစာဟန်၏ မျက်နှာသည် စိတ်လှုပ်ရှားလျက် ရှိကြောင်းကို ဖော်ပြနေသည်။

"ပြီးတော့လည်း အမေရယ်၊ သမီးတစ်ခု တွေးမိတယ်၊ သမီးတို့ မိသားစု တစ်စုလုံး မြို့ပေါ်မှာ နေရရင် ဘယ်လောက် ကောင်းမလဲ၊ နေချင်လည်း နေရမှာ၊ တကယ်လို့ ကွန်နီက ကိုယ်ပိုင် စတိုးဆိုင်လေး ဖွင့်နိုင်မယ်ဆိုရင် အယ်လ်က ဆိုင်မှာ အလုပ် ဝင်လုပ်လို့ ရတာပေါ့"

အမေ့ မျက်လုံးများသည် စိတ်အားထက်သန်သော ရိုစာဟန်၏ မျက်နှာပေါ်မှ မခွာ။ သူ့စိတ်ကူးနှင့်သူ ရွှင်လန်း ချမ်းမြေ့နေသော သမီးဖြစ်သူ၏ တစ်ကိုယ်လုံးကို သိမ်းကျုံး၍ ကြည့်နေသည်။ "အမေတို့ကတော့ သမီးတို့ကို အမေတို့နဲ့ ခွဲမသွားစေချင်ဘူး" ဟု ပြောသည်။ "မိသားစု တစ်စုဟာ တစ်ကွဲတစ်ပြားဆီ ဖြစ်သွားရင် မကောင်းဘူး"

အယ်လ်က နှာခေါင်းရှုံ့သည်။ "ငါက ကွန်နီဆိုင်မှာ အလုပ် လုပ်ရမယ် ဟုတ်လား၊ ဟုတ်ပေ့ကွာ၊ ကွန်နီက ငါ့ဆီမှာ အလုပ် လုပ်ဖို့ ဆိုတာမျိုးကော မစဉ်းစားမိကြဘူးလား၊ ကွန်နီဆိုတဲ့ ခွေးမသားက သူတစ်ယောက်တည်း ညနေပိုင်းမှာ ပညာသင်လို့ ရမယ် ထင်နေသတဲ့လား"

ချက်ချင်းပင် အမေ့ခေါင်းထဲသို့ အသိတစ်ခု ဖျတ်ခနဲ ဝင်လာသည်။ တကယ်တော့ အခု သူတို့ ပြောနေသမျှ အားလုံးသည် အိပ်မက်တစ်ခုမျှသာ ဖြစ်ချေသည်။ အမေသည် သူ့မျက်နှာကို ရှေ့သို့ ပြန်လှည့်လိုက်ပြီး သူ့ကိုယ်ခန္ဓာကိုယ် လျှော့ချထားလိုက်သည်။ သူ့မျက်လုံးများကတော့ အပြုံးမပျက်သေး။ "ကနေ့ အဘွား အခြေအနေ ဘယ်လိုများ နေမလဲ မပြောတတ်ဘူး" ဟု ရေရွတ်သည်။

အယ်လ်၏ အာရုံသည် သူ့ မော်တော်ကားဘီးများပေါ် ပြန်ရောက်သွားသည်။ အင်ဂျင်ထဲမှ ဂလောက် ဂလောက် မြည်သံ။ သူသည် ကား၏ စက်အရှိန်ကို မြှင့်လိုက်၏။ ဂလောက် ဂလောက် အသံသည် တိုးလာသည်။ သူသည် ဘရိတ်ကို အသာ ပြန်ဆွဲကာ စက်အရှိန်ကို လျှော့လိုက်ပြန်၏။ အသံက လျှော့သွားသော်လည်း ပျောက်မသွား။ အရှိန်ကို ထပ်မြှင့်ကြည့်ပြန်သည်။ မြည်သံမှာ ပို၍ ကျယ်လောင် ပြင်းထန်လာသည်။ သူသည် ကားဟွန်းကို နှိပ်လိုက်ပြီး ကားကို လမ်းဘေးသို့ မောင်းချသည်။ သူ့ရှေ့မှ ထရပ်ကားသည် တုံ့ခနဲ နေးသွားပြီး ခပ်ဖြည်းဖြည်း ဘက်ပြန်ဆုတ်လာလေသည်။

အနောက်သို့ ဦးတည်ထားသော ကားသုံးစီး သူတို့ကားများဘေးမှ ဝူးခနဲ ဝေါခနဲ ဖြတ်သွားသည်။ နောက်ဆုံးကားမှ ဒရိုင်ဘာ၏ ခေါင်းသည် အပြင်သို့ ထွက်လာပြီး ဒေါသတကြီး အော်သည်။ "ဘယ်လိုလဲဟေ့၊ ကားကို ဘယ်လို နေရာမျိုးမှာ ရပ်ရမယ်ဆိုတာ နားမလည်ဘူးလား"

တွမ်သည် သူ့ထရပ်ကားကို အယ်လ်၏ကားနှင့် ဘေးချင်းကပ်၍ ထိုးလိုက်ပြီး ကားပေါ်မှ ဆင်းလိုက်သည်။ ကားနောက်ခန်းထဲမှ ဦးခေါင်းများသည် အလျှိုလျှို ထွက်လာပြီး ငုံ့ကြည့်နေကြသည်။ အယ်လ်က စတတ်တာကို နှိုးပြီး နားစွင့်ကြည့်သည်။ တွမ်က လှမ်းမေးသည်။ "ဘာဖြစ်တာလဲ အယ်လ်"

အယ်လ်က စက်ရှိန်ကို မြှင့်ကြည့်ပြန်သည်။ "နားထောင်ကြည့်စမ်း တွမ်" ဂလောက် ဂလောက် အသံသည် ပို၍ ကျယ်လာသည်။

တွမ်က နားစိုက်ထောင်သည်။ "စတတ်တာကို ပြန်နှိုးပြီး စက်ရှိန်ကို လျှော့ထားစမ်း" ဟု ပြောသည်။ သူသည် စက်ဖုံးကို ဖွင့်ပြီး ငုံ့ကြည့်သည်။ "စက်ရှိန်ကို မြှင့်ကြည့်စမ်း" သူသည် ခဏမျှ နားစိုက်ထောင်နေပြီး စက်ဖုံးကို ပြန်ပိတ်လိုက်လေ၏။ "ကဲ လုပ်ကြည့်စမ်းပါဦး၊ ငါကတော့ အိုကေပြီ ထင်တာပဲ အယ်လ်"

"ကွန်ရောဒ် ဘယ်ယာရင်က ဖြစ်တာ မဟုတ်လား"

"တူတာပဲ" ဟု တွမ်က ပြန်ဖြေသည်။

"ကျုပ်လည်း ဆီအများကြီး ဖြည့်ထားတာပဲဗျာ" ဟု အယ်လ်က ညည်းညည်း ညူညူ ပြောသည်။

"မတတ်နိုင်တော့ဘူးလေ၊ အပြင် ထုတ်ကြည့်မှ ဖြစ်တော့မှာ၊ ကဲကွာ၊ ငါ ရှေ့က သွားမယ်၊ မင်း နောက်က ခပ်ဖြည်းဖြည်း မောင်းပြီး လိုက်ခဲ့၊ နေရာကျယ်ကျယ် တစ်ခုရောက်မှ ရပ်ပြီး ကြည့်ကြတာပေါ့၊ နောက်ကနေပြီးတော့လည်း ဝင်မဆောင့်နဲ့ဦးနော့"

ကားပေါ်မှ ဝီလ်ဆန်က လှမ်းမေးသည်။ "အခြေအနေ ဆိုးသလား"

"ဆိုးတယ်" ဟု တွမ်က ဖြေပြီး ထရပ်ကားပေါ် ပြန်တက်ကာ ခပ်ဖြည်းဖြည်း မောင်းထွက်သည်။

"ဘယ်လိုဖြစ်သွားမှန်းကို မသိဘူး၊ ကျုပ်လည်း သူ့ကို ဆီအများကြီး ထည့်ထားရက်နဲ့ဗျာ" ဤပြဿနာ ပေါ်လာရသည်မှာ သူ့အပြစ်ဟု အယ်လ်က သိနေသည်။ သူ့စိတ်က သူ့ဆုံးရှုံးမှု တစ်ရပ်ဟုလည်း ခံစားနေရသည်။

"မင်းအပြစ် မဟုတ်ပါဘူးကွယ်၊ အားလုံး အဆင်ပြေအောင် မင်း လုပ်ထားသားပဲဟာ" ဟု အမေက ပြောသည်။ ပြီးတော့ စိုးရိမ်ခြင်း မကင်းသော အသံဖြင့် မေးသည်။ "သိပ်ဆိုးသလား"

"သိပ်မလွယ်ဘူး အမေ၊ ကွန်ရောဒ်အသစ် ထည့်ရင်လည်း ထည့်မှ၊ ဒါမှမဟုတ်လည်း ဒီအဟောင်းကို ပြန်ပြင်နိုင်မှ ဖြစ်တော့မှာ" သူသည် စိတ်ပျက် လက်ပျက်ဖြင့် သက်ပြင်းချသည်။ "တွမ် ပါလာတာ ကံကောင်းတာပဲ၊ ကျုပ်က ဘယ်ယာရင်ကို ပြန်မတပ်တတ်ဘူး၊ တွမ်တော့ လုပ်တတ်ကောင်းပါရဲ့လေ"

ရှေ့တည့်တည့် လမ်းဘေးတစ်နေရာတွင် စိုက်ထူထားသော ဆိုင်းဘုတ်နီနီကြီး၏ အရိပ်ကြီးသည် လမ်းဘေးသို့ ထိုးကျလျက် ရှိ၏။ တွမ်သည် ထရပ်ကားကို လမ်းဘေးသို့ မောင်းချပြီး လမ်းဘေး ရေမြောင်းနှင့် လမ်းမကြားရှိ မြေနိမ့်ပိုင်း ဆိုင်းဘုတ် အရိပ်ကျရာ

နေရာတွင် ကားကို ထိုးလိုက်သည်။ သူသည် ကားပေါ်မှ ဆင်းကာ အယ်လ်၏ ကားကို စောင့်သည်။

"ဖြည်းဖြည်း ဖြည်းဖြည်း၊ တော်ကြာ လေး ထပ်ကျိုးသွားရပ် ပိုဆိုးကုန်လိမ့်မယ်"

ရုတ်တရက် ဖြစ်ပေါ်လာသော ဒေါသအရှိန်ကြောင့် အယ်လ်၏ မျက်နှာတစ်ခုလုံး နီရဲလာသည်။ သူသည် ကားကို သတိဖြင့် ထိန်း၍ မြေနိမ့်ပိုင်းဆီသို့ မောင်းဆင်းလာနေရာမှ အော်ပြောသည်။ "ခင်ဗျားက ဘယ်လိုစကားမျိုး ပြောလိုက်တာလဲ၊ လေးကျိုးသွားအောင် ကျုပ်ကပဲ ထပ်လုပ်ဦးတော့မလိုလို အပေါက်မျိုး ဘာကြောင့် ပြောတာလဲ၊ ဘယ်ယာရင် လောင်တာဟာ ကျုပ်ကြောင့် မဟုတ်ဘူးဗျ၊ သိလား"

တွမ်က ပြုံးဖြဲဖြဲ လုပ်နေသည်။ "လေးဘီးစလုံး မြေကြီးနဲ့ထိအောင် ချပါဦးကွာ" ဟု ဆိုသည်။ "မင်း ထင်တဲ့ အဓိပ္ပာယ်မျိုးနဲ့ ငါ ပြောတာ မဟုတ်ပါဘူးကွာ" ဟုလည်း လေပြည်ထိုးသည်။ "မင့်ကားကို မြောင်းပေါ် ခွမိအောင် မောင်းကွာ"

အယ်လ်သည် သူ့ကားကို မြေနိမ့်ဆီသို့ မောင်းချနေရာမှ "ခင်ဗျား ပြောပုံနဲ့ဆိုရင် တခြားလူတွေက ဘယ်ယာရင် ပျော်သွားတာ ကျုပ်ကြောင့်လို့ ထင်ကုန်တော့မှာပဲ" ဟု ညည်းသည်။ အင်ဂျင်စက်သံမှာ စောစောကထက် ပို၍ ကျယ်လာသည်။ အယ်လ်က ကားကို ဆိုင်းဘုတ်အရိပ်အောက် ရောက်အောင် ထိုးလေသည်။

တွမ်က စက်ဖုံးကို ဖွင့်၍ ဒေါင်နှင့် ထောက်ထားလိုက်ပြီး လှမ်းပြောသည်။ "စက် မအေးမချင်း ကိုင်လို့ မဖြစ်သေးဘူးကွ" ကားနောက်ထဲ၌ ထိုင်နေသူများသည် တစ်ယောက်ပြီးတစ်ယောက် ဆင်းလာကြပြီး စက်ဖုံးဖွင့်ထားသည် ကားအနီး၌ ဝိုင်းအုံ ရပ်နေကြသည်။

"တော်တော်ဆိုးသလားဟေ့" အဖေဂျုတ်က မြေပေါ် ဆောင့်ကြောင့်ထိုင်ချရင်းက မေးသည်။

တွမ်က အယ်လ်ဘက်သို့ လှည့်ကြည့်သည်။ "မင်း ဘယ်ယာရင်ကို ပြန်တပ်ဖူးသလား"

"ဟင့်အင်း၊ မတပ်ဖူးဘူး၊ ဖြုတ်တော့ ဖြုတ်ဖူးတယ်"

"ဒီလိုဆိုရင် ဖြုတ်တဲ့ တပ်တဲ့ အလုပ်ကို ငါတို့နှစ်ယောက်ပဲ လုပ်ကြရမှာ၊ အလုပ်ကတော့ တစ်နေကုန်မယ့် အလုပ်မျိုးပဲ အယ်လ်၊ ပစ္စည်းအသစ် ဝယ်ဖို့ကလည်း နောက်ရင်းကို ပြန်မှ၊ ဆန့်တာရီစာ အထိတော့ ပြန်ရမှာပဲ၊ အယ်လ်ဘာကွေးကီးက ခုနှစ်ဆယ့်ငါးမိုင်လောက်ကို ဝေးတာ၊ ဟာ အဲဒါမှ ဒုက္ခပဲ၊ မနက်ဖြန်ဆို တနင်္ဂနွေပါလား၊ တနင်္ဂနွေနေ့ဆိုရင် ဘာမှ ဝယ်လို့မရဘူး"

မိသားစု တစ်စုလုံး ငြိမ်ကျသွားသည်။ အားလုံး စကားပင် မပြောနိုင်ကြတော့ဘဲ တိတ်ဆိတ်စွာ ရပ်နေကြသည်။ ရှုသီသည် ကားအနီးသို့ အသာလေး တိုးကပ်သွားပြီး ကျိုးပဲ့ ပျက်စီးနေသည့် ပစ္စည်းတစ်ခုခုကို မြင်ရလိမ့်မည် ဟူသော မျှော်လင့်ချက်ဖြင့် ကားစက်ခေါင်းထဲသို့ ငုံ့ကြည့်သည်။ တွမ်က သူပြောလက်စ စကားကို ဆက်သည်။

"မနက်ဖြန် တနင်္ဂနွေ ဆိုတော့ ပစ္စည်းက တနင်္လာနေ့မှ ဝယ်လို့ ရမယ်၊ အင်္ဂါနေ့ မတိုင်ခင် ပစ္စည်းတပ်လို့ ပြီးမှာ မဟုတ်ဘူး၊ ပစ္စည်း အဖြုတ်အတပ် လုပ်ဖို့ ကိရိယာကလည်း စုံစုံလင်လင် မရှိဘူး၊ အဲဒါက အခက်ပဲ"

သိန်းငှက်တစ်ကောင်၏ အရိပ်သည် မြေပြင်ပေါ်၌ ဖြတ်သွားသည်။ ရပ်နေသူ အားလုံးသည် တရွေ့ရွေ့ ပျံသွားနေသော သိန်းငှက်ကို မော့ကြည့်ကြလေသည်။

"ငါတော့ လမ်းမှာတင် ငွေပြတ်ပြီး ဟိုမရောက်ဘဲ ဖြစ်မှာစိုးတယ်ကွာ၊ ဒီမှာ ရှိသမျှ လူတွေက မစားလို့လည်း မဖြစ်ဘူး၊ စားနေကြရတာ၊ ကားအတွက် ဓာတ်ဆီနဲ့ အင်ဂျင်ဝိုင်ကလည်း ဝယ်ရသေးတယ် မဟုတ်လား၊ တကယ်လို့များ ငွေပြတ်သွားပြီ ဆိုရင်တော့ ဒုက္ခပဲ၊ ငါတို့ ဘယ်လိုလုပ်ရမယ် ဆိုတာ စဉ်းစားလို့တောင် မတတ်တော့ဘူး" ဟု အဖေဂျုတ်က ညည်းသည်။

"အဖြစ်က ကျုပ်အပြစ်လို့ ဆိုရတော့မှာပဲ ထင်ပါတယ်ဗျာ၊ ဒီသောက်ကား ကလည်း တစ်လမ်းလုံး ကျုပ်ကို ဒုက္ခပေးလာတာ၊ ခင်ဗျားတို့ မိသားစုကတော့ ကျုပ်တို့အပေါ် ကောင်းရှာပါတယ်၊ ခင်ဗျားတို့ ပစ္စည်းတွေကို ပြန်ပြောင်းတင်ပြီး ဆက်သာ သွားကြပါတော့၊ ကျုပ်နဲ့ ဆေရီနဲ့ နေခဲ့မယ်၊ ကျုပ်တို့ဘာသာ ကျုပ်တို့ နည်းတစ်ဖုံ ကြံဖန်ပြီး လိုက်လာခဲ့မယ်" ဟု ဝီလ်ဆန်က ဆိုသည်။

အဖေဂျုတ်က ခေါင်းခါသည်။ "အဲသလိုဆိုတော့လည်း ငါတို့ မလုပ်ချင်ပါဘူးကွာ၊ ငါတို့နဲ့ မင်းတို့က ဆွေမျိုးတွေလို ဖြစ်နေပြီ၊ အဘိုးဂျုတ်ဆိုရင် မင်းတို့ တဲထဲမှာ ဆုံးခဲ့တာ မဟုတ်လား"

"ကျွန်မတို့ဟာ ရှင်တို့အတွက် ဒုက္ခကြီးတစ်ခု ဖြစ်နေပြီ" ဟု ဆေရီက စိတ်ညစ်ညျူးသံဖြင့် ပြောသည်။

တွမ်သည် စီးကရက် တစ်လိပ်ကို ထပ်၍ မီးညှိလိုက်သည်။ သူ့ခေါင်းပေါ်မှ ကက်ဦးထုပ် အစုတ်ကို ချွတ်၍ နဖူးမှ ချွေးများကို သုတ်သည်။ "ကျုပ် စိတ်ကူးတစ်ခုတော့ ရတယ်" ဟု ပြောသည်။ "ဒီကားကို ဒီအတိုင်း ပစ်ထားခဲ့ရင်လည်း ဘယ်သူမှ ကြိုက်မှာ မဟုတ်ဘူး၊ တစ်ခုရှိတာက ကျုပ်တို့အားလုံး ကယ်လီဖိုးနီးယားနဲ့ နီးသွားလေလေ ငွေကုန် သက်သာလေ ဖြစ်မှာ၊ အဲဒီ တစ်ချက်ကတော့ ထည့်ပြီး စဉ်းစားရလိမ့်မယ်၊ ပြီးတော့ ဒီကားကလည်း ထရပ်ကားထက် ပိုပြီး မြန်မြန်မောင်းလို့ရတဲ့သဘော ရှိနေတယ်၊ အဲဒီတော့ ကျုပ် စိတ်ကူးမိတာ တစ်ခုက ဒီကားပေါ်က အရေးကြီးတဲ့ ပစ္စည်းတချို့ကို ထရပ်ကားပေါ် ပြောင်းတင်ပြီး ခင်ဗျားတို့အားလုံး သွားနှင့်ကြ၊ ကျုပ်နဲ့ တရားဟောဆရာက နေခဲ့မယ်၊ ကျုပ်နဲ့ ကက်ဆီက ဒီကားကို ပြင်ပြီးမှ နောက်က လိုက်ခဲ့မယ်၊ နေ့ရော ညပါ မနားဘဲ မောင်းမယ်၊ ဒါဆိုရင် ခင်ဗျားတို့ကို ကျုပ်တို့ မီလာမှာပဲ၊ တကယ်လို့ လမ်းမှာ မဆုံမိကြဘူး ဆိုတော့လည်း ဟိုရောက်ရင် ပြန်တွေ့ကြမှာပေါ့၊ ထရပ်ကား လမ်းမှာ ပျက်ရင်တော့ လမ်းဘေးထိုးပြီး ရပ်သာ ထားပေတော့၊ ပြီးတော့ ကျုပ်တို့ ရောက်လာတဲ့အထိ စောင့်၊ ကျုပ်တို့ရောက်တော့ သင့်သလို ကြည့်လုပ်ပြီး ခရီးဆက်ကြတာပေါ့၊ တကယ်လို့ လမ်းမှာ မပျက်လို့ ဖြောင့်ဖြောင့်တန်းတန်း သွားနိုင်မယ် ဆိုရင်တော့ ခင်ဗျားတို့ ဟိုရောက်မယ်၊ ဟိုရောက်သွားလို့ကတော့ ဘာမှ ပူစရာ မရှိတော့ဘူး၊ အားလုံး အဆင်ပြေသွားမှာပဲ"

စုဝိုင်း၍ ရပ်နေကြသော မိသားစုသည် တွမ်၏ အကြံကို စဉ်းစားကြသည်။ ဦးလေးဂျွန်သည် အဖေဂျုတ်၏ ဘေးတွင် ဝင်၍ ဖင်ချထိုင်လိုက်သည်။

"ပစ္စည်းဖြုတ်တဲ့ တပ်တဲ့ အခါမှာ ခင်ဗျား အကူအညီ လိုမှာပဲ၊ ကျုပ် နေခဲ့ရမလား"

"မင်း စောစောက ပြောတော့ ပစ္စည်းမတပ်ခဲ့ဖူးဘူးဆို"

"ဟုတ်တယ်၊ ဒါပေမဲ့ လုပ်နိုင် ကိုင်နိုင်တဲ့ သန်သန်မာမာ လူတစ်ယောက် လိုနေမလားလို့ပါ၊ ပြီးတော့ တရားဟောဆရာက နေခဲ့ချင်ပဲ့မလား"

"ကားပြင်တဲ့ အလုပ်ကတော့ ဘယ်သူမှ မရှိလည်း ကိစ္စ မရှိပါဘူးကွာ" ဟု တွမ်က ပြောသည်။

အဖေဂျုတ်သည် သူ့လက်ချောင်းများဖြင့် မြေကြီးပေါ်တွင် တောင်ခြစ် မြောက်ခြစ် လုပ်နေသည်။ "တွမ် ပြောတဲ့အတိုင်း လုပ်တာပဲ ကောင်းမယ် ထင်ပါရဲ့ကွာ" ဟု ပြောသည်။ "ဒီမှာ အားလုံး စုပြီး ထိုင်နေလို့ကတော့ ဘာမှ အကျိုးရှိမှာ မဟုတ်ဘူး၊ အခုသာ ဆက်သွားရင် မိုးမချုပ်ခင် မိုင်ငါးဆယ် တစ်ရာလောက်တော့ ရောက်သွားနိုင်သေးတယ်"

"မင်း အမေတို့ကို ဘယ်လိုလုပ်ပြီး တွေ့အောင်ရှာမှာလဲ" အမေက စိုးရိမ်ပူပန်စွာဖြင့် မေးသည်။

"ကျုပ်တို့အားလုံး တစ်လမ်းတည်းပေါ်မှာ သွားနေကြတာပဲ အမေရယ်" ဟု ပြောသည်။ "ကျုပ်တို့ ၆၆ လမ်းမကြီးအတိုင်း သွားနေကြရမှာပါ၊ နောက်ဆုံး အားလုံး ဘေးကားစဖီးလ်ကို ရောက်ကြရမှာပါ၊ ကျုပ် ယူလာတဲ့ မြေပုံထဲမှာ ကြည့်ပြီးပါပြီ၊ အမေတို့ အဲဒီကို တန်းသွားရမှာပါ"

"ဒါပေမဲ့ အမေတို့ ကယ်လီဖိုးနီးယားထဲ ရောက်တော့ ဒီလမ်းမကြီးပေါ်က ဆင်းပြီး တစ်နေရာရာမှာ သွားနေရတော့မှာ မဟုတ်လား"

"ပူမနေပါနဲ့ အမေရာ" တွမ်က သူ့အမေ စိတ်အေးသွားအောင် ထပ်ပြောသည်။ "ကျုပ်တို့က အမေတို့ကို တွေ့အောင် ရှာမှာပေါ့ဗျ၊ ကယ်လီဖိုးနီးယား ဆိုတာ ပြည်နယ် တစ်ခုပါ၊ ကမ္ဘာကြီး မဟုတ်ပါဘူး"

"မြေပုံပေါ်မှာတော့ အင်မတန်ကျယ်တဲ့ နေရာကြီး တစ်ခုပဲကွယ့်" ဟု အမေက ဆိုသည်။

အဖေက ဦးလေးဂျွန်ထံမှ အကြံဉာဏ် တောင်းသည်။ "ဒီမယ် ဂျွန်၊ တွမ် ပြောတဲ့အတိုင်း မလုပ်သင့်တဲ့ အကြောင်းများ ရှိမလား"

"မရှိဘူး" ဟု ဦးလေးဂျွန်က ဖြေလေသည်။

"ဝီလ်ဆန်၊ ဒီကားက မင်းရဲ့ကား၊ တကယ်လို့ ငါ့သားတွေက ကားကိုပြင်ပြီး မောင်းယူလာခဲ့မယ်ဆိုရင် မင်းမှာ ကန့်ကွက်စရာများ ရှိလေမလား"

"မရှိပါဘူးဗျာ" ဟု ဝီလ်ဆန်က ပြောသည်။ "ကျုပ်တို့အတွက် ခင်ဗျားတို့ မိသားစုကချည်း ဒိုင်ခံပြီး ကူညီပေးသလို ဖြစ်နေပါပြီ၊ ခင်ဗျားသားကို ကူညီဖို့ ကျုပ် မနေခဲ့နိုင်တာကော သဘောပေါက်ကြရဲ့လားဗျာ"

"သဘောပေါက်ပါတယ်ဗျာ၊ ဘာပဲဖြစ်ဖြစ် ဟိုရောက်နှင့်တော့ အလုပ်ကလေး ဘာလေး ရှာပြီး လုပ်ကိုင်နေနိုင်တာပေါ့၊ ငွေလည်း နည်းနည်းပါးပါး ရနိုင်တာပေါ့၊ ဒီမှာ ထိုင်နေလို့ကတော့ ခင်ဗျားအတွက် အကျိုးမရှိဘူး" ဟု တွမ်က ပြောသည်။ "ပြီးတော့လည်း အားလုံး ကားပြင်ပြီးအောင် စောင့်ဖို့ ဆိုတာလည်း အပြော လွယ်သလောက် လက်တွေ့ကျတော့ မလွယ်ဘူးဗျ၊ ဒီအနီးအနားမှာ ရေလည်း မရှိဘူး၊ ဟိုရောက်သွားရင်တော့ ငွေလည်း ရမယ်၊ နေစရာအိမ်လည်း ရှိမယ်၊ ကဲ ဘယ်လိုလဲ ကက်ဆီ၊ ကျုပ်နဲ့ အဖော်ရအောင် နေခဲ့မယ် မဟုတ်လား"

"မင်းတို့ အားလုံးအတွက် အကောင်းဆုံးဆိုတာ မှန်သမျှ ငါကတော့ လုပ်ပေးမှာပဲ" ဟု ကက်ဆီက ပြောသည်။ "မင်းတို့က ငါ့ကို လက်ခံခဲ့တယ်၊ ခေါ်လာခဲ့တယ်၊ အဲဒီတော့ ငါကလည်း မင်းတို့အတွက် ဘာမဆို လုပ်ပေးဖို့ အသင့်ပဲ"

"ဒီမှာ နေခဲ့ရင်တော့ ခင်ဗျား ကားအောက်ဝင်ပြီး ပက်လက်လှန် အိပ်ရမှာ၊ မျက်နှာတစ်ခုလုံးလည်း ရစရာမရှိအောင် ဆီချေးတွေ ပေမှာ ဖြစ်ပဲ့မလား"

"သိပ်ဖြစ်တာပေါ့ကွာ"

"ဒီလိုဆိုရင်တော့ ငါတို့ ခရီးဆက်တာပဲ ကောင်းမယ်ထင်တယ်၊ မိုင်တစ်ရာ လောက်တော့ ခရီးပေါက်နိုင်သေးတယ်"

အမေက အဖေဂျုတ် ရှေ့တည့်တည့်တွင် လာရပ်သည်။ "ကျွန်မ မလိုက်ဘူး"

"ကျွန်မ မလိုက်ဘူး ဆိုတာက ဘာအဓိပ္ပာယ်လဲ ဟ၊ မလိုက်လို့မှ မဖြစ်တာ၊ မိသားစုကို စောင့်ရှောက်ရမှာက မင့်တာဝန်ပဲ" အဖေဂျုတ်သည် အမေ၏ တော်လှန်မှုအတွက် များစွာ အံ့အားသင့်လျက် ရှိလေသည်။

အမေသည် ဝီလ်ဆန်၏ မော်တော်ကားဆီသို့ လျှောက်သွားသည်။ ကားနောက်ခန်း ကြမ်းပြင်ပေါ်မှာ ဟန်ဒယ်တစ်ချောင်းကို ဆွဲထုတ်သည်။ လက်တစ်ဖက်နှင့် ကိုင်၍ ဆကြည့်သည်။ ပြီးတော့ အဖေဂျုတ်ဘက် လှည့်ကာ "ကျွန်မ မလိုက်ဘူး" ဟု ထပ်ပြောပြန်လေသည်။

"ဒီမှာ ငါပြောမယ်၊ မင်း မလိုက်လို့ မဖြစ်ဘူး၊ သိလား၊ ငါတို့ ဆုံးဖြတ်ပြီးနေပြီ"

အမေသည် သူ့ပါးစပ်ကို တင်းကျပ်စွာ စေ့ထားသည်။ စကားပြောတော့ အေးအေးသာသာပင် ပြောသည်။ "ကျွန်မကို လိုက်အောင် ရှင်လုပ်နိုင်မယ့် လမ်းက တစ်လမ်းပဲ ရှိတယ်၊ ရှင် ကျွန်မကို ရိုက်ဖို့ပဲ" အမေသည် လက်ထဲမှ ဟန်ဒယ်ကို အပေါ်သို့ မြှောက်ကာ ဆ၍ ဆ၍ ကြည့်သည်။ "ဒီတစ်ခါတော့ ကျွန်မ ရှင့်ကို အရှက်ခွဲရလိမ့်မယ် အဖေဂျုတ်၊ ရှင် ရိုက်တာကို ကျွန်မ မခံဘူး၊ ငိုယိုပြီး တောင်းပန်တာမျိုးလည်း လုပ်လိမ့်မယ် မထင်နဲ့၊ မလုပ်ဘူး၊ ကျွန်မ ရှင့်ကို သင်ခန်းစာပေးမယ်၊ ရှင် ရိုက်ဝံ့ရင် ရိုက်ပေတော့၊ ကျွန်မ ကျိန်ပြောလိုက်မယ်၊ ဘုရားစူးရစေရဲ့၊ ဒီတစ်ခါတော့ ရှင့်ခေါင်းကို ရိုက်ခွဲမယ်၊ တကယ်ပြောတာ၊ ဘုရားစူးရစေရဲ့၊ ရှင့်ကို ကျွန်မ အသေပြန်လုပ်မယ် သိလား"

အဖေဂျုတ်သည် ဘေးမှ ရပ်နေသူများကို ကြည့်ကာ အကြံရကျပ်လျက် ရှိသည်။ "သူ ဒီလိုပြောတယ်၊ သူ ဒီလို ပြန်ပြောတာမျိုး ငါ တစ်ခါမှ မတွေ့ခဲ့ဖူးဘူး" ဟု ရေရွတ်သည်။ ရူသီက အသံစူးစူးဖြင့် ခိုးခိုးခစ်ခစ် ထ၍ ရယ်လေသည်။

အမေ၏ လက်တွင်းမှ ဟန်ဒယ်သည် ရှေ့တိုးနောက်ငင် လှုပ်ရှားလျက် ရှိ၏။ "ကဲ လာလေ" ဟု အမေက စိန်ခေါ်သည်။ "ရှင် ဆုံးဖြတ်ပြီးပြီဆို၊ လုပ်ပေါ့၊ ရှင် သတ္တိရှိရင် ကျွန်မကို ရိုက်ကြည့်လေ၊ လုပ်ပါ လာပါ၊ ကျွန်မ မလိုက်ဘူး၊ ကဲ ဘာဖြစ်လဲ၊ ကျွန်မကို ရိုက်ပြီးရင်တော့ ရှင် မအိပ်လေနဲ့၊ ရှင် အိပ်အပျော်ကို ကျွန်မ စောင့်နေမှာပဲ၊ ရှင့်မျက်စိနှစ်လုံး ပိတ်တာနဲ့ တစ်ပြိုင်နက် ရှင့်မျက်ခွက်ကို ထင်းချောင်းတစ်ချောင်းနဲ့ စုတ်ပြတ်သွားအောင် ရိုက်မယ်၊ ဒါပဲ"

"အာဂပါလား၊ သူ အခုထက်ထိ ဒီစကား ပြောတုန်းပဲ" ဟု အဖေဂျူတ် ရေရွတ်ပြန်သည်။ "အင်း သူ့အသက်ကလည်း မငယ်တော့ပဲကိုး"

မိသားစု တစ်စုလုံးသည် တော်လှန်ရေးတိုက်ပွဲကို စိတ်ဝင်တစား စောင့်ကြည့်နေကြသည်။ အဖေဂျူတ် ဒေါသူပုန်ထအလာကို စောင့်မျှော်နေကြသည်။ အဖေ့လက်သီးများ ကျစ်ကျစ်ပါအောင် ဆုပ်ထားသည်ကို မြင်ရတော့မည်ဟု ထင်ကြသည်။ သို့သော်လည်း အဖေဂျူတ်သည် ဒေါသူပုန်လည်း မထ၊ လက်သီးများကိုလည်း မဆုပ်။ တဒင်္ဂ အချိန်အတွင်းမှာပင် ဤတိုက်ပွဲ၌ အမေ အနိုင်ရသွားပြီဟု နားလည်လာကြသည်။ အမေကိုယ်တိုင်လည်း သူ အနိုင်ရပြီဟု သိလာလေသည်။

တွမ်က အမေ့ကို လှမ်းကြည့်သည်။ "အမေက ဘယ်လို ဖြစ်ရပြန်တာတုံးဗျာ၊ ဘာလို့ ဒီလို လုပ်ချင်ရတာလဲ၊ ဘာဖြစ်လို့လဲ"

အမေ့မျက်နှာသည် ပျော့ပျောင်းလာသည်။ သို့သော်လည်း မျက်လုံးများကတော့ တင်းမာဆဲ။ "မင့်စိတ်ကူးက ထောင့်စေ့အောင် တွေးပြီးမှ ရလာတဲ့ စိတ်ကူး မဟုတ်ဘူး" ဟု အမေက ဝေဖန်သည်။ "ဒီကမ္ဘာလောကကြီးထဲမှာ အမေတို့အတွက် ဘာများ ကျန်သေးတော့လို့လဲ၊ တို့မိသားစုက လွဲပြီး တခြား ဘာများ ရှိသေးလို့လဲ၊ အခု ငါတို့ ထွက်လာကြတယ်၊ အဘိုးဂျူတ်ကို လမ်းဘေး တစ်နေရာမှာ မြှုပ်ပစ်ခဲ့ရပြီ၊ အခုတစ်ခါ မင်းက မိသားစုနဲ့ ခွဲပြီး နေခဲ့ဦးမယ်ဆိုတော့..."

"ဟာဗျာ၊ အမေကလည်း၊ ကျုပ်တို့ မီအောင် လိုက်လာပါမယ်လို့ ပြောပြီးပြီပဲ၊ ကျုပ်တို့ ဒီနေရာမှာ အကြာကြီး နေမှာလည်း မဟုတ်ပါဘူး အမေရ"

အမေက ဟန်ဒယ် ကိုင်ထားသော လက်ကို မြှောက်၍ ဇော့ဝမ်းလိုက်သည်။ "ကဲကွယ်၊ မင်းပြောသလို လုပ်ကြပြီ ဆိုပါတော့၊ အမေတို့က တစ်နေရာရာမှာ နားနေမယ်၊ မင်းတို့ မတွေ့ဘဲ ကျော်သွားရင် မခက်ပေဘူးလား၊ တကယ်လို့ ဟိုရောက်သွားပြီ ဆိုဦးတော့၊ အမေတို့ ဘယ်မှာနေတယ်ဆိုတာ မင်းတို့ သိရအောင် ဘယ်သူ့ကို မှာခဲ့ရမှာလဲ၊ မင်းတို့ကကော ဘယ်သူ့ကို သွားမေးမှာလဲ၊ အခုဆိုရင် အဘွားဂျူတ်က မမာပြန်ဘူး၊ ထရပ်ကားပေါ်မှာ ပက်လက် ဖြစ်နေပြီ၊ နေ့သေမလား၊ ညသေမလား မပြောနိုင်တော့ဘူး၊ ပင်ပန်းလွန်းလို့ မထနိုင်တော့ဘူး၊ အမေတို့ ရှေ့မှာကလည်း ခရီးရှည်ကြီးက မဆုံးသေးဘူး"

ဦးလေးဂျွန်က ဝင်ပြောသည်။ "ဒါပေမဲ့ ရှေ့ဆုံးက ရောက်သွားနှင့်တဲ့ လူက အလုပ်တွေ ဘာတွေ လုပ်ပြီး ငွေပိုငွေလျှံ စုဆောင်းထားနိုင်တာပေါ့၊ နောက်က လိုက်လာတဲ့လူက မီလာတဲ့အချိန်မှာ ပိုပြီး အဆင်ပြေနိုင်တာပေါ့"

မိသားစု တစ်စုလုံး၏ မျက်လုံးများသည် အမေ့အပေါ်၌သာ စူးစိုက်နေကြသည်။ အမေသည် အာဏာပိုင် ဖြစ်သည်။ အမေသည် အချက်အချာ အကျဆုံးသော နေရာကို ပိုင်ဆိုင်လျက် ရှိလေပြီ။ "ကျွန်မတို့ ရှာထားသည့် ငွေက ဘယ်လောက်များ အကျိုးပြုနိုင်မှာလဲ" ဟု ပြောသည်။ "အရေးကြီးတာက မိသားစု ပြိုကွဲမသွားဖို့ပဲပေါ့၊ ကြီးတစ်အုပ်လိုပေါ့၊ လောက်လေးသမားတွေ ရောက်လာရင် ကြီးတွေဟာ စည်းစည်းလုံးလုံးနဲ့ ဝိုင်းအာကြတယ်၊ မိသားစု စုံစုံလင်လင် ရှိနေရင်တော့ ကျွန်မ ဘာကိုမှ မကြောက်တော့ဘူး၊ အရာရာကို ရဲရဲဝံ့ဝံ့ ရင်ဆိုင်ရဲတယ်၊ ကျွန်မကတော့ မိသားစု ပြိုကွဲသွားတာကို လုံးဝ မမြင်ချင်ဘူး၊ အခု ကျွန်မတို့နဲ့အတူ ဝီလ်ဆန် လင်မယားနဲ့ တရားဟောဆရာ ရှိတယ်၊ သူတို့က ကျွန်မတို့နဲ့ ခွဲထွက်သွားချင်တယ် ဆိုရင် ကျွန်မမှာ တားပိုင်ခွင့် မရှိဘူး၊ ကျွန်မရဲ့ သွေးထဲက ခွဲထွက်သွားမယ် ဆိုရင်တော့ မဖြစ် ဖြစ်တဲ့နည်းနဲ့ ကျွန်မ တားရလိမ့်မယ်" အမေ့အသံသည် တည်ငြိမ်အေးစက်ပြီး ပြတ်သားသည်။ အခိုင်အမာ ဆုံးဖြတ်ပြီးကြောင်း ဖော်ပြသည်။

တွမ်က လေသံပျော့ပျော့ဖြင့် ချော့ချော့မော့မော့ ပြောပြန်သည်။ "အမေရယ်၊ ကျုပ်တို့အားလုံး ဒီနေရာမှာ စခန်းချဖို့ ဘယ်နည်းနဲ့မှ မဖြစ်နိုင်ဘူး ဆိုတာ စဉ်းစားဦးပေါ့၊ ဒီနေရာမှာ ရေမရှိဘူး၊ အရိပ်အာဝါသလည်း မရှိဘူး၊ အဘွားကလည်း နေကောင်းတာ မဟုတ်ဘူး၊ အဘွားအတွက်က အရိပ်ကောင်းကောင်း လိုတယ် မဟုတ်လား"

"ဒီလိုဆိုတော့လည်း လွယ်ပါတယ်ကွယ်" ဟု အမေက ပြောသည်။ "အမေတို့ အားလုံး ဆက်သွားမယ်၊ ရေနဲ့ အရိပ်ရတဲ့ နေရာကျတော့ စခန်းချမယ်၊ ကားကို မင်းတို့ဆီ ပြန်လွှတ်လိုက်မယ်၊ ကားရောက်တော့မှ မင်းတို့က အပိုပစ္စည်းသွားဝယ်၊ အသွားအပြန် ကားနဲ့ပဲ သွားကြပေါ့၊ နေပူကြီးထဲ ခြေကျင်လျှောက်သွားတာလည်း အမေ မကြိုက်ဘူး၊ ဒီနေရာမှာ မင်းတို့ချည်း ခွဲပြီး နေခဲ့တာလည်း အမေ သဘောမတူဘူး၊ တကယ်လို့ ဒုက္ခသုက္ခ ရောက်နေရင် မင်းတို့ကို ကူညီမယ့်လူ ဘယ်သူမှရှိမှာ မဟုတ်ဘူး"

တွမ်သည် ပါးစပ်ကိုပိတ်ကာ စုတ်တစ်ချက် သပ်လိုက်သည်။ စိတ်ပျက်လက်ပျက် ဖြစ်သွားဟန်ဖြင့် လက်နှစ်ဖက်ကို အပေါ်သို့ မြှောက်ပြီး ပြန်ချလိုက်ကာ သူ့အဖေဘက် လှည့်ကြည့်သည်။ "ကဲ အဖေ၊ အဖေနဲ့ ကျုပ်က ဖွတ်အဓမ္မ လုပ်ကြမယ်ဆိုရင်လည်း တယ်မလွယ်တော့ဘူး၊ တကယ်လို့ ရတောင်မှ အမေ့လက်ထဲက ဟန်ဒယ် လက်ချက်နဲ့ နှစ်ယောက် သုံးယောက် သေပြီးမှ ရမယ့်ပုံ ပေါက်နေပြီ၊ အဖေ့အနေနဲ့ ခေါင်းအခွဲ မခံချင်ဘူး ဆိုရင်တော့ အမေ ပြောတာ သဘောတူရုံပဲ ရှိတော့တယ်၊ ကဲ အမေ၊ ဒီကိစ္စမှာ အမေ နိုင်တယ်၊ ကျုပ်တို့က အရှုံးပေးလိုက်ပြီ၊ ဒီတော့ အမေ့လက်ထဲက ဟန်ဒယ်ကြီးနဲ့ တစ်ယောက်ယောက်ကို မရိုက်မိခင် ပြန်သိမ်းထားလိုက်ပါတော့"

အမေသည် သူ့လက်တွင်းမှ သံတုတ်ကြီးကို ငုံ့ကြည့်သည်။ သူ့လက်သည် ကတုန်ကရီ ဖြစ်လာသည်။ ချက်ချင်းပင် ဟန်ဒယ်ကို မြေကြီးပေါ်သို့ ပစ်ချလိုက်လေသည်။ တွမ်က ဟန်ဒယ်ကို ကပျာကယာ ကောက်ယူပြီး မော်တော်ကားထဲသို့ ပြန်ပို့သည်။ "ကဲဗျာ၊ အဖေ ထတော့၊ အယ်လ် မင်းက ထရပ်ကားကို ယူသွားပြီး သူတို့ကို စခန်းချလို့ ဖြစ်မယ့်နေရာအထိ ပို့ပေးလိုက်ကွာ၊ ပြီးတော့ တို့ဆီ ပြန်ခဲ့၊ ငါနဲ့ တရားဟောဆရာက ပစ္စည်းကို ဖြုတ်ထားနှင့်မယ်၊ တကယ်လို့ အဆင်ပြေမယ်ဆိုရင် ဆန်တာရိုစာကို ကနေ့ည အရောက်သွားပြီး ပစ္စည်းဝယ်မယ်၊ စနေနေ့ည ဆိုရင်တော့ ပစ္စည်းက ဝယ်လို့ ရနိုင်သေးတယ်၊ ကဲကွာ၊ မင်းက မြန်မြန်သွား၊ ဒါမှ မြန်မြန် ပြန်လာနိုင်မှာ၊ ငါလည်း ပစ္စည်းဖြုတ်တော့မယ်၊ စောစောပြီးလေ အချိန်ရလေပေါ့၊ ထရပ်ကားထဲက ကဏန်းလက်မနဲ့ ပလာယာတွေ ငါ့ကို ပေးခဲ့ဗျ" တွမ်က ပြောပြောဆိုဆိုနှင့်ပင် ကားပျက်အောက်သို့ တွားဝင်ကာ ပက်လက်လှန်လိုက်ပြီး အမဲဆီ အလိမ်းလိမ်း ကပ်နေသော အဖုံးကို ကိုင်ကြည့်သည်။ "ငါ့ကို ပုံးတစ်လုံး ပေးခဲ့ကွာ၊ အင်ဂျင်ဝိုင်ပုံးလေ၊ အင်ဂျင်ဝိုင် ရသလောက်တော့ ယူထားဦးမှ၊ စရိတ်သက်သာတာပေါ့"

အယ်လ်က အင်ဂျင်ဝိုင်ပုံးကို လှမ်းပေးသည်။ တွမ်က ပုံးကို ကားစက်အောက်တွင် ချထားလိုက်ပြီး ဆီဖုံးကို ပလာယာနှင့် လှည့်ဖွင့်သည်။ အဖုံးကို လှည့်ဖွင့်နေခိုက်တွင် အတွင်းမှ အမည်းဆီရောင်များသည် သူ့လက်ချောင်းများကြားမှ ယိုကျကာ လက်မောင်းတစ်လျှောက် စီးကျသွားပြီး တံတောင်ဆစ်မှတစ်ဆင့် အင်ဂျင်ဝိုင်ပုံးထဲသို့ တစ်စက်ချင်း ကျဆင်းနေလေသည်။ အင်ဂျင်ဝိုင်ပုံးထဲ၌ ဆီတစ်ဝက် သာသာခန့် ရလာသည့် အချိန်တွင် အယ်လ်သည် မိသားစု တစ်စုလုံးကို ထရပ်ကားပေါ်၌ တင်ပြီး၍ ထွက်ခွာသွားရန် အသင့် ဖြစ်နေခဲ့လေပြီ။ တွမ်သည် အင်ဂျင်ဝိုင်များ ပေကျံနေသော

သူ့မျက်နှာကို မော်တော်ကား ရှေ့ဘီးနှစ်ခုကြားမှနေ၍ အပြင်သို့ ထုတ်ကာ လှမ်းအော်သည်။ "ဟေ့ အယ်လ် မြန်မြန် ပြန်ခဲ့နော်" ထရပ်ကား ထွက်ခွာသွားသည့် အချိန်တွင် တွမ်သည် မူလီများကို တစ်လုံးပြီးတစ်လုံး လှည့်ဖြုတ်နေပြီ ဖြစ်သည်။ သူသည် အထဲက ဂတ်စကက် ပေါက်မသွားအောင် သတိထား၍ ဖြုတ်လေသည်။

တရားဟောဆရာသည် ကားဘီးများ ဘေးတွင် ဒူးထောက်၍ ထိုင်လိုက်သည်။ "ငါ ဘာလုပ်ပေးရမလဲ ဟင်"

"လောလောဆယ်တော့ ဘာမှ မရှိသေးဘူးဗျ၊ မူလီတွေ ဖြုတ်ပြီး သွားရင်တော့ ရှိလာလိမ့်မယ်" တွမ်က မူလီများကို အားစိုက်ပြီး ဖြုတ်နေရာမှ ပြန်ပြောသည်။ သူသည် အဖုံး မြေကြီးပေါ်သို့ ပြုတ်ကျသွားမည်ကို စိုးရိမ်သဖြင့် လက်တစ်ဖက်နှင့် အားစိုက် ထိန်းထားသည်။ "ကျုပ် ကျောအောက်က မြေကြီးက အခုထက်ထိ ပူတုန်းပဲဗျ" ဟု ပြောသည်။ ထို့နောက် ငြိမ်နေပြန်သည်။ ပြီးတော့ အသံ ထွက်လာပြန်သည်။ "ဒီမှာ ကက်ဆီ၊ ခင်ဗျာ အခုတလော သိပ်ကို ငြိမ်တာပဲ၊ ဘာပြုလို့လဲဗျ၊ ကျုပ်နဲ့ စတွေ့တုန်းက ခင်ဗျားဟာ အလွန် စကားပေါတဲ့ လူပါ၊ စကားတစ်ခါ ပြောရင် နာရီဝက် ကျော်ကျော်လောက် ကြာအောင်ကို ပြောနိုင်သား၊ အခုတလောမှာတော့ စကား ဆယ်လုံး ပြည့်အောင်တောင် မပြောတော့ဘူး၊ ဘာဖြစ်လို့လဲ၊ ခင်ဗျား စိတ်အချဉ် ပေါက်နေ ပြန်ပြီလား"

ကက်ဆီက မြေကြီးပေါ် အလျား မှောက်လိုက်ပြီး ကားအောက်သို့ ငုံ့ကြည့်လိုက်သည်။ မုတ်ဆိတ်မွေး ထူထူနှင့် သူ့မေးစေ့ကို လက်ခုံပေါ် တင်ထားသည်။ လှန်ချထားသော သူ့ဦးထုပ်သည် သူ့နောက်စေ့နှင့် လည်ကုပ်ကို ဖုံးအုပ်လျက် ရှိလေသည်။ "တရားဟောဆရာတစ်ယောက် အနေနဲ့ စကားကို ဝအောင် ပြောခဲ့ပြီးပြီပဲကွာ" ဟု ပြောသည်။

"ဟုတ်တော့ ဟုတ်ပါတယ်လေ၊ ဒါပေမဲ့ ခင်ဗျားက စကားပြော ကောင်းတယ်"

"အင်း ငါလည်း အပူအပင် များနေတယ်ကွ" ဟု ကက်ဆီက ဆိုသည်။ "တရားလည်း ဟောနေတုန်းကတော့ ဒါကို မသိခဲ့ဘူး၊ အဲဒီတုန်းကလည်း မိန်းမတွေနောက်တော့ အတော်ကလေး အပင်ပန်းခံပြီး လိုက်ခဲ့ဖူးတာပါပဲ၊ အခုတော့ ငါ စဉ်းစားမိတယ်၊ တကယ်လို့ ငါ တရားဟောဆရာ မလုပ်တော့ဘူး ဆိုရင် မိန်းမ

ယူသင့်တယ်ကွ၊ မင်း ဘယ်လို သဘောရသလဲ၊ ငါလည်း သွေးသား သောင်းကျန်းတဲ့ ဒဏ်ကို ခံနေရပြီကွ၊ သိလား"

"ကျုပ်လည်း ခင်ဗျားလိုပါပဲဗျာ" ဟု တွမ်က ပြန်ပြောသည်။ "ကျုပ် မက်အေလက်စတား ထောင်က လွတ်လာတဲ့ နေ့က ကောင်မတစ်ကောင်နဲ့ ဆုံမိတယ်၊ ဖာမ တစ်ယောက်ပေါ့ဗျာ၊ ဒါပေမဲ့ဗျို့၊ ကျုပ် မျက်စိထဲမှာ အပြစ် လုံးဝကင်းစင်တဲ့ ယုန်သူငယ်မလေးလို ဖြစ်နေတယ်၊ ဘာဖြစ်ခဲ့တယ် ဆိုတာတော့ မပြောတော့ပါဘူး၊ ဘာဖြစ်ခဲ့တယ် ဆိုတာ ဘယ်သူ့ကိုမှလည်း ကျုပ် မပြောခဲ့ပါဘူး"

ကက်ဆီက ဟက်ဟက်ပက်ပက် ရယ်လေသည်။ "ဘာဖြစ်ခဲ့တယ် ဆိုတာ ငါ သိပါတယ်ကွာ၊ ငါ ကိုယ်တိုင်လည်း တစ်ချိန်က မင်းလို နွားသိုးကြိုးပြတ် ဖြစ်ခဲ့ဖူးတယ်၊ နွားသိုးကြိုးပြတ် ဖြစ်တဲ့အခါမျိုးမှာတော့ အဖြစ်က တူတူပဲ နေမှာပဲ"

"ဒါပေမဲ့ ကျုပ် ပိုက်ဆံတော့ သိပ်မကုန်ခဲ့ပါဘူး၊ လုံးဝ မပေးဘူးတော့လည်း မဟုတ်ဘူးပေါ့ဗျာ၊ များများတော့ ပေးခဲ့သင့်တာ အမှန်ပဲ၊ ဒါပေမဲ့ ကျုပ် ငါးဒေါ်လာပဲ ပေးခဲ့တယ်၊ အဲ.. အဲ ခင်ဗျား ကားအောက်ကို နည်းနည်း ဝင်ခဲ့ဗျာ၊ ကျုပ် ဒီဘက်က မူလီ ဖြုတ်နေတုန်းမှာ ခင်ဗျားက အဲဒီဘက် အစွန်းကို လက်နဲ့ကိုင်ပြီး ထိန်းပေးထား၊ ဟုတ်ပြီ၊ ဂတ်စကက် ပေါက်သွားမယ် သတိထားကိုင်၊ မြင်လား တစ်ခုထွက်လာပြီ၊ ဒီကားမျိုးတွေက ဆလင်ဒါ လေးလုံးတပ်တွေဗျ၊ ကျုပ် တစ်လုံးချင်းစီ ဆွဲထုတ်ပြီး ချပေးမယ်၊ ဘယ်ယာရင်က ဖရဲသီး တစ်လုံးစာလောက် ကြီးတာပဲ၊ ကဲ သူ့ကို အောက်ချရအောင်၊ ကိုင်ထားဦး၊ ကိုင်ထားနော်၊ အပေါ်က ဂတ်စကက်ကို အသာကလေး ခွာထုတ်လိုက်၊ ဖြည်းဖြည်း ဆရာ ဖြည်းဖြည်း၊ အဲ ဟုတ်ပြီ" အမဲဆီများ ပေကျံလျက်ရှိသော အအုပ်ကို သူတို့ နှစ်ယောက်ကြား မြေကြီးပေါ်၌ ချထားလိုက်သည်။ တွင်းကလေးထဲများ၌ အင်ဂျင်ဝိုင် အနည်းငယ်မျှစီ ကပ်ကျန်နေသေးသည်။ တွမ်သည် ရှေ့ဆုံး တွင်းများထဲသို့ လက်နှင့် နှိုက်ကြည့်သည်။ ဘယ်ယာရင်စက် ဝင်ရိုးထိန်း အောက်ခံ သတ္တုပြား အကျိုးအပဲ့ အစအနများသည် သူ့လက်ထဲ၌ ပါလာလေ၏။ "တွေ့တယ် မဟုတ်လား၊ ဒါပဲ" ဟု ပြောသည်။ "ကျုပ်က အပေါ်မှာ၊ နောက်ဘက်ကို ကြည့်ပြီး ဝင်ရိုးလက်ကို ကိုင်ထားပေးဗျာ"

ကက်ဆီ၏ လက်သည် ဝင်ရိုးလက်ကို ထိမိသည်။ "အဆင်သင့် ဖြစ်ပြီလား"

"ဟုတ်ပြီ၊ ဖြည်းဖြည်း၊ နည်းနည်း မြှောက်လိုက်ဦး"

ကက်ဆီက ဒူးထောက် ထိုင်လိုက်ပြီး ကားအောက်သို့ ငုံ့ကြည့်နေပြန်သည်။ တွမ်က ကော်နက်တင်း ရော့ဒ်တံကို လှုပ်ကြည့်သည်။ "အဲ တွေ့လား၊ အပြစ်က ဒါပဲ"

"မင်း ဘယ်လိုလုပ်မယ် စိတ်ကူးလဲ" ဟု ကက်ဆီက မေးသည်။

"မသိသေးပါဘူးဗျာ၊ ဒီကားလမ်းပေါ် ပြေးနေတာ ဆယ့်သုံးနှစ်လောက်တော့ ရှိရောပေါ့၊ စပီဒို မီတာပေါ်မှာ ပြထားတဲ့ မိုင်အရ ပြောရရင်တော့ မိုင်ပေါင်း ခြောက်သောင်း ကျော်သွားခဲ့ပြီးပြီဗျ၊ ဂဏန်းကွက်ကို ဘယ်နှစ်ကြိမ်လောက် ပြန်လှည့်ပြီးခဲ့မှန်းလည်း ဘယ်သူမှ သိတာ မဟုတ်ဘူး" သူသည် စကားပြောနေရင်းမှ ဘယ်ယာရင် မူလီက ကဏန်းလက်မနှင့် လှမ်းညှပ်သည်။ ဆီလူးနေသော လက်သည် ချော်ထွက်သွားလေ၏။ လက်ဖမိုးပေါ်တွင် အရှည်လိုက် ဒဏ်ရာ အကွဲကြောင်းကြီး တစ်ခုသည် ဖွေးခနဲ ပေါ်လာသည်။ တွမ်က သူ့လက်ဖမိုးကို လှမ်းကြည့်သည်။ ဒဏ်ရာမှ သွေးများသည် တစိမ့်စိမ့် ထွက်ကာ အောက်သို့ တပေါက်ပေါက် ကျလာလေသည်။

"ဟာ မင့်လက် ခိုက်မိသွားပြီ" ဟု ကက်ဆီက ရေရွတ်သည်။ "မင်းလက်ကို အဝတ်တစ်ခုနဲ့ စည်းလိုက်ဦး၊ အဲဒါကို ငါ ဝင်လုပ်ပေးမယ်"

"ကိစ္စမရှိဘူး၊ မထိမိ မခိုက်မိဘဲနဲ့ ကားပြင်လို့ ရတယ်လို့ ရှိမှ မရှိတာ၊ ကျုပ်ဆို ခဏခဏ ခိုက်မိဖူးတာပဲ" သူသည် ကဏန်းလက်မနှင့် မူလီကို ထပ်၍ ညှပ်သည်။ ပြီးတော့ မူလီ ချောင်လာသည်အထိ လက်ဖနောင့်နှင့် လှမ်းထုသည်။ ရလာသည့် မူလီများကို စက်ဖုံးထဲသို့ ထည့်သည်။ သူသည် ဘယ်ယာရင် မူလီများကို ဖြုတ်ပြီးနောက် အထဲမှ ပစ်စတင်ကို ထုတ်ယူသည်။ ပစ်စတင်ကိုရော ကော်နက်တင်းရော့ဒ်ကိုပါ စက်ဖုံးထဲသို့ ထည့်ထားလိုက်လေ၏။

တွမ်သည် သူ့လက်ဖမိုးမှ ဒဏ်ရာကို ဂုန်နီစ တစ်စဖြင့် ဆွဲသုတ်ပြီး သေသေချာချာ ထပ်ကြည့်သည်။ သွေးများ ထွက်ဆဲပင်။ "သွေးကလည်း သောက်ရမ်းကို ထွက်နေတာပါပဲလားကွာ" ဟု ရေရွတ်သည်။ "ကိစ္စမရှိဘူး၊ ရပ်သွားအောင် လုပ်တဲ့နည်း ရှိတယ်၊ မင်းကို ရပ်သွားအောင် ငါ လုပ်နိုင်ပါတယ်ကွ" သူသည် မြေကြီးပေါ်သို့ သေးပေါက်ချလိုက်သည်။ သေးစိုနေသော ရွှံ့ကို လက်တစ်ဆုပ်စာ ယူလိုက်ပြီး

ဒဏ်ရာပေါ်သို့ ပုံသည်။ ဒဏ်ရာမှ သွေးသည် ခဏမျှ ဆက်၍ ထွက်နေသေးသည်။ ထို့နောက် တိတ်သွားလေသည်။ "ကမ္ဘာပေါ်မှာ ရှိရှိသမျှ သွေးတိတ်အောင် လုပ်တဲ့ နည်းတွေထဲမှာ အကောင်းဆုံး နည်းပါပဲဗျာ" ဟုလည်း ကျေနပ် အားရသံဖြင့် ရေရွတ်လိုက်လေသည်။

"ပင့်ကူအိမ် လက်တစ်ဆုပ်စာ ရရင်လည်း သွေးတိတ်ပါတယ်ကွာ" ဟု ကက်ဆီက ဆိုသည်။

"ကျုပ်လည်း သိသားပဲ၊ ဒါပေမဲ့ ခင်ဗျား ပင့်ကူအိမ်က ဒီနားမှာ ရှိမှ မရှိတာ၊ ဘာပဲပြောပြော အကောင်းဆုံးဟာကတော့ သေးပါပဲဗျာ၊ ကျေတော့ ကိုယ်ပိုင်ပစ္စည်း မဟုတ်လား၊ အချိန်မရွေး ရနိုင်တာပေါ့" တွမ်သည် မော်တော်ကား ခြေနင်းခုံပေါ်၌ ထိုင်ကာ ဘယ်ယာရင် အကျိုးအပျက်ကို စစ်ဆေးကြည့်နေသည်။ "၂၅ ခုနစ်ထုတ် ဒေါ့ချ်ကားက သုံးပြီးသား ကွန်ရော့ဒ်ဟောင်း တစ်ခုသာရရင် ကျုပ်တို့ အလုပ် ဖြစ်နိုင်တယ်၊ သိလား၊ အယ်လ် ဆိုတဲ့ ကောင်ကလည်း အခုထိ ပြန်မလာသေးဘူး၊ ဘယ်လောက် ဝေးဝေးများ သွားနေပါလိမ့်ဗျာ"

လမ်းဘေး ဆိုင်းဘုတ်ကြီး၏ အရိပ်သည် ပေခြောက်ဆယ်အထိ ရှည်ထွက်နေသည်။ မွန်းလွဲပိုင်းသည် တဖြည်းဖြည်းနှင့် ကုန်ဆုံးလာသည်။ ကက်ဆီသည် ကားခြေနင်း ခုံပေါ် ဝင်ထိုင်ကာ အနောက်ဆီသို့ မျှော်ကြည့်လျက် ရှိသည်။ "မကြာခင် ငါတို့ ဟိုအဝေးက တောင်တန်းကြီးတွေပေါ် ရောက်ကြတော့မယ်" ဟု ပြောသည်။ သူသည် အတန်ကြာမျှ ငြိမ်ဆိတ်နေပြန်သည်။ ထို့နောက်

"တွမ်"

"အင်း"

"တွမ် လမ်းပေါ်မှာ သွားနေတဲ့ ကားတွေကို ငါ ဂရုစိုက်ပြီး ကြည့်ခဲ့တယ်၊ တို့က ဖြတ်လာခဲ့တဲ့ ကားတွေ၊ တို့ကို ဖြတ်သွားတဲ့ ကားတွေ အားလုံးကို ငါကြည့်ခဲ့တယ်၊ ပြီးတော့ ငါ ခြေရာကောက်ကြည့်တယ်"

"ဘာကို ခြေရာကောက်တာလဲ"

"မိသားစု ရာပေါင်းများစွာဟာ ငါတို့လိုပဲ အနောက်ကို ဦးတည်ပြီး သွားနေကြတယ်၊ ဘယ်သူမှ အရှေ့ဘက်ကို သွားတာ မတွေ့ရဘူး၊ မင်း အဲဒါကို သတိထားမိရဲ့လား "

"အင်း ထားမိတယ် "

"သူတို့တစ်တွေ သွားလာနေကြပုံက စစ်သားတွေ နောက်ကလိုက်လို့ ထွက်ပြေးနေကြတာနဲ့ မတူဘူးလား၊ ဘာကြောင့် အဲသလို ဖြစ်နေရတာလဲ၊ အခြေအနေ ကြည့်ရတာ တစ်နိုင်ငံလုံးမှာ ရှိတဲ့ လူတွေ ထွက်ပြေးနေကြသလား အောက်မေ့ရတယ် "

"ဟုတ်လည်း ဟုတ်သားပဲ " ဟု တွမ်က ပြောသည်။ "တစ်နိုင်ငံလုံးက လူတွေ ပြေးနေကြတာပဲ၊ ကျုပ်တို့လည်း ပြေးနေတာပဲ "

"ဒီလိုဆိုရင် ဟိုရောက်တော့ လူအားလုံး အလုပ်ရဘူး ဆိုကြပါစို့ရဲ့၊ ဘယ်လို ဖြစ်ကုန်မယ် ထင်သလဲ "

"ဟာ ခင်ဗျား မေးပုံကြီးကလဲ" ဟု တွမ်က ကျယ်လောင်သော အသံဖြင့် ပြောသည်။ "ကျုပ်က ဘယ်လိုလုပ်ပြီး သိမလဲဗျ၊ ကျုပ်က တခြားလူတွေထက် ခြေတစ်ဖက်ပဲ ရှေ့ရောက်တာ၊ ကျုပ် မက်အေလက်စတား ထောင်ထဲမှာ နေခဲ့ရတာက လေးနှစ်၊ အချိန်ရှိသမျှ ထောင်ထဲက ကိုယ့်အိပ်ဆောင်မှာချည်း နေရတာ၊ ငါ လွတ်တဲ့ တစ်နေ့ကျရင် အပြင်လောကကြီးဟာ ပြောင်းလဲနေမှာပဲလို့တော့ ထင်ခဲ့မိတာပေါ့" သူသည် ကက်ဆီဘက်သို့ လှည့်ကြည့်ပြီး လက်ထဲမှ ပစ္စည်းကို ထိုးပြသည်။ "ဒီမှာ တွေ့လား၊ ဒီ ဘယ်ယာရင် ပျက်သွားပြီ၊ အခုလို ပျက်သွားလိမ့်မယ်လို့ စောစောကတည်းက ကြိုပြီး မသိတော့ ကျုပ်တို့ တွေးပြီး မပူခဲ့ကြဘူး မဟုတ်လား၊ ဟော အခု ပျက်သွားတယ်၊ ကျုပ်တို့ ပြန်ပြီး ပြင်ထည့်တန် ထည့်ရမယ်၊ အသစ်လဲတန် လဲရမယ်၊ ဒါဆိုရင် ဒီကားဟာ ဆက်ပြီး သွားတော့မှာပဲ၊ အဲဒီတော ့ကျုပ်အနေနဲ့ ရှေ့ရေးကို တွေးပြီး မပူတော့ဘူး၊ ပူလည်း မပူချင်ဘူး၊ ကျုပ် တတ်နိုင်တဲ့ကိစ္စလည်း မဟုတ်ဘူးဗျ၊ ဒီမှာ မြင်တယ် မဟုတ်လား၊ ဘယ်ယာရင် အောက်က ခံတဲ့ သတ္တုပြား၊ တွေ့လား၊ ကျုပ်စိတ်က ဒီသတ္တုပြားပေါ်မှာပဲ ရှိတယ်၊ တခြား ဘာကိုမှ ကျုပ် စိတ်မဝင်စားဘူး၊ အယ်လ်ဆိုတဲ့ ကောင်ကလည်းဗျာ၊ အခုထိ မရောက်လာသေးဘူး၊ ဘယ်များ ရောက်နေပါလိမ့်၊ ငရဲပြည်များ ရောက်နေသလား မပြောတတ်ပါဘူး "

"ဒီမယ် တွမ်၊ ငါ ပြောမယ်၊ မင်း စဉ်းစားကြည့်၊ အိုကွာ နားလည်အောင် ပြောဖို့ကလည်း မလွယ်ဘူး"

တွမ်သည် သူ့လက်ခုံပေါ်မှ သေးစိုရွံ့ကို ခွာယူပြီး မြေကြီးပေါ်သို့ ပေါက်ချလိုက်သည်။ အနား၏ ဘေးပတ်ပတ်လည်တွင် ရွံ့စေးများ ကပ်လျက် ရှိလေသည်။ သူသည် မျက်လုံးများကို လှန်လျက် တရားဟောဆရာအား ကြည့်သည်။ "ခင်ဗျား မိန့်ခွန်းခြွေတော့မလို့ စိတ်ကူးနေပြီလား" ဟု တွမ်က ပြောသည်။ "ကဲ ခြွေဗျာ၊ ကျုပ်က အဲဒီစကားမျိုးတွကျတော့ သဘောကျတယ်၊ ကျုပ် ထောင်ထဲမှာ နေရတုန်းက ထောင်ဝါဒါက အချိန်ရှိသမျှ ဩဝါဒ စကားပဲ ပြောနေတာပဲ၊ ဒါမျိုး နားထောင်နေရလို့ကတော့ အန္တရာယ် မဖြစ်ပါဘူး၊ ကဲ ပြော၊ အခု ခင်ဗျား ဘာအကြောင်း ပြောမလို့ စိတ်ကူးထားသလဲ"

"မင်း တွေ့နေတဲ့ အတိုင်းပဲ၊ အပြောင်းအလဲတွေက ဖြစ်နေတယ်၊ လူတွေကလည်း လုပ်မိလုပ်ရာတွေ လုပ်နေကြတယ်၊ မင်း စောစောက ပြောခဲ့တဲ့ စကားလိုပေါ့၊ လူတွေဟာ တစ်ဦးနဲ့ တစ်ဦးရဲ့ရှေ့မှာ ခြေတစ်လှမ်းလောက်ပဲ ကွာကြတယ်၊ ဒါပေမဲ့ သူတို့ လှမ်းနေတဲ့ ခြေလှမ်းတွေဟာ ဘယ်ကိုဦးတည်ပြီး လှမ်းနေမှန်း မသိကြဘူး၊ သူတို့ သွားနေကြတာ ကတော့ တစ်ခရီးတည်းပဲ။ သူတို့ ရောက်ဖို့ မျှော်မှန်းထားတဲ့ ပန်းတိုင်ကလည်း အတူတူပဲ၊ တကယ်လို့ မင်း နားထောင်ကြည့်မယ်ဆိုရင် သူတို့ သွားလာ လှုပ်ရှားနေတဲ့ အသံတွေ မော်တော်ကားသံတွေ မငြိမ်မသက် ဖြစ်မှုတွေ အားလုံးကို မင်း ကြားရမှာ သေချာတယ်၊ ဒါပေမဲ့ သူတို့ ဘယ်သွားနေကြတာလဲ၊ ဘာလုပ်နေကြတာလဲ၊ ဘာလုပ်ကြမှာလဲ ဆိုတာကျတော့ သူတို့ လုံးဝမသိဘူး၊ အားလုံး သူတို့ လယ်ယာတွေကို စွန့်ပစ်ပြီး အနောက်ဘက်ကိုချည်း သွားနေကြတာပဲ၊ ငါတော့ကွာ တစ်နိုင်ငံလုံးရဲ့ အခြေအနေ တစ်ရပ်လုံးကို ပြောင်းလဲသွားစေမယ့် ပြောင်းလဲမှု တစခုဟာ ပေါ်လာလိမ့်မယ် ထင်တာပဲ"

တွမ်က ရေငုံနှုတ်ပိတ် လုပ်ကာ ငြိမ်နေသည်။

"မင်းရဲ့ ရှေ့မှာ ဝင်းထရံတစ်ခု ရှိနေတယ် ဆိုပါတော့၊ မင်း ဘာလုပ်မလဲ၊ အဲဒီဝင်းထရံကို ကျော်တက်ရမှာပဲ မဟုတ်လား"

"အင်းပေါ့၊ ကျုပ်ကတော့ ကျော်လွှားတက်ရမယ့် ဝင်းထရံတွေ ဆိုရင် ကျော်လွှားတက်လိုက်တာပဲ " ဟု တွမ်က ဖြေသည်။

ကက်ဆီက သက်ပြင်းချသည်။ "အဲဒါ အကောင်းဆုံးနည်းပဲကွ၊ ငါကတော့ သဘောကျတယ်၊ သိလား၊ ဒါပေမဲ့ ဝင်းထရံ ဆိုတာတွေကလည်း တစ်ခုနဲ့တစ်ခု မတူကြဘူးလကွာ၊ တစ်ခါတစ်လေ ကျတော့လည်း ဝင်းထရံရယ်လို့ ကျကျနန မလုပ်ရသေးတဲ့ ဝင်းထရံမျိုးကို ကျော်တက်ရတဲ့ ငါတို့လို လူစားမျိုးတွေလည်း ရှိတတ်တယ်၊ ဒါကျတော့လည်း မတတ်နိုင်ဘူးပေါ့ကွာ"

"ဟိုက လာနေတာ၊ အယ်လ် မဟုတ်လား" တွမ်က ကြားဖြတ်၍ မေးသည်။

"အေး ဟုတ်ပုံရတယ်၊ တူတော့ တူတာပဲ "

တွမ်က ထိုင်နေရာမှ ထရပ်သည်။ သူ့လက်ထဲမှ ကော်နက်တင်းရှော့ဒ်တံနှင့် ဘယ်ယာရင်တို့ကို အဝတ်အိတ် တစ်လုံးထဲသို့ ထည့်သည်။ "ပစ္စည်းဟောင်း ပြပြီး ဝယ်တော့ လွယ်တယ်ဗျ" ဟု ဆိုသည်။

ထရပ်ကားသည် တွမ်နှင့် ကက်ဆီတို့ အနီးသို့ ရောက်လာသည်။ အယ်လ်၏ ဦးခေါင်းသည် ကားပြတင်းမှ အပြင်သို့ ထွက်လာလေ၏။

"မင်းကွာ ကြာလိုက်တာ အလွန်ပဲ၊ ဘယ်လောက် ဝေးဝေးအထိ သွားပို့နေလို့လဲ" တွမ်က ဆီး၍ အပြစ်တင်သည်။

အယ်လ်က သက်ပြင်းရှည်ကြီး တစ်ချက် ချသည်။ "ကော်နက်တင်းရှော့ဒ်တံ ထုတ်လို့ရပြီလား "

"အေး ရပြီ" တွမ်က လက်ထဲမှ အိတ်ကို ထောင်ပြသည်။ "အောက်ခံ သတ္တုပြားကျိုးသွားတာကွ "

"ကဲ တွေ့လား၊ ကျုပ်အပြစ် မဟုတ်ပါဘူးဗျ" ဟု အယ်လ်က ပြောသည်။

"အေးပါ၊ မဟုတ်ပါဘူး၊ မင်း အမေတို့ကို ဘယ်မှာ ထားခဲ့သလဲ"

"ဟိုမှာလည်း ပြဿနာက ရှုပ်နေတာပဲ" ဟု အယ်လ်က ပြောသည်။ "အဘွားက တစ်မျိုး ဖြစ်နေတယ်၊ အသိမရှိတော့သလိုပဲ၊ ကလေးပေါက်စလို ဖြစ်နေတာ၊ သူငယ်ပြန်တာလား မသိပါဘူး၊ ဘယ်သူ့ကိုမှလည်း စကား မပြောဘူး၊ ဘယ်သူ့ကိုမှလည်း မှတ်မိပုံလည်း မပေါ်ဘူး၊ သူ စကားပြောနေတာက အဘိုးကို ပြောနေသလိုပဲ"

"သူတို့ကို ဘယ်နေရာမှ ထားခဲ့သလဲကွ" တွမ်က စိတ်မရှည်တော့သည့်နှယ် ထပ်မေးပြန်သည်။

"ကျုပ်တို့ စခန်းတစ်ခုမှာ ရောက်နေတယ်၊ အရိပ်လည်း ရတယ်၊ ရေကလည်း ပိုက်တွေနဲ့ဆိုတော့ ပေါတယ်၊ အဲဒီမှာ တည်းခက တစ်ရက်ကို ဒေါ်လာတစ်ဝက် ကျတယ်၊ အားလုံး သိပ်ပင်ပန်းနေကြပြီဗျ၊ စိတ်ဓာတ်လည်း ကျကုန်ပြီ၊ အမေပြောတာက အဘွားဂျုတ် သိပ်ပင်ပန်းနေပြီတဲ့၊ ဒါကြောင့် ပိုက်ဆံကုန်လည်း မတတ်နိုင်ဘူးတဲ့၊ ဝီလ်ဆန်တို့ကတော့ ရွက်ထည်တဲ ထိုးထားတယ်"

တွမ်သည် အနောက်သို့ နိမ့်ဆင်းသွားနေသော နေကို တစ်ချက် မျှော်ကြည့်သည်။ "ဒီကားမှာ လူစောင့် တစ်ယောက်တော့ ရှိမှ ဖြစ်လိမ့်မယ် ကက်ဆီ၊ အစောင့် မရှိရင် အားလုံး ဖြုတ်ယူကုန်လိမ့်မယ်၊ ခင်ဗျား နေပေးနိုင်မလား"

"ရတယ်၊ ငါနေခဲ့မယ်"

အယ်လ်က သူ့ဘေး၌ ချထားသော စက္ကူအိတ်တစ်လုံးကို ယူ၍ လှမ်းပေးသည်။ "ဒီမှာ အမေ ပေးလိုက်တာ၊ ပေါင်မုန့်နဲ့ ဝက်သား၊ ရေတစ်ဘူးလည်း ပါလာတယ်"

"အင်း မင်းတို့ အမေကတော့ ဘယ်သူ့အတွက်မှ မမေ့ဘူးနော်" ဟု ကက်ဆီက ရေရွတ်သည်။

တွမ်က ကားထဲသို့ ဝင်ပြီး အယ်လ်၏ဘေး၌ ထိုင်သည်။ "ဒီမယ် ကက်ဆီ၊ ကျုပ်တို့ မြန်နိုင်သလောက် မြန်မြန် ပြန်ခဲ့မယ်၊ ဒါပေမဲ့ ဘယ်လောက် ကြာမယ်ဆိုတာတော့ အတိအကျ မပြောနိုင်ဘူး"

"အေးပါ၊ ငါ ဒီမှာပဲ ရှိပါမယ်"

"ဟုတ်ပြီ၊ ခင်ဗျားဘာသာ ခင်ဗျား တစ်ယောက်တည်းလည်း မိန့်ခွန်းခြွေမနေနဲ့ ဦးနော်၊ ကဲ မောင်းကွာ အယ်လ်"

ထရပ်ကားသည် မှုန်းလွဲပိုင်း နေရောင်အောက်တွင် ဖြည်းဖြည်းချင်း ထွက်ခွာသွားသည်။ "ဒီလူက လူကောင်းကွ၊ သိလား" ဟု တွမ်က ပြောသည်။ "အချိန်ရှိသမျှ မဟုတ်က ဟုတ်ကတွေပဲ လျှောက်တွေးနေတတ်တယ်"

"ဒါပေါ့ဗျာ၊ ခင်ဗျားလည်း သူ့လိုသာ တရားဟောဆရာ လုပ်ခဲ့ဖူးရင် သူ့လိုပဲ လုပ်နေမှာပေါ့၊ အဖေကတော့ သစ်ပင်တစ်ပင်ရဲ့ အရိပ်အောက်မှာ ဝင်ပြီး ခိုရတာလေး အတွက် ဆင့်ငါးဆယ် ပေးရတာကို မကျေနပ်ဘူး၊ ဒေါပွနေတယ်၊ ဒါပေမဲ့ သူ ဘာတတ်နိုင်မှာလဲ၊ ထိုင်ပြီး ဆဲနေတာပဲ၊ ခွေးသားတွေ မကြာခင် လေကိုတောင် ရောင်းစားလိမ့်မယ်လို့ ပြောနေတယ်၊ အမေကတော့ အဘွားအတွက် အရိပ်နဲ့ရေ ရဖို့ လိုတယ်တဲ့၊ ပိုက်ဆံကုန်လည်း မတတ်နိုင်တော့ဘူးတဲ့" ထရပ်ကားသည် လမ်းမကြီး တစ်လျှောက် အပြေးအလွှား သွားလျက် ရှိ၏။ ကားပေါ်တွင် အလေးအပင် ပစ္စည်းများ မပါသဖြင့် တစ်စီးလုံး နေရာတိုင်းမှ မြည်လျက် ရှိလေသည်။ အယ်လ်သည် ကားအရှိန်ကို တစ်နာရီလျှင် သုံးဆယ့်ရှစ်မိုင်ထက် ပိုမတင်ပေ။ အင်ဂျင်သံမှာ သွက်သွက်လက်လက် မရှိ။ အပြာရောင် မီးခိုးများသည် တထောင်းထောင်းထကာ တလွင့်လွင့် တက်လျက် ရှိလေသည်။

"ဟေ့ အယ်လ်၊ ကားအရှိန်ကို လျှော့ဦး၊ တော်တော်ကြာ မီး ထ လောင်နေမယ်"

"အဘွားကလည်း ဘယ်လိုဖြစ်တာမှန်း မသိပါဘူးဗျာ၊ လွန်ခဲ့တဲ့ ရက်တွေကတော့ စကားမပြောတာ တစ်ခုပဲ ရှိတယ်၊ အခုကျတော့ စကားတွေလည်း ပြောတယ်၊ ပြောပြန်တော့လည်း အော်ကြီး ဟစ်ကျယ်နဲ့ဗျ၊ ပြောတာကလည်း အဘိုးကို ပြောနေတာ၊ သူ့ရှေ့မှာ အဘိုး ထိုင်နေတာကို မြင်များနေသလား မသိဘူး၊ အော်အော်ပြီး ရန်တွေ့နေတာ၊ နင့်ကို ပေးဖို့ ဆိုပြီး ငါ့ကို သူက ဒေါ်လာနှစ်ဆယ် ပေးထားတယ်တဲ့၊ သူက နင့်မှာ ဘယ်လောက်လိုမယ် ဆိုတာ တွက်တာ မဟုတ်ဘူး၊ သူ ပေးချင်သလောက် ပေးနေတာလို့ အဖေ့ကို အော်ပြောနေတယ်၊ ဩော် ဒါနဲ့ မေးရဦးမယ်၊ အမေက အဖေ့ကို ကနေ့ လုပ်တာမျိုး အရင်က ခင်ဗျား မြင်ဖူးခဲ့သလား"

“ဟုင်အင်း မမြင်ဖူးဘူး၊ တကယ်တော့ကွာ၊ ငါ ခံဝန်ချုပ်နဲ့ လွတ်လာတာဟာ သိပ်ကောင်းတာကွ၊ ငါ လွတ်တော့မယ် ဆိုတာ သိတော့ အိမ်ပြန်ရောက်ရင် အိပ်ရေးဝအောင် အိပ်မယ်၊ အိပ်ချင်သလောက် အိပ်ပြီး စားချင်တာကို ဝအောင် စားပစ်လိုက်မယ်လို့ စိတ်ကူးလာတာ၊ တစ်ခါတစ်လေ ကပွဲလေး ဘာလေးသွား၊ မြားလေး ဘာလေး ပစ်မယ်လို့ မှန်းလာတာ၊ အခုတော့ကွာ၊ ဒါတွေကို လုပ်နိုင်ဖို့ နေနေသာသာ စိတ်ကူးထဲတောင် မထည့်နိုင်တော့ဘူး ဟင်း”

“ဟာ ကျုပ်ပြောဖို့ မေ့နေတယ်၊ အမေ မှာလိုက်တာတွေ အများကြီးပဲ၊ အမေက ပြောတယ်၊ ခင်ဗျား အရက်မသောက်နဲ့တဲ့၊ ဘယ်သူနဲ့မှ စကားများတာ ရန်ဖြစ်တာ မလုပ်ပါနဲ့တဲ့၊ ဘယ်သူ့ကိုမှလည်း ရိုက်လား နက်လား ထိုးလား ကြိတ်လား မလုပ်ပါနဲ့တဲ့၊ ခင်ဗျားကို ထောင်ပြန်ပို့မှာ အမေက စိတ်ပူတယ်တဲ့”

“အမေကလည်းကွာ၊ သူ့မှာ ဒီလောက် အလုပ်တွေ များနေတဲ့ကြားက ငါ့အတွက် ပူနေရသေးလား” ဟု တွမ်က ရေရွတ်သည်။

“ကျုပ်တို့ ဘီယာ နစ်ပုလင်းလောက်တော့ သောက်ရအောင်ဗျာ၊ ဘယ့်နယ်လဲ၊ ကျုပ် ဘီယာ သိပ်သောက်ချင်နေတယ်”

“ငါတော့ မပြောတတ်ဘူးကွာ” ဟု တွမ်က ပြောသည်။ “ငါတို့ ဘီယာသာ ဝယ်သွားရင်တော့ အဖေ ဘေးဘက်ထောက် မှောက်တော့မှာ သေချာတယ်”

“မဟုတ်ဘူးဗျ၊ ဒီလိုလေဗျာ၊ ကျုပ်မှာ ပိုက်ဆံ ခြောက်ဒေါ်လာ ရှိတယ်၊ ကျုပ်တို့နှစ်ယောက် တစ်ယောက် တစ်ပုလင်းလောက်တော့ ချလို့ ရပါတယ်ဗျ၊ ကျုပ်မှာ ငွေ ခြောက်ဒေါ်လာ ရှိတာ ဘယ်သူမှ မသိဘူး၊ ဒီပိုက်ဆံနဲ့ ကျုပ်တို့နှစ်ယောက် ကောင်းကောင်း ပျော်နိုင်မှာပါ”

“ထိန်းထားဦးကွ” ဟု တွမ်က ပြောသည်။ “ဟိုရောက်တဲ့ အခါကျမှ မင်းနဲ့ငါ စိတ်ထင်တိုင်း ကြဲလိုက်မယ်၊ ငါတို့ အလုပ်လုပ်ရင်းလည်း ပျော်နိုင်တာပဲ”

“အင်းနော်၊ ကယ်လီဖိုးနီးယား ရောက်ရင်တော့ ကျုပ် ကောင်းကောင်း ပျော်ရမယ် ထင်တာပဲ”

"ငါလည်း မျှော်လင့်ထားတာပဲကွ "

"ဒါနဲ့လေ၊ ခင်ဗျား ဟိုလူကို သတ်ပြီးတဲ့နောက် သူ့အကြောင်း အိပ်မက် မမက်ဘူးလား၊ လူသတ်မိတဲ့အတွက် စိတ်ဆင်းရဲတာတွေ ဘာတွေကော ဖြစ်သေးသလား "

"ဟင့်အင်း "

"ဒီလိုဆို ဒီ လူသတ်မှု ကိစ္စကို ခင်ဗျား လုံးဝ ပြန်မတွေးဘဲ နေတယ် ဆိုပါတော့၊ ဟုတ်လား "

"ဒါပေါ့၊ သူ သေသွားတဲ့အတွက် စိတ်တော့ ဘယ်ကောင်းမလဲကွာ "

"ကိုယ့်ကိုယ်ကိုကော အပြစ် မတင်မိဘူးလား "

"ဟင့်အင်း၊ မတင်မိဘူး၊ တင်စရာကော ဘာလိုသလဲကွာ၊ ငါ လုပ်ခဲ့တဲ့ အပြစ်အတွက် ငါ ပြန်ခံနေရပြီပဲဟာ "

"ထောင်... ထောင်... ထောင်ထဲမှာ ကြောက်စရာ ကောင်းသလား "

တွမ်၏စိတ်သည် လှုပ်ရှားလာသည်။ "ငါ ပြောမယ် အယ်လ်၊ ငါ့ အပြစ်အတွက် ငါ ခံရတယ်၊ ဒါပဲ၊ အခု အပြစ်ခံရပြီးသွားပြီ၊ ငါ ဒါတွေကို ပြန်ပြီး သတိရမနေချင်ဘူး၊ ခဏခဏလည်း ပြန်မတွေးချင်ဘူး၊ ဟော ဟိုရှေ့မှာ မြစ်၊ ဟိုဘက်မှာ မြို့၊ ကွန်ရော့ဒ်ရလိုရငြား ဝင်ဝယ်ကြည့်မယ် "

"အမေကတော့ ခင်ဗျားကို ပိုချစ်တယ်ဗျ" ဟု အယ်လ်က ပြောသည်။ "ခင်ဗျား ဟိုရောက်သွားတော့ အမေ သိပ် စိတ်ဆင်းရဲသွားတယ်၊ ဒါပေမဲ့ ဘယ်သူ့ကိုမှ အသိမပေးဘူး၊ သူ့ဟာသူ ကျိတ်နေတယ်၊ ငိုတော့လည်း ရင်ထဲမှာ ကျိတ်ပြီး ငိုတာ၊ အပြင်ကို ထုတ်မငိုဘူး၊ ဒါပေမဲ့ အမေ ဘာတွေးပြီး ဘယ်လို ခံစားနေရတယ် ဆိုတာ ကျုပ်တို့က ရိပ်မိကြတယ် "

တွမ်က သူ့ဦးထုပ်လျှာကို မျက်စိများ ဖုံးသွားအောင် ဆွဲချလိုက်သည်။ "ဒီမှာ အယ်လ်၊ ငါတို့ တခြားအကြောင်း ပြောကြရင် ကောင်းမယ် "

"ကျုပ်က ခင်ဗျားအတွက် အမေ ဘယ်လို ဖြစ်ခဲ့ရတယ် ဆိုတာ သိစေချင်လို့ပါ"

"အေးပါ၊ ဟုတ်ပါတယ်၊ ငါ နားလည်ပါတယ်၊ ဒါပေမဲ့ ငါက တခြားလူရှေ့ကနေ ခြေတစ်ဖက်ပဲ ချချင်တာ"

အယ်လ်က ငြိမ်ကျသွားသည်။ သူ့ကို အစော်ကား ခံလိုက်ရသည့်နှယ် ဖြစ်သွားသည်။ အတန်ကြာမှ "ကျုပ်ကတော့ ခင်ဗျားကို သိစေချင်လို့..."

တွမ်က သူ့မျက်နှာကို လှမ်းကြည့်သည်။ အယ်လ်က ပြန်မကြည့်။ သူ့အကြည့်ကို ကားရှေ့ရှိ လမ်းမပေါ်သို့ စူးစိုက်ထားသည်။ ဝန်မပါသော ထရပ်ကားသည် အသံမျိုးစုံ ပေးကာ ဆောင့်ကြီးအောင့်ကြီးနှင့် ပြေးသွားလျက် ရှိ၏။ တွမ်၏ သွားများသည် နှုတ်ခမ်းဖျား အောက်မှ တိုးထွက်လာကြသည်။ သူသည် အသံကို ခပ်အုပ်အုပ်လုပ်၍ ရယ်သည်။

"မင်းပြောတဲ့ သဘောကို ငါ သိပါတယ် အယ်လ်၊ ငါက နားမထောင်နိုင်လို့ပါ၊ ခံနိုင်ရည်မရှိတာလို့ပဲ ပြောရမှာပဲ၊ မင်း သိချင်နေတာတွေကိုလည်း တစ်နေ့ကျရင် ငါ ပြောပြပါ့မယ်၊ မင်း စောစောက မေးတဲ့ မေးခွန်းမျိုးဟာ စိတ်ဝင်စားစရာ ကောင်းပါတယ်၊ ဒါပေမဲ့ အခု လောလောဆယ် ဒီအကြောင်းတွေကို ငါ့ခေါင်းထဲ မထည့်ချင်ဘူး၊ အခုလောလောဆယ် ဒီဟာတွေကို မေ့ထားတာ အကောင်းဆုံးပဲ ဆိုတဲ့ စိတ်ကူးက ငါ့မှာ ရှိနေလို့ပါ၊ မကြာခင် ငါ စိတ်ပြောင်းသွားမှာပါကွာ၊ အဲဒီကျတော့ အားလုံး ပြောပြမှာပေါ့၊ အခုအချိန်မှာ ဒီအကြောင်းတွေကို ပြန်တွေးလိုက်ရင် စိတ်ထဲမှာ တစ်မျိုးဖြစ်လွန်းလို့၊ ငါ မင်းကို တစ်ခုတော့ ပြောပြမယ် အယ်လ်၊ ထောင် ဆိုတာ လူတစ်ယောက်ကို ဖြည်းဖြည်းချင်း ရူးသွားအောင် လုပ်တဲ့ နေရာတစ်ခုပဲ၊ အဲဒါတော့ မင်း မှတ်ထားပေတော့၊ ရူးသွားပြီ ဆိုမှလည်း ထောင်ကို မြင်ရတယ်၊ ထောင်ရဲ့ အသံတွေကို ကြားရတယ်၊ မြင်လာ ကြားလာတာနဲ့ တစ်ပြိုင်နက် မင်းဟာ ရူးနေပြီဆိုတာ သိတာပဲ၊ တစ်ခါတစ်လေ ညကြီးမင်းကြီး အော်သံတွေကို ကြားရတတ်တယ်၊ အဲဒီ အသံတွေဟာ ကိုယ်ကိုယ်တိုင် အော်နေတဲ့ အသံလို့ စိတ်က ထင်ရတယ်၊ တစ်ခါတစ်ရံကျတော့လည်း ကိုယ်တိုင် အော်နေရတဲ့ အသံ ဖြစ်ချင်ဖြစ်မယ် "

"ကျုပ် နောက်ကို ဒီအကြောင်းတွေ မေးလည်း မမေးတော့ဘူး၊ ပြောလည်း မပြောတော့ဘူး " ဟု အယ်လ်က ပြောသည်။

"ရက်သုံးဆယ်ဆိုရင် ဘာမှ မဖြစ်သေးဘူး" ဟု တွမ်က ဖြေသည်။ "ရက်ပေါင်း တစ်ရာ့ရှစ်ဆယ် ဆိုရင်လည်း ကိစ္စမရှိသေးဘူး၊ ဒါပေမဲ့ တစ်နှစ်ကျော်လောက် ဆိုရင်တော့ ပြောရခက်လာပြီ၊ ဒီနေရာဟာ ကမ္ဘာပေါ်မှာ ရှိနေတဲ့ တခြား နေရာတွေထဲက ဘယ်နေရာနဲ့မှ မတူတာတော့ အမှန်ပဲ၊ လူတွေကို ပိတ်လှောင်ထားဖို့ ဆိုတဲ့ စိတ်ကူးကိုက ခပ်ကြောင်ကြောင် စိတ်ကူးပဲလို့ ငါ ထင်မိတယ်၊ ဒီစိတ်ကူး တစ်ခုလုံးဟာ အနိုင်အထက် ပြုထားတဲ့ စိတ်ကူးပဲ၊ မကောင်းပါဘူးကွာ၊ ငါ သိပ်မပြောချင်ဘူး"

ထရပ်ကားသည် ဓာတ်ဆီဆိုင် တစ်ဆိုင် ရှေ့သို့ ရောက်လာသည်။ ဆိုင်အနီး လမ်း၏ ညာဘက်ဘေး တစ်နေရာတွင် တစ်ဧကခန့် ကျယ်သော မြေတစ်ကွက်၊ ထိုမြေပတ်ပတ်လည်ကို သံဆူးကြိုးများ ကာထားသည်။ မြေပေါ်တွင် ပစ္စည်းပျက်များ အစုလိုက် အပုံလိုက်။ မြေကွက်ရှေ့ဘက် မျက်နှာစာတွင် သံတိုင်များဖြင့် ဆောက်ထားသော တဲတစ်တဲ။ ထိုတဲ၏ တံခါးဝအနီးတွင် ဈေးနှုန်းစာရွက်များ ကပ်ထားသည့် တာယာဟောင်းများ။ သံတဲ၏ နောက်တွင် သစ်သားထည် သံထည် ပစ္စည်း အဟောင်းအမြင်းများဖြင့် ဆောက်ထားသည့် တဲငယ်တစ်လုံး ရှိလေသည်။ တဲအတွင်းတွင် ကားပျက်များ၊ ကားအင်ဂျင်ဟောင်းများ၊ ထရပ်ကားဘော်ဒီ ဘေးကာများ၊ ဘီးခွေများ၊ ဝင်ရိုးများမှအစ အသေးအဖွဲ ပစ္စည်းများအထိ အမျိုးစုံ ရှိသည်။

အယ်လ်သည် သူ့ထရပ်ကားကို တဲရှေ့ရှိ အင်ဂျင်ဝိုင်များ ဖုံးအုပ်နေသော မြေကွက်ပေါ်တွင် ထိုးလိုက်လေသည်။ တွမ်သည် ကားပေါ်မှ ဆင်းသွားပြီး တဲ၏ တံခါးပေါက်အဝတွင် ရပ်လိုက်သည်။ "လူလည်း မရှိပါလား" ဟု ရေရွတ်လိုက်ပြီး အသံတစ်ချက် ပြုသည်။ "အထဲမှာ လူရှိပါသလား"

"ဘုရား သိကြားမလို့ သူတို့ဆီမှာ ၂၅ ခုနှစ်ထုတ် ဒေါ့ချ်ကား အပို ပစ္စည်းဟောင်းတွေ ရှိပါစေဗျာ"

သံတဲ၏ နောက်ဘက်မှ တံခါးတစ်ချပ် ဖွင့်သံ ကြားရသည်။ လူရိပ်တစ်ခုသည် တစ္ဆေ သရဲ တစ်ကောင် ပြေးလာသည့်နှယ် တဲအတွင်းသို့ ဖျတ်ခနဲ ဝင်လာသည်။ ဆီချေးများဖြင့် တစ်ကိုယ်လုံး ရစရာမရှိအောင် ညစ်ပတ် ပေရေနေသော လူပိန်ပိန် တစ်ယောက်။ မျက်လုံးတစ်ဖက် မရှိ။ လပ်နေသော မျက်စိ သူငယ်အိမ်သည် အတွင်းသို့ ချိုင့်ဝင်လျက် ရှိ၏။ မျက်လုံး အကောင်း လှုပ်ရှားလိုက်သည့် အခါတိုင်း ချိုင့်ဝင်လျက်

ရှိနေသောနေရာမှ အကြောများသည် ရှုံ့ရှုံ့သွားလေသည်။ ဝတ်ထားသည့် ဂျင်းဘောင်းဘီနှင့် ရှပ်အင်္ကျီမှာ ပေကျံနေသော ဆီရောင်များကြောင့် ပြောင်လက်နေသည်။ သူ့လက်နှစ်ဖက်လုံးမှာ ပွန်းရာ ရှရာများဖြင့် ပြည့်လျက် ရှိသည်။ တွမ်ကို မြင်သောအခါ အောက်သို့ တွဲကျနေသော သူ့နှုတ်ခမ်း ထူထူကြီးသည် ရှေ့သို့ စူထွက်လာသည်။

"ခင်ဗျားက ဆိုင်ရှင်လား" ဟု တွမ်က မေးသည်။

တစ်လုံးတည်းသော မျက်စိသည် တလက်လက် တောက်လာသည်။ "မဟုတ်၊ အလုပ်သမား၊ ခင်ဗျားက ဘာလိုချင်လို့တုံး"

"၂၅ ခု မော်ဒယ် ဒေ့ါ့ချ်ကားဟောင်း ရှိသလား၊ ကွန်ရော့ဒ် အဟောင်းတစ်ခု ဝယ်ချင်လို့"

"မသိဘူး၊ ဆိုင်ရှင် ရှိရင်တော့ ပြောနိုင်မှာပဲ၊ သူက အခု မရှိဘူး၊ အိမ်ပြန်သွားတယ်"

"ကျုပ်တို့ဘာသာ ကျုပ်တို့ ဝင်ကြည့်လို့ကော မရဘူးလား"

အလုပ်သမားသည် သူ့နှာခေါင်းကို လက်ဖဝါးဖြင့် အုပ်၍ နှပ်ညှစ်လိုက်သည်။ ပြီးတော့ လက်ဖဝါးကို သူ့ဘောင်းဘီဖြင့် ပွတ်၍ သုတ်လိုက်သည်။ "ခင်ဗျားတို့က ခရီးသွားတွေ ထင်တယ်၊ ဟုတ်လား" ဟု မေးသည်။

"ဟုတ်တယ်၊ အရှေ့က လာတာ၊ အနောက်ကို သွားမလို့"

"ဒီလိုဆိုလ်ညး ဝင်ရှာလေ၊ သူ့ပစ္စည်းတွေ ဘာဖြစ်သွားသွား ကျုပ်က ဂရုမစိုက်ပါဘူး၊ တစ်တဲလုံး မီးလောင်သွားရင် ပိုတောင် ကောင်းသေးတယ်"

"ခင်ဗျား ကြည့်ရတာ ဆရာသမား အပေါ်မှာ နည်းနည်းလေးမှ မေတ္တာရှိပုံ မရပါလား"

အလုပ်သမားသည် တွမ်၏ ရှေ့မှောက် ရောက်အောင် တိုးကပ်လာသည်။ တစ်လုံးတည်းသော မျက်လုံးသည် တဖြည်းဖြည်း တောက်လာသည်။ "ကျုပ် သူ့ကို သိပ်မုန်းတယ်" အံကိုကြိတ်၍ တိုးတိုး ပြောသည်။ "ကျုပ် ဒီခွေးမသားကို သိပ်

သောက်မြင်ကပ်တာ၊ အခု ဒီကောင် အိမ်ပြန်သွားတယ်" သူ့ပါးစပ်မှ နောက်ထပ် စကားလုံးများသည် ထစ်တီးထစ်ငေါ့ ထွက်လာသည်။ "သူ့မှာ နည်းတစ်ခု ရှိတယ်ဗျ၊ သိလား၊ လမ်းပေါ်က ဒုက္ခရောက်နေတဲ့ လူတစ်ယောက်ကို ကောက် ကျွေးထားပြီး အရေခွာတဲ့ နည်းပေါ့ဗျာ၊ ဒီအကောင် ခွေးမသား ဆယ့်ကိုးနှစ်လောက် ရှိတဲ့ ကောင်မလေး တစ်ယောက် ရထားတယ်၊ သူက ကျုပ်ကို ပြောတယ်၊ ဒီကောင်မလေးကို မင်း လက်ထပ်မလားတဲ့၊ ပြီးတော့ ပြောသေးတယ်၊ ကနေ့ည ကပွဲရှိတယ်၊ မင်း သွားချင်သလားတဲ့၊ ကျုပ်ကို သက်သက်မဲ့ လှောင်တဲ့စကားတွေ ပြောတယ်၊ စော်ကားတာပေါ့ဗျာ" မျက်လုံးထဲတွင် မျက်ရည်များ ဝိုင်းလာသည်။ မျက်ရည်ပေါက်များသည် မျက်လုံးထောင့်တွင် တွဲလွဲခိုလျက် ရှိကြ၏။ "တစ်နေ့ကျရင် တော့ဗျာ၊ ကျုပ် အိတ်ထဲမှာ ပိုက်လုံး အပြတ်တစ်ခု ဖွက်ထားမယ်၊ ကျုပ် မျက်လုံးကို ကြည့်ပြီး ဒီစကားမျိုး ပြောလာရင် သူ့ခေါင်းနဲ့ ကိုယ် အိုးစားကွဲသွားအောင် လုပ်ပစ်လိုက်မယ်၊ ပြီးတော့မှ သူ့တစ်ကိုယ်လုံးကို တစ်စစီ ဖြစ်သွားအောင် နုပ်နုပ်စဉ်းပစ်မယ်၊ သိလား" ဒေါသ အရှိန်ဖြင့် သူ့ရင်ဘတ်သည် လှိုင်းထလျက် ရှိလေသည်။ "တကယ်ပြောတာ၊ သိလား၊ တစ်စစီ ဖြစ်သွားအောင် လုပ်ပစ်မယ်"

နေသည် တောင်တန်းများ နောက်သို့ ဝင်ရောက် ပျောက်ကွယ်သွားလေပြီ။ အယ်လ်သည် ကားပျက်များကို မျှော်ကြည့်နေရာမှ "ဟော့ ဟိုမှာကြည့်စမ်း တွမ်၊ ၂၅ - ၂၆ မော်ဒယ် ဒေါ့ဂျ်ကားပျက်တွေ မဟုတ်လား" ဟု လှည့်ပြောသည်။

တွမ်က မျက်စိ တစ်ဖက်လပ်ဘက် လှည့်မေးသည်။ "ကျုပ်တို့ ဝင်ကြည့်လို့ ရမလား"

"သိပ်ရတာပေါ့၊ သွားကြည့်လေ၊ လိုချင်တာ တွေ့ရင်လည်း ယူသာသွား"

နှစ်ယောက်သား ကားပျက်များ ကြားသို့ ဝင်သွားကြသည်။

"ဟုတ်တယ်ဗျ၊ ၂၅ ခု မော်ဒယ်" ဟု အယ်လ်က ဝမ်းသာအားရ အော်ပြောသည်။ "ကျုပ်တို့ လိုချင်တဲ့ ပစ္စည်း ဖြုတ်ယူလို့ ရမလား မစ္စတာ"

တွမ်က ဒူးနှစ်ဖက် ထောက်၍ ထိုင်ချလိုက်ကာ ကားအောက်သို့ ငုံ့ကြည့်သည်။ "အဖုံးတော့ ဖြုတ်ယူသွားပြီကွ၊ ရော့ဒ် တစ်ချောင်းလည်း မရှိတော့ဘူး" ပြောပြောဆိုဆိုနှင့်

ကားအောက်သို့ အလျားမှောက်၍ ဝင်သည်။ "အယ်လ်ရေ၊ မင်းက ဝင်ရိုးကို ဖြုတ်ကွာ" တွမ်က ရေ့ဒ်တံကို လက်နှင့် ဆွဲ၍ နှဲ့ကြည့်သည်။ "အမဲဆီတွေကြောင့် သိပ်ကျပ်နေတယ်ကွ" အယ်လ်က ဝင်ရိုးကို ခပ်ဖြည်းဖြည်း လှည့်ဖြုတ်သည်။ "ဖြည်းဖြည်းလုပ်ကွာ" တွမ်က လှမ်း၍ သတိပေးသည်။ သူသည် သစ်သား တစ်စကို ကောက်ကာ ဘယ်ယာရင်နှင့် ဘယ်ယာရင် မူလီများ ကြား၌ ကပ်နေသော အမဲဆီစများကို ထိုးကော်၍ ထုတ်နေသည်။

"ပြန်ထည့်လို့ ရပ့ါမလား" ဟု အယ်လ်က မေးသည်။

"နည်းနည်းတော့ ချောင်မယ် ထင်တယ်ကွ၊ ဒါပေမဲ့ သိပ်မဆိုးပါဘူး၊ ဖြစ်မှာပါ၊ ဖြည်းဖြည်း လှည့်ဖြုတ်ကွာ၊ အေး ဟုတ်ပြီ၊ ဖြည်းဖြည်း ဖြည်းဖြည်း၊ အောက်ကိုချ၊ ဝက်အူလှည့်တွေ သွားရှာပြီး ယူခဲ့ကွာ"

မျက်စိတစ်ဖက်လပ်နှင့် လူက ဝင်ပြောသည်။ "နေဦး၊ ကိရိယာထည့်တဲ့ သေတ္တာ ရှိတယ်၊ ကျုပ် ယူပေးမယ်" သူသည် ကားပျက်များကြားသို့ ဝင်သွားသည်။ ချက်ချင်းပင် သေတ္တာတစ်လုံး ဆွဲ၍ ပြန်ထွက်လာသည်။ တွမ်က သေတ္တာထဲ လက်နှိုက်၍ ရှာသည်။ ဝက်အူလှည့် တစ်ခုကို ယူ၍ အယ်လ်အား လှမ်းပေးသည်။

"ဒါနဲ့ လှည့်ဖြုတ်ကွာ၊ အထဲက သတ္တုပြားလေးတွေ ထွက်ကျမကုန်စေနဲ့၊ ဝက်အူတွေလည်း ပျောက်ကုန်ဦးမယ်၊ မြန်မြန်လုပ်ဟေ့၊ တော်တော်ကြာ မှောင်သွားလို့ ခက်နေဦးမယ်၊ အခုတောင် အလင်းရောင် သိပ်မရှိတော့ဘူး"

အယ်လ်က ကားအောက်သို့ တွား၍ ဝင်သည်။ "ဝက်အူလှည့်ကြီး တစ်စုံလောက် ရရင် သိပ်ကောင်းမယ်၊ ပြန်တပ်တဲ့အခါ လိုမှာဗျ" ဟု အယ်လ်က ရေရွတ်လေသည်။

"ငါ ကူဖို့လိုရင် လှမ်းအော်လိုက်နော် " ဟု တွမ်က မှာသည်။

မျက်စိတစ်ဖက်လပ်သည် တွမ်၏ အနီးတွင် ရပ်နေသည်။ "အကူအညီလိုရင် ပြောပါ၊ ကျုပ်လည်း ကူပ့ါမယ်" ဟု ပြောသည်။ "ဟို ခွေးမသား လုပ်တာတွေတော့ ပြောရဦးမယ်၊ တစ်နေ့က ဘောင်းဘီအဖြူ အကျႌအနု ဝတ်ပြီး ရောက်လာတယ်၊ ကဲလာ၊ ရွက်လှေသွားစီးမလို့၊ မင်း လိုက်မလားတဲ့၊ ကျုပ်ကို လာပြောတယ်၊ ကျုပ် တစ်နေ့ကျရင်

ဒီကောင်ကြီးကို သတ်မိတော့မယ် ” သူသည် အသက်ပြင်းပြင်း တစ်ချက် ရှူလိုက်သည်။ “ကျုပ် မျက်စိတစ်ဖက် ပျက်သွားကတည်းက ဘယ်မိန်းမနဲ့မှ မတွဲတော့ဘူး၊ အဲဒါကိုပဲ ဟိုအကောင်က သရော်နေတာ ” မျက်ရည်ပေါက် တစ်ပေါက်သည် သူ့မျက်လုံးထောင့်မှ ထွက်အန်ကျလာပြီး နှာခေါင်းပေါ်မှ ဖြတ်ဆင်းလာလေသည်။

“ဒီလောက် ဖြစ်နေရင်လည်း ခင်ဗျား တခြားတစ်နေရာကို ထွက်သွားပေါ့ဗျ၊ ခင်ဗျားကို ဘယ်မှ မသွားနိုင်အောင် စောင့်ကြည့်နေတဲ့ လူမှ မရှိတာ” တွမ်က စိတ်မရှည်သံဖြင့် ပြန်ပြောသည်။

“အင်း ခင်ဗျား ပြောတာတော့ လွယ်ပါတယ်၊ ဒါပေမဲ့ အလုပ်တစ်ခု ရဖို့က မလွယ်ဘူးဗျ၊ မျက်စိတစ်ဖက်လပ် တစ်ယောက်အဖို့ ပိုခက်တယ် ”

တွမ်က လှည့်ကြည့်သည်။ “ဒီမှာ ကိုယ့်လူ၊ ခင်ဗျားမှာ ကြည့်လို့ရတဲ့ မျက်စိတစ်လုံး ရှိနေသေးတယ်၊ ခင်ဗျားကိုယ်က နေတာ ထိုင်တာ မဟုတ်လို့ ဖြစ်နေတာ၊ ခင်ဗျားမှာ တစ်ကိုယ်လုံး ရစရာမရှိအောင် ညစ်ပတ် ပေတေနေတာပဲ၊ ပြီးတော့ ကိုယ့်ဘာသာကိုယ် ပြန်သနားပြီး စိတ်ဆင်းရဲနေတယ်၊ အလကား အရည်မရ အဖတ်မရ၊ ဒီလောက် ညစ်ပတ်နေမှတော့ ဘယ်ကောင်မက ခင်ဗျားနဲ့ တွဲချင်မှာလဲ၊ ခင်ဗျား မျက်နှာကို သန့်သွားအောင် ဆေးကြောပြီး အဝတ်အစား ကျကျနန ဝတ်ထားစမ်းပါ၊ ခင်ဗျား လိုချင်တာ ရမှာပေါ့”

“မျက်စိတစ်ဖက်လပ် တစ်ယောက်အဖို့တော့ လွယ်မယ် မထင်ပါဘူးဗျာ၊ သူ့အနေနဲ့ တခြားလူတွေ မြင်သလိုမှ မမြင်နိုင်တာပဲ ”

“ခင်ဗျားဟာ အရူးပဲ၊ ကျုပ် တစ်ခါတုန်းက ခြေတစ်ဖက်ပြတ် ဖာသည်မ တစ်ယောက် တွေ့ဖူးတယ်၊ ခင်ဗျားလိုသာ တွေးမယ်ဆိုရင် အဲဒီကောင်မ သူ့အလုပ် လုပ်စားလို့ ဘယ်ရတော့မလဲ၊ အောင်မယ် သူ့ကို အထင်မသေးနဲ့ ကိုယ့်လူ၊ တခြားကောင်မတွေထက် ဒေါ်လာဝက် ပိုပေးရတယ်၊ သူက ဘာပြောတယ် ထင်သလဲ၊ ရှင် ခြေတစ်ဖက်ပြတ် မိန်းမတစ်ယောက်နဲ့ ဘယ်နှစ်ခါ အိပ်ဖူးသလဲတဲ့၊ ခြေတစ်ဖက်ပြတ် မိန်းမတစ်ယောက် ရဖို့ဆိုတာ မလွယ်ဘူးတဲ့၊ ရှင် အခုရတာဟာ အထူး အခွင့်အရေး တစ်ရပ်ပဲတဲ့၊ ဒါကြောင့်မို့ ဒေါ်လာတစ်ဝက် ပိုပေးရတာ မနာဘူးတဲ့၊ ကဲ ခင်ဗျား ဘာပြောမလဲ၊ လာလိုက်တဲ့ ငနဲတွေ အများကြီးပဲ၊ လာသမျှ ကောင်တွေကလည်း သူနဲ့

အိပ်ရတာကိုပဲ ကံကောင်းတယ်လို့ ထင်နေကြသေးတယ်၊ တစ်ခါတုန်းကလည်း ကျုပ်နေတဲ့ အရပ်မှာ ခါးကုန်းတစ်ယောက် တွေ့ဖူးတယ်၊ သူ့ကျောကုန်းကို လက်နဲ့သပ်ရင် ကံကောင်းတယ်ဆိုပြီး လက်နဲ့ လာသပ်တဲ့လူတွေ အများကြီးပဲ၊ ကျောတစ်ခါ ကိုင်ဖို့အတွက် ပိုက်ဆံပေးရတယ် ကိုယ့်လူ၊ အလကား မရဘူး၊ အဲဒီ ခါးကုန်းဟာ အဲဒီနည်းနဲ့ပဲ ပွနေတာ၊ ခင်ဗျားကိုယ်ခင်ဗျား ပြန်ကြည့်စမ်း၊ ခင်ဗျား တစ်ကိုယ်လုံးမှာ ချွတ်ယွင်းနေတာဆိုလို့ မျက်စိတစ်ဖက်လပ်နေတာပဲ ပြောစရာရှိတယ်၊ ခင်ဗျားက ကိုယ့်အကြောင်းကိုယ် တွေးပြီး ဆွေးနေချင်တဲ့ လူကိုးဗျ၊ အမှန်က ခင်ဗျားမှာ ဘာမှ ဖြစ်တာ မဟုတ်ဘူး၊ ခင်ဗျားလည်း ဘောင်းဘီဖြူ ဝယ်ပေါ့၊ ဝတ်ပေါ့၊ အရက်သောက်ဗျာ၊ အိပ်ရာထဲမှာ ပြောချင်တာပြော၊ အော်ချင်တာ အော်ဗျာ၊ ရတာပဲ၊ ဟေ့ အယ်လ်၊ ငါ ဘာလုပ်ပေးရဦးမလဲ”

“မလိုဘူး” ဟု အယ်လ်က ပြန်ပြောသည်။ “ကျုပ် ဘယ်ယာရင် ဖြုတ်ပြီးပြီ၊ အခု ပစ်စတင် ဖြုတ်နေတယ် ”

“ခေါင်းပေါ်ကျဦးမယ်၊ သတိထား ”

“ဒါနဲ့ ခင်ဗျားတို့လူစုက ဘယ်ကိုသွားကြမှာလဲ ” ဟု မျက်စိတစ်ဖက်လပ်က မေးသည်။

“ကယ်လီဖိုးနီးယား၊ မိသားစု တစ်စုလုံး သွားမှာ၊ ဟိုမှာ အလုပ် လုပ်မယ် ”

“အဲဒီမှာ ကျုပ်လိုကောင်ကော အလုပ်ရနိုင်မယ် ထင်သလား”

“ဘာပြုလို့ မရနိုင်ရမှာလဲ၊ ခင်ဗျားက အကျိုးမှ မဟုတ်တာ”

“ကျုပ် ခင်ဗျားတို့နဲ့ လိုက်လို့မရတော့ဘူးလား ”

“ဘုရားရေ၊ အဲဒါတော့ မဖြစ်နိုင်တော့ဘူး၊ ကျုပ်တို့မှာ လူရော ပစ္စည်းရော ကားနဲ့ အပြည့် ဖြစ်နေပြီ၊ ဖင်မလှည့်သာ ခေါင်းမလှည့်သာပဲ၊ ခင်ဗျားဘာသာ ခင်ဗျား နည်းလမ်းရှာပြီး သွားပေါ့ဗျ၊ ဖြစ်တာပဲ၊ ဒီကားပျက်တွေထဲက တစ်စီးလောက် ရအောင် လုပ်ပြီး သွားပေါ့”

"အင်း ဖြစ်နိုင်တာပဲ" ဟု မျက်စိတစ်ဖက်လပ်က ရေရွတ်သည်။

ကားပျက်အောက်မှ ပစ္စည်း တစ်ခုနှင့်တစ်ခု ထိခိုက်မိသံ ထွက်လာသည်။ "ရပြီဗျို့" ဟု အယ်လ်က အော်ပြောသည်။

"ရရင် ဒီကို ယူခဲ့လေကွာ၊ ကြည့်ကြရအောင်" ဟု တွမ်က ပြန်ပြောသည်။ အယ်လ်က ပစ်စတင်၊ ကော်နက်တင်းရော့ဒ်တံနှင့် ဘယ်ယာရင် အောက်ပိုင်းကို တစ်ခုပြီးတစ်ခု လှမ်းပေးသည်။

"တွမ်က ဘယ်ယာရင် အောက်ခံ သတ္တုပြား မျက်နှာပြင်ကို လက်ဝါးနှင့်ပွတ်၍ သုတ်လိုက်ပြီး ထောင်ကြည့်သည်။ "ကြည့်ရတာတော့ အိုကေပဲကွ" ဟု ပြောသည်။ "မီးသာ ရှိရင်တော့ ကနေ့ည ညတွင်းချင်းတောင် တပ်လို့ရတယ်"

"ကျုပ်တို့မှာ ဝါယာကြိုး ကောင်းကောင်း ရှိမှဖြစ်မှာ"

"အေး၊ ဟုတ်တယ်၊ ကြေးဝါ ဝါယာကြိုးနဲ့ ပတ်ပြီး ထည့်ရင် ပိုကောင်းတယ်လို့ သူငယ်ချင်းတစ်ယောက်က ပြောဖူးတယ်"

"ကြေးဝါကြိုး ဘယ်က ရမလဲဗျာ၊ ကြေးနီက ပိုမကောင်းဘူးလား"

"ကြေးနီက သိပ်မခိုင်ဘူးကွ" တွမ်က မျက်စိတစ်ဖက်လပ်ဘက်သို့ လှည့်မေးသည်။ "ကြေးဝါ ဝါယာကြိုးများ မရှိဘူးလား"

"ကျုပ်လည်း မပြောတတ်ဘူး၊ ရှိတော့ ရှိမယ် ထင်တာပဲ၊ ဒါနဲ့ဗျာ၊ မျက်စိတစ်ဖက်ကို ဖုံးတဲ့ မျက်စိအအုပ်ကလေးတွေ ဘယ်မှာ ဝယ်လို့ရသလဲ"

"ကျုပ်လည်း မသိဘူး" ဟု တွမ်က ပြန်ဖြေသည်။ "ကဲဗျာ၊ ကျုပ်တို့ ဝါယာကြိုးတစ်ခွေလောက်တော့ ရှာကြဦးစို့"

သူတို့သည် ကားကြို ကားကြား သေတ္တာကြို သေတ္တာကြားသို့ အနှံ့ လျှောက်ဝင်ကာ လှန်လှော၍ ရှာကြသည်။ သူတို့ လိုချင်သော ဝါယာကြိုးခွေ တစ်လိပ် ရသည်။ တွမ်သည် လက်ထဲမှ ရော့ဒ်တံကို ခုနှင့် ညှပ်ထားပြီး ဝါယာကြိုးနှင့် ပစတင်ရင်းကို

ပတ်သည်။ တဲအတွင်း၌ အလင်းရောင် ပျောက်ကာ မှောင်စပြုလေပြီ။ မျက်စိတစ်ဖက်လပ်သည် လက်နိပ်ဓာတ်မီး တစ်လက် ယူလာပြီး ထိုးပြပေးလေသည်။

"ဟာ လက်နိပ်ဓာတ်မီးပါလား" ဟု တွမ်က ဝမ်းသာအားရ ရေရွတ်သည်။ "ကျုပ်တို့ကို ရောင်းလိုက်ပါလား၊ ဘယ်လောက် ပေးရမလဲ"

"သိပ်တော့ မကောင်းဘူးဗျ၊ ဘက်ထရီ အသစ်လဲရင် ဆယ့်ငါးဆင့် ထပ်ထပ်ပြီး ကုန်တယ်၊ ခင်ဗျားတို့ လိုချင်ရင်တော့ အိုဗျာ သုံးဆယ့်ငါးဆင့်ပဲ ပေးခဲ့တော့"

"ကောင်းပြီလေ၊ ကဲ ဒီလိုဆို ကော်နက်တင်း ရော့ဒ်တံနှင့် ပစ်စတင်အတွက်က ဘယ်လောက် ပေးရမလဲ"

မျက်စိတစ်ဖက်လပ်သည် သူ့နဖူးကို လက်ခုံနှင့် ပွတ်လိုက်သည်။ နဖူးပြင်တွင် ချေးကြောင်း တစ်ကြောင်းသည် အစင်းလိုက်ကြီး ထင်လာလေ၏။ "အဲ.. အင်း ဒါကျတော့ ကျုပ် မသိတာ အမှန်ပဲ၊ ဆိုင်ရှင် ရှိရင်တော့ သူ့စာရင်း စာအုပ်ကို လှန်ပြီး ပစ္စည်းအသစ်ဆို ဘယ်လောက် ပစ္စည်း အဟောင်းဆိုရင် ဘယ်လောက်လို့ တွက်ချက်ပြီး ပြောမှာပဲ၊ ကိုယ်တိုင် ဖြုတ်ယူရတာ ဆိုရင်တော့ ဈေးတစ်မျိုး ယူမှာပဲ၊ ဆိုပါတော့ စာအုပ်ထဲမှာ ရှစ်ဒေါ်လာကျရင် ငါးဒေါ်လာ တောင်းချင် တောင်းမယ်၊ ခင်ဗျားက ထပ်ဆစ်ရင် သုံးဒေါ်လာနဲ့ ရချင်ရမှာပဲ၊ အခုဟာက ခင်ဗျားနဲ့ ကျုပ်နဲ့ နှစ်ယောက်ပဲ၊ ခင်ဗျားမှာလည်း ဒီပစ္စည်းတွေ သိပ်ပြီး အရေးတကြီး လိုနေတယ်ဆိုတာ ကျုပ် သိနေတော့.."

"ဟုတ်ပြီလေ၊ ဒီနှစ်ခုအတွက် ဘယ်လောက် ပေးရမလဲ ဆိုတာသာ ပြောပါ"

"တစ်ဒေါ်လာလောက်ပဲ ပေးပေါ့ဗျာ"

"ကောင်းပြီလေ၊ ဒီ ဝက်အူလှည့်ကိုလည်း ရောင်းလိုက်ပါ၊ ခုနစ်ဆယ့်ငါးဆင့် ထပ်ပေးလိုက်မယ်" တွမ်က ပိုက်ဆံ လှမ်းပေးသည်။ "ကျေးဇူးတင်ပါတယ်ဗျာ၊ ခင်ဗျားမျက်စိကို အုပ်ကလေး တစ်ခု ဝယ်ပြီး ဖုံးထားပေတော့၊ ဟုတ်လား"

တွမ်နှင့် အယ်လ်တို့သည် ထရပ်ကားပေါ်သို့ ပြန်တက်သည်။ အပြင်ဘက်တွင် မှောင်နှင့် မည်းမည်း ဖြစ်နေလေပြီ။ အယ်လ်က စက်ကို နှိုးပြီး ရှေ့မီးလုံးများကို ဖွင့်လိုက်၏။ "သွားတော့မယ်ဗျို့" ဟု တွမ်က အော်၍ နှုတ်ဆက်သည်။ "ခင်ဗျားနဲ့

ကယ်လီဖိုးနီးယားမှာ ထပ်တွေ့ပါစေဗျာ” သူတို့ကားသည် လမ်းမကြီးပေါ်သို့ ပြန်တက်ကာ လာလမ်းအတိုင်း ပြန်ထွက်သည်။

မျက်စိတစ်ဖက်လပ်သည် တွမ်တို့ ကား ထွက်သွားရာသို့ မျက်စိတဆုံး စောင့်ကြည့်နေသည်။ ထို့နောက် သူသည် သံတဲကြီး၏ နောက်ဘက်ရှိ သူ့တဲငယ်အတွင်းသို့ ပြန်ဝင်သည်။ အထဲတွင် မှောင်မည်းလျက် ရှိ၏။ သူသည် ကြမ်းပေါ်၌ ချခင်းထားသော မွေ့ရာဆီသို့ စမ်းလျှောက်သွားသည်။ အိပ်ရာပေါ်သို့ ခြေပစ်လက်ပစ် လှဲချလိုက်သည်။ ပြီးတော့ ရှိုက်ကြီးတငင် ငိုချင်လိုက်လေသည်။ အပြင်ဘက် လမ်းမကြီးဆီမှာ တဝေါဝေါ ဖြတ်သွားနေသော ကားသံများသည် သာလျှင် သူ၏ အထီးကျန်နိုင်မှု၏ အဖော် ဖြစ်လေသည်။

“တကယ်လို့ မင်းက ကားအတွက် လိုတဲ့ ပစ္စည်းကို ဒီနေရာမှာ ရလိမ့်မယ်၊ ပြီးတော့ ဒီည ညတွင်းချင်းပဲ ပစ္စည်းတွေ တပ်ပြီးလိမ့်မယ်လို့ ပြောခဲ့ရင် မင်းကို ငါ အရူးလို့ ပြောမိမှာ သေချာတယ်ကွ ” ဟု တွမ်က ပြောသည်။

“ဒါပေ့ါဗျာ၊ အဆင်က သိပ်ပြေသွားတာကိုး ” ဟု အယ်လ်က ပြန်ပြောသည်။ “ပစ္စည်းထည့်ရင်တော့ သတိထား ထည့်မှ ဖြစ်မယ် တွမ်၊ သိပ် ကျပ်သွားရင်လည်း မီးထလောင်မှာ စိုးရတယ်၊ သိပ်ချောင်နေပြန်ရင်လည်း ပြုတ်ပျက်ထွက်ကုန်မှာ ကြောက်ရတယ် ”

“မပူပါနဲ့ကွာ၊ သေသေချာချာ တပ်ပါ့မယ် ”

အယ်လ်က အမှောင်ထဲသို့ တစ်ချက်မျှ လှမ်းကြည့်သည်။ ကားမီးရောင်သည် အမှောင်ထုကို ထိုးဖောက်ခြင်းငှာ မစွမ်းပေ။ သို့သော်လည်း ကားရှေ့တည့်တည့်မှ တောကြောင် တစ်ကောင်ပေါ်သို့ ထိုးကျသွားသော အခါတွင်မူ ကြောင်၏ မျက်လုံးအရောင် စိမ်းစိမ်းသည် မီးရောင်နှင့် ရောင်ပြန်ဟပ်ကာ လင်းခနဲ လက်ခနဲ ပေါ်လာလေသည်။ “ခင်ဗျား ဟိုလူကြီးကို ကောင်းကောင်း ချွတ်ပေးခဲ့တာပဲ ” ဟု အယ်လ်က ပြောသည်။

“သူက အချွတ် ခံချင်နေတာကိုးကွ၊ သူ့မှာ မျက်လုံးလေးတစ်ဖက် မရှိတာနဲ့ပဲ သူ့ကိုယ်သူ သနားပြီး ငိုပြနေတော့ ချွတ်ပေးရတော့တာပေ့ါ၊ အမှန်က ဒီကောင် လူပျင်းကွ၊ ညစ်ပတ်လိုက်တာလည်း အလွန်ပါပဲ ”

"ဒီမယ် တွမ်၊ ဟို ဘယ်ယာရင် လောင်တာ ကျုပ်အပြစ် မဟုတ်ပါဘူးနော်"

တွမ်က ချက်ချင်း အဖြေမပေး။ အတန်ကြာမျှ ငြိမ်နေသည်။ "တခြားလူတွေက မင်းကို အပြစ်တင်မှာ သိပ်စိုးရိမ်နေတာကိုး၊ မင်းတို့ လူငယ်တွေဟာ အများအားဖြင့် ဒီလိုချည်းပါပဲ၊ အမြဲတမ်း အပြစ်ကင်းတဲ့ လူတစ်ယောက် ဖြစ်ချင်နေတာပဲ၊ ဒါတွေဟာ အလကားပဲ အယ်လ်၊ သောက်သုံးကျတဲ့ စိတ် မဟုတ်တဘူးကွ၊ ကိုယ် လုပ်စရာရှိတာသာ လုပ်၊ ဘယ်သူ့မှ ဂရုမစိုက်နဲ့"

အယ်လ်က စကားပြန် မပေး။ ကားရှေ့ကိုသာ ကြည့်နေသည်။ ထရပ်ကားသည် ဆူညံသော အသံများကို ပြုကာ လမ်းမပေါ်တွင် ပြေးသွားလျက် ရှိ၏။ ကြောင်တစ်ကောင်သည် လမ်းဘေး တစ်နေရာမှ ခုန်ထွက်လာပြီး ဖြတ်ပြေးသည်။ အယလ်က ကြောင်ကို တိုက်မိအောင် ကားစတီယာရင်ကို ခပ်ကြမ်းကြမ်း ဆွဲလှည့်လိုက်သည်။ သို့သော်လည်း ကားဘီးများသည် ကြောင်ကို မတိုက်မိ။ ဘီးများအောက်မှ လွတ်သွားသော ကြောင်သည် လမ်းပေါ်မှ ခုန်ဆင်းကာ လမ်းတစ်ဖက်ရှိ မြက်တောအတွင်းသို့ ပြေးဝင် ပျောက်ကွယ်သွားလေ၏။

"သီသီကလေးပဲ လိုတယ်ကွာ" ဟု အယ်လ်က ရေရွတ်သည်။ "ကျုပ် ပြောချင်တာ တစ်ခုရှိတယ် တွမ်၊ ကွန်နီက နေ့ခင်း အလုပ်လုပ်ပြီး ညပိုင်း စာသင်မယ်လို့ ပြောပြောနေတာ ကြားမှာပေါ့၊ ကျုပ်ကော သင်လို့ မဖြစ်နိုင်ဘူးလားဟင်၊ ခင်ဗျားသိတယ် မဟုတ်လား၊ ရေဒီယိုပြင်တာ တယ်လီဗေးရှင်း ပြင်တာ ဒီဇယ်အင်ဂျင် ပြင်တာ အဲဒီပညာ တစ်ခုခုသင်ရင် ရတယ်မဟုတ်လား"

"ရချင်လည်း ရမှာပေါ့" ဟု တွမ်က ပြောသည်။ အရေးကြီးတာက သူတို့က ပေးမယ့် သင်ခန်းစာအတွက် ငွေဘယ်လောက် ယူမလဲဆိုတာ ပထမဆုံး သိအောင်လုပ်၊ တကယ်တမ်း ပြီးပြတ်အောင် သင်နိုင်မယ် မသင်နိုင်ဘူးဆိုတာ တွက်၊ ငါ မက်အေလက်စတား ထောင်ထဲမှာတုန်းက စာပေးစာယူစနစ်နဲ့ ပညာသင်နေတဲ့ ကောင်တွေ အများကြီး တွေ့ခဲ့ဖူးတယ်၊ တစ်ကောင်မှ ပြီးဆုံးအောင် မသင်ကြဘူး၊ ကြာတော့ စိတ်ပျက်ပြီး ဆက်မသင်တဲ့ကောင်တွေ များတယ်"

"ဘုရားရေ၊ ကျုပ်တို့ အခုထက်ထိ ဘာမှ မစားရသေးပါလား"

"မပူပါနဲ့ကွာ၊ အမေ ထည့်ပေးလိုက်တာ အများကြီးပါ၊ တရားဟောဆရာ တစ်ယောက်တည်း ကုန်အောင် စားမပစ်နိုင်ပါဘူး၊ ကျန်ဦးမှာပါ၊ ငါတို့ ကယ်လီဖိုးနီးယား ရောက်ဖို့ နောက်ထပ် ဘယ်လောက်များ ကြာဦးမလဲ မပြောတတ်ဘူးကွာ"

"အဲဒါတော့ ကျုပ်လည်း မပြောတတ်ဘူး၊ အဲဒါကို မေ့ထားလိုက်တာပဲ ကောင်းပါတယ်ဗျာ"

နှစ်ဦးစလုံး ငြိမ်ဆိတ်သွားသည်။ အမှောင်ထုသည် နက်ရှိုင်းလာသည်။ ကြယ်များသည် တလက်လက်။

ထရပ်ကား စက်အရှိန်သတ်၍ ရပ်လိုက်သည်နှင့် တစ်ပြိုင်နက် ကက်ဆီသည် ဒေ့ါဂျ်ကားနောက်ခန်းထဲမှ ဆင်းလာပြီး ဆီးကြိုသည်။ "မင်းတို့နှစ်ယောက် ဒီလောက် မြန်မြန်ကြီး ပြန်ရောက်လာလိမ့်မယ်လို့ ငါ လုံးဝ မထင်ဘူး" ဟု ပြောသည်။

တွမ်သည် ကြမ်းပေါ်၌ သူ ဖြုတ်၍ ချထားခဲ့သော အပိုပစ္စည်းများကို တစ်ခုချင်းစီ ပြန်၍ စုသည်။ "ကျုပ်တို့ ကံကောင်းတယ် ကက်ဆီ၊ သိလား" ဟု ပြောသည်။ "လက်နိုပ်ဓာတ်မီး တစ်လက်လည်း ရခဲ့တယ်၊ အခုပဲ ပစ္စည်းကို ထည့်တော့မယ်"

"ညစာစားဖို့ မင်းတို့ မေ့နေပြီ" ဟု ကက်ဆီက သတိပေးသည်။

"ကျုပ် အလုပ်ပြီးမှပဲ စားတော့မယ်၊ အယ်လ်ရေ ကားကို လမ်းဘေး နည်းနည်းချကွာ၊ ပြီးရင် ငါ့ကို မီးလာပြပေးလှည့်" တွမ်သည် ဒေ့ါဂျ်ကားဆီသို့ သွား၍ ကားအောက်သို့ ပက်လက်လှန်ပြီး ဝင်သည်။ အယ်လ်က နောက်မှ အလျားမှောက်၍ ဝင်လိုက်သွားပြီး လက်နိပ်ဓာတ်မီးနဲ့ ထိုးပြပေးသည်။ "ငါ့မျက်လုံးတွေကို မထိုးနဲ့လကွာ၊ ဒီဘက်ကို ထိုးပြ၊ ဒီဘက်ကို" တွမ်သည် ပစ်စတင်ကို ဆလင်ဒါ အတွင်းသို့ ထည့်သည်။ ပစ်စတင်တွင် ပတ်ထားသည့် ကြေးဝါ ဝါယာကြိုးသည် ဆလင်ဒါနံရံနှင့် အနည်းငယ်မျှသာ ငြိသည်။ "ကံကောင်းတယ် ဟေ့၊ အခု တို့ ထည့်လိုက်တဲ့ကောင်ဟာ ကောင်းကောင်း အလုပ်လုပ်လိမ့်မယ်"

"ဝါယာကြိုးစနဲ့ ကွင်းတွေ ငြိမှာ စိုးရတယ်" ဟု အယ်လ်က ပြောသည်။

"မင်း စိုးရိမ်သလို ငြိမှာ ကြောက်လို့ ငါ သူ့ကို ပြားနေအောင် ထုပစ်တာပေါ့ကွာ၊ စိတ်မပူပါနဲ့၊ ဒီကောင် မကစားပါဘူး၊ ငြိမ်နေမှာပါ"

"နံရံတွေကိုများ သွားထစ်နေမလား"

တွမ်က ရယ်လေသည်။ "မထစ်ပါဘူးကွာ၊ နံရံတွေက သူ့ကို ထိန်းသွားမှာပါ၊ ဆီကိုလည်း ပုံမှန် သောက်သွားမှာပါ၊ စိတ်ချပါ" သူသည် ကော်နက်တင်းရှော့ဒ်တံကို ရှပ်အပေါ်မှနေ၍ ထည့်လိုက်ပြီး အောက်ပိုင်းကို ပြန်စစ်ကြည့်သည်။ "အခံ သတ္တုပြား နည်းနည်း လိုလိမ့်ဦးမယ်" ဟု ရေရွတ်သည်။ တစ်ဆက်တည်းပင် "ကက်ဆီ" ဟု လှမ်းခေါ်သည်။

"လာပြီ ဟေ့"

"ကျုပ် အခု ဘယ်ယာရင် ထည့်မယ်၊ ကျုပ်က လှည့်လို့ ပြောတဲ့ အခါမှာ ခင်ဗျားက ဝင်ရိုးကို လှည့်ပေးနော်" သူသည် ဝက်အူများကို ကျပ်နေသည်။

"ကဲ လှည့်တော့၊ ဖြည်းဖြည်းလှည့်" သူသည် ရှပ်လည်သွားခိုက်တွင် ဘယ်ယာရင်ကို ထည့်ပေးသည်။ "အခံပြားတွေ များလွန်းနေတယ်" ဟု ရေရွတ်သည်။ "မလှည့်နဲ့၊ ရပ်ထားဦး ကက်ဆီ" သူသည် ဝက်အူများကို ပြန်လှည့်ပြီး ဝင်ရိုး တစ်ဖက်တစ်ချက်မှ အခံပြား ခပ်ပါးပါး တစ်ချက်စီ ထုတ်ယူလိုက်သည်။ ထို့နောက် ဝက်အူများကို ပြန်ကျပ်သည်။ "ကဲ ပြန်လှည့်တော့ ကက်ဆီ" သူသည် ရှော့ဒ်တံကို ကစားကြည့်သည်။ "အခုထက်ထိ နည်းနည်းလေး ချောင်နေတုန်းပဲ" ဟု ပြောသည်။ "အခံပြား နောက်ထပ် ထုတ်ပြန်ရင်လည်း သိပ်ကျပ်သွားမှာ စိုးရတယ်၊ မထူးပါဘူးကွာ၊ ထပ်ထုတ်ကြည့်လိုက်မယ်" သူသည် ဝက်အူများကို ပြန်လျှော့ကာ အခံပြား နှစ်ချပ်ကို ထပ်ထုတ်ပြီး ဝက်အူများကို ပြန်တင်းပေးသည်။ "ကဲ လှည့်ဦးဗျာ ကက်ဆီ"

"ကြည့်ရတာတော့ဖြင့် ဟန်ပုံပဲ" ဟု အယ်လ်က ဝင်ပြောသည်။

"လှည့်ရတာ သိပ်အားစိုက်ရသလား ကက်ဆီ" ဟု တွမ်က အော်မေးသည်။

"မစိုက်ရဘူးကွ၊ အနေတော်ပဲ"

"ကျုပ်တို့ ရလာတဲ့ ခွရှင်ကတော့ သိပ်ကို အသုံးဝင်တာပဲ၊ ဟို ဆိုင်ရှင်တော့ သူ့ပစ္စည်း ရှာမတွေ့ရင် ဘယ်လောက်များ ဒေါပွလိုက်မလဲ" ဟု အယ်လ်က ပြောသည်။

"ဒါကတော့ သူ့အပြစ်ပဲကွ" ဟု တွမ်က ပြန်ပြောသည်။ "ဘာပဲဖြစ်ဖြစ် ငါတို့ ခိုးလာတာမှ မဟုတ်တာ၊ ကဲ ဒီမှာ ကက်ဆီ ကျုပ်နဲ့ အယ်လ်က ပောဒါကို တပ်မယ်၊ ခင်ဗျားက မီးထိုးပေး"

ကက်ဆီက ဒူးထောက် ထိုင်ချလိုက်ပြီး လက်နှိပ်ဓာတ်မီးကို လှမ်းယူသည်။ ဂဝ်စကက်ကို နေသားတကျ ထည့်နေသော လက်များပေါ် လက်နှိပ်ဓာတ်မီးဖြင့် ထိုးပြသည်။

"ကဲ အယ်လ်၊ ကားပေါ်တက် စက်နှိုးကြည့်စမ်း" ဟု တွမ်က ခိုင်းသည်။ အယ်လ်သည် ကားပေါ်တက်၍ စက်ကို နှိုးပေးသည်။ ကားစက်အတွင်းမှ ကျယ်လောင်သော အသံတစ်ချက် ထွက်လာပြီး စက်နိုးလာလေ၏။ ပြာလဲ့လဲ့ မီးခိုးငွေ့များသည် အိပ်ဇောပိုက်မှ ထောင်းခနဲ ထွက်လာလေသည်။ "စက်ရှိန်ကို လျှော့လိုက် တင်းလိုက် လုပ်ကြည့်စမ်း" ဟု တွမ်က အော်ပြောပြီး စက် မှန် မမှန် ဂရုတစိုက် နားထောင်ကြည့်သည်။ "စက်ကို လွှတ်ပေးလိုက်စမ်း" ဟု ထပ်၍ အော်ပြန်သည်။ ပြီးတော့ ဂရုတစိုက် ပြန်၍ နားထောင်ပြန်သည်။ "တော်ပြီ အယ်လ်၊ စက်သတ်ထားလိုက်တော့၊ ငါတို့ အလုပ်တော့ ပြီးသွားပြီ၊ ကဲ ညစာ စားမယ်"

"ဒီလိုဆိုတော့လည်း ခင်ဗျားက တကယ်တော်တဲ့ စက်ပြင်ဆရာတစ်ယောက်ပဲ" ဟု အယ်လ်က ချီးမွမ်းသည်။

"ဒါပေ့ါကွာ၊ တော်ရပေမပေ့ါ၊ ဟိုမှာ နေတုန်းက ကားဝပ်ရှော့မှာ တစ်နှစ်တိတိ လုပ်ခဲ့ရတာပဲ၊ ဒီလောက်တော့ ဖြစ်ရမှာပေ့ါ၊ ဟုတ်ဖူးလား၊ တို့ သူ့ကို မောင်းရင် မိုင်နှစ်ရာ ခရီးလောက်ကိုတော့ ခပ်ဖြည်းဖြည်း မောင်းမှဖြစ်မယ်၊ သူ့ကို အံဝင်ခွင်ကျ အလုပ်လုပ်တတ်လာခွင့်တော့ ပေးထားဦးမှ"

သူတို့သည် အမဲဆီနှင့် အင်ဂျင်ဝိုင်များ ပေကျံနေသော လက်များကို ဓာတ်ဆီနှင့် ဆေးကြောသည်။ ထို့နောက် အနီးရှိ မြက်ပင် ချုံပင်များနှင့် ဆွဲသုတ်သည်။ ပြီးတော့မှ နောက်ဆုံးအနေဖြင့် ဘောင်းဘီများနှင့် ပွတ်တိုက်ပစ်ကြလေသည်။ နှစ်ယောက်သား

ကက်ဆီ ချပေးသော ဝက်သားပြုတ်ကို အငမ်းမရ စားကြသည်။ ပုလင်းထဲမှ ရေကို မော့၍ မျှောချကြလေသည်။

"ကဲ ကျုပ်တို့ အခု ဘာလုပ်ကြမလဲ၊ စခန်းချတဲ့ နေရာကို လိုက်သွားကြမလား" ဟု အယ်လ်က မေးသည်။

"ငါလည်း မပြောတတ်ဘူး" ဟု တွမ်က ဖြေသည်။ "ဟိုလူတွေက ငါတို့အတွက် အရိပ်ခိုခ ဒေါ်လာတစ်ဝက် ထပ်တောင်းချင် တောင်းနေမှာ၊ ဘာပဲဖြစ်ဖြစ်လေ တို့မိသားစုကိုတော့ ကားပြင်ပြီးပြီဆိုတာ မင်း သွားပြောလိုက်ဦး၊ တကယ်လို့ တို့အတွက် ပိုက်ဆံ ထပ်ပေးနေရဦးမယ် ဆိုရင်တော့ ငါတို့ မနားတော့ဘူး၊ ဆက်သွားမယ်၊ အမေ လုပ်လိုက်လို့ ကနေ့ မွန်းလွဲပိုင်း ငါတို့အားလုံး နားလိုက်ရတာ၊ ဒီအတွက်တော့ ငါ ဝမ်းသာတယ်၊ မင်း လက်နှိပ်ဓာတ်မီးနဲ့ လျှောက်ထိုးကြည့်ဦး၊ ပစ္စည်းတွေ ကျန်ခဲ့ဦးမယ်၊ ဟို ခွရှင်ကို မေ့မထားခဲ့နဲ့ဦး၊ သူ့ကို အသုံးလိုချင် လိုဦးမှာ"

အယ်လ်က လက်နှိပ်ဓာတ်မီးဖြင့် အနီးအနား တစ်ဝိုက်တွင် လျှောက်ထိုးကြည့်သည်။ "ဘာမှ မကျန်ပါဘူး"

"ကဲ.. ငါက ဒီကားကို မောင်းမယ်၊ မင်းက ထရပ်ကားကိုပဲ မောင်း" ဟု တွမ်က စက်ကို နှိုးသည်။ တရားဟောဆရာက ကားထဲ ဝင်ထိုင်သည်။ တွမ်က ကားကို ဖြည်းဖြည်းသာသာ မောင်းသည်။ အင်ဂျင်ကို အနေးဆုံးနှုန်းတွင် ချထားသည်။ အယ်လ်က နောက်မှ လိုက်သည်။ ကားသည် ရေမြောင်းကို ဖြတ်၍ တစ်ဖက်သို့ အရှိန်ဖြင့် ထိုးတက်သည်။ "တွေ့လား ဒီဒေါ့ဂ်ျကားတွေဟာ လိုးဂီယာသာ ထိုးထားရင် အိမ်တစ်လုံးတောင် အသာကလေး ဆွဲသွားနိုင်တယ်" ဟု တွမ်က လှမ်းပြောသည်။

လမ်းမကြီးပေါ်ဝယ် ဒေါ့ဂ်ျကားသည် နေးနေးမှန်မှန် ပြေးသွားလျက် ရှိ၏။ ၁၂ ဗို့အား ရှေ့မီး နှစ်လုံး၏ အဝါရောင် ဖျော့ဖျော့ အလင်းရောင်သည် လမ်းပေါ်သို့ ဖြာဆင်းလျက် ရှိလေသည်။

"ခပ်ငယ်ငယ်ကတည်းက မော်တော်ကားနဲ့ ဖက်ပြီး ကြီးလာဖို့ လိုတယ်ဗျ" ဟု တွမ်က ပြောသည်။ "ဒီပညာက သိရုံနဲ့ မရဘူး၊ သိရုံထက် ပိုမှ တတ်တဲ့ ပညာမျိုး၊

အခုခေတ်မှာတော့ ချာတိတ်တွေဟာ မော်တော်ကား တစ်စီးကို သိပ်အချိန်ကုန်ခံပြီး စဉ်းစား မနေဘဲနဲ့ ဖြုတ်နိုင်နေကြပြီ ”

တောယုန်ကြီး တစ်ကောင်သည် ကားမီးရောင် အတွင်းသို့ ဝင်လာသည်။ ကားရှေ့မှနေ၍ ခုန်ဆွ ခုန်ဆွနှင့် ပြေးသည်။ သူ၏ ဖားလျား ကျနေသော နားရွက်နှစ်ဖက်သည် သူ ခုန်လိုက်သည့်အခါတိုင်း ပုံမကျ ပန်းမကျ လှုပ်ရှားလျက် ရှိကြသည်။ သူသည် မကြာခဏပင် လမ်းဘေးသို့ ပြေးဆင်းသွားရန် အားထုတ်သည်။ သို့သော်လည်း သူ့ဘေးတစ်ဖက်တစ်ချက်ရှိ အမှောင်ထု တံတိုင်းများက သူ့အား ကားမီးရောင်ထဲသို့ ပြန်တွန်းပို့သည်။ သူ့ရှေ့တည့်တည့်ရှိ ခပ်လှမ်းလှမ်းမှာ အားကောင်း လှသော ကားမီးရောင်များသည် ဘွားခနဲ ပေါ်လာပြီး သူ့အပေါ်သို့ ကျသည်။ ယုန်သည် တန့်ခနဲ ဖြစ်သွားပြီး ရှေ့မှ လာနေသော မီးရောင်များထက် အားနည်းသော ဒေါ့ဂျ်ကား မီးရောင်အောက်သို့ ဝင်ရန် ကြိုးစားသည်။ ယုန်ကို တက်၍ ကြိတ်လိုက်မိသော အရှိန်ဖြင့် မော်တော်ကားသည် တစ်ချက်မျှ တုန်ခါသွားသည်။ တစ်ဖက်မှ အရှိန်ပြင်းစွာနှင့် လာနေသော ကားသည် ဒေါ့ဂျ်ကားဘေးမှ ဝေါခနဲ ဖြတ်သွားလေသည်။

“ဒီအကောင် စိစိညက်ညက် ကြေသွားမှာ သေချာတယ်ကွ ” ဟု ကက်ဆီက ရေရွတ်သည်။

“တချို့ လူတွေကျတော့ သူတို့ကို ကားနဲ့ တိုက်ရတာ သဘောကျကြတယ်၊ ကျုပ်ကတော့ မတော်တဆ တိုက်မိတာတောင် စိတ်မကောင်း ဖြစ်မိတယ်၊ ဒါနဲ့ ကက်ဆီ ကျုပ်တို့ ကားကတော့ အခုပုံအတိုင်းဆိုရင် အိုကေပဲဗျ၊ ထည့်ထားတဲ့ ပစ္စည်းတွေကလည်း သူ့နေရာနဲ့သူ အံဝင်ခွင်ကျ ဖြစ်သွားပုံ ပေါ်တယ်၊ မီးခိုးထွက်လည်း မများဘူး၊ အနေတော်ပဲ ” ဟု တွမ်က ပြောသည်။

“မင်းတို့နှစ်ယောက် အင်မတန်မှ မွန်မြတ်တဲ့ အလုပ်တစ်ခုကို လုပ်ခဲ့ကြတာပါကွ ” ဟု ကက်ဆီက မှတ်ချက်ချလေသည်။

စခန်းအဖြစ် ဖွင့်လှစ်ထားရာ ဤမြေပေါ်၌ သစ်သားအိမ်ငယ် တစ်လုံးသည်သာလျှင် အကြီးဆုံးနှင့် အခန့်ညားဆုံးသော အဆောက်အအုံ တစ်ခု ဖြစ်သည်။ အိမ် ဆင်ဝင်ရှေ့တွင် ဓာတ်ဆီပန့်တစ်ခု ရှိ၏။ ထိုဓာတ်ဆီပန့်၏ ထိပ်မှ ဆုံလည် ဓာတ်ငွေ့မီးတိုင်သည် လေရဟတ်တစ်ခုသဖွယ် ချာလပတ်လည်ကာ ပတ်ဝန်းကျင်ကို

အလင်းရောင် ပက်ဖျန်းပေးလျက် ရှိလေသည်။ အိမ်အနီးတွင် ရွက်ထည်တဲ ဒါဇင်ဝက် ရှိသည်။ ထိုတဲများ ဘေးတွင်မူ မော်တော်ကားများ ဆိုက်ထားသည ်။ ညစာအတွက် ချက်ရေးပြုတ်ရေး ကိစ္စများ ပြီးပြတ်သွားပြီ ဖြစ်သော်လည်း ကျောက်မီးသွေး မီးဖိုများကတော့ မငြိမ်းသေး။ မြေပြင်ပေါ်တွင် ဟိုနားတစ်ပုံ သည်နားတစ်ပုံ တရဲရဲ တောက်လောင်နေကြဆဲ။ ဆင်ဝင်ဝ အနီးတွင် ယောကျ်ားတစ်စု။ အချို့က ဆင်ဝင်ရှေ့ လှေကားခုံပေါ်၌ ထိုင်လျက်။ တချို့က မြေပေါ်တွင် မတ်တတ်ရပ်ကာ ဆင်ဝင် ကြမ်းပြင်ကို တံတောင်များနှင့် ထောက်၍ မှီလျက်။ ဓာတ်ဆီပန့်ပေါ်မှ သူတို့၏ ကြမ်းတမ်း ခက်ထရော်လွန်းလှသော မျက်နှာများကို ပြက်ပြက်ထင်ထင် မြင်တွေ့နေရလေသည်။ မီးရောင်ကြောင့် ဖြစ်ပေါ်လာသော သူတို့ ဦးထုပ်များ၏ မည်းမည်း အရိပ်များသည် သူတို့၏ နဖူးများနှင့် မျက်လုံးများထက်သို့ ကျဆင်းလျက် ရှိကြ၏။ မျက်နှာပေါက် ခပ်ဆိုးဆိုး ပိန်ခြောက်ခြောက် နိုင်လွန်းလှသော ဆိုင်ရှင်သည် ဆင်ဝင်နံရံကို ကပ်မှီ၍ ချထားသော ကုလားထိုင်တစ်လုံးတွင် ထိုင်လျက် ရှိသည်။ သူသည် နံရံကို မှီထားသည်။ လက်ချောင်းများကတော့ အငြိမ်မနေ။ သူ့ဒူးခေါင်းကို ဆိုင်းတီးလျက် ရှိလေသည်။ အိမ်ထဲတွင် ရေနံဆီ မှန်အိမ်တစ်လုံးသည် တဖျပ်ဖျပ် တောက်လျက် ရှိလေသည်။ သို့သော်လည်း မှန်အိမ်၏ အလင်းရောင်သည် အပြင်မှ ကျလာနေသည့် ဓာတ်မီးတိုင်၏ အလင်းရောင်ကို အန်တုခြင်းငှာ မစွမ်း။

တွမ်သည် သူ့ကားကို လမ်းဘေးသို့ ချပြီး ရပ်ထားလိုက်သည်။ အယ်လ်ကမူ သူ့ထရပ်ကားကို စခန်းဝင်းထဲအထိ တောက်လျှောက် မောင်းယူသွားသည်။ "ကျုပ်တို့ ကားကိုတော့ အထဲအထိယူဖို့ မလိုပါဘူး" ဟု တွမ်က ပြောသည်။ သူသည် ကားပေါ်မှ ဆင်းကာ ဂိတ်ပေါက်မှ ဝင်လာခဲ့သည်။ ဆင်ဝင်အနီးမှ လူစုစုရှိရာသို့ လျှောက်သွားသည်။

ပိုင်ရှင်သည် ခြေတင်ခုံပေါ်၌ လှမ်းတင်ထားသော ခြေထောက်များကို ကြမ်းပေါ်သို့ ချလိုက်ပြီး ရှေ့သို့ ကုန်းကြည့်သည်။ "ဘာလဲ မင်းတို့ လူစုကော ဒီမှာ တည်းမလို့လား"

"မတည်းဘူး" ဟု တွမ်က ပြန်ဖြေသည်။ "ကျုပ်တို့ လူတွေ ဒီထဲမှာ ရှိနေတယ်၊ ဟော အဖေ"

လှေကားခုံ၏ အောက်ဆုံး အထစ်တွင် ထိုင်နေသော အဖေဂျုတ်က "အနည်းဆုံး တစ်ပတ်လောက်တော့ ကြာမှာပဲလို့ ငါက ထင်ထားတာ၊ အခု ဘယ်လိုလဲ၊ ကားပြင်ပြီးသွားပြီလား" ဟု မေးသည်။

"ကျုပ်တို့ သိပ်ကံကောင်းတယ်ဗျ၊ ပစ္စည်းကို မိုးမချုပ်ခင် ဝယ်လို့ရတယ်၊ မနက်ကို အစောကြီး ထွက်လို့ရပြီ"

"ဒါဆို ကောင်းတာပေါ့ကွာ၊ မင်းအမေက သိပ်စိတ်ပူနေတာ၊ မင်းအဘွားလည်း နေမကောင်းဘူး"

"သိတယ်၊ အယ်လ်က ကျုပ်ကို ပြောတယ်၊ အခုကော မသက်သာဘူးလား"

"အခုတော့ အိပ်နေတာပဲ"

ပိုင်ရှင်က လှမ်းပြောပြန်သည်။ မင်းတို့ ဒီမှာ တည်းမှာဆိုရင်တော့ အခပေးရမယ်၊ ဒါပေမဲ့ ရေရမယ်၊ ထင်းရမယ်၊ မင်းကို နှောင့်ယှက်မယ့်လူလည်း မရှိဘူး"

"ကျုပ်တို့ လမ်းဘေးက မြောင်းထဲမှာ အိပ်လို့ရတယ်၊ သောက်ဆံ တစ်ပြားမှ မပေးရဘူး" ဟု တွမ်က ဒေါသဖြင့် ပြန်ပြောသည်။

ပိုင်ရှင်သည် သူ့လက်ချောင်းများဖြင့် ဒူးကို ပုတ်နေသည်။ "ပုလိပ် အရာရှိတွေ ညဆိုရင် လာစစ်တတ်တယ် ကိုယ့်လူ၊ မိလိုက်ရင်တော့ မလွယ်ဘူး၊ ငါ့လူ မောကြောဆိုက်သွားမယ်၊ ဒီပြည်နယ်ထဲမှာ အပြင်ဘက် လမ်းပေါ် မအိပ်ရ ဆိုတဲ့ ဥပဒေ ရှိတယ်၊ အိမ်ခြေယာမဲ့ ဖြစ်ပြီး လေလွင့်နေတဲ့ လူတွေကို အရေးယူနိုင်တဲ့ ဥပဒေပေါ့၊ သိရဲ့လား"

"တကယ်လို့ ကျုပ်က ခင်ဗျားကို ဒေါ်လာတစ်ဝက် ပေးရင်တော့ ကျုပ်ဟာ လေလွင့်သူတစ်ယောက် မဟုတ်ဘူးပေါ့ ဟုတ်လား"

"သိပ်မှန်တာပေါ့"

တွမ်၏ မျက်လုံးများသည် ဒေါသအရှိန်ဖြင့် အရောင်တဖျပ်ဖျပ် ထွက်လာသည်။ "ခင်ဗျား ပြောတဲ့ ပုလိပ်အရာရှိက ခင်ဗျားနဲ့ သမီးယောက်ဖများ တော်နေသလား"

ပိုင်ရှင် ကိုယ်ကို ရှေ့သို့ ကိုင်းလိုက်သည်။ "မတော်ပါဘူး၊ ပြီးတော့ မင်းတို့လို တောလေကြမ်းပိုး သူတောင်းစားတွေက စော်ကားမော်ကား ပြောတာကို ငါတို့ ပြည်နယ်သားတွေက ခံရမယ့် အချိန်လည်း မရောက်သေးပါဘူး"

"ကျုပ်တို့ အိတ်ထဲက ငွေကို နှိုက်ယူနေတဲ့ ခင်ဗျားကျတော့ ဘယ်အရာရှိကမှ ဒုက္ခမပေးဘဲကိုး၊ မသိလို့ မေးရဦးမယ်၊ ကျုပ်တို့ လူစု ဘယ်တုန်းက သူတောင်းစား ဖြစ်သွားကြပါလိမ့်၊ ကျုပ်တို့ ခင်ဗျားဆီကလည်း ဘာမှ မတောင်းခဲ့ပါဘူး၊ မြေကြီးပေါ်မှာ လှဲပြီး ခဏတစ်ဖြုတ် နားဖို့အတွက် ခင်ဗျားဆီက ပိုက်ဆံလည်း မတောင်းခဲ့သေးပါဘူး"

ဆင်ဝင်အောက်ရှိ လူအားလုံး ဆိတ်ငြိမ်သွားကြသည်။ မျက်နှာထားများမှာလည်း တည်သွားကြသည်။ ဦးထုပ် အရိပ်များအောက်၌ ရောက်နေကြသည့် သူတို့ မျက်လုံးများသည် တိတ်တဆိတ် ကျိတ်၍ လှုပ်ရှားကြသည်။ ပိုင်ရှင်၏ မျက်နှာကို မသိမသာ ခိုးကြည့်ပြီး အကဲခတ်ကြသည်။

"ဟော့ကောင် တွမ်၊ တော်ပြီ၊ လာ သွားကြမယ်" ဟု အဖေဂျုတ်က ခေါ်သည်။

"သွားတာပေါ့၊ ကျုပ်ကလည်း သွားမှာပါ"

ဆင်ဝင် အတက် လှေကားခုံပေါ်၌ ထိုင်နေကြသော သူများနှင့် ဆင်ဝင်နံရံကို လက်ထောက်၍ ရပ်နေကြသူများသည် တုတ်တုတ်မျှပင် မလှုပ်။ ဓာတ်ငွေ့မီးတိုင်၏ အလင်းရောင်အောက်ဝယ် သူတို့ မျက်လုံးများသည် တလက်လက် တောက်ပလျက် ရှိကြသည်။ သူတို့ မျက်နှာများသည် တင်းမာလျက် ရှိကြသည်။ သူတို့ အကြည့်များသည် တွမ်ဆီသို့ ရောက်သွားလိုက်၊ ပိုင်ရှင်ထံ ရောက်လာလိုက်။ ပိုးကောင် တစ်ကောင်သည် ဓာတ်ငွေ့မီးတိုင်ကို အရှိန်ဖြင့် ဝင်ရိုက်ကာ မြေပေါ် အမှောင်ထု အတွင်းသို့ လွင့်ကျ သွားသည်။

တဲတစ်လုံး အတွင်းမှ ကလေးငယ် တစ်ယောက်၏ ငိုသံနှင့် မိန်းမတစ်ယောက်၏ သားချော့ တေးသံ။ "အကာလ ညအခါ၊ တပည့်တော်မရဲ့ သားလေးအပေါ်မှာ၊ ယေရှုသခင်၊ ချစ်ခင်စောင်မတော်မူပါ၊ အိပ်ပါ လူကလေး အိပ်ပါ"

ခတ်ငွေ့မီးတိုင်မှ အလင်းရောင်သည် ဆင်ဝင်ထက်သို့ တဖျပ်ဖျပ်ကျလာလျက် ရှိ၏။ ပိုင်ရှင်သည် ဟာနေသော ရှပ်အင်္ကျီအတွင်းသို့ လက်နှိုက်ကာ သူ့ရင်ဘတ်ကို ကုတ်သည်။ ဖြူဖွေး ထူထဲနေသော သူ့ရင်ဘတ်မွေးများကို လှစ်၍ ပြသကဲ့သို့ ဖြစ်နေသည်။ သူသည် နောက်ဆက်တွဲ ဖြစ်ပေါ်လာမည့် အရေးအခင်းကို စောင့်ကြည့်လျက် ရှိသည်။ သူ့ဘေးမှ လူများကို မသိမသာ အကဲခတ်သည်။ အားလုံး လှုပ်ရှားခြင်း မရှိ။

တွမ်သည် အချိန်အတော်ကြာမျှ ငြိမ်သက်စွာ ရပ်နေသည်။ သူ၏ နက်မှောင်သော မျက်လုံးအစုံသည် ပိုင်ရှင်၏ မျက်နှာကို စူးစူးစိုက်စိုက် ကြည့်သည်။ "ကျုပ် ပြဿနာ မလုပ်ချင်ဘူး" ဟု ညင်သာသော လေသံဖြင့် ပြောသည်။ သူတောင်းစားလို့ အခေါ်ခံရတာဟာ သိပ်ကို အခံရခက်စရာ ကောင်းတယ်၊ ကျုပ် ဘယ်သူ့ကိုမှ မကြောက်ပါဘူး၊ ခင်ဗျားကိုရော ခင်ဗျားရဲ့လက်ထောက် ပုလိပ်အရာရှိကိုပါ ကျုပ် လက်နှစ်ဖက်နဲ့ ရင်ဆိုင်ဖို့ အသင့်ပဲ၊ ဒါပေမဲ့ ဒီလို ဖြစ်ရရင် မကောင်းဘူး မဟုတ်လား"

လူအားလုံး လှုပ်လှုပ်ရှားရှား ပြန်ဖြစ်လာကြသည်။ နေရာပြင်ကြသည်။ သူတို့၏ တောက်ပနေသော မျက်လုံးများသည် ပိုင်ရှင်၏ ပါးစပ်ကို လှမ်းကြည့်သည်။ ပိုင်ရှင်၏ နှုတ်ခမ်းများ အလှုပ်ကို စောင့်ကြည့်နေကြသည်။ ပိုင်ရှင်သည် သူ့ဘက်က ပိုင်ပြီဟု တွက်သည်။ သူ အနိုင်ရပြီ ဟူသော ခံစားမှုလည်း ဝင်လာသည်။ သို့သော်လည်း အပေါ်စီးရပြီဟု တွက်မရသေးသည့် အခြေအနေကို သူ နားလည်သည်။ "မင်းမှာ ဒေါ်လာတစ်ဝက်လောက်မှ မရှိတော့လို့လား" ဟု မေးသည်။

"ရှိတယ်၊ မရှိဘဲ ဘယ်နေမလဲ၊ ဒါပေမဲ့ ဒီငွေက ကျုပ် အသုံးလိုဦးမယ့်ငွေ ဖြစ်နေတယ်၊ အိပ်ရုံလောက် အတွက်တော့ ဒီငွေ အကုန်မခံနိုင်ဘူး"

"လူအားလုံးဟာ ကိုယ့်စားရေး သောက်ရေးအတွက် အလုပ် လုပ်နေကြတာ မဟုတ်လား"

"ဟုတ်တာပေါ့" ဟု တွမ်က ထောက်ခံသည်။ "ဒါပေမဲ့ ကျုပ်ကတော့ သူတစ်ပါးဆီက ငွေကြေးကို မတော် တရားတဲ့ နည်းနဲ့ မယူဘဲ ကိုယ့် စားရေးသောက်ရေး ပြေလည်အောင် လုပ်တဲ့နည်းမျိုးပဲ ဖြစ်စေချင်တယ်"

ပိုင်ရှင်သည် မငြိမ်မသက် ဖြစ်လာပြန်သည်။ အဖေဂျုတ်က "ကျုပ်တို့ မနက်ကို အစောကြီး ထွက်ကြမှာပါ။ အဲဒီတော့ မစွတာ ကျုပ်တို့ ပိုက်ဆံ ပေးပြီးသားပဲ၊ သူကလည်း ကျုပ်တို့ မိသားစုပါ၊ သူ ဒီမှာနေလို့ မရဘူးလား၊ ကျုပ်တို့အတွက် ပိုက်ဆံပေးပြီးပြီပဲဟာ"

"ကားတစ်စီးကို ဒေါ်လာဝက်နှုန်း ယူတာဗျ" ဟု ပိုင်ရှင်က ပြောသည်။

"ဒီလိုဆိုလည်း သူ့ကားကို ဒီဝင်းထဲ ယူမှမလာတာ၊ ကားကို လမ်းပေါ်မှာ ရပ်ထားတာပဲ"

"သူလာတာ ကားနဲ့ပဲဗျ" ဟု ပိုင်ရှင်က ဆိုသည်။ "ခင်ဗျား ပြောသလိုဆိုရင် လူတိုင်းဟာ သူတို့ကားကို အပြင်မှာ ရပ်ထားခဲ့ပြီး ကျုပ် မြေပေါ်မှာ ပိုက်ဆံ တစ်ပြားမှ မပေးဘဲ လာအိပ်နေကြမှာပေါ့ဗျ"

"ကိစ္စမရှိဘူးလေ၊ ကျုပ်တို့ ဒီမှာ မနားတော့ဘူး၊ ဆက်သွားမယ်၊ အဖေတို့နဲ့ မနက်ကျမှ လမ်းမှာ ဆုံကြတာပေါ့၊ ကျုပ် အဖေတို့ကို စောင့်ရင်း ဖြည်းဖြည်းပဲ မောင်းသွားမယ်၊ အယ်လ်က အဖေတို့နဲ့ နေခဲ့မှာပေါ့၊ ဦးလေးဂျွန်ကိုတော့ ကျုပ်တို့ ကားနဲ့ ထည့်လိုက်ပေါ့" တွမ်က ပိုင်ရှင်၏ မျက်ခွက်ကို ကြည့်သည်။ "ဒါဆိုရင် ခင်ဗျား ကျေနပ်ရောပေါ့"

ပိုင်ရှင်က ခြွင်းချက်တစ်ခုဖြင့် လက်ခံသည်။ "ပိုက်ဆံပေးတုန်းကရှိတဲ့ လူ အရေအတွက်ထက် မပိုဘူးဆိုရင် ငါ လက်ခံတယ်"

တွမ်က သူ့ဆေးအိတ်ကို ထုတ်၍ စီးကရက်တစ်လိပ် လိပ်နေရာမှ "ကျုပ်တို့ မကြာခင် သွားမှာပါ" ဟု လှမ်းပြောသည်

အဖေဂျုတ်က ဘေးပတ်ပတ်လည်မှ လူများကို တစ်ချက် ဝေ့ကြည့်သည်။ "လူတွေကို အခုလို ဆင်းရဲဒုက္ခ ရောက်အောင် မြေပေါ်က မောင်းထုတ်တဲ့ အလုပ်ဟာ အင်မတန် ညစ်ပတ် စုတ်ပဲ့ပြီး ဆိုးရွားတဲ့ အလုပ်မျိုးပါကွာ၊ ငါတို့ဟာ ကိုယ့်မြေပေါ်မှာကိုယ်နေပြီး အေးအေးဆေးဆေး လုပ်ကိုင် စားသောက်နေကြတာပါ၊ အိုးမဲ့အိမ်မဲ့ အခြေအနေမဲ့ပြီး ခြေသလုံး အိမ်တိုင် ဘဝနဲ့ လျှောက်သွားနေတဲ့ လူစားတွေ မဟုတ်ပါဘူး၊ ကိုယ့်မြေပေါ်မှာ ကိုယ် စိုက်ပျိုး လုပ်ကိုင်ပြီး နေလာခဲ့တဲ့ လူတွေပါကွ၊

ထွန်စက်တွေက မောင်းမထုတ်ခင် အချိန်အထိ ကောင်းကောင်းမွန်မွန် နေလာခဲ့ကြ တာပေါ့"

နေလောင်ထားသဖြင့် မျက်ခုံးမွေး ဝါခြောက်နေသော အသက်ငယ်ငယ် ပိန်ပိန်ပါးပါး လူတစ်ယောက်က အဖေဂျုတ်ကို လှည့်ကြည့်သည်။ "လယ်သမားတွေပေါ့၊ ဟုတ်လား" ဟု မေးသည်။

"ဟုတ်တယ်၊ ငါတို့က အခစား လယ်သမားတွေပေါ့ကွာ၊ အရင်တုန်းကတော့ မြေပိုင် ရှိခဲ့ကြတာပေါ့"

"ကျုပ်တို့နဲ့ ဘဝတူတွေပဲ" ဟု ပြောသည်။

"မြေပေါ်မှာ ကြာကြာ မနေခဲ့ရတာလည်း ငါတို့ ကံကောင်းတာပါပဲကွာ" ဟု အဖေဂျုတ်က ဆိုသည်။ "အခု ငါတို့ အနောက်ဘက်ဒေသကို သွားမလို့ ထွက်လာကြတာ၊ ဟိုရောက်ရင် အလုပ်ရှာလုပ်မယ်၊ မြေဝယ်မယ်၊ စိုက်ပျိုးစားမယ်"

ဆင်ဝင် အစွန်းတစ်ဖက်တွင် ပေပေရေရေ စုတ်စုတ်ပြတ်ပြတ် အဝတ်အစား များနှင့် ရပ်နေသော လူတစ်ယောက်။ သူ၏ ကုတ်အင်္ကျီအနက် အောက်စများသည် ဖွာဆန်ကြဲလျက် ရှိ၏။ ချည်ကြမ်း ဘောင်းဘီရှည် အောက်ပိုင်းများ နှစ်ဖက်စလုံး ပြတ်လျက် ရှိသည်။ မျက်နှာတစ်ခုလုံးမှာ ဖုန်အလိမ်းလိမ်း ကပ်ကာ မည်းနက်နေသည်။ သူသည် အဖေဂျုတ်ဘက်သို့ လှည့်လာသည်။ "ခင်ဗျားတို့ လူစု လက်ထဲမှာ ငွေအိုးလေး တစ်လုံးလောက် ရှိနေပုံရတယ်"

"ဘယ်လာ ငွေရှိရမှာလဲ" ဟု အဖေဂျုတ်က ပြောသည်။ "ဒါပေမဲ့ ငါတို့မှာ အလုပ် လုပ်နိုင်တဲ့ လူအားကတော့ အများကြီး ရှိတယ်၊ အားလုံး အားကောင်းမောင်းသန်ချည်းပဲ၊ ဟိုရောက်လို့ကတော့ လုပ်ခ များများရမှာ သေချာတယ်၊ ရသမျှထဲက ပိုလျှံအောင် စုပြီး အခြေခိုင်အောင် လုပ်ယူရမှာပဲ"

စုတ်ပြတ်နေသော လူသည် အဖေဂျုတ် စကားပြောနေခိုက်တွင် ပြူးတူးပြဲတဲ ဖြင့် ငေးစိုက်ကြည့်နေသည်။ ထို့နောက် ပြက်လုံးကောင်းတစ်ခုကို ကြားလိုက်ရသည့် အလား ဟက်ဟက်ပက်ပက် ရယ်သည်။ ကျန်လူစု၏ မျက်နှာများသည် ထိုလူဘက်သို့

လှည့်လာကြလေ၏။ ထိုလူသည် တော်တော်နှင့် အရယ်မရပ်။ ကြာတော့ ရယ်လွန်းအားကြီးသဖြင့် ချောင်းတဟွပ်ဟွပ် ဆိုးလာသည်။ မျက်လုံးများ နီရဲကာ မျက်ရည်များ ထွက်ကျလာသည်။ ထိုအခါကျမှပင် သူ့ကိုယ်သူ အရှိန်သတ်၍ ရသည်။ "ဩော် ခင်ဗျားတို့ အနောက်ပိုင်း သွားကြမှာကိုး၊ ဘုရား ဘုရား၊ ဘုရားသခင် ကယ်တော်မူပါ" ဟု ရေရွတ်သည်။ ပြီးတော့ ထပ်၍ ရယ်ပြန်သည်။ "ဟို ဟို ဟိုသွားပြီး လုပ်ခ ကောင်းကောင်းရအောင် လုပ်ကြမလို့တဲ့၊ ဟား ဟား ဟား၊ ဟီး ဟီး ဟီး ဖြစ်မှ ဖြစ်ရလေဗျာ၊ ဘုရား ဘုရား" ထို့နောက် အရယ်ရပ်သွားပြီး မလိုတမာသံဖြင့် မေးပြန်သည်။ "လိမ္မော်သီးတွေ ခူးလိုက်မယ် ဆိုပါတော့၊ ဟုတ်လား၊ မက်မုံသီးတွေ ဆွတ်လိုက်မယ်ပေါ့လေ၊ ဟုတ်လား"

အဖေဂျုတ်၏ လေသံသည် မြင့်လာသည်။ "ငါတို့ ဟိုရောက်ရင် ဟိုမှာရှိတဲ့ အလုပ်ကို လုပ်ကြမှာပေါ့ကွ၊ သူတို့မှာ လုပ်စရာ အလုပ်တွေ အများကြီး ရှိနေတာပဲ"

တွမ်က စိတ်တိုလာသည်။ "ကျုပ်တို့ ပြောနေတဲ့ စကားထဲမှာ ဒီလောက်အထိ ရယ်စရာကောင်းတာများ ပါလို့လား"

စုတ်စုတ်ပြတ်ပြတ် လူသည် သူ့ပါးစပ်ကို လက်ဝါးဖြင့် အုပ်၍ ပိတ်ထားသည်။ ထို့နောက် သူ့ပတ်ဝန်းကျင်ရှိ လူအားလုံးကို မသာယာသော မျက်နှာထားဖြင့် ဝေ့ကြည့်သည်။ "ခင်ဗျားတို့အားလုံး ကယ်လီဖိုးနီးယားကို သွားကြမှာ မဟုတ်လား"

"မင်းကို ငါ ပြောပြီးပြီ မဟုတ်လားကွ" ဟု အဖေဂျုတ်က ပြန်ပြောသည်။ "မင်းအနေနဲ့ ရှည်ရှည်ဝေးဝေး စဉ်းစားနေစရာ မလိုပါဘူး"

စုတ်စုတ်ပြတ်ပြတ်လူက လေသံအေးအေးဖြင့် ခပ်ဖြည်းဖြည်း ပြောသည်။ "အင်း ကျုပ်... ကျုပ်ကတော့ အဲဒီက ပြန်လာခဲ့ပြီ၊ ကျုပ် အဲဒီကို ရောက်ခဲ့တယ်"

မျက်နှာအားလုံးသည် ဖြုန်းခနဲ သူ့ဘက်သို့ လှည့်လာပြန်သည်။ အားလုံး ကျောက်ရုပ်များသဖွယ် ဖြစ်နေကြ၏။ ခတ်ငွေ့မီးတိုင်မှ မီးတောက်သည် မှေးမှိန်လာသည်။ မီးစာသည် ငြိမ်းသွားတော့မည့်နယ် တဖျပ်ဖျပ် လှုပ်လာသည်။ ပိုင်ရှင်သည် ကုလားထိုင်ပေါ်မှ ကပျာကယာထကာ လေထပ်ထိုးသည်။ မီးတောက် အရှိန်သည် ပြန်တက်လာလေ၏။ ပိုင်ရှင်သည် ချက်ချင်းပင် သူ့ကုလားထိုင်ပေါ်

ပြန်ထိုင်သည်။ စုတ်စုတ်ပြတ်ပြတ်လူသည် သူ့အား ဝိုင်းကြည့်နေသော မျက်နှာများကို ပြန်ကြည့်သည်။ "ကျုပ်တော့ဖြင့် ဝတ်ပြတ်ပြီး ပြန်လာခဲ့ရတာပဲ " ဟု ပြောသည်။

"မင်း ဘာတွေ လျှောက်ပြောနေတာလဲ " ဟု အဖေဂျုတ်က မေးသည်။ "ငါ ရထားတဲ့ လက်ကမ်းကြော်ငြာ စာရွက်ထဲမှာ အလုပ်တွေ ရှိတယ်၊ လုပ်ခကောင်းကောင်း ပေးမယ် ဆိုတာတွေ အသေအချာ ရေးထားတာကွ၊ မကြာသေးခင်ကပဲ စာရွက်တစ်ရွက်ထဲမှာ သစ်သီးဆွတ် အလုပ်သမားတွေ လိုတယ်လို့ ရေးထားတာ ငါ ဖတ်ခဲ့ရသေးတယ် "

စုတ်စုတ်ပြတ်ပြတ်လူက အဖေဂျုတ်ဘက်သို့ လှည့်၍ မျက်နှာချင်းဆိုင်လိုက်သည်။ "ခင်ဗျားတို့မှာ တခြား သွားစရာနေရာ မရှိတော့ဘူးလားဟင်၊ ဆိုပါတော့၊ ကိုယ့်အရပ်ကို ပြန်တာမျိုး "

"မရှိဘူး၊ တို့က တစ်ခါတည်း အပြီးအပြတ် ထွက်လာခဲ့တာ၊ သူတို့က ထွန်စက်တွေကို လွှတ်လိုက်တယ်၊ ထွန်စက်တွေက တို့အိမ်ထဲအထိ ဝင်လာတာ "

"ဒီလိုဆို ခင်ဗျားတို့ မပြန်တော့ဘူးပေါ့"

"မပြန်တော့ဘူး "

"ဒါဖြင့်လည်း ခင်ဗျားတို့ စိတ်ဆင်းရဲသွားအောင် ကျုပ် မလုပ်ချင်တော့ပါဘူး "

မင်းက ငါ့ကို စိတ်ကုန်သွားအောင် လုပ်လို့လည်း မရပါဘူးကွာ၊ ငါ ရထားတဲ့ လက်ကမ်းကြော်ငြာ စာရွက်က အလုပ်သမား လိုတယ်လို့ အတိအကျ ရေးထားတာပဲ၊ လူမလိုဘဲနဲ့ လိုပါတယ်လို့ အဓိပ္ပာယ်မရှိ ရေးပါ့မလား၊ ဒီကြော်ငြာစာရွက်တွေရိုက်တာ ပိုက်ဆံ အကုန်ခံပြီး ရိုက်ထားတာကွ၊ လူ မလိုဘဲနဲ့ လိုပါတယ်လို့ ဘယ်သူက ငွေအကုန်ခံပြီး ကမြင်းကြောထမှာလဲ "

"ကျုပ်ကလည်း ခင်ဗျားတို့ စိတ်ညစ်သွားအောင် မလုပ်ချင်ပါဘူးဗျာ"

"မင်းက သူများဖင်ကို လိုက်နှိုက်ပြီးလို့ အားရပြီကိုးကွ၊ အခုမှ စိတ်ညစ်အောင် မလုပ်ချင်ဘူးလေး ဘာလေးနဲ့ ပါးစပ်ကို ပိတ်ထားချင်နေတယ်၊ ငါ ရထားတဲ့

ကြော်ငြာစာရွက်ထဲမှာ လူလိုတယ်လို့ ရေးထားတယ်၊ မင်းက အဲဒါကို သရော်တယ်၊ လူမလိုဘူးလို့ ပြောတယ်၊ ကြော်ငြာစာရွက်နဲ့ မင်းနဲ့ ဘယ်အကောင် လိမ်တာလဲ" အဖေဂျုတ်က ဒေါ်သတကြီးဖြင့် ပြောသည်။

စုတ်စုတ်ပြတ်ပြတ်နှင့် လူသည် ဒေါ်သအခိုးများ ထွက်နေသော အဖေဂျုတ်၏ မျက်လုံးများကို စိတ်မကောင်းဖြစ်ဟန်ဖြင့် ငေးကြည့်နေသည်။ "ကြော်ငြာက မှန်ပါတယ်" ဟု ပြောသည်။ "ဟုတ်ပါတယ်၊ သူတို့ လူတွေ လိုနေတယ်"

"ဒါဖြင့်ရင် မင်းက ဘာပြုလို့ အသက်ထွက်တော့မတတ် ရယ်နေရတာလဲ၊ ပြောစမ်းပါဦး"

"ကျုပ် ရယ်တာက ဘယ်လို လူအမျိုးအစား လိုတယ် ဆိုတာ ခင်ဗျားတို့ အတိအကျ မသိဘဲ ဖြစ်နေလို့ပါ"

"ဘာပြောတာလဲ "

စုတ်စုတ်ပြတ်ပြတ်လူသည် သူ့ကိုယ်သူ ပိုင်ပိုင်နိုင်နိုင် ဆုံးဖြတ်၍ ရသွားဟန် တူ၏။ "ကျုပ် ပြောမယ်ဗျာ၊ ခင်ဗျားတွေ့တဲ့ ကြော်ငြာထဲမှာ လူ ဘယ်နှစ်ယောက် လိုတယ်လို့ ရေးထားတာလဲ"

"လူ ရှစ်ရာတောင် လိုတာကွ၊ အဲဒါ နေရာ တစ်နေရာတည်းပဲ ရှိသေးတယ်"

"လိမ္မော်ရောင် လက်ကမ်း ကြော်ငြာစာရွက် မဟုတ်လား"

"ဟုတ်တယ်၊ အဲဒါ ဘာဖြစ်လို့လဲ "

"စာရွက်အောက်မှာ နာမည် ဘယ်သူဘယ်ဝါလို့ ရေးထားတယ်၊ ပြီးတော့မှ အလုပ်သမား ကန်ထရိုက်လို့ ရေးထားတယ်လေ "

အဖေဂျုတ်သည် သူ့အင်္ကျီအိတ်ကပ်ထဲမှ ခေါက်ထည့်ထားသော ကြော်ငြာစာရွက်ကို ထုတ်သည်။ "ဟုတ်တယ်၊ မင်း ဘယ်လိုလုပ်ပြီး သိသလဲ"

"ဒီမယ် ကျုပ်ပြောမယ်" ဟု ထိုလူက ဆိုသည်။ "အဲဒီဟာ အဓိပ္ပာယ်မှ မရှိဘူး၊ အဲဒီ ကြော်ငြာတဲ့လူက လူရှစ်ရာ လိုတယ်၊ အဲဒီတော့ သူက ကြော်ငြာစာရွက် ငါးထောင်ရိုက်ပြီး ဝေမယ်၊ အဲဒီ ကြော်ငြာစာရွက်တွေကို လူနှစ်သောင်းက ဖတ်မိကြမယ်၊ အဲဒီလူစုထဲက လူနှစ်ထောင်လောက်က ဒီကြော်ငြာစာရွက်ကို အကြောင်းပြုပြီး အလုပ်လိုချင်လို့ ထွက်လာ ကြတယ်၊ အဲဒါနဲ့ပဲ လူတွေအားလုံး သောကရောက်ပြီး ရှုးကုန်ကြတာပဲ"

"ဒါပေမဲ့ကွာ၊ ဒါလည်းပဲ အဓိပ္ပာယ် မရှိပါဘူး"

"အေးပေါ့ဗျာ၊ ကြော်ငြာစာကို ရိုက်ဝေတဲ့လူနဲ့ မတွေ့မချင်း ခင်ဗျား အဓိပ္ပာယ် ရှာလို့ ရမှာကို မဟုတ်ဘူး၊ သူနဲ့ဖြစ်ဖြစ် သူ့ကိုယ်စားလှယ်နဲ့ ဖြစ်ဖြစ် တွေ့မှပဲ ခင်ဗျား သဘောပေါက်တော့မှာ၊ ဆိုကြပါစို့၊ ခင်ဗျားတို့နဲ့ တခြား မိသားစု ငါးဆယ်က လမ်းဘေး မြောင်းတစ်ခုနားမှာ စခန်းချနေကြတယ်၊ အဲဒီအခါမှာ သူရောက်လာပြီး ခင်ဗျားမှာ စားစရာ ရှိသေးရဲ့လားဆိုတာ သိရအောင် ခင်ဗျားတဲထဲကို ဝင်ကြည့်မယ်၊ တကယ်လို့ ခင်ဗျားတို့မှာ စားစရာ ဘာမှ မရှိတော့ဘူး ဆိုတာ သိရင် သူ ပြောလိမ့်မယ်၊ အလုပ် လုပ်မလား၊ ခင်ဗျားကလည်း ပြန်ပြောမယ်၊ သိပ်လုပ်ချင်ပါတယ် မစ္စတာ၊ အလုပ်လေး တစ်ခုသာရရင် မစ္စတာရဲ့ ကျေးဇူးကို မမေ့ပါဘူး၊ အဲဒီတော့ သူက ပြောမယ်၊ ကျုပ် ခင်ဗျားကို သုံးမယ်၊ ဒီတော့ ခင်ဗျားက ပြန်မေးမယ်၊ ဘယ်တော့ စလုပ်လဲ၊ အဲဒီအခါကျတော့ သူက ခင်ဗျား ဘယ်အချိန်မှာ ဘယ်ကို သွားရမယ်ဆိုတာ ပြောပြီး ပြန်သွားလိမ့်မယ်၊ သူ တကယ်လိုတာ လူနှစ်ရာ ဖြစ်ချင် ဖြစ်မယ်ဗျာ၊ လူငါးရာကလည်း သူတို့နဲ့ နီးစပ်တဲ့ လူတွေကို လျှောက်ပြောရော၊ ဒါနဲ့ပဲ သူ ပြောခဲ့တဲ့ နေရာကို ခင်ဗျား ရောက်သွားတော့ လူက တစ်ထောင်လောက် ရှိနေပြီ၊ အဲဒီအခါမှာ သူက တစ်နာရီကို လုပ်ခ ဆင့်နှစ်ဆယ် ပေးမယ်လို့ ပြောလာလိမ့်မယ်၊ လူတစ်ဝက်လောက်က မလုပ်နိုင်ဘူးဆိုပြီး ထွက်သွားချင် ထွက်သွားလိမ့်မယ်၊ ဒါပေမဲ့ လုံးဝ စားစရာမရှိလို့ ဝေါ်ပြတ်နေကြတဲ့ လူစားတွေက ဘီစကွတ်လောက်ပဲ စားရလည်း မနည်းဘူးဟဲ့ ဆိုပြီး ကျန်နေခဲ့လိမ့်မယ်၊ သူတို့က ငါးရာလောက်တော့ ရှိမယ်၊ ဟိုလူကတော့ သူ ကန်ထရိုက်ရထားတာက မက်မုံသီးခူးပေးဖို့ ဖြစ်ချင်လည်း ဖြစ်မယ်၊ ဝါပင်ပေါင်းတွေ ခုတ်ထွင် ရှင်းလင်းပေးဖို့ ဖြစ်ချင်လည်း ဖြစ်မယ်၊ ခင်ဗျား ကျုပ်ပြောတာ သဘောပေါက်ရဲ့လားဟင်၊ ဒီတော့ဗျာ သူ့အဖို့တော့ ဝေါ်ပြတ်နေတဲ့လူ ရနိုင်သလောက် ရအောင် စုနိုင်လေလေ လုပ်ခပေးရတာ သက်သာလေပေါ့၊ ဖြစ်နိုင်ရင် သူက ချာတိတ်တွေရှိတဲ့ လူကို ပိုပြီး လိုချင်တယ်၊

ဘာကြောင့်လဲ သိလား၊ ဘာကြောင့်လဲဆိုတော့ ကျုပ် ခင်ဗျားတို့ကို စိတ်ညစ်သွားအောင် မလုပ်ချင်ဘူးဗျာ၊ တကယ်ပါ”

မျက်နှာ အားလုံးသည် ထိုလူအား အေးတိအေးစက် မျက်နှာထားများဖြင့် ကြည့်နေကြသည်။ မျက်လုံးများသည် ထိုလူ၏ စကားများအပေါ်တွင် စဉ်းစား ဝေဖန်နေသည့် အရိပ်လက္ခဏာများ ဖော်ပြလျက် ရှိကြ၏။ စုတ်စုတ်ပြတ်ပြတ်နှင့် လူ၏ စိတ်သည် မလုံမလဲ ဖြစ်လာသည်။ “ကျုပ် ခင်ဗျားတို့ကို စိတ်ဆင်းရဲအောင် မလုပ်ချင်ဘူးလို့ ပြောခဲ့ပေမဲ့ မပြောဘဲ မနေနိုင်တော့လည်း ပြောမိတာပဲ၊ ခင်ဗျားတို့ အနေနဲ့ လာလမ်း ပြန်လို့လည်း မဖြစ်တော့ဘူး မဟုတ်လား” ဆင်ဝင်တစ်ခုလုံး ငြိမ်ဆိတ်လျက် ရှိကြ၏။ ထိုလူသည် စိတ်လှုပ်ရှားစွာဖြင့် သူ့စကားကို ဆက်သည်။ “အလုပ်ရှိတယ်လို့ လာပြောတဲ့လူနဲ့ ခင်ဗျားတို့ တွေ့ရင် ခင်ဗျားတို့ ဘာလုပ်သင့်တယ်ဆိုတာတော့ ကျုပ် မှာလိုက်ချင်တယ်၊ သူ့အနေနဲ့ လုပ်ခ ဘယ်လောက် ပေးမလဲဆိုတာ အတိအကျ ရအောင် မေးပါ၊ ပြီးတော့ သူ ဘယ်လောက် ပေးမယ်ဆိုတာ စာရွက်တစ်ရွက်နဲ့ ရေးခိုင်းပြီး လက်မှတ်ထိုးခိုင်းထား၊ အဲဒါတော့ သေချာအောင် လုပ်ထားကြပါ၊ တကယ်လို့ ကျုပ် ပြောသလို လုပ်မထားဘူး ဆိုရင်တော့ ခင်ဗျားတို့ အရှုံး အလုပ်ခံရမှာ သေချာတယ်”

ပိုင်ရှင်သည် စုတ်တီးစုတ်ပြတ်နှင့် ညစ်ပတ် ပေရေနေသော လူ၏ မျက်နှာကို သေသေချာချာ မြင်နိုင်ရင် ကိုယ်ကို ရှေ့သို့ ကုန်းလိုက်သည်။ သူ့ရင်ဘတ်မှ အမွေးအမှင်များ ကြားသို့ လက်ထိုး၍ ကုတ်နေရာမှ အေးစက် မာကျောသော အသံဖြင့် မေးသည်။ “ကိုယ့်လူက ပြဿနာ မပေါ် ပေါ်အောင် လိုက်ပြီး မီးမွှေးပေးနေတဲ့ လူတစ်ယောက် ထင်ပါရဲ့၊ ဟုတ်လား၊ အလုပ်သမား လူလိမ်တစ်ယောက်နဲ့ တူပါတယ်”

“ဘုရားစူးရစေရဲ့၊ လုံးဝ မဟုတ်ဘူး”

“ဒီလို လူစားတွေ အများကြီး ရှိတယ်၊ ကိုယ့်လူတို့” ဟု ပိုင်ရှင်က ပြောသည်။ “လူတွေကြားမှာ ပြဿနာ မပေါ် ပေါ်အောင် လိုက်ပြီး မီးမွှေးပေးနေတဲ့ လူတွေပေါ့၊ လူတွေကို မကျေမနပ် ဖြစ်အောင် လိုက်ပြီး လှန့်ပေးနေကြတာ၊ ဒီလို ကောင်စားတွေ အားလုံးကို ဖမ်းမယ့်အချိန်က ရောက်လာတော့မှာပါ၊ မကြာပါဘူး၊ သူတို့ကို ဒီပြည်နယ်ထဲက နှင်ထုတ်ပစ်ရမယ်၊ အလုပ် လုပ်ချင်တဲ့လူ လာတယ်နော်၊ အိုကေပဲ၊

အလုပ် မလုပ်ချင်တဲ့ လူစားမျိုးတော့ ငရဲပြည် ပို့ပေးရမှာပဲ၊ မီးမွေးမယ့် လူစားမျိုးကိုတော့ ကျုပ်တို့ လက်မခံနိုင်ဘူး"

စုတ်တီးစုတ်ပြတ် လူသည် ခါးကိုဆန့်၍ မတ်မတ်ရပ်လိုက်သည်။ "ခင်ဗျားတို့ကို သိထားစေချင်လို့ ကျုပ်က ပြောပြတာပါ၊ ဒီအတွေ့အကြုံကို ရဖို့အတွက် တစ်နှစ်တိတိ ကြာခဲ့တယ်၊ ကလေးနှစ်ယောက် ဆုံးခဲ့ရတယ်၊ မယား ဆုံးခဲ့ရတယ်၊ ဒါပေမဲ့ ကျုပ်အပြောကို ခင်ဗျားတို့ ယုံမှာ မဟုတ်ပါဘူး၊ ဒါကို ကျုပ် သိသင့်တယ်၊ ကျုပ်တုန်းကဆိုရင် အခုလို ပြောပြနိုင်တဲ့လူ တစ်ဦးမှ မရှိခဲ့ဘူး၊ ရွက်ထည်တဲထဲမှာ အစာရေစာ ငတ်ပြတ်ပြီး အရိုးပေါ် အရေတင် ဗိုက်ပူနံကားနဲ့ လဲနေတဲ့ ကလေးတွေ၊ ကြောင်ပေါက်စလေးတွေ ညည်းသလို ညည်းနေတဲ့ ကလေးတွေ၊ အလုပ်ကလေးတစ်ခု ရဖို့အတွက် အပြေးအလွှား လျှောက်သွားနေရတဲ့ ကျုပ်ရဲ့အဖြစ်၊ ဒါတွေကို ကျုပ် ပြောမပြချင်တော့ပါဘူးဗျာ၊ အလုပ်ရတယ် ဆိုတာလည်း ငွေအတွက် မဟုတ်ပါဘူး၊ လုပ်ခရဖို့အတွက်လည်း မဟုတ်ပါဘူး" သူသည် စိတ်ထိခိုက်လွန်းသော အသံဖြင့် အော်ပြောသည်။ "ဂျုံတစ်ခွက်စာနဲ့ ဝက်ဆီလေး တစ်ဖွန်းလောက် ရဖို့အတွက်ပါ၊ ယုံပါဗျာ၊ ဘုရားသခင်ကို တိုင်တည်ပြီး ကျုပ် ပြောဝံ့ပါတယ်၊ အဲ နောက်တော့ သေမှုသေခင်း စစ်ဆေးတဲ့လူ ဆိုတာ ရောက်လာတယ်၊ ကျုပ် ကလေးနှစ်ယောက် သေတာ နလုံးရောဂါကြောင့်တဲ့၊ သူ့စာရွက်ပေါ်မှာ အဲဒီအတိုင်း ရေးတယ်၊ အမှန်က ငတ်လို့ သေတာ၊ ကျုပ် ကလေးတွေရဲ့ ဗိုက်တွေဟာ ဝက်ဆီးအိမ်လိုပဲ အပြင်စူထွက်နေတယ်"

သူ့ပတ်ပတ်လည်မှ လူအားလုံးသည် ငြိမ်ဆိတ်နေကြသည်။ ပါးစပ်များသည် အနည်းငယ်မျှ ဟနေကြ၏။

စုတ်တီးစုတ်ပြတ် ဖြစ်နေသော လူသည် သူ့ဘေး ပတ်ပတ်လည်မှ လူများကို ကြည့်သည်။ ထို့နောက် ချာခနဲလှည့်ကာ အမှောင်ထုအတွင်းသို့ လျင်မြန်စွာ လျှောက်သွားသည်။ အမှောင်ထုသည် သူ့အား ဆီး၍ ဝါးမျိုလိုက်သည်။ လူလုံး ပျောက်သွားသော်လည်း သူ့ခြေသံများကိုမူ ကြားနေရဆဲ။ လမ်းမကြီး၏ ဘေးအတိုင်း လျှောက်သွား နေသည့် ခြေသံများ။ မော်တော်ကားတစ်စီးသည် လမ်းမကြီးပေါ်တွင် အပြေးအလွှား လာလျက် ရှိ၏။ ကားမီးရောင်များသည် လမ်းဘေးမှ လျှောက်သွားနေသော စုတ်တီးစုတ်ပြတ် လူအပေါ်သို့ ထိုးကျလာသည်။ သူ့ဦးခေါင်းသည် ငိုက်စိုက်။ သူ့လက်နှစ်ဖက်သည် သူ့ကုတ်အင်္ကျီ ဘေးအိတ်များ အတွင်းသို့ နှိုက်လျက်။

လူအားလုံးသည် စိတ်မသက်မသာ ဖြစ်နေကြသည်။ တစ်ဦးက ပြောသည်။ "ကဲ နောက်ကျကုန်ပြီ၊ အိပ်ကြဦးမှာပေါ့"

"ကျုပ် အမေနဲ့ ခဏလောက် သွားတွေ့လိုက်ဦးမယ်၊ ပြီးရင် ဒီက ထွက်မယ်" ဟု တွမ်က ပြောသည်။ ဂျုတ် အမျိုးသားများသည် ဆင်ဝင်အောက်မှ ထွက်သွားကြလေ၏။

"တကယ်လို့ သူပြောတာ အမှန်ဆိုရင်.....၊ ဟိုအကောင် ပြောသွားတာတွေလေ" ဟု အဖေဂျုတ်က စကားစသည်။

တရားဟောဆရာက ဝင်ဖြေသည်။ "သူ ပြောနေတာတွေက အမှန်တွေချည်းပါ၊ သူ့အတွက်ကတော့ အဖြစ်က အမှန်ပဲ၊ သူ့အနေနဲ့ လုပ်ကြံပြောစရာ ရှိပုံ မပေါ်ပါဘူး"

"ကျုပ်တို့ကျတော့ ဘယ်လို ဖြစ်မလဲ" ဟု တွမ်က မေးသည်။ "ကျုပ်တို့ကော သူ့လိုပဲ ဖြစ်မလား"

"ငါ မပြောတတ်ဘူး" ဟု ကက်ဆီက ဖြေသည်။

"အေး ငါလည်း မပြောတတ်ဘူး" ဟု အဖေဂျုတ်ကပါ ဖြေသည်။

သူတို့သည် တာပေါ်လင် မိုးထားသော ရွက်ထည်တဲဆီသို့ လျှောက်သွားကြသည်။ တဲအနီးသို့ ကပ်မိသောအခါ တံခါးအနီး မည်းမည်း အရိပ်တစ်ခုကို မြင်ရသည်။ ထွက်လာပြီး ဆီးကြိုသူမှာ အမေ။

"အားလုံး အိပ်ကုန်ကြပြီ" ဟု အမေက ပြောသည်။ "နောက်ဆုံးကျတော့ အဘွားလည်း အိပ်သွားတယ်" ထို့နောက် အမေသည် တွမ်ကို မြင်သည်။ "ဟိုမှာ အဆင်ပြေလား" ဟု စိုးရိမ်ခြင်း မကင်းသော လေသံဖြင့် မေးသည်။ "ဒုက္ခတော့ မရောက်ခဲ့ဘူး မဟုတ်လား"

"ကားပြင်ပြီးသွားပြီ" ဟု တွမ်က ပြောသည်။ "ကျန်တဲ့လူတွေအားလုံး အသင့်ဖြစ်ရင် ကျုပ်တို့ ကားကတော့ ခရီးဆက်ဖို့ အသင့်ပဲ"

"ဘုရားသခင်ကို ကျေးဇူးတင်ရလိမ့်မယ်" ဟု အမေက ဆိုသည်။ "အမေလည်း ခရီးဆက်ဖို့ ကိစ္စပဲ တွေးနေမိတယ်၊ မြေဩဇာ ကောင်းပြီး စိမ်းလန်းစိုပြည်တဲ့ နေရာကို မြန်မြန် ရောက်ချင်တယ်"

အဖေဂျုတ်က ချောင်းတစ်ချက် ဟန့်၍ လည်ချောင်းရှင်းသည်။ "အခုပဲ လူတစ်ယောက် ပြောသွားတာကတော့ .."

တွမ်က အဖေဂျုတ်၏ လက်မောင်းကို လှမ်း၍ ဆွဲသည်။ "သူ ပြောတာက ရယ်စရာပါ၊ သွားနေကြတဲ့ လူတွေ လမ်းပေါ်မှာ အများကြီးပဲတဲ့"

အမေသည် အမှောင်ထဲမှနေ၍ သူတို့အား စူးစမ်းသော အကြည့်ဖြင့် ကြည့်သည်။ တဲအတွင်းမှ ရူသီ၏ ချောင်းဆိုးသံနှင့် ဟောက်သံ။ "သူတို့အားလုံးကို ရေချိုးပေးချင်တယ်" ဟု အမေက တောင့်တောင့်တတ ပြောသည်။ "ရေကလည်း မလုံလောက်ဘူး၊ လမ်းမပေါ်မှာ သွားနေရသမျှတော့ ဘာကိုမှ သန့်ရှင်းအောင် လုပ်လို့ရမှာ မဟုတ်တော့ပါဘူး"

"လူအားလုံး စုံရဲ့လား" အဖေဂျုတ်က မေးသည်။

"စုံပါတယ်၊ ကွန်နီနဲ့ ရိုစာဟန်တို့ကတော့ အပြင်မှာ အိပ်ကြတယ်၊ အမိုးအကာထဲမှာ ဆိုရင် ပူလွန်းလို့တဲ့"

"မင့်သမီး ရိုစာဟန်ကလည်း သူ့ဗိုက်အတွက် အမြဲ စိတ်ပူနေပုံ ရတယ်"

"သားဦး မဟုတ်လား၊ ရိုစာဟန်ရော ကွန်နီရော ဒါပဲ စဉ်းစားနေကြတာပဲ၊ ရှင်လည်း သားဦးတုန်းက ဒီအတိုင်း ဖြစ်ခဲ့တာပဲ"

"ကဲ ကျုပ်တို့ သွားမယ်" ဟု တွမ်က ပြောသည်။ "အဖေတို့ လာတဲ့အခါ ခပ်ဖြည်းဖြည်းမောင်း၊ ကျုပ်တို့နဲ့ မတွေ့ဘဲ လွဲသွားဦးမယ်၊ လမ်းရဲ့ ညာဘက်ဘေးကို နည်းနည်းကပ်မောင်းပေါ့"

"အယ်လ်ကို ထားခဲ့မှာလား"

"ဟုတ်တယ်၊ ဦးလေးဂျွန်ကို ကျုပ်တို့နဲ့ ထည့်လိုက်၊ သွားမယ် အမေ"

သူတို့သည် အိပ်မောကျနေပြီ ဖြစ်သော စခန်းကို ဖြတ်၍ လျှောက်လာကြသည်။ တဲတစ်တဲ၏ ရှေ့တွင် မီးဖိုတစ်ခုသည် တရှိန်ရှိန် တောက်လောင်လျက် ရှိ၏။ မိန်းမတစ်ယောက်သည် မီးဖိုပေါ်မှ အိုးကို စောင့်၍ မီးထိုးပေးနေသည်။ တပွက်ပွက် ဆူနေသော အိုးထဲမှ ပဲပြုတ်နံ့သည် တသင်းသင်း ထွက်လာလျက် ရှိလေသည်။

"တစ်ပန်းကန်လောက် စားလိုက်ရရင် ဘယ်လောက်များ အရသာ ရှိလိုက်မလဲ" အနားမှ ဖြတ်အသွားတွင် တွမ်က ရေရွတ်သည်။

အမျိုးသမီးက ပြုံးသည်။ "မကျက်သေးဘူး၊ ကျက်ရင် ရပါတယ်" ဟု ပြောသည်။ "မနက်ကျ လာစားလှည့်ပါလား"

"ကျေးဇူးတင်ပါတယ်ဗျာ" ဟု တွမ်က ပြန်ပြောသည်။ တွမ်၊ ကက်ဆီနှင့် ဦးလေးဂျွန်တို့သည် ဆင်ဝင်အနီးသို့ ရောက်လာကြသည်။ ပိုင်ရှင်မှာ အခုအချိန်အထိ သူ့ကုလားထိုင်ပေါ်၌ ငုတ်တုတ်။ ဓာတ်ငွေ့မီးတိုင်မှ မီးတောက်သည် တဖျပ်ဖျပ် တောက်နေဆဲ။ လူ သုံးယောက် ဖြတ်သွားသောအခါ သူ့ခေါင်းသည် ထောင်လာသည်။ "ဓာတ်ငွေ့ ကုန်တော့မယ်" ဟု တွမ်က လှမ်းပြောသည်။

"ဟုတ်တယ်၊ ဒါပေမဲ့ ကိစ္စ မရှိဘူး၊ ပိတ်ဖို့ အချိန်က နီးနေပြီ"

"ဒေါ်လာ တစ်ဝက်တန်တွေ လမ်းပေါ်မှာ နောက်ထပ် လိမ့်မလာတော့ဘူး ထင်တယ်၊ ဟုတ်လား" ဟု တွမ်က ခနဲ့သံဖြင့် မေးသည်။

နံရံကို မှီထားသဖြင့် နောက်သို့ လန်နေသော ကုလားထိုင် ရှေ့ခြေနှစ်ချောင်းသည် ကြမ်းပြင်ပေါ်သို့ ဒေါက်ခနဲ ပြန်ကျလာသည်။ "မင်းကို ငါ ကောင်းကောင်း မှတ်မိတယ်ကွ၊ မင်းလည်းပဲ ပြဿနာ မပေါ် ပေါ်အောင် တို့မီး ရှို့မီး လုပ်မယ့် လူစားမျိုးထဲက ကောင်တစ်ကောင် ဖြစ်မှာပါပဲ၊ ငါ သိပါတယ်"

"သိပ်ကို မှန်တာပေါ့ဗျာ" ဟု တွမ်က ပြန်ပြောသည်။ "ကျုပ်ဟာ ဘိုရှီဗစ် တစ်ယောက်ဗျ"

"အေးပေါ့ကွာ၊ အခုတလော မင်းလို ကောင်စားမျိုးတွေ ငါတို့ နယ်ဘက်မှာ သိပ်ပြီး များလာနေတယ်"

"တွမ်က အားရပါးရ ရယ်သည်။ သူတို့သည် စခန်း၏ဂိတ်ကို ဖြတ်ကာ အပြင်သို့ ထွက်ခဲ့ကြသည်။ ထို့နောက် ဒေ့ါဂ်ျကားပေါ်သို့ တက်ကြသည်။ တွမ်သည် လမ်းဘေးမှ ခဲတစ်လုံး ကောက်ကာ အိမ်ဘက်သို့ တအားလွှဲ၍ ပေါက်သည်။ ဓာတ်ငွေ့မီးတိုင်ကို ကျော်လွှားပြီး အိမ်ကို အရှိန်ပြင်းစွာဖြင့် ဝင်၍ ထိမှန်လိုက်သော ခဲသံ။ ပိုင်ရှင်သည် ထိုင်နေရာမှ ဝုန်းခနဲ အလန့်တကြား ခုန်၍ ထလိုက်သည်။ ပြီးတော့ အမှောင်ထုအတွင်းသို့ ချောင်းကြည့်နေသည်။ တွမ်သည် မော်တော်ကား စက်ကို နှိုးလိုက်ပြီး ကားကို လမ်းမပေါ်သို့ မောင်းတင်လိုက်၏။ သူသည် ကားစက်သံကို ဂရုတစိုက် နားစွင့်လာသည်။ အားနည်းလွန်းလှသော ကားမီးရောင် မှုန်ဝါးဝါးအောက်ဝယ် ကျယ်ဝန်း ပြန့်ပြူးသော လမ်းမကြီးသည် ဝိုးတဝါး။

* * *

## အခန်း (၁၇)

ရေကြည်ရာ မြက်နုရာ အရပ်ဒေသ၌ အခြေစိုက်မည် ဟူသော ရည်မှန်းချက်ဖြင့် ရွှေ့ပြောင်း သွားလာနေကြသည့် လူများ၏ မော်တော်ကားကြီးငယ် အသွယ်သွယ်တို့သည် အရပ်ရှစ်မျက်နှာရှိ ကားလမ်းများမှတစ်ဆင့် ပြည်နယ် တစ်နယ်နှင့် တစ်နယ် ကူးသန်းသွားလာရာ အဝေးပြေး ကားလမ်းမကြီးပေါ်သို့ တက်လာကြပြီးသော် အနောက်ပိုင်း ဒေသီသို့ ဦးတည်လျက် ခရီးဆက်ကြလေသည်။ နေ့ခင်းဘက်တွင် သူတို့လူစုသည် ပိုးကောင်များသဖွယ် အနောက်သို့ ရှေးရှု၍ အပြေးအလွှား သွားလာလျက် ရှိကြကုန်၏။ သူတို့အပေါ် အမှောင်ထု လွှမ်းခြုံလာသည့်အခါတွင်ကား သူတို့အားလုံးသည် ပိုးကောင် မွှားကောင်များကဲ့သို့ပင် ရေရှိရာ အကာအကွယ်ရှိရာ နေရာများသို့ ဝင်ကပ်၍ စုပြုံ တိုးဝှေ့ပြီး နေထိုင်ကြကုန်၏။ တကယ်တော့ သူတို့သည် အထီးကျန်နိုင် နေကြသူများ ဖြစ်၏။ ကြံရာမရ ဖြစ်ကာ စိတ်နောက်ကျို ရှုပ်ထွေးနေကြသူများ ဖြစ်၏။ သူတို့အားလုံးသည် ကြေကွဲဝမ်းနည်းမှု၊ စိတ်ဆင်းရဲမှုနှင့် အရေးနိမ့်မှုတည်း ဟူသော အနိဋ္ဌာရုံများ ကြီးစိုးရာ နေရာတစ်ခုမှ ထွက်လာကြသူများ ဖြစ်လေသည်။ သူတို့အားလုံးသည် နားလည်ရခက်အောင် လျှို့ဝှက်နက်နဲသည့် နေရာသစ် တစ်ခုဆီသို့ သွားနေကြခြင်း ဖြစ်၏။

ဤအကြောင်းများကြောင့်လည်း သူတို့သည် အတူတူ တွဲ၍ နေကြသည်။ စကားလက်ဆုံ ကျကြသည်။ ဘဝ၏ အကောင်းအဆိုး ဟူသမျှကို ခွဲဝေမျှတ၍ ခံစားကြသည်။ အစားကိုသာမက အရာရာတိုင်းကို မျှတခွဲဝေ၍ သုံးကြသည်။ နေရာဒေသ သစ်တွင် ရရှိလိမ့်မည်ဟု မျှော်လင့်ထားသော အရာများကိုပင်လျှင် မျှတခွဲဝေပြီး ခံစားကြသည်။

ဤသို့ဖြင့် မိသားစုတစ်စုသည် ချောင်းငယ်တစ်ခုအနီးတွင် စခန်းချသည်။ ထိုအခါ နောက်မိသားစု တစ်စုက ရေရော အဖော်ပါ ရနိုင်သည့် ဤချောင်းငယ် အနီးမှာပင် လာ၍ စခန်းချ၏။ ထို့နောက် တတိယ မိသားစုက မိသားစု နှစ်စု ရပ်နားနေသော ဤနေရာသည် နေရာကောင်းတစ်ခု ဖြစ်သည် ဟူသော အသိဖြင့် ဝင်ရောက် စခန်းချပြန်သည်။ နေစုံးစုံးမြုပ်သွားချိန်တွင်မူ မိသားစုပေါင်း နှစ်ဆယ်နှင့် ကားအစီးပေါင်း နှစ်ဆယ်သည် ထိုနေရာ၌ စခန်းချလျက် ရှိနေကြလေပြီ။

ညပိုင်း ရောက်သောအခါ ထူးဆန်းသော အရာတစ်ခု ဖြစ်ပေါ်လာလေ၏။ မိသားစုနှစ်ဆယ်သည် တစ်မိသားစုတည်း ဖြစ်သွားသည်။ ကလေးများသည် အားလုံး၏ ကလေးများ ဖြစ်လာကြ၏။ မိသားစု တစ်စုချင်း၏ ဆုံးရှုံးမှုသည် မိသားစု နှစ်ဆယ်စလုံး၏ တစ်ခုတည်းသော ဆုံးရှုံးမှု ဖြစ်လာသည်။ အနောက်ပိုင်း ဒေသတွင် ကြုံရမည့် ရွှေပဒေသာပင် ခေတ်သည် မိသားစု နှစ်ဆယ်၏ တစ်ခုတည်းသော အိပ်မက် ဖြစ်လာသည်။ မိသားစု တစ်စု အတွင်းမှ ကလေးတစ်ယောက် ဖျားနာခြင်းသည် မိသားစု နှစ်ဆယ်အတွင်းရှိ လူတစ်ရာ၏ နှလုံးသားများကို ပူပန်ကြောင့်ကြခြင်း ဖြစ်စေ၏။ စခန်း၏ ရွက်ထည်တဲတစ်လုံး အတွင်းမှ မီးဖွားမှုသည် လူတစ်ရာစလုံးကို ငြိမ်ဆိတ်နေစေရုံမျှမက မမွေးမချင်း တကြောင့်ကြကြ ဖြစ်နေစေ၏။

မနက်ကျတော့လည်း ယမန်နေ့ညက ချောချောမောမော ဖွားမြင်မှုကြောင့် လူတစ်ရာစလုံး ပျော်ရွှင်ချမ်းမြေ့မှု အရသာကို ခံစားကြရလေသည်။ ယမန်နေ့ညက ညလုံးပေါက်နီးပါးမျှ ရင်ဆိုင်ခဲ့ရသော အပူအပင် အကြောင့်အကြများကို မေ့ပျောက်ကာ မွေးကင်းစ ကလေးငယ်အတွက် မည်သည့် လက်ဆောင်မျိုး ပေးရလျှင် ကောင်းပါမည်နည်းဟု စဉ်းစား ရှာဖွေလာကြပြန်၏။ ညနေပိုင်း ရောက်၍ မီးဖိုများ၏ ပတ်ပတ်လည်တွင် ဝိုင်းထိုင်မိကြသောအခါ မိသားစု နှစ်ဆယ်သည် တစ်ခုတည်းသော မိသားစုတစ်စု အဖြစ်သို့ ရောက်သွားသည်။ သူတို့သည် စခန်းများ၏ ခိုင်မာတောင့်တင်းသော အစုကလေးများ အဖြစ် ရပ်တည်လာကြသည်။ ညနေခင်းများနှင့် ညများ၏ အစုကလေးများအဖြစ် ရပ်တည် လာကြသည်။ ညပိုင်းများတွင် စောင်တစ်ထည်နှင့် ပတ်၍ ထုပ်ထားသော ဂီတာကို ထုတ်၍ တီးကြသည်။ လူ၏ ဘဝတစ်ခုဟု ဆိုအပ်သော တေးသီချင်းများကို သီဆိုကြသည်။ ယောကျ်ားများက သီချင်းများကို တပျော်တပါး အော်၍ ဟစ်၍ သီဆိုကြ၏။ မိန်းမများကတော့ ခပ်တိုးတိုး လိုက်၍ ညည်းကြလေသည်။

ညစဉ်ညတိုင်း ရှိသင့်ရှိထိုက်သည့် အင်္ဂါရပ်များနှင့် ပြည့်စုံသော ကမ္ဘာလောကကလေး တစ်ခုကို တည်ဆောက်ကြသည်။ အချင်းချင်း မိတ်ဆွေများ ဖြစ်လာကြသည်။ ရန်သူများကို ရှာဖွေ သတ်မှတ်ကြသည်။ သတို့ ကမ္ဘာလောကသည် လူကြွားများ၊ သူရဲဘောနည်းသူများ၊ တည်ငြိမ် အေးဆေးသူများ၊ နှိမ့်ချတတ်သူများနှင့် ကြင်နာ သနားတတ်သူများ ပါဝင်ဖွဲ့စည်းထားသော ကမ္ဘာလောကလေး တစ်ခု ဖြစ်ချေသည်။ ထိုကမ္ဘာလေးကို တည်ဆောက်ပေးနေသော လူမှု ဆက်ဆံရေးများသည်

ညစဉ်ညတိုင်း တည်ရှိလာသည်။ ထို ကမ္ဘာလောက ကလေးသည် ဆပ်ကပ်အဖွဲ့ တစ်ဖွဲ့နှင့် တူ၏။ နံနက်တိုင်း တစ်ဦးချင်းစီ တစ်စုချင်းစီ ဖြစ်ကာ တကွဲတပြားစီ ဖြစ်နေတတ်လေသည်။

ပထမတော့ မိသားစုများသည် ထိုကမ္ဘာလောကများကို တည်ဆောက်ရာ၌ လည်းကောင်း၊ ဖြိုဖျက်ရာ၌ လည်းကောင်း ကြောက်စိတ်ဖြင့် နောက်တွန့်ကြသည်။ သို့သော်လည်း တဖြည်းဖြည်းနှင့် ကမ္ဘာလောကများ တည်ဆောက်မှု နည်းပညာသည် သူတို့၏ အတတ်ပညာ ဖြစ်လာလေ၏။ ထို့နောက် သူတို့အထဲမှ ခေါင်းဆောင်များ ပေါ်ထွက်လာသည်။ ထို့နောက် အများလိုက်နာရမည့် စည်းကမ်းများ၊ ဥပဒေများကို ပြုလုပ်လာကြသည်။ ထို့နောက် လူတန်းစားတစ်ရပ် သို့မဟုတ် အစုတစ်စု သို့မဟုတ် လူအဖွဲ့အစည်းတစ်ရပ်က အများသဘောတူ လက်ခံထားသော မူများနှင့် စည်းမျဉ်းများကို စုပေါင်းထားသည့် ပြဋ္ဌာန်းချက်များ ပေါ်ပေါက်လာလေသည်။ ဤသို့ဖြင့် သူတို့၏ ကမ္ဘာလောကများ အနောက်ပိုင်း ဒေသသို့ ဆက်လက် ထွက်ခွာသွားကြသည့်အခါ ယခင်ကထက် ပို၍ ပြည့်စုံပြီး ပို၍ ခိုင်မာ တောင့်တင်းလာကြသည်။ အဘယ်ကြောင့်ဆိုသော် တည်ဆောက်သူများသည် ကမ္ဘာလောကငယ်များကို တည်ဆောက်ရာ၌ ယခင်ကထက် ပို၍ အတွေ့အကြုံ များလာခြင်းကြောင့်ပေတည်း။

မိသားစုများ အနေဖြင့် မည်ကဲ့သို့သော ကိုယ်ပိုင် အခွင့်အရေးများ ပြဋ္ဌာန်းရမည်ကိုလည်း သူတို့၏ လက်တွေ့ဘဝမှ သိရှိ နားလည်လာကြသည်။ တဲအတွင်း၌ ဖြစ်ပျက်သမျှကို လျှို့ဝှက်ထားပိုင်ခွင့်၊ အတိတ်က ပြုခဲ့သော ဒုစရိုက်မှုများကို အသည်း နှလုံးကြား၌ သိမ်းဆည်းထားနိုင်ခွင့်၊ စကားပြောဆိုပိုင်ခွင့်နှင့် နားထောင်ပိုင်ခွင့်၊ သူတပါးက ပေးလာသည့် အကူအညီကို ငြင်းပယ်နိုင်ခွင့် သို့မဟုတ် လက်ခံနိုင်ခွင့်၊ မိမိက တစ်ပါးသူများအား အကူအညီ ပေးပိုင်ခွင့်နှင့် မပေးဘဲ နေနိုင်ခွင့်၊ မိမိ၏ သားဖြစ်သူက တခြားမိသားစု သမီးများကို ပိုးပန်းနိုင်ခွင့်၊ ဝတ်ပြတ်နေလျှင် အစားအစာ ပေးကျွေးမှုကို ရယူ ခံစားနိုင်ခွင့်၊ ကိုယ်ဝန်သည်နှင့် နာဖျားမကျန်း ဖြစ်သူများ၏ အများတကာထက် အခွင့်အရေးများ ပိုမိုရနိုင်ခွင့် စသည် စသည်များကိုလည်း သူတို့ သိရှိ နားလည်လာကြလေသည်။

မိသားစုများသည် သူတို့အား တစ်စုံတစ်ယောက်သော သူကမျှ ပြောပြခြင်း မပြုပါဘဲလျက်နှင့် ကြောက်မက်ဖွယ်ကောင်းလောက်အောင် ဆိုးရွားသည် ကိုယ်ပိုင်

အခွင့်အရေးများ အကြောင်းကိုပါ သိမြင်လာကြသည်။ ယင်း အခွင့်အရေးများကို ဖျက်ဆီးပစ်ရမည် ဟူသော အသိကိုပါ ရလာကြသည်။ သူတစ်ပါး၏ အခွင့်အရေးများကို ခြိမ်းခြောက်ခြင်း၊ စခန်းအတွင်းရှိ လူအားလုံး အိပ်ပျော်နေချိန်တွင် ဆူညံခြင်း၊ တစ်ဖက်သားအား သိက္ခာကျအောင်၊ ကာယက္ကန္ဒြေပျက်အောင် ပြုလုပ်ခြင်း၊ မုဒိမ်းကျင့်ခြင်း၊ သူတစ်ပါးလင် သို့မဟုတ် မယားနှင့် ဖောက်ပြားခြင်း၊ သူတစ်ပါး၏ ပစ္စည်းကို ခိုးခြင်းနှင့် လူသတ်ခြင်း စသည် စသည်များ။ ဤအခွင့်အရေးများကိုမှ ဖျက်သိမ်းပစ်ရမည်။ ချိုးနှိမ်ပစ်ရမည် ဖြစ်၏။ အဘယ်ကြောင့်ဆိုသော် ဤ ရပိုင်ခွင့်များ ရှင်သန်နေပါမူ သူတို့၏ ကမ္ဘာလောကလေးများသည် တစ်ညတာမျှပင် တည်တံ့ နိုင်မြဲလိမ့်မည် မဟုတ်သောကြောင့် ပေတည်း။

ဤသို့ဖြင့် ကမ္ဘာလောကငယ် ကလေးများသည် အနောက်ပိုင်းဒေသသို့ ရွေ့လျားသွားသည့်အခါ သူတို့အား ပြောပြမည့်သူ မရှိပါဘဲလျက်နှင့် သူတို့၏ စည်းကမ်းများသည် ဥပဒေများ ဖြစ်လာသည်။ စခန်းအနီး၌ ညစ်ပတ် နံစော်အောင် ပြုလုပ်ခြင်းသည် ဥပဒေကို ချိုးဖောက်ခြင်း ဖြစ်၏။ သောက်ရေကို ညစ်ပတ်အောင် ပြုခြင်းသည် ဥပဒေကို ချိုးဖောက်ခြင်း ဖြစ်၏။ ငတ်မွတ်နေသူ တစ်ဦးအား မိမိနှင့်အတူ မျှတ ခွဲဝေ၍ စားသောက်ကြရန် ဖိတ်ခေါ်ထားခြင်း မပြုဘဲ ထိုသူ၏ အနီး၌ အစားကောင်း အသောက်ကောင်းများကို စားသောက်ခြင်းသည် ဥပဒေကို ချိုးဖောက်ခြင်းပင် ဖြစ်၏။

ထိုအခါ ဥပဒေများနှင့်အတူ အပြစ်ဒဏ် ပေးမှုများသည် တည်ရှိလာသည်။ အပြစ်ဒဏ်ပေးမှုမှာ နှစ်မျိုးမျှသာ ရှိ၏။ တစ်မျိုးမှာ ရန်ဖြစ်ခြင်း၊ ဒုတိယ တစ်မျိုးမှာ ဝိုင်းပယ်ခြင်း သို့မဟုတ် သပိတ်မှောက်ကြခြင်း။ သပိတ်မှောက်ခြင်းသည် အဆိုးဆုံးသော အပြစ်ဒဏ်ပေးနည်း ဖြစ်၏။ အဘယ်ကြောင့်ဟူမူ ဥပဒေ ချိုးဖောက်သူအား သူတို့ ကမ္ဘာလောကအတွင်း၌ နေခွင့်မရအောင် နေရာမပေးဘဲ ထားလိုက်ခြင်း ဖြစ်သောကြောင့် တည်း။

သူတို့၏ ကမ္ဘာလောကငယ်များအတွင်းရှိ လူမှုကျင့်ဝတ်များသည် ယခင်ကထက် တိကျ ပြတ်သားလာသည်။ ခိုင်မာလာသည်။ တင်းကျပ်လာသည်။ တစ်ဦးသော သူက "မင်္ဂလာ နံနက်ပါ" ဟု နှုတ်ဆက်လျှင် အနှုတ်ဆက် ခံရသူကလည်း "မင်္ဂလာနံနက်ပါ" ဟု ပြန်ပြောရမည်။ ယောကျ်ားတစ်ယောက်သည် မိမိနှင့် ပေါင်းသင်း နေထိုင်ရန် သဘောတူသော မိန်းကလေးနှင့် အတူတူနေ၍ ပေါင်းသင်းပိုင်ခွင့် ရှိ၏။ သားသမီးများ

မွေးဖွားခွင့် ရှိ၏။ ထိုသားသမီးများကို ကာကွယ် စောင့်ရှောက်ပိုင်ခွင့် ရှိ၏။ သို့သော်လည်း ယောကျ်ားတစ်ယောက် အနေဖြင့် ယနေ့ည မိန်းမတစ်ယောက်၊ နောက်ညကျတော့ တစ်ယောက်၊ နောက်တစ်ညကျတော့ တစ်ယောက် ဟူသော ပေါင်းသင်း နေထိုင်ခွင့် ကိုမူကား ရလိမ့်မည် မဟုတ်ပေ။ အဘယ်ကြောင့်ဆိုသော် ထိုလုပ်ရပ်သည် ကမ္ဘာလောကငယ် အားလုံးကို အန္တရာယ်ပြုလိမ့်မည် ဖြစ်သောကြောင့်ပေတည်း။

မိသားစုများသည် အနောက်သို့ ရှေးရှု၍ ဆက်လက် ထွက်ခွာကြသည်။ ကမ္ဘာလောကငယ်များ တည်ဆောက်မှု နည်းပညာမှာလည်း တိုးတက်လာသည်။ ထိုအခါ လူအားလုံးသည် သူတို့ ကမ္ဘာလောကငယ်များ အတွင်း၌ လုံခြုံမှု ရှိလာသည်။ ဖွဲ့စည်းမှု ပုံသဏ္ဍာန်မှာ တိကျပြတ်သားပြီး ခိုင်မာလွန်းသဖြင့် စည်းကမ်း စည်းမျဉ်းများအတိုင်း လိုက်နာကျင့်သုံးသော မိသားစုသည် ထို စည်းကမ်း စည်းမျဉ်းများ အတွင်း၌ မိမိတို့ဘဝ လုံခြုံသည်ကို ကောင်းစွာ သိလာကြလေသည်။

ကမ္ဘာလောကများ အတွင်း၌ အကြီးအကဲများနှင့် ခေါင်းဆောင်များ ပါဝင်သော အုပ်ချုပ်ရေး အဖွဲ့တစ်ဖွဲ့သည် ပေါ်ပေါက်လာသည်။ အသိဉာဏ်ပညာနှင့် ပြည့်စုံသော လူတစ်ယောက်သည် သူ၏ အသိဉာဏ်ပညာကို စခန်းတိုင်း၌ လိုအပ်နေကြောင်း တွေ့လာရသည်။ အသိဉာဏ်ပညာ ကင်းမဲ့သော လူညံ့လူအ တစ်ယောက်ကတော့ သူ၏ ညံ့ဖျင်းမှုကို ပြောင်းလဲအောင် မလုပ်နိုင်ပေ။ မည်သို့ပင်ဖြစ်စေ ဤညများ အတွင်းမှာပင် ဘဝအာမခံချက် တစ်ခုသည် ဖြစ်ပေါ်လာသည်။ အစားအသောက် ရှိနေသော လူတစ်ယောက်သည် ငတ်ပြတ်နေသူ တစ်ဦးအား ခွဲဝေမျှတ၍ ကျွေးမွေးလိုက်ခြင်းအားဖြင့် သူ့ကိုယ်သူ ငတ်ပြတ်ခြင်းဘေးမှ ကင်းဝေးအောင် အာမခံ ထားလိုက်၏။ ထို့ပြင်လည်း နို့စို့ ကလေးတစ်ယောက် သေဆုံးသောအခါ တဲ၏ တံခါးဝ၌ ငွေပြားများ အစုလိုက် အပြုံလိုက် ရောက်လာသည်။ ဘဝ၏ အဆိုးအကောင်းကို မသိရှာသေးသော ကလေးငယ် တစ်ယောက်အား ကောင်းစွာ သင်္ဂြိုဟ်ဖို့ လို၏။ ယင်းလိုအပ်ချက်ကြောင့် အားလုံးက ဝိုင်း၍ ကူကြခြင်းပေတည်း။

ကမ္ဘာလောက တစ်ခုကို တည်ဆောက်ရာ၌ သင့်တော်သော ရုပ်ဝတ္ထု ပတ်ဝန်းကျင်လည်း လိုအပ်သည်။ ဆိုကြပါစို့။ ရေရနိုင်သော နေရာ။ ထိုနေရာသည် မြစ်ကမ်းပါးတစ်ခု၊ ချောင်းတစ်ချောင်း၊ စမ်းချောင်းငယ်တစ်ခု စသည်များနှင့် နီးနီးကပ်ကပ် ရှိရန် လိုသည်။ ထို့ပြင်လည်း ရွက်ထည်တဲများ ထိုးရန်အတွက် လုံလောက်၍ ကျယ်ဝန်း

ပြန့်ပြူးသော မြေရဖို့ လို၏။ ထိုမြေပေါ်၌ မီးဖိုရန်နေရာ ရှိရမည်။ အကယ်၍ တဲနှင့် မလှမ်းမကမ်း နေရာ၌ အမှိုက်ပုံ ရှိပါမူ ပိုကောင်းသည်။

ကမ္ဘာလောကငယ်များကို ညနေပိုင်းတွင် တည်ဆောက်ကြသည်။ လမ်းမကြီး ပေါ်မှ ဆင်းလာကြသော လူများသည် ထပ်၍ ဆိုက်ရောက်လာကြသည်။ ကမ္ဘာ လောကငယ်များကို သူတို့၏ ရွက်ထည်တဲများ၊ သူတို့၏ နလုံးသားများ၊ သူတို့၏ ဦးနှောက်များနှင့် တည်ဆောက်ကြသည်။

နံနက်လင်းသောအခါ တဲများကို သိမ်းကြသည်။ တာလပတ်များကို ခေါက်ကြသည်။ တိုင်များကို စုစည်းပြီး ကားဘော်ဒီတွင် ကပ်၍ ချည်ကြသည်။ မွေ့ရာများကို သူ့နေရာနှင့်သူ နေသားတကျ ပြန်တင်ကြသည်။ အိုးခွက်ပန်းကန်များ ကိုလည်း သူ့နေရာတွင် ပြန်၍ သိမ်းဆည်းကြသည်။ မိသားစုများ အနေဖြင့် အနောက်ဘက်သို့ ခရီးဆက်ကြသည့်အခါ ညနေတိုင်း ရွက်ထည်တဲ ထိုးရသည်။ မနက်တိုင်း ပြန်သိမ်းရသည်။ ထိုအခါ ရွက်ထည်တဲ ထိုးခြင်းနှင့် သိမ်းဆည်းခြင်း အတတ်ပညာသည် ပုံသေ ဖြစ်လာသည်။ ဤသို့ဖြင့် မော်တော်ကားများ အနောက်ဘက်သို့ သွားနေခိုက်တွင် မိသားစုအတွင်းရှိ လူများသည် လူကြီးကလည်း လူကြီးအလျောက် လူငယ်ကလည်း လူငယ်အလျောက် ကလေးများကလည်း ကလေးများအလျောက် သူ ထိုင်နေကျ နေရာတွင် ပုံသေ သတ်မှတ်ပြီး ထိုင်သည်။ နေဝင်၍ ရပ်နားကြသည့် အခါတွင်လည်း လူတိုင်းသည် ကိုယ် လုပ်ရမည့် တာဝန်ကို ကိုယ့်အသိစိတ်ဓာတ်ဖြင့်ကိုယ် လုပ်ကိုင်သွားကြသည်။ ကလေးသူငယ်များက ထင်းခွေသည်။ ရေခပ်သည်။ ယောက်ျားကြီးများက ရွက်ထည်တဲ ထိုးကြသည်။ ကားပေါ်မှ အိပ်ရာများချ၍ ခင်းကြသည်။ မိန်းမများက မီးမွေးကြသည်။ ချက်ကြ ပြုတ်ကြသည်။ ကျွေးမွေးကြသည်။ ဤလုပ်ငန်းအားလုံးကို မည်သူကမှ အမိန့်ပေး၍ ခိုင်းစေခြင်း မပြုဘဲနှင့် လုပ်ကိုင်သွားကြခြင်း ဖြစ်လေသည်။ အလွန်ပူပြင်းသော နေ့ခင်း နေ့လည်အတွင်း၌ ငြိမ်ဆိတ်စွာ ထိုင်၍ လိုက်ပါသွားကြသည်။ ညပိုင်း ရောက်သောအခါတွင်မှ သူတို့ ရပ်နားသည့်နေရာ၌ ဆုံမိသော အခြား မိသားစုတစ်စုနှင့် ပေါင်းစပ် ဖွဲ့စည်းမိကြလေ၏။

ဤသို့ဖြင့် သူတို့သည် သူတို့၏ လူမှုဘဝကို ပြောင်းလဲလာကြသည်။ စကြာဝဠာအတွင်း၌ လူ ဟူသော သတ္တဝါကသာလျှင် ပြုပြင်ပြောင်းလဲနိုင်သည့်နည်းဖြင့် ပြောင်းလဲခြင်းပေတည်း။ သူတို့သည် ဟိုယခင်ကလို လယ်သမား ယာသမားများ

မဟုတ်ကြတော့။ ရေကြည်ရာ မြက်နုရာ ဒေသ၌ အခြေစိုက်ရန် ရွှေ့ပြောင်းသွားလာနေကြသည့် ခရီးသည်များ ဘဝသို့ ရောက်နေပြီ ဖြစ်၏။ ယခင်က လယ်မြေယာမြေများ အပေါ်၌သာ စူးစိုက်ထားခဲ့ကြသည့် သူတို့အတွေး၊ သူတို့စိတ်ကူး၊ သူတို့ စီမံကိန်းနှင့် သူတို့ အကြည့်များသည် ယခုအခါတွင် ကားလမ်းမကြီးများ၊ ခရီးမိုင်အကွာအဝေးများနှင့် အနောက်ဘက်ဒေသပေါ်သို့ ပြောင်းသွားကြလေပြီ။ ဟိုတစ်ချိန်ကတော့ သူ့စိတ်သည် အတိအကျ ကန့်သတ်ထားသည့် နေရာ အတွင်း၌သာ ကျက်စားခဲ့ရ၏။ အထူးသဖြင့် မိုင်အနည်းငယ်မျှသာ ကျယ်ဝန်းသည့် လယ်မြေ ဧက ဘောင်အတွင်း၌သာ ကျင်လည် ကျက်စားခဲ့ရ၏။ သူ့အတွေးနှင့် သူ့သောကမှာလည်း မိုး၊ လေ၊ ဖုန်နှင့် သီးနှံများ အပေါ်၌သာ တည်ခဲ့ရလေသည်။ အခုကျတော့လည်း သူ့မျက်လုံးများက မော်တော်ကား တာယာများကို ကြည့်သည်။ သူ့နားများက ကားစက်သံများကို နားစွင့်သည်။ သူ့စိတ်ကတော့ ဓာတ်ဆီ၊ အင်ဂျင်ဝိုင်၊ တာယာ စသည်များနှင့် နပန်းလုံးကာ ရုန်းကန် လှုပ်ရှားနေရ၏။ အကယ်၍ ဂီယာအုံသာ ကွဲသွားပါမူ သူ့အဖို့ ကြေကွဲစရာ ဖြစ်ရပေတော့မည်။

ညနေပိုင်း ရောက်လာသောအခါ ရေရဖို့နှင့် အစားအစာချက်ဖို့ အရေးသည် ပူစရာကြောင့်ကြစရာ ဖြစ်လာရပြန်သည်။ သူ သွားရမည့် ခရီးကို မနားမနေ သွားနေနိုင်ဖို့အတွက် ကျန်းမာရေးသည် အဓိက လိုအပ်ချက် ဖြစ်၏။ ခရီးပန်းတိုင် မရောက်မချင်း ကိုယ်ရောစိတ်ပါ ရှင်သန် တက်ကြွနေရေးသည် အဓိက လိုအပ်ချက် ဖြစ်၏။ ဟိုတစ်ချိန်ကတော့ သူသည် နှင်းမှုန်တိုင်းကျခြင်း သို့မဟုတ် ရေကြီးခြင်းကို ကြောက်ခဲ့၏။ အခုတော့ဖြင့် ထိုအရာများသည် သူ့ဘဝတွင် အရေးမပါတော့။ အနောက်ဘက်သို့ ခရီးမဆက်နိုင်ဘဲ ဖြစ်ရမည်ကိုသာ ကြောက်ရွံ့နေရလေပြီ။

အချို့ မိသားစုများ ကျတော့လည်း အစိုးရိမ် လွန်ကဲမှုဒဏ်ကို ခံကြရသည်။ မြန်မြန် ရောက်ချင်သည့် ဇောဖြင့် မော်တော်ကားကို နေ့ရောညပါ မောင်းကြသည်။ သူတို့ ရောက်ရမည့် နေရာကို အမြန်ဆုံး ရောက်ချင်သည့် စိတ်ဖြင့် စက်သံပင် မမှန်တော့သည့် မော်တော်ကားကို ဖွတ်အခမ္ဘ မောင်းသွားလျက် ရှိကြလေ၏။

သို့သော်လည်း မိသားစု အများကတော့ သူတို့ ကြုံနေရသည့် ဘဝသစ်တွင် အဆင်ပြေပြေ နေသွားကြသည်။ နေဝင်ချိန် နီးကပ်လာသည်နှင့် တစ်ပြိုင်နက်

စခန်းချဖို့ သင့်တော်သော နေရာ တစ်နေရာ ရှာရန် အချိန်ကျပြီ။

ရှေ့တွင် ရွက်ထည်တဲ တချို့။

မော်တော်ကားကို လမ်းဘေးသို့ ချပြီး ရပ်သည်။ သူတို့ လှမ်းမြင်နေရသည့် လူစုမှာ ကိုယ့်အလျင် ရောက်နေကြသူများ ဖြစ်သဖြင့် ယဉ်ကျေးမှု ထုံးစံအရ သူတို့၏ သဘောကို သိအောင်လုပ်ဖို့တော့ လိုသည်။ ထို့ကြောင့် မိသားစု၏ အကြီးအကဲဖြစ်သော အမျိုးသားသည် ကားထဲမှ ခေါင်းထွက်၍ ကြည့်သည်။

ကျုပ်တို့ ဒီနေရာမှာ စခန်းချပြီး တစ်ည နားချင်တယ်။ ဖြစ်ပါ့မလား။

ဟာ ဘာလို့ မဖြစ်ရမှာလဲ။ သိပ်ဖြစ်တာပေါ့။ ကျုပ်တို့က ခင်ဗျားတို့ကို လက်ခံရတာ ဂုဏ်တောင် ယူပါသေးတယ်ဗျာ။ ခင်ဗျားတို့က ဘယ်ပြည်နယ်က လာကြတာလဲ။

အာကင်ဆတ်စ် ပြည်နယ်ကဗျ။

ဟိုးရှေ့က လေးခုမြောက်တဲမှာ အာကင်ဆတ်စ်ပြည်နယ်က လူတွေ ရှိသဗျ။

ဟုတ်လား။

ထို့နောက် အရေးကြီးဆုံးသော မေးခွန်း။ ရေ ဘယ်နှယ့်လဲ။ ရရဲ့လား။

အင်း သောက်ရတာ အရသာတော့ သိပ်မရှိဘူး။ ဒါပေမဲ့ ရေကတော့ အောတိုက်နေတာပဲ။

အေးဗျာ ကျေးဇူးပါပဲ။

ကျုပ်ကို ကျေးဇူးတင်စရာ မလိုပါဘူးဗျာ။

သို့သော်လည်း လူ့ဝတ္တရားအရ ယဉ်ကျေးမှု ဆိုတာကတော့ ရှိရမည်။ ကားသည် အစွန်ဆုံး တဲဘက်သို့ လေးကန်စွာ ရွေ့လျားသွားသည်။ ထို့နောက် ပင်ပန်း နွမ်းနယ်လျက်ရှိသော လူများသည် ကားပေါ်မှ ဆင်းလာကြပြီး ခြေညောင်း လက်ဆန့်

ပြုကြသည်။ ထို့နောက် ရွက်ထည်တဲ အသစ်တစ်လုံးသည် ချက်ချင်း ပေါ်ပေါက်လာသည်။ ကလေးသူငယ်များသည် ရေသွား၍ ခပ်ကြသည်။ ခပ်ကြီးကြီး သူငယ်များကတော့ ထင်းခွေကြ၏။ တဟုန်းဟုန်း တောက်လောင်နေသော ထင်းမီးဖိုတစ်ခု၊ ညစာအတွက် ပြင်ကြဆင်ကြ၊ ကြော်ကြ ချက်ကြ။ အလျင် ရောက်နေနှင့်သူများက ရောက်လာသည်။ နှုတ်ဆက်ကြ စကားပြော၍ မိတ်ဖွဲ့ကြသည်။ တစ်ခါတစ်ရံတွင် မိတ်ဟောင်း ဆွေဟောင်း ငယ်ပေါင်းများ ပြန်၍ ဆုံမိနေတတ်သည်။ တစ်ခါတစ်ရံတွင်မူ ဆွေရိပ် မျိုးရိပ် မကင်းသူများနှင့်ပင် မမျှော်လင့်ဘဲ တွေ့နေတတ်ကြလေသည်။

အုတ်ကလာဟိုးမား ပြည်နယ်ကကိုး။ ဘယ်ကောင်တီပိုင်ထဲကလဲ။

ချာရော့ကီး။

ချာရော့ကီးမှာ ကျုပ် ဆွေမျိုးတစ်သိုက် ရှိတယ်ဗျ။ အေလင်း မိသားစုကို သိများ သိကြမလား။ ချာရော့ကီးမှာတော့ အေလင်း ဆွေမျိုးဆက်က ပျံ့နေတာပဲ။ ဒါနဲ့ ဟို ဝီလီဆီးစ် မိသားစုကော သိမလား မပြောတတ်ဘူး။

ဟာ ဘာလို့ မသိရမှာလဲ။ သိပ် သိတာပေါ့။

ဤသို့ဖြင့် အစုသစ် တစ်စုသည် ဖွဲ့စည်း ဖြစ်ပေါ်လာသည်။ အမှောင်ရိပ်သည် ကျဆင်းလာသည်။ သို့သော်လည်း အမှောင်ရိပ် မသန်းမီကတည်းက မိသားစုအသစ်သည် စခန်းတွင်း၌ ရောက်ရှိနေခဲ့လေပြီ။ တစ်ယောက်စကာ တစ်ယောက် နားဖြင့် သတင်းသည် မိသားစုတိုင်းသို့ ရောက်သွားသည်။ သူတို့သည် အားလုံးက သိသော လူစု ဖြစ်သွားသည်။

အေလင်း မိသားစုကို ကျုပ် ကောင်းကောင်း သိတာပေါ့။ တစ်သက်လုံး ခင်လာတာပဲ။ ဆိုင်မွန် အေလင်းလေ။ အဘိုးကြီး ဆိုင်မွန်ပေါ့။ သူက ပထမ မယားနဲ့ ပြဿနာဖြစ်ပြီး ကွဲသွားတယ်။ မိန်းမက ချာရော့ကီး ရက်အင်ဒီးယန်းသွေး နည်းနည်း စပ်တယ်ဗျ။

ဟုတ်တယ်။ သားဆိုင်မွန် ကျတော့ ရူးဒေါ့ဖ် မိသားစုထဲက တစ်ယောက်နဲ့ ရတယ်ဗျာ။ ကျုပ် ကောင်းကောင်း မှတ်မိတာပေါ့။ သူတို့ အီးနစ်မြို့ကို ပြောင်းသွားကြတယ်။ ဟိုရောက်မှ လုပ်ငန်း အဆင်တော်တော် ပြေသွားတယ်။

အေး ဟုတ်တယ်။ အေလင်း တစ်စုပဲ အဆင်ပြေတာ။ သူတို့က ဟိုမှာ ဓာတ်ဆီဆိုင် ဖွင့်ထားတာ။

ရေနှင့် ထင်းများ သယ်ပြီး သွားကြသော ကလေးသူငယ်များသည် ရွက်ထည် တဲများ ကြားတွင် လျှောက်သွားကြသည်။ သူငယ်ချင်း အပေါင်းအသင်း ကစားဖော် ကစားဖက် ရှာကြသည်။ သူငယ်တစ်ယောက်က အခြား သူငယ်တစ်ယောက် အနီး၌ ရပ်သည်။ ကျောက်ခဲတစ်လုံး ကောက်ယူပြီး စေ့စေ့စပ်စပ် ကြည့်နေသည်။ ပြီးတော့ ကျောက်ခဲပေါ်သို့ တံတွေး တစ်ချက် ထွေးချပြီး လက်နှင့် ပွတ်ကြည့်ပြန်သည်။ အနီးမှ လူငယ်သည် ကျောက်ခဲအပေါ် စိတ်ဝင်စားလာသည်။ ကျောက်ခဲထဲမှာ ဘာတွေ နေလို့လဲကွ။

ဘာမှ မတွေ့ပါဘူး။ ကျောက်ခဲဟာ ကျောက်ခဲပဲပေ့ါ။

ဒါနဲ့များကွာ၊ ဘာလို့ ဒီလောက် စိုက်ကြည့်နေရတာလဲ။

ရွှေများ ပါမလားလို့ ကြည့်နေတာကွ။

မင်း ဘယ်လို လုပ်ပြီး သိမှာလဲ။ ကျောက်ခဲထဲမှာ ရွှေက ရွှေရောင်မှ မတောက်တာ။ သူ့အရောင်က အမည်းကွ။

လူတိုင်း သိတဲ့ ဟာပါကွ။

ငါ လောင်းရဲတယ်။ ရွှေ မဟုတ်ဘူးကွ။ မင်းက ရွှေလို့ ထင်နေသလား။

ဒီအထဲတော့ ပါချင်မှ ပါမှာပေ့ါ။ ငါတို့ အဖေက ပြောဖူးတယ်။ ရွှေရှာရင် ကျောက်ခဲကို အဲသလို ကြည့်ရတယ် တဲ့။

ရွှေ ဘယ်လောက်ကြီးကြီး ရဖူးသလဲ။

ဟိုဟာလောက် ကြီးတယ်ကွာ။ ဟို.. ဟို ချိုချဉ်တစ်လုံးစာလောက်။ ဟော့ကောင် လာကွာ။ ငါတို့ စမ်းချောင်းဘက် သွားကြရအောင်။

မိန်းကလေးများကလည်း ယောကျ်ားလေးများလိုပင် ဖြစ်သည်။ အချင်းချင်း ဆုံမိစတွင် ရှက်သလို ရွံ့သလို။ နောက်ကျတော့ တစ်ယောက်နှင့် တစ်ယောက် အကြားကလေးများဖြင့် စကားပြောကြသည်။ အမျိုးသမီးကြီးများသည် မီးဖိုအနီးတွင် ချွေးတလုံးလုံးဖြင့် အလုပ်ရှုပ်လျက် ရှိကြ၏။ မိသားစု၏ ဝမ်းဗိုက်များ တောင့်တင်းရေး အတွက် တက်သုတ်ရိုက်လျက် ရှိကြသည်။ ငွေစ ရှင်သူများ ကျတော့ ဝက်သား အာလူးနှင့် ကြက်သွန်နီ၊ ဘီစကွတ်မုန့် သို့မဟုတ် ဂျုံပေါင်မုန့်၊ အနှစ် များများပါသော ဟင်းရည်ကို ရွှဲရွှဲဆမ်း၍ စားသောက်ကြသည်။

အတော်ကြီး ငွေစ ရှင်၍ အသုံးအစွဲ ကြီးသော မိသားစုမျိုးကျတော့ ပဲသီးဘူး၊ မက်မွန်သီးဘူး၊ အနစား ပေါင်မုန့်နှင့် ကိတ်မုန့်များကို စားကြသည်။ သို့သော်လည်း သူတို့သည် ကိုယ့်တဲထဲတွင် တိတ်တိတ်ကလေး ကျိတ်၍ စားကြခြင်း ဖြစ်၏။ ဤကဲ့သို့သော အစားကောင်း အသောက်ကောင်းများကို လူအများ မြင်သာအောင် ပြောင်ပြောင်တင်းတင်း စား၍ မသင့်ဟု သူတို့ သဘောပေါက်ကြသည်။

ညစာ စားပြီး၍ အိုးခွက် ပန်းကန်များ ဆေးကြောပြီးချိန်တွင် အမှောင်ထုသည် ကြီးမားလာလေပြီ။ ယောကျ်ားများကလည်း မြေကြီးပေါ်၌ စုဝိုင်း၍ ထိုင်ကာ အာလာပ သလ္လာပ စကားစမြည် ပြောကသည်။

သူတို့ ခွဲခွာပြီး ထားခဲ့ရသည့် မြေယာအကြောင်း စကားစပ်မိကြသည်။ နောက်ထပ် ဘာတွေ ဆက်ဖြစ်ဦးမလဲ မပြောတတ်ပါဘူးဗျာ။ ကျုပ်တို့ ဒေသ တစ်ခုလုံးကတော့ ပျက်ပါပြီ။

ဟိုတုန်းက အခြေအနေမျိုးတော့ တစ်နေ့ကျ ပြန်ရောက်ကောင်းပါရဲ့လေ။ ဒါပေမဲ့ အဲဒီအချိန်ကျတော့ ကျုပ်တို့က ကိုယ့်အရပ် ကိုယ့်ဒေသမှာ ရှိကြမှာ မဟုတ်တော့ဘူး။

လူတစ်ယောက်က ကျုပ်ကို ပြောတယ်။ ပြောတဲ့လူက အစိုးရလူဗျ။ သူက ပြောတယ်။ ထွန်စက်က ခင်ဗျားကိုပါ ပြတ်ပျက် ထွက်သွားအောင် ထွန်သွားလိမ့်မယ်တဲ့။ သူက ပြောသေးတယ်။ ခင်ဗျား ထွန်နေလို့ကတော့ မြေဟာ အရာရောက်မှာ မဟုတ်ဘူးတဲ့။ ကျုပ်တော့ ထွန်စက်နဲ့ ထွန်ကြည့်ဖို့ ကြံ့ကို မကြံခဲ့ဘူးဗျာ။ ထွန်စက်နဲ့ ထွန်တော့ ထွန်ရေးက အရှည်လေးမိုင်လောက် ရှိတယ်ဗျို့ သိလား။ ဒါတောင် မရပ်သေးဘူး။ ဘုရားသခင်ကိုတောင်မှ ပတ်ပြီး ထွန်သွားမလား အောက်မေ့ရတယ်။

ထို့နောက် သူတို့၏ နေအိမ်များ အကြောင်းကို လွမ်းဆွတ်တသသော စိတ်ဖြင့် ပြောကြသည်။ လေရဟတ်အောက်မှာ သတ်သတ် ဆောက်ထားတဲ့ အိမ်က သိပ်ကို အေးတာပဲ။ နွားနို့ ခဲတဲ့အခါများ သိပ်ကို လွယ်တာ။ နို့တွေကို အဲဒီထဲ ထည့်ထားလိုက်ရင် ခဲသွားရော။ ဖရဲသီးကို အအေးခံပြီး စားချင်ရင် ခွဲစိတ်ပြီး အဲဒီ အိမ်ထဲမှာသာ ထည့်ထားခဲ့။ အေးလွန်းလို့ စားတဲ့အခါမှာ ပါးစပ်တွေကို ကျဥ်နေတာပဲ။

ထို့နောက် သူတို့ ကြုံခဲ့ရသည့် ဝမ်းနည်းစရာ အဖြစ်ကလေးများကို ပြောကြပြန်လေသည်။ ကျုပ်မှာ ညီတစ်ယောက် ရှိတယ်။ ချာလီတဲ့။ ဆံပင်က ပြောင်းဖူးရောင်။ တစ်ခေါင်းလုံး ဝါထိန်နေတာပဲ။ လူလတ်ပိုင်းပေါ့ဗျာ။ အကော်ဒီယံ ကောင်းကောင်း တီးတတ်တယ်။ တစ်နေ့ လယ်ထဲမှာ လယ်ထွန်နေရင်းနဲ့ ထွန်သွားရှေ့မှာ ခံနေတဲ့ဟာ တစ်ခု သွားဖယ်တာ မြွေကိုက်ခံရပါလေရော။ အဲဒီတုန်း မြင်းတွေက လန့်ပြီး ထွက်သွားတော့ ထွန်သွားက သူ့ဗိုက်ကို ထိုးခွဲလိုက်သလို ဖြစ်သွားတယ်။ ဒါနဲ့တင် မပြီးသေးဘူးဗျ။ ကံက ဆိုးလွန်းတော့ ထွန်သွားက မျက်နှာကိုပါ ဖြတ်သွားသေးတယ်။

ထို့နောက် သူတို့၏ ဘဝရှေ့ရေးကို ဆွေးနွေး ဝေဖန်ကြပြန်သည်။ အေးဗျာ၊ ကျုပ်တို့ ခင်ဗျားတို့ ဟိုရောက်သွားရင် ဘယ်လိုများ ဖြစ်ကြဦးမလဲ မသိဘူးနော်။

အင်း ဓာတ်ပုံထဲမှာ မြင်ရတာတော့ဖြင့် တယ်လှတာပဲ။ ကျုပ် တစ်ပုံ မြင်ခဲ့ဖူးတယ်။ သိပ်ကို သာယာတာပဲ။ နှင်းခဲတွေ ဖုံးနေတဲ့ တောင်တန်းကြီးတွေလည်း ရှိတယ်။ ကြည့်လို့ကတော့ သိပ်ကို လှတာပဲဗျာ။

တကယ်လို့ အလုပ်ရကြမယ် ဆိုရင်တော့ အားလုံး အဆင်ပြေသွားမှာပေါ့လေ။ ဆောင်းတွင်းမှာလည်း သိပ်မအေးဘူးလို့ ပြောကြတယ်။ ချာတိတ်တွေ ကျောင်းသွားရင် အအေးမိမှာတော့ မဟုတ်ဘူး။ ဟိုရောက်ရင် ကျုပ်သားသမီးတွေကိုတော့ ကျောင်းထားမှ ဖြစ်မယ်ဗျို့။ ကျုပ်အနေနဲ့ကတော့ စာတော့ ဖတ်တတ်ပါရဲ့။ ဒါပေမဲ့ ဖတ်တတ်ရုံပဲ။

ထိုစဥ်အခိုက်တွင် ယောကျ်ားတစ်ယောက်သည် ဂီတာတစ်လုံးကို ပိုက်၍ ထွက်လာသည်။ တဲရှေ့မှ သေတ္တာပျက် တစ်လုံးပေါ်၌ ထိုင်ကာ ကြိုးကို ညှိသည်။ စခန်းထဲမှ လူအားလုံး သူ့ဆီကို ရောက်လာသည်။ အများစုသည် ဂီတာကို နည်းနည်းပါးပါးလောက်တော့ တီးချင် တီးတတ်မည်။ သို့သော်လည်း ဒီလူလောက်တော့ မတီးတတ်ကြ။ ထိုလူသည် ဂီတာကို စတီးသည်။ အားလုံး သူ့အနီးတွင် ဝိုင်းအုံလျက်

ရှိကြ၏။ ထို့နောက် ထိုလူ၏ နှုတ်မှ သီချင်းသံ ထွက်လာသည်။ "ဆယ်ဆင့်တန် ဝါပွင့်နှင့် ဆင့်လေးဆယ် အသား" သီချင်း။ အနားတွင် ရပ်နေသူများကပါ ခပ်တိုးတိုး လိုက်၍ ဆိုကြသည်။ ပြီးတော့ "ဟော့ မိန်းကလေးတွေရယ်၊ မင်းတို့ ဆံပင်တွေကို ဘာကြောင့်များ ဖြတ်နေရတာလဲကွယ်" ဟူသော သီချင်း။ ဒီတစ်ပုဒ်ကျတော့လည်း အားလုံးက လိုက်ဆိုကြသည်။ ထို့နောက်တော့ "ကျူပ် တက္ကဆတ်က ခွာပြီ" ဟူသော သီချင်းကို ညည်းသံပြု၍ ဆိုသည်။ ဤသီချင်းမှာ စပိန်များ ဝင်မလာမီက ဆိုခဲ့သော သီချင်းဖြစ်၍ စာသားများမှာ ရက်အင်ဒီးယန်း ဘာသာစကားနှင့် ဖြစ်လေသည်။

လူအားလုံး ငြိမ်ဆိတ်နေကြသည်။ သူတို့ ရင်ထဲ၌ ရှိနေခဲ့သော ဝမ်းနည်း ကြေကွဲမှုများသည် ခဏတစ်ဖြုတ်တော့ ပျောက်သွားသည်။ သီချင်းနှင့် ဂီတသံကြား နစ်မျော၍ ပါသွားကြသည်။ ထိုလူသည် သက်ကြီးရွယ်အိုများ နှစ်သက်သော သီချင်းတစ်ပုဒ်ကို ဆိုပြန်သည်။ "ယေရှုသခင်သည် သူ့ဘေးမှာ လာနေဖို့ ငါ့ကို ခေါ်နေပြီ" ဟူသော သီချင်း။ ကလေးများသည် ဂီတသံတွင် မျောပါကာ ငိုက်မျဉ်းလာကြသည်။ တဲများအတွင်းသို့ ဝင်၍ အိပ်ရာပေါ် လှဲကြသည်။ သီချင်းသံသည် သူတို့၏ အိပ်မက်များအတွင်း၌ တရစ်ပတ်ပတ် လှည့်လည် သွားလာနေဆဲ။

ခဏမျှကြာတော့ ဂီတာသမားသည် ထိုင်ရာမှ ထရပ်ကာ အားရပါးရ တစ်ချက်သမ်းသည်။ မင်္ဂလာညပါ မိတ်ဆွေတို့ဟု နှုတ်ဆက်သည်။

အားလုံးက ပြန်နှုတ်ဆက်သည်။ မင်္ဂလာညပါ။

လူတို့သည် ဂီတာကို တီးတတ်ချင်သောစိတ် ဖြစ်ပေါ်လျက် ရှိကြ၏။ တကယ်တော့ ဂီတာ တီးတတ်ခြင်းသည် အလွန် ဂုဏ်ရှိသည် မဟုတ်ပါလား။ ထို့နောက် လူအားလုံးသည် အိပ်ရာဝင်ကြသည်။ စခန်းတစ်ခုလုံး တိတ်ဆိတ်သွားသည်။ ဇီးကွက်များသည် စခန်းပေါ်မှ ဝဲကြ ပျံကြသည်။ အဝေးမှ ပရေရီ မြက်ခင်းလွင်ပြင်၊ ဝံပုလွေများ၏ အော်သံနှင့် အူသံများ။ စခန်းအတွင်းသို့ ဖျံများ ဝင်လာကြသည်။ အစားအစာ အကျန်အကြွင်း ရလိုရငြား ဟိုဝင်သည်ထွက် လျှောက်သွားနေကြသည်။ ဘာကိုမှ ကြောက်ခြင်း လန့်ခြင်းလည်း မရှိ။ တအိအိ တလှုပ်လှုပ်နှင့် ချောင်ကြို ချောင်ကြား မကျန် ဝင်၍ ရှာကြသည်။

ညသည် တဖြည်းဖြည်းနှင့် ကုန်ဆုံးလာသည်။ အရုဏ်၏ ရှေ့ပြေး အရေးအကြောင်း များသည် အရှေ့ဘက် ကောင်းကင်တွင် ထင်ဟပ်လာသည်။ တဲများအတွင်းမှ မိန်းမများ ထွက်လာပြီး မီးမွေးကြသည်။ ကော်ဖီအိုးများ တည်ကြသည်။ ပြီးတော့ ယောကျ်ားများ ထွက်လာကြသည်။ အရုဏ်၏ အလင်းရောင် အောက်တွင် စကားပြောနေကြသည်။ အသံများက တိုးတိုးသာသာ။

ကော်လိုရာဒိုး မြစ်ကို ဖြတ်မိရင် သဲကန္တာရနဲ့ တွေ့ရတော့မယ်ဟု သူတို့ ပြောနေကြသည်။ သဲကန္တာရထဲ ရောက်ရင်တော့ သတိထားကြမှ ဖြစ်မယ်။ ကားပျက်နေလို့ မဖြစ်ဘူး။ ရေတော့ များများ သယ်သွားမှ။ တကယ်လို့ ကားပျက်နေရင် ရေမရှိလို့ မဖြစ်ဘူး။

ကျုပ်တော့ သဲကန္တာရထဲ ရောက်ရင် ကားကို ညဘက်မှာပဲ မောင်းမယ်။

ကျုပ်လည်း အဲသလို လုပ်ဖို့ စဉ်းစားထားတယ်။

မိသားစုများသည် နံနက်စာကို ကသုတ်ကယက် စားကြသည်။ အိုးခွက်ပန်းကန်များကို အမြန် ဆေးကြောကြသည်။ ရွက်ထည်တဲများကို ဖြုတ်ကြ သိမ်းကြသည်။ အမြန်ဆုံး ထွက်နိုင်ဖို့ တက်သုတ်ရိုက်၍ စီစဉ်ကြလေသည်။ ဤသို့ဖြင့် နေထွက်တပြူ အချိန် ရောက်သောအခါ စခန်းတစ်ခုလုံး ရှင်းသွားလေပြီ။ လူအများ စွန့်ပစ်ထားခဲ့သည့် အမှိုက်သရိုက်များနှင့် အညစ်အကြေးများမှတစ်ပါး တခြား ဘာမှ မရှိတော့ပြီ။ စခန်းနေရာသည် နောက်ထပ် မွေးဖွားလာမည့် ညအသစ်တွင် တည်ရှိလာမည့် ကမ္ဘာလောကသစ် တစ်ခုအတွက် အသင့် ငံ့လင့် ကြိုဆိုလျက် ရှိလေသည်။

သို့သော်လည်း အဝေးပြေး ကားလမ်းမကြီး တစ်လျှောက်တွင်မူ ရေကြည်ရာ မြက်နုရာ၌ အခြေစိုက်ရန် သွားနေကြသည့် လူများ၏ မော်တော်ကားများသည် ပိုးကောင်များ သဖွယ် ရှေ့နောက် တန်းစီကာ တရွေ့ရွေ့ တလှုပ်လှုပ် ရွေ့လျား သွားနေကြ၏။ သူတို့ရှေ့တွင်မူ မိုင်ပေါင်းများစွာ ကွာဝေးသည့် မဆုံးနိုင်သေးသော ခရီးရှည်တစ်ခု။

* * *

## အခန်း (၁၈)

ဂျုတ် မိသားစုသည် အနောက်ဘက်သို့ ရှေးရှု၍ ခရီးဆက်လျက် ရှိ၏။ သူတို့သည် နယူးမက္ကဆီကို ပြည်နယ်အတွင်းမှ မြင့်မားသော တောင်စဉ် တောင်တန်းနှင့် တောင်ထွတ် တောင်ကြောများကို ကျော်ဖြတ်ကြသည်။ အရီဇိုးနား ပြည်နယ်၏ ကုန်းမြင့်များပေါ်သို့ တက်ကြသည်။ ဆေးပန်းချီ ခြယ်ထားသည့်နယ် ဖြစ်နေသော သဲကန္တာရကြီးကို တောင်ကြား တစ်ခုအတွင်းမှ နေ၍ ငုံ့ကြည့်ကြသည်။ နယ်ခြားစောင့် တစ်ဦးက သူတို့အား ဆီး၍ တားသည်။

"ခင်ဗျားတို့ ဘယ်သွားကြမှာလဲ "

"ကယ်လီဖိုးနီးယားကို " ဟု တွမ်က ဖြေသည်။

"အရီဇိုးနား ပြည်နယ်ထဲမှာ ဘယ်လောက်ကြာကြာ နေဖို့ စီစဉ်ထားသလဲ "

"ဖြတ်သွားရုံထက် ပိုပြီး ကြာကြာနေဖို့ စိတ်မကူးဘူး "

"အသီးအနှံပင်တွေ ပါလာသလား "

"မပါဘူး "

"ကားပေါ်က ပစ္စည်းတွေထဲ ရှာကြည့်ဦးမှ ကောင်းမယ်ထင်တယ် "

"ဘာပင်မှ မပါပါဘူးလို့ ကျုပ် ပြောပြီးပါပကောလား "

အစောင့်က သူ့လက်ထဲမှ စာရွက်တစ်ရွက်ကို ကားရှေ့ လေကာမှန်ပေါ်သို့ ကပ်လိုက်သည်။

"အိုကေ၊ သွားနိုင်ပြီ၊ ဒါပေမဲ့ ဘယ်မှာမှ ရပ်ပြီး ကြာကြာမနေပါနဲ့ "

"စိတ်ချပါ၊ ကျုပ်တို့ကလည်း တောက်လျှောက်သွားဖို့ ရည်ရွယ်ထားပါတယ် "

သူတို့ကားသည် တောင်ကုန်း ဆင်ခြေလျှောကို တက်သည်။ ဆင်ခြေလျှော တစ်လျှောက်တွင် ပုပုပျပ်ပျပ် သစ်ပင်ငယ်များဖြင့် ပြည့်လျက် ရှိ၏။ ဟိုးလ်ဘရွတ်မြို့၊

ဂျိုးဆက်စီးတီးမြို့နှင့် ဝင်းစလိုးမြို့။ ထိုမြို့များကို လွန်သော် မြင့်မြင့်မားမား သစ်ပင်များကို တွေ့လာရသည်။ မော်တော်ကားများသည် အခိုးအငွေ့များကို တထောင်းထောင်း ထနေအောင် မှုတ်ထုတ်ကာ ကုန်းစောင်း ဆင်ခြေလျှောကို အားကြိုးခန်ဲ့ တက်နေရလေ၏။ ထို့နောက် သူတို့သည် ဖလက်စတတ်မြို့သို့ ဆိုက်ရောက်သည်။ ထိုနေရာသည် ဤတကြောတွင် အမြင့်ဆုံးနေရာပေတည်း။ ဖလက်စတတ်မြို့၏ တစ်ဖက်သည် အဆင်းလမ်း။ ထိုလမ်းအတိုင်း ဆင်းသွားသောအခါ ကြီးမားကျယ်ပြန့်သော လွင်ပြင်ပေါ်သို့ ရောက်လာသည်။ လမ်းသည် သူတို့ရှေ့ အလွန် အလှမ်းကွာဝေးသော နေရာ၌ ပျောက်ကွယ် သွားသည် တဖြည်းဖြည်းနှင့် ရေရှားစ ပြုလာလေပြီ။ ရေကို ဝယ်၍ သုံးလာရသည်။ ရေတစ်ဂါလန်လျှင် ငါးဆင့်၊ ဆယ်ဆင့်၊ ဆယ့်ငါးဆင့် ပေးလာရ၏။ နေသည် ကျောက်ဆောင် ကျောက်စွန်းများ ထူထပ်လှသော တောင်ကုန်းများကို ခြောက်ခန်းသည်ထက် ခြောက်ခန်း သွားအောင် ပြုလုပ်လျက် ရှိ၏။ ရှေ့တည့်တည့်တွင် ငေါ်ထွက်နေသော တောင်စွန်း တောင်ထိပ် အပြတ်များကို လှမ်းမြင်နေရသည်။ အရီဇိုးနားပြည်နယ်၏ အနောက်ဘက်နံရံ တံတိုင်းပေတည်း။ အခုကျပြန်တော့လည်း သူတို့သည် နေနှင့် ခြောက်သွေ့ ပူပြင်းမှုဘေးမှ ပြေးနေကြရပြန်လေပြီ။ သူတို့သည် မော်တော်ကားများကို တစ်ညလုံး မရပ်မနား မောင်းသည်။ ထိုအခါ တောင်တန်း တောင်ကုန်းများကို ညကြီးမင်းကြီး မှောင်ကြီးမည်းမည်းထဲမှာပင် ကျော်ဖြတ်ကြရ၏။ သူတို့အား ရှေ့မှ ကာဆီးပြီး မားမားမတ်မတ် ရပ်ကြည့်သည့်နှယ် ဖြစ်လျက်ရှိသော တောင်ကုန်းများကို ပင်ပန်းကြီးစွာ တက်ကြရသည်။ ဖျော့တော့ မှေးမှိန်သော ကားရှေ့မီးများမှ မှုန်ဝါးဝါး အလင်းရောင်များသည် လမ်းဘေး တစ်ဖက်တစ်ချက်မှ ကျောက်သား နံရံများကို ထိုးပြလျက် ရှိလေသည်။ သူတို့သည် အမှောင်ထုကြားမှပင် အမြင့်ဆုံး တောင်ထိပ်ကို ကျော်ဖြတ်ခဲ့သည်။ ထိုတောင်ထိပ်၏ တစ်ဖက် လမ်းအဆင်းသို့ ရောက်ချိန်တွင် ညသန်းခေါင်ပင် ကျော်ခဲ့လေပြီ။ နေရောင်ကျလာသော အခါတွင်မှ သူတို့သည် သူတို့ အောက်ဘက်မှ ကော်လိုရာဒိုးမြစ်ကို တွေ့မြင်ရသည်။ သူတို့သည် တိုပေါ့ခ်သို့ ဦးတည်၍ မောင်းသည်။ မြစ်ကူးတံတား ရောက်တော့ ရပ်ပေးသည်။ နယ်ခြားစောင့်တစ်ဦး ရောက်လာပြီး ကားရှေ့မှန်များပေါ်၌ ကပ်ထားသော စာရွက်များကို ဆုတ်ယူသည်။ ထို့နောက် သူတို့သည် တံတားကို ဖြတ်ကာ တစ်ဖက်ရှိ ကျောက်တုံးကျောက်ခဲ အပိုင်းအပြတ် အစအနများဖြင့် ပြည့်နေသော ကန္တာရ အတွင်းသို့ တိုးဝင်လာခဲ့ကြလေ၏။ သူတို့အားလုံး အသက် ထွက်လုမတတ် မောဟိုက်

ပင်ပန်းနေကြပြီး ဖြစ်ရုံမျှမက နံနက်ခင်း နေပူရှိန်ကလည်း တိုးသည်ထက် တိုး၍ ပူလာနေပြီ ဖြစ်သဖြင့် ရပ်နားမှ ဖြစ်တော့မည့် အခြေအနေသို့ ဆိုက်ရောက်နေကြရလေပြီ။

"ငါတို့ ရောက်ပြီကွ၊ ကယ်လီဖိုးနီးယား မြေပေါ်ကို ရောက်ပြီ" ဟု အဖေဂျုတ်က ပြောသည်။ သူတို့သည် အရီဇိုးနား ပြည်နယ်ဘက်တွင် ကျန်ခဲ့သည့် ကျောက်ဆောင် ကျောက်တောင် ကျောက်နံရံကြီးများဆီသို့ နွမ်းလျသော မျက်လုံးများဖြင့် ငေးမောနေမိကြသည်။ မြစ်တစ်ဖက်ကမ်းရှိ ကျောက်တုံးကြီးများသည် ပူပြင်းသော နေရောင်အောက်ဝယ် တလက်လက် တောက်ပလျက် ရှိကြလေသည်။

"ကျုပ်တို့ သဲကန္တာရကို ဖြတ်ကြရတော့မယ်" ဟု တွမ်က ပြောသည်။ "နားမယ်ဆိုရင်တော့ မြစ်ဆိပ်ထိ ဆင်းနားမှ ဖြစ်မှာ"

မော်တော်ကားလမ်းသည် မြစ်နှင့်အပြိုင် ပြေးလျက် ရှိ၏။ သူတို့လူစု နီဒဲလ်သို့ ဆိုက်ရောက်သွားချိန်သည် နံနက်ပိုင်း အချိန်ကောင်း ဖြစ်လေသည်။ ဤနေရာကျတော့ မြစ်သည် ကျူပင်များကြားတွင် အရှိန်ပြင်းစွာဖြင့် စီးဆင်းလျက် ရှိလေ၏။

ဂျုတ်နှင့် ဝီလ်ဆန် မိသားစုများသည် သူတို့ မော်တော်ကားများကို မြစ်ဆိပ်ဆီသို့ မောင်းသွားကြသည်။ သူတို့သည် တသွင်သွင် စီးဆင်းနေသော ချစ်စရာ့မြစ်ရေပြင်ကို ကားပေါ်မှထိုင်၍ ငေးကြည့်နေကြလေ၏။ စိမ်းလန်းစိုပြည်သော ကျူပင်များသည် ရေစီးကြောင်းကြားတွင် ဖြည်းဖြည်းချင်း လှုပ်ယမ်းကာ ဟိုယိမ်းသည်နွဲ့ ဖြစ်နေကြလေသည်။ မြစ်ဆိပ်နှင့် နီးနီးနေရာတွင်မူ ရွက်ထည်တဲ တစ်စု။ စုစုပေါင်း ဆယ့်တစ်လုံး။ အနီးတစ်ဝိုက် မြေပြင်မှာ စိမ်းလန်းသော မြက်ပင်များ ဖုံးအုပ်လျက် ရှိ၏။ တွမ်သည် ကားပြတင်းပေါက်မှ နေ၍ ခေါင်းထုတ်လိုက်သည်။

"ကျုပ်တို့ ဒီမှာ ခဏ နားချင်တယ်၊ ဖြစ်မလား"

ရေပုံးတစ်လုံးနှင့် အဝတ်လျှော်နေသော ကိုယ်လုံးကိုယ်ပေါက် တောင့်တောင့် ရောင့်ရောင့် အမျိုးသမီး တစ်ဦးက မော့ကြည့်သည်။ "ကျွန်မတို့ပိုင်တဲ့မြေ မဟုတ်ဘူး မစ္စတာ၊ ရှင် နားချင်ရင် နားပေါ့၊ ရှင်တို့ကို စစ်မယ့် ဆေးမယ့် ပုလိပ်တစ်ယောက်တော့ လာလိမ့်မယ်" အမျိုးသမီးသည် သူ့အဝတ်များကို ဆက်၍ လျှော်နေသည်။

ကားနှစ်စင်းသည် မြက်ခင်းပြင်ပေါ် ဆင်း၍ ရပ်သည် ရွက်ထည်တဲ ပစ္စည်းများကို ကားများပေါ်မှ ချသည်။ ဝီလ်ဆန်၏ တဲသည် တစ်ခဏ အတွင်းမှာပင် ထိုး၍ ပြီးသွားလေ၏။ ဂျတ် မိသားစုကတော့ တာပေါ်လင် ရွက်ထည်အမိုးမှ ကြိုးများကို ဖြည်နေကြဆဲ။

ဝင်းဖီးနှင့် ရှသီတို့သည် မိုးမခပင်ပေါက်များကြားမှဖြတ်၍ ကျူပင်များ ထူထပ်စွာ ပေါက်ရောက်လျက်ရှိသော နေရာသို့ လျှောက်သွားကြသည်။ ရှသီက ရွှင်မြူးတက်ကြွသော လေသံဖြင့် ပြောသည်။ "ငါတို့ ကယ်လီဖိုးနီးယားကို ရောက်ပြီ သိလား၊ အခု ငါတို့ ရပ်နေတာ ကယ်လီဖိုးနီးယားပေါ့ ဟဲ့"

ဝင်းဖီးက ကျူရိုး တစ်ရိုးကို ဆွဲဖြုတ်လိုက်ပြီး ရိုးတံအောက်ခြေမှ အသားနု အဖတ်ကလေးကို ပါးစပ်နှင့် ကိုက်ဖြတ်ကာ ဝါးနေသည်။ နှစ်ယောက်သား ရေစပ်အထိ ဆင်းသွားကြပြီး ရေထဲ၌ ရပ်နေကြသည်။ မြစ်ရေသည် သူတို့၏ ခြေသလုံးများကို တိုးဝှေ့ပွတ်တိုက်ကာ စီးဆင်းလျက် ရှိလေ၏။

"သဲကန္တာရထဲကိုတော့ အခုထက်ထိ မရောက်သေးဘူး" ဟု ရှသီက ဆိုသည်။

"သဲကန္တာရ ဆိုတာ ဘယ်လိုဟာမျိုးလဲ၊ ဘာနဲ့ တူလဲ ဟင်"

"ငါလည်း မသိဘူး၊ တစ်ခါတုန်းက ဓာတ်ပုံ တစ်ပုံထဲမှာ ငါ မြင်ဖူးတယ်၊ နေရာတိုင်းမှာ အရိုးတွေ ပုံနေတာပဲ"

"လူရိုးတွေလား ဟင်"

"တချို့ အရိုးတွေ ကြည့်ရတာတော့ လူရိုးတွေ ဖြစ်မယ် ဟဲ့၊ ဒါပေမဲ့ အများဆုံးကတော့ နွားရိုးတွေပါ ဟယ်"

"ဒီလိုဆို ငါတို့ သဲကန္တာရထဲ ရောက်တဲ့အခါ အရိုးတွေကို မြင်ရမှာပေါ့နော်"

"မြင်ချင်လည်း မြင်ရမှာပဲ၊ တပ်အပ်တော့ ငါလည်း မပြောတတ်ဘူး၊ တို့ ဖြတ်မှာက ညပိုင်းကျမှ ဖြတ်မှာလို့ တွမ်က ပြောတာပဲ၊ ပြီးတော့ သူက ပြောတယ်၊

သဲကန္တာရကို နေ့ခင်း ဖြတ်မယ်ဆိုရင်တော့ ဘုရားသခင်က ငါတို့အားလုံးကို မီးလောင်တိုက် သွင်းပစ်လိမ့်မယ် တဲ့"

"ခြေထောက်တွေ ရေထဲ စိမ်ထားရတာဟာ ဖိမ်ရှိလိုက်တာဟယ်၊ အေးနေတာပဲ" ဟု ဝင်းဖီးက ပြောသည်။ သူသည် ခြေမများဖြင့် သဲပြင်ကို ထိုးဆွနေသည်။

သူတို့သည် အမေ၏ အော်ခေါ်သံကို ကြားရ၏။ "ရှုသီ၊ ဝင်းဖီး၊ ဒီကို လာခဲ့ကြမ်း" နှစ်ယောက်သား နောက်သို့ ပြန်လှည့်ကာ လမ်းပေါ်သို့ တက်သည်။ ကျူပင်များကို တိုးဝှေ့ကာ လာလမ်းအတိုင်း မိုးမခပင်များ ကြားမှ ဖြတ်၍ ပြန်သည်။

အခြားတဲများသည် ငြိမ်ဆိတ်လျက် ရှိကြ၏။ ကားနှစ်စီး ဝင်လာစကတော့ တဲများအတွင်းမှ ဦးခေါင်းများ ပြူထွက်လာခဲ့ကြသည်။ ပြီးတော့ ချက်ချင်းပင် ပြန်လည် ဝင်ရောက် ပျောက်ကွယ် သွားခဲ့၏။ ရွက်ထည်တဲ အသစ် နှစ်လုံးသည် မြေပေါ်တွင် အခြေစိုက်မိကြလေပြီ။ ယောက်ျားအားလုံးသည် လုပ်စရာ အလုပ်တစ်ခု ပြီးပြတ်သွား သဖြင့် တစ်နေရာတွင် ပြန်စုမိကြသည်။

"ကျုပ်တော့ မြစ်ထဲ ဆင်းပြီး ရေတစ်ဝကြီး ချိုးပစ်လိုက်ဦးမယ်၊ ဒီအလုပ်ကတော့ အိပ်ရာမဝင်ခင် လုပ်ကို လုပ်မှ ဖြစ်မယ့်အလုပ်၊ အဘွားကော တဲထဲ ရောက်ပြီလား၊ ဘယ့်နှယ် နေသေးလဲ၊ နေကောင်းပုံ ပေါ်ရဲ့လား" ဟု တွမ်က မေးသည်။

"ငါလည်း မသိဘူး" ဟု အဖေဂျုတ်က ဖြေသည်။ "အိပ်ရာကမှ နိုးသေးရဲ့လား" အဖေဂျုတ်က တဲဘက်သို့ ခေါင်းငဲ့ကြည့်သည်။ တဲအတွင်းမှ ညည်းသံ။ အမေသည် တဲထဲသို့ ကပျာကယာ ဝင်သွားသည်။

"နိုးတော့ နိုးနေပါပြီ" ဟု နိုအာက ပြောသည်။ "တစ်ညလုံး ကားဆောင့်တဲ့ ဒဏ်ကိုတော့ အလူးအလဲ ခံထားရပုံ ပေါ်တယ်၊ သူ့ကြည့်ရတာ သတိ မရှိတဲ့ လူတစ်ယောက်လိုပဲ"

"သိပ် ပင်ပန်းသွားတဲ့ သဘောပေါ့၊ တကယ်လို့ အနားမရဘူး ဆိုရင်တော့ ကြာရှည်ခံမယ်တောင် မထင်ဘူး၊ အဆမတန် ပင်ပန်းပြီး ဖြစ်သွားတဲ့ သဘောပါ၊ ကဲ ကျုပ် ရေဆင်းချိုးမလို့ ဘယ်သူ လိုက်ဦးမလဲ" တွမ်က ပြောပြောဆိုဆိုနှင့်ပင် မြစ်ဘက်သို့

ထွက်သွားသည်။ တခြားလူစုက သူ့နောက်မှ လိုက်သွားကြသည်။ သူတို့သည် အဝတ်အစားများကို ချွတ်၍ မိုးမခပင် ခြေရင်းတွင် ပုံခဲ့ပြီး ရေထဲသို့ ဆင်းကာ ထိုင်လိုက်ကြသည်။ သူတို့သည် ခေါင်းများကိုသာ ဖော်ထားပြီး တစ်ကိုယ်လုံးကို နာရီပေါင်း အတန်ကြာမျှ ရေစိမ်ကြသည်။

"ကျုပ်အဖို့ကတော့ ဒါလုပ်ဖို့ လိုနေတယ်" ဟု အယ်လ်က ရေရွှတ်ပြီး ရေအောက်မှ သဲလက်တစ်ဆုပ် ယူ၍ သူ့တစ်ကိုယ်လုံးကို ပွတ်တိုက်နေသည်။ သူတို့သည် ရေထဲတွင်စိမ်၍ ဖိမ်ခံနေရာမှ မြစ်ပြင်ပေါ်ကျော်ပြီး တစ်ဖက်ရှိ တောင်ထိပ် တောင်စွန်းများကို ငေးကြည့်နေကြလေ၏။ ထိုနေရာသည် နီဒဲလ်ဟု ခေါ်သော နေရာပေတည်း။ သူတို့ မျက်လုံးများသည် အရီဇိုးနား ပြည်နယ်၏ ဖွေးဖွေးလှုပ်နေသော တောင်စဉ် တောင်တန်းများ ဆီသို့ ရောက်သွားကြပြန်လေသည်။

"ငါတို့ ဖြတ်လာတာ အဲဒီတောင်တန်းတွေပေါ့" ဟု အဖေဂျုတ်က ပြောသည်။

ဦးလေးဂျွန်သည်ြ သူ့ခေါင်းကို ရေထဲသို့ ငုပ်လိုက်သည်။ "ငါတို့ပ ရောက်တော့ ရောက်ကြပြီ၊ ဒီမြေဟာ ကယ်လီဖိုးနီးယား မြေပဲ၊ ကြည့်ရတာကတော့ဖြင့် သိပ်ပြီး ဟန်ပုံ မရပါဘူးကွာ"

"ကျုပ်တို့ အခုထက်ထိ သဲကန္တာရထဲကို မရောက်သေးဘူး" ဟု တွမ်က ပြောသည်။ "ဒီ ခွေးမသား သဲကန္တာရကတော့ မနိပ်ဘူးလို့ ကြားဖူးတာပဲ"

"ကနေ့ည ဖြတ်မှာလား" ဟု နိုအာက မေးသည်။

"အဖေ ဘယ်လို စိတ်ကူးသလဲ ဟင်" ဟု တွမ်က လှမ်းမေးသည်။

"အင်း ငါလည်း မပြောတတ်ဘူး၊ ငါတို့ အနေနဲ့ မနားဘဲ ဆက်လို့ ဖြစ်ပါ့မလား၊ အထူးသဖြင့် မင်းတို့အဘွား အတွက်က စဉ်းစားမှ ဖြစ်မှာ၊ ဒါပေမဲ့ တစ်ဖက်မှာလည်း မစဉ်းစားလို့ မဖြစ်တာ တစ်ခုက ရှိနေတယ်၊ ငါတို့ ဟိုကို ပြန်ရောက်ပြီး မြန်မြန် အလုပ်နဲ့အကိုင်နဲ့ ဖြစ်ဖို့ သိပ်အရေးကြီးနေပြီ၊ အခုဆို လက်ထဲမှာ ငွေဒေါ်လာ လေးဆယ်ပဲ ရှိတော့တယ်၊ အလုပ်ရပြီး ဝင်ငွေလေး နည်းနည်းပါးပါး ရလာမှ စိတ်အေးရမှာ"

အားလုံး ငြိမ်ဆိတ်ကာ ရေစီး၏ တိုးဖေ့မှုကို အရသာခံကြသည်။ တရားဟောဆရာသည်။ သူ့လက်မောင်းများကို ဆန့်တန်းကာ ရေပေါ်၌ ဖော့ထားသည်။ လူအားလုံးမှာ လည်ပင်းနှင့် လက်ကောက်ဝတ် နေရာများမှ လွဲ၍ တစ်ကိုယ်လုံး ဖြူဖွေးလျက် ရှိ၏။ လက်များနှင့် မျက်နှာများမှာမူ နေပူဒဏ် ခံထားရသဖြင့် ညိုမောင်းမောင်း ဖြစ်နေကြသည်။ ရင်ဘတ်ပေါ်ရှိ အင်္ကျီ လည်ပင်းပေါက် နေရာများတွင် နေကွက်၍ လောင်ထားသဖြင့် လည်ပင်းပေါက် အရာသည် အကွင်းလိုက် ပေါ်လျက် ရှိသည်။ သူတို့သည် သူတို့၏ ကိုယ်များကို သဲများဖြင့် တရစပ် ပွတ်တိုက်ပေးနေကြလေသည်။

"ဒီနေရာမှာပဲ အခုလို နေလိုက်ချင်တော့တယ်၊ တစ်ရက်တည်း မဟုတ်ဘူး၊ ဖြစ်နိုင်ရင် တစ်သက်လုံးပဲ နေလိုက်ချင်တယ်၊ ဘယ်တော့မှလည်း မဆာ၊ ဘယ်တော့မှလည်း ဝမ်းနည်းစရာတွေနဲ့ မကြုံဘဲ ဝက်မတစ်ကောင် ရွှံ့ထဲမှာ အိပ်နေသလို တစ်သက်လုံး စိမ်နေရရင် ဘယ်လောက် ကောင်းလိုက်မလဲ" ဟု နိုအာက ကြုံကြုံဖန်ဖန် တောင့်တောင့်တတ ပြောသည်။

တွမ်သည် အစွန်းကြီးများ ထိုးထိုးထောင်ထောင် ထွက်ကာ မညီမညာ မလှမပ ဖြစ်နေသော တောင်ထွတ် တောင်စွန်းများကို စိတ်ဝင်တစား ငေးကြည့်နေသည်။ "ဒီလောက် ကြမ်းတမ်းတဲ့ တောင်တန်းမျိုးတွေကို ဘယ်တုန်းကမှ မမြင်ခဲ့ဖူးဘူး၊ ဒီဒေသဟာ အတော်ကြီးကို ရက်စက် ကြမ်းကြုတ်မယ့် ဒေသတစ်ခု ဖြစ်လိမ့်မယ်လို့ ထင်တာပဲ၊ ကျုပ်တို့လူစု အလုပ်တွေ ဘာတွေ ရပြီး အေးအေးဆေးဆေး ရှာဖွေ စားသောက်လို့ရတဲ့ နေရာမျိုး ရောက်သွားရင်တော့ သိပ်ကို ဝမ်းသာစရာ ကောင်းမှာပဲ၊ အမေ ပြော ပြောနေတဲ့ တိုက်ဖြူဖြူကလေးတွေကိုလည်း ပုံတွေထဲမှာတော့ မြင်ခဲ့ဖူးပါတယ်၊ အဲဒီ တိုက်မျိုးတွေ ဆောက်ထားတဲ့ နေရာတွေကတော့ အခု မြင်နေရသလို မဟုတ်ဘူး၊ မြေကလည်း မြေပြန့်၊ ပြီးတော့ မြေတစ်ပြင်လုံး စိမ်းလန်း စိုပြည်နေတာပဲ၊ အင်း အမေကတော့ သူ့အသည်းနှလုံးကို တိုက်ဖြူဖြူကလေး ပေါ်မှာပဲ မြှုပ်ထားပုံ ရတယ်၊ ကျုပ်ကတော့ အမေ မျှော်လင့်နေတဲ့ဟာမျိုး တွေ့မှ တွေ့ပါ့မလားလို့ သံသယ ဖြစ်နေမိတယ်၊ ဒီပြည်နယ်ထဲမှာ အဲသလို နေရာမျိုး လုံးဝ မရှိဘူးလို့တော့ တွက်လို့ မရဘူးဗျ၊ ရှိတော့ ရှိမယ်၊ ကျုပ် ဓာတ်ပုံတွေထဲမှာ မြင်ခဲ့ဖူးတာ အမှန်ပဲ"

"ကယ်လီဖိုးနီးယား ရောက်တဲ့အချိန်ထိတော့ စောင့်ဦးမှပေါ့ကွာ၊ မင်းကလည်း ဟိုရောက်တော့မှပဲ နေရာကောင်းလေးတွေကို မြင်ရ တွေ့ရတော့မပေါ့" ဟု အဖေက ပြောသည်။

"အဖေကလည်းဗျာ၊ ကျုပ်တို့ အခု ရောက်နေတာ ကယ်လီဖိုးနီးယားဗျ"

ထိုအခိုက်တွင် မိုးမခပင်များ ကြားမှ တိုးထွက်လာသော လူနှစ်ယောက်။ ဂျင်းဘောင်းဘီနှင့် အပြာရောင် ရှပ်အင်္ကျီများ ဝတ်ထားသည်။ အင်္ကျီများမှာ ချွေးများဖြင့် နစ်လျက် ရှိသည်။ လူနှစ်ယောက်သည် ကိုယ်တုံးလုံးဖြင့် ရေစိမ်နေသော လူများကို ရပ်ကြည့်နေကြသည်။ "ရေကူးရတာ ကောင်းရဲ့လားဗျ" ဟု လှမ်းမေးသည်။

"မသိဘူးဗျို့" ဟု တွမ်ကဖြေသည်။ "ကျုပ်တို့တော့ အမောပြေသွားတာ အမှန်ပဲ၊ ရေထဲ ဆင်း ထိုင်နေရင်တော့ ဖိမ်ရှိမှာပါ"

"ကျုပ်တို့ ရေဆင်းချိုးရင် ရမလား"

"ဒီမြစ်က ကျုပ်တို့ ပိုင်တဲ့ မြစ်မှ မဟုတ်တာ၊ ခင်ဗျားတို့ ချိုးချင် ချိုးပေါ့"

လူနှစ်ယောက်သည် ဘောင်းဘီနှင့် အင်္ကျီများကို ချွတ်ကြသည်။ ဖုန်များသည် ဒူးဆစ်အထိ တက်လာလျက် ရှိ၏။ သူတို့ ခြေထောက်များမှာမူ ဖြူရော်ရော် ဖျော့တော့တော့။ နှစ်ယောက်သား လေးတိလေးကန်ဖြင့် ရေထဲသို့ ဆင်းလာပြီး ထိုင်ကြသည်။ နေလောင်ထားသည့် ဒဏ်ရာ ဒဏ်ချက်များဖြင့် ပြည့်နေသော လူနှစ်ယောက်။ အဖေနှင့်သား။ သားက ငယ်ငယ်ပင် ရှိသေးသည်။

"အနောက်ပိုင်းကို သွားကြမှာလား" ဟု အဖေဂျုတ်က မေးသည်။

"မဟုတ်ဘူး၊ ကျုပ်တို့ အဲဒီက ပြန်လာကြတာ၊ အိမ်ပြန်မလို့၊ ကျုပ်တို့ အနေနဲ့ ဟိုအရပ်မှာ ဘာမှ လုပ်ကိုင်စားလို့ မရဘူး"

"အိမ်က ဘယ်မှာလဲ" ဟု တွမ်က ဝင်မေးသည်။

"ပန်ဟန်းဒဲလ်၊ ပင်ပါမြို့နားက ပေါ့ဗျာ"

"ခင်ဗျားတို့ အရပ်ကျတော့ကော လုပ်လို့ကိုင်လို့ အဆင်ပြေပါ့မလား" ဟု အဖေဂျုတ်က မေးပြန်သည်။

"မပြောပါဘူး၊ ဒါပေမဲ့ ကိုယ့်အရပ် ကိုယ့်ဒေသဆိုတော့ ကိုယ်သိတဲ့ လူတွေကြားမှာ ဝင်ပြီး သေရတာ ပိုကောင်းတာပေါ့၊ ကိုယ့်အပေါ် စက်ဆုပ် မုန်းတီးနေတဲ့ သူစိမ်းတရံဆံတွေ ကြားမှာ ဝင်ပြီး သေရတာလောက် မဆိုးဘူးပေါ့ဗျာ"

"ဒီအချိုးမျိုး ပြောတာ ခင်ဗျားက ဒုတိယလူပဲ၊ ဟိုအရပ်က လူတွေက ခင်ဗျားတို့ကို ဘာပြုလို့ မုန်းကြတာလဲ" အဖေဂျုတ်က မေးပြန်သည်။

"ပြောတတ်ပါဘူးဗျာ" ဟု ထိုလူက ဆိုသည်။ သူသည် လက်ခုပ်နှစ်ဖက်ဖြင့် ရေကို ခပ်ကာ မျက်နှာသစ်နေသည်။ ပလုတ်ကျင်းသည်။ ညစ်ပတ်သော ရေများသည် ဖုန်အလိမ်းလိမ်း ကပ်နေသော ဆံပင်များကြားမှ လည်ပင်းတစ်လျှောက် စီးဆင်းလာလျက် ရှိလေသည်။

"ဒီအကြောင်းကို ကျုပ် နည်းနည်းပါးပါး ထပ်သိချင်တယ်ဗျာ" ဟု အဖေဂျုတ်က ပြောသည်။

"ကျုပ်လည်း သိချင်တယ်" ဟု တွမ်က ပြောသည်။ "အနောက်ဘက်ဒေသခံ လူတွေက ခင်ဗျားတို့ကို ဘာပြုလို့ မုန်းကြရတာလဲ၊ အဓိပ္ပာယ် မရှိပါဘူး"

ထိုလူက တွမ်အား ဖျတ်ခနဲ လှမ်းကြည့်သည်။ "မင်းတို့က အနောက်ပိုင်းကို သွားကြမှာလား"

"ဟုတ်တယ်"

"အရင်က ကယ်လီဖိုးနီးယားကို တစ်ခေါက်မှ မရောက်ဖူးဘူးနော်"

"အင်း ဟုတ်တယ်၊ မရောက်ဖူးကြဘူး"

"ဒါဆိုရင်တော့ ငါ့ကို မေးမနေပါနဲ့တော့၊ ကိုယ်တိုင်ပဲ လက်တွေ့ကျကျ သွားကြည့်ပေါ့"

"ဒါပေမဲ့ဗျာ၊ ကိုယ်တိုင် ရောက်မသွားခင် သိသင့်တာလေးတွေ ကြိုပြီး သိထားရတော့ ပိုကောင်းတာပေါ့"

"အမှန်အတိုင်း သိချင်တယ် ဆိုရင်တော့လည်း ပြောပြရမှာပေါ့၊ ငါကိုယ်တိုင်ကလည်း စဉ်းစားချင့်ချိန်တတ်တဲ့ လူတစ်ယောက် ဆိုတော့ အခြေအနေကို သိခဲ့ပါတယ်၊ ဒေသကတော့ အင်မတန် ကောင်းတဲ့ ဒေသတစ်ခုပါ၊ ဒါပေမဲ့ လွန်ခဲ့တဲ့ နှစ်ပေါင်းများစွာကတည်းက အခိုးခံသွားရပြီကွ၊ မင်းတို့ သဲကန္တာရကို ကျော်မိရင် ဘေးကားစ်ဖီးလ်မြို့ တစ်ဝိုက်က ဒေသကို ရောက်လိမ့်မယ်၊ ဒီလောက် လှပတဲ့ ဒေသမျိုးကို မင်း ဘယ်တုန်းကမှ တွေ့ဖူး မြင်ဖူးခဲ့မှာ မဟုတ်တာ သေချာတယ်၊ သိပ်ကိုလှတာကွ၊ အားလုံး ခြံတွေချည်းပဲ၊ စပျစ်ခြံတွေပေါ့ကွာ၊ လှလိုက်တာမှ အလွန်ပဲ၊ သိလား၊ ပြီးတော့ အင်မတန်မှ မြေဩဇာကောင်းတဲ့ မြေတွေကို မင်းတို့ တွေ့ရလိမ့်ဦးမယ်၊ အဲဒီမြေတွေက မြေပြန့်ကွ၊ မြေအောက် ပေသုံးဆယ် အနက်လောက် တူးရင် ရေထွက်တယ်၊ အဲသလောက် ကောင်းတဲ့ မြေတွေကို မစိုက်မပျိုးဘဲ ပစ်ထားကြတယ်၊ ဒါပေမဲ့ အဲဒီမြေကို တစ်လက်မတောင်မှ ရလိမ့်မယ် မထင်နဲ့၊ လုံးဝ မရနိုင်ဘူး၊ အဲဒီ မြေတွေကို မြေယာနဲ့ ကျွဲနွား မွေးမြူရေး ကုမ္ပဏီတစ်ခုက ပိုင်တယ်၊ သူတို့က အဲဒီမြေပေါ်မှာ ဘာမှ မစိုက်ပျိုးဘူးလို့ ဆုံးဖြတ်ထားရင် ဘာမှ စိုက်လို့ မရဘူး၊ မင်းက ပြောင်းပင်လေး တစ်ပင် ဝင်စိုက်တယ် ဆိုပါတော့၊ အဲ မင်း ထောင်ကျမှာပဲ"

"ခင်ဗျား ပြောတော့လည်း မြေကောင်းတွေဆို၊ သူတို့ ဘာမှ မစိုက်ကြဘူးလား"

"မစိုက်ကြဘူး ဟေ့၊ ဘာဆို ဘာမှ မစိုက်ကြဘူး၊ မြေတွေကတော့ ကောင်းမှကောင်းပဲ၊ အဲဒီအဖြစ်ကို မြင်ရင် မင်း ရူးတောင် ရူးချင်လိမ့်မယ်၊ လူတွေကလည်း မင့်ကိုမြင်ရင် ကြည့်ပုံက တစ်မျိုး၊ မင့်ကို ကြည့်နေတဲ့ သူတို့ မျက်နှာတွေက ခွေးမသား၊ ငါ မင့်ကို သိပ် သောက်မြင်ကတ်တယ် လို့ ပြောနေတယ်၊ ပြီးတော့ လက်ထောက် ပုလိပ် အရာရှိတွေဆီ သွားတယ်၊ ချောက်တွန်းတယ်၊ မောင်းထုတ်တယ်၊ ကားလမ်းဘေးမှာ တဲထိုးပြီး နေရင်လည်း လိုက်နှောင့်ယှက်တာပဲ၊ ကောင်းကောင်း မနေရဘူး၊ သူတို့ မျက်နှာတွေက ဘယ်တော့မှ ကြည်ကြည်သာသာ မရှိဘူး၊ အလွန် စက်ဆုပ်ရွံရှာတဲ့ ပုံမျိုးကြီးတွေနဲ့ ကြည့်တာ၊ ငါ မင့်ကို တစ်ခု ပြောလိုက်ရဦးမယ်၊ သူတို့ အနေနဲ့ ထမင်းလုတ် လုအစားခံရမှာကို ကြောက်နေတဲ့ သဘောပဲ၊ သူတို့ အနားမှာ ရှိနေတဲ့ မြေတွေကို သူတို့လည်း မပိုင်ဘူး၊ ဒါပေမဲ့ အဲဒီမြေတွေ တခြားလူတွေ လက်ထဲ ရောက်သွားမှာလည်း

ကြောက်နေတယ်၊ ကဲ ဘယ်လောက် ခွကျသလဲ၊ သောက်သုံးမကျလိုက်ပုံများ ပြောလို့တောင် မကောင်းတော့ဘူး၊ မင်း အခုထက်ထိ အုတ်ကီးလို့ အခေါ်မခံရသေးဘူးလား”

“ဘာ အုတ်ကီး၊ ဟုတ်လား၊ အဲဒါ ဘာလဲ” ဟု တွမ်က မေးသည်။

“အုတ်ကီး ဆိုတာက အုတ်ကလာဟိုးမားက ကောင်လို့ ပြောတာကွ၊ အဓိပ္ပာယ်က လုံ၀ အကောင်း မဟုတ်ဘူး၊ အင်မတန် စုတ်ပဲ့ ယုတ်မာတဲ့ ခွေးမသားလို့ ခေါ်တဲ့ သဘောပဲ၊ တကယ်တော့ အုတ်ကီး ဆိုတာ မင့်ကို လူညံ့လို့ ခေါ်လိုက်တာပဲ၊ တခြားအဓိပ္ပာယ် ဘာမှ မထွက်ဘူး၊ ငါလည်း ဒီထက်ပိုပြီး မပြောပြနိုင်တော့ဘူး၊ မင်းတို့ ဟိုရောက်တော့ သိကြမှာပေ့ါ၊ ငါ သိရသလောက်တော့ ဒီဒေသမှာ ငါတို့နယ်က လူတွေ သုံးသိန်းလောက် ရောက်နေတယ်တဲ့၊ နေကြ ထိုင်ကြရတာကတော့ ဝက်တွေနဲ့ ဘာမှ မထူးဘူး၊ ကယ်လီဖိုးနီးယားမှာ အရာရာတိုင်း ပိုင်ရှင်နဲ့ချည်းပဲ၊ ပိုင်ရှင်မဲ့ ပစ္စည်းဆိုလို့ ဘာတစ်ခုမှ မရှိတော့ဘူး၊ ပြီးတော့ သူတို့က အလကားနေရင်းနဲ့ အကြောင်းမဲ့ လန့်ဖျပ်ပြီး အရူးတွေလို ဖြစ်နေကြတာ၊ မင်း ဟိုရောက်တော့ မြင်ရ ကြားရမှာပါ၊ နယ်မြေကတော့ အလွန်ကို လှပါတယ်၊ အဲ လူတွေကတော့ မင့်အပေါ်မှာ လုံး၀ သဘောကောင်းမှာ မဟုတ်ဘူး၊ သူတို့မှာ အစိုးရိမ်လွန်ပြီး သောကတွေ များနေရတာနဲ့ပဲ သူတို့ အချင်းချင်းတောင် သဘော မကောင်းနိုင်ကြဘူး”

တွမ်သည် မျက်လွှာကို ချကာ သူ့ရှေ့တည့်တည့်မှ ရေပြင်ကို စိုက်ကြည့်နေသည်။ “လူတစ်ယောက် အနေနဲ့ အလုပ်ရလို့ ငွေလေး ဘာလေး စုမိ ဆောင်းမိရင်ကော မြေ၀ယ်လို့ မရနိုင်ဘူးလား”

လူကြီးက ဟက်ဟက်ပက်ပက် ရယ်ချလိုက်ပြီး သူ့သားကို လှမ်းကြည့်သည်။ စောစောက ငြိမ်ဆိတ်နေသော သူ့သားကလည်း ပြုံးသည်။ “မင့်အနေနဲ့ ပုံသေအလုပ် တစ်ခုကို ဘယ်နည်းနဲ့မှ မရနိုင်ဘူး ငါ့လူရေ့၊ ထမင်း နပ်မှန်မှန် စားနိုင်ဖို့အတွက် နေ့စဉ်နေ့တိုင်း ကြက်ယက်သလို ယက်နေမှ ဖြစ်တာ၊ မင်း ဝါကောက်တဲ့ အလုပ်တစ်ခု ရပြီ ဆိုပါတော့၊ လုပ်ခတွေ ပေးပုံက မမှန်ဘူး၊ မရိုးသားဘူး၊ တချို့ကျတော့ မှန်ပါတယ်၊ တချို့က လုံး၀ မမှန်ဘူး၊ ဒါပေမဲ့ ဘယ်ဟာက အမှန် ဘယ်ဟာက အမှား ဆိုတာလည်း

မင်း ခွဲခြားပြီး မသိဘူး၊ ဘာပဲဖြစ်ဖြစ် သူတို့ ညစ်တာကို သိလို့လည်း မင်း ဘာမှ လုပ်လို့မရဘူး”

“ဒီလိုဆို ဟိုမှာ ကောင်းတာ ဘာတစ်ခုမှ မရှိဘူး ဆိုပါတော့၊ ဟုတ်လား” အဖေဂျုတ်က စိတ်ပျက်သံဖြင့် မေးသည်။

“ဒါပေါ့ဗျာ၊ ကောင်းတာကတော့ ဘာမှ မရှိတာ သေချာတယ်၊ ဒါပေမဲ့ ခင်ဗျား ကြည့်ရတာကတော့ ကောင်းတယ်၊ ကျုပ် ဆိုလိုတာက အမြင် ကောင်းတယ်၊ ဒါပေမဲ့ လက်တွေ့တော့ အဲဒီ အကောင်းတွေထဲက ဘာတစ်ခုကိုမှ ခင်ဗျား မခံစားနိုင်ဘူး၊ ဒါပဲ၊ အဝါရောင် သန်းနေတဲ့ လိမ္မော်သီးတွေကို ခင်ဗျား မြင်ရမယ်၊ ဒါပေမဲ့ လိမ္မော်ပင်နားမှာ သေနတ်နဲ့ ကောင်တစ်ကောင် စောင့်နေတယ်၊ တကယ်လို့ ခင်ဗျားက လိမ္မော်သီး တစ်လုံးကို သွားထိရင် သူက ခင်ဗျားကို သေနတ်နဲ့ ပစ်သတ်လိမ့်မယ်၊ သူ့မှာ သတ်ပိုင်ခွင့် ရှိတယ်၊ ပင်လယ်ကမ်းခြေမှာ သတင်းစာ ထုတ်တဲ့ ငနဲတစ်ကောင် ရှိသေးတယ်၊ သူက မြေဧကတစ်သန်း ပိုင်တယ် သိလား”

ကက်ဆီက ဖျတ်ခနဲ မော့ကြည့်သည်။ “ဧက တစ်သန်း ဟုတ်လား၊ မြေဧက တစ်သန်းကို သူတစ်ယောက်တည်းက ဘာလုပ်နိုင်မှာတဲ့လဲ၊ ပြောစမ်းပါဦး”

“ဘာလုပ်မယ် ဆိုတာကတော့ ကျုပ်လည်း မပြောတတ်ဘူး၊ မြေကတော့ သူပိုင်တာ အမှန်ပဲ၊ နွား နည်းနည်းပါးပါးတော့ မွေးထားတယ်၊ သူပိုင်တဲ့ မြေပေါ်မှာ အစောင့်တွေ နေရာတိုင်း ချထားတယ်၊ ဒီကောင်က ကျည်ကာ မော်တော်ကားကြီး တစ်စီးနဲ့ လျှောက်သွားနေတာပဲ၊ ကျုပ် သူ့ဓာတ်ပုံကို မြင်ခဲ့ဖူးတယ်၊ လူက ဝဝ၊ နနဖတ်ဖတ်နဲ့ မျက်စိပေါက်ကျဉ်းကျဉ်း၊ ပါးစပ်က ပြဲပြဲနဲ့၊ သေမှာကျတော့ သိပ်ကြောက်တယ်၊ မြေဧကတစ်သန်း ပိုင်ပြီး သေမှာ ကြောက်နေတဲ့ ကောင်မျိုးဗျ”

“နေစမ်းပါဦး၊ မြေဧက တစ်သန်းကို သူတစ်ယောက်တည်းက ဘာလုပ်နိုင်မှာတဲ့လဲ၊ ဘာလုပ်ဖို့ ဒီမြေတွေကို ယူထားရတာတဲ့လဲ ”

“ကျုပ်လည်း မပြောတတ်ဘူး” ဟု ဖြေသည်။ “ကျုပ် အထင် ပြောရရင်တော့ ဒီလူ ရူးနေလို့ပဲ ဖြစ်မယ်၊ သူ့ဓာတ်ပုံကို ကျုပ် မြင်ဖူးတယ်၊ ကြည့်ရတာကတော့ အရူးလိုပဲ”

"သူက သေမှာ ကြောက်တယ်လို့ ပြောသလား" ဟု ကက်ဆီက မေးသည်။

"ကျုပ် ကြားခဲ့တာပဲ"

"ဘုရားသခင်က အပြစ်ပေးမှာကို ကြောက်နေတာ ထင်ပါရဲ့"

"ပြောတတ်ပါဘူးဗျာ၊ ကြောက်တော့ ကြောက်နေတာပဲ"

"ဘာများ ကြောက်စရာ ရှိလို့လဲကွာ" ဟု အဖေဂျုတ်က ရေရွတ်သည်။ "ကြည့်ရတာတော့ ဒီအကောင် ပျော်ပျော်နေတတ်ပုံ မပေါ်ဘူး"

"ကျုပ် အဘိုးများ ဘယ်တော့မှ မကြောက်ဘူး" ဟု တွမ်က ပြောသည်။ အမြဲတမ်း ပျော်နေတာပဲ၊ တစ်ခါတလေများ အပျော်လွန်ပြီး သေလုနီးပါးတောင် ဖြစ်သေး၊ ဒါပေမဲ့ ဂရုမစိုက်ဘူး ပျော်နေတာပဲ"

"ဘဝ ဆိုတာ အဲသလိုပဲ ဖြစ်ရမှာပေါ့ကွ၊ ပျော်စရာ ရှာတွေ့တဲ့ လူဟာ ဘာကိုမှ တွေးမကြောက်ဘူး၊ အမြဲတမ်းလိုလို ပူဆွေးပြီး အထီးကျန်နိုင်နေတဲ့ ကောင်မျိုးကျတော့ သေရမှာကိုပဲ တွေးကြောက်နေမှာပေါ့" ဟု ကက်ဆီက ပြောသည်။

"မြေဧက တစ်သန်းတောင် ပိုင်နေတဲ့ လူတစ်ယောက်မှာ ပူစရာ ရှိဦးမတဲ့လားဗျာ" ဟု အဖေဂျုတ်က ဆိုသည်။

အဖေဂျုတ်၏ စကားကို ကြားသောအခါ တရားဟောဆရာ ကက်ဆီက ပြုံးသည်။ ပြီးတော့ ချက်ချင်းပင် ပြန်၍ တည်ငြိမ်သွားသည်။ မျက်နှာထားကလည်း တစ်စုံတစ်ခုကို တွေးတော ဆင်ခြင်နေသည့်နှယ် ရှိသည်။ သူသည် သူ့မျက်စိရှေ့၌ ရှိနေသော ရေပိုးကောင် တစ်ကောင်ကို လက်ဝါးနှင့် ရိုက်ပုတ်၍ ထုတ်လိုက်လေသည်။ "တကယ်လို့ပေါ့လေ၊ ဒီအကောင်အနေနဲ့ မြေဧက တစ်သန်းကို အပိုင်ရပါမှ သူ့ကိုယ်သူ ချမ်းသာတယ်လို့ ထင်နေတယ်ဆိုရင် အကြောင်းတစ်ခုတော့ ရှိရမယ်၊ ဒီအကြောင်း ကလည်း တခြား အကြောင်းတော့ မဖြစ်နိုင်ဘူး၊ ကျုပ်တွေးမိသလောက် ပြောရရင် သူ့စိတ်ကိုက သူ့ကိုယ်သူ သိပ်ပြီး ဆင်းရဲနေတယ်လို့ ထင်နေတာကြောင့်ပဲ ဖြစ်ရမယ်၊ အဲသလို သူ့ကိုယ်သူ ဆင်းရဲတယ်လို့ ထင်နေသမျှ ကာလပတ်လုံး မြေဧက တစ်သန်း ပိုင်လို့လည်း သူ့ကိုယ်သူ ချမ်းသာတယ်လို့ ထင်မှာ မဟုတ်တော့ဘူး၊ ဘယ်အရာဝတ္ထု

ပစ္စည်းကမှ သူ့ကို ချမ်းသာတယ်လို့ ထင်လာအောင် လုပ်လို့ရမှာလည်း မဟုတ်တော့ဘူး၊ ကျုပ်တို့ အဘိုးဂျုတ် သေတုန်းက သူ့တဲကို သုံးဖို့ ပေးခဲ့တဲ့ မစ္စက် ဝီလ်ဆန်လို ချမ်းသာတဲ့ စိတ်မျိုးလည်း ဘယ်တော့မှ မွေးနိုင်မှာ မဟုတ်ဘူး၊ ကျုပ် ဒီစကား ပြောနေတာဟာ တရားဒေသနာ တစ်ခုကို ဟောနေတာ မဟုတ်ပါဘူး" သူ့မျက်နှာသည် ပြုံးဖြဲဖြဲ ဖြစ်လာသည်။ "ကျုပ် အခု ပြောပြနေတာဟာ တရားဟောနေတာနဲ့များ တူနေသလားဗျာ" ဟု မေးသည်။

နေပူရှိန်သည် ပြင်းထန်လာသည်။ "ရေငုပ်နေရင် ကောင်းမယ် ထင်တယ်ကွ၊ နေက တအားပူလာပြီ၊ ဘုရားသခင် အသက် ထင်ရှား ရှိနေရင်တောင် မီးလောင်တိုက် သွင်းမယ့် ပူပုံမျိုးကြီးပဲ" ဟု အဖေဂျုတ်က ပြောသည်။ သူသည် လည်ပင်းတစ်ခုလုံး မြုပ်သွားသည်အထိ ထိုင်ချလိုက်သည်။ အေးမြသော ရေသည် သူ့လည်ပင်းကို ထိတွေ့ ပွတ်သပ်ကာ စီးဆင်းသွားလျက် ရှိသည်။ "အလုပ်ကို တကယ်တမ်း ကြိုးစား အားထုတ်ပြီး လုပ်ချင်တဲ့ လူတစ်ယောက်ဟာ ဖွဲ့ရှိရမှာပေါ့၊ အခုလို အရှုံးပေးပြီး ပြန်လာတာ ဘယ်ကောင်းမလဲ" ဟု ပြောသည်။

ထိုလူသည် ရေထဲသို့ ထိုင်ချလိုက်ပြီး အဖေဂျုတ်နှင့် မျက်နှာချင်းဆိုင်လိုက်သည်။ "ဒီမှာ မစ္စတာ၊ ကျုပ်အနေနဲ့ အရာရာတိုင်းကိုတော့ မသိတာ အမှန်ပဲ၊ အေး ခင်ဗျားကိုယ်တိုင် ဟိုရောက်သွားလို့ ပုံမှန် အလုပ်တစ်ခု အမြဲတမ်း ရသွားမယ် ဆိုရင်တော့ ကျုပ်ကို လူလိမ်လူညာ တစ်ယောက်လို့သာ သတ်မှတ်လိုက်ပေတော့၊ အဲသလို မဟုတ်ဘဲ အလုပ်မှ မည်မည်ရရ မရဘဲ ဖြစ်နေရင်..၊ ဒါကျတော့ ကျုပ် သတိမပေးခဲ့ဘူးလို့ မတွက်နဲ့၊ ကျုပ် တစ်ခု ပြောနိုင်တာ ရှိတယ်၊ ဟိုမှာ ရောက်နေတဲ့ လူတွေထဲမှာ အများစုကတော့ စိတ်ရောကိုယ်ပါ ဆင်းရဲဒုက္ခ ရောက်နေကြတာ အမှန်ပဲ"

အဖေဂျုတ်က ဦးလေးဂျွန်ကို လှမ်းကြည့်သည်။ "မင်းပါးစပ်ကြီးကို လုံးဝ မဟတော့ဘူးပေါ့၊ ဟုတ်လား" ဟု ပြောသည်။ "ငါတို့ အိမ်က ထွက်လာတဲ့ အချိန်က စပြီး အခုအချိန်ထိ မင်းပါးစပ်ကို နစ်ကြိမ်လောက် ဟမယ်ဆိုရင် ငါ အတော် ဝမ်းသာရမှာ၊ ကဲ အခု ကြားနေတဲ့ ကိစ္စကို မင်း ဘယ်လို ထင်သလဲ၊ အနည်းအကျဉ်းလောက်တော့ ပြောပါဦး"

ဦးလေးဂျွန်က မျက်မှောင်ကြုတ်သွားသည်။ "ဒီကိစ္စနဲ့ ပတ်သက်လို့ ငါကတော့ ဘာမှ မတွေးဘူး၊ အခု ငါတို့ ကယ်လီဖိုးနီးယားကို အရောက် သွားမယ်ဆိုပြီး ထွက်လာကြတာ မဟုတ်လား၊ အခုလို စကားမျိုးတွေ ကြားတာနဲ့ နောက်ရင်းကို ပြန်ရမယ် ဆိုတာကတော့ ဖြစ်ကို မဖြစ်နိုင်ဘူး၊ ငါတို့ ဟိုကို ရောက်အောင် သွားရမယ့်အလုပ် ရှိတယ်၊ သွားရမှာပဲ၊ ဟိုရောက်လို့ အလုပ်ရရင် လုပ်မယ်၊ အလုပ်မရဘူးဆိုရင် ရနိုင်မယ့် နေရာအထိ ဆက်သွားမယ်၊ အခု ကြားနေရတဲ့ စကားမျိုးတွေ နားထောင်ပြီး သောက်စကား များနေလို့ကတော့ ဘာမှ ထူးလာမှာ မဟုတ်ဘူး"

တွမ်သည် သူ့ခေါင်းကို နောက်သို့လှန်ပြီး ရေပေါ်၌ တင်ထားရာမှ ပြန်ထောင် လိုက်သည်။ ရေကို ပါးစပ်နှင့် ငုံ့ယူလိုက်ပြီး ပလုတ်ကျင်းကာ ပြန်၍ ထွေးလိုက်သည်။ ထို့နောက် ဦးလေးဂျွန်ကို ကြည့်၍ ရယ်သည်။ "ဦးလေးဂျွန်က စကား သိပ်မပြောဘူး၊ ပြောတော့လည်း တကယ် ထိရောက်တယ်၊ သိပ်မှန်တာပေါ့၊ သူ ပြောတာ အမှန်ဆုံးပဲ၊ ကျုပ်တို့ ကနေ့ည ဆက်ထွက်ကြမလား အဖေ"

"ထွက်ရင် ကောင်းမလား မသိဘူး"

"ကျုပ်တော့ အရိပ်ကောင်းကောင်း တစ်ခုရှာပြီး တရေးအိပ်လိုက်ဦးမယ်"

တွမ်သည် ကားပေါ်သို့ တက်သွားပြီး အဝတ်အစားများကို ကောက်ဝတ်သည်။ အဝတ်များတွင် ကပ်နေသည့် အပူငွေ့ကြောင့် တစ်ကိုယ်လုံး တွန့်ခနဲ ဖြစ်သွားသည်။ တခြားလူများလည်း ရေထဲမှ တက်လာကြသည်။

ရေထဲ၌ ကျန်ခဲ့သည့် သားအဖ နှစ်ယောက်သည် ဂျုတ် မိသားစု သူတို့ မျက်စိအောက်မှ ပျောက်သွားသည်အထိ လိုက်၍ ကြည့်နေကြလေသည်။ "ခြောက်လလောက် ဆိုရင် သိလာမှာပါ" ဟု သားဖြစ်သူက ရေရွတ်သည်။

အဖေ လုပ်သူသည် သူ့မျက်စိထောင့်များကို လက်ညှိုးနှင့် ပွတ်နေရာမှ ပြန်ပြောသည်။ "ငါ မပြောသင့်ဘူးကွ၊ ဒါပေမဲ့ လူဆိုတာ ဒီလိုပါပဲကွာ၊ ကိုယ်သိ ကိုယ်တတ် လုပ်ချင်ကြတဲ့လူက များတယ် မဟုတ်လား၊ အဲဒီတော့ ကိုယ်သိထားတာ မှန်သမျှ လျှောက်ပြောမိတာပေါ့"

"ဒါကတော့ဗျာ၊ သူတို့က မေးလို့ ပြောတာပဲဟာ"

"အေးလေ၊ ဟုတ်ပါတယ်၊ ဒါပေမဲ့ ဟိုလူ ပြောတာ မင်း ကြားတယ် မဟုတ်လား၊ ဘယ်သူတွေက ဘာတွေပဲ ပြောပြော သွားရမှာကတော့ သွားရမှာပဲ၊ ငါက ဘာတွေပဲ ပြောနေနေ သူတို့ရဲ့ မူလ အစီအစဉ်ကို ပြောင်းပစ်လို့ကတော့ ဘယ်ဖြစ်နိုင်ပါတော့မလဲ၊ ဒုက္ခနဲ့ မတွေ့သေးသမျှ ကာလပတ်လုံး သွားစရာရှိတာ သွားနေရမှာပဲပေါ့၊ ဒါဟာ သဘာဝပဲ"

တွမ်သည် မိုးမခပင်များ ကြား၌ လျှောက်သွားကာ ခိုကပ်စရာ နေရာ တစ်ခုကို ရှာသည်။ အရိပ်ကောင်းကောင်း ရသည့် နေရာတစ်နေရာကို တွေ့သည့်အခါ အထဲသို့ တိုးဝှေ့ပြီး ဝင်သည်။ နိုအာသည် သူ့နောက်မှ တကောက်ကောက် လိုက်လာလျက် ရှိလေ၏။

"ငါတော့ ဒီနေရာမှ တရေးတမော အိပ်လိုက်ဦးမယ်" ဟု တွမ်က ပြောသည်။

"တွမ်"

"ဘာလဲ နိုအာ"

"ငါ မလိုက်တော့ဘူး တွမ်"

တွမ်သည် လှဲနေရာမှ ထထိုင်သည်။ "မင်း ဘာပြောတယ်"

"ငါ ဒီမှာပဲ နေခဲ့တော့မယ်။ ငါ မလိုက်တော့ဘူး၊ ဒီမြစ်ကမ်းပါး တစ်ဝိုက်မှာပဲ လျှောက်သွားနေတော့မယ်"

"မင်း ရူးနေသလား" ဟု တွမ်က ပြောသည်။

"ငါ့ဘာသာငါ ဖြစ်အောင် နေမှ ကောင်းမယ်လို့ ထင်တယ်၊ ငါးဖမ်းစားနေရင်လည်း ရတာပဲ၊ မြစ်ကောင်းကောင်း တစ်ခု ဘေးမှာ နေတဲ့ လူတစ်ယောက်ဟာ ဘယ်တော့မှ မငတ်နိုင်ဘူးကွ"

"မိသားစုကို မင်း ထည့်ပြီး မစဉ်းစားဘူးလား၊ အမေ့ကိုရော"

"မတတ်နိုင်ဘူး တွမ်၊ ငါ ဒီနေရာက မခွာချင်တော့ဘူး" နီအာသည် သူ၏ ပြူးကျယ် ဝိုင်းစက်သော မျက်လုံးများကို မိတ်ထားသည်။ "မင်းလည်း သိမှာပါ၊ အားလုံးက ငါ့အပေါ် ကောင်းကြပါတယ်၊ ဒါပေမဲ့ တကယ်တမ်း အရေးကြုံလာရင် ငါ့ကို သူတို့ ဘယ်ဂရုစိုက်နိုင်မလဲ"

"မင်း ရူးနေပြီ နီအာ"

"ငါ မရူးဘူး တွမ်၊ ငါ့အခြေအနေကို ငါ သိတယ်၊ ငါ အခုလို လုပ်လိုက်ရင် အားလုံး စိတ်မကောင်း ဖြစ်ကြလိမ့်မယ် ဆိုတာလည်း ငါ နားလည်ပါတယ်၊ ဒါပေမဲ့ မတတ်နိုင်တော့ဘူး၊ ငါ မလိုက်တော့ဘူး တွမ်၊ အမေ့ကို မင်းပဲ ပြောလိုက်ပါ"

"မင်း လုပ်ပုံက မဟုတ်သေး.. "

"နားချ မနေပါနဲ့တော့ကွာ၊ အချိန်ကုန်ပါတယ်၊ ငါ ဒီနေရာ တစ်ဝိုက်မှာပဲ နေခဲ့တော့မယ်၊ ကဲ ငါသွားမယ် တွမ်၊ မြစ်ကမ်းပါးအတိုင်း အောက်ဘက်ကို သွားမယ်၊ ဆာတော့လည်း ငါးဖမ်းစားရုံပေါ့" နီအာသည် မိုးမခပင်များ ကြားမှ တိုးဝှေ့ပြီး အပြင်သို့ ထွက်သည်။ "အမေ့ကို နားလည်အောင် ပြောပြလိုက်ပါကွာ" သူသည် မြစ်ဘက်သို့ ပြန်လျှောက်သွားသည်။

တွမ်သည် ထိုင်နေရာမှ ကသောကမျော ထကာ နီအာ၏ နောက်သို့ လိုက်သည်။ "နီအာ၊ ဟေ့ကောင် နီအာ၊ ငါပြောတာ နားထောင်စမ်းပါဦးဟ သောက်ရူးရ"

"မပြောနဲ့၊ မင်းပြောလည်း အပိုပဲ" ဟု နီအာ ပြန်ပြောသည်။ "ငါ အခုလို ခွဲသွားရတာ စိတ်မကောင်းဘူး၊ ဒါပေမဲ့ မတတ်နိုင်ဘူး တွမ်၊ ငါ သွားမှ ဖြစ်မှာ၊ ငါ့အတွက် ဝန်မလေးစေချင်တော့ဘူး" နီအာသည် ချာခနဲ လှည့်ကာ မြစ်ကမ်းပါးဘေးအတိုင်း လျှောက်သွားသည်။ တွမ်က နောက်က လိုက်သည်။ ထို့နောက် ဆက်မလိုက်တော့ဘဲ ရပ်လိုက်သည်။ သူသည် နီအာ ထွက်သွားရာဘက်သို့ လှမ်းကြည့်နေသည်။ နီအာသည် ချုံကြို ချုံကြား သစ်ပင်ကြို သစ်ပင်ကြားတွင် ပျောက်ကွယ်သွားလိုက် ပြန်ပေါ်လာလိုက်။ နီအာသည် မြစ်ကမ်းပါးအစပ်ကို ကပ်နိုင်သမျှ ကပ်၍ လျှောက်သွားလျက် ရှိလေသည်။ နီအာ၏ ရုပ်လွှာသည် တဖြည်းဖြည်းနှင့် သေး၍ သေး၍ လာသည်။ နောက်ဆုံးတွင် မိုးမခပင်များကြားသို့ ဝင်ရောက် ပျောက်ကွယ်သွားလေ၏။ တွမ်သည် သူ့ခေါင်းမှ

ကက်ဦးထုပ်ကို ချွတ်လိုက်ပြီး ခေါင်းကို ဗျစ် ဗျစ် မြည်အောင် ကုတ်သည်။ သူသည် နီအာ ထွက်သွားရာဘက်သို့ မျှော်ကြည့်ကာ အတန်ကြာမျှ ငိုင်လျက် ရှိ၏။ ထို့နောက် သူ စောစောက တွေ့ထားခဲ့သော မိုးမခပင်ရိပ် ရှိရာသို့ ပြန်လျှောက်လာသည်။ ပြီးတော့ မြေကြီးပေါ်သို့ ခြေပစ်လက်ပစ် လှဲချလိုက်လေ၏။

အဘွားဂျုတ်သည် ဖြန့်မိုးထားသော တာပေါ်လင် ရွက်ထည်အောက်ရှိ ဖျာတစ်ချပ်ပေါ်တွင် လဲလျောင်းလျက် ရှိ၏။ အမေကတော့ အဘွားဂျုတ်၏ဘေး၌ ထိုင်လျက် ရှိလေသည်။ ပတ်ဝန်းကျင်ရှိ လေမှာ လေပူကြီး။ အသက်ရှူ၍ မဝ။ မွန်းကျပ်လျက် ရှိ၏။ ယင်ကောင်များသည် ရွက်ထည် အမိုးအောက်တွင် တဝီဝီ ပျံသန်းလျက် ရှိကြသည်။ ပန်းရောင် ခန်းဆီးဟောင်း တစ်ထည်အောက် ရှိ အဘွားဂျုတ်၏ ကိုယ်ပေါ်တွင် အဝတ်အစား မရှိ။ အဘွားဂျုတ်၏ ဦးခေါင်းသည် ဘယ်ပြောင်း ညာလူး ဖြစ်လျက် ရှိ၏။ ပါးစပ်မှလည်း တောင်စဉ်ရေမရ စကားများကို ရေရွတ်လျက် ရှိသည်။ တစ်ခါတစ်ရံတွင် ဆို့နစ်နေသော လည်ချောင်းဆီမှ ချွဲသံများ ထွက်လာတတ်သည်။ အမေသည် အဘွားဂျုတ်၏ ဘေး မြေကြီးပေါ်၌ ထိုင်ကာ ကတ်ပြားတစ်ချပ်ဖြင့် ယင်ကောင်များကို မောင်းနေသည်။ တစ်ခါတစ်ရံတွင်မူ အဘွားဂျုတ်၏ မျက်နှာကို ယပ်ခတ်ပေးသည်။ အဘွားဂျုတ်၏ တစ်ဖက်တွင် ထိုင်နေသော ရိုစာဟန်သည် အမေ့ မျက်နှာကိုသာ မျက်ခြည်မပြတ် စောင့်ကြည့်လျက် ရှိလေသည်။

အဘွားဂျုတ်၏ နှုတ်မှ ကယောင်ကတမ်း မြည်တမ်းသံများ ထွက်လာသည်။ "ဝစ်လ်.. ဝစ်လ်၊ ဒီကို ခဏ လာစမ်းပါ" ထို့နောက် မျက်လုံးများကို ဖွင့်ကြည့်သည်။ "သူ့ကို ပြောလိုက်ကြစမ်းပါ၊ ငါ့ဆီကို လာစမ်းပါလို့" ဟု ရေရွတ်သည်။ "သူ့ကို ငါ မိအောင် ဖမ်းပြီး ခေါင်းက ဆံပင်တွေ တစ်မွေးမှ မကျန်အောင် နုတ်ပစ်မယ်၊ သိလား"

အဘွားဂျုတ်၏ မျက်လုံးများသည် ပြန်မှိတ်သွားပြန်သည်။ သူ့ခေါင်းသည် နည်းနည်းကလေးမှ မငြိမ်။ ဘယ်စောင်းလိုက် ညာစောင်းလိုက် နောက်လှန်လိုက်နှင့် ပြောင်းဆန်လျက် ရှိ၏။ ပါးစပ်မှလည်း မပီမသ စကားများ ထွက်လာလျက် ရှိလေသည်။ အမေသည် လက်ထဲမှ ကတ်ပြားနှင့် အဆက်မပြတ် ယပ်ခတ်ပေးလျက် ရှိလေသည်။

ရှိစာဟန်သည် ကြံရာမရသော မျက်နှာထားဖြင့် အဘွားဂျူတ်အား ငေးကြည့်နေသည်။ "အဘွားဂျူတ် ဖျားနေတာက ကြောက်စရာပဲနော် " ဟု တိုးတိုးကလေး ပြောသည်။

အဖေက မျက်လွှာကို ပင့်၍ သူ့သမီး၏ မျက်နှာကို ကြည့်သည်။ အမေ့မျက်လုံးများသည် အလွန် သည်းခံ မျိုသိပ်နိုင်သည့် သဘောကို ဖော်ပြလျက် ရှိကြ၏။ သို့သော်လည်း နဖူးပြင်ပေါ်ရှိ တွန့်နေသော အရေးအကြောင်းများကတော့ သူ့ရင်ထဲ၌ ပူပန်သောက ရှိနေကြောင်းကို ဖော်ပြနေကြသည်။ အမေသည် အဘွားဂျူတ်၏ ကိုယ်ပေါ်၌ နားရန် အားထုတ်နေကြသော ယင်ကောင်များကို လက်ထဲမှ ကတ်ပြားဖြင့် အဆက်မပြတ် ခြောက်လှန့် မောင်းထုတ်ပေးလျက် ရှိလေသည်။

"ညည်း ငယ်ငယ်တုန်းကလည်း အခုလိုပါပဲ သမီးရယ်၊ မထူးပါဘူး၊ အရာရာတိုင်းဟာ ဖြစ်ချိန်တန်ရင် သူ့ဘာသာသူ အလိုလို ဖြစ်လာတာပဲ အေ့၊ စိတ်ညစ်စရာတော့ ကောင်းတာပေါ့လေ၊ ဒါကိုတော့ အမေလည်း သိပါတယ် ရှိစာဟန်ရယ်၊ အခုဆိုရင် မကြာခင် ညည်းမှာ ကလေးရတော့မယ်၊ ဒါဟာလည်း ညည်းအတွက် စိတ်ည စိတ်ရှုပ်စရာ တစ်ခုပဲပေါ့၊ ကလေးမွေးတယ် ဆိုတာလည်း အင်မတန်မှ အထီးကျန်နိုင်တဲ့ ဝေဒနာတစ်ခု မဟုတ်လား" အမေသည် စကားကို အမျှင်မပြတ် ပြောနေရင်းက တဝီဝီ အော်မြည်ကာ လှည့်ပတ် ပျံသန်းနေသော မှက်တစ်ကောင်ကို ကတ်ပြားဖြင့် ခတ်၍ မောင်းထုတ်သည်။ မှက်သည် တဲအတွင်း၌ နှစ်ကြိမ်မျှ လှည့်ပတ် ပျံသန်းနေပြီး အပြင်ဘက် နေရောင်အောက်သို့ ထွက်သွားလေ၏။

"လောကကြီးမှာ ဘယ်အရာမှ တည်မြဲတာ မဟုတ်ဘူး သမီး၊ ပြောင်းလဲချိန်တန်ရင် ပြောင်းလဲတာပဲ၊ တကယ်တော့ မွေးဖွာခြင်း ဆိုတာဟာ သေခြင်းရဲ့ အစပဲ၊ သေခြင်း ဆိုတာဟာ မွေးဖွားခြင်းရဲ့ အဆုံးပဲ၊ ဘာမှ မဆန်းပါဘူး၊ တကယ်တော့ ဘာမှ မတည်မြဲတဲ့ သဘောပဲ၊ အဲသလို တွေးလိုက်ရင် လောကကြီးမှာ ဘာမှ ကြောက်စရာ မလိုတော့ဘူး၊ အဲသလိုဆိုရင် ကိုယ် ခံစားနေရတဲ့ ဝေဒနာတစ်ခုဟာ သိပ်ပြီး ဆိုးရွား ပြင်းထန်တဲ့ ဝေဒနာ မဟုတ်တော့ဘူးပေါ့၊ အဲဒီအခါကျရင် အထီးကျန်နိုင်တဲ့ ခံစားမှုဆိုတာလည်း မရှိတော့ဘူးပေါ့"

အမေ့ အသံမှာ နူးညံ့ ပျော့ပျောင်းသည်။ သာယာ အေးဆေးသည်။ တရားသဘောနှင့် ချစ်ခြင်းမေတ္တာတရား အပြည့်ပါသည်။ သိမ်မွေ့ နက်ရှိုင်းလွန်းလှသော အမေ့အသံကြောင့် ရိုစာဟန်၏ မျက်လုံးအစ်ဝယ် မျက်ရည်စများဖြင့် ပြည့်လာသည်။ ထိုမှတစ်ဆင့် ပါးပြင်နှစ်ဖက်ပေါ်သို့ တလိမ့်လိမ့် စီးဆင်းလျက် ကျလာသည်။ မျက်ရည်စများက ဖုံးကွယ်ထားသဖြင့် သူ့မျက်လုံးများသည် ဘာကိုမှ မမြင်။

"ရော့၊ ဟောဒီ ကတ်ပြားကိုယူ၊ အဘွားကို ယပ်ခတ်ပေး" အမေက ပြောပြောဆိုဆိုနှင့် သူ့လက်ထဲမှ ကတ်ပြားကို သူ့သမီးအား လှမ်းပေးသည်။ "ငါ့သမီး အခု လောလောဆယ် လုပ်နေဖို့ ကောင်းတာက ဒီအလုပ်ပဲ"

အဘွားဂျူ၏ မျက်လုံးများသည် ပိတ်လျက်ရှိ၏။ မျက်ခုံးများကတော့ ရှုံ့နေကြလေသည်။ နှုတ်မှလည်း တတွတ်တွတ် ရေရွတ်လျက် ရှိပြန်၏။ "ဝစ်လ်၊ တော်ဟာ အလွန်ညစ်ပတ်တဲ့လူပဲ၊ ဘယ်တော့မှ သန့်သန့်ပြန့်ပြန့် မနေဘူး" အဘွားဂျုတ်၏ လက်တစ်ဖက်သည် သူ့ပါးတစ်ဖက်ပေါ်သို့ ရောက်လာသည်။ ချွန်ထက်သော လက်သည်း များဖြင့် ပါးကို ကုတ်သည်။ အမိုးရွက်ဖျင်ပေါ်မှ ပုရွက်ဆိတ် အနီတစ်ကောင်သည် အဘွားဂျုတ်၏ လည်ပင်းပေါ်သို့ ကျလာသည်။ အမေက ကပျာကယာ လှမ်းကောက်လိုက်ပြီး လက်ညှိုးနှင့် လက်မကြားတွင် ညှပ်ကာ ခြေပစ်လိုက်သည်။ ပြီးတော့ သူ့လက်ကို အကျီနှင့် ပွတ်၍ သုတ်လိုက်သည်။

ရိုစာဟန်သည် အဘွားဂျုတ်ကို ယပ်ခတ်ပေးနေရာမှ အမေ့ကို မော့ကြည့်သည်။ "ဒီအတိုင်း ဆိုရင်တော့ အဘွားဟာ.." စကားလုံးများသည် သူ့လည်ချောင်းထဲမှာပင် ဆို့နင့်ကာ ပျောက်သွားသည်။

"ခြေထောက်တွေ သုတ်လိုက်ဦးမှပေါ့ ဝက်ကြီးရဲ့" ဟု အဘွားဂျုတ်က အော်သည်။

"အမေလည်း မပြောတတ်ဘူး ရိုစာဟန်၊ သိပ်ပြီး မပူဘူး ဆိုရင်တော့ သက်သာလာလိမ့်မယ်လို့ တွက်ရတာပဲ၊ စိတ် သိပ်ပူမနေပါနဲ့ ရိုစာဟန်ရယ်၊ အသက်ရှူဖို့ လိုအပ်လာတဲ့အခါ အသက်ကို ရှူလိုက်ပေါ့၊ ပြန်ထုတ်သင့်တော့လည်း ပြန်ထုတ် လိုက်ပေါ့ကွယ်" အနက်ရောင် အဝတ်အစား စုတ်စုတ်ပြတ်ပြတ်နှင့် ကိုယ်လုံးကိုယ်ထည် တုတ်ခိုင်ခိုင် ဝပြဲပြဲ အမျိုးသမီး တစ်ဦးသည် တဲထဲသို့ ငုံ့ကြည့်သည်။ သူ့မျက်စိများမှာ

ခပ်မှေးမှေး။ ပါးစုံ့ကြီးများသည် ပါးသွယ်ရိုး တစ်ဖက်တစ်ချက်တွင် တွဲကျလျက် ရှိသည်။ ပါးစပ်က ခပ်ပြဲပြဲ ဖြစ်သဖြင့် အပေါ်နှုတ်ခမ်းများသည် သွားများကို လုံအောင် ဖုံးအုပ်ထားသည်။ တွဲကျနေသော အောက်နှုတ်ခမ်း ထူထူသည် ရှေ့သို့ ထိုးထွက်လျက် ရှိသဖြင့် အောက်ခြေမှ သွားဖုံးများသည် ပေါ်လျက် ရှိကြ၏။ "မင်္ဂလာ နံနက်ပါ" ဟု သူက လှမ်း၍ အသံပြုသည်။

အမေက နောက်ပြန်လှည့်သည်။ "မင်္ဂလာ နံနက်ပါ" ဟု ပြန်၍ နှုတ်ဆက်သည်။

အမျိုးသမီးကြီးသည် တဲထဲသို့ ဝင်လာပြီး အဘွားဂျုတ်ကို ငုံ့ကြည့်သည်။ "ကောင်းကင်ဘုံက ဘုရားသခင်ဆီကို သွားလုဆဲဆဲ ဝိညာဉ်တစ်ခု ဒီတဲထဲမှာ ရှိနေတယ် ကြားလို့ လာခဲ့တာ၊ ဘုရားသခင်ကို ကောင်းချီးပေးကြပါ"

အမေ့ မျက်နှာသည် တင်းမာသွားသည်။ မျက်လုံးများမှလည်း အရောင် တဖျပ်ဖျပ် ထွက်လာသည်။ "ပင်ပန်းလွန်းအားကြီးလို့ ဖြစ်တာပါ၊ တခြား ဘာမှ ဖြစ်တာ မဟုတ်ဘူး" ဟု အမေက ပြောသည်။ "ခရီးကလည်းပန်း နေကလည်းပူ ဆိုတော့ အားပြတ်သလို ဖြစ်သွားတာပေ့ါ၊ နည်းနည်းပါးပါး နားလိုက်ရရင် သက်သာသွားမှာပါ"

အမျိုးသမီးကြီးက အဘွားဂျုတ်၏ မျက်နှာအနီးသို့ တိုးကပ်ပြီး သေသေချာချာ ကြည့်သည်။ ထို့နောက် အမေ့ဘက်သို့ လှည့်၍ ခေါင်းတစ်ချက် ဆတ်ပြသည်။ "ဘုရားသခင်ဆီ သွားဖို့ အသင့်ဖြစ်နေပြီ" ဟု ပြောသည်။

"ရှင် ပြောနေတာ လုံးဝ မဟုတ်ဘူး" အမေက အော်ကြီးဟစ်ကျယ် ပြန်ပြောသည်။

အမျိုးသမီးကြီးက ခေါင်းကို ခပ်ဖြည်းဖြည်း ညိတ်ပြလိုက်ပြီး အဘွားဂျုတ်၏ နဖူးပေါ်သို့ လက်တစ်ဖက် တင်၍ စမ်းကြည့်သည်။ အမေက အမျိုးသမီးကြီး၏ လက်ကို ဆွဲဖယ်ပစ်ရန် ဟန်ပြင်သည်။ သို့သော်လည်း ချက်ချင်းပင် သူ့ကိုယ်သူ ပြန်ထိန်းထားသည်။ "ဟုတ်ပါတယ် ညီမရယ်၊ သူ သွားတော့မှာပါ" ဟု အမျိုးသမီးကြီးက ထပ်ပြောသည်။ "တို့တဲမှာ သူတော်စင် ခြောက်ယောက်တောင်မှ ရှိတယ်၊ သူတို့ကို သွားခေါ်ပေးမယ်၊ သူ့အတွက် ဆုတောင်းပွဲလေးတစ်ခု လုပ်ကြရအောင်၊ ငါပါ အပါအဝင် ခြောက်ဦးတောင်

ရှိနေတာပဲ၊ တို့အားလုံးဟာ ဂျေဟိုးဗာ ဂိုဏ်းဝင်တွေချည်းပဲကွယ့်၊ ကဲ သူတို့ကို အခု ငါ သွားခေါ်လိုက်မယ်လေ ”

“မခေါ်နဲ့၊ မခေါ်နဲ့” အမေက အလွန် တင်းမာသော လေသံဖြင့် ဖြေသည်။ “ခေါ်ဖို့ မလိုပါဘူး၊ အဘွားဂျူတ်က အမောဆို့နေတာ၊ ရှင် ထင်သလို ဖြစ်နေတာ မဟုတ်ဘူး၊ ဆုတောင်းပွဲလုပ်ရင် ဘယ်နည်းနဲ့မှ သူ ကြိုက်မှာ မဟုတ်ဘူး ”

“ဆုတောင်းပွဲကို မကြိုက်ဘူး၊ ဟုတ်လား၊ အလွန် အေးမြတဲ့ ဘုရားသခင်ရဲ့ တရားတော်ကို နာရမှာ မကြိုက်ဘူးတဲ့လား၊ ဟင် မင်း ဘယ်လို စကားမျိုးကို ပြောလိုက်တာလဲ ညီမရယ်”

“မဖြစ်ဘူး၊ လုံးဝ မဖြစ်ဘူး၊ ဒီမှာ လာပြီး ဆုတောင်းပွဲလုပ်လို့ကတော့ ဘယ်နည်းနဲ့မှ မဖြစ်နိုင်ဘူး၊ သူ ဖြစ်နေတာက အမောဆို့တာပဲ ”

အမျိုးသမီးကြီးက အမေ့အား ပြစ်တင်ရှုတ်ချလိုသော မျက်နှာထားဖြင့် ကြည့်သည်။ “မင်းတို့က ဘုရားသခင်ကို မယုံကြည်တဲ့ လူတွေလား”

“ကျွန်မတို့အားလုံး ဘုရား တရားနဲ့ နေတဲ့လူတွေပါ” ဟု အမေက ပြန်ပြောသည်။ “ဒါပေမဲ့ အခုဟာက အမောဆို့နေတာပဲ၊ ရှင် ထင်သလိုမှ မဟုတ်တာ၊ ပြီးတော့ ကျွန်မတို့မှာ ကနေ့ည တစ်ညလုံး ခရီးဆက်စရာ ရှိသေးတယ်၊ ရှင်တို့ကို ဒုက္ခမပေးချင်ဘူး”

“အိုကွယ်၊ ဒါမျိုးကို ဒုက္ခပေးတယ်လို့ ခေါ်လို့ ဘယ်ဖြစ်မလဲ၊ ဝိညာဉ်တစ်ခု ကောင်းရာသုဂတိ လားဖို့အတွက် ငါတို့ ကိုယ်တိုင်က လိုလိုလားလားနဲ့ လုပ်ပေးချင်နေတာပါကွယ် ”

အမေသည် ထိုင်နေရာမှ ဖျတ်ခနဲ ထရပ်လိုက်သည်။ “အခုလို လာပြောတဲ့အတွက် ကျွန်မတို့က ကျေးဇူးတင်ပါတယ်” အမေ့အသံမှာ အေးစက် မာကျောလှသည်။ “ဒီတဲထဲမှာ ဆုတောင်းပွဲ လုပ်ဖို့တော့ ကျွန်မတို့ လုံးဝ သဘောမတူဘူး ”

အမျိုးသမီးကြီးသည် အမေ့မျက်နှာကို အချိန်အတော်ကြီး ကြာမျှ စူးစူးရဲရဲ စိုက်ကြည့်နေသည်။ “ကောင်းပြီလေ၊ ဒါပေမဲ့ တို့များကတော့ ကိုယ့်ညီမတစ်ယောက်ကို ဆုတောင်းပွဲ လုပ်မပေးဘဲ မလွှတ်လိုက်ချင်ဘူးကွယ့်၊ ဒါကြောင့်မို့ ဆုတောင်းပွဲကို

တို့တဲထဲမှာပဲ လုပ်ရလိမ့်မယ်၊ မင်းရဲ့ မာကျောလွန်းလှတဲ့ အသည်းနှလုံးကိုလည်း ငါတို့က ခွင့်လွှတ်လိုက်ပါတယ်ကွယ် ”

အမေသည် သူ့နေရာတွင် ပြန်ထိုင်ပြီး အဘွားဂျူတ်၏ မျက်နှာကို ကြည့်နေသည်။ အမေ့ မျက်နှာထားသည် အစုအချိန်အထိ တင်းမာဆဲ။ “အဘွားဂျူတ်က အမောဆို့နေတာပဲ၊ ဘာမှ ဖြစ်တာ မဟုတ်ပါဘူး” ဟု ရေရွတ်သည်။ အဘွားဂျူတ်၏ ခေါင်းသည် နောက်သို့ လန်ကျသွားသည်။ နှုတ်မှ မပီမသ အသံများသည် တစ်ဖန် ပြန်၍ ထွက်လာပြန်သည်။

အမျိုးသမီးကြီးသည် တဲထဲမှ ပြန်ထွက်သွားသည်။ အမေကတော့ အဘွားဂျူတ်ကိုသာ မျက်ခြည်မပြတ် ကြည့်နေသည်။ လက်ထဲမှ ကတ်ပြားဖြင့် အဆက်မပြတ် ယပ်ခတ်ပေးနေသော ရိုစာဟန်က အမေ့ကို လှမ်းကြည့်သည်။

“အမေ”

“ဘာလဲ ”

“ဘာပြုလို့ ဆုတောင်းပွဲ အလုပ်မခံတာလဲ ဟင် ”

“မပြောတတ်တော့ပါဘူးကွယ် ” ဟု အမေက ညည်းညည်းညူညူ ဖြေသည်။ “သူတို့က ဂျေဟိုးဗာ ဂိုဏ်းသားတွေ သမီးရဲ့၊ တရားစာတွေ ရွတ်တဲ့ ဖတ်တဲ့အခါမှာ အသံကုန်ဟစ်ပြီး အော်ရမှ ကျေနပ်ကြတာ၊ ဒါပေမဲ့ သူတို့လည်း လူကောင်းတွေပါပဲကွယ်၊ အယူတော့ သိပ်ပြီး သီးတယ်၊ အမေ့ ရင်ထဲမှာ ခံစားနေရတာ တစ်မျိုးပဲ၊ သူတို့ ဆုတောင်းပွဲကို အမေ ကြည့်ချင် မြင်ချင်စိတ် မရှိသလိုဘဲ၊ ဒါကြောင့် အမေ ငြင်းလိုက်မိတာ ”

ခပ်လှမ်းလှမ်းမှ ဆုတောင်းစာ ရွတ်သံများသည် သူတို့ထံ ရောက်လာသည်။ စကားလုံးများကတော့ မသဲကွဲ။ ဗလုံးဗထွေး အသံများသာ ဖြစ်သည်။ အသံများမှာ တိုးတစ်ခါ ကျယ်တစ်လှည့်။ မြင့်တက်သွားလိုက် နိမ့်ကျလာလိုက်။ တစ်ချက် တစ်ချက်တွင် အသံများသည် အမြင့်ဆုံးသို့ တက်သွားတတ်သည်။ တဖြည်းဖြည်းနှင့် အသံများသည် ဟိန်းထွက်လာသည်။ ထို့နောက် ရွတ်နေကြသည့် တရားစာပိုဒ်များသည် တိုတောင်းသော

ဝါကျများ ဖြစ်လာသည်။ အသံများကလည်း သံပြတ်များ ဖြစ်လာသည်။ စောစောကထက်လည်း ပို၍ ပီပြင်လာသည်။ အမိန့်ပေးသံနှင့် တူလာသည်။ ယောကျ်ားသံ မိန်းမသံ ရောကာ တစ်သံတည်းလို ဖြစ်လာသည်။ သို့သော်လည်း ထိုအသံများ၏ ကြားမှ အလွန်ကျယ်လောင် စူးရှသော မိန်းမသံ တစ်သံသည် ဖောက်ထွင်း ထွက်ပေါ် လာနေသည်။ အသံက ကြမ်းတမ်းသည်။ စူးစူးဝါးဝါး နိုင်သည်။ တိရစ္ဆာန်တစ်ကောင် အော်သံနှင့် တူသည်။ ထိုမိန်းမသံနှင့်အတူ တွဲလျက် ထွက်ပေါ်လာနေသည့် ယောကျ်ားသံ တစ်သံသည်လည်း ကျယ်လောင်လွန်းလှ၏။ ဝံပုလွေတစ်ကောင် အူသံနှင့် တူလှလေသည်။

ရုတ်တရက် သံပြိုင် ရွတ်ဆိုသံများ ရပ်သွားပြီး အလွန် ကြမ်းတမ်း ရိုင်းစိုင်းသည့် အသံ တစ်သံသာလျှင် ကျန်ခဲ့သည်။ အသံက အသံဆိုး။ ထိုအသံနှင့်အတူ မြေကြီးကို ခြေနှင့်ဆောင့်နေသော အသံသည် စည်းချက်လိုက်နေသည့်နယ် ခပ်သဲ့သဲ့ ထွက်ပေါ် လာလျက် ရှိ၏။ အမေသည် အသံများကို နားထောင်ရင်း ကတုန်ကယင် ဖြစ်လျက် ရှိသည်။ ရိုစာဟန်မှာလည်း အသက်ပင် မှန်မှန် မရှူနိုင်။ ရင်တုန်ပန်းတုန် ဖြစ်ကာ မောဟိုက်လျက် ရှိသည်။ ထို့နောက် သံပြိုင် ရွတ်ဆိုသံများ ထွက်လာပြန်သည်။ အသံကုန်ဟစ်၍ အော်နေကြခြင်း ဖြစ်သဖြင့် အဆုတ်များ ကွဲထွက်သွားလိမ့်မည်ဟုပင် ထင်ရ၏။

"အမေဖြင့် ကြောက်တောင်လာတယ်၊ အမေ့မှာ တစ်ခုခု ဖြစ်တော့မလိုပဲ " ဟု အမေက ရေရွတ်သည်။

ကြားနေရသည့် အသံများထဲမှ အစူးရှဆုံးနှင့် အကျယ်လောင်ဆုံးသော အသံတစ်သံသည် ငိုညည်းသံ ပေါက်လာသည်။ ထိုအသံသည် ခွေးအ တစ်ကောင် အော်သံနှင့် တူလှ၏။ မြေကြီးကို ခြေထောက်နှင့် ဆောင့်နေသံများမှာလည်း ပို၍ ကျယ်လောင်လာသည်။ အသံများမှာ စောစောကလို သံမှန် မဟုတ်တော့။ တစ်ယောက် တစ်ပေါက် ဖြစ်လာသည် ။ တဖြည်းဖြည်းနှင့် အသံအားလုံး ငိုသံပါလာသည်။ ညည်းတွားသံ ပေါက်လာသည်။ ထို့နောက် ညည်းညူသံများသည် ခပ်တိုးတိုး ဖြစ်လာသည်။ အသံများသည် အစာပန်းကန်ကို ကြည့်ပြီး အော်နေကြသည့် ခွေးပေါက်စကလေးများ အော်သံနှင့် တူလာပြန်သည်။

စိတ်ချောက်ချားစ ပြုလာသော ရိစာဟန်သည် တိတ်တိတ်ကျိတ်၍ ငိုသည်။ အဘွားဂျုတ်၏ ခြေထောက်များသည် ဟိုကနေ သည်ကျောက် လုပ်လာသည်။ ကိုယ်ပေါ်မှ လိုက်ကာ ခန်းဆီးစသည် ဘေးသို့ လျှောကျသွားသည်။ ပြီးတော့ အဘွားဂျုတ်၏ နှုတ်မှ ညည်းသံထွက်လာသည်။ အမေက ခန်းဆီးစကို ယူ၍ နေသားတကျ ဖြစ်သွားအောင် ပြန်ခြုံပေးသည်။ ထို့နောက်တော့ အဘွားဂျုတ်ထံမှ သက်ပြင်းရှည်ကြီးတစ်ချက် ချသံထွက်လာသည်။ အသက်ရှူသံသည် ပြန်၍ မှန်လာသည်။ မျက်ခွံများ ပိတ်သွားသည်။ စောစောက တဖျပ်ဖျပ် ခတ်နေသော မျက်တောင်များသည် လှုပ်ရှားမှု ကင်းမဲ့သွားကြသည်။ အဘွားဂျုတ်သည် အိပ်မောကျသွားလေပြီ။ မပွင့်တပွင့် ဖြစ်နေသော ပါးစပ်မှ ဟောက်သံသည် မှန်မှန် ထွက်ပေါ်လာနေသည်။ ခပ်လှမ်းလှမ်းမှ လာနေသော ညည်းညူသံများသည် တိုး၍ တိုး၍ သွားကာ နောက်ဆုံးတွင် လုံးဝ မကြားရတော့ဘဲ ပျောက်ကွယ်သွားလေသည်။

ရိစာဟန်က အမေ့ မျက်နှာကို လှမ်းကြည့်သည်။ သူ့မျက်လုံးအစုံတွင် မျက်ရည်များဖြင့် ပြည့်လျက်ရှိ၏။ "သူတို့ ဆုတောင်းပေးလို့ အဘွား ကောင်းသွားတာ" ဟုရိစာဟန်က ပြောသည်။ "အဘွား သက်သာသွားပြီ အမေ၊ အိပ်တောင်သွားပြီ"

အမေသည် သူ ပြုမိခဲ့သည့် လုပ်ရပ်အတွက် ရှက်စိတ်ဝင်ကာ မလုံမလဲ ဖြစ်လျက် ရှိသည်။ ဦးခေါင်းကို ငိုက်စိုက်ချထားသည်။ "အမေ လုပ်လိုက်တာ လူကောင်းတွေကို မကောင်း ထင်သလို ဖြစ်သွားတယ်၊ အခုဆို အဘွားဂျုတ် အိပ်သွားပြီ"

"အမေလုပ်တာ မှားတယ်ဆိုရင် သမီးတို့နဲ့ ပါလာတဲ့ ဟို တရားဟောဆရာကို အပြစ်က လွတ်အောင် ဆုတောင်းခိုင်းပါလား၊ ဘာပြုလို့ အမေ မခိုင်းတာလဲ"

"အမေ ခိုင်းမှာပေါ့၊ ဒါပေမဲ့ သူကလည်း လူထူးလူဆန်း တစ်ယောက်ကွယ့်၊ အမေ ဟိုလူတွေကို လက်မခံတာဟာ သူရှိနေလို့ ဖြစ်ချင်ဖြစ်မှာ၊ အမေတို့ တရားဟောဆရာ ကိုယ်တိုင်ကလည်း အရင်လို မဟုတ်တော့ဘူး၊ လူတွေ လုပ်သမျှ အားလုံးမှန်တယ် ဆိုတဲ့ အတွေးအခေါ်မျိုး ဝင်နေတယ်" အမေသည် သူ့လက်နှစ်ဖက်ကို ဖြန့်၍ ကြည့်နေရာမှ လှမ်းပြောသည်။ "အမေတို့ အိပ်ဦးမှ ဖြစ်မယ် ရိစာဟန်၊ ကနေ့ည ခရီးဆက်မယ်ဆိုရင် မအိပ်လို့ မဖြစ်ဘူး" အမေသည် အဘွားဂျုတ်၏ မွေ့ရာဘေး မြေကြီးပေါ်တွင် အသာအယာ လှဲအိပ်လိုက်သည်။

"အဘွားကို ယပ်ခတ်မပေးရတော့ဘူးလား အမေ" ဟု ရိုစာဟန်က မေးသည်။

"သူ အိပ်ပျော်သွားပြီပဲ သမီးရယ်၊ ညည်း ခဏတစ်ဖြုတ်တော့ နားဦးပေါ့"

"ကွန်နီတစ်ယောက် ဘယ်များ ရောက်နေလဲ မသိဘူး အမေ၊ ဒီအနီးအနား တစ်ဝိုက်မှာကို မရှိဘူး" ဟု ရိုစာဟန်က ညည်းသည်။

"ရှူး၊ တရေးအိပ်လိုက်ဦး"

"အမေ၊ ကွန်နီက ပြောတယ်၊ သူ ညကျောင်းတက်ပြီး ပညာတစ်ခုခု တတ်အောင် သင်မယ်တဲ့၊ ပြီးတော့ အလုပ်ကောင်းကောင်း တစ်ခု ရအောင် လုပ်မယ်တဲ့"

"အင်း၊ ဒါပေါ့၊ အမေ့ကို ညည်း အဲဒီအကြောင်း ပြောပြီးပါပြီ၊ ခဏနားဦး၊ တရေးတော့ အိပ်လိုက်"

ရိုစာဟန်သည် အဘွားဂျုတ်၏ မွေ့ရာ တစ်ဖက်စွန်းတွင် ဝင်၍ လှဲအိပ်လိုက်သည်။ "ကွန်နီမှာ စိတ်ကူးအသစ် တစ်ခုလည်း ရှိနေယတ် အမေရဲ့ သိလား၊ သူကတော့ အချိန် ရှိသမျှ အဲဒါကိုပဲ စဉ်းစားနေတာပဲ၊ လျှပ်စစ်ပညာတတ်ရင် ကိုယ်ပိုင် စတိုးဆိုင်တစ်ဆိုင် ဖွင့်မယ်တဲ့၊ ကိုယ်ပိုင်ဆိုင် ဖွင့်ဖြစ်ရင် သမီးတို့မှာ ဘာတွေ ရလာမယ် ထင်သလဲ ဟင်"

"ဘာတွေ ရလာမလဲ"

"ရေခဲသေတ္တာပေါ့ အမေရဲ့၊ အဲဒီ အထဲမှာ စားစရာ သောက်စရာတွေ အပြည့် ထည့်ထားမယ်၊ တစ်ချိန်လုံး ရေခဲစိမ်ထားသလို ဖြစ်နေရင် ထည့်ထားတဲ့ ပစ္စည်းတွေ မသိုးမပုပ်တော့ဘူးပေါ့"

အမေက ဟက်ခနဲ တစ်ချက် ရယ်လိုက်ပြီး "ဟင်း၊ ကွန်နီက တစ်ချိန်လုံး ဒါပဲ တွေးနေသတဲ့လား" ဟု မလိုတမာသံဖြင့် ရေရွတ်သည်။ "ကဲ သမီး၊ ညည်း နားဦးမှ ကောင်းမယ်"

ရိုစာဟန်သည် မျက်လုံးများကို မှိတ်လိုက်သည်။ အမေသည် တစောင်း လှဲနေရာမှ ပက်လက်လှန်၍ အိပ်လိုက်သည်။ လက်ဝါးနှစ်ဖက်ကို ပတ္တာဆက်သလို ယှက်၍

ဦးခေါင်းအောက်မှ ထိုးခံထားလိုက်၏။ သူသည် အဘွားဂျူတ်နှင့် ရိုစာဟန်တို့၏ အသက်ရှူသံများကို နားစွင့်နေသည်။ သူ့နဖူးထက်သို့ လာနားနေသော ယင်ကောင်ကို လက်တစ်ဖက်ဖြင့် မောင်းထုတ်လိုက်သည်။ စခန်းတစ်ခုလုံးသည် ပူပြင်းသော နေရောင်အောက်ဝယ် တိတ်လျက် ရှိ၏။ လေဟုန်တိုင်း လှုပ်ရှားနေကြသည့် မြက်ခြောက်ပင်များ အသံ၊ ပုရစ်များ အော်သံနှင့် ယင်ကောင်များ ပျံသန်းနေကြသည့် အသံ။ ငြိမ်တိတ်နေသော ပတ်ဝန်းကျင်တွင် ဤအသံများသည် အကျယ်ဆုံး ဖြစ်လျက် ရှိ၏။ အမေသည် သက်ပြင်းရှည်ကြီး တစ်ချက် ချလိုက်ပြီး အားရပါးရ သမ်းလိုက်ကာ မျက်လုံးများကို မှိတ်ထားလိုက်သည်။ မေးမေး မေးမေးနှင့် အိပ်ပျော်လုလု အချိန်ရောက်လာမှ သူတို့ဘက် လျှောက်လာနေသည့် ခြေသံများ ကြားရသည်။ စကားပြောသံက ယောကျ်ား တစ်ယောက်အသံ။ အမေသည် ဖတ်ခနဲ လန့်နိုးလာလေသည်။

"တဲထဲမှာ ဘယ်သူတွေလဲ ဟေ့"

အမေက ကပျာကယာ ထထိုင်သည်။ အညိုရောင် မျက်နှာပိုင်ရှင် ယောကျ်ားတစ်ယောက်သည် တဲထဲသို့ ပုံ့ကြည့်နေသည်။ ဘွတ်ဖိနပ်ကြီးများ စီးထားသည်။ ကာကီဘောင်းဘီနှင့် ကာကီ အင်္ကျီများ ဝတ်ထားသည်။ အင်္ကျီလက်မောင်း တစ်ဖက် တစ်ချက်တွင် တံဆိပ်များ တပ်ထားသည်။ သူ့ခါးမှ ခါးပတ်တွင်မူ ပစ္စတို တစ်လက် ထည့်ထားသည့် ခြောက်လုံးပြူး အိတ်သည် တွဲလောင်း။ သူ့ရှပ်အင်္ကျီ၏ ဘယ်ဘက် ရင်ဘတ်တွင် ငွေကြယ်တစ်ပွင့် တပ်ထားသည်။ ခေါင်းပေါ်မှ စစ်ဦးထုပ်သည် နောက်သို့ လန်ကျလျက် ရှိ၏။ သူ့လက်တစ်ဖက်သည် တာပေါ်လင်ရွက်ထည်ကို တဖြတ်ဖြတ် ပုတ်လျက် ရှိသည်။ တင်းနေသော တာပေါ်လင် ရွက်ထည်ဆီမှ ဖုံတစ်လုံး တီးသံမျိုး ထွက်ပေါ်လာလျက် ရှိ၏။

"အထဲက ဘယ်သူလဲ" နောက်တစ်ကြိမ် ထပ်မေးသံ။

အမေက ပြန်မေးသည်။ "ရှင် ဘာလိုချင်လို့လဲ မစ္စတာ"

"ခင်ဗျားက ကျုပ် ဘာလိုချင်နေတယ်လို့ ထင်သလဲ၊ ဒီအထဲကလူ ဘယ်သူလဲလို့ မေးနေတာ မကြားဘူးလား"

"ဘာပြုလို့လဲ၊ ဒီတဲထဲမှာ ကျွန်မတို့အားလုံး သုံးယောက်ပဲ ရှိတယ်၊ ကျွန်မရယ်၊ အဘွားကြီးရယ်၊ ကျွန်မ သမီးရယ်"

"ယောက်ျားတွေ ဘယ်ရောက်ကုန်လဲ"

"ရေသွားချိုးနေကြတယ်၊ ကျွန်မတို့ မနေ့ညက တစ်ညလုံး ကားနဲ့ လာခဲ့ရတာ"

"ခင်ဗျားတို့ ဘယ်က လာကြတာလဲ"

"ဆယ်လီဆောက လာတာ၊ ဒီနဲ့ သိပ်မဝေးပါဘူး၊ အုတ်ကလာဟိုးမား ပြည်နယ်ထဲကပေါ့"

"ခင်ဗျားတို့ ဒီမှာ နေလို့ မဖြစ်ဘူး"

"ကျွန်မတို့ ကနေ့ညပဲ ဒီက ထွက်မှာ၊ သဲကန္တာရကို ဖြတ်ဖို့ စီစဉ်ထားတယ် မစ္စတာ"

"ဒါဆိုရင်တော့ အကောင်းဆုံးပဲ၊ မနက်ဖြန် မနက် ဒီအချိန် ကျုပ် တစ်ခေါက် ပြန်လာလို့ တွေ့ရင်တော့ ကျုပ် အရေးယူရလိမ့်မယ်၊ ခင်ဗျားတို့ အုပ်စုထဲကဆိုရင် ဘယ်အုပ်စုမှ ဒီနေရာမှာ မနေရဘူး"

အမေ့မျက်နှာသည် ဒေါသအရှိန်ဖြင့် မည်းသွားသည်။ ထိုင်နေရာမှ ဖြည်းညင်းစွာ ထရပ်သည်။ မီးဖိုချောင်သုံး အိုးခွက်ကိရိယာ တန်ဆာပလာ ပစ္စည်းများ ထည့်သည့် သေတ္တာတွင်းသို့ ငုံ့ကြည့်ပြီး အတွင်းမှ လက်ကိုင်တပ် သံဒယ်အိုးကြီး တစ်လုံးကို ဆွဲထုတ်ကာ လက်တစ်ဖက်ဖြင့် တင်းကျပ်စွာ ဆုပ်ကိုင်ထားသည်။ "ဒီမယ် မစ္စတာ" ဟု လှမ်းပြောသည်။ "ရှင့်ခါးမှာ သေနတ်ကြီးတစ်လက် ချိတ်ထားတာပဲ၊ သတ္တိရှိရင် လုပ်ပေါ့၊ ကျွန်မ ဘယ်ကပဲလာလာ ရှင် မာကျယ်ကျယ် လာလုပ်စရာ မလိုပါဘူး" အမေသည် သံဒယ်အိုးကို ခပ်တင်းတင်း ဆုပ်ကိုင်ပြီး ထိုလူထံသို့ တိုးကပ်သွားသည်။ ထိုလူက ခြောက်လုံးပြူးကို အလွယ်တကူ ဆွဲထုတ်နိုင်ရင် အိတ်ကို ဖွင့်၍ အသင့်ပြင်ထားသည်။ "ဘာလဲ၊ ပစ်မလို့လား၊ ပစ်လေ" ဟု အမေက ပြောသည်။ "မိန်းမဆိုပြီး လာခြောက်လို့ ရမယ် မထင်နဲ့၊ ယောက်ျားတွေ ဒီမှာ မရှိတာ ကံကောင်းတယ်၊ သူတို့သာ ရှိလို့ကတော့

နင့်လိုကောင်ကို အရေတခြား အသားတခြား ဖြစ်အောင် ဆုတ်ဖြဲပစ်မှာ၊ ငါ့နယ်ထဲမှာသာ ဆိုရင် နင်လိုကောင် လျှာ လာရှည်လို့ ဘယ်ရမှာလဲ”

ထိုလူသည် နောက်သို့ နှစ်လှမ်းမျှ ဆုတ်၍ ရပ်လိုက်သည်။ “အခု ခင်ဗျား ရောက်နေတာ ခင်ဗျားပြည်နယ် မဟုတ်ဘူး၊ အခုဟာ ကယ်လီဖိုးနီးယား ပြည်နယ်၊ ကျုပ်တို့ကလည်း ခင်ဗျားတို့လို အသုံးမကျတဲ့ အုတ်ကီးတွေ ဒီပြည်နယ်ထဲ အခြေချမှာ လုံးဝ မလိုလားဘူး၊ သိလား”

ရှေ့သို့ တိုးသွားနေသော အမေ့ ခြေလှမ်းများည် တန့်သွားသည်။ အမေ့မျက်နှာတွင် အံ့ဩသည့် အရိပ်လက္ခဏာများ ထင်ဟပ်လာသည်။ “အုတ်ကီး” ဟု တိုးတိုးညင်းညင်း ရေရွတ်သည်။ “အုတ်ကီး”

“ဟုတ်တယ် အုတ်ကီး၊ ကျုပ် မနက်ဖြန် တစ်ခေါက်ထပ်လာလို့ ခင်ဗျားတို့ ဒီနေရာမှာ ရှိနေသေးရင် မလွယ်ဘူးသာမှတ်၊ ကျုပ်အကြောင်း ကောင်းကောင်း သိသွားအောင် ပြမယ်” ထိုလူသည် နောက်သို့ ချာခနဲလှည့်ကာ နောက်တစ်တဲဆီသို့ လျှောက်သွားသည်။ တဲ၏ ရွက်ထည်ကို လက်တစ်ဖက်နှင့် ပုတ်ကာ “အထဲမှာ ဘယ်သူရှိလဲ” ဟု မေးသည်။

အမေသည် တာပေါ်လင် ရွက်ထည်အောက်သို့ ပြန်ဝင်လာသည်။ လက်ထဲမှ သံဒယ်အိုးကြီးကို သေတ္တာထဲသို့ ပြန်ထည့်လိုက်ပြီး သူ့နေရာတွင် ဖြည်းညင်းစွာ ပြန်ထိုင်သည်။ ရိုစာဟန်ကတော့ သူ့အမေ မျက်နှာကို လှမ်းကြည့်ကာ အကဲခတ်လျက် ရှိ၏။ ပျက်နေသော မျက်နှာထားကို ပြန်ပြင်ရန် ကြိုးစား အားထုတ်နေရှာသော အမေ့အဖြစ်ကို မြင်သည့်အခါတွင်မူ ရိုစာဟန်သည် မျက်လုံးများကို မှိတ်ပြီး အိပ်ချင်ယောင် ဆောင်နေလေ၏။

မွန်းလွဲပိုင်းတွင် နေသည် နိမ့်ဆင်း လျှောကျလာသည်။ သို့သော်လည်း အပူရှိန်ကတော့ လျော့မသွား။ မိုးမခပင်များ အောက်၌ အိပ်ပျော်နေသော တွမ်သည် နိုးလာသည်။ သူ့ပါးစပ်မှာ ခြောက်သွေ့လျက် ရှိ၏။ သူ့တစ်ကိုယ်လုံးမှာ ချွေးများဖြင့် နစ်လျက် ရှိလေသည်။ တရေးတမော အိပ်၍ နားလိုက်ရသော်လည်း သူ့ခေါင်းမှာ ကြည်လင်ခြင်း မရှိ။ တစ်ခေါင်းလုံး အုံ့ခဲလျက် ရှိသည်။ သူသည် ဒယိမ်းဒယိုင်ဖြင့် ရေရှိရာသို့ လျှောက်သွားသည်။ ကိုယ်ပေါ်မှ အဝတ်အစားများကို ချွတ်ချလိုက်ပြီး ရေထဲသို့

ဆင်း၍ စိမ်ပြန်သည်။ ရေထဲ စိမ်မိသည်နှင့် တစ်ပြိုင်နက် သူ ခံစားနေရသော ရေငတ်ခြင်း ဝေဒနာသည် ချက်ချင်း ပျောက်သွားသည်။ သူသည် ရေ ခပ်တိမ်တိမ် နေရာတွင် ရေပြင်ကို ကျောတင်ကာ ကိုယ်ကို ဖော့ထားသည်။ ခန္ဓာကိုယ်သည် ပေါလောမျောပါလျက် ရှိ၏။ သူသည် သဲပြင်ကို တံတောင်နစ်ဖက်ဖြင့် ထောက်ကာ ရေမျက်နှာပြင် အထက်၌ ပေါ်နေသော သူ့ခြေချောင်းများကို ပြန်၍ ကြည့်နေသည်။

အသားအရေ ဖြူဖပ်ဖြူရော် ပိန်ခြောက်ခြောက်နှင့် ကမ္ဗဏ္ဍာန်းရုပ် ပေါက်နေသော သူငယ်တစ်ယောက်သည် တိရစ္ဆာန် တစ်ကောင်သဖွယ် ကျူပင်များ ကြားမှ လေးဘက်တွား၍ ထွက်လာပြီး အဝတ်အစားများကို ချွတ်ကာ ရေထဲသို့ ခုန်ဆင်းလာသည်။ သူငယ်သည် သူ့နှာခေါင်းနှင့် မျက်လုံးများကိုသာ ရေထဲ၌ ဖော်ထားပြီး ကိုယ်ကို ဖော့ထားသည်။ ထို့နောက် တွမ်၏ ဦးခေါင်းကို တွေ့သွားသည်။ သူ့အား မျက်ခြည်မပြတ် စူးစိုက် ကြည့်နေသော တွမ်၏ မျက်လုံးများကိုလည်း မြင်သွားသည်။ သူသည် ရေထဲတွင် ပက်လက်လှန်၍ စိမ်နေရာမှ ဖျတ်ခနဲ ထထိုင်သည်။

"ဟယ်လို" ဟု တွမ်က အသံပြုသည်။

"ဟယ်လို"

"မင်း ဆော့နေပုံက ရေဆင်တစ်ကောင်နဲ့ သိပ်တူတယ်"

"အင်း ဟုတ်တယ်" ဟု သူငယ်သည် ကမ်းပါးဘက်သို့ ဖင်ရွှေ့ ဖင်ရွှေ့ သွားသည်။

ထို့နောက် ထိုင်နေရာမှ ဖြုန်းခနဲ ထကာ ကမ်းပါးပေါ်သို့ ခုန်တက်လိုက်သည်။ သူ့အဝတ်အစားများကို ကသောကမျော ကောက်ယူပြီး မိုးမခပင်များ ကြားသို့ အပြေးအလွှား ဝင်ရောက်သွားလေသည်။

တွမ်က အသာကလေး ကျိတ်၍ ရယ်သည်။ "တွမ်၊ တွမ်ရေ" သူ့နာမည်ကို ခေါ်နေသည့် အသံ။ အသံက ခပ်သေးသေး။ သူသည် ဖျတ်ခနဲ ထိုင်လိုက်ပြီး လေတစ်ချက် ချွန်၍ အသံပြန်ပေးသည်။ မိုးမခပင် အကိုင်းများ လှုပ်ရှားသွားသည်။ နောက်ဘက်မှ ထွက်လာပြီး သူ့အား ရပ်ကြည့်နေသူမှာ ရှသီ။

"အမေက ခေါ်ခိုင်းလို့" ဟု ရှုသီက ပြောသည်။ "အမေက အခု ချက်ချင်းလိုက်ခဲ့ပါတဲ့"

"အေး လာမယ်" တွမ်သည် ထိုင်ရာမှထကာ လမ်းဘက်သို့ လျှောက်သွားသည်။ ရှုသီသည် ကိုယ်လုံးတီးဖြင့် နေသော သူ့အစ်ကိုအား တအံ့တသြနှင့် စိတ်ဝင်တစား ငေးကြည့်နေသည်။

ရှုသီ၏အကြည့်ကို သတိထားလိုက်မိသော တွမ်က လှမ်းပြောသည်။ "ရှေ့က ပြေးနှင့်" ရှုသီ ထွက်ပြေးသွားသည်။ ပြေးသွားရင်းက သူ့မောင်ငယ် ဝင်းဖီးအား တကြော်ကြော် အော်ခေါ်သွားနေသည့် အသံကို တွမ် ကြားနေရ၏။ တွမ်သည် စိုရွှဲ အေးမြနေသော သူ့ကိုယ်ပေါ်သို့ ကျွတ်နေအောင် ပူလျက်ရှိသော အဝတ်အစားများ ပြန်ဝတ်ကာ မိုးမခပင်များ ကြားမှ တိုးဝှေ့ပြီး တဲရှိရာသို့ ပြန်လာခဲ့သည်။

အမေသည် မိုးမခသား ထင်းခြောက်များဖြင့် မီးမွှေးကာ ရေနွေးအိုးတစ်လုံး တည်နေသည်။ တွမ်ကို မြင်လိုက်သောအခါ သူ့မျက်နှာသည် စိတ်သက်သာရာ ရသွားသည့် အရိပ်လက္ခဏာကို ဖော်ပြလေသည်။

"ဘာဖြစ်လို့လဲ အမေ" ဟု တွမ်က မေးသည်။

"အမေ ကြောက်လာလို့ကွယ့်" ဟု အမေက ပြောသည်။ "ပုလိပ်တစ်ယောက် လာတယ်၊ အမေတို့ကို ဒီမှာ မနေရဘူးလို့ ပြောသွားတယ်၊ အမေက မင်းနဲ့တွေ့ပြီး စကားပြောကြမှာ ကြောက်လို့၊ သူနဲ့ စကားပြောမိရင် မင်းက သူ့ကို ထိုးလား ကြိတ်လား လုပ်မိမှာ၊ အဲသလို ဖြစ်မှာ အမေ စိုးရိမ်တယ်"

"ဟာဗျာ၊ ကျုပ်က ဘာပြုလို့ ပုလိပ် တစ်ယောက်ကို ထိုးရမှာလဲ၊ အမေကလည်းဗျာ မဟုတ်တာ"

အမေက ပြုံးသည်။ "အင်း၊ သူ စကားပြောပုံက ဆိုးတယ်ကွယ့်၊ အမေတောင် သူ့ကို သံဒယ်အိုးကြီးနဲ့ ခုတ်မိတော့မလို ဖြစ်သွားသေးတယ်"

တွမ်က အမေ့လက်ကို ဆွဲ၍ ခပ်ကြမ်းကြမ်း လှုပ်ယမ်းကာ အူလှိုက်သည်းလှိုက် ရယ်သည်။ သူသည် မြေကြီးပေါ်သို့ ထိုင်ချလိုက်သည်။ အရယ်ကတော့ မရပ်သေး။

"ဘုရားတ နေရပါလား အမေရယ်၊ အမေဟာ အလွန် သဘောကောင်းတာပါ၊ ဘယ်လို ဖြစ်သွားတာတုံး"

"အမေ မပြောတတ်တော့ပါဘူး တွမ်ရယ်" အမေ့မျက်နှာသည် တည်ငြိမ်လျက် ရှိ၏။

"ပထမတစ်ကြိမ်လည်း အမေ ကျုပ်တို့ကို နက်ဖို့ စိန်ခေါ်တယ်၊ ဟော အခု ပုလိပ် တစ်ယောက်ကို ချဖို့ စိတ်ကူးတယ်" တွမ်က ခပ်တိုးတိုး ကျိတ်၍ ရယ်သည်။ ထို့နောက် ဖိနပ် စီးမထားသည့် အမေ့ ခြေထောက်ကို သူ့လက်တစ်ဖက်ဖြင့် အသာအယာ လှမ်းပုတ်လိုက်ပြီး "အမေကတော့ ငရဲပြည်က လာတဲ့ ကြောင်အိုတစ်ကောင် ဖြစ်နေပြီ" ဟု ရေရွတ်သည်။

"တွမ်"

"အင်း"

အမေသည် အချိန်အတော်ကြာမျှ ဘာမှ မပြောသေးဘဲ တုံ့ဆိုင်းနေသည်။ "တွမ်၊ အဲဒီ ပုလိပ်က အမေတို့ကို အုတ်ကီးတွေလို့ ခေါ်သွားတယ်၊ ပြီးတော့လည်း ခင်ဗျားတို့ အုတ်ကီးတွေကို ကျုပ်တို့ ပြည်နယ်ထဲ အလာမခံချင်ဘူးလို့ ပြောသွားတယ်"

တွမ်က အမေ့မျက်နှာကို အကဲခတ်သည်။ သူ့လက်တစ်ဖက်သည် အမေ့ ခြေဖမိုးတစ်ဖက်ကို ကိုင်ထားဆဲ။ "ဟို လူတစ်ယောက်က ဒီအကြောင်း ပြောသွားဖူးတယ်ဗျ" ဟု တွမ်က ပြောသည်။ "အဲဒီ လူက ပြောတယ်၊ ဒီက ကောင်တွေက ကျုပ်တို့ကို တွေ့ရင် အဲသလိုပဲ ပြောတတ်တယ်တဲ့" သူသည် စကားကို မဆက်သေးဘဲ စဉ်းစားလျက် ရှိသည်။ "အမေ့ကို တစ်ခု မေးရဦးမယ်၊ အမေ ကျုပ်ကို ဘယ်လိုထင်လဲ၊ လူဆိုးတစ်ယောက်လို့ မထင်မိဘူးလားဟင်၊ ကျုပ်လို ကောင်မျိုးဟာ ထောင်ထဲမှာပဲ ချထားဖို့ ကောင်းတယ်လို့များ မထင်မိဘူးလား"

"မထင်ပါဘူးကွယ်" ဟု အမေက ဖြေသည်။ "မင်း တစ်ကြိမ် ခံရပြီးပြီပဲ၊ ဒါပေမဲ့ အမေ မထင်ပါဘူး၊ ဘာကြောင့် ဒီလို မေးရတာလဲကွယ့်"

"မပြောတတ်ဘူး အမေ၊ ဟို ပုလိပ်နဲ့ တွေ့ရင် လက်သီးနဲ့ ထိုးချင် ထိုးမိမှာ"

"အမေက ဟက်ဟက်ပက်ပက် ပြုံးသည်။ "မေးသင့်တဲ့လူက အမေ ဖြစ်ရမှာပေါ့ကွယ်၊ ဘာပြုလို့လဲ ဆိုတော့ အမေက အဲဒီကောင်ကို သံဒယ်အိုးကြီးနဲ့ ရိုက်ဖို့ စိတ်ကူးခဲ့တဲ့လူ မဟုတ်လား"

"ဒီမယ် အမေ၊ သူက ကျုပ်တို့ကို ဒီနေရာမှာ မနားရဘူးလို့ ဘာကြောင့် လာပြောရတာတဲ့လဲ ဟင်"

"သူတို့အနေနဲ့ အမေတို့ အုတ်ကီးတွေကို သူတို့ ပြည်နယ်ထဲမှာ အခြေချသွားမှာ စိုးလို့နဲ့ တူပါတယ်ကွယ်၊ သူက ပြောသွားသေးတယ်၊ မနက်ဖြန် တစ်ခေါက်ပြန်လာလို့ အမေတို့ကို ထပ်တွေ့နေရင် အရေးယူမယ်တဲ့"

"ဒါပေမဲ့ ကျုပ်တို့က ပုလိပ်နဲ့ ပတ်သက်လာအောင် ရှုပ်ရှုပ်ယှက်ယှက် နေတတ်တဲ့ လူစားတွေမှ မဟုတ်တာ၊ အမေက ပြောမပြဘူးလား"

"အမေက ပြောပြပါတယ်၊ ဒါပေမဲ့ သူက မနက်ဖြန်ဆိုရင် အမေတို့ကို ဒီမှာ မရှိရဘူး တဲ့၊ အမေတို့ အခု ရောက်နေတဲ့ နေရာက ကယ်လီဖိုးနီးယားတဲ့၊ သူတို့ ကြိုက်တာ သူတို့ လုပ်မှာပဲတဲ့"

တွမ်က စိတ်မသက်မသာ ဖြစ်နေသော အသံဖြင့် ပြောသည်။ "အမေ၊ ကျုပ်.. ကျုပ် အမေ့ကို ပြောစရာ တစ်ခု ရှိတယ်၊ နိုအာလေ၊ ဒီကောင် ထွက်သွားတယ်၊ ကျုပ်တို့နဲ့ မလိုက်တော့ဘူးလို့ ပြောပြီး မြစ်ကမ်းပါးအတိုင်း ထွက်သွားတာ"

အမေသည် ချက်ချင်း သဘောမပေါက်။ တွမ်၏ စကားကို အချိန်အတန်ကြာမှ နားလည်သည်။ "ဘာကြောင့်တဲ့လဲ" ဟု မေးသည်။

"မသိဘူး အမေ၊ သူ မသွားရင် မဖြစ်ဘူးလို့ ပြောတာပဲ၊ အမေ့ကို ပြောပြဖို့ ကျုပ်ကို မှာတာနဲ့.."

"သူ ဘယ်လို စားသောက်သွားမှာတဲ့လဲ" ဟု အမေက မေးသည်။

"မပြောတတ်ဘူး အမေ၊ သူကတော့ ငါးတွေ ဖမ်းစားသွားမယ် ပြောတာပဲဗျာ"

အမေသည် အချိန်အတော်ကြီးကြာမျှ နှုတ်ဆိတ်ကာ ငြိမ်သက်နေသည်။ "မိသားစု တကွဲတပြား ဖြစ်ကုန်ပြီ" ဟု ပြောသည်။ "အမေ မပြောတတ်တော့ပါဘူးကွယ်၊ ကောင်းသလား ဆိုးသလားလည်း မစဉ်းစားနိုင်တော့ဘူး၊ စဉ်းလည်း မစဉ်းစားချင်တော့ပါဘူးကွယ်၊ အို ဒုက္ခများလွန်းလှပါတယ် တွမ်ရယ်"

"သူ ဘာမှတော့ ဖြစ်မှာ မဟုတ်ပါဘူး အမေရယ်၊ စိတ်မပူပါနဲ့၊ ဒီကောင်က လည်ပါတယ်၊ ပျော်ပျော်လည်း နေတတ်တဲ့ကောင် တစ်ယောက် ဆိုတော့ အဆင်ပြေသွားမှာပါ"

အမေ၏ ရီဝေ မှုန်မှိုင်းလျက် ရှိသော မျက်လုံးများသည် မြစ်ဆီသို့ ငေးမောနေသည်။ "အမေ မစဉ်းစားတတ်တော့ပါဘူးကွယ်"

တွမ်က ရွက်ထည်တဲများ တစ်လျှောက် လှမ်းမျှော်ကြည့်နေသည်။ တဲတစ်လုံးအနီးတွင် ရပ်၍ အတွင်းမှ တစ်စုံတစ်ယောက်နှင့် စကားပြောနေကြသော ရှုသီနှင့် ဝင်းဖီးတို့ မောင်နှမကို မြင်သည်။ ရှုသီသည် သူ၏ စကတ် အနားကို လက်နှစ်ဖက်ဖြင့် ဆွဲဆုပ်လိမ်ညှစ်နေသည်။ ဝင်းဖီးကတော့ သူ့ခြေမတစ်ချောင်းဖြင့် မြေကြီးကို ထိုးကော်ကာ တွင်းတူးလျက် ရှိလေသည်။ "ဟေး ရှုသီ" ဟု တွမ်က လှမ်းအော်သည်။ ရှုသီက မော့ကြည့်ပြီး တွမ်ဆီသို့ လျှောက်လာသည်။ ဝင်းဖီးကတော့ ထုံးစံအတိုင်း သူ့အစ်မနောက်မှ ကပ်ပါလာသည်။ တွမ်က ဆီး၍ ခိုင်းသည်။ "တို့ လူတွေကို သွားခေါ်ချေတော့၊ သူတို့ မိုးမခပင်တွေ ကြားမှာ အိပ်နေကြတယ်၊ ကဲ ဝင်းဖီး၊ မင်းက ဝီလ်ဆန် လင်မယားကို သွားပြော၊ ပစ္စည်းတွေ သိမ်းတော့လို့၊ ငါတို့ ဒီနေရာက အမြန်ဆုံး ထွက်မှ ဖြစ်မယ်လို့ ပြော" ကလေးနှစ်ယောက်သည် နောက်ရင်းသို့ ချာခနဲ လှည့်ကာ ဒုန်းစိုင်း၍ ပြေးသွားကြလေ၏။

တွမ်က အမေ့ဘက် လှည့်ကြည့်သည်။ "အဘွားကော ဘယ်လိုနေသေးလဲ အမေ"

"ကနေ့တော့ သက်သာလာပုံပဲ၊ အခုထိ အိပ်နေတုန်း"

"ကောင်းတာပေါ့ အမေ၊ ကျုပ်တို့မှာ ဝက်သားကော ဘယ်လောက်များများ ကျန်သေးလဲဟင်"

"များများစားစား မကျန်တော့ဘူး တွမ်"

"ဟို သံစည်အလွတ်ထဲကို ရေထည့်သွားမှ ဖြစ်မယ်၊ ရေတော့ များများစားစား သယ်သွားမှ" သူတို့သည် မြစ်ဆိပ်ဘက်မှ ရှုသီ၏ အော်ခေါ်နေသံများကို အတိုင်းသား ကြားနေရ၏။

အမေသည် မီးတောက်လောင်လျက်ရှိသော မိုးမခသား ထင်းစများကို ဆွကာ မီးပြင်ထိုးနေရာမှ "အမေကတော့ နည်းနည်းပါးပါးလောက် နားနိုင်အောင် စောင်မတော်မူပါလို့ ဘုရားသခင်ဆီမှာ ဆုတောင်းမိတယ်၊ စိတ်အေးနားအေးနဲ့ နားနိုင်မယ့် နေရာကောင်းလေး တစ်နေရာကို ပို့ပေးတော်မူပါဦးလို့ ယေရှုသခင်ဆီမှာ ဆုတောင်းမိတာ ပါကွယ်" ဟု လှမ်းပြောသည်။

နေသည် အနောက်ဘက် တောင်ကုန်းများဆီသို့ တဖြည်းဖြည်း လျှောဆင်းလျက် ရှိ၏။ မီးဖိုပေါ်မှ အိုးသည် ပွက်ပွက်ဆူစ ပြုလေပြီ။ အမေသည် ရွက်ထည်တဲ အတွင်းသို့ ဝင်သွားပြီး သူ့ခါး၌ ချည်ထားသည့် မီးဖိုချောင်သုံး ခါးစည်းအဝတ်ဖြင့် အာလူး တပွေ့ ပိုက်ကာ ပြန်ထွက်လာသည်။ ပြီးတော့ အာလူးများကို ပွက်ပွက်ဆူနေသော အိုးထဲသို့ သွန်ထည့် လိုက်သည်။ "အမေတို့ အဝတ်အစားတွေကို လျှော်ဖို့ ဖွပ်ဖို့ အခါအခွင့်သင့်အောင် စောင်မတော်မူပါဦးလို့လည်း ဘုရားသခင်ဆီမှာ ဆုတောင်းတယ်၊ အမေတို့ မိသားစု အခုလို ညစ်ညစ်ပတ်ပတ် အဖြစ်မျိုးနဲ့ ဘယ်တုန်းကမှ မနေခဲ့ဖူးပါဘူး ကွယ်၊ အခုဆို ကြည့်ပါဦး၊ ကိုယ် စားမယ့် အာလူးကိုတောင်မှ မပြုတ်ခင် ရေမဆေးရတဲ့ ဘဝ၊ ဘာကြောင့်များ ဒီလောက်အထိ ဖြစ်ရပါလိမ့်လို့ အမေ တွေးပြီး အံ့သြမိတယ်၊ သိလား၊ အမေတို့ နလုံးသားတွေကိုတောင်မှ ထုတ်ယူသွားတော့မယ် ပုံမျိုးပါပဲကွယ်"

ယောက်ျားအုပ်စုသည် မိုးမခပင်ပေါက်များကြားမှ တန်းစီ၍ ထွက်လာကြသည်။ အိပ်ရေး ဝလာသဖြင့် သူတို့ မျက်လုံးများသည် မို့လျက် ရှိကြ၏။ မျက်နှာများ နီမြန်းကာ ဖောင်းပြည့်လျက် ရှိကြ၏။

"ဘာဖြစ်လို့လဲဟေ့" အဖေက မေးသည်။

"ကျုပ်တို့ သွားကြရအောင်" ဟု တွမ်က ပြောသည်။ "ပုလိပ်တစ်ယောက်က လာပြီး ကျုပ်တို့ကို နှင်နေတယ်၊ စောစောထွက်တော့လည်း ကျုပ်တို့အတွက်

အဆင်ပြေတာပေါ့၊ ကျုပ်တို့ ဖြတ်ရမယ့် သဲကန္တာရ ခရီးက မိုင်သုံးရာ နီးပါးလောက် ရှိတယ်"

"နည်းနည်းပါးပါးတော့ နားနေဦးမှ ကောင်းမယ် ထင်တယ်ကွ" ဟု အဖေက ပြောသည်။

"နားနေလို့ မဖြစ်တော့ဘူးဗျ၊ ကျုပ်တို့ သွားမှ ဖြစ်တော့မှာ" ဟု တွမ်က ပြန်ပြောသည်။ "နီအာတော့ ကျုပ်တို့နဲ့ မလိုက်တော့ဘူး၊ သူ တစ်ယောက်တည်း မြစ်ကမ်းပါးလမ်း အတိုင်း ခြေကျင် လျှောက်သွားပြီ"

"မလိုက်တော့ဘူး၊ ဟုတ်လား၊ သူက ဘာဖြစ်လို့တဲ့လဲ" အဖေသည် ချက်ချင်းပင် တစ်စုံတစ်ခုကို တွေးမိသည်။ "ငါ့အပြစ်ပဲ" ဟု စိတ်မချမ်းမြေ့စွာဖြင့် ရေရွတ်သည်။ "သူ ဖြစ်သမျှဟာ ငါ့အပြစ်ချည်းပဲ"

"မဟုတ်ပါဘူး အဖေရာ"

"ငါ ဒီအကြောင်းကို ထပ် မပြောချင်တော့ဘူး" ဟု အဖေက ဆိုသည်။ "အပြစ်က ငါ့အပြစ်ပဲ"

"ကဲ အဖေ၊ ကျုပ်တို့ ဒီနေရာက သွားမှ ဖြစ်မှာ" ဟု တွမ်က ပြောသည်။

သူတို့ထံ လျှောက်လာနေသော ဝီလ်ဆန်သည် တွမ်၏ စကားကို နားစွန်နားဖျား ကြားသည်။ "ကျုပ်တို့တော့ သွားလို့ မဖြစ်သေးဘူးဗျာ" ဟု ပြောသည်။ "ဆေရီ နေမကောင်းဖြစ်ပြန်ပြီဗျ၊ သူ မနားလို့ မရတော့ဘူး၊ ဒီပုံအတိုင်းသာ သဲကန္တာရကို ဖြတ်ရရင်တော့ သူ သေမှာပဲ"

သူ့စကားကြောင့် အားလုံး ငြိမ်ဆိတ်သွားကြသည်။ ထို့နောက် တွမ်က ပြောသည်။ "မနက်ဖြန်အထိ ဒီနေရာမှ ရှိသေးရင် ကျုပ်တို့ကို ဖမ်းရမယ်လို့ ပုလိပ်က လာပြောသွားတယ်"

ဝီလ်ဆန်က ခေါင်းယမ်းသည်။ သူ့မျက်လုံးများသည် ပူပန်သောကငွေ့များဖြင့် ပြည့်နေသည်။ မျက်နှာကတော့ ဖြူရော်ရော်။ "သူ့ကို ဖွတ်အစမ္ဗ ခေါ်သွားလို့လည်း

မဖြစ်ဘူးဗျာ၊ သူ လိုက်နိုင်မှာ မဟုတ်ဘူး၊ တကယ်လို့ သူတို့က ကျုပ်တို့ကို ဖမ်းပြီး ထောင်ချမယ်ဆိုလည်း ခံရတော့မှာပဲ၊ ဆေရီ အနေနဲ့ အားပြည့်လာအောင် နားဦးမှ ဖြစ်မှာ”

“ဒီလိုဆိုလည်း ငါတို့ အားလုံး စောင့်နေမှ ဖြစ်မယ်ထင်တယ်” ဟု အဖေက ထင်မြင်ချက် ပေးသည်။

“အဲသလိုတော့ မစောင့်ကြနဲ့ဗျာ” ဟု ဝီလ်ဆန်က ပြန်ပြောသည်။ “ခင်ဗျားတို့ အားလုံး ကျုပ်တို့အပေါ်မှာ ကောင်းကြပါတယ်၊ သနား ကြင်နာတတ်တာလည်း ကျုပ်တို့ သိပါတယ်၊ ဒါပေမဲ့ ကျုပ်တို့ကို စောင့်နေလို့ကတော့ မဖြစ်နိုင်ဘူး၊ ဟိုကို မြန်မြန်ရောက်ပြီး အလုပ်အကိုင် ရမှ ဖြစ်မှာ၊ ကျုပ်တို့ကြောင့်တော့ ခရီးမဖင့်စေချင်ဘူး”

“အဲသလိုတော့ မဟုတ်သေးဘူးလေ၊ ခင်ဗျားတို့မှာ ကူညီမယ့် လူမှ မရှိတာ” ဟု အဖေက ပြောသည်။

ဝီလ်ဆန်က ပြုံးလေသည်။ “ခင်ဗျားတို့နဲ့ မတွေ့ခင်ကတည်းက ကျုပ်တို့မှာ ကူညီမယ့်လူ ရှိတာမှ မဟုတ်တာ၊ မထူးပါဘူး၊ ဒီကိစ္စက ခင်ဗျားတို့နဲ့လည်း မဆိုင်ပါဘူးဗျာ၊ ခင်ဗျားတို့ရှိမှ ဖြစ်မယ် ဆိုတဲ့ သဘောနဲ့ ကျုပ်ကို လူညံ့လူဖျင်း တစ်ယောက် ဖြစ်သွားအောင် မလုပ်ကြပါနဲ့တော့၊ ခင်ဗျားတို့ သွားရမယ့် ခရီးကို ဆက်သာ သွားကြပါ၊ မသွားရင် ကျုပ် လူနံလူအ ဖြစ်သွားတော့မှာ သေချာနေပြီ၊ ဒါမှမဟုတ်လည်း ကျုပ် ရှူးလိမ့်မယ်”

အမေက အဖေ့ဂျုတ်ကို မျက်ရိပ်မျက်ခြည် ပြ၍ တဲအတွင်းသို့ ခေါ်သွားပြီး နှစ်ကိုယ်ကြား စကားပြောသည်။

ဝီလ်ဆန်က ကက်ဆီဘက်သို့ လှည့်လိုက်သည်။ “ဆေရီက ခင်ဗျားနဲ့ တွေ့ချင်နေတယ်၊ သွားလိုက်ပါဦး”

“သွားလိုက်မယ်လေ” ဟု တရားဟောဆရာက ပြောသည်။ သူသည် ဝီလ်ဆန်တို့ တဲဘက်သို့ လျှောက်လာသည်။ ရွက်ထည်စ တဲတံခါးကို ဆွဲဖွင့်ကာ အတွင်းသို့ ဝင်လာခဲ့၏။ တဲအတွင်း၌ မည်းမှောင်နေရုံမျှမက လှောင်ပိတ် ပူလောင်လျက် ရှိ၏။

မွေ့ရာတစ်ခုကို မြေကြီးပေါ်၌ ချခင်းထားသည်။ ပစ္စည်းများမှာမူ ဟိုတစ်ခု သည်တစခု ပြန့်ကြဲလျက် ရှိကြလေသည်။ ဆေရီသည် မွေ့ရာပေါ်၌ လဲလျောင်းလျက် ရှိ၏။ သူ၏ ပြူးကျယ် ဝိုင်းစက်နေသော မျက်လုံးများသည် တောက်ပနေဆဲပင် ဖြစ်သည်။ ကက်ဆီက သူ့အနီး၌ ရပ်ကာ ငုံ့ကြည့်သည်။ သူ၏ ကြီးမားသော ဦးခေါင်းကို ငုံ့လိုက်သည့်အတွက် လည်ပင်းကြောကြီးများသည် ထောင်ထလာလေသည်။ သူသည် ခေါင်းမှ ဦးထုပ်ကို ချွတ်ကာ တစ်ဖက်သော လက်ဖြင့် ကိုင်ထားသည်။

"ကျွန်မတို့ မလိုက်နိုင်တော့ဘူးလို့ ကျွန်မ ယောက်ျား လာပြောတယ် မဟုတ်လား" ဟု ဆေရီက မေးသည်။

"ဟုတ်တယ်၊ လာပြောတယ်"

ဆေရီ၏ ကြည်လင် သာယာသော စကားပြောသံသည် ခပ်တိုးတိုး ဆက်လက် ထွက်လာနေသည်။ "ကျွန်မကတော့ ဆက်သွားချင်တယ်၊ ကျွန်မရဲ့ အသက်ဟာ သဲကန္တာရ ဟိုဘက်အထိ မပါနိုင်တော့ဘူးဆိုတာ ကျွန်မ သိနေပါတယ်၊ ဒါပေမဲ့ ဘာပဲ ဖြစ်ဖြစ် ဆက်သွားလိုက်မယ်ဆိုရင် သူတစ်ယောက်ကတော့ သဲကန္တာရကို ကျော်မိမှာပဲ မဟုတ်လား၊ ဒါကို သူက မသွားဘူးလို့ ငြင်းနေတယ်၊ အခြေအနေကို သူ ဘာမှ မသိဘူး၊ သူက ဒီမှာ နေခဲ့ရင် အားလုံး အဆင်ပြေလိမ့်မယ်လို့ ထင်နေတယ်၊ သူ ဘာမှ နားမလည်ဘူး"

"သူကတော့ မလိုက်ဘူးလို့ ပြောနေတာပဲ "

"ကျွန်မ သိတယ်" ဟု ဆေရီက ပြောသည်။ "သူက ခေါင်း အင်မတန် မာတယ်၊ ကျွန်မ ရှင့်ကို ခေါ်တာက ဆုတောင်းစာလေး တစ်ပုဒ်လောက် ရွတ်ပေးစေချင်လို့ပါ"

"ကျုပ် တရားဟောဆရာ တစ်ယောက် မဟုတ်တော့ဘူး ဆေရီ" ဟု ကက်ဆီက ပြတ်သားသော လေသံဖြင့် ပြန်ပြောသည်။ "ကျုပ် ရွတ်ဖတ်ပေးတဲ့ ဆုတောင်းစာတွေ ကလည်း ကောင်းမှာ မဟုတ်ပါဘူး"

ဆေရီက ခြောက်သွေ့နေသော သူ့နှုတ်ခမ်းများကို လျှာနှင့် လျက်သည်။ "ဟို အဘိုးကြီး သေတုန်းက ကျွန်မ အနားမှာ ရှိခဲ့ပါတယ်၊ ရှင် ရွတ်တာ ကျွန်မ နားထောင်ခဲ့ရတာပဲ"

"အဲဒါ ဆုတောင်းစာ မဟုတ်ဘူး"

"ဆုတောင်းစာပါပဲ" ဟု ဆေရီက ဆိုသည်။

"မဟုတ်ဘူး၊ အဲဒါ တရားဟောဆရာ တစ်ယောက်ရဲ့ ဆုတောင်းစာမှ မဟုတ်တာ"

"အလွန်ကောင်းတဲ့ ဆုတောင်းစာ တစ်ခုပါရှင်၊ ကျွန်မအတွက် တစ်ပိုဒ်လောက် ဖြစ်ဖြစ် ရွတ်ဖတ်ပေးစေချင်ပါတယ်"

"ခက်တာပဲ၊ ကျုပ် ဘာပြောရမှန်းတောင် မသိတော့ဘူး"

ဆေရီက မျက်လုံးများကို အသာအယာ မှိတ်ထားလိုက်သည်။ ထို့နောက် ပြန်ဖွင့်သည်။ "ရှင့်စိတ်ထဲကတင် ရွတ်ပေးလည်း ရပါတယ်၊ ကျွန်မ မကြားရလည်း ကိစ္စ မရှိပါဘူး"

"ကျုပ်မှာ ဘုရားသခင် မရှိတော့ဘူးဗျ" ဟု ကက်ဆီက ရေရွတ်သည်။

"ရှင့်မှာ ဘုရားသခင် တစ်ပါးတော့ ရှိပါတယ်၊ တကယ်လို့ အဲဒီ ဘုရားသခင် ဘာနဲ့ တူသလဲဆိုတာ ရှင်မသိလည်း အကြောင်း မဟုတ်ပါဘူး"

တရားဟောဆရာသည် ဦးခေါင်းကို ငိုက်စိုက်ချထားသည်။ ဆေရီက စိုးရိမ်မကင်းသော မျက်လုံးများဖြင့် စိုက်ကြည့်နေသည်။ တရားဟောဆရာ၏ မျက်နှာ ပြန်မော့လာသည့် အခါတွင်မူ ဆေရီ၏ မျက်နှာထားသည်။ စိတ်သက်သာရာ ရသွားသည့် အရိပ်အခြည်ကို ဖော်ပြလေသည်။ "ကောင်းပါတယ်ရှင်" ဟု ဆေရီက ပြောသည်။ "ကျွန်မ အတွက် လိုနေတာဟာ ဒါပါပဲ၊ ခင်မင် နီးစပ်သူ တစ်ဦးဦးက အခုလို ဆုတောင်းပေးရင် ကျွန်မအဖို့ လုံလောက်သွားတာပါပဲ"

ကက်ဆီက ခေါင်းကို သွက်သွက်ပါအောင် ခါသည်။ "ဒီနေရာမှာ အခုလို လုပ်တာကို ကျုပ် လုံးဝ သဘောမပေါက်ဘူး"

"ရှင် သိတော့ သိတယ် မဟုတ်လားဟင်" ဟု ဆေရီက ပြန်မေးသည်။

"သိတော့ သိပါတယ်" ဟု ကက်ဆီက ဆိုသည်။ "သိပေမဲ့ နားမလည်ဘူး၊ ခင်ဗျားအနေနဲ့ ရက်နည်းနည်းလောက် နားလိုက်ရရင် ကောင်းသွားမှာပါ၊ အဲဒီကျတော့ ခရီးဆက်နိုင်မှာပေါ့ဗျာ"

ဆေရီက ခေါင်းခါလေသည်။ "ကျွန်မရဲ့ ဝေဒနာက အရေဖုံးနေတာ၊ ဘာလဲ ဆိုတာတော့ ကျွန်မကတော့ သိနေတယ်၊ ဒါပေမဲ့ သူ့ကို အသိမပေးဘူး၊ သူ သိပ် စိတ်ထိခိုက်သွားလိမ့်မယ်၊ တကယ်လို့ သိလည်း သူ ဘာလုပ်ရမှန်း သိမှာ မဟုတ်ပါဘူး၊ ဆိုကြပါစို့၊ ညပိုင်း သူ အိပ်ပျော်နေတုန်းမှာဆိုရင် ပြဿနာ မရှိနိုင်ဘူး၊ သူ အိပ်ရာက နိုးလာမှ သိတော့ သိပ်ပြီး မဆိုးဘူးပေါ့"

"ကျုပ် လိုက်မသွားဘဲ ခင်ဗျားတို့နဲ့ နေခဲ့စေချင်တဲ့ ဆန္ဒများ ရှိသလား"

"ဟင့်အင်း၊ မရှိပါဘူး" ဟု ဆေရီက ဖြေသည်။ "ကျွန်မ ငယ်ငယ်တုန်းက သီချင်းဆိုလေ့ ရှိတယ်၊ အိမ်နားနီးချင်း မိတ်ဆွေ အပေါင်းအသင်းတွေက ကျွန်မကို သီချင်းဆိုတာ ကောင်းတယ်လို့ ချီးမွမ်းကြတယ်၊ ကျွန်မအသံဟာ ဂျင်နီလင်းရဲ့ အသံနဲ့ တူတယ်တဲ့၊ ကျွန်မ သီချင်းဆိုရင် သူတို့တစ်တွေ လာပြီး နားထောင်လေ့ ရှိကြတယ်၊ သီချင်းဆိုနေတုန်းများ သူတို့လူစု ကျွန်မအနား ရပ်နေကြရင် ကျွန်မစိတ်ထဲမှာ ခံစားရတာ တစ်မျိုးပဲ၊ သူတို့နဲ့ ကျွန်မဟာ တသွေးတည်း တသားတည်းလို ဖြစ်နေတယ်၊ လာရပ်ပြီး နားထောင်နေတဲ့ လူစုက မများပါဘူး၊ ဒါပေမဲ့လေ ကျွန်မစိတ်ထဲမှာ ဇာတ်ရုံကြီးတွေထဲ ဝင်ပြီး သီချင်းဆိုနေရသလို ခံစားနေရတယ်၊ လက်တွေ့တော့လည်း ဘယ်ဇာတ်ရုံမှာမှ မဆိုခဲ့ရပါဘူး၊ ဘာပဲဖြစ်ဖြစ် ကိုယ့်စိတ်ကူးနဲ့ကိုယ် ပျော်နေတာပဲ၊ သူတို့နဲ့ ကျွန်မရဲ့ကြားမှာ ခြားထားတဲ့ အရာဆိုလို့ ဘာမှ မရှိဘူး၊ အဲဒါပဲ၊ ကျွန်မ ရှင့်ကို ဆုတောင်းစာ ရွတ်ပေးစေချင်တာဟာ အဲဒီ သဘောကြောင့်ပါ၊ စိတ်ချင်း နီးစပ်မှုကို ကျွန်မ ခံစားချင်တယ်၊ သီချင်းဆိုတာနဲ့ ဓမ္မတေး ရွတ်တာဟာ အတူတူပဲ မဟုတ်လား၊ ကျွန်မကတော့ အတူတူပဲလို့ တွက်ထားတယ်၊ အို ကျွန်မရဲ့ သီချင်းဆိုသံကို ရှင် နားထောင်ဖူးစေ ချင်တယ်"

ကက်ဆီသည် ဆေရီ၏ မျက်လုံးများကို စူးစူးရဲရဲ ကြည့်နေသည်။ ပြီးတော့မှ "ကျုပ် သွားတော့မယ်" ဟု နှုတ်ဆက်သည်။

ဆေရီက ခေါင်းကို ဖြည်းလေးစွာ ညိတ်ပြသည်။ နှုတ်ခမ်းများကို တင်းကျပ်စွာ စေ့ထားသည်။ တရားဟောဆရာသည် မှောင်မိုက်နေသော ရွက်ထည်တဲအတွင်းမှ နေ၍ အမြင်အာရုံကို ပိတ်ကာထားသည့် အပြင် အလင်းရောင်တွင်းသို့ ထွက်လာခဲ့လေ၏။

အပြင်ဘက်တွင်မူ ယောကျ်ားများသည် ပစ္စည်းများကို ထရပ်ကားပေါ်သို့ တင်နေကြလေပြီ။ ဦးလေးဂျွန်သည် ကားပေါ်၌ ရပ်လျက် ရှိ၏။ ကျန်လူစုက အောက်မှနေ၍ ပစ္စည်းများကို လက်ဆင့်ကမ်း သယ်ကာ သူ့ကို လှမ်းပေးသည်။ သူက ပစ္စည်းများကို စနစ်တကျ စီ၍ ချလေသည်။ အမေဂျုတ်ကတော့ သံစည်ပိုင်း တစ်လုံးထဲမှ ဝက်သားဆားနယ် အကြွင်းအကျန်များကို ဇလုံကြီး တစ်ခုထဲသို့ လှယ်ထည့်နေသည်။ တွမ်နှင့် အယ်လ်တို့ကမူ သံစည်ပိုင်းငယ်များကို မြစ်ဆိပ်သို့ သယ်သွားပြီး ရေဆေးနေကြသည်။ ထို့နောက် စည်ပိုင်းငယ်များကို ထရပ်ကား ခြေနင်းခုံများပေါ်၌ တင်ကာ ကြိုးများဖြင့် တပ်၍ ချည်ကြသည်။ ပြီးတော့ လက်ဆွဲပုံးများဖြင့် ရေသယ်ကာ စည်ပိုင်းငယ်များထဲသို့ ထည့်သည်။ ရေပြည့်သွားသည့်အခါတွင်မူ စည်အားလုံးကို အပေါ်မှနေ၍ ရွက်ထည်စ တစ်စဖြင့် အုပ်ကာ ကြိုးများဖြင့် တင်းနေအောင် ချည်ကြပြန်သည်။ ရေများ ဖိတ်စဉ်မကျအောင် စီမံကြခြင်း ပေတည်း။ နောက်ဆုံးတွင် လုပ်စရာ အလုပ်ဆို၍ ထရပ်ကား အမိုးအုပ်ရန်နှင့် အဘွားဂျုတ်၏ မွေ့ရာကို တင်ရန်သာ ကျန်လေသည်။

"အင်း ကျုပ်တို့ သယ်သွားရမယ့် ပစ္စည်းတွေက များတော့ ဒီကားအိုကြီး လမ်းမှာ ရေဆာပြီး ခေါင်းပြုတ်ထွက်မှာ စိုးရတယ်၊ ကျုပ်တို့ ရေတော့ များများ သယ်သွားမှ ဖြစ်မှာ" ဟု တွမ်က ပြောသည်။

အမေသည် အာလူးပြုတ်များကို ဝက်သား ဆားနယ် အနည်းငယ်နှင့် ရောကာ လူစေ့ တက်စေ့ လိုက်၍ ဝေပေးသည်။ တစ်မိသားစုလုံး ထရပ်ကား အနီးမှာပင် ဟိုတစ်ယောက် သည်တစ်ယောက် ရပ်၍ စားကြသည်။ အာလူးက ပူလွန်းသဖြင့် ငြိမ်ငြိမ်ဆိမ်ဆိမ် မစားနိုင်ကြ။ လက်ထဲမှာ အာလူးကို ဘယ်ညာပြောင်း၍ တဖူးဖူး မှုတ်ကာ ခုန်ဆွ ခုန်ဆွ ဖြစ်နေကြလေသည်။

အမေသည် ဝီလ်ဆန်၏ တဲသို့ သွားကာ ဆယ်မိနစ်ခန့်မျှ စကားပြောသည်။ ထို့နောက် တိတ်တိတ်ဆိတ်ဆိတ်ပင် ပြန်ထွက်လာသည်။ "သွားကြဖို့ အချိန်တော်ပြီ" ဟု လှမ်းပြောသည်။

ယောက်ျားများသည် ရွက်ထည်တဲ အတွင်းသို့ ဝင်သွားကြသည်။ အဘွားဂျုတ် ကတော့ ပါးစပ် ဟောင်းလောင်းပွင့်ကာ အိပ်မောကျဆဲ။ သူတို့သည် မွေ့ရာကို အသာအယာ မ၍ ထရပ်ကားပေါ်သို့ တင်သည်။ အရိုးပေါ် အရေတင်မျှသာ ရှိသော အဘွားဂျုတ်၏ ခြေထောက်များသည် ဟိုကန် သည်ကျောက် လုပ်သည်။ မျက်နှာကလည်း ရှုံ့မဲ့လာသည်။ သို့သော်လည်း လူကတော့ အိပ်ပျော်နေရာမှ မနိုး။

ဦးလေးဂျွန်နှင့် အဖေတို့သည် ရွက်ထည်တဲကို ဖြုတ်၍ ကားပေါ်သို့ တင်လိုက်သည်။ ထို့နောက်တော့ လုပ်စရာ အလုပ် မကျန်တော့။ အားလုံး ခရီးဆက်ဖို့ အသင့်ဖြစ်သွားသည်။ အဖေဂျုတ်သည် သူ့ပိုက်ဆံအိတ်ထဲမှ ဟောင်းနွမ်း ကြေမွနေသော ငွေစက္ကူ နှစ်ရွက်ကို ထုတ်ကာ ဝီလ်ဆန်ထံသို့ လျှောက်သွားပြီး လှမ်းပေးသည်။ "ခင်ဗျားအနေနဲ့ ဒီဟာကိုတော့ ယူစေချင်တယ်၊ ပြီးတော့…" သူ့လက်ညှိုးသည် ဝက်သား ဆားနယ်နှင့် အာလူးများကို ညွှန်ပြသည်။ "ဟိုဟာရယ်"

ဝီလ်ဆန်က ငိုက်စိုက် ကျနေသော သူ့ခေါင်းကို ခါသည်။ "ကျုပ် မယူဘူး" ဟု ပြောသည်။ "ခင်ဗျားတို့မှာလည်း အပိုအလျှံ ရှိတာမှ မဟုတ်တာ"

"ကျုပ်တို့မှာ ဟိုကို ရောက်တဲ့အထိ အလုံအလောက် ရှိပါတယ်ဗျာ" ဟု အဖေဂျုတ်က ပြန်ပြောသည်။ "အားလုံးပေးတာ မဟုတ်ပါဘူး၊ ခွဲပေးတာပါ"

"ကျုပ် မယူချင်ဘူး" ဟု ဝီလ်ဆန်က ငြင်းသည်။ "ခင်ဗျား ဖွတ်ပေးနေရင် ကျုပ် စိတ်ဆင်းရဲရုံပဲ ရှိမယ်"

အမေက အဖေဂျုတ် လက်ထဲမှ ငွေစက္ကူ နှစ်ရွက်ကို ဖျတ်ခနဲ ဆွဲယူလိုက်သည်။ ထို့နောက် သပ်သပ်ရပ်ရပ် ဖြစ်သွားအောင် ခေါက်လိုက်ပြီး မြေကြီးပေါ် ချထားလိုက်၏။ ပြီးတော့ ဝက်သားဆားနယ်များ ထည့်ထားသည့် ဇလုံကို အပေါ်မှ တင်လိုက်သည်။ "သူတို့ကို ဒီနေရာမှာပဲ ထားခဲ့မယ်" ဟု အမေက ဆိုသည်။ "တကယ်လို့ ရှင်တို့ မယူလည်း တွေ့တဲ့လူ ယူလိမ့်မပေါ့"

ယခုအချိန်အထိ ခေါင်းငိုက်စိုက်ကျနေဆဲ ဖြစ်သော ဝီလ်ဆန်သည် နောက်သို့ လှည့်ကာ သူ့တဲဆီသို့ ပြန်သွားပြီး တဲထဲသို့ ဝင်သွားလေသည်။

ဂျုတ်မိသားစုသည် အတန်ကြာမျှ ရပ်စောင့်နေကြသည်။ တဲဆီမှ ဘာသံမှ မကြားရ။ "ကဲ ကျုပ်တို့ သွားကြရအောင်လား" ဟု တွမ်က ပြောသည်။ "လေးနာရီ ထိုးတော့မယ်"

အားလုံး ကားပေါ်သို့ တက်ကြသည်။ အမေက ရှေ့ဆုံးမှ တက်သွားပြီး အဘွားဂျုတ်ဘေးတွင် နေရာယူသည်။ တွမ်၊ အယ်လ်နှင့်၊ အဖေဂျုတ်တို့ သားအဖ သုံးယောက်က ကားရှေ့ခန်းထဲ၌ ထိုင်သည်။ ဝင်းဖီးက အဖေဂျုတ်၏ ရင်ခွင်၌ ထိုင်လေသည်။ ကွန်နီနှင့် ရိုစာဟန်တို့ လင်မယားကမူ ကား၏ ထောင့်တစ်ထောင့်တွင် နေရာလေးတစ်ခု သီးသန့် လုပ်၍ ထိုင်ငါကသည်။ တရားဟောဆရာ ကက်ဆီ၊ ဦးလေးဂျွန်နှင့် ရူသီတို့ကတော့ ပစ္စည်းပုံ ထိပ်တွင် နေရာယူကြလေ၏။

အဖေဂျုတ်က လှမ်းအော်ပြီး နှုတ်ဆက်သည်။ "ကျုပ်တို့ သွားတော့မယ် မစ္စတာ ဝီလ်ဆန်နဲ့ မစ္စက် ဝီလ်ဆန်" တဲဆီမှာ တုံ့ပြန်သံ မကြားရ။ တွမ်က ကားစက်ကို နှိုးသည်။ ထရပ်ကားသည် နီဒဲလ်မြို့ဘက်သို့ ဦးတည်ထားသည့် လမ်းမကြီးအပေါ်သို့ ရောက်လာသည်။ အမေက နောက်သို့ ပြန်မျှော်ကြည့်သည်။ ဝီလ်ဆန်သည် သူ့တဲရှေ့မှ ရပ်ကာ မော်တော်ကားဆီသို့ မျှော်ကြည့်လျက် ရှိ၏။ သူ့လက်တစ်ဖက်သည် ဦးထုပ်ကို ကိုင်လျက်။ နေရောင်သည် သူ့မျက်နှာပေါ်သို့ ပြည့်ပြည့်ဝဝ ထိုးကျလျက် ရှိသည်။ အမေက လက်တစ်ဖက် ဝှေ့ယမ်းပြီး နှုတ်ဆက်သည်။ သို့သော်လည်း ဝီလ်ဆန်က တုံ့ပြန်၍ နှုတ်ဆက်ခြင်း မပြု။

လမ်းက ကြမ်းသဖြင့် တွမ်သည် သူ့ကားကို စက္ကင်းဂီယာဖြင့် အသာ ထိန်း၍ မောင်းသည်။ နီဒဲလ်သို့ ရောက်သောအခါ ဓာတ်ဆီဆိုင် တစ်ဆိုင်ရှေ့၌ ဂုပ်သည်။ စုတ်ပြတ် ပေါက်ပြဲနေသော တာယာများ လေလုံမလုံ စစ်ဆေးသည်။ ဆီတိုင်ကီတွင် ဓာတ်ဆီ အပြည့် ဖြည့်သည်။ ငါးဂါလန်ဝင် ဓာတ်ဆီပုံး နှစ်ပုံးနှင့် နှစ်ဂါလန်ဝင် အင်ဂျင်ဝိုင် တစ်ပုံး ဝယ်သည်။ ပြီးတော့ ဓာတ်ဆီဆိုင်မှ နယ်မြေဒေသ မြေပုံကို တောင်းပြီး ကျကျနန လေ့လာကြည့်လေသည်။

အဖြူရောင် ယူနီဖောင်း ဝတ်စုံ ဝတ်ထားသည့် ဆိုင်ဝန်ထမ်း လူငယ်သည် ဓာတ်ဆီဖိုး ငွေများ ပေးပြီးချိန်အထိ တွမ်တို့ လူစုအား ကြည့်ကွက် ကြည့်ကွက် လုပ်လျက် ရှိ၏။ သူ့မျက်နှာထားက စိတ်မသက်မသာ ဖြစ်နေသည့် ဟန်ကို ဖော်ပြနေသည်။ "ခင်ဗျားတို့ လူစု မလွယ်ကြော ဆိုက်တော့မှာ သေချာတယ်" ဟု ရေရွတ်လေသည်။

မြေပုံနှင့် အလုပ်ရှုပ်နေသော တွမ်က ဆတ်ခနဲ မော့ကြည့်လေသည်။ "မင်း ဆိုလိုချင်တဲ့ အဓိပ္ပာယ်က ဘာလဲ"

"ဒီလောက် စုတ်ပြတဲ့ ကားဟောင်းကြီး တစ်စီးနဲ့ သဲကန္တာရကို ဖြတ်တယ်ဆိုတာ အလွန် မလွယ်တဲ့ ကိစ္စဗျ"

"မင်း ဖြတ်ဖူးလို့လား"

"ဖြတ်ဖူးတာပေ့ါ၊ အကြိမ်ပေါင်း မနည်းတော့ဘူး၊ ဒါပေမဲ့ ဒီလို ကားစုတ်နဲ့တော့ မဟုတ်ဘူး"

"တကယ်လို့များ ငါတို့ကား လမ်းမှာ ပျက်နေရင် ကူညီနိုင်တဲ့လူတော့ ရှိကောင်းပါရဲ့နော်"

"ရှိချင် ရှိမှာပေ့ါ၊ ဒါပေမဲ့ သိပ်ပြီး မလွယ်ဘူး၊ အထူးသဖြင့် ညပိုင်းဆိုရင် ဘယ်သူမှ ရပ်ပြီး မကူညီချင်ကြဘူးဗျ၊ လူတွေက အချိန်ကုန်မှာ သိပ်ကြောက်ကြတယ်၊ ကျွန်တော်ဆိုလည်း ဒီလိုပဲ၊ မကူညီချင်ဘူး၊ ကိုယ့်မှာ ရှိနေတဲ့ ခွန်အားထက် အများကြီး ပိုသုံးရတာဗျ"

တွမ်က ရယ်သည်။ "အင်း ကျေးဇူးပဲကွာ၊ ငါတို့ ခရီးဆက်ဦးမှ" တွမ်က ကားပေါ် ပြန်တက်သည်။ ထရပ်ကားသည် နေးကွေး လေးလံစွာဖြင့် ရွေ့လျားသည်။

ဆိုင်ဝန်ထမ်းသည် ဓာတ်ဆီ ဘောက်ချာများကို ရေ့တွင် ချ၍ စာရင်းတွက်နေသော သူ့အဖော်ရှိရာ သံတဲထဲသို့ ဝင်သွားသည်။ "လူတွေကဖြင့် တကယ့် လူကြမ်းတွေပါပဲဗျာ"

"ဒီလူစုဟာ အုတ်ကီးတွေ မဟုတ်လားကွာ၊ အုတ်ကီး မှန်သမျှ အားလုံး လူကြမ်းချည်းပဲ"

"အုတ်ကီးပဲဖြစ်ဖြစ် ဘာပဲဖြစ်ဖြစ် ဒီလောက် စုတ်ချာနေတဲ့ ကားမျိုးနဲ့တော့ ကျွန်တော် မဖြတ်ရဲဘူးဗျာ"

"အေးလေ၊ မင်းတို့ ငါတို့ကတော့ အသိ ရှိတာကိုးကွ၊ ဒီ အုတ်ကီးဆိုတဲ့ ငနာတွေကတော့ အသိလည်း မရှိ၊ ခံစားမှုလည်း မရှိတဲ့ ကောင်စားတွေပဲ၊ သူတို့က လူမှ မဟုတ်တာ၊ လူဆိုရင် သူတို့နေသလို ဘယ်တော့မှ မနေဘူး၊ မင်း မှတ်ထား၊ လူတစ်ယောက် ဆိုရင် ဒီလောက် ဆင်းဆင်းရဲရဲနဲ့ ညစ်ညစ်ပတ်ပတ် နေနိုင်ပါ့မလားကွာ၊ သူတို့က အာဖရိကတိုက်က လူဝံတွေထက် နည်းနည်းပဲ အဆင့်မြင့်တဲ့ လူစားတွေကွ"

"ကျုပ်တော့ဖြင့် သဲကန္တာရကို ဟတ်ဒ်ဆန်ဆူပါစစ် ကားမျိုးနဲ့ မဖြတ်ရတာကိုပဲ ဝမ်းသာလှပြီ၊ ဒီကားမျိုးရဲ့ စက်သံက ကောက်နယ်စက်တစ်လုံး မြည်သံနဲ့ ဘာမှ မထူးဘူး"

အဖော်လုပ်သူသည် သူ၏ တွက်လက်စ စာရင်းစာအုပ်ကို ငုံ့ကြည့်နေသည်။ ချွေးသီးတစ်ပေါက်သည် ပန်းနုရောင် ပြေစာ စာရွက်ပေါ်သို့ ကျသွားလေသည်။ "မင်းလည်း သိသားပဲ၊ သူတို့မှာ ဆင်းရဲဒုက္ခ ဆိုတာ သိပ်ရှိတာ မဟုတ်ဘူး၊ ပြီးတော့လည်း အသိဉာဏ် မရှိတဲ့ ငတုံးငအတွေ၊ အန္တရာယ် ရှိလိမ့်မယ်ဆိုတဲ့ အသိမျိုး ဘယ်ရှိမှာလဲ၊ သူတို့လက်ထဲ ရထားတာထက် ပိုပြီး ကောင်းတဲ့ဟာ ရှိမှန်းလည်း သိကြတာ မဟုတ်ဘူး၊ အဲဒီတော့ သူတို့အတွက် မင်းက ဘာကြောင့်များ မဆီမဆိုင် ဝင်ပူနေရတာလဲ"

"ပူလို့ ပြောတာ မဟုတ်ပါဘူး၊ တကယ်လို့ သူတို့နေရာမှာ ကျုပ်သာဆိုရင် ဘယ်လို ဖြစ်မလဲ ဆိုတာ စဉ်းစားကြည့်တာပါ၊ ကျုပ်သာ ဆိုရင်တော့ ဘယ်နည်းနဲ့မှ ဒီအလုပ်မျိုး မလုပ်ဘူး"

"ဒါကတော့ မင်းက အကောင်းအဆိုး ခွဲခြား သိနေတာကိုး၊ သူတို့ကတော့ သိမှ မသိတာ" သူသည် စကားကို အမျှင်မပြတ်အောင် ပြောနေရင်းမှ ပန်းနုရောင် ပြေစာ စာရွက်ပေါ်တွင် ကျနေသည့် ချွေးပေါက်ကို အင်္ကျီလက်ဖြင့် သုတ်လိုက်လေသည်။

ထရပ်ကားသည် ကျော်တုံး ကျောက်ခဲများ ပြန့်ကြဲနေသည့် လမ်းမပေါ်အတိုင်း ပြေးသွားကာ တောင်ကုန်း တစ်ကုန်းပေါ်သို့ အားခဲ၍ တက်လျက် ရှိသည်။ တွမ်သည် သူ့ကားကို မြန်မြန် မမောင်းရဲ၊ ကားအင်ဂျင်က တစ်ခဏချင်း ပူလာတတ်သဖြင့် တတ်နိုင်သမျှ ထိန်း၍ ဖြည်းဖြည်းသာသာ မောင်းနေရသည်။

တောင်ကုန်း အတက်လမ်းကလည်း အကွေ့အကောက် များလွန်းလှသည်။ ပတ်ဝန်းကျင် နယ်မြေကလည်း အသက်ဝိညာဉ် ကင်းမဲ့ကာ တိတ်ဆိတ် ခြောက်သွေ့ လွန်းလှ၏။ ဖြူညိုရောင် သန်းလျက်ရှိသော မြေအပြင်သည် ပြင်းထန်လွန်းလှသည့် နေရောင်အောက်တွင် တလက်လက် တောက်ပလျက် ရှိလေသည်။

တွမ်သည် မော်တော်ကားကို လမ်းဘေး တစ်နေရာ၌ ရပ်ကာ အင်ဂျင်စက်ကို အအေးခံသည်။ ထို့နောက် သူ့ခရီးကို ဆက်သည်။ ဤသို့ဖြင့် သူတို့သည် တောင်ထိပ်သို့ ဆိုက်ရောက်ကြလေ၏။ နေသည် ယအခုအချိန်အထိ မဝင်သေး။ သူတို့ရှေ့ မျက်စိအောက်တွင် သဲကန္တာရ။ ထိုသဲကန္တာရ တစ်ဖက်မှ မည်းနက်နေသော တောင်စဉ် တောင်တန်းကြီးများသည် မားမားမတ်မတ် ရပ်လျက် ရှိကြလေသည်။ နေသည် ညိုမွဲမွဲ ခြောက်သွေ့သွေ့ ဖြစ်နေသော သဲကန္တာရ မြေပြင်ကို အဝါရောင်ဖြင့် လွှမ်းခြုံပေးထားသည်။ သစ်ပင် ချုံနွယ်ပိတ်ပေါင်းတို့၏ အရိပ်များသည် ကျောက်တောင် ကျောက်ဆောင်များ ဘက်သို့ ကျဆင်းနေကြသည်။ အရှိန်ရှိန် တညီးညီး တောက်လောင်လျက်ရှိသော နေရောင်သည် သူတို့အား ရှေ့တည့်တည့်မှ နေ၍ ဆီးကြိုနေသည့်နယ် ရှိသည်။ ပူပြင်းတောက်ပသော နေရောင်ကြောင့် တွမ်၏ မျက်လုံးများသည် သူ့ရှေ့မှ အရာဝတ္ထုများကို ကောင်းစွာ မြင်နိုင်စွမ်း မရှိ။ လက်တစ်ဖက်ဖြင့် ကာ၍ ကြည့်လာရသည်။ တောင်ထွတ်တစ်ခုလုံးကို ကျော်ဖြတ်မိသည့် အခါတွင်မူ အဆင်းလမ်းနှင့် ဆုံမိသည်။ ထိုအခါကျတော့လည်း အင်ဂျင်စက် အပူသက်သာစေရန်အတွက် ကားကို ဖရီးရိုက်၍ ဆင်းလာခဲ့လေသည်။

ကားရှေ့ခန်းထဲမှ တွမ်၊ အယ်လ်၊ အဖေဂျုတ်နှင့် အဖေဂျုတ်၏ ဒူးခေါင်းပေါ်၌ ထိုင်နေသော ဝင်းဖီးတို့သည် ကျနေ၏ ပူပြင်းသော ရောင်ခြည်နှင့် မျက်နှာချင်းဆိုင် နေကြရသည်။ သူတို့ မျက်လုံးများသည် အေးစက် မာကျောကာ တည်ငြိမ်နေကြသည်။ နီညိုရောင် သန်းနေသော မျက်နှာများသည် ချွေးများဖြင့် စိုရွှဲလျက် ရှိနေကြ၏။ မီးလောင်ပြင်နှင့် တူသောမြေ၊ ကျောက်မီးသွေး တုံးများသဖွယ် မည်းနက်နေသော

တောင်ကုန်းများ။ ဤအရာအားလုံးသည် ဝင်လုဆဲဆဲ နေရောင်အောက်ဝယ် ကြောက်မက်ဖွယ် အဆင်းသဏ္ဍာန်ကို ဆောင်နေကြလေသည်။

"ဘုရား ဘုရား၊ ဘယ်လို နေရာမျိုးပါလိမ့်၊ ဒီနေရာကြီးက ခြေကျင်သာ ဖြတ်ရမယ်ဆိုရင် ဘယ်လိုများ ဖြစ်ကုန်မလဲ မသိဘူး" ဟု အယ်လ်က ရေရွတ်သည်။

"လူတွေ ဖြတ်သွားနေကြတာပဲကွ" ဟု တွမ်က ပြောသည်။ "ခြေကျင် ဖြတ်သွားနေတဲ့ လူတွေ အများကြီး ရှိပါတယ်၊ သူတို့ ဖြတ်နိုင်ရင် ငါတို့လည်း ဖြတ်နိုင်ရမှာပေ့ါ"

"ဒီလိုဆို ဖြတ်ရင်းနဲ့ သေကုန်တဲ့ လူတွေလည်း အများကြီး ရှိမှာပေ့ါ" ဟု အယ်လ်က ဆိုသည်။

"ဒါတော့ ငါလည်း အတိအကျ မသိဘူး"

အယ်လ်သည် အတန်ကြာမျှ ငြိမ်ဆိတ်ကာ ရဲရဲတောက်နေသော သဲကန္တာရ မြေပြင်ကို ငေးကြည့်နေသည်။ "ကျုပ်တို့ ဝီလ်ဆန် လင်မယားနဲ့ နောက်ထပ် ဆုံမိကြပါဦး မလား"

တွမ်က ဆီဂိတ်ကို ငုံ့ကြည့်သည်။ "မစွက် ဝီလ်ဆန်ကို မြင်ရတာ နည်းနည်းကလေးမှ စိတ်သက်သာစရာ မရှိပါဘူးကွာ၊ ငါတော့ ထပ်မတွေ့ချင်တော့ပါဘူး"

"အဖေ ကျုပ် သေးပေါက်ချင်တယ်" ဟု ဝင်းဖီးက ကြားဖြတ် ပြောသည်။

တွမ်က ဝင်းဖီးအား လှည့်ကြည့်သည်။ "ဟုတ်တယ်၊ ကျုပ်တို့ တစ်ညလုံး သွားရမှာ၊ အားလုံး အပေ့ါကလေး ဘာလေး သွားနိုင်အောင် ခဏတစ်ဖြုတ်တော့ ရပ်ပေးဦးမှ" ဟု တွမ်က ကားအရှိန်ကို သတ်ကာ ရပ်ပေးလိုက်သည်။ ဝင်းဖီးသည် သူ့အဖေပေါ်မှ ကျော်ခွပြီး ဆင်းကာ လမ်းဘေးတစ်နေရာတွင် သေးပေါက်နေသည်။ တွမ်က ခေါင်းကို အပြင်ထုတ်ပြီး နောက်ဘက်သို့ လှမ်းမေးသည်။ "ဆင်းမယ့်လူ ရှိသေးလား"

"ငါတို့တော့ ကိုယ့်သေး ကိုယ် လျှောင်ထားဦးမယ်ဟေ့" ဟု ဦးလေးဂျွန်က ပြန်အော်ပြောသည်။

"ဟေ့ ဝင်းဖီး၊ မင်း နောက်ပဲ လိုက်တော့၊ ငါ့ခြေထောက်တွေကို တစ်လမ်းလုံး အိပ်ရာခုတင် လုပ်လာလို့ မဖြစ်ဘူး" ဟု အဖေဂျုတ်က ဆိုသည်။ ဝင်းဖီးသည် ဘောင်းဘီကြယ်သီးများကို ကပျာကယာ ပြန်တပ်ပြီး သူ့လက်များနှင့် ကားဘောင်ကို လှမ်းကိုင်ကာ ခြေထောက်များနှင့် ကန်၍ တက်သည်။ အပေါ် ရောက်သည့်အခါ အဘွားဂျုတ်၏ မွေ့ရာနှင့် မနီးမဝေး၌ ထိုင်နေသော ရှုသီ အနားသို့ သွား၍ ထိုင်လေသည်။

ထရပ်ကားသည် ဆက်လက်၍ ရွေ့လျားသွားသည်။ အနောက်ဖျားတွင် မေးတင်နေပြီ ဖြစ်သော နေ၏ အရောင်သည် အစွမ်းကုန် တောက်ပလျက် ရှိသဖြင့် သဲကန္တာရမြေပြင်မှာ အနီရောင် လွှမ်းလျက် ရှိလေသည်။

ရှုသီက ဝင်းဖီးအား မေးသည်။ "နင်က ဟိုနေရာမှာ ထိုင်စရာ မရှိလို့လား"

"ရှိတယ်၊ ငါ မထိုင်ချင်လို့၊ ဒီနေရာလောက် မကောင်းဘူးဟ၊ လှဲအိပ်နေလို့ မရဘူး"

"ဒီလိုဆိုရင် ငါ့ကိုတော့ လာပြီး မနှောင့်ယှက်နဲ့၊ သိလား၊ စကားတွေ လာပြောပြီး နားငြီးအောင်တော့ မလုပ်နဲ့" ဟု ရှုသီက ပြောသည်။ "ငါ အခု အိပ်မလို့၊ ငါလည်း အိပ်ရာက နိုးရော၊ ဟိုကိုလည်း ရောက်နေရော၊ ဘယ်လောက် ကောင်းလဲ၊ တွမ်က ငါ့ကို အဲသလို ပြောထားတယ်၊ အိပ်ရာက နိုးလာလာချင်း အလွန်လှတဲ့ ရှုခင်းတွေကို မြင်ရမှာ"

နေသည် ငုပ်လျှိုးသွားလေပြီ။ အနောက်ဘက် ကောင်းကင်ဝယ် တိမ်ရောင်ဖြင့် တောက်ပလျက် ရှိသည်။ တာပေါ်လင် အမိုးအောက်တွင်မူ အမှောင်ထုက ကြီးစိုးလာပြီ ဖြစ်၏။

ကွန်နီနှင့် ရိုစာဟန်တို့သည် ကားဘော်ဒီ နံရံကို ကျောဖြင့် မှီ၍ ငြိမ်သက်စွာ ထိုင်နေကြသည်။ တစ်ချက်တစ်ချက် ဝေ့ယမ်း တိုက်ခတ်လာသော လေပူကြီး အရှိန်ကြောင့် တဖြတ်ဖြတ် ယမ်းခါနေသော တာပေါ်လင်စသည် သူတို့နှစ်ယောက်၏ ခေါင်းများကို ပြေးလာ ရိုက်ခတ်လျက် ရှိလေသည်။ သူတို့သည် တစ်ခါတစ်ရံတွင်

နစ်ကိုယ်ကြား စကားပြောကြသည်။ အသံများက တိုးလွန်းသဖြင့် ဘေးလူများ မကြားနိုင်။ ကွန်နီက သူ ပြောစရာရှိသမျှကို ရိုစာဟန်၏ နားတွင် သူ့ပါးစပ်နှင့်ကပ်၍ ပြောသည်။ ရိုစာဟန်ကလည်း ထိုပုံစံအတိုင်း။ ရိုစာဟန်က ကွန်နီ၏ နားတွင် သူ့ပါးစပ် ကပ်၍ ပြောသည်။ "တစ်ချိန်လုံး အခုလိုပဲ တလှုပ်လှုပ်နဲ့ သွားနေကြရုံက လွဲပြီး တခြား ဘာအလုပ်မှ လုပ်စရာ မရှိတော့ဘူး ထင်ပါရဲ့၊ ကျွန်မဖြင့် သိပ်ကို ပင်ပန်းနေပြီ"

ကွန်နီက သူ့မျက်နှာကို ရိုစာဟန်ဘက်သို့ လှည့်လိုက်သည်။ "မနက်ဖြန် မနက်ဆို ရောက်ချင် ရောက်နေမှာပါ၊ အခုနေရတာ မင်း သဘောမကျဘူးလား၊ တို့နှစ်ယောက်တည်း လွတ်လွတ်လပ်လပ်" အမှောင်ထုအောက်ဝယ် သူ့လက်တစ်ဖက်သည် ရွေ့လျားလာပြီး ရိုစာဟန်တင်ပါးကို အသာအယာ ထိတွေ့ပွတ်သပ်လျက် ရှိသည်။

"မလုပ်ပါနဲ့" ရိုစာဟန် အသံသည် တိုးတိုးညင်းညင်း။ "နင် ငါ့စိတ်ကို သောင်းကျန်းလာအောင် လုပ်နေသလိုပဲ၊ မလုပ်ပါနဲ့ဟယ်" ရိုစာဟန်၏ ဦးခေါင်းသည် ကွန်နီဘက် လှည့်လာသည်။ ကွန်နီထံမှ တုံ့ပြန်မှုကို မျှော်သည်။

"သူတို့အားလုံး အိပ်ပျော်သွားရင်တော့ ဖြစ်တယ်ဟ"

"အင်းပေါ့၊ ဖြစ်ချင် ဖြစ်မှာပေါ့" ဟု ရိုစာဟန်က ဆိုသည်။ "ဒါပေမဲ့ အိပ်အောင်တော့ စောင့်ဦး၊ နင် ငါ့ကို ရူးအောင် လုပ်တာပဲ၊ တကယ်လို့များ သူတို့လူစု မအိပ်ရင်.."

"ကိုယ်ကတော့ ဘယ်နည်းနဲ့မှ မအောင့်နိုင်တော့ဘူးကွာ"

"သိပါတယ်၊ ငါလည်း နင့်လိုပါပဲ၊ ဒီကိစ္စကို ဟိုရောက်မှပဲ ပြောကြပါစို့ဟယ်၊ အခု ငါ့ကို လွှတ်ပါဦး၊ ငါနဲ့ ခွာထိုင်နေစမ်းပါ၊ တော်တော်ကြာ ငါ့ကိုယ်ငါ မထိန်းနိုင် မသိမ်းနိုင် ဖြစ်ကုန်လိမ့်မယ်"

ကွန်နီက လူချင်း ပူးကပ်နေရာမှ အနည်းငယ်မျှ ခွာသွားသည်။ "ဟိုရောက်ရင်တော့ ညသင်တန်း မတက်လို့ မဖြစ်ဘူး၊ တက်ရလိမ့်မယ်" ဟု ပြောသည်။ ရိုစာဟန်က သက်ပြင်းချသည်။ "ရောက်တာနဲ့ တစ်ပြိုင်တည်း စာအုပ်တစ်အုပ် ဝယ်မယ်၊ အဲဒီအထဲက ကြော်ငြာ ကူပွန် ဖြတ်ပိုင်းကို ဖြတ်ပြီး ပို့ရမယ်"

"ဘယ်လောက်ကြာမယ် ထင်လဲ" ဟု ရိစာဟန်က မေးသည်။

"ဘယ်လောက်ကြာမယ် ထင်လဲ ဆိုတာ ဘာကိုမေးတာလဲ"

"ငွေများများ စုမိအောင်၊ ရေခဲသေတ္တာတွေ ဘာတွေ ဝယ်နိုင်အောင် ဘယ်လောက် ကြာကြာ လုပ်ရမလဲလို့ မေးတာ"

"ဒါတော့ အတိအကျ ဘယ်ပြောနိုင်မလဲ" ဟု ကွန်နီက ဖြေသည်။ "အတိအကျ ပြောဖို့ကတော့ မလွယ်ဘူး၊ ခရစ္စမတ် မတိုင်မီတော့ သင်တန်းပြီးသွားအောင် လုပ်ရမှာပဲ"

"သင်တန်းပြီးပြီးချင်း ရေခဲသေတ္တာ ဝယ်နိုင်မယ် ထင်တာပဲ"

ကွန်နီက ခပ်အုပ်အုပ် ကျိတ်၍ ရယ်သည်။ "ခရစ္စမတ်ပွဲတော် မတိုင်ခင် ရေခဲသေတ္တာ ရဖို့ မလိုပါဘူးဟာ"

"ဟုတ်တော့ ဟုတ်ပါတယ်၊ ဒါပေမဲ့ ငါက အမြဲတမ်း ရေခဲ ရချင်နေတာ၊ အို မလုပ်ပါနဲ့ဆို၊ ငါ မအောင့်နိုင်ဘဲ ဖြစ်သွားလိမ့်မယ်"

အမှောင်ထုသည် ပီပြင် နက်ရှိုင်းလာသည်။ နူးညံ့သော မိုးကောင်းကင်ပြင်ထက်မှ တလက်လက် တောက်ပနေသော ကြယ်ဖြူလွလွများသည ် ဟိုတစ်စု သည်တစ်စု တွယ်ကပ်ကာ အရောင်လွှတ်နေကြသည်။ မိုးကောင်းကင်ပြင် တစ်ခုလုံးကို နက်မှောင်သော ကမ္ဗလာထည်ကြီးနှင့် လွှမ်းခြုံထားသည့်နှယ် ရှိလေသည်။

အပူသည် ပြောင်းလဲလာသည်။ နေ့ဘက်တွင် အပူရှိန်သည် အပေါ်မှ လာသည်၊ ပြင်းထန်သည်၊ ဖြန့်၍ လွှမ်းခြုံထားသည်။ အခုလို ညပိုင်းကျတော့ အပူသည် အောက်မှ လာသည်။ မြေကြီးထဲမှ လာသည်။ လာပုံကလည်း တငွေ့ငွေ့။ အပူက သိပ်သည်းကျစ်လစ်သည်၊ ပို၍ ပြင်းထန်သည်။

ထရပ်ကား၏ ရှေ့မီးလုံးများ ပွင့်လာကြသည်။ လမ်းမကြီး၏ ရှေ့တည့်တည့်မှ ကာဆီးနေသည့် အမှောင်ထုကို မှုန်ဝါးဝါး အလင်းရောင်ဖြင့် ထိုးဖောက်သည်။ လမ်းမကြီး၏ ဘေး တစ်ဖက်တစ်ချက်တွင် သစ်ပင်ဝါးပင် ဆို၍ ဘာပင်မှ မရှိ။ ပူပြင်းခြောက်သွေ့သော မြေပြင်သည် ဟာလာဟင်းလင်း။ တစ်ခါတစ်ရံတွင် ကားမီး

အလင်းရောင် ကြားမှ ဝင်းဝင်းတောက်နေသော မျက်လုံးများကို မြင်ရတတ်၏။ သို့သော်လည်း မည်သည့် အကောင်ဟု ခန့်မှန်း သိသာနိုင်လောက်အောင် ပေါ်လာခြင်း မရှိ။ ထရပ်ကာ းနောက်တွင်လည်း မှောင်ပိန်းနေပြီ။ ထရပ်ကား၏ အလယ်တည့်တည့်တွင် ထိုင်နေသူများမှာ ဦးလေးဂျွန်နှင့် တရားဟောဆရာ ကက်ဆီ။ သူတို့သည် လက်များကို ပိုက်ကာ တံတောင်နှစ်ဖက်က ဒူးများပေါ် တင်၍ ထိုင်ပြီး အပြင်ဘက် အမှောင်ထုဆီသို့ ငေးမောနေကြသည်။ ထိုအမှောင်ထုကို နောက်ခံထားပြီး တလှုပ်လှုပ် ဖြစ်နေသော မည်းမည်းသဏ္ဍာန် နှစ်ခုမှာ အမေဂျုတ်နှင့် အဘွားဂျုတ်တို့ ဖြစ်သည်။ အမေဂျုတ်သည် ငြိမ်ငြိမ်နေသည် ရှိ။ မကြာခဏ လှုပ်ရှားနေသည်။

ဦးလေးဂျွန်က တရားဟောဆရာအား စကား လှမ်းပြောသည်။ "ဒီမယ် ကက်ဆီ၊ ဘာလုပ်သင့်တယ် ဆိုတာ ခင်ဗျား သိဖို့ ကောင်းတယ်"

"ကျုပ်က ဘာအတွက် ဘာလုပ်သင့်တာတုံး"

"ကျုပ်လည်း မပြောတတ်ဘူး"

"ဒီလိုဆို ကျုပ်မေးမယ်၊ ဒီကိစ္စကို ကျုပ်က လွယ်လွယ်လေးနဲ့ လုပ်လို့ရမယ် ထင်သလား"

"ခင်ဗျားက တရားဟောဆရာတစ်ယောက် ဖြစ်ခဲ့ဖူးတယ် မဟုတ်လား"

"ဒီမယ် ကျုပ် ပြောမယ် ဂျွန်၊ တရားဟောဆရာ တစ်ယောက် ဖြစ်ခဲ့ဖူးတယ် ဆိုတဲ့ အလုံးနဲ့ လူတိုင်းက ကျုပ်ကို ကိုင်ပေါက်နေကြတယ်၊ တရားဟောဆရာ တစ်ယောက်လည်း လူပဲ၊ တခြားလူတွေထက် ဘာများ ပိုထူးလို့လဲ"

"ဟုတ်တော့ ဟုတ်ပါတယ်၊ ဒါပေမဲ့ သူဟာ တခြားလူတွေနဲ့ မတူတဲ့ လူ တစ်ယောက်လို့ ကျုပ် ထင်တယ်၊ တကယ်လို့ တခြားလူတွေနဲ့တူတဲ့ လူစား တစ်ယောက်ဆိုရင် သူဟာ တရားဟောဆရာတစ်ယောက် ဖြစ်နိုင်ပါ့မလား၊ ဒါနဲ့ စကားမစပ် ခင်ဗျာယးကို ကျုပ် တစ်ခု မေးချင်တယ် ကက်ဆီ၊ လူတစ်ယောက်ဟာ သူ့ဆွေမျိုးသားချင်း မိတ်သင်္ဂဟတွေကို ကံဆိုးမိုးမှောင်ကျအောင် လုပ်နိုင်တယ်လို့ ခင်ဗျားထင်သလား"

"ကျုပ် မသိဘူး၊ ပြောလည်း မပြောတတ်ဘူး"

"ဒီမယ် ကက်ဆီ၊ ကျုပ် ပြောမယ်၊ ကျုပ် မိန်းမ ရခဲ့ဖူးတယ်၊ ကျုပ်မိန်းမက ခပ်ချောချော၊ သဘောလည်း ကောင်းတယ်၊ တစ်ညကျတော့ ကျုပ်မိန်းမ ဗိုက်နာတယ်၊ သူက ပြောတယ်၊ ဆရာဝန်တစ်ယောက် သွားခေါ်ရင် ကောင်းမယ်တဲ့၊ ကျုပ်က ပြန်ပြောတယ်၊ နင် အစားတွေ မတန်တဆ စားလို့ နာတာပါလို့" ဦးလေးဂျွန်၏ လက်တစ်ဖက်သည် ကက်ဆီ၏ ဒူးခေါင်းကို လှမ်းကိုင်သည်။ အမှောင်ထုကြားမှ နေ၍ ကက်ဆီ၏ မျက်နှာကို စူးစူးရဲရဲ ကြည့်သည်။ "သူက ကျုပ်ကို တစ်ချက်ပဲ ပြန်ကြည့်တယ်၊ နောက်ထပ် ဘာမှ မပြောတော့ဘူး၊ တစ်ညလုံး ဗိုက်နာတယ်လို့ အော်နေရတယ်၊ နောက်နေ့ မွန်းလွဲပိုင်းလည်း ရောက်ရော သူ သေတာပဲ" တရားဟောဆရာ၏ နှုတ်မှ စကားတစ်ခွန်း မပွင့်တပွင့် ရေရွတ်သည်။ "ခင်ဗျား ကျုပ်ပြောတာ ကြားတယ် မဟုတ်လား" ဦးလေးဂျွန်က ဆက်ပြောသည်။ "သူ့ကို ကျုပ် သတ်တာ၊ အဲဒီအချိန်ကစပြီး ကျုပ်ဟာ လူတွေအပေါ်မှာ တတ်နိုင်သမျှ ကူညီခဲ့တယ်၊ အထူးသဖြင့် ကလေးတွေကို ကူညီခဲ့တယ်၊ ကျုပ်ကိုယ်ကျုပ် ကောင်းလာအောင် ကြိုးစားပြီး ပြုပြင်ခဲ့တယ်၊ ဒါပေမဲ့ မရဘူး၊ တစ်ခါတစ်လေ အရမ်းသောက် အရမ်းမူးပြီး လူရိုင်းကြီးတစ်ယောက် ဖြစ်ဖြစ်သွားတယ်"

"လူတိုင်း လူရိုင်း ဖြစ်တတ်ကြတာပဲ" ဟု ကက်ဆီက ဆိုသည်။ "ကျုပ်လည်း ဖြစ်ဖူးတာပဲ"

"အင်းပေ့ါလေ၊ ဒါပေမဲ့ ကျုပ်လို စိတ်ထဲမှာ စွဲနေလောက်အောင် ကြီးတဲ့ အပြစ်မျိုးကတော့ ခင်ဗျားမှာ ရှိမယ် မထင်ပါဘူးဗျာ"

ကက်ဆီက ဖျောင်းဖျသော လေသံဖြင့် ပြန်ပြောသည်။ "ဘယ်ဟုတ်မလဲ၊ ကျုပ်မှာလည်း အပြစ် ရှိတာပါပဲ၊ အပြစ်ကတော့ လူတိုင်းမှာ ရှိတာပဲဗျာ၊ အပြစ်တစ်ခုဆိုတာက ခင်ဗျား ကိုယ်တိုင် သေချာပေါက် မသိနိုင်တဲ့ အရာမျိုးပဲ၊ အရာရာနဲ့ ပြည့်စုံနေတဲ့ ကောင်တွေမှာလည်း အပြစ်ဆိုတာ ရှိတာပဲ၊ ဒီကောင်တွေမှာလည်း မကင်းပါဘူး၊ ဒီခွေးမသားမျိုးတွေကျတော့ ကျုပ် သိပ်မုန်းတယ်၊ တကယ်လို့များ ကျုပ်သာ ဘုရားသခင် ဖြစ်ခဲ့ရင် ဒီလိုကောင်တွေကို ကောင်းကင်ဘုံမှာ ဘယ်လက်ခံလိမ့်မလဲ၊ ရောက်သာ လာလို့ကတော့ အားလုံးကို ခြေထောက်နဲ့ ကန်ချပစ်မှာ၊ ဒီကောင်တွေကို ကျုပ် သိပ်ချဉ်တယ်"

"ကျုပ် ဆွေမျိုးသားချင်းတွေအတွက် ကံကြမ္မာဆိုးတွေကို ကျုပ် ယူလာတယ်လို့ ကျုပ်စိတ်က စွဲနေတယ် ကက်ဆီ၊ ဒါကြောင့်မို့ သူတို့ ဝေးရာကို ကျုပ် သွားသင့်ပြီလို့ ထင်နေတယ်၊ အခုလို နေရတာ နည်းနည်းလေးမှ လိပ်ပြာ မသန့်ဘူး"

"ကျုပ် သဘောပေါက်ပါတယ်၊ လူတစ်ယောက်ဟာ သူ လုပ်ရမယ့် အလုပ်ကို အချိန်တန်လာရင် လုပ်ရမှာပဲဗျ၊ ဒီကိစ္စမှာတော့ ကျုပ်လည်း မပြောတတ်ဘူး၊ ကျုပ်ကတော့ ကံကောင်း ကံဆိုး ဆိုတာ ရှိမယ် မထင်ပါဘူးဗျာ၊ ဒီကမ္ဘာလောကကြီးထဲမှာ တကယ် ရှိနေတယ်လို့ ကျုပ် သေချာပေါက် သိထားတာ တစ်ခုပဲ ရှိတယ်၊ သိလား၊ အဲဒါဘာလဲ ဆိုတော့ လူတစ်ယောက်ရဲ့ ဘဝကို ပျက်စီးသွားအောင် ဘယ်သူမှ ဖျက်ဆီးပိုင်ခွင့် မရှိဘူး ဆိုတဲ့ အချက်ပဲ၊ လူတစ်ယောက်ဟာ သူ့ဘဝအတွက် သူ့ဘာသာသူပဲ လုပ်ရမယ်၊ အကူအညီ ပေးသင့်ရင်တော့ ပေးရမယ်၊ ဒါပေမဲ့ ဘယ်လို လုပ်ရမယ်၊ ဘာလုပ်ရမယ် ဆိုတာမျိုးတော့ မပြောသင့်ဘူး"

ဦးလေးဂျွန်က စိတ်ပျက် အားငယ်စွာဖြင့် မေးသည်။ "ဒီလိုဆိုရင် ခင်ဗျား ဘာမှ မသိဘူး ဆိုပါတော့၊ ဟုတ်လား"

"ဟုတ်တယ်၊ ကျုပ် မသိဘူး"

"ကျုပ်မိန်းမကို အဲသလို သေသွားအောင် ပစ်ထားတာဟာ အပြစ်တစ်ခုလို့တော့ ခင်ဗျား မထင်ဘူးလား ဟင်"

"တခြားလူတွေ အဖို့တော့ ဒီလုပ်ရပ်ဟာ မတော်တဆ ပြုမိတဲ့ အမှားတစ်ခုပဲ" ဟု ကက်ဆီက ပြောသည်။ "ဒါပေမဲ့ ခင်ဗျား တွေးသလို အပြစ်လို့ တွေးနေရင်တော့ အပြစ်ပဲ ဖြစ်နေတာပေါ့၊ လူတစ်ယောက်ဟာ သူ့အပြစ်တွေကို သူ့ အခြေခံစိတ်က တည်ဆောက်ပေးနေတာဗျ"

"အင်းပေါ့လေ၊ ကျုပ်မနေနဲ့ လွန်ပြီးသား ကိစ္စတစ်ခုလို့ပဲ တွက်ပြီး နေရတော့မှာပေါ့" ဦးလေးဂျွန်သည် အသာ လှဲအိပ်လိုက်ပြီး ဒူးနှစ်ဖက်ကို ကွေးထားလိုက်သည်။

ထရပ်ကားသည် ခြောက်သွေ့ ပူလောင်လျက်ရှိသော မြေကြီးပေါ်တွင် ဖြည်းဖြည်းမှန်မှန် ရွေ့လျားသွားနေသည်။ နာရီပေါင်းများစွာ ကုန်လွန်သွားလေပြီ။ ရှုသီနှင့် ဝင်းဖီးတို့ မောင်နှမမှာလည်း အိပ်မောကျသွားကြလေပြီ။ ကွန်နီသည် အထုပ်တစ်ထုပ်ထဲမှ စောင်တစ်ထည်ကို ယူ၍ သူနှင့် ရိုစာဟန်တို့၏ ကိုယ်ပေါ်သို့ ခြုံလိုက်သည်။ ပြင်းထန် လွန်းလှသော အပူကြားတွင် နစ်ယောက်သား ရုန်းကန် လှုပ်ရှားလျက် ရှိ၏။ ခဏမျှအကြာတွင် ကွန်နီသည် ခြုံထားသည့် စောင်ကို ခွာချလိုက်လေသည်။ ပူနွေးသော လေသည် ချွေးတရွှဲရွှဲနှင့် ဖြစ်နေသော သူတို့၏ ခန္ဓာကိုယ်များဆီသို့ ပြေးလာ ထိတွေ့သည်။

အမေသည် အဘွားဂျုတ်၏ ဘေး၌ ကပ်၍ လှဲလိုက်သည်။ သူ့မျက်လုံးများသည် အဘွားဂျုတ်ကို ပီပီပြင်ပြင် မမြင်ရ။ သို့သော်လည်း တလှုပ်လှုပ် တရွရွနှင့် မငြိမ်မသက် ဖြစ်နေသည့် အဘွားဂျုတ်၏ အဖြစ်ကို သိနေသည်။ အမေ့နားသည် အဘွားဂျုတ်၏ အသက်ရှူသံ ခပ်မျှဉ်းမျှဉ်းကိုလည်း ကြားနေရသည်။ အမေသည် စကားတစ်ခွန်းကို ထပ်တလဲလဲ ရေရွတ်လျက် ရှိသည်။ "ကောင်းပါတယ်၊ ကောင်းသွားမှာပါ" ထို့နောက် တစ်ဆက်တည်း "ကျွန်မတို့ မိသားစု သဲကန္တာရကို မဖြတ်မဖြစ်လို့ ဖြတ်နေကြရတယ်၊ အဘွားဂျုတ် သိမှာပါ" ဟု ပြောလိုက်လေသည်။

အမေဂျုတ်၏ စကားပြောသံကြောင့် ဦးလေးဂျွန်က လှမ်းမေးသည်။ "ဘာဖြစ်သလဲ"

အမေဂျုတ်က ချက်ချင်း အဖြေမပေး။ အတန်ကြာမှ ဘာမှ မဖြစ်ပါဘူး၊ အိပ်ငိုက်ပြီး ယောင်သွားတာ ထင်ပါရဲ့" ဟု ပြောသည်။ ခဏနေတော့ အဘွားဂျုတ်သည် ငြိမ်သက်သွားသည်။ အဘွားဂျုတ် ဘေး၌ လှဲလျောင်းနေသော အမေဂျုတ်၏ တစ်ကိုယ်လုံး သည် တောင့်တင်းလျက် ရှိသည်။

အကာလ ည၏ အချိန် နာရီများသည် တရွေ့ရွေ့ ကုန်ခန်းသွားလျက် ရှိသည်။ အမှောင်ထုသည် ထရပ်ကားကို အန်တုလျက် ရှိ၏။ တစ်ခါတစ်ရံတွင် မော်တော်ကားများသည် သူတို့ ထရပ်ကားများကို ကျော်ဖြတ်ကာ အနောက်စူးစူးကို ဦးတည်သွားကြသည်။ တစ်ခါတစ်လေ ကျတော့လည်း အနောက်အရပ်မှ

ပေါ်ထွက်လာကြသည့် ထရပ်ကားကြီး များသည် အရှေ့စူးစူးသို့ ဦးတည်ကာ အရှိန်ပြင်းစွာဖြင့် မောင်းသွားကြသည်။

ကောင်းကင်ပြင်၌ တွဲလွဲခိုလျက် ရှိကြသော ကြယ်များသည် အနောက်ဘက် မိုးကုပ်စက်ဝိုင်းဆီသို့ ဖြည်းဖြည်းချင်း လျှောဆင်းနေကြသည်။ "စစ်ဆေးရေးစခန်း" တည်ရှိသည့် ဒက်ဂျက်မြို့အနီးသို့ ကပ်မိကြသည့်အခါ ညသန်းခေါင်ယံအချိန် ရှိနေလေပြီ။ လမ်းမကြီးမှာ မီးရောင်များအောက်တွင် ထိန်လင်းနေသည်။ ဘေးတစ်ဖက်တွင် ညာဘက်ကပ်၍ ရပ်ပါ ဟူသော ဆိုင်းဘုတ်ကြီး တစ်ခု။ စစ်ဆေးရေး အရာရှိများသည် ရုံးခန်းထဲတွင် ဟိုလျှောက် သည်လျှောက် လုပ်နေကြသည်။ တွမ်၏ ထရပ်ကား ရပ်လိုက်သည်ကို မြင်သောအခါ သူတို့အားလုံး ရုံးခန်းထဲမှ ထွက်လာကြသည်။ အရာရှိတစ်ဦးသည် ကားလိုင်စင်နံပါတ်ကို စစ်သည်။ ကားခေါင်းကို ဖွင့်ကြည့်သည်။

"ဒါက ဘာလုပ်တာလဲ" ဟု တွမ်က မေးသည်။

"ဒီဟာ သီးနှံ စစ်ဆေးရေးစခန်း၊ မင်းတို့ ပစ္စည်းတွေကို စစ်ရလိမ့်မယ်၊ ဘာ အသီးအနှံတွေ၊ ဘာမျိုးစေ့တွေ ပါသလဲ"

"မပါဘူး" ဟု တွမ်က ဖြေသည်။

"မင်းတို့ ပစ္စည်းတွေကို စစ်ရလိမ့်မယ်၊ ပစ္စည်းတွေကို ပြ"

အမေသည် ကားပေါ်မှ ဆင်းလာကြသည်။ သူ့မျက်ခွံများသည် မို့လျက် ရှိကြ၏။ သူ့မျက်လုံးများသည် ခက်ထန် မာကျောနေကြသည်။ "ကျွန်မ တစ်ခု ပြောပါရစေ၊ ကျွန်မတို့မှာ နေမကောင်းတဲ့ အဘွားကြီးတစ်ယောက် ပါလာပါတယ်၊ သူ့ကို ဆရာဝန်တစ်ယောက်ဆီမှာ အမြန်ဆုံး ပြမှ ဖြစ်မှာပါ၊ ကျွန်မတို့ အချိန်အကြာကြီး မစောင့်နိုင်ပါဘူး" အမေသည် မျက်ရည်မကျအောင် သူ့ကိုယ်သူ ထိန်းချုပ်နေရသည့် လက္ခဏာ ရှိသည်။ "ကျွန်မတို့ကို အချိန်အကြာကြီး စစ်နေလို့ မဖြစ်ပါဘူး"

"ကောင်းပြီလေ၊ ရပါတယ်၊ ဒါပေမဲ့ ပစ္စည်းတွေကိုတော့ ကြည့်ဦးမှ ဖြစ်မယ်"

"ကျွန်မတို့မှာ ဘာမှ မပါပါဘူး၊ ယုံပါ မစ္စတာ၊ ကျွန်မ ကျိန်ပြောပဲ့မယ်" ဟု အမေက ထပ်ပြောသည်။ "အဘွားက ဆိုးဆိုးရွားရွား နေမကောင်း ဖြစ်နေလို့ပါ"

"အင်း၊ ခင်ဗျား ကြည့်ရတာလည်း နေကောင်းပုံ မရပါလား" ဟု အရာရှိက ပြန်ပြောသည်။

အမေသည် ပျော့တိပျော့ခွေ ဖြစ်နေသော သူ့ကိုယ်ကို တောင့်တောင့်မတ်မတ် ဖြစ်သွားအောင် ချက်ချင်း ပြင်၍ ရပ်လိုက်သည်။ "ကဲ ကြည့်" ဟုလည်း နှုတ်မှ ရေရွတ်သည်။

အရာရှိသည် လက်နှိပ်ဓာတ်မီးဖြင့် ထိုးကြည့်သည်။ မီးရောင်သည် ရှုံ့တွလျက် ရှိသော အဘွားဂျုတ်၏ မျက်နှာပေါ်သို့ ကျသွားလေ၏။ "ဘုရား ဘုရား၊ အဘွားကြီးက.." သူသည် စကားကို အဆုံးမသတ်တော့ဘဲ အမေ့အား လှမ်းမေးသည်။ "ခင်ဗျားတို့မှာ ဟင်းသီးဟင်းရွက်တို့ သစ်သီးဝလံ မျိုးစေ့တို့၊ လိမ္မော်သီးတို့ ဘာတို့ ပါမလာတာ သေချာတယ်နော်"

"မပါပါဘူး မစ္စတာ၊ ကျွန်မ ကျိန်ပြောဝံ့ပါတယ်"

"ဒီလိုဆိုလည်း သွားကြတော့၊ ဘားစတိုးမြို့ရောက်ရင် ဆရာဝန် ရှိတယ်၊ ဒီနေရာကဆိုရင် ရှစ်မိုင်ပဲ ဝေးတယ်၊ ကဲ သွားကြတော့"

တွမ်က ကားပေါ်သို့ ပြန်တက်ပြီး မောင်းထွက်လာသည်။

အရာရှိက သူ့အဖော်ကို လှည့်ကြည့်လိုက်ပြီး "သူတို့ကို အချိန်အကုန်ခံပြီး စစ်မနေချင်တော့ဘူးဗျာ" ဟု ပြောသည်။

"လိမ်တာ ဖြစ်ချင် ဖြစ်မယ်ဗျ" ဟု အဖော်က ထင်မြင်ချက် ပေးသည်။

"ဟာ ဒါတော့ မဟုတ်နိုင်ပါဘူးဗျာ၊ ကားပေါ်က အဘွားကြီး မျက်နှာကို ခင်ဗျား တက်ပြီး ကြည့်ဖို့ကောင်းတယ်၊ လိမ်တာ မဟုတ်ပါဘူး"

တွမ်သည် ဘားစတိုးကို မြန်မြန် ရောက်ချင်သည့် ဇောဖြင့် မော်တော်ကား စက်အရှိန်ကို တင်၍ မောင်းသည်။ မြို့တွင်းသို့ ရောက်သည်နှင့် တစ်ပြိုင်နက် ကားကို ရပ်ကာ ကပျာကယာ ဆင်းသည်။ အမေဂျုတ် ရှိရာ ကားနောက်ဘက်သို့ ခပ်သုတ်သုတ် လျှောက်သွားသည်။ အမေက ကားပေါ်မှ ခေါင်းပြူ၍ ကြည့်သည်။ "ကိစ္စမရှိတော့ဘူး တွမ်"

ဟု လှမ်းပြောသည်။ "အမေ ဒီမှာ မဆင်းချင်တော့ဘူး၊ သဲကန္တာရကို အချိန်မီ မဖြတ်နိုင်မှာ စိုးတယ်"

"ရတယ် အမေ၊ အမေ့ သဘောပဲ၊ ဒါပေမဲ့ အဘွား ဘယ်လိုနေသေးလဲ ဟင်"

"သူ ကောင်းပါတယ်၊ ကောင်းသွားပါပြီ၊ ကားကိုသာ ဆက်မောင်းပါ၊ သဲကန္တာရကို ကျော်မိဖို့က အရေးကြီးတယ် မဟုတ်လား"

တွမ်က ခေါင်းကို ယမ်းကာ ကားရှေ့ခန်းဆီသို့ ပြန်လျှောက်လာသည်။

"ပေ့ အယ်လ်၊ ငါ ဓာတ်ဆီ ထပ်ထည့်မယ်၊ ပြီးရင် မင်း တစ်လှည့်မောင်းဦး" တွမ်က ကားကို ညလုံးပေါက် ဓာတ်ဆီဆိုင် တစ်ဆိုင်ရှေ့တွင် ထိုးကာ ဆီဖြည့်သည်။ အင်ဂျင်ဝိုင်ပါ လဲသည်။ ထို့နောက် အယ်လ်က ဒရိုင်ဘာထိုင်ခုံသို့ ရွှေ့ထိုင်သည်။ တွမ်က တစ်ဖက်မှနေ၍ ကားတံခါးကို ဖွင့်ပြီး ဝင်ထိုင်သည်။ ဤသို့ဖြင့် အဖေဂျုတ်သည် သားနှစ်ယောက်၏ အလယ်သို့ ရောက်သွားလေသည်။ ထရပ်ကားသည် အမှောင်ထု အတွင်းသို့ တိုးဝင်သွားသည်။ ဘားစတိုးမြို့ အနီးရှိ တောင်ကုန်းများသည် သူတို့ နောက်တွင် တဖြည်းဖြည်း ဝေး၍ ကျန်ရစ်ခဲ့ကြလေသည်။

"အမေလည်း ဘာဖြစ်နေမှန်း မသိပါဘူးဗျာ" ဟု တွမ်က ပြောသည်။ "သူ့ကြည့်ရတာ နားရွက်ထဲ ခွေးသန်း ဝင်ပြီး အကိုက်ခံနေရတဲ့ ခွေးတစ်ကောင်လို ဖြစ်နေတယ်၊ ပစ္စည်းတွေ စစ်မယ် လုပ်တုန်းကတော့လည်း ကြာကြာ အစစ်မခံနိုင်ဘူးတဲ့၊ အဘွား သိပ်နေမကောင်း ဖြစ်နေလို့ပါတဲ့၊ အခုကျတော့ အဘွား နေကောင်းတယ်တဲ့၊ သူ လုပ်နေပုံကို ကျုပ်ဖြင့် စဉ်းစားလို့ မရတော့ဘူး၊ လုပ်ပုံကိုင်ပုံ တယ်ပြီး မမှန်ချင်တော့ဘူး၊ ခရီးပန်းလွန်းလို့ ဦးနောက်ချောင်သွားပြီနဲ့ တူတယ်ဗျ"

"မင့်အမေဟာ ငယ်ငယ်ကတည်းက ဒီအတိုင်းပဲ၊ ငယ်ငယ်တုန်းက ဆိုရင် အင်မတန် ကြမ်းတမ်းတာ၊ အကြောက်အလန့်လည်း မရှိဘူး၊ ဟိုနေရာမှာ ငါနဲ့ စကားများကြတုန်းက သူ့လက်ထဲမှာ သံဟန်ဒယ်ကြီး ကိုင်ထားတယ် မဟုတ်လား၊ အဲဒါကို သွားလုဖို့ ခိုင်းရင် ဘယ်နည်းနဲ့မှ ငါ သွားမလုရဲဘူး" ဟု အဖေဂျုတ်က ပြောသည်။

"အမေ ဘာဖြစ်နေလည်း မသိဘူး၊ တစ်ခုခုတော့ ဖြစ်နေတာ အမှန်ပဲ" ဟု တွမ်က ဆိုသည်။ "ပင်ပန်းလွန်းအားကြီးလို့ ထင်ပါရဲ့"

"ကျုပ်ကတော့ ဒီခရီးလမ်းဆုံးအထိ ရောက်အောင် သွားမှာပဲ၊ ငိုလည်း မငိုဘူး၊ ညည်းလည်း မညည်းဘူး၊ ကျုပ် ဝိညာဉ်က ဒီကားပေါ်မှာပဲ ရှိတယ်" ဟု အယ်လ်က ဝင်ပြောသည်။

"ဟုတ်တာပေါ့၊ မင်း တကယ်တော်တဲ့ကောင်၊ မင်း ဒီကားကို ရွေးလာတာလည်း မမှားဘူး၊ တစ်လမ်းလုံး ဒုက္ခမပေးဘူးကွ" ဟု တွမ်က ပြောသည်။

သူတို့သည် အလွန် ပူပြင်းသော ရာသီဥတုဒဏ်ကို ခံ၍ ကြီးမားသော အမှောင်ထုကို ဖြတ်ကာ ပျင်းရိငြီးငွေ့စွာဖြင့် တစ်ညလုံး မရပ်မနားဘဲ ခရီးဆက်ကြရသည်။ တစ်ခါတစ်ရံတွင် တောယုန်ကြီးများသည် မော်တော်ကား မီးရောင်များ အတွင်းသို့ အမှတ်တမဲ့ ပြေးဝင်လာ ကြပြီးမှ ဒရေသောပါး ပြန်လည် ထွက်ပြေးသွားကြသည်။ သူတို့ ရှေ့တည့်တည့်တွင် မိုးဂျေ့မြို့မှ မီးရောင်များကို လှမ်း၍ မြင်လိုက်ရသည့် အချိန်တွင် သူတို့နောက်ဘက်မှ အရုဏ်ဦး အလင်းရောင်သည် ထိုးဖောက်ဝင်ရောက်စ ပြုပြီ။ အရုဏ်၏ အလင်းရောင်ဖြင့် အနောက်ဘက် တစ်လွှားရှိ တောင်စဉ် တောင်တန်းများကို မြင်နေရလေပြီ။ မိုးဂျေ့မြို့တွင် ခဏမျှ ရပ်နားပြီး ရေနှင့် ဓာတ်ဆီ ထပ်ဖြည့်သည်။ ထို့နောက် တောင်ကုန်းများပေါ်သို့ တက်သည်။ ထိုအချိန်တွင် အရုဏ်တက်လေပြီ။

"ဘုရားသခင် ကျေးဇူးပဲ၊ ကျုပ်တို့ သဲကန္တာရကို လွန်လာပြီ အဖေ၊ ဒီမှာဟေ့ အယ်လ်၊ ငါတို့ သဲကန္တာရကို ကျော်လွန်လာပြီကွ၊ ဘုရားသခင် ကျေးဇူးပဲ" ဟု တွမ်က ဝမ်းသာအားရ ပြောသည်။

"ကျုပ်ဖြင့် ပင်ပန်းလွန်းလို့ သတိတောင် မထားမိတော့ဘူးဗျာ" ဟု အယ်လ်က ပြောသည်။

"ငါ တစ်လှည့် မောင်းရဦးမလား"

"ကိစ္စမရှိဘူး၊ ရတယ်၊ ကျုပ်ပဲ ဆက်မောင်းဦးမယ်"

သူတို့ ထရပ်ကားသည် နံနက်ခင်း အလင်းရောင် အောက်တွင် တီချာချာပီမြို့ကို ဖြတ်သည်။ နေသည် သူတို့နောက်မှ ဖြည်းဖြည်းချင်း မြင့်တက်လာနေလျက် ရှိလေသည်။ ထို့နောက် အလွန် ကြီးမားကျယ်ပြန့်သော တောင်ကြား လွင်ပြင်ကြီး တစ်ခုသည် သူတို့အောက်ဘက်တွင် ဘွားခနဲ ပေါ်လာသည်။ အယ်လ်သည် အမှုမဲ့ အမှတ်မဲ့နှင့် မော်တော်ကား ဘရိတ်ကို အုပ်လိုက်သည်။ ကားသည် လမ်းလယ်ကောင်တွင် ရပ်သွားလေ၏။ "ကြည့်ကြစမ်းပါဦး" ဟူသော အော်သံသည် အယ်လ်၏ ပါးစပ်မှ လွှတ်ခနဲ ထွက်လာသည်။ အောက်အနိမ့်ပိုင်းဘက်တွင် စပျစ်ခြံများနှင့် ဥယျာဉ်ခြံများ။ ပြန့်ပြူး ကျယ်ပြန့်သည့် လွင်ပြင်။ အတန်းလိုက် ပေါက်ရောက်နေကြသော သစ်ပင်များနှင့် အစီအရီ ဖြစ်နေကြသည့် လယ်တဲများ။ စိမ်းလန်းစိုပြည်ပြီး လှပသော ရှုခင်းသည် သူတို့အား ဆီးကြို နှုတ်ဆက်နေ သည့်နှယ် ရှိသည်။

အဖေဂျုတ်၏ နှုတ်မှ တအံ့တသြ ရေရွတ်သံ ထွက်လာသည်။ အလွန် အလှမ်းကွာဝေးသည့် နေရာများမှ မြို့ကြီးများသည် လည်းကောင်း၊ စပျစ်ခြံနှင့် ဥယျာဉ်ခြံများ တည်ရှိရာ မြေပေါ်မှ ဟိုတစ်မြို့ သည်တစ်မြို့ တည်ရှိနေကြသည့် မြို့ငယ်များသည် လည်းကောင်း နံနက်ခင်း နေရောင်ခြည်အောက်ရှိ လွင်ပြင်ကြီးပေါ်၌ ရွှေရောင်တောက်လျက် ရှိကြသည်။ သူတို့နောက်မှ မော်တော်ကား တစ်စီးသည် ဟွန်းကို အဆက်မပြတ်တီးကာ လမ်းတောင်းလျက် ရှိ၏။ အယ်လ်သည် သူ့ထရပ်ကားကို ကပျာကယာ စက်နှိုးကာ လမ်းဘေးသို့ ကသောကမျော မောင်းချပြီး စက်ကို ပြန်သတ်လိုက်လေသည်။

"ကျုပ်တော့ ဒီနေရာက နေပြီး ခဏ ရပ်ကြည့်နေချင်သေးတယ်" ဟု အယ်လ်က ဆိုသည်။ စပါးခင်းများနှင့် ဂျုံခင်းများသည် ရွှေရောင်ဝင်းလျက် ရှိသည်။ ပြီးတော့ တန်းစီနေကြသည့် မိုးမခပင်များနှင့် ယူကလစ်ပင်များ။

အဖေဂျုတ်က သက်ပြင်းတစ်ချက် ချလိုက်သည်။ "ဒီလို ရှုခင်းမျိုးတွေ ဒီအရပ်ဒေသမှာ ရှိတယ်လို့ ငါဖြင့် တစ်ကြိမ်တစ်ခါမှ မကြားခဲ့ဖူးပေါင်ကွာ" ဟု ရေရွတ်သည်။ မက်မွန်ပင်၊ သစ်ချပင်များနှင့် အစိမ်းရောင် လွှမ်းနေသည့် လိမ္မော်ပင်များ သည် ဟိုတစ်စု သည်တစ်စု။ အုပ်အုပ်ဆိုင်းဆိုင်း ဖြစ်နေသော ထိုသစ်ပင်များ ကြားတွင် အမိုးနီနီ အိမ်များနှင့် စပါး ဂိုဒေါင်များ၊ ထိုဂိုဒေါင်များသည် သီးနှံ အပြည့်

သိုလှောင်ထားသည့် ဂိုဒေါင်များ ဖြစ်၏။ အယ်လ်သည် ကားပေါ်မှ ဆင်း၍ ခြေညောင်း လက်ဆန့် လုပ်သည်။

"အမေရေ၊ ဒီမှာ လာကြည့်ပါဦး၊ ကျုပ်တို့ သွားရမယ့် နေရာကို မြင်နေရပြီ" ဟု အယ်လ်က လှမ်းခေါ်သည်။

ရှသီနှင့် ဝင်းဖီးတို့သည် ကားပေါ်မှ လျှောဆင်းကြသည်။ အောက်ဘက်မှ ရှုခင်းကို မြင်တွေ့လိုက်ရသည့်အခါ တအံ့တသြ ဖြစ်ကာ ငေးမောနေကြလေသည်။ နှစ်ယောက်ကား စကား မပြောနိုင်ကြ။ ငြိမ်ဆိတ်စွာ ရပ်ပြီး ပါးစပ် အဟောင်းသားဖြင့် ကြည့်နေကြသည်။ ဟိုး အဝေးတွင် မြူများ ဆိုင်းလျက် ရှိသဖြင့် မြေပြင်ကို ပြက်ပြက်ထင်ထင် မမြင်ရ။ ဖြည်းဖြည်းမှန်မှန် လည်လျက် ရှိသော လေရဟတ် တစ်ခု၏ ဒလက်ကြီးများသည် နေရောင်အောက်တွင် တလက်လက် တောက်ပလျက် ရှိ၏။ ရှသီနှင့် ဝင်းဖီးတို့သည် ထိုလေရဟတ်ကြီးကို စိတ်ဝင်တစား မျှော်ကြည့်နေကြသည်။ ရှသီက တိုးတိုးလေး ပြောသည်။ "ဒီဟာ ကယ်လီဖိုးနီးယားပဲ"

"သစ်သီးတွေလည်း ရှိတယ်" ဟု ဝင်းဖီးက အော်ပြောသည်။

ကက်ဆီနှင့် ဦးလေးဂျွန်၊ ကွန်နီနှင့် ရိုစာဟန်တို့သည် ကားပေါ်မှ ဆင်းလာကြသည်။ ပြီးတော့ သူတို့အားလုံး ငြိမ်ဆိတ်စွာ ရပ်၍ ကြည့်နေကြသည်။ ရိုစာဟန်သည် ဖရိုဖရဲ ဖြစ်နေသော ခေါင်းမှ ဆံပင်များကို လက်နှစ်ဖက်ဖြင့် စုစည်းကာ ပြင်၍ ထုံးနေသည်။ သူ့မျက်စိရှေ့မှောက်မှ လွင်ပြင်၏ ရှုခင်းအလှကို မြင်လိုက်သည့်အခါ သူ့လက်များသည် ဘေးတစ်ဖက်တစ်ချက်သို့ ဖြည်းဖြည်းချင်း ကျလာသည်။

"အမေကော" ဟု တွမ်က မေးသည်။ "အမေ့ကို မြင်စေချင်လို့ပါ၊ အမေရေ၊ ဒီမှာ လာကြည့်လှည့်စမ်းပါဦး"

အမေက ကားပေါ်မှ ဖြည်းညင်းစွာ ဆင်းလာသည်။ တွမ်က အမေ့မျက်နှာကို လှမ်းကြည့်သည်။ "အမေ၊ အမေ ဘာဖြစ်သလဲဟင်၊ နေမကောင်းဘူးလား" ဟု ဆီးမေးသည်။ အမေ့မျက်နှာသည် ကြည်လင်ရွှင်ပျခြင်း မရှိ။ သွေးရောင်ကင်းမဲ့ကာ ဖြူဖွေးလျက် ရှိ၏။ မျက်တွင်းများလည်း ကျလျက် ရှိသည်။ မျက်ခမ်းများမှာလည်း

နီမြန်းလျက်ရှိသည်။ အမေ့ ခြေထောက်များသည် တုံ့နေး လေးကန်စွာဖြင့် မြေကြီးကို ထိသည်။ အမေသည် ထရပ်ကား ဘော်ဒီကို လက်ဖြင့် လှမ်းကိုင်ကာ အားပြု၍ ရပ်သည်။

အမေ့ အသံမှာလည်း သဲ့သဲ့မျှသာ ဖြစ်သည်။ "အမေတို့ သဲကန္တာရကို ကျော်မိပြီနော်၊ ဟုတ်လား"

တွမ်က လွင်ပြင်ကြီးဆီသို့ လက်ညှိုးထိုးပြသည်။ "ဟိုမှာ ကြည့်လေ"

အမေက လှည့်ကြည့်သည်။ သူ့ပါးစပ်သည် မသိမသာကလေး ဟသွားသည်။ "ဘုရားသခင်ရဲ့ ကျေးဇူးတော်ကြောင့် တို့မိသားစု ဒီနေရာကို ရောက်လာပြီ" ဟု တီးတိုး ရေရွတ်သည်။ အမေ့ ဒူးများသည် ကွေးညွတ်ကျလာသည်။ အမေသည် မော်တော်ကား ခြေနင်းခုံပေါ်သို့ ခြေပစ်လက်ပစ် ထိုင်ချလိုက်လေ၏။

"အမေ နေမကောင်းဘူးလား ဟင်"

"ကောင်းပါတယ်၊ အမေ ပင်ပန်းလွန်းလို့ပါ"

"ညက တရေးမှ မအိပ်ခဲ့ရလို့လား"

"မဟုတ်ပါဘူး"

"အဘွား အခြေအနေ သိပ်ဆိုးနေသလား"

အမေသည် သူ့လက်နှစ်ဖက်ကို ငုံ့ကြည့်နေသည်။ ပြီးတော့ လက်နှစ်ဖက်စလုံးကို ရင်ခွင်ထက်သို့ တယုတယ တင်ထားလိုက်သည်။ "ကျွန်မ ဒီအကြောင်းကို မပြောချင်ဘူး၊ ကျွန်မ သဘောကတော့ အားလုံး အဆင်ပြေစေချင်တယ်"

"အဘွားဂျုတ် ဘယ်လိုနေလဲ၊ သိပ်ဆိုးနေသလား" ဟု အဖေဂျုတ်က မေးသည်။

အမေသည် မျက်လွှာများကို ပင့်ကာ လွင်ပြင်ကြီးဆီသို့ ငေးမျှော်ကြည့်နေသည်။ "အဘွားဂျုတ် ဆုံးပြီ"

အားလုံးက အမေ့ကို ဝိုင်းကြည့်ကြသည်။ "ဘယ်တုန်းက ဆုံးတာလဲ" ဟု အဖေဂျုတ်က ထပ်မေးသည်။

"မနေ့ညက၊ ဟိုလူတွေ ကျွန်မတို့ကို တားပြီး မစစ်ခင်ကတည်းက ဆုံးတာ"

"ဒါကြောင့်မို့ သူတို့ကို မစစ်နိုင်အောင် မင်း တားနေတာကိုး"

"သဲကန္တာရကို မဖြတ်နိုင်မှာ ကျွန်မ စိုးရိမ်တယ်လေ" ဟု အမေက ပြောသည်။ "ကျွန်မ အဘွားဂျုတ်ကိုလည်း သိသွားအောင် ပြောပြခဲ့ပါတယ်၊ ကျွန်မတို့ ဘာမှ မတတ်နိုင်တော့ဘူးလို့ သူ့ကို ပြောခဲ့တယ်၊ မိသားစု တစ်စုလုံး သဲကန္တာရကြီးကို မဖြတ်ရင် မဖြတ်ဘူး၊ ဖြတ်မှ ဖြစ်မှာလို့ သူ သတိလစ်ပြီး မျောနေတုန်းမှာ ကျွန်မ ထပ်ကာ ထပ်ကာ ပြောခဲ့ပါတယ်၊ ပြီးတော့လည်း ကျွန်မတို့ သဲကန္တာရထဲမှာ နေလို့ နားလို့ မရဘူး၊ ကလေးငယ်တွေ ရှိနေတယ်၊ အထူးသဖြင့် ရိုစာဟန် မွေးလာမယ့် ကလေးအတွက် ပိုပြီး အရေးကြီးတယ်လို့ ကျွန်မ သူ နားလည်အောင် ရှင်းပြခဲ့ပါတယ်" အမေသည် သူ့မျက်နှာကို လက်ဖဝါးနှစ်ဖက်ဖြင့် အုပ်ကာ အတန်ကြာမျှ ငြိမ်ဆိတ်နေသည်။ "အခုအတိုင်း ဆိုရင်တော့ သူ့ကို စိမ်းစိမ်းစိုစိုနဲ့ သာယာလှပတဲ့ နေရာ တစ်နေရာမှ မြှုပ်လို့ ရသွားပြီ" ဟု ခပ်တိုးတိုး ပြောသည်။ "သစ်ပင်တွေ ပတ်ပတ်လည် ဝိုင်းနေတဲ့ နေရာမျိုးပဲ၊ ဘာပဲဖြစ်ဖြစ်လေ၊ အဘွားဂျုတ်ဟာ ကယ်လီဖိုးနီးယား ပြည်နယ်ထဲမှာတော့ ခေါင်းချရပါတယ်"

အားလုံးက အမေ၏ စိတ်အားတင်းနိုင်မှုကို တအံ့တကြဖြစ်ကာ ငေးကြည့်နေကြသည်။

"ဘုရား ဘုရား၊ ဒီလိုဆို အဘွား အလောင်းကို ပိုက်ပြီး အမေ တစ်ညလုံး မအိပ်ဘဲ နေခဲ့ရတာပေါ့၊ ဟုတ်လား" ဟု တွမ်က စိတ်မကောင်းသံဖြင့် ရေရွတ်သည်။

"ဟုတ်တယ်၊ ဒါပေမဲ့ ဒါက အကြောင်း မဟုတ်ပါဘူး၊ တစ်မိသားစုလုံး သဲကန္တာရကို ချောချောမောမော ဖြတ်နိုင်ဖို့က အရေးကြီးတယ် မဟုတ်လား" အမေက အလွန် စိတ်မချမ်းမမြေ့ ဖြစ်နေသော အသံဖြင့် ပြန်ပြောသည်။

တွမ်က သူ့လက်တစ်ဖက်ဖြင့် အမေ့ပခုံးကို လှမ်းကိုင်သည်။

"မင်း အမေ့ကို မထိနဲ့" ဟု အမေက ပြောသည်။ "မင်း အမေ့ကို မထိမှ အခု ထိုင်နေတဲ့ နေရာက အမေ ထနိုင်မှာ"

"ကဲ၊ ငါတို့ ခရီးဆက်ကြမှ ကောင်းမယ်" ဟု အဖေက နှိုးဆော်သည်။

အမေက အဖေ့ဂျုတ်ကို မော့ကြည့်သည်။ "ကျွန်မ.. ကျွန်မ.. ရှေ့ခန်းမှာ ထိုင်လို့ရမလား၊ နောက်ခန်းထဲကို ပြန်မတက်ချင်တော့ဘူး၊ ကျွန်မ သိပ်ပင်ပန်းနေပြီ၊ တကယ်ပါ၊ ကျွန်မ သိပ်ကို ပင်ပန်းလှပြီ"

အားလုံးက ကားပေါ်သို့ ပြန်တက်ကြသည်။ သူတို့ မျက်လုံးများသည် အဝတ်တစ်ထည်ဖြင့် ဖုံးအုပ်ထားသော တောင့်တင်းနေပြီ ဖြစ်သည့် အလောင်းကို မကြည့်မိအောင် ရှောင်ကြသည်။ အားလုံး ကိုယ့်နေရာကိုယ် ပြန်ထိုင်ကြသည်။ ရှုသီနှင့် ဝင်းဖီးတို့သည် အလောင်းနှင့် ဝေးနိုင်သမျှ ဝေးအောင် ရှောင်၍ ထိုင်ကြသည်။ နှစ်ဦးစလုံး အလောင်းရှိရာဘက်သို့ မကြည့်ဘဲလည်း မနေနိုင်။ အသာ ခိုး၍ ကြည့်သည်။

ပြီးတော့ ရှုသီက တိုးတိုးကလေး ကပ်ပြောသည်။ "ဒီမယ် ဝင်းဖီး၊ ဟိုဟာ အဘွား၊ သိလား၊ သူ သေသွားပြီ"

ဝင်းဖီးက ရင့်ကျက် တည်ငြိမ်သော မျက်နှာထားဖြင့် ခေါင်းတစ်ချက် ညိတ်သည်။ "သူ အသက်မရှူတော့ဘူး၊ လုံးဝ သေသွားပြီ"

ရိုစာဟန်က ကွန်နီအား လေသံဖြင့် စကားပြောနေသည်။ "တို့များ ဟိုနေရာမှာ စခန်းချ နေတုန်းကတည်းက သူ မျောနေ.. "

"ဒါပေမဲ့ကွာ သူ အခုလောက်အထိ ဖြစ်သွားလိမ့်မယ်လို့ ငါတို့က ဘယ်လိုလုပ်ပြီး ကြိုသိနိုင်မှာလဲ" ဟု ကွန်နီက ပြန်ပြောလေသည်။

အယ်လ်က ကားရှေ့ခန်းထဲ၌ အမေထိုင်နိုင်ရန် နေရာဖယ်ပေးသည်။ သူသည် ကားနောက်ခန်းထဲသို့ တက်လာသည်။ စိတ်ထိခိုက်လွန်းသဖြင့် သူ့တစ်ကိုယ်လုံး တုန်ရီ လှုပ်ရှားလျက် ရှိသည်။ သူသည် ကက်ဆီနှင့် ဦးလေးဂျွန်တို့ ဘေးနားတွင် ခြေပစ်လက်ပစ် ထိုင်ချလိုက်သည်။ "အဘွားက အိုတော့လည်း အိုလှပါပြီဗျာ၊ သူ သေချိန်တော့ ရောက်နေပြီ ထင်ရတာပါပဲ" ဟု အယ်လ်က ရေရွတ်သည်။ "လူတိုင်း တစ်နေ့တော့

သေရမှာချည်းပါပဲလေ” ကက်ဆီနှင့် ဦးလေးဂျွန်တို့က သူ့ကို ကြည့်နေကြသည်။ သို့သော်လည်း သူတို့အကြည့်တွင် အသက်မပါ။ “ဟုတ်တယ်လေ၊ လူတိုင်း သေရမှာချည်းပဲ၊ ကျုပ် ပြောတာ မမှန်ဘူးလား” ဟု အယ်လ်က ထပ်ပြောသည်။ သူတို့ နှစ်ယောက်ကတော့ တုံ့ပြန်ခြင်း မရှိ။ သူတို့ မျက်လုံးများသည် ကတုန်ကရီ ဖြစ်နေသော အယ်လ်၏ ကိုယ်ပေါ်မှ လွှဲဖယ်သွားကြလေသည်။

“တစ်ညလုံး သူတစ်ယောက်တည်း တဲ့” ကက်ဆီက တအံ့တသြ ပြောသည်။ “မေတ္တာတရား သိပ် ကြီးမားတဲ့ အမျိုးသမီးကြီး တစ်ယောက်ပါလား၊ ကျုပ်တော့ သူ့ကို ကြောက်တောင်လာတယ် ဂျွန်၊ သူဟာ ကျုပ်ကို ကြောက်စိတ် ဝင်လာအောင် လုပ်နိုင်တယ်”

“ဒါကော ဒုစရိုက်မှု တစ်ခု မဟုတ်ဘူးလား ကက်ဆီ” ဟု ဦးလေးဂျွန်က မေးသည်။

ကက်ဆီက အံ့သြခြင်း ဖြစ်နေသည့် မျက်နှာထားဖြင့် ဦးလေးဂျွန်အား ကြည့်နေသည်။ “ဒုစရိုက်မှုတစ်ခု၊ ဟုတ်လား၊ ဒါကို ဒုစရိုက်မှု တစ်ခုလို့ မခေါ်ပါဘူးဗျာ၊ နည်းနည်းလေးမှ အဆက်အစပ် မရှိပါဘူး” ဟု ဦးလေးဂျွန်၏ မျက်လုံးများသည် အဘွားဂျုတ်၏ အလောင်းပေါ်မှ မခွာ။

တွမ်၊ အမေနှင့် အဖေဂျုတ်တို့သည် ကားရှေ့ခန်းထဲ၌ နေရာယူကြသည်။ တွမ်က စက်ကို နှိုးသည်။ ထရပ်ကားသည် တောင်ကုန်း အဆင်းလမ်းအတိုင်း ဆင်းသွားသည်။ နေသည် သူတို့နောက်တွင် ရောက်လျက် ရှိ၏။ သူတို့ရှေ့တွင်မူ အစိမ်းရောင်နှင့် ရွှေရောင် လွှမ်းခြုံထားသော တောင်ကြားလွင်ပြင်။ အမေသည် ခေါင်းကို တစ်ချက် ယမ်းလိုက်ပြီး “သိပ်လှတာပဲ” ဟု ရေရွတ်သည်။ “သူတို့ကို မြင်စေချင်လိုက်တာ”

“အင်း၊ ငါလည်း သူတို့ကို မြင်စေချင်တယ်” ဟု အဖေဂျုတ်က ထောက်ခံသည်။

တွမ်သည် မော်တော်ကား စတီယာရင်ခွေကို တစ်ချက်မျှ ကစားလိုက်သည်။ “နှစ်ယောက်စလုံး အသက်တွေကတော့ ကြီးလှပါပြီ” ဟု ဖြေသည်။ “ဒီလို နေရာမျိုးကို သူတို့ မြင်ဖူးမသွားဘူးလို့တော့ မပြောနိုင်ပါဘူး၊ အဘိုး ဆိုရင် သူ ငယ်ငယ်ကတည်းက ရက်အင်ဒီးယန်းတွေကိုရော ပရေရီ မြက်ခင်းပြင်ကိုရော မြင်ဖူးသွားတာပဲ၊ အဘွားလည်းပဲ

အိုးနဲ့ အိမ်နဲ့ ကောင်းကောင်းမွန်မွန် နေသွားဖူးတာပဲ၊ အခုတော့လည်း သူတို့နှစ်ယောက်စလုံး အိုလှပါပြီဗျာ”

“တွမ်က လူကြီးတစ်ယောက် လေနဲ့ လူကြီးတစ်ယောက် အပြောမျိုး ပြောနေပြီ၊ သူ ပြောနေပုံကလည်း တရားဟောဆရာ တစ်ယောက် တရားဟောနေတာနဲ့ သိပ်တူတယ်” ဟု အဖေဂျုတ်က မှတ်ချက်ချလေသည်။ အမေက ပြုံးလေသည်။ “ဒါပေါ့၊ သူလည်း သိတတ်လာပြီပေါ့၊ အသက်ကလေး ရလာတော့လည်း လူကြီးဆန်လာရတာပဲ”

သူတို့ ထရပ်ကားသည် တောင်ကြားလမ်းတစ်လျှောက် ဘီးလိမ့်၍ ဆင်းလာနေသည်။ လမ်းကွေ့များကို ချိုးသည့်အခါ သူတို့ရှေ့မှ လွင်ပြင်ကြီးသည် ဖျတ်ခနဲ ပျောက်သွား၏။ ပြီးတော့မှ ဘွားခနဲ ပြန်ပေါ်လာသည်။ လွင်ပြင်ထက်ဆီမှ ပူနွေးသော လေသည် သူတို့ထံ ရောက်လာသည်။ တသင်းသင်း ပျံ့နေသော မြေနံ့၊ မြက်နံ့နှင့် သစ်စိမ်းဝါးစိမ်းနံ့များသည် လေနှင့်အတူ ပါလာသည်။ လမ်းဘေး တစ်ဖက်တစ်ချက်မှ ပရစ်အော်သံများသည် အဆက်မပြတ် ထွက်လာလျက် ရှိ၏။ ရက်တဲလ်စနိတ် ခေါ် မြွေဆိုး တစ်ကောင်သည် လမ်းတစ်ဖက်မှ တစ်ဖက်သို့ ဖြတ်ကူးနေသည်။ တွမ်သည် မြွေကို သူ့ကားဖြင့် တက်ကြိတ်ပစ်သည်။ မြွေသည် လမ်းမ အလယ်တွင် တွန့်လိမ်ကာ ကျန်ရစ်ခဲ့လေ၏။

“ကျုပ်တို့ သေမှုသေခင်း စစ်ဆေးရေး အရာရှိဆီကိုတော့ သွားပြီး အကြောင်းကြားဦးမှ ဖြစ်မယ် ထင်တယ်၊ သူ့ကိုတော့ မတွေ့ တွေ့အောင် ရှာရမှာပေါ့လေ၊ ကျုပ်တို့အနေနဲ့ အဘွားကိုတော့ လူလူသူသူ ဖြစ်အောင် သဂြိုဟ်မှ ဖြစ်မယ်၊ အဖေ့မှာ ငွေ ဘယ်လောက် ကျန်သေးလဲ”

“ဒေါ်လာ လေးဆယ်လောက်တော့ ရှိသေးတယ်” ဟု အဖေဂျုတ်က ပြောသည်။

တွမ်က ရယ်သည်။ “ကျုပ်အဖြစ်က သုညက ပြန်စရမှာပါကလား၊ ကျုပ်တို့မှာ ဘာဆိုဘာမှ မရှိတော့ဘူး”

သူသည် အတန်ကြာမျှ ကျိတ်၍ ရယ်နေသည်။ ထို့နောက် အရယ်ကို ရပ်ကာ မျက်နှာပိုး သတ်လိုက်သည်။ သူ့ခေါင်းမှ ဦးထုပ်လျှာကို သူ့မျက်လုံးများ

ဖုံးကွယ်သွားအောင် ဆွဲချလိုက်သည်။ ထရပ်ကားသည် တောင်ကြားလမ်းအတိုင်း အပြေးအလွှားဆင်းကာ လွင်ပြင်ကြီး အတွင်းသို့ ဝင်ရောက်သွားလေ၏။

* * *

## အခန်း (၁၉)

တစ်ချိန်သောအခါက ကယ်လီဖိုးနီးယား ပြည်နယ်ကို မက္ကဆီကို နိုင်ငံမှ ပိုင်ဆိုင်ခဲ့၏။ မြေများကိုလည်း မက္ကဆီကန် လူမျိုးများက ပိုင်ဆိုင်ခဲ့ကြလေသည်။ ထို့နောက် တစ်နေရာမှ တစ်နေရာသို့ လှည့်လည် သွားလာနေတတ်ကြသော ဆင်းဆင်းရဲရဲ စုတ်စုတ်ပြတ်ပြတ်နှင့် ထင်ရာ မြင်ရာ လုပ်နေတတ်ကြသော အမေရိကန်လူမျိုး အုပ်စုတစ်စု ဝင်ရောက်လာခဲ့သည်။ မြေငတ်နေကြသော ထိုလူစုသည် မြေများကို အလုအယက် ယူကြသည်။ ဆတ္တား၏ မြေ၊ ဂူရာရီရိုး၏ မြေ၊ ဘယ်သူ့မြေကိုမှ ချမ်းသာမပေးဘဲ ခိုးယူကြ၏။ သက်ဆိုင်ရာ အာဏာပိုင်များထံမှ ဂရန်ဖြင့် မြေများကို ယူကြသည်။ ရလာသမျှ မြေများကို ခွဲစိတ်ဝေခြမ်း၍ ယူကြသည်။ မြေငတ်နေကြသော မြေအတွက် အရူးအမူး ဖြစ်နေကြသော ထိုလူကြမ်း အရိုင်းများသည် မြေအတွက် အချင်းချင်း ဟိန်းကြ၊ ဟောက်ကြ၊ ငြင်း၊ ခုန်ကြ၊ ရန်ဖြစ်ကြ။ သူတို့ ခိုးယူထားသော မြေများကို သူတို့ကိုယ်တိုင်ပင် သေနတ်များ ကိုင်၍ စောင့်ရှောက် ကာကွယ်ကြသည်။ ထိုမြေများပေါ်တွင် နေအိမ်များနှင့် သီးနှံ ဂိုဒေါင်များ ဆောက်ကြသည်။ မြေများကို ထွန်ယက်၍ သီးနှံများ စိုက်ပျိုးကြသည်။ ထိုအခါ ထိုအရာဝတ္ထုအားလုံးသည် သူတို့၏ ကိုယ်ပိုင်ပစ္စည်းများ ဖြစ်လာကြသည်။ ကိုယ်ပိုင်ပစ္စည်းဆိုသည်မှာ ပုဂ္ဂလိက ပိုင်ဆိုင်မှုပေတည်း။

မက္ကဆီကန် လူမျိုးများသည် အင်အားနည်းသော လူမျိုး ဖြစ်သည်။ အစားအစာ ဝဝလင်လင် စားသောက်နေရသော လူမျိုးလည်း ဖြစ်သည်။ သူတို့သည် အင်နှင့်အားနှင့် ဝင်ရောက်လာကြသော အမေရိကန်များကို ခုခံတွန်းလှန်နိုင်ခြင်း မရှိကြပေ။ အဘယ်ကြောင့် ဆိုသော် သူတို့သည် အမေရိကန်များကဲ့သို့ မြေကို အရူးအမူး ရယူပိုင်ဆိုင်လိုသော လောဘစိတ် မရှိကြခြင်းကြောင့်ပေတည်း။

ထို့နောက် အချိန်ကာလများ ကြာညောင်းလာသည်။ ထိုအခါ ကျူးကျော်သူများသည် ကျူးကျော်သူများ မဟုတ်ကြတော့ဘဲ ပိုင်ဆိုင်သူများ ဖြစ်လာကြသည်။ သူတို့မှ မွေးဖွားလာခဲ့ကြသော သားသမီးများသည် ကြီးပြင်းလာကြသည်။ ထိုသားသမီးများမှ တစ်ဖန် သားသမီးများ မွေးဖွားလာကြသည်။ ထိုအချိန်တွင် အလွန်အမင်း ပြင်းထန်သော၊ ရန့်ရင်း ကြမ်းတမ်းသော ကြောက်မက်ဖွယ်ကောင်းသော၊ အငမ်းမရနိုင်လွန်းသော သူတို့၏ လောဘစိတ်သည် ပျောက် သွားခဲ့လေပြီ။ ရေကောင်း

မြေကောင်းများကို ပိုင်ဆိုင်လိုသည့်စိတ်၊ ထိုရေမြေပေါ်၌ သမမျှတပြီး ကောင်းမွန်သာယာသည့် ရာသီဥတုတစ်မျိုး အစဉ်အမြဲ တည်ရှိ နေစေလိုသော ဆန္ဒ ထိုရေမြေပေါ်၌ စိုပြေ စိမ်းလန်းသော မြက်ခင်းပြင်များနှင့် သီးနှံ ဖြစ်ထွန်းသော လယ်ယာမြေများကို အမြဲတစေ မြင်တွေ့နေလိုသော တောင့်တမှုများ သည်လည်း ချုပ်ငြိမ်းသွားခဲ့လေပြီ။

သူတို့ လိုချင်နေသော အရာများ အားလုံးကို ရရှိ ခံစားနေကြရပြီ ဖြစ်သဖြင့် ထိုအရာ အားလုံး၏ အကြောင်းများကိုပင် မေ့သွားကြလေပြီ။ တစ်ချိန်က ပြင်းစွာ တောက်လောင်ခဲ့သည့် လောဘမီးသည် အခုတော့လည်း ငြိမ်းအေးသွားခဲ့ပြီ ဖြစ်သည်။ အဘယ်ကြောင့် ထိုကဲ့သို့ ငြိမ်းအေးသွားရပါသနည်း။ သူတို့အနေဖြင့် အလွန် မြေသြဇာကောင်းသည့် လယ်မြေ၊ ယာမြေများကို ပိုင်ဆိုင်နေကြခြင်းကြောင့် ဖြစ်၏။ ထိုမြေများပေါ်၌ ထွန်ယက် စိုက်ပျိုးရန်အတွက် ထယ်ကောင်း ထွန်ကောင်း မျိုးကောင်း မျိုးသန့်များကို ပိုင်ဆိုင်နေကြခြင်းကြောင့် ဖြစ်၏။ သူတို့ပိုင် လေရဟတ်ကြီးများမှ ဒလက်ကြီးများသည် လေထဲတွင် အဆက်မပြတ် လည်ပတ်နိုင်ခြင်းကြောင့် ဖြစ်၏။

ဟိုတုန်းကတော့ သူတို့သည် အိပ်ရာမှ စောစောစီးစီး ထကြရသည်။ အရုဏ်စတွင် တေးသီနေကြသည့် ငှက်ငယ်များ၏ အသံကို အိပ်ချင်မူးတူးဖြင့် နားထောင်ခဲ့ကြရသည်။ လယ်ယာပိုင်နိုးခွင် ဝင်ရန်အတွက် အရုဏ်တက်သည်အထိ အေးမြသော လေဒဏ်ကိုခံ၍ မှောင်ကြီးမည်းမည်းထဲ၌ ထိုင်၍ စောင့်ခဲ့ကြရသည်။ အခုတော့လည်း ထိုအလုပ်ကို လုပ်ဖို့ မလိုတော့ပေ။ ထိုအရာ အားလုံးသည် ပျောက်ကွယ်သွားခဲ့လေပြီ။ ကောက်ပဲသီးနှံများ၏ တန်ဖိုးနှင့် ပမာဏကို ဒေါ်လာငွေဖြင့်သာ ချင့်တွက် တိုင်းထွာခြင်း ပြုနေကြပြီ ဖြစ်၏။ မိမိတို့ပိုင် မြေကိုလည်း အရင်းပေါ်တွင် အတိုးထပ်၍ တန်ဖိုး သတ်မှတ်ထားကြပြီ ဖြစ်၏။ လယ်မြေ ယာမြေများမှ ထွက်လာသည့် ကောက်ပဲသီးနှံများကိုလည်း မစိုက်ရ မပျိုးရသေးခင်ကတည်းက ကြိုတင် ဝယ်ယူ ရောင်းချသော စနစ်ကို ကျင့်သုံးနေကြပြီ ဖြစ်၏။

ဤအချိန် ဤကာလတွင် သီးနှံအထွက် ဆုတ်ယုတ်ခြင်း၊ ရေကြီး၍ မိုးခေါင်၍ သီးနှံပျက်ခြင်း စသော ဖြစ်ရပ်များသည် သူတို့ဘဝကို ပျက်ပြားသွားစေနိုင်လောက်အောင် ကြီးမားသည့် ပြဿနာရပ်များ မဟုတ်တော့ပေ။ ယင်းဖြစ်ရပ်များသည် သာမန် အသေးအဖွဲ ငွေကြေးဆုံးရှုံးမှု တစ်ခုသာလျှင် ဖြစ်၏။ ယခင်က သူတို့တွင် ရှိခဲ့ကြသည့် သံယောဇဉ်တရားနှင့် မေတ္တာတရား တို့မှာလည်း ငွေကြေးကိုသာ တန်ဖိုးထားခြင်းတည်း ဟူသော

အကြောင်းကြောင့် ပျောက်ကွယ်လုနီးပါး ခေါင်းပါးလာခဲ့သည်။ ယခင်က မြေကြီးအပေါ်တွင် အပြင်းအထန် မက်မောခဲ့ကြသော စိတ်မှာလည်း အမြတ်ငွေတည်း ဟူသော အသပြာပေါ်သို့ ကူးပြောင်းသွားခဲ့သည်။

ဤသို့ဖြင့် သူတို့သည် လယ်သမား ယာသမားများ မဟုတ်ကြတော့ဘဲ ကောက်ပဲသီးနှံရောင်းသည့် ဈေးသည်များ ဖြစ်လာကြသည်။ မိမိတို့ ထုတ်လုပ်သည့် ပစ္စည်းများကို မထုတ်လုပ်သေးမီကတည်းက ကြို၍ ရောင်းချနေကြသော ထုတ်လုပ်သူများ ဘဝသို့ ကူးပြောင်း ရောက်ရှိလာကြသည်။ ထိုအခါတွင် အရောင်းအဝယ် မကျွမ်းကျင်သည့် ဈေးသည် လင်မယားများသည် သူတို့ပိုင် မြေများကို လက်လွှတ်ကြရသည်။ သူတို့ပိုင်မြေများသည် အရောင်းအဝယ် ကျွမ်းကျင်သည့် ဈေးသည်လင်မယားများ၏ လက်များအတွင်း၌ သက်ဆင်း ရောက်ရှိသွားကြရလေ၏။

လယ်ယာလုပ်ငန်းများ၏ မည်မျှလောက်အထိ ကျွမ်းကျင်သည် ဟူသော အချက်သည် အရေးကြီးသော အချက် မဟုတ်တော့။ ကိုယ့်မြေ ကိုယ့်ဟာနှင့် ထိုမြေများပေါ်ရှိ မိမိကိုယ်တိုင် စိုက်ပျိုးထားသည့် သီးနှံများအပေါ်၌ မည်မျှလောက်အထိ မြတ်နိုးတွယ်တာပါသည်၊ တန်ဖိုးထားပါသည် ဟူသော အချက်သည်လည်း အဓိက ထား၍ စဉ်းစားရမည့်အချက် မဟုတ်တော့။ လယ်သမားများအနေဖြင့် သူတို့ဘဝ တည်တံ့ခိုင်မြဲရေး အတွက် ရောင်းတတ် ဝယ်တတ်သည့် ဈေးသည်ကောင်းတစ်ဦး ဖြစ်ဖို့ လိုအပ်လာသည်။ အချိန်များ တရွေ့ရွေ့ ကုန်ခန်းလာသည့်အခါ အခြေအနေများသည် ပြောင်းလဲလာသည်။ အရောင်းအဝယ်သမားများက လယ်ယာလုပ်ငန်းများကို ပိုင်ဆိုင်သည့် အခြေအနေ တစ်ရပ်သည် တည်ရှိလာခဲ့၏။ ထိုအခါ လယ်ယာလုပ်ငန်းများ၏ ပမာဏသည် ကြီးမား ကျယ်ပြန့်လာခဲ့သည်။ သို့သော် လယ်ယာလုပ်ငန်း ပိုင်ဆိုင်သူ အရေအတွက်ကတော့ လျော့နည်းလာခဲ့လေ၏။

ဤသို့ဖြင့် လယ်ယာလုပ်ငန်းသည် စက်မှုလက်မှုလုပ်ငန်း ဖြစ်လာခဲ့သည်။ လုပ်ငန်းပိုင်ရှင်များသည် ရောမခေတ်က ပုံစံအတိုင်း လိုက်၍ လုပ်လာကြသည်။ သို့သော်လည်း သူတို့အနေဖြင့် သူတို့ ဘာတွေ လုပ်နေမိသည်ကို မသိ။ သတိလည်း မထား၊ သူတို့သည် ကျွန်များ တင်သွင်းလာကြသည်။ သူတို့ တင်သွင်းနေသည့် လူများကို ကျွန် ဟု ခေါ်ခြင်းတော့ မပြု။ သူတို့ တင်သွင်း နေကြသည့် လူများထဲတွင် တရုတ်၊ ဂျပန်၊ မက္ကဆီကန်နှင့် ဖိလစ်ပီနို လူမျိုးများ ပါဝင်သည်။ စီးပွားရေး လုပ်ငန်းရှင်များကမူ

ထိုလူများသည် ဆန်နှင့် ပဲ အမျိုးမျိုးကို စားသောက်နေကြရသည် ဟု ပြောကြသည်။ ထိုလူများသည် သူတို့ဘ၀ တည်မြဲရေးအတွက် ဘာကိုမှ များများစားစားရဖို့ လိုအပ်သူများ မဟုတ်ဟု လည်းကောင်း၊ ထိုလူမျိုးများသည် လုပ်ခကောင်းကောင်း၏ တန်ဖိုးကို သိကြသူများ မဟုတ်ဟု လည်းကောင်း၊ ရလာသည့် လုပ်ခကောင်းကို အကျိုးရှိအောင် သုံးစွဲတတ်သူများ မဟုတ်ဟု လည်းကောင်း ပြောကြသည်။ အဘယ်ကြောင့် ထိုကဲ့သို့ ပြောကြပါသနည်း။ သူတို့ အနေအထိုင်ကို ကြည့်ပါ၊ သူတို့ စားပုံသောက်ပုံကို ကြည့်ပါဟု အကြောင်းပြကြသည်။ အကယ်၍ သူတို့သည် မိမိတို့ လိုချင်သည့်ပုံစံ မ၀င်ဘဲ အချိုးတစ်မျိုး ပြောင်းလာခဲ့ပါမူ သူတို့အား မိမိတို့နယ်မြေအတွင်းမှ ပြန်လည် မောင်းထုတ်ပစ်မည်ဟု ဆိုကြသည်။

ဤသို့ဖြင့် အချိန်ရှိသမျှ လယ်ယာ လုပ်ငန်းများသည် ဖွံ့ဖြိုးတိုးတက်လာသည်။ ကြီးမား ကျယ်ပြန့်လာသည်။ သို့သော်လည်း ပိုင်ရှင်များ အရေအတွက်ကတော့ တစ်နေ့တခြား နည်းသည်ထက် နည်းလာသည်။ လယ်မြေများပေါ်တွင် နေထိုင် လုပ်ကိုင်လျက်ရှိကြသည့် လယ်သမားစစ်စစ် အရေအတွက်မှာလည်း မယုံကြည်နိုင် လောက်အောင်ပင် နည်းပါးလာခဲ့ လေသည်။ တိုင်းတစ်ပါးမှ တင်သွင်းလာကြသော မြေကျွန်များမှာလည်း အရိုက်အပုတ် အနှိပ်အစက်ကို ခံကြရသည်။ အမြဲတစေ ထိတ်လန့် ကြောက်ရွံ့ နေကြရသည်။ ဆင်းရဲမွဲတေခြင်းနှင့် ငတ်မွတ်ခြင်း ဒဏ်များကိုလည်း ခံကြရသည်။ ထိုအခါ အချို့ မြေကျွန်များသည် မိမိတို့ နိုင်ငံသို့ ပြန်ကြသည်။ အချို့ကတော့ အနှိပ်အစက် အညှဥ်းအပန်းကို မခံနိုင်သဖြင့် ခပ်ကြမ်းကြမ်း ခပ်ရမ်းရမ်းသမားများ ဖြစ်လာကြသည်။ ထိုအခါကျတော့လည်း အချို့မှာ အသတ်ခံကြရသည်။ အချို့ကျတော့ လည်း နယ်မြေဒေသအတွင်းမှ မောင်းထုတ်ခြင်းကို ခံကြရသည်။ သို့သော်လည်း လယ်ယာလုပ်ငန်းများကတော့ ဖွံ့ဖြိုး တိုးတက် လာလျက် ရှိ၏။ ပိုင်ရှင်များ အရေအတွက် လည်း နည်းပါးသည်ထက် နည်းပါးလာလျက် ရှိ၏။

ထို့နောက် စိုက်ပျိုးနေကြသည့် သီးနှံ အမျိုးအစားများ ပြောင်းလဲလာသည်။ စပါးခင်းများ ဂျုံခင်းများနှင့် လူအများ မစားမဖြစ်သည့် မုန်လာ၊ ဂေါ်ဖီ၊ အာလူး စသည့် ဟင်းသီး ဟင်းရွက်များ စိုက်ပျိုးရာ ဟင်းသီး ဟင်းရွက်များပေါ်၌ သစ်သီးပင်များ ပေါ်ပေါက်လာသည်။ လူတစ်ယောက် အနေဖြင့် တံစဥ်တစ်လက်၊ ထယ်တစ်ခု၊ ကောက်ဆွ တစ်ချောင်းကို ဆက်လက်၍ အသုံးပြုကြောင်း ပြနေပေလိမ့်ဦးမည်။ သို့သော်လည်း သူသည် ပေါင်းလုပ်ပြီး အတန်းလိုက် စိုက်ထားသော မုန်လာခင်းများကြား၌

ပိုးမွှားတစ်ကောင် သဖွယ် လေးဘက်တွား၍ သွားနေရသည့် အခြေအနေသို့ ဆိုက်ရောက်နေပြီ ဖြစ်၏။ သူ သယ်ယူနေကျ လွယ်အိတ်ရှည်ကြီးကို ကျောတွင်ပိုး၍ ခါးကို ကုန်းကာ ဝါပင်များကြား၌ တလှုပ်လှုပ် သွားနေရသော ဘဝသို့ ဆိုက်ရောက်နေပြီ ဖြစ်၏။ ကိုယ့်အဖြစ် ကိုယ်မြင်၍ သတိသံဝေဂ ရနေသူ တစ်ဦးသဖွယ် ဒူးနှစ်ဖက်ကို ထောက်ကာ ဂေါ်ဇီ တစ်ခင်းပေါ်၌ တကုပ်ကုပ်နှင့် အလုပ် လုပ်နေရသော အဖြစ်သို့ ဆိုက်ရောက်နေပြီ ဖြစ်လေသည်။

ထို့နောက် လယ်ပိုင်ရှင်များက သူတို့ပိုင် လယ်မြေများပေါ်၌ အလုပ် မလုပ်ကြတော့သည့် ခေတ်သို့ ရောက်လာသည်။ ထိုအခါ လယ်ပိုင်ရှင်များသည် လယ်ယာ စိုက်ပျိုးရေး လုပ်ငန်းကို စာရွက်ပေါ်၌သာ လုပ်ကြလေတော့သည်။ သူတို့သည် မြေကြီးကို မေ့သွားကြလေပြီ။ မြေကြီး၏ အနံ့ကိုလည်း မေ့သွားကြလေပြီ။ သူတို့အနေဖြင့် မြေကြီးကို ငါပိုင်သည် ဟူသော အချက်တစ်ချက်တည်းကိုသာ သတိရကြတော့၏။ ထိုမြေပေါ်မှ ဘာတွေ မြတ်နိုင်သည် ဘာတွေ ရှုံးနိုင်သည် ဟူသော အချက် တစ်ချက်ကိုသာ သတိရကြတော့၏။

လယ်ယာလုပ်ငန်းအချို့ ဖွံ့ဖြိုး တိုးတက်လာပုံမှာ အရှိန်အဟုန် အလွန်ကြီးမား လွန်းသဖြင့် လူတစ်ယောက်အနေဖြင့် လိုက်၍ပင် မမီနိုင်အောင် ဖြစ်ရ၏။ ဘာကြောင့် ဘယ်လို ဖွံ့ဖြိုး တိုးတက်လာရသည်ကိုပင် နားမလည်နိုင်အောင် ဖြစ်ရ၏။ လုပ်ငန်း ပမာဏ ကြီးမား ကျယ်ပြန့်လာသောအခါ အတိုး၊ အမြတ်နှင့် အရှုံးများကို တွက်ချက်ပေးနေရသည့် စာရင်းကိုင်များသည် မျက်စိလည်လျက် ရှိကြသည်။ သူတို့သည် လုပ်ငန်းနှင့် အမီဖြစ်စေရန် မနည်းကြီး ကြိုးစားအားထုတ်၍ လုပ်ကိုင်နေကြရလေသည်။ ဓာတုဗေဒ ပညာရှင်များကလည်း မြေကို ဓာတ်ခွဲ၍ စမ်းသပ် စစ်ဆေးလာကြသည်။ မြေသြဇာ ကောင်းသည်ထက် ကောင်းလာအောင် ဓာတ်မြေသြဇာများ ထပ်ထည့်ကြသည်။ စိုက်ခင်းများကြား၌ ကုန်းကြုံး၍ အလုပ်လုပ်နေသူများသည် အခိုအကပ် အနားအနေ မရှိဘဲ လျင်မြန် သွက်လက်စွာ လှုပ်ရှားလုပ်ကိုင် နေကြပါသည် ဟူသော အချက်ကို စာခြောက်ရုပ် မျှသာ ဖြစ်သော ပိုင်ရှင်ဆရာကြီးများ မြင်သာအောင် ကြီးကြပ်သူများက ကြီးကြပ် ပေးကြသည်။

ထို့နောက်တော့ ဤအမျိုးအစား လယ်သမားတစ်ယောက် သည် ကုန်ဆိုင် တစ်ဆိုင်ကို ဖွင့်သည်။ သူကိုယ်တိုင် ဆိုင်ပိုင်ရှင်တစ်ဦး ဖြစ်လာသည်။ သူပိုင်

လယ်မြေအပေါ်တွင် အလုပ်လုပ်ဖို့အတွက် လယ်ကူလီများ ငှားသည်။ ထိုလယ်ကူလီများအား လုပ်ခငွေများ ပေးသည်။ ပြီးတော့ သူ့ကုန်စုံဆိုင်မှ စားကုန် သောက်ကုန်များကို သူ့လယ်ကူလီများအား ရောင်းချသည်။ သူ ရောင်းလိုက်သော စားကုန် သောက်ကုန်များအတွက် သူ ထုတ်ပေးထားခဲ့သည့် ငွေကို ပြန်ယူသည်။ နောက်ပိုင်းတွင်မူ သူ့လယ်ကူလီများအား လုပ်ခငွေ လုံး၀ ထုတ်မပေးတော့ပေ။ လုပ်ခငွေကို ငွေစာရင်းစာအုပ်ဖြင့်သာ အပေးပြလေတော့သည်။ သူ့ဆိုင်မှ စားကုန် သောက်ကုန်များကို သူ့လယ်ကူလီများအား အကြွေးစနစ်ဖြင့် ရောင်းချခြင်းကို လက်ခံကျင့်သုံးလာသည့် အချိန်မှစ၍ လယ်ကူလီများ ထုတ်ပေးရမည့် လခကို ထိုအကြွေးများဖြင့် ခုနှိမ်ခြင်း ပြုလေတော့၏။

ဤသို့ဖြင့် လယ်ကူလီ ဟူသော လူတစ်ယောက်သည် လယ်မြေပေါ်၌ အလုပ်လုပ်ရင်း သူ့၀မ်းသူ ဖြည့်ရသည်။ အလုပ်ပြီးဆုံးသွားသည့်အခါတွင်မူ သူ့လက်ထဲ၌ ငွေကြေး တစ်ပြားတစ်ချပ်မျှပင် မကျန်တော့ချေ။ သူ့လက်ထဲတွင် ငွေကြေး လက်ကျန်မရှိရုံမျှမက လယ်ပိုင်ရှင် ဖြစ်သော ကုမ္ပဏီကိုပင် သူက ထပ်မံ၍ ပေးဆပ်ရန် အကြွေးများ တင်ရှိနေလိုက်သေး၏။ လယ်ရှင် ယာရှင်များကတော့ လယ်မြေပေါ်ဆင်း၍ အလုပ်လုပ်ကြသည် မဟုတ်။ လယ်ထဲ ယာထဲ ဆင်းဖို့ အလုပ်လုပ်ရန် မဆိုထားနှင့်၊ များစွာသော လယ်ပိုင်ရှင်များသည် သူတို့ ပိုင်ဆိုင်နေသည့် လယ်မြေများနှင့် လယ်ယာလုပ်ငန်းများကိုပင် မြင်ဖူးကြသည် မဟုတ်။

ထို့နောက်တော့ မြေမဲ့ယာမဲ့ ပစ္စည်းမဲ့ အလုပ်လက်မဲ့များသည် အနောက်ဘက်သို့ ဦးတည်၍ ထွက်လာကြသည်။ နေရာဒေသ အနှံ့အပြားမှ ထွက်လာကြခြင်း ဖြစ်၏။ ကင်ဆတ်၊ အုတ်ကလာဟိုးမား၊ တက္ကဆတ်၊ နယူးမက္ကဆီကို စသော ပြည်နယ်များ၊ နီဗားဒါးနှင့် အာကင်ဆတ်စ် စသော ပြည်နယ်များ။ ပြည်နယ် အများအပြားမှ ထွက်ခွာလာကြသူများ ဖြစ်သည်။ မိသားစုလိုက်၊ လူမျိုးစုအလိုက် ကိုယ့်အုပ်စုနှင့်ကိုယ် ထွက်ခွာလာကြခြင်း ဖြစ်သည်။ လူနှင့်ပစ္စည်း အပြည့်အသိပ် တင်ထားသော မော်တော်ကားကြီးများ၊ မြင်းရထားကြီးများနှင့် လာကြခြင်း ဖြစ်သည်။ အားလုံးသည် အိမ်ခြေယာမဲ့များ ဖြစ်ကြ၏။ အားလုံးသည် ငတ်ပြတ်နေကြသူများ ဖြစ်၏။ အရေအတွက်လည်း နည်းနည်းနောနော မဟုတ်။ လူပေါင်း နှစ်သောင်း၊ လူပေါင်း ငါးသောင်း၊ လူပေါင်း တစ်သိန်း၊ လူပေါင်း နှစ်သိန်း စသည် စသည်ဖြင့် အများအပြား ဖြစ်သည်။ သူတို့သည် တောင်တန်းများပေါ်မှ ရေစီးကြောင်းကြီးတစ်ကြောင်း စီးဆင်းကျလာသည့်နယ်

အဆက်မပြတ် ဆင်းလာကြသည်။ အားလုံး ငတ်ပြတ်နေကြသူများ ဖြစ်သည်။ အားလုံးသည် ပရွက်ဆိတ်များသဖွယ် မရပ်မနား သွားလျက် ရှိကြကုန်၏။ အစားတစ်လုတ် ရဖို့အတွက် မည်သည့်အလုပ်၊ မည်သည့် တာဝန်ကို မဆို မညည်းမညူ လုပ်ကိုင်ရန် အသင့်ပြင်ထားကြ၏။ အစာသာ ရမည်ဆိုလျှင် ဘာလုပ်ရ လုပ်ရ လုပ်မည်ဟု ပိုင်းဖြတ်ထားကြ၏။ ကလေးသူငယ်များမှာလည်း ငတ်ပြတ်နေကြ၏။

ငါတို့တွင် နေစရာ ထိုင်စရာ မရှိ ဖြစ်နေကြရပြီ။ ငါတို့သည် အလုပ်ရဖို့နှင့် အစားအစာရဖို့ ငါတို့ အားလုံးထဲမှ အများစုသည် မြေရဖို့ ဟူသော ရည်မှန်းချက်များဖြင့် ပုရွက်ဆိတ်များသဖွယ် မရပ်မနား ပြေးသွားနေကြရ၏။

ငါတို့သည် နိုင်ငံရပ်ခြားမှ လာရောက် နေထိုင်ကြသည့် တိုင်းတစ်ပါးသားများ မဟုတ်။ ဤနိုင်ငံအတွင်း၌ နေထိုင်လာခဲ့ကြသည်မှာ ဆွေစဉ်မျိုးဆက် ခုနစ်ဆက်တိတိ ရှိခဲ့ပြီ။ အမေရိကန်လူမျိုး စစ်တွေ ဖြစ်၏။ အဆင့်ဆင့် ဆင်းသက်လာခဲ့သည့် ထိုဆွေစဉ်မျိုးဆက် ခုနစ်ဆက် မတိုင်မီ ဟိုတစ်ဘက်တုန်းကတော့ အိုင်းရစ်လူမျိုး၊ စကော့လူမျိုး၊ အင်္ဂလိပ်လူမျိုးနှင့် ဂျာမန်လူမျိုးများ ဖြစ်ခဲ့ကြပါသည်။ ငါတို့ ဆွေမျိုးစုထဲမှ တစ်ဦးတည်းသော ပုဂ္ဂိုလ်သည် အမေရိကန် တော်လှန်ရေး စစ်ပွဲအတွင်းက နိုင်ငံလွတ်လပ်ရေး အတွက် အသက်ပေးခဲ့သည်။ ငါတို့ ဆွေမျိုးစုများထဲမှ လူအများအပြား သည် အမေရိကန် ပြည်တွင်းစစ်အတွင်းက တောင်ပိုင်း မြောက်ပိုင်း နှစ်ပိုင်းစလုံးမှ ပါဝင်ပြီး အချင်းချင်း တိုက်ခိုက်ခဲ့ကြဖူး၏။ တကယ်တော့ ငါတို့သည် အမေရိကန် စစ်စစ်တွေ ဖြစ်ကြပါ၏။

သို့သော်လည်း သူတို့အားလုံး ငတ်ပြတ်နေကြသည်။ သူတို့အားလုံး ဒေါသမာန်တက်ကာ စိတ်ကြမ်းကိုယ်ကြမ်း ဖြစ်နေကြသည်။ သူတို့သည် သူတို့အတွက် အခြေချစရာ နေရာတစ်ခုတော့ ရလိမ့်မည်ဟု မျှော်လင့်ခဲ့ကြလေ၏။ သို့သော်လည်း သူတို့ မျှော်လင့်ထားသလို ဖြစ်မလာ။ လက်တွေ့ သူတို့ ရနေကြသည်မှာ မုန်းတီးခြင်း၊ ရွံရှာခြင်းနှင့် စက်ဆုပ်ခြင်းများ ဖြစ်သည်။ သူတို့ကို "အုတ်ကီးတွေ" ဟု ဆီး၍ ခေါ်ကြသည်။ ပြီးတော့ မြေပိုင်ရှင်များက သူတို့ကို မုန်းတီး ရွံရှာကြသည်။ အဘယ်ကြောင့် မုန်းတီးကြပါသနည်း။ မြေရှင်များအနေဖြင့် မိမိတို့ နုးညံ့ပျော့ပျောင်းသလောက် အုတ်ကီးတွေက မာကျော ကြမ်းတမ်းပြီး မိမိတို့ ဝဝလင်လင် စားရသလောက်

အုတ်ကီးတွေက ငတ်ပြတ် ဆာလောင်နေကြသည် ဟူသော အချက်ကို ကောင်းစွာ နားလည် သဘောပေါက် နေကြခြင်းကြောင့် ဖြစ်သည်။

ထို့ပြင်လည်း မြေရှင်များသည် သူတို့ ဘိုးဘွားများ ပြောခဲ့သည့် စကားကို ကြားဖူးခဲ့၍ ဖြစ်ကောင်း ဖြစ်ပေလိမ့်မည်။ သူတို့ ဘိုးဘွားများ ပြောခဲ့သည့် စကားများမှာ တခြားတော့ မဟုတ်။ "တကယ်လို့ မင်းဟာ လူကြမ်းလူရမ်း တစ်ယောက်လည်း ဖြစ်မယ်၊ ငတ်လည်း ငတ်နေမယ်၊ လက်ထဲမှာလည်း လက်နက်ရှိမယ် ဆိုရင် လူပျော့ လူညံ့ တစ်ဦးဆီက မြေကို လုယူဖို့ ခိုးယူဖို့ သိပ်လွယ်တယ်ကွ" ဟူသော စကားများ ဖြစ်လေသည်။ ထို့ကြောင့် မြေရှင်များကလည်း သူတို့ကို မုန်းသည်။ မြို့ထဲ ရောက်သွားပြန်တော့လည်း စတိုးဆိုင် ပိုင်ရှင်များက သူတို့ကို မုန်းကြသည်။ အဘယ်ကြောင့်ဆိုသော် သူတို့လက်ထဲတွင် သုံးစွဲစရာ ပိုက်ဆံတစ်ပြားမှ မပါသောကြောင့်ပေတည်း။ အသေးစား ဘဏ်လုပ်ငန်း ပိုင်ရှင်ကလေးများ အပါအဝင် မြို့သူမြို့သားများကလည်း သူတို့ကို မုန်းကြ၏။ အဘယ်ကြောင့်ဆိုသော် သူတို့ထံမှ အမြတ်ထုတ်စရာ ဘာတစ်ခုမျှ မရှိသောကြောင့်ပေတည်း။

အမှန်တော့လည်း သူတို့တွင် ဘာဆိုဘာမျှ မရှိချေ။ အလုပ်လုပ်နေကြသော အလုပ်သမားများ ကလည်း အုတ်ကီးများအား မုန်းကြလေသည်။ အဘယ်ကြောင့်ပါနည်း။ ငတ်ပြတ်နေသော လူတစ်ယောက်သည် အလုပ်မလုပ်ဘဲ နေ၍မရ။ အလုပ်တစ်ခုကို လုပ်ရမည် ဖြစ်၏။ အလုပ်လုပ်ရမည် ဖြစ်၍ လုပ်စရာရှိလာသည့် အလုပ်တစ်ခုကို လုပ်ပြီဆိုပါမူ လုပ်ခပေးသူက သူ့အား အမှန်တကယ် ပေးသင့် ပေးထိုက်သည့် လုပ်ခထက် လျှော့၍ ပေးလိမ့်မည် ဖြစ်၏။ ထိုအခါ အလုပ်လုပ်နေသူအားလုံး မည်သူမျှ ရသင့် ရထိုက်သည့် လုပ်ခကို ရနိုင်ကြတော့မည် မဟုတ်ပေ။ ဤအကြောင်းကြောင့် အလုပ်သမား များကပါ သူတို့ကို မုန်းကြခြင်း ဖြစ်လေ၏။

မြေမဲ့ ယာမဲ့ ပစ္စည်းမဲ့ အလုပ်လက်မဲ့ ဖြစ်နေကြသော တနယ်တကျေးမှ ပြောင်းရွှေ့လာကြသူများသည် ကယ်လီဖိုးနီးယားပြည်နယ် အတွင်းသို့ လှိမ့်၍ ဝင်ရောက် လာကြသည်။ အရေအတွက်အားဖြင့် နှစ်သိန်း ငါးသောင်းနှင့် သုံးသိန်း။ သူတို့နောက်တွင် ကျန်ခဲ့သည့် မြေများပေါ်သို့ ထွန်စက်အသစ်များသည် အဆက်မပြတ် ဝင်ရောက်ဆဲ ဖြစ်၏။ ထိုမြေများပေါ်မှ လယ်သူရင်းငှားများကိုလည်း ဆက်လက်၍ မောင်းထုတ်နေဆဲ ဖြစ်၏။ သို့ဖြစ်ရာ ကယ်လီဖိုးနီးယား ပြည်နယ်အတွင်းသို့ နောက်ထပ် လှိမ့်ဝင်လာမည့်

အသစ်အသစ်သော ထိုလိုင်းလုံးကြီးများသည် အိမ်ခြေယာမဲ့များ ဖြစ်ကာ စိတ်ကြမ်း ကိုယ်ကြမ်း ဖြစ်နေသော အန္တရာယ်များလှသော မြေယာမဲ့ ပစ္စည်းမဲ့ အလုပ်လက်မဲ့များဖြင့် ဖွဲ့စည်းထားသော လှိုင်းလုံးကြီးများပေတည်း။

ကယ်လီဖိုးနီးယား ပြည်နယ်သူ ပြည်နယ်သားများအနေဖြင့် ငွေကြေး ပစ္စည်းဥစ္စာ ချမ်းသာကြွယ်ဝမှု၊ လူမှုဆက်ဆံရေးနယ်ပယ်တွင် အောင်မြင်ကျော်ကြားမှု၊ သာယာ ပျော်ရွှင်မှု၊ စည်းစိမ်ခံမှုနှင့် တည်ရှိနေသော ဘဏ်စနစ်၏ လုံခြုံမှု စသော အရာများကို လိုလားနေသည့် အချိန်တွင် မယဉ်ကျေးသော အရိုင်းအစိုင်း လူမျိုးစု တစ်စုသဖွယ် ဖြစ်နေသော ဤလူစုသည် မြေနှင့် အစာတည်းဟူသော အရာဝတ္ထုနှစ်မျိုးကို ရယူပိုင်ဆိုင်လိုစိတ် ပြင်းပြလျက် ရှိကြ၏။ သူတို့အဖို့တော့ ထိုအရာဝတ္ထုနှစ်မျိုးသည် တစ်ခုနှင့် တစ်ခု မတူညီ ကွဲပြားခြားနားသော အရာဝတ္ထုများ မဟုတ်။ တစ်သားတည်း တစ်ထပ်တည်း ဖြစ်နေသည့် တစ်မျိုးတည်း အရာတစ်ခုမျှသာ ဖြစ်လေသည်။

ကယ်လီဖိုးနီးယား ပြည်နယ်သူ ပြည်နယ်သားများ၏ အလိုဆန္ဒများမှာ များပြားလှသည် ဖြစ်ရာ ဘယ်အရာမှ တိတိကျကျလည်း မရှိ။ ပီပီပြင်ပြင်လည်း မရှိ။ သူတို့၏ အလိုဆန္ဒများသည် အခိုးအငွေ့များနှင့် တူလျက် ရှိသည်။ ထိုအချိန်တွင် ဒုတ်ကီးများ လိုချင်နေသည့် အရာဝတ္ထုများသည် လမ်းမကြီးများ၏ ဝဲယာ ဘေးတစ်ဖက်တစ်ချက်တွင် အခိုင်အမာ တည်ရှိနေသည်။ အကောင်အထည်နှင့် ပြတ်ပြတ်ထင်ထင် မြင်တွေ့နေရသည်။ တခြားတော့ မဟုတ်။ ရေ အလွယ်တကူရနိုင်သည့် လယ်ကွက်များ ဖြစ်သည်။ မြေကို လက်ဖြင့် ဆုပ်ကိုင်ခြေမွကာ စမ်းသပ် စစ်ဆေးကြည့်နိုင်၏။ လယ်ကွက်များပေါ်၌ ပေါက်ရောက်နေကြသည့် မြက်ပင်များ၏ အနံ့ကိုပါ ရှူရှိုက်နိုင်၏။ လယ်ကွက်များပေါ်ရှိ ဂျုံပင်များမှ ရိုးတံများကို ဆွဲဖြတ်၍ ချိုမြသော အရသာ လည်ချောင်းထဲ ဆင်းသွားသည်အထိ ပါးစပ်ဖြင့် ကိုက်ဝါးကြည့်နိုင်၏။ လူသားတစ်ဦးအနေဖြင့် မိမိ ရှေ့မှောက်၌ ရှိနေသော မြေလွတ် မြေရိုင်းကို ကြည့်ကာ ဆင်ခြင်း စဉ်းစားခြင်း အမှုကိုလည်း ပြုကောင်း ပြုမိပေလိမ့်မည်။ သူ၏ စိတ်မျက်စိ အာရုံတွင် ကိုင်းနေပြီဖြစ်သော သူ၏ ခန္ဓာချင့် ပေရေ ညစ်ပတ်လျက် ရှိသော သူ့လက်များကို အသုံးပြုလိုက်ရသဖြင့် ထိုလယ်ကွက်များအပေါ်၌ ပေါ်ပေါက်လာမည့် ပန်းမုန်လာ၊ ဂေါ်ဖီနှင့် မုန်လာဥဝါ စသည့် ဟင်းသီး ဟင်းရွက်များနှင့် နေရောင်အောက်တွင် ရွှေရောင် ထနေသည့် စပါးခင်းများကို မြင်ယောင် ထင်ယောင် ဖြစ်မိပေလိမ့်မည်။

သူ့မယားကို သူ့ဘေးမှာ ထား၍ အစာရေစာ ဝဝလင်လင် မစားရသဖြင့် ပိန်လှီ သေးကွေးနေကြသော သူ့သားငယ်များကို နောက်ဘက်တွင် ထိုင်ခိုင်း၍ ကားအို ကားဟောင်းတစ်စီးကို မောင်းလာနေသော အိမ်ခြေယာမဲ့ ဘဝဖြင့် ဆင်းရဲ ငတ်ပြတ်နေသော လူတစ်ယောက်သည် အမြတ်အစွန်း မရနိုင်သည့်တိုင်အောင် အစားအစာများကို ထုတ်လုပ်ပေး နိုင်သည့် မြေလွတ် မြေရိုင်းများကို နမြောတသသော စိတ်ဖြင့် ကြည့်မိပေလိမ့်မည်။ မြေဩဇာကောင်းသော လယ်တစ်ကွက်ကို မစိုက်မပျိုးဘဲ ပစ်ထားခြင်းသည် မည်မျှလောက်အထိ အပြစ်ကြီးသည်ကို သူ ကောင်းစွာ သိ၏။ လယ်မြေတစ်ကွက်ကို လုံးဝ အသုံးမပြုဘဲ အလွတ်ထားခြင်းသည် အစားအစာ ဝဝလင်လင် မစားရဘဲ ငတ်ပြတ်နေသော ကလေးသူငယ်များအပေါ်၌ ကျူးလွန်နေသည့် ရာဇဝတ်မှုတစ်ခုပဟု သူ ယူဆသည်။ ထိုလူစားမျိုး တစ်ယောက်သည် သူ့ကားကို လမ်းမကြီးများ တစ်လျှောက် မောင်းသွားနေရင်းက မြင်မြင်သမျှသော လယ်ကွက် တိုင်းသည် ဆွဲဆောင်မှု အပြည့်အဝ ရှိနေသည်ကို သတိထားမိသည်။ ထိုလယ်ကွက်များ ပေါ်၌ တပ်မက်သော စိတ်သည် အပြင်းအထန် ဖြစ်ပေါ်လျက် ရှိသည်။ ထိုလယ်ကွက်များကို အပိုင်ရယူပြီး သူ့သားငယ် သမီးငယ်များနှင့် သူ့ဇနီးမယားအတွက် စိုက်ရ ပျိုးရလျှင် မည်မျှ ကောင်းလေမည်နည်း ဟူသော တောင့်တမှုသည် သူ့ရင်ထဲ၌ ပြင်းထန်စွာ ရိုက်ခတ်လျက် ရှိသည်။ သူ့မျက်လုံးများသည် သူ့စိတ်ကို အပြင်းအထန် ဆွဲဗဆောင်နေသည့် အရာများကို တစ်လမ်းလုံး တောက်လျှောက် မြင်တွေ့သွားနေရ၏။ လယ်ကွက်များသည် သူ့စိတ်ကို လောဘရမ္မက် ဝင်လာအောင် ဆွပေးနေကြသည်။ ရေကောင်းစွာ စီးဆင်းနေသည့် တူးမြောင်းများကလည်း သူ၏ လိုချင် တပ်မက်စိတ်ကို ပိုမို၍ ပြင်းထန်လာအောင် လှုံ့ဆော်ပေးလျက် ရှိလေသည်။

တောင်ဘက်တွင် သစ်ပင်များပေါ်မှ တွဲလောင်းကျနေကြသည့် လိမ္မော်သီးများကို သူ မြင်နေရသည်။ အစိမ်းပုပ်ရောင် လိမ္မော်သီးများ၊ လိမ္မော်ခြံ ပတ်ပတ်လည်တွင် ပြောင်းတို သေနတ်များကို ကိုင်ထားသည့် အစောင့်များ။ လူတစ်ယောက်အနေဖြင့် အစာ ဝဝလင်လင် မစားရ၍ သေးကွေးပိန်လှီနေသော ကလေးတစ်ယောက်အား ကျွေးချင်စိတ်ဖြင့် လိမ္မော်သီးကို ခူး၍ ရလိမ့်မည် မဟုတ်။ တကယ်တော့ ထိုလိမ္မော်သီး များသည် ကျေးဈေးဖြင့် မိနေသည့် အခါတွင် အမှိုက်ပုံးထဲသို့ သွန်ပစ်ရမည့် လိမ္မော်သီးများ ဖြစ်ပေသည်။

သူသည် သူ၏ ကားအိုကြီးကို မောင်း၍ မြို့တစ်မြို့အတွင်းသို့ ဝင်သည် လယ်ယာလုပ်ငန်းဌာနများသို့ သွား၍ အလုပ်ရှာသည်။ ငါတို့တစ်တွေ ကနေ့ည ဘယ်မှာ သွားပြီး အိပ်ရပ့ါ။

မြို့အစွန်ရှိ မြစ်ကမ်းပါးတွင် "ဟူးဗားဗီးလ်" ဟု အမည်ပေးထားသော ရပ်ကွက် တစ်ကွက် ရှိသည်။ ထိုရပ်ကွက်ကိုသာ သွား။ ထိုနေရာတွင် အုတ်ကျီးများ အစုလိုက် အပြုံလိုက် ရှိနေသည်။

သူသည် ကားအိုကြီးကို ဟူးဗားဗီးလ်သို့ ဦးတည်၍ မောင်းခဲ့သည်။ နောက်ထပ် ဘယ်သူ့ကိုမှ မမေးတော့ပေ။ အဘယ်ကြောင့်ဆိုသော် မြို့တိုင်းမြို့တိုင်းရှိ မြို့အစွန်တိုင်းတွင် "ဟူးဗားဗီးလ်" ဟု ခေါ်သော ရပ်ကွက်တစ်ကွက်သည် ရှိစမြဲ ဖြစ်နေသောကြောင့်ပေတည်း။

စုတ်ပြတ်သတ်နေသော ထိုရပ်ကွက်သည် ရေနှင့် အနီးကပ် တည်ရှိသည်။ နေအိမ်များမှာ ရွက်ထည်တဲများသာ ဖြစ်၏။ အလေ့ကျ ပေါက်နေသည့် မြက်ပင် ပေါင်းပင်များသည် ခြံဝင်းများ ဖြစ်သည်။ ဤအထဲတွင် စက္ကူကတ်ထူပြားများဖြင့် ဆောက်လုပ်ထားသည့် အိမ်များ ပါသေးသည်။ စက္ကူအိမ်များကို ကြည့်လိုက်လျှင် အမှိုက်ပုံကြီးတစ်ပုံနှင့် တူနေသည်။ ထိုလူသည် သူ့မိသားစုနှင့်အတူ ကားအိုကြီးကို မောင်း၍ ဝင်လာခဲ့သည်။ ထိုအခါ သူသည် ဟူးဗားဗီးလ်ရပ်ကွက်၏ ရပ်ကွက်သားတစ်ဦး ဖြစ်လာခဲ့ရလေ၏။ ထိုလူသည် သူ့ရွက်ထည်တဲကို ရေနှင့် အနီးကပ်ဆုံး နေရာ၌ ထိုးသည်။ အကယ်၍ သူ့တွင် ရွက်ထည်တဲ ပါမလာပါက မြို့ထဲရှိ အမှိုက်ပုံသို့ သွား၍ ပစ္စည်းထည့်သည့် ကတ်ထူ စက္ကူဘူးလွတ်များကို ကောက်သည်။ ပြီးတော့ ထိုစက္ကူများဖြင့် အိမ်တစ်လုံး ဖြစ်အောင် ဆောက်သည်။ မိုးရွာလာသည့်အခါတွင် ထိုစက္ကူများသည် နူးပွကာ မိုးရေနှင့်အတူ မျောပါသွားလေတော့၏။ သူ့အနေဖြင့် ဟူးဗားဗီးလ်တွင် အခြေတကျ ဖြစ်လာသည်နှင့် တစ်ပြိုင်နက် တောပိုင်းသို့ ထွက်ကာ အလုပ်ရှာသည်။ ဓာတ်ဆီအတွက် သုံးလာခဲ့ရသည့် လက်ကျန်ငွေ မဖြစ်စလောက်ကို အလုပ်ရှာဖွေရာ၌ သုံးစွဲရပြန်သည်။ ညနေပိုင်း ရောက်လာသောအခါ ယောက်ျားများသည် တစ်နေရာတွင် စု၍ စကားစမြည် ပြောကြသည်။ အထူးသဖြင့် သူတို့ မြင်ခဲ့ရသည့် မြေများအကြောင်း စိတ်ပါလက်ပါ ဆွေးနွေး ပြောဆိုကြလေသည်။

အနောက်ဘက်ခြမ်းမှာတင် မြေဧကပေါင်း သုံးသောင်းကျော် ရှိနေတယ်။ နည်းနည်းနောနော မြေတွေလား။ အဲဒီမြေတွေက မြေဧက ငါးဧကသော ရမယ်ဆိုရင် ကျုပ်အဖို့ ဘယ်လောက်များ ဟန်ကျလိုက်မလဲ။ အဲသလောက်သာရရင် ကျုပ်မှာ စားစရာ အားလုံး ရှိလာမှာ။

ခင်ဗျားတို့ တစ်ခု သတိထားမိကြရဲ့လား။ သူတို့ရဲ့ လယ်ယာလုပ်ငန်းက တစ်မျိုးပဲဗျ။ ဟင်းသီး ဟင်းရွက်လည်း မစိုက်ဘူး။ ကြက်လည်း မမွေးဘူး။ ဝက်လည်း မမွေးဘူး။ သူတို့ စိုက်တာ တစ်မျိုးတည်းပဲ။ ဝါဆို ဝါချည်း စိုက်တဲ့နေရာ စိုက်တယ်။ မက်မွန်ဆိုလည်း မက်မွန်တစ်မျိုးပဲ စိုက်တယ်။ မုန်လာဆိုလည်း မုန်လာတစ်မျိုးပဲ စိုက်တယ်။ တခြားဘာမှ မရောဘူး။ ကြက်မွေးပြန်တော့လည်း တစ်နေရာတည်းမှာ ကြက်တွေချည်းပဲ မွေးထားတယ်။ ခြံတံခါးဝ အနားမှာ စိုက်ပျိုးနိုင်တဲ့ မျိုးစေ့ကျတော့လည်း ဝယ်စိုက်ကြတယ်။

ဝက် နှစ်ကောင်လောက် မွေးထားရုံနဲ့ ကျုပ်မှာ ဘာများ အကျိုးရှိနိုင်မှာတဲ့လဲဗျာ။

ဒါကတော့ဗျာ၊ ဒီဝက်တွေက ခင်ဗျား ဝက်တွေမှ မဟုတ်ဘဲ ခင်ဗျားမှာ အကျိုးရှိနိုင်ပါ့မလား။ ခင်ဗျားပိုင် ဝက်တွေလည်း ဖြစ်လာမှာ မဟုတ်ပါဘူးဗျ။

ကဲ ဒီလိုဆို ကျုပ်တို့ ဘယ်လို လုပ်ကြမလဲ။ ဒီပုံစံအတိုင်းဆိုရင် ကျုပ်တို့ ကလေးတွေ လူဖြစ်မှာ မဟုတ်တော့ဘူး။

စခန်းအတွင်းသို့ သတင်းတစ်ခု ရောက်လာသည်။ ထိုသတင်းကို အချင်းချင်း ကျိတ်၍ တီးတိုး ပြောကြသည်။ သတင်းကတော့ တခြား မဟုတ်။ ရက်ဖ်တာမြို့တွင် အလုပ်အကိုင်တွေ များစွာ ရှိနေသည် ဟူသော သတင်း။ ညတွင်းချင်း မော်တော်ကားများပေါ်သို့ ပစ္စည်းများ တင်ကြသည်။ အဝေးပြေး ကားလမ်းမကြီးပေါ်ဝယ် မော်တော်ကားများဖြင့် ပြည့်ကျပ်လာသည်။ အလုပ် ရရှိရေးအတွက် သူ့ထက်ငါ အလုအယက် ပြေးသွားကြခြင်း ဖြစ်လေသည်။ ဤသို့ဖြင့် ရက်ဖ်တာ မြို့ပေါ်တွင် ရှိနေသည့် အရေအတွက်ထက် လူဦးရေက ငါးဆခန့် ပိုနေသည်။ အဖြစ်ကတော့ အလုပ်အတွက် အလုအယက် အပြေးအလွှား သွားနေကြသည့် အဖြစ်။ ညကြီးမင်းကြီး တိတ်တဆိတ် ထ၍ သွားကြခြင်း ဖြစ်၏။ အားလုံး အလုပ် ရရှိရေးအတွက် အရူးအမူး ဖြစ်နေကြသည်။ လမ်းမကြီးဒ၏ ဝဲယာတစ်လျှောက်တွင်လည်း အစားအစာ

ထုတ်လုပ်ပေးနိုင်သည့် လယ်ကွက်များသည် အစီအရီ တန်းစီလျက် ရှိကြ၏။ ဤလယ်ကွက်များသည်လည်း သူတို့၏ ရင်ထဲတွင် လိုချင်တပ်မက်စိတ်များ အပြင်းအထန် ဖြစ်ပေါ်လာအောင် ဖြားယောင်း သွေးဆောင်နေကြသည့် အရာများပင် ဖြစ်ချေသည်။

ဒါပေမဲ့ ဒီမြေတွေဟာ ပိုင်ရှင်ရှိတဲ့ မြေတွေပဲ။ ငါတို့မြေ မဟုတ်ဘူး။

ငါတို့အနေနဲ့ နည်းနည်းလောက်တော့ ရနိုင်မယ် ထင်ပါရဲ့။ ရချင်လည်း ရမှာ။ အများကြီး မဟုတ်ပါဘူး။ နည်းနည်းပါးပါးပေါ့။ တစ်ကွက်စာလောက် ဆိုရင် ဖြစ်ပါတယ်။ ဟောဟိုနားက အကွက်ကလေးသာ ရရင် သိပ်ကို အဆင်ပြေမှာ။ အခုတော့ ကြည့်ပါဦး။ မြက်တွေ ပေါင်းပင်တွေ ပေါက်နေတယ်။ ငါ့လက်ထဲမှာသာ ဆိုရင် အာလူး စိုက်မှာပဲ။ ဒီမြေပေါ် အာလူး စိုက်နိုင်တယ်။ ငါ့မိသားစု တစ်စုလုံးတော့ လုံလုံလောက်လောက် စားနိုင်မှာ သေချာတယ်။

အင်းပေါ့လေ။ ကိုယ့်မြေ မဟုတ်တော့လည်း အခက်သားပဲ။ အခုတော့ ဖြစ်နေပုံကို ကြည့်ပါဦး။ လယ်ကွက်ပေါ်မှာ မြက်တောကြီး ဖြစ်နေပြီ။

မကြာခဏ ဆိုသလို သူတို့အုပ်စုထဲက လူတစ်ဦးစ နှစ်ဦးစသည် အလဟဿ ဖြစ်နေသော မြေကို အသုံးချနိုင်ရန် တိတ်တိတ် ကျိတ်၍ အားထုတ်တတ်သည်။ မြေကွက်အတွင်းသို့ အသာဝင်၍ အလယ်တည့်တည့်မှ ပေါင်းမြက်များကို ခုတ်ထွင် ရှင်းလင်းသည်။ သူ လုပ်ကိုင်နေပုံမှာ မြေကြီးထဲ၌ မြှုပ်နှံထားသည့် အဖိုးတန် ရွှေငွေ ရတနာများကို တူးဖော်နေသော သူခိုးတစ်ယောက်နှင့် တူ၏။ ဤသို့ဖြင့် တမင် မခုတ်မထွင် မရှင်းလင်းဘဲ ချန်ထားသော မြေကွက်၏ ဘေးပတ်ပတ်လည်မှ အကာအရံသဖွယ် ဖြစ်နေသော ပေါင်းပင် မြက်ပင်ရှည်ကြီးများ၏ နောက်ကွယ်တွင် ဟင်းသီးဟင်းရွက်ခင်း ကလေးများ ဖြစ်ထွန်း ပေါ်ပေါက်လာသည်။ မုန်လာ၊ အာလူး စသော သီးနှံခင်းကလေးများ ဖြစ်၏။

မြေရဲ့ ပတ်ပတ်လည်မှာ ရှိနေတဲ့ လေးဖက်လေးတန်က ပေါင်းမြက်တွေကိုတော့ ရှင်းပစ်လို့ မဖြစ်ဘူး။ သူ့နဂိုအတိုင်း ထားမှ။ ဒါမှ အလယ်ကောင်မှာ ငါတို့ ဘာလုပ်နေတယ် ဆိုတာ တခြား လူတွေ မသိမှာ။ ပေါင်းပင် မြက်ပင် အရှည်ကြီးတွေကိုတော့ သွားပြီး ရှင်းမပစ်ကြနဲ့။ ဒါကြီးတွေက အလယ်ကောင်က စိုက်ခင်းကို တခြား လူတွေ မမြင်နိုင်အောင် ကွယ်ထားလိမ့်မယ်။

တိတ်တဆိတ် ကျိတ်၍ စိုက်ပျိုးသော လုပ်ငန်းကို နေဝင်မိုးချုပ် အချိန်ကျ လာတိုင်း လုပ်သည်။ ရေလောင်းသည့်အခါ သံချေးအထပ်ထပ်တက်နေသော သံပုံး တစ်လုံးဖြင့် သယ်၍ လောင်းကြသည်။

တစ်နေ့တွင်မူ လက်ထောက် ပုလိပ်အရာရှိတစ်ဦး ရောက်လာသည်။ ငါ့လူ မင်း ဘာလုပ်နေတယ်ဆိုတာ သိရဲ့လားဟု မေးသည်။

ကျုပ် ဘယ်သူ့ကိုမှ ထိခိုက်အောင် မလုပ်ပါဘူးဗျာ။

ငါ အကန်း မဟုတ်ဘူး။ ငါ့မျက်လုံးတွေက မင်း ဘာလုပ်နေတယ်ဆိုတာ မြင်နေရတာပဲ။ ဒီမြေဟာ မင်း ပိုင်တဲ့မြေ မဟုတ်ဘူး။ မင်း အခု လုပ်နေတာဟာ သူတစ်ပါး ပိုင်နက်ကို ကျူးကျော်နေတာကွ။

မြေက မြေလွတ်မြေရိုင်း ဖြစ်နေပြီဗျ။ ထွန်ယက်ထားတာ မဟုတ်ဘူး။ ကျုပ် လုပ်နေတာလည်း မြေကို ပျက်စီးအောင် ဖျက်ဆီးပစ်နေတာ မဟုတ်ပါဘူးဗျာ။

မင်းတို့ဟာ သူတစ်ပါး မြေပေါ် အတင်းအဓမ္မ ကျူးကျော်ပြီး ဝင်နေချင်တဲ့ ကောင်တွေပဲ။ မကြာခင် ဒီမြေကို ငါပိုင်တယ် ဆိုတဲ့ အတွေးမျိုး မင်း ခေါင်းထဲ ရောက်လာတော့မှာ။ အဲဒီအခါကျရင် ဘယ်နည်းနဲ့မှ မလွယ်တော့ဘူး။ ကျုပ်ပိုင်တဲ့ မြေလို့ ဇွတ်ငြင်းတော့မှာ သေချာတယ်။ ကဲ သွား၊ အခုချက်ချင်း ဒီမြေပေါ်က ထွက်။

ထို့နောက် လက်ထောက်ပုလိပ်အရာရှိသည် စိုက်ခင်းအတွင်းမှ မုန်လာပင်များကို ခြေထောက်နှင့် ကန်ကျောက်သည်။ တစ်ခင်းလုံး ပျက်စီးသွားအောင် ခြေထောက်နှင့် လိုက်၍ နင်းခြေပစ်သည်။ မကြာခင် အချိန်အတွင်းမှာပင် စိုက်ခင်းပေါ်၌ ပေါင်းပင် မြက်ပင်များ ပြန်ပေါက်လာကြလေ၏။ သို့သော်လည်း ဤကိစ္စတွင် ပုလိပ်ကို မှားသည်ဟု မဆိုသာ။ သူ့ဘက်က ကြည့်လျှင် မှန်သည်။ စိုက်ခင်းတစ်ခင်း ဖြစ်လာပြီ ဆိုပါတော့။ ထိုစိုက်ခင်းသည် ပိုင်ဆိုင်မှုတည်းဟူသော အခြေအနေတစ်ရပ်ကို ဖြစ်ပေါ်စေသည်။ မြေကို ပေါက်ပြားဖြင့် ပေါက်၍ မုန်လာဥ စိုက်သည်။ ထွက်လာသည့် မုန်လာဥကို စားသည်။ ထိုအခါ လူသည် အစားအစာ ရနေသည့် မြေအတွက် တိုက်ပွဲဝင်ပေတော့မည်။ ထို့ကြောင့် သူ့ကို မြေပေါ်မှ မြန်မြန်နှင်ထုတ်မှ။ မဟုတ်လျှင် ထိုမြေကို သူပိုင်မြေဟု တွေးလာလိမ့်မည်။ ပြောလာလိမ့်မည်။ အရေးဆိုလာလိမ့်မည်။ ပေါင်းပင် မြက်ပင်များ အလယ်မှ

မဖြစ်စလောက် မြေကွက်ကလေးတစ်ကွက်အတွက် ထိုလူသည် အသက်ပင် အသေခံကောင်း အသေခံသွားလိမ့်မည်။ မဖြစ်။ ဘယ်နည်းနဲ့မှ မဖြစ်။ အခုချက်ချင်း နှင်ထုတ်မှ။

မုန်လာပင်တွေကို ငါ ခြေထောက်နဲ့ ကန်နေတုန်းက ဖြစ်နေတဲ့ သူ့မျက်နှာထားကို မင်း မြင်ခဲ့တယ် မဟုတ်လား။ မျက်စောင်းတစ်ချက်ထိုးရုံနဲ့သာ သေမယ်ဆိုရင် ငါတို့အားလုံး ပြာတောင် ကျကုန်လိမ့်ဦးမယ်။ ငါတို့အနေနဲ့ ဒီကောင်တွေကို ဦးကျိုးအောင် လုပ်ထားမှ။ မလုပ်ထားရင် ပြည်နယ်တစ်ခုလုံး သူတို့လက်ထဲ ပါသွားလိမ့်မယ်။ ဒီကောင်တွေက တစ်နယ်လုံးကို အုပ်စီးမယ့် ကောင်တွေ။

တစ်နယ်သား အရိုင်းအစိုင်းတွေ။ ကျူးကျော်ပြီး ဝင်ရောက်လာတဲ့ နိုင်ငံခြားသား တွေ။

ကျုပ်တို့ ပြောတဲ့ ဘာသာစကားနဲ့ သူတို့ ပြောတဲ့ ဘာသာစကားဟာ မကွဲပြား ပါဘူး။ ဒါကတော့ ဟုတ်ပါတယ်။ မှန်တယ်လို့ ဝန်ခံပါတယ်။ ဒါပေမဲ့ လူချင်းကျတော့ မတူဘူးဗျ။ သူတို့ရဲ့ အနေအထားကို ကြည့်ပါလား။ ကျုပ်တို့တစ်တွေ သူတို့ နေသလို နေသလား။ သူတို့ စားသလို စားသလား။ တခြားစီပါဗျာ။ အနေအစားချင်း သိပ်ကိုကွာပါတယ်။

နားနားနေနေ နေရသည့် ညခင်းများတွင် လူအားလုံး ဆုံမိကြသည်။ အားလုံး စုထိုင်ကာ စကားစမြည် ပြောကြသည်။ မခံချင်စိတ်ဖြင့် စိတ်လှုပ်ရှားနေသော လူတစ်ယောက်က ငါတို့မှာ လူနှစ်ဆယ်တောင် ရှိနေတာပဲ။ မြေ တစ်ယောက် တစ်ကွက် ရအောင် ဘာပြုလို့ မယူနိုင်ရမှာလဲ၊ ငါတို့မှာ သေနတ်တွေလည်း ရှိနေတယ်၊ မြေကိုယူပြီး မင်းတို့ နှင်ထုတ်နိုင်ရင် နှင်ထုတ်ကြကွာလို့ ပြောလိုက်တာပေါ့။ အဲသလို လုပ်ရင် ဖြစ်ရက်သားနဲ့ ဘာကြောင့် မလုပ်ကြတာလဲ။

အဲသလို လုပ်ရင် ငါတို့ကို ကြွက်တွေ သတ်သလို သေနတ်နဲ့ ပစ်သတ်မှာပေါ့ကွ။

အေး ဒီလိုဆိုရင် ငါတို့ မင်းတို့အနေနဲ့ အခုချက်ချင်း အသေခံကြမလား။ ဖြည်းဖြည်းချင်း အသေခံကြမလား။ ဒီနှစ်လမ်း ကြိုက်တဲ့လမ်းသာ ရွေးပေတော့။ တို့သားသမီးတွေ အခုချက်ချင်း လက်ငင်း သေသွားတာကို ကြည့်မလား။ ဒါမှမဟုတ် အစာ

အာဟာရ ချို့တဲ့ပြီး နောက် နစ်နစ်လောက်ကြာမှ အသက်ထွက်သွားတာကို ကြည့်မလား။ ဒါပဲ၊ အခု တစ်ပတ်လုံးလုံး ငါတို့ မင်းတို့ ဘာတွေ စားနေကြရသလဲ။ မင်းတို့သိတဲ့အတိုင်းပဲ။ တစ်ခါလာလည်း မုန့်။ နောက်တစ်ခါကျတော့လည်း မုန့်။ မုန့်လုပ်ဖို့ ဂျုံတောင် ဘယ်ကရသလဲ။ ကုန်တင်ကား ကြမ်းပေါ်က ဖိတ်ကျ ကျန်ရစ်ခဲ့တဲ့ အမှုန့်တွေကို လက်ခုပ်နဲ့ လှည်းပြီး ကျုံးယူထားရတာ မဟုတ်လား။

ယင်းကဲ့သို့ စခန်းအတွင်း၌ ထိုင်၍ အချင်းချင်း စကားပြောနေကြခိုက်တွင် ခြောက်လုံးပြူး ကိုယ်စီ ချိတ်ထားကြသည့် ဝဝဖိုင့်ဖိုင့် ခပ်ထုံထုံ ခပ်တုံးတုံး အမျိုးအစား ပုလိပ်များသည် ငါထင်တာ ငါလုပ်မည် ဟူသော ဟန်ပန် အမူအရာမျိုးဖြင့် ရင်ကို ကော့ကာ စခန်းအတွင်း၌ လမ်းသလားလျက် ရှိကြလေသည်။ ဒီအကောင်တွေကို နောင်ကြဉ် အောင်တော့ လုပ်ထားမှဖြစ်မယ်။ စုစု စုစုနဲ့ အုပ်လိုက် သင်းလိုက် ဖြစ်နေကြပြီ။ ဒီကောင်တွေ ဘာစိတ်ကူးပြီး ဘာကြံနေတယ်ဆိုတာ ဘုရားသခင်ကလွဲပြီး ဘယ်သူမှ သိနိုင်တာ မဟုတ်ဘူး။ ဒီကောင်တွေဟာ ဟိုတောင်ပိုင်း ပြည်နယ်တွေက ကျွန်ငမည်းကောင်တွေလိုပဲ အန္တရာယ်ပြုမဲ့ ကောင်တွေ။ ကြောက်စရာ သိပ်ကောင်းတယ်။ သူတို့အချင်းချင်း စုစည်းမိရင် သူတို့ကို နှိမ်လို့ရမှာ မဟုတ်တော့ဘူး။

ရည်ညွှန်းချက်။ ။ လော့ရင့်စ်ဗီးလ်မြို့တွင် လယ်မြေတစ်ကွက်ပေါ်သို့ ကျူးကျော်ဝင်ရောက် လုပ်ကိုင်နေသူ တစ်ဦးအား လက်ထောက် ပုလိပ်အရာရှိက နှင်သည်။ ကျူးကျော်သူက ဖယ်မပေးဘဲ ခုခံနေသဖြင့် ပုလိပ်အရာရှိက အကြမ်းဖက်သည်။ ထိုအခါ အသက်ဆယ့်တစ်နစ်မျှသာ ရှိသေးသော ကျူးကျော် သူ၏ သားက လက်ထောက် ပုလိပ်အရာရှိအား ပွိုင့်တူးတူးသေနတ်နှင့် ပစ်သတ်သည်။

ဒီကောင်တွေက မြွေဆိုးတွေဗျ၊ ဒီကောင်တွေကို အလစ်မပေးနဲ့။ ဒီကောင်တွေ အနေနဲ့ ကိုယ်ပြောတာ နားမထောင်ဘဲ ငြင်းမယ် ခုံမယ် ကြံရင် ကိုယ်က လက်ဦးအောင် သေနတ်နဲ့ ပစ်။ ကလေးတစ်ယောက်က ပုလိပ်အရာရှိတစ်ယောက်ကို သတ်တယ်ဆိုရင် လူကြီးတွေက ဘာလုပ်မလဲ။ စဉ်းစားကြည့်ပေါ့။ သူတို့ကို ညှာလို့ မဖြစ်ဘူး။ ခပ်ကြမ်းကြမ်း ကြောက်နေအောင် လုပ်ထား။

တကယ်လို့ သူတို့က ကျုပ်တို့ ခြောက်တာကို မကြောက်ကြဘူး ဆိုပါတော့။ ကျုပ်တို့ ဘာလုပ်ကြမလဲ။ တကယ်လို့ သူတို့က ကျုပ်တို့ကို ခုခံမယ်။သေနတ်နဲ့ ပြန်ပစ်မယ်

ဆိုကြပါစို့။ ကျုပ်တို့ ဘာလုပ်မလဲ။ ဒီလူတွေက ကလေးသူငယ် ဘဝကတည်းက သေနတ်ဖက်ပြီး ကြီးလာတဲ့ကောင်တွေ။ သေနတ်ဟာ သူတို့ရဲ့ ဖွားဖက်တော် လက်နက်တစ်ခုပဲ။ တကယ်လို့ ခြောက်တာသာ မကြောက်ရင် အခက်။ တကယ်လို့များ ဟိုတစ်ချိန်က အီတလီနိုင်ငံမှာ လွန်းဘတ် လူမျိုးတွေ လုပ်သလို၊ ဂျာမန်လူမျိုးတွေ ဂေါ်လ်ပြည်မှာ လုပ်သလို၊ ဘိုင်ဇင်တီယမ်း နိုင်ငံမှာ တူရကီလူမျိုးတွေ လုပ်သလို ဒီကောင်တွေက လူစု လူဝေးနဲ့ လက်နက်တွေကိုင်ပြီး မြေတွေကို အတင်းအဓမ္မ အကြမ်းနည်းနဲ့ ဝင်နေကြမယ် ဆိုရင်ကော။ ကျုပ်တို့ ဘာလုပ်ကြမလဲ။ သူတို့က မြေငတ်နေတဲ့ လူတွေ။ ရေကြည်ရာ မြက်နုရာ ဒေသရှိတဲ့ နေရာတွေကို ခြေသလုံး အိမ်တိုင် လုပ်ပြီး လျှောက်သွားနေကြတဲ့ လူတွေ။ သူတို့မှာ ပါလာတဲ့ လက်နက်တွေက မများပေမဲ့ လက်နက်ဟာ လက်နက်ပဲ။ ဖြစ်ကြပြီဆိုရင် အပျော်တမ်း တပ်ဖွဲ့သာသာလောက်ရှိတဲ့ တပ်ကတော့ တားဆီးနိုင်မှာ မဟုတ်ဘူး။ သတ်တာ ဖြတ်တာ နှိပ်စက်တာမျိုးလောက်နဲ့ ဖြုံမယ့်ကောင်တွေ မဟုတ်ဘူး။ တားလို့လည်း ရမှာ မဟုတ်ဘူး။ သူကိုယ်တိုင်တွင် ဝတ်နေရုံ မကဘူး။ သူ့သားသမီးတွေကို ဝမ်းဝအောင် မကျွေးနိုင် ဖြစ်နေတဲ့ လူတစ်ယောက်ကို ဘယ်လိုလုပ်ပြီး ကြောက်အောင် ခြောက်ကြမလဲ။ ခင်ဗျားတို့ ကျုပ်တို့ အနေနဲ့ သူ့လို လူစားကို ကြောက်သွားအောင် ခြောက်နိုင် လှန့်နိုင်မယ် မထင်ဘူး။ သူက အကြောက်ကို တခြား ဟာတွေထက် ပိုပြီး သိနေတဲ့ လူ။

ဟူးဗားဗီးလ်မြို့တွင် ယောက်ျားတစ်စုသည် ဝိုင်းဖွဲ့၍ စကားလက်ဆုံ ကျနေကြလေသည်။ ကျုပ် အဘိုး ပိုင်တဲ့ မြေဟာ သူကိုယ်တိုင် ရက်အင်ဒီးယန်း လူရိုင်းတွေ လက်ထဲက လုယူခဲ့တာပေါ့ဗျာ။

အခု အချိန်မှာတော့ အဲဒီ အလုပ်မျိုးဟာ မမှန်တော့ဘူးဗျာ။ အခု ခင်ဗျား ပြောနေတာက မြေကို ခိုးယူဖို့ ပြောနေတာပဲ။ ကျုပ်က သူခိုးမှ မဟုတ်တာ။

ဒီစကားကတော့ မဟုတ်သေးဘူး ထင်တယ်။ ဟိုညက အိမ်တစ်အိမ် ဆင်ဝင်အောင်က နို့တစ်ပုလင်းကို ခင်ဗျား လစ်လာတယ်လေ။ ပြီးတော့ ဟိုနေ့ကလည်း ဝါယာကြိုးတွေ ခိုးရောင်းပြီး အမဲသား ဝယ်ခဲ့တယ် မဟုတ်လား။

ဟုတ်တယ်လေ။ ဒါကတော့ ကလေးတွေက သိပ် ဆာနေတာကိုးဗျ။

ဘာကြောင့်ပဲ ဖြစ်ဖြစ်လေ ဒါဟာ ခိုးတာပဲဗျ။

ဒီမယ် ကိုယ့်လူ၊ ဖဲယားဖီးလ် ဆိုတဲ့လူဟာ သူ့ရဲ့ စိုက်ပျိုး မွေးမြူရေးခြံကြီးကို ဘယ်လိုနည်းနဲ့ ရခဲ့တယ် ထင်သလဲ။ ကျုပ် ပြောပြမယ်။ အဲ့ဒီခြံမြေ အားလုံးဟာ အစက အစိုးရပိုင် မြေဗျ။ လူတိုင်း ဂရန်လျှောက်ပြီး လုပ်ကိုင် စားသောက်နိုင်တဲ့ မြေမျိုးပေါ့။ အဲဒါ ဖဲယားဖီးလ်က ဆန်ဖရန်စစ္စကိုမြို့ကို သွားပြီး ရှေ့နေတွေနဲ့ တိုင်ပင်တယ်။ သူတို့ ပေးလိုက်တဲ့ အကြံအတိုင်း မြို့ပေါ်က တေလေကြမ်းပိုး သုံးရာလောက်ကို စုပြီး အစာ ကျွေးတယ်။ အရက်တိုက်တယ်။ ပြီးတော့ သူတို့ နာမည်တွေနဲ့ မြေ လျှောက်ခိုင်းတယ်။ ခွင့်ပြုချက်လည်း ရရော သူက သူတို့ဆီက တစ်ဆင့် ပြန်ယူတယ်။ သူ့မြေတွေဟာ အဲဒီနည်းနဲ့ ရလာတဲ့ မြေတွေဗျ။ သူက အမြဲ ကြွားလေ့ ရှိတယ်။ သူ ရထားတဲ့ မြေတွေဟာ တစ်ဧကကို အရက်တစ်ပိုင့်ပဲ ပေးရတယ်တဲ့။ အဲဒီနည်းနဲ့ ယူတာကျတော့ ခင်ဗျား ဘယ်လို ပြောမလဲ။ ခိုးယူတယ်လို့ ပြောမလား။

သူ့နည်းလည်း မှန်တဲ့နည်း မဟုတ်ဘူးဗျ။ သူ ဒီလို လုပ်တဲ့အတွက် ထောင်မကျဘူးလား။

မကျပေါင်ဗျာ။ လုံးဝ ထောင်ကို မရောက်ဘူး။ ကုန်တင် မြင်းလှည်းကြီး တစ်စီးထဲကို လေ့တစ်စင်း ထည့်ပေးသလို လုပ်ပေးခဲ့တဲ့ ဖဲယားဖီးလ်ရဲ့ ကြံရာပါလူလည်း ထောင်ကို မရောက်ဘူး။ ကွန်ဂရက် အမတ်တွေနဲ့ တရားရေးဌာက လူတွေကို လာဘ်သွားပေးခဲ့တဲ့ လူတွေလည်း ထောင်ကို လုံးဝ မရောက်ဘူး။

ပြည်နယ် တစ်နယ်လုံး အတွင်းရှိ ဟူးဗားဗီးလ် စခန်းတိုင်းသည် လှုပ်လှုပ်ရွရွ ဖြစ်လာသည်။ ဆူဆူညံညံ ဖြစ်လာသည်။ အုတ်အုတ်ကျက်ကျ် ဖြစ်လာသည်။

ထို့နောက် ရုတ်တရက် အလစ်ဝင်ရောက် ရှာဖွေခြင်းများ။ လက်နက်ကိုင် ပုလိပ်များသည် ကျူးကျော် နေထိုင်လျက် ရှိသူများ၏ စခန်းများအတွင်းသို့ ဝင်ရောက်လာကြသည်။ အားလုံး ထွက်သွားကြဟု နင်သည်။ ကျန်းမာရေးဌာန၏ အမိန့်အရ နင်သည်ဟု ဆိုသည်။ ဤစခန်းသည် ပြည်သူ့ကျန်းမာရေးကို အန္တရာယ် ဖြစ်စေမည့် စခန်း။

ဒီလိုဆို ကျုပ်တို့ ဘယ်သွားနေကြမလဲ။

အဲဒါတော့ ငါတို့ မသိဘူး။ ငါတို့နဲ့လည်း မဆိုင်ဘူး။ ငါတို့အလုပ်က မင်းတို့အားလုံးကို ဒီစခန်းက နှင်ထုတ်ဖို့ပဲ။ နောက် နာရီဝက်အတွင်းမှာ ဒီစခန်းကို မီးလောင်တိုက်သွင်းမှာ။

ဒီနေရာတစ်ဝိုက်မှာ တိုက်ဖွိုက်ရောဂါ ဖြစ်နေတယ်။ ဒီရောဂါကို တစ်နယ်လုံး ပျံ့နှံ့သွားအောင် လုပ်ချင်ကြသလား။

မင်းတို့ အားလုံးကို ဒီနေရာက နှင်ထုတ်ပစ်ရမယ်လို့ ငါတို့ကို အထက်က ညွှန်ကြားထားတယ်။ ကဲ သွားကြ။ နောက် နာရီဝက်ဆိုရင် စခန်းကို မီးရှို့ပစ်မှာ။

နောက် နာရီဝက်ခန့် အကြာတွင် စက္ကူအိတ်များ၊ မြက်ခြောက်များ မိုးထားသည့် တဲစုတ် တဲပျက်များဆီမှ မီးခိုးလုံးကြီးများသည် ကောင်းကင်သို့ တလိပ်လိပ် ထိုးတက်လာသည်။ အဝေးပြေးလမ်းမကြီးပေါ်တွင် တရွေ့ရွေ့ သွားနေသည့် မော်တော်ကားများ။ ထိုကားများသည် နောက်တစ်နေရာတွင် ရှိနေသည့် ဟူးဗားဗီးလ် စခန်းကို လိုက်လံရှာဖွေနေသော ကားများ ဖြစ်၏။

ကင်းဆတ်၊ အာကင်ဆတ်နှင့် အုတ်ကလာဟိုးမား ပြည်နယ်များ။ ပြီးတော့ တက္ကဆတ်နှင့် နယူးမက္ကဆီကို ပြည်နယ်များ။ ထိုပြည်နယ်များ အတွင်းရှိ လယ်မြေများ အတွင်းသို့ ထွန်စက်ကြီးများသည် အဆက်မပြတ် ဝင်ရောက်လျက် ရှိကြသည်။ ထိုမြေများပေါ်၌ နေထိုင်လျက် ရှိကြသော စာရင်းငှားများကိုလည်း တရကြမ်း တွန်းထုတ်နေကြလေသည်။

ကယ်လီဖိုးနီးယား ပြည်နယ်အတွင်းသို့ လူ သုံးသိန်း ရောက်လာသည်။ နောက်ထပ်လည်း ရောက်လာမစဲ တသဲသဲ။ အလုပ် ရရှိရေးအတွက် အရှုးအမူးဖြစ်ကာ လမ်းများပေါ်၌ ပုရွက်ဆိတ်များသဖွယ် အပြေးအလွှား လှုပ်ရှား သွားလာနေကြသည့် လူစုလူဝေးကြီးမှာ နည်းနည်းနောနော မဟုတ်။ လူတစ်ယောက် အလုပ်ရလျှင် ထိုအလုပ်အတွက် လက်ကမ်းလာသည့် လက်ပေါင်း ငါးစုံမျှ ကျန်ခဲ့သည်။ လူတစ်ယောက် ဝသည့်အခါတိုင်း ပါးစပ်ပေါက် ငါးပေါက်သည် ဟောင်းလောင်းဖြစ်၍ ကျန်ခဲ့ခြင်းပေတည်း။

ဖြုန်းခနဲ ဒိုင်းခနဲ ရုတ်တရက် ဖြစ်ပွား ပေါ်ပေါက်လာတတ်သော အပြောင်းအလဲကြီး တစ်ခု အတွင်း၌ မိမိတို့ပိုင် မြေများကို လက်လွှတ်ခံကြရတော့မည့်

မဟာပိုင်ရှင်ကြီးများ။ သမိုင်းဖြစ်စဉ် အတွင်းသို့ ဝင်လိုက ဝင်၍ ထွက်လိုက ထွက်နိုင်သော အခွင့်အလမ်းကို ရနေကြသည့် မဟာပိုင်ရှင်ကြီးများသည် သမိုင်းကို ဖတ်ရှုလေ့လာနိုင်သည့် မျက်စိများ ပိုင်ဆိုင်နေကြသည် ဖြစ်ရာ အခြေအနေတစ်ရပ်လုံး၏ ပဓာနကျသော အချက်တစ်ချက်ကို ကောင်းစွာ သိမြင် နားလည်နေကြ၏။ ယင်းအချက်မှာ အခြား မဟုတ်။ ပစ္စည်းဥစ္စာများသည် အရေအတွက်အားဖြင့် အလွန် နည်းပါးသော လက်တစ်ဆုပ်စာ လူတစ်စု၏ လက်တွင်း၌ သွား၍ စုနေပါက တစ်ချိန်ချိန်၌ ပြန်လည် လက်လွှတ်ရတတ်သည် ဟူသော အချက်ပေတည်း။ ယင်းအချက်၏ အပေါင်းအပါ မိတ်ဆွေတစ်ဦးသဖွယ် ဖြစ်နေသော အချက်တစ်ချက်လည်း ရှိနေသေး၏။ ယင်းအချက်မှာ အခြား မဟုတ်။ အကယ်၍ လူများစုသည် ဝမ်းမဝ ခါးမလှ၍ ငတ်ပြတ်ခြင်းနှင့် အေးမြခြင်း ဒဏ်များကိုပါ ခံနေရပါက တစ်နေ့နေ့ တစ်ချိန်ချိန်တွင် သူတို့၌ လိုအပ်နေသည့် အရာများကို အတင်းအဓမ္မနည်း သို့မဟုတ် အကြမ်းနည်းဖြင့် ရယူလိမ့်မည် ဟူသော အချက်ပေတည်း။

ထို့ပြင်လည်း အသေးအဖွဲ တစ်ခုဟု ထင်ရသလောက် အလွန် အရေးပါ အရာရောက်သော လူ့သမိုင်း တစ်လျှောက်လုံး၌ စဉ်ဆက်မပြတ် ပေါ်ပေါက်လာတတ်သော အချက်တစ်ချက်လည်း ရှိသေး၏။ ယင်းအချက်မှာ အခြား မဟုတ်။ ဖိနှိပ်ခြင်းသည် အဖိနှိပ်ခံ လူတန်းစား တစ်ရပ်လုံးအား ပေါင်းစည်းခြင်း၊ ညီညွတ်ခြင်းနှင့် ခိုင်မာတောင့်တင်းခြင်းကို ဖြစ်ပေါ်စေသည် ဟူသော အချက်ပေတည်း။ တစ်နည်းအားဖြင့် ပြောရလျှင် ထိုအချက် သုံးချက်သည် လူ့သမိုင်း၏ ဟစ်အော် ကြွေးကြော်သံ သုံးခု ဖြစ်သည်။ မဟာပိုင်ရှင်ကြီး များသည် ယင်းဟစ်အော် ကြွေးကြော်သံ သုံးခုကို လျစ်လျူရှုထားကြ၏။

လက်တစ်ဆုပ်စာမျှသော လူနည်းစု၏ လက်တွင်းသို့ မြေ အများအပြား သက်ဆင်းသွားသည့် အခါတိုင်း မြေမဲ့ ယာမဲ့ ပစ္စည်းမဲ့ အခြေအနေမဲ့ အလုပ်မဲ့ လူများ၏ အရေအတွက်သည် တိုးတက် များပြားလာသည်။ ထိုအခါ မဟာပိုင်ရှင်ကြီးများ လုပ်သမျှ အလုပ်တို့သည် ဖိနှိပ်မှုကို ဦးတည်လာသည်။ လက်နက်များအတွက် ငွေကို ရေလို သုံးသည်။ သူတို့မြေများကို အကာအကွယ် ပေးနိုင်ရန် ဟူသော ရည်ရွယ်ချက်ဖြင့် ဓာတ်ငွေ့များများ သုံးစွဲရန်အတွက် ငွေကို ဗုံးပေါလအော သုံးသည်။ တော်လှန်ရေး၏ ဆွေးနွေးသံများ၊ ပြောဆိုသံများ၊ ညည်းတွား ရေရွတ်သံများနှင့် ငိုကြွေး မြည်တမ်းသံများကို သိရှိနိုင်ရန် ဟူသော ရည်ရွယ်ချက်ဖြင့် သူလျှိုများ စေလွှတ်ရေး လုပ်ငန်းအတွက် ငွေကို

အလျှံပယ်သုံးသည်။ ပြောင်းလဲ ဖြစ်ပေါ်လာနေသည့် စီးပွားရေး အခြေအနေကို လုံးဝ အသိအမှတ် မပြု။ အပြောင်းအလဲအတွက် ချမှတ် ဆောင်ရွက်သင့်သည့် အစီအစဉ် ဟူသမျှကိုလည်း လုံးဝ ထည့်သွင်း စဉ်းစားခြင်း မပြု။ မဟာပိုင်ရှင်ကြီးများ အနေဖြင့် တော်လှန်ပုန်ကန်မှုကို နှိမ်နင်း ဖျက်ဆီးပစ်ရန် ဟူသော အချက် တစ်ချက်တည်းကိုသာ အလေးထား၍ စဉ်းစားကြသည်။ သူတို့အနေဖြင့် တော်လှန် ပုန်ကန်မှုကို ဖြစ်ပေါ်နိုင်စေသည့် အကြောင်းများ ဆက်လက်၍ မရပ်မနား ဖြစ်ပေါ်နေသည်ကို လုံးဝ သတိမထား။

လူအများကို အလုပ်ခွင်မှ မောင်းနှင်ထုတ်လိုက်သည့် ထွန်စက်ကြီးများ၊ ကုန်ပစ္စည်းများကို သယ်ယူသည့် ကိရိယာများနှင့် ကုန်ပစ္စည်း ထုတ်လုပ်သော စက်များ အရေအတွက်သည် တိုးသည်ထက် တိုးလာသည်။ ထိုအခါ သွေးပျက်မတတ် ကြောက်လန့် ပူပန်ပြီး ထွက်ပြေးလာကြသည့် မိသားစုများ အရေအတွက်သည် အဝေးပြေး ကားလမ်းမကြီးများ ပေါ်ဝယ် များသည်ထက် များလာသည်။ မဟာပိုင်ရှင်ကြီးများ၏ အရိုးအရင်းနှင့် စားကြွင်းစားကျန်များကို ရှာကြ ဖွေကြသည်။ လုကြ ယက်ကြသည်။ သူတို့ သွားရမြန်ရာ လမ်းမကြီးများ၏ ဘေးတစ်ဖက်တစ်ချက်၌ တည်ရှိနေသည့် မြေများကို ကြည့်ကာ ရယူပိုင်ဆိုင်လိုသော လောဘစိတ်ဖြင့် သွားရည်ကျကြသည်။

မဟာပိုင်ရှင်ကြီးများကတော့ သူတို့ကိုယ် သူတို့ ကာကွယ်ရန် အသင်းများ ဖွဲ့ကြသည်။ အချင်းချင်း ဆုံပြီး ခြိမ်းခြောက်ရန်၊ သတ်ဖြတ်ရန်နှင့် ဓာတ်ငွေ့များ လွှတ်ရန် တိုင်ပင် ဆွေးနွေးကြသည်။ သူတို့အားလုံးသည် လူ သုံးသိန်း ဟူသော အရာတစ်ခုတည်းကိုသာ အမြဲတစေ တွေး၍ ကြောက်လန့်နေကြသည်။ အကယ်၍သာ ထိုလူ သုံးသိန်းသည် တစ်ဦးတည်းသော ခေါင်းဆောင်မှုအောက်တွင် စုစည်းမိပါမူ တွေးဝံ့စရာ ရှိ။ မိမိတို့ အားလုံး ပျက်စီးကြရတော့မည်။ ထို့ကြောင့် လူ သုံးသိန်း..၊ အငတ်ငတ် အပြတ်ပြတ် ဖြစ်ကာ ဆင်းရဲဒုက္ခ ရောက်နေကြသည့် လူ သုံးသိန်း..။

အကယ်၍သာ ထိုလူ သုံးသိန်းသည် သူတို့ဘဝအကြောင်းကို သူတို့ဘာသာ သူတို့ သိမြင် နားလည်သွားကြမည် ဆိုပါက မြေအားလုံးသည် သူတို့ လက်တွင်းသို့ သက်ဆင်း သွားပေတော့မည်။ အားလုံးသော ဓာတ်ငွေ့များနှင့် ဤကမ္ဘာပေါ်တွင် ရှိနေသမျှသော ရိုင်ဖယ်သေနတ်များသည် သူတို့အား တန့်သွားအောင် ရပ်သွားအောင် တားဆီး ပိတ်ပင်နိုင်လိမ့်မည် မဟုတ်။ ဤသို့ဖြင့် မဟာပိုင်ရှင်ကြီးများသည် သူတို့၏

ပျက်စီးရာ ပျက်စီးကြောင်းပေါ်၌ ပြေးသွားကြသည်။ ရေရှည်ခရီးတွင် သူတို့အား ဖျက်ဆီးပစ်မည့် နည်းလမ်းများကို အသုံးပြုကြသည်။ ဒုက္ခသည်များ ခိုနားရာ ဟူးဗားဗီးလ် စခန်းများအတွင်းသို့ အတင်းအဓမ္မ ဝင်ရောက်စေခြင်း စသော နည်းလမ်းများမှ စ၍ အကြမ်းဖက်၍ ရှင်းသော နည်းအမျိုးမျိုးကို သုံးကြသည်။ ခါးတွင် ခြောက်လုံးပြူးများ လွယ်ထားသည့် ပုလိပ်များသည် ဟန်ရေး ဝါရေး ပြကြသည်။ စခန်းအတွင်း၌ လူသူ လေးပါး မကျန်အောင် လုပ်ကြသည်။

ယောက်ျားများသည် ခြေပစ်လက်ပစ် ထိုင်နေကြသည်။ မျက်နှာများက ငေါ်စင်းစင်း။ အစားအစာ မစားရသဖြင့် ပိန်လှီသေးကွေးနေကြသည်။ ဝတ်ပြတ်ခြင်း ဒဏ်ကို ခက်ခဲ ပင်ပန်းစွာဖြင့် ကြံ့ကြံ့ခံ၍ ပြန်လည် တွန်းလှန် တိုက်ခိုက်နေကြသည်။ အေးစက်မာကျောနေသည့် မျက်လုံးများနှင့် တင်းတင်းစေ့ထားသည့် နှုတ်ခမ်းများ။ အလွန် မြေသြဇာ ကောင်းသည့် လယ်ယာများသည် သူတို့ ပတ်ပတ်လည်တွင် အပြည့်။

ဟိုး စတုတ္ထမြောက်တဲက ကောင်လေးရဲ့ အဖြစ်ကို ကြားပြီးကြပြီလား။ သိန်းသည် တစ်ဦးတည်းသော ခေါင်းဆောင်မှုအောက်တွင် စုစည်းမိပါမူ တွေးဝံ့စရာ မရှိ။ မိမိတို့ အားလုံး ပျက်စီးကြရတော့မည်းဒံ

ဟင်။

ဟင့်အင်း။ မကြားမိဘူး။ ကျုပ်က အခုမှ ရောက်လာတာ။

ကောင်လေးက အိပ်ရာထဲမှာ တလူးလူး တလိမ့်လိမ့် ဖြစ်ပြီး တောက်လျှောက် ငိုနေတယ်တဲ့။ ဗိုက်ထဲက နာလို့တဲ့။ သူ့မိသားစုကတော့ သန်ထိုးတယ်လို့ ထင်နေကြတယ်။ ဒါနဲ့ သန်ချပေးကြတယ်။ ဒါပေမဲ့ မသက်သာဘူး။ နောက်ကျတော့ သေရော။ သေတော့မှ ကောင်လေးဖြစ်တဲ့ ရောဂါက သူတို့ အရပ်စကားနဲ့ ခေါ်ရရင် လျှာအညိုအမည်းစွဲတဲ့ ရောဂါပေါ့ဗျာ။ ဒီရောဂါမျိုးက အာဟာရပြည့်တဲ့ အစားအစာမျိုး မစားရရင် ဖြစ်တတ်တယ်။

သနားပါတယ်ဗျာ။

ဒါပေါ့။ သနားစရာပေါ့။ အခုလည်း ကောင်လေး အလောင်းကို မသင်္ဂြိုဟ်နိုင်ကြရာ ဘူးဗျ။ ကလေကချေ မြှုပ်သလို မြှုပ်ရတော့မယ်။

အဖြစ်ကတော့ တကယ်ဆိုးတာပဲဗျာ။ ငရဲကျနေသလိုပဲ။

သူတို့လက်များသည် သူတို့၏ အင်္ကျီအိတ်ကပ်များအတွင်းသို့ နိုက်ကြသည်။ ပြန်ထွက်လာတော့ ငွေစပြားကလေးများ ကိုယ်စီ ပါလာကသည်။ မကြာခင် အချိန်အတွင်းမှာပင် ကလေးငယ် သေဆုံးသွားသည့် ရွက်ထည်တဲရှေ့၌ ငွေပုံကလေး တစ်ပုံ ရောက်လာသည်။ ထိုငွေပုံကို တဲရှင် မိသားစုက တွေ့သည်။

ငါတို့ လူတွေဟာ လူကောင်းတွေပါ။ ငါတို့ လူတွေဟာ သနားကြင်နာတတ်တဲ့စိတ် အပြည့်အဝရှိတဲ့ လူတွေပါ။ တစ်ဖက်သားအပေါ် ကြင်နာ သနားတတ်ပြီး မေတ္တာထားတတ်ကြတဲ့ လူအားလုံးကို ဆင်းရဲ ငတ်ပြတ်မနေအောင် ဖန်ဆင်းပေးတော်မူပါလို့ ဘုရားသခင်ဆီမှာ ဆုတောင်းကြပါဦး။ ကလေးတစ်ယောက်အနေနဲ့ သူ ရသင့် ရထိုက်တဲ့ အစားအစာကို စားနိုင်တဲ့နေ့ ရောက်လာအောင် ကူညီစောင့်ရှောက်ပေးပါလို့လည်း ဘုရားသခင်ဆီမှာ ဆုတောင်းကြပါဦး။

မဟာပိုင်ရှင်ကြီးများက ဖွဲ့စည်း တည်ထောင်ထားသည် အသင်းများကမူ တစ်နေ့နေ့ တစ်ချိန်ချိန်တွင် ထိုဆုတောင်းသံများ လုံးဝ ရပ်စဲသွားလိမ့်မည်ဟု သိနေကြ၏။

ထို့နောက်တွင် အဆုံးသည် ရှိလာမည် ဖြစ်၏။

* * *

## အခန်း (၂၈)

မိသားစုသည် ကားပေါ်ရှိ ပစ္စည်းပုံထိပ်တွင် ထိုင်လျက် ရှိကြသည်။ ကလေးနှစ်ယောက်၊ ကွန်နီနှင့် ရိုစာဟန်။ ပြီးတော့ တရားဟောဆရာ။ အားလုံး ငြိမ်ဆိတ်နေကြသည်။ မျက်နှာများကလည်း သာသာယာယာ ကြည်ကြည်လင်လင် မရှိ။ သူတို့ ထရပ်ကားသည် ဘေကားဖီးလ် မြို့တွင်းမှ သေမှုသေခင်း အရာရှိ၏ ရုံးရှေ့ နေပူကျဲကျဲထဲ၌ ရပ်ထားခြင်း ဖြစ်၏။ အဖေဂျုတ်၊ အမေဂျုတ်နှင့် ဦးလေးဂျွန်တို့ကတော့ ရုံးခန်းထဲ ရောက်နေကြလေသည်။ ထိုရုံးခန်းအတွင်းမှ ခေါင်းတစ်လုံး ထုတ်လာသည်။ အဝတ်ဟောင်း များဖြင့် လုံအောင် ထုပ်ထားသော ထရပ်ကားပေါ်မှ အလောင်းကို အောက်သို့ ချသည်။ အလောင်းစစ်ဆေးသည့် အလုပ်ကို နေပူကြီးထဲမှာပင် လုပ်ကြသည်။ သေဆုံးရသည့် အကြောင်းအရင်းကို ရှာဖွေ တွေ့ရှိသောအခါ အရာရှိလုပ်သူက သေစာရင်း ပုံစံထဲတွင် လက်မှတ်ထိုးလေသည်။

လမ်းမပေါ်၌ ဟိုလျှောက် သည်လျှောက် လျှောက်လုပ်နေကြသော အယ်လ်နှင့် တွမ်တို့ ညီအစ်ကိုသည် စတိုးဆိုင်များဆီသို့ လှမ်း၍ ကြည့်သည့်အခါ ကြည့်သည်။ လမ်းတစ်ဖက်တစ်ချက်ရှိ ပလက်ဖောင်းများပေါ်၌ လျှောက်သွားနေကြသည့် လူစိမ်းများဆီသို့ စိတ်ဝင်တစား ကြည့်သည့်အခါလည်း ကြည့်သည်။

နောက်ဆုံးတွင် ရုံးခန်းထဲမှ အဖေ၊ အမေနှင့် ဦးလေးဂျွန်တို့ ပြန်ထွက်လာကြသည်။ သုံးယောက်စလုံး စိတ်လက်ပေါ့ပါးသွားသည့် လက္ခဏာ ရှိသော်လည်း နှုတ်ကတော့ ဆိတ်လျက် ရှိသည်။ ဦးလေးဂျွန်က ကားနောက်မြီးကို ဆွဲ၍ ကားပေါ်သို့ တက်ကာ ပစ္စည်းပုံပေါ်၌ ထိုင်သည်။ အဖေနှင့် အမေတို့က ကားရှေ့ခန်းထဲရှိ သူတို့နေရာတွင် ပြန်ထိုင်ကြသည်။ လမ်းပေါ်မှ အယ်လ်နှင့်တွမ်တို့သည် ကားဆီသို့ ပြန်လျှောက်လာကြသည်။ တွမ်က ဒရိုင်ဘာ ထိုင်ခုံတွင် ဝင်ထိုင်သည်။ သူသည် သူ့နေရာတွင် ငြိမ်ဆိတ်စွာ ထိုင်လျက် ရှိ၏။ အဖေနှင့် အမေတို့က ဘာပြောမလဲ ဟူသော အတွေးဖြင့် စောင့်မျှော်သည်။ အဖေသည် မလှုပ်မယှက်။ သူ့ရှေ့တည့်တည့်သို့ စူးစူးစိုက်စိုက် ကြည့်နေသည်။ သူ့ခေါင်းထက်မှ အနက်ရောင် ဦးထုပ်သည် ရှေ့သို့ စိုက်ကျလျက် ရှိ၏။ အမေကတော့ သူ့ပါးစပ်ထောင့်များကို လက်ချောင်းများဖြင့် ပွတ်နေသည်။ အဝေးသို့ လှမ်းမျှော်လျက်ရှိသော အမေ့မျက်လုံးများသည် မည်သည့်

အရာဝတ္ထုကိုမှ မမြင်တော့သည့်နယ ရှိသည်။ အမေသည် စိတ်ရောကိုယ်ပါ ပင်ပန်းလွန်းသဖြင့် အရုပ်ကြိုးပြတ် ဖြစ်လျက် ရှိလေပြီ။

အဖေကတော့ သက်ပြင်းတစ်ချက် ချလေသည်။ "တို့အနေနဲ့ ဒီထက်ပိုပြီး လုပ်ပေးနိုင်တာလည်း မရှိတော့ဘူး" ဟု ရေရွတ်သည်။

"ကျွန်မ သိပါတယ်" ဟု အမေက ဆိုသည်။ "သူ့အနေနဲ့တော့ ကောင်းကောင်းမွန်မွန် သိုက်သိုက်ဝန်းဝန်း သင်္ဂြိုဟ်တာကို ကြိုက်မှာပေါ့၊ အဲသလို သင်္ဂြိုဟ်တာမျိုးကို ကြိုက်တယ်လို့ သူမသေခင်က အမြဲ ပြောနေခဲ့တာပဲ"

တွမ်က သူ့အဖေနှင့် အမေကို မျက်လုံး ထောင့်ကပ်၍ ကြည့်သည်။ "ကောင်တီကပဲ သင်္ဂြိုဟ်ပေးမှာလား" ဟု မေးသည်။

"အင်း" အဖေဂျုတ်သည် နောက်ကျို ရှုပ်ထွေးနေသည့် သူ့ခေါင်းကို ကြည်ကြည်လင်လင် ဖြစ်သွားအောင် အားထုတ်လိုက်သည်အလား ဦးခေါင်းကို ယမ်းလိုက်သည်။ "ငါတို့မှာ ငွေကြေး မပြည့်စုံဘူး၊ အခြေအနေက လုပ်ချင်သလို လုပ်လို့ မရနိုင်ဘူး" သူသည် စိတ်မကောင်းဖြစ်သည့် မျက်နှာထားဖြင့် အမေ့အား လှည့်ကြည့်သည်။ "မင်းအနေနဲ့ စိတ်မကောင်း မဖြစ်စေချင်ဘူး၊ အဆင်ပြေပြေ ဖြစ်သွားအောင် ငါတို့ ဘယ်လောက် ကြိုးစားခဲ့ကြသလဲ၊ ဒါပေမဲ့ မပြည့်စုံတော့ မဖြစ်မြောက်ဘူးပေါ့၊ အလောင်းကို မပုပ်မသိုးအောင် ဆေးထိုးပေးဖို့၊ ခေါင်းတစ်လုံး ကောင်းကောင်း လုပ်ပေးဖို့၊ တရားဟောဆရာတစ်ယောက် ခေါ်ဖို့၊ သုသာန်မှာ မြေနေရာကောင်းကောင်း တစ်ကွက်ရဖို့ ဆိုတာတွေက အင်မတန် စရိတ်ကြီးတယ်၊ ငါတို့ လက်ထဲမှာ ရှိနေတဲ့ ငွေထက် ဆယ်ဆလောက် ရှိပါမှ လုံလောက်မှာ၊ အခုဟာကတော့ ငါတို့မှာ ရှိနေတဲ့ အခြေအနေအရ အကောင်းဆုံး ဖြစ်အောင် လုပ်ခဲ့တာပါ"

"သိပါတယ်" ဟု အမေက ပြောသည်။ "ဒါပေမဲ့ သူ ပြောခဲ့တဲ့ စကားကို ကျွန်မ မေ့လို့မရဘူး၊ မေ့သွားအောင် ကြိုးစားရမှာပေါ့" အမေသည် သက်ပြင်းရှည်ကြီးတစ်ချက်ကို ချသည်။ "ဟိုလူက သဘောတော့ ကောင်းပါရဲ့၊ ဒါပေမဲ့ စိတ်ပျက်စရာ ကောင်းလောက်အောင်ကို အာဏာပြတာပဲ"

"အင်း မဆိုးပါဘူး" ဟု အဖေက ရေရွတ်သည်။

အမေသည် သူ့ဆံစများကို လက်နှင့် သိမ်း၍ သပ်လိုက်သည်။ "ကျွန်မတို့ နေစရာ တစ်နေရာတော့ ရှာမှ ဖြစ်တော့မယ်၊ အလုပ်အကိုင် ရှာဖွေပြီး နေသားတကျ ဖြစ်အောင်တော့ လုပ်ကြမှ ကလေးတွေကို ငတ်အောင် ပြတ်အောင် လုပ်လို့တော့ မဖြစ်ဘူး၊ အခု အဘွားဂျူတ် ဖြစ်သလိုလည်း မဖြစ်စေချင်တော့ဘူး"

"ကဲ ကျုပ်တို့ ဘယ်သွားကြမလဲ" ဟု တွမ်က မေးသည်။

အဖေက ရှေ့သို့ ငိုက်ကျနေသော ဦးထုပ်ကို ဆွဲချွတ်လိုက်ပြီး သူ့ခေါင်းကို ဖြစ်ဖြစ်မြည်အောင် ကုတ်လိုက်သည်။ "စခန်းတစ်ခုကို သွားကြတာပေါ့" ဟု ပြောသည်။ "တို့မှာ ရှိတဲ့ လက်ကျန်ငွေကို အလုပ်ရတဲ့အထိ ခြစ်ကုတ်ပြီး သုံးရမှာ၊ နေစရာ ထိုင်စရာအတွက် အကုန်အကျ မခံနိုင်ဘူး၊ တောင်ပိုင်းကိုသာ မောင်းကွာ"

တွမ်က ကားစက်ကို နှိုးသည်။ ထရပ်ကားသည် မြို့တွင်းလမ်းများကို တစ်လမ်းဝင် တစ်လမ်းထွက် ဖြတ်သန်းကာ မြို့ပြင်သို့ ထွက်လာသည်။ တစ်နေရာတွင် တံတားတစ်ခု၊ ထိုတံတား၏ ဘေးတစ်ဖက်တွင် ရွက်ထည်တဲများနှင့် ဖြစ်ကတတ်ဆန်း ဆောက်ထားသည့် တဲစုတ်တဲပုတ်များ။ "ကျုပ်တို့ ဒီမှာပဲ ဝင်တည်းရင် ကောင်းမယ်ထင်တယ်" ဟု တွမ်က ပြောသည်။ "ဒီမှာ ဝင်ပြီး အခြေအနေ စုံစမ်းကြည့်မယ်၊ အလုပ်အကိုင် ဘယ်မှာ ရနိုင်မလဲ ဆိုတာလည်း သိနိုင်တာပေါ့" သူသည် ကားကို လမ်းဘေးသို့ ဖဲ့ဆင်းကာ စခန်း၏ တစ်ဖက်အစွန်းတွင် ထိုးလိုက်လေ၏။

စခန်းတစ်ခုလုံး ပစ်စလက်ခတ် နိုင်လွန်းလှ၏။ စည်းနှင့်ကမ်းနှင့် စနစ်တကျ တည်ဆောက်ထားသည့် စခန်းတစ်ခု မဟုတ်ပေ။ မွဲခြောက်ခြောက် အရောင်အဆင်းနှင့် ရွက်ထည်တဲများ။ အစုတ်စုတ် အပြတ်ပြတ် ဖြစ်နေသော တဲများ။ မော်တော်ကားများမှာ ဟိုတစ်စင်း သည်တစ်စင်း ထိုးချင်သလို ထိုး၍ ရပ်ချင်သလို ရပ်ထားသည်။

ပထမဆုံး တွေ့ရသည့် စခန်း မျက်နှာစာမှ ပထမဆုံးသော အိမ်သည် ပုံပျက် ပန်းပျက်။ အိမ်၏ တောင်ဘက် နံရံသည် သံချေး အထပ်ထပ် တက်နေသည့် သံပြားကြီး သုံးချပ်ကို ဆက်၍ ကာရံထားသော နံရံဖြစ်သည်။ အရှေ့ဘက်နံရံမှာ မှိုတက်နေပြီဖြစ်သော ကော်ဇောဟောင်း တစ်ချပ်ကို သစ်သားပြား နှစ်ချပ်ကြားတွင် ညှပ်၍ ကာထားခြင်း ဖြစ်၏။ မြောက်ဘက် နံရံမှာ အိမ်မိုးစက္ကူ အထူစား အဟောင်းများနှင့် အပေါက်ဗရပွ ဖြစ်နေသော ကင်းဘတ်စ တစ်စကို ဆက်ထားခြင်း ဖြစ်၏။ အနောက်ဘက် နံရံမှာမူ

ဂုန်နီအိတ်ဟောင်းများကို ဆက်၍ ကာထားခြင်း ဖြစ်လေသည်။ စတုရန်းပုံ ဖြစ်နေသော ထိုနံရံ လေးဖက်ပေါ်ရှိ တန်းပစ်၍ တင်ထားသော မိုးမခသား သစ်ကိုင်းများမှာလည်း စီစီညီညီ မဟုတ်။ ထိုသစ်ကိုင်းတန်းများ အပေါ်၌ အမိုးအဖြစ် တင်ထားသည့် မြက်ခြောက်များသည် ဟိုတစ်ပုံ သည်တစ်ပုံ။ မသေမသပ်နှင့် တော်စွ လျော်စွ တင်ထားသည့် အမိုးပေတည်း။

ဝင်ပေါက်သည် ဂုန်နီအိတ်ကာ နံရံဘက်တွင် တည်ရှိသည်။ ထိုဝင်ပေါက်အဝ၌ ထားသည့် ပစ္စည်းများမှာ မြင်လို့ မကောင်းအောင် ရှုပ်ပွလျက် ရှိ၏။ မီးဖိုအတွက် ထားသည့် ငါးဂါလံဝင် ရေနံဆီ ပုံးဟောင်း တစ်ပုံးသည်။ ရေနံဆီ မီးဖိုဘေး၌ အဆင်သင့်။ သံချေးတက်နေသော ရေနံဆီ မီးဖိုပိုက်သည် မီးဖို၏ အစွန်းတစ်ဖက်တွင် ထိုးထိုးထောင်ထောင်။ အဝတ်ဟောင်းပြုတ်သည့် ဘွိုင်လာအိုးဟောင်း တစ်လုံးသည် တစ်ဖက်သော နံရံကို မှီလျက်။ ကုလားထိုင်အဖြစ်၊ ထမင်းစား စားပွဲအဖြစ် သုံးရန် ချခင်းထားသည့် ထင်းရှူးသေတ္တာဟောင်းများ ကတော့ ဟိုတစ်လုံး သည်တစ်လုံး ပြန့်ကျဲလျက် ရှိကြလေသည်။ တီပုံစံ အင်ဒင် အမျိုးအစား ဖို့ဒ်ကား တစ်စီးနှင့် နှစ်ဘီးတပ် ထရေလာ နောက်ဆွဲတစ်ခုသည် တဲဘေး၌ ရပ်လျက်။ မျှော်လင့်ချက် ကင်းမဲ့နေသည့် အရိပ်အသွင် လက္ခဏာများသည် တဲ၏ အတွင်း အပြင် ပတ်ဝန်းကျင်ကို လွှမ်းခြုံလျက် ရှိလေသည်။

ထိုတဲနှင့် ကပ်လျက် တစ်ဖက်တွင် ရွက်ထည်တဲ တစ်လုံး။ ရာသီဥတုဒဏ်ကို ခံစားရသဖြင့် တဲ၏ ရွက်ထည်မှာ အရောင်အဆင်း ကင်းမဲ့နေပြီ။ သို့သော်လည်း တဲထိုးထားပုံမှာ ဖြစ်ကတတ်ဆန်း မဟုတ်။ စနစ်ကျသည်။ သပ်ရပ်သည်။ တဲရှေ့တွင် နံရံကို မှီ၍ ချထားသော သေတ္တာဟောင်းများသည် စီစီညီညီ ရှိသည်။ ရေနံဆီ မီးဖိုပိုက်သည် တဲ၏ တံခါးပေါက် အပေါ်ဘက်မှ နေ၍ အပြင်သို့ ထိုးထွက်လျက် ရှိ၏။ တဲရှေ့ မျက်နှာစာတွင် အမှိုက်သရိုက်နှင့် ဖုန်များ မရှိအောင် လှည်းကျင်းထားသည်။ အဝတ်ဟောင်းများ ထည့်၍ ရေစိမ်ထားသည့် ဇလုံကြီး တစ်လုံးကို သေတ္တာတစ်လုံးပေါ်၌ ချထားသည်။ ထိုတဲကျတော့ အတွင်းရော အပြင်ပါ သန့်ရှင်းသည်။ သပ်ရပ်သည်။ အေပုံစံ အမိုးဖွင့် မော်တော်ကား တစ်စီးနှင့် လက်ဖြစ် အိပ်စင် ထရေလာ တစ်ခုသည် တဲဘေး၌ ရပ်လျက်။

ထိုတဲ၏ တစ်ဖက်ရှိ ရွက်ထည်တဲမှာ တဲကြီး ဖြစ်သည်။ ရွက်ထည် တစ်ထည်လုံး ရစရာ မရှိအောင် စုတ်ပြတ် ပေါက်ပြဲလျက် ရှိ၏။ အချို့သော အပေါက်ကြီးများကို ဝါယာကြိုးများဖြင့် တွဲချည်ထားသည်။ တဲ၏ ရွက်ထည် တံခါးသည် ပွင့်လျက် ရှိ၏။

တဲ၏ အတွင်းဘက်တွင် မွေ့ရာဟောင်း လေးခု ချခင်းထားသည်။ ကြိုးတန်း၍ လှန်းထားသည့် အဝတ်အစားများမှာလည်း အများအပြား။ စခန်းတွင် ရွက်ထည်တဲနှင့် ဖြစ်သလို ဆောက်လုပ်ထားသည့် တဲစုတဲပုတ်ပေါင်း လေးဆယ်ရှိ၏။ တဲတစ်လုံးစီ၏ ဘေးတွင် မော်တော်ကားဟောင်း တစ်စီးကျစီ ရှိသည်။ မော်တော်ကားဟောင်းများသည် ပုံစံအမျိုးမျိုး။ တစ်စီးနှင့်တစ်စီး အမျိုးအစားချင်း မတူ။ တဲတန်းကြီး၏ တစ်ဖက်သော အစွန်းတွင် ကလေးတစ်စု ရပ်နေကြသည်။ ကလေးများသည် အသစ်ရောက်လာသော ထရပ်ကားကြီးကို ဆီး၍ ကြည့်နေကြသည်။ ပြီးတော့ ကားဆီသို့ လျှောက်လာကြသည်။ ကလေးငယ်များတွင် ဖိနပ်မပါ။ သူတို့ ဆံပင်များသည် ဖုန်များဖြင့် ကပ်ကာ မွဲခြောက်နေကြလေသည်။

တွမ်က မော်တော်ကား စက်ကို သတ်ကာ သူ့အဖေအား ငဲ့ကြည့်သည်။ "စခန်းက သိပ်မဟန်ဘူး၊ နောက်တစ်နေရာကို သွားကြမလား" ဟု မေးသည်။

"ငါတို့ ဘယ်နေရာ ရောက်နေတယ်ဆိုတာ မသိသေးဘဲနဲ့ နေရာသစ်တစ်ခု ထပ်ရှာနေလို့ မဖြစ်သေးဘူးကွ" ဟု အဖေက ဆိုသည်။ "အလုပ်အကိုင် အကြောင်း စုံစမ်းဖို့ကလည်း လိုသေးတယ် မဟုတ်လား"

တွမ်က ကားတံခါးကို ဖွင့်၍ ဆင်းသည်။ သူ ဆင်းတော့ ကားနောက်ထဲရှိ ပစ္စည်းပုံပေါ်မှ မိသားစုသည် အောက်သို့ ဆင်းလာကြပြီး စခန်းအတွင်းမှ တဲများကို အထူးအဆန်းတစ်ခု မြင်တွေ့နေရသည့်နှယ် စိတ်ဝင်တစား ကြည့်နေကြလေသည်။ ခရီးသည်များ လုပ်နေကျ အလေ့အထကို ကောင်းစွာ နားလည်နေကြပြီ ဖြစ်သော ရှုသီနှင့် ဝင်းဖီးတို့ မောင်နှမကတော့ ကားပေါ်မှ ရေပုံးများကို ယူ၍ အုပ်အုပ်ဆိုင်းဆိုင်း ဖြစ်နေသော မိုးမခပင်စုစု ရှိရာသို့ ထွက်သွားကြသည်။ ထိုနေရာမျိုးတွင် ရေရှိတတ်သည်ကို သူတို့ သိနေကြပြီ မဟုတ်ပါလား။ စောစောက ဝိုင်းကြည့်နေကြသော ကလေးအုပ်စုသည် ရှုသီတို့နောက်မှ ကောက်ကောက်ပါအောင် လိုက်သွားကြလေ၏။

ပထမဆုံးတဲ၏ ဂုန်နီအိတ် အစသည် တစ်ဖက်သို့ လန်သွားပြီး အတွင်းမှ အမျိုးသမီးတစ်ယောက် ခေါင်းပြူ၍ ကြည့်သည်။ ကျစ်ဆံမြီး ကျစ်ထားသော သူ့ခေါင်းမှ ဆံပင်သည် နောက်ဘက်တွင် တွဲလောင်း။ ခါးပေါ်မှ အဝတ်အစားများမှာ ပေရေညစ်ပတ်လျက် ရှိ၏။ မျက်နှာကတော့ ပိန်ခွက်ခွက် ထုံထိုင်းထိုင်းနှင့် အသိဉာဏ် နည်းပါးသည့် လက္ခဏာမျိုးကို ဖော်ပြနေသည်။ ပြီးတော့ နှုတ်ခမ်းတွဲ၍ ပါးစပ်က ပြဲသည်။

"ကျုပ်တို့ ဒီစခန်းမှာ တည်းလို့ ရမလား" ဟု အဖေက လှမ်းမေးသည်။

အမျိုးသမီး၏ ခေါင်းသည် တဲအတွင်းသို့ ဖြုတ်ခနဲ ပြန်ဝင်သွားပြီး အတန်ကြာမျှ ငြိမ်ဆိတ်နေသည်။ ထို့နောက် အတွင်းမှ အင်္ကျီလက်မောင်းကို ပင့်တင်ထားသော မုတ်ဆိတ်ရှည်ရှည်နှင့် လူတစ်ယောက် ထွက်လာသည်။ စောစောက ထွက်ကြည့်ခဲ့သော အမျိုးသမီးသည် ထိုလူ၏ နောက်မှ ခေါင်းပြူ၍ ကြည့်နေသည်။ တဲအပြင်ကိုတော့ ထွက်မလာ။

"နေကောင်းကြရဲ့လား" ဟု မုတ်ဆိတ်ရှည်နှင့် လူက နှုတ်ဆက်သည်။ ငြိမ်သက်မှု ကင်းမဲ့လှသော သူ့မျက်လုံးများသည် ဂျုတ် မိသားစုကို တစ်ဦးချင်းစီ လိုက်ကြည့်သည်။ သူတို့ကို ကြည့်၍ အားရသောအခါ ထရပ်ကားနှင့် ကားပေါ်မှ ပစ္စည်းများကို ကြည့်နေပြန်သည်။

အဖေက ပြန်ပြောသည်။ "ကျုပ်တို့ ဒီမှာ စခန်းချရင် ဖြစ်မလားလို့ ခင်ဗျားမိန်းမကို မေးတာပါ"

မုတ်ဆိတ်နှင့် လူသည် အဖေ့မျက်နှာကို စူးစူးရဲရဲ ကြည့်နေသည်။ အဖေဂျုတ် ပြောလိုက်သည့် စကားကို ကောင်းစွာ သဘောပေါက်ပုံ မရ။ "ဒီနေရာမှာ စခန်းချမယ် ဟုတ်လား" ဟု ပြန်မေးသည်။

"ဟုတ်တယ်၊ ဒီနေရာကို လူတိုင်း ပိုင်နေတာပဲ၊ ဘယ်သူမဆို တည်းခိုနိုင်မှာပေါ့၊ ဒါပေမဲ့ ကျုပ်တို့ အရင်ရောက်နေတဲ့လူကို ထုံးစံအတိုင်း.."

မုတ်ဆိတ်နှင့် လူ၏ မျက်လုံးတစ်ဖက်သည် မေးသွားသည်။ အဖေဂျုတ်ကို လှေ့လာနေသည့်နှယ် ကြည့်နေပြန်၏။ "ခင်ဗျားတို့ ဒီစခန်းမှာ တည်းချင်လို့လား"

အဖေဂျုတ်သည် စိတ်တိုလာသည်။ တဲထဲမှ အမျိုးသမီးသည် အခုအချိန်အထိ ချောင်းကြည့်နေဆဲ။ "ကျုပ် ဘာပြောနေတယ်လို့များ ခင်ဗျား ထင်သလဲ"

"ဒါကတော့ ခင်ဗျားတို့ သဘောပါ၊ တည်းချင်ရင် တည်းပေါ့၊ ကျုပ်က မတားပါဘူး"

တွမ်က ရယ်သည်။ "သူ နားလည်သွားပြီ အဖေ" ဟု ရေရွတ်သည်။

အဖေဂျုတ်က သူ့ဒေါသကို ပြန်ထိန်းသည်။ "ဒီစခန်းကို ပိုင်တဲ့လူ ရှိမရှိ သိခင်ျတယ်၊ ကျုပ်တို့ ဒီမှာတည်းရင် ပိုက်ဆံ ပေးရမလား"

မုတ်ဆိတ်နှင့် လူ၏ ပါးစပ်သည် ပြဲသွားသည်။ "ဒီစခန်းကို ဘယ်အကောင် ပိုင်သတဲ့လဲ" ဟု ပြန်မေးသည်။

အဖေဂျုတ်က သူ့မျက်နှာကို တစ်ဖက်သို့ လှည့်လိုက်သည်။ "ဒုက္ခပါပဲကွာ" ဟု ညည်းသည်။ အပြင်သို့ ပြူထွက်နေသော အမျိုးသမီး၏ ခေါင်းသည် တဲထဲသို့ ပြန်ဝင်သွားသည်။

မုတ်ဆိတ်နှင့် လူသည် ရန်လိုသော အမူအရာနှင့် ရှေ့သို့ တိုးလာသည်။ "ဒီနေရာကို ဘယ်အကောင် ပိုင်သတဲ့လဲ" ဟု မေးသည်။ "ကျုပ်တို့ကို ဒီစခန်းက မောင်းထုတ်မယ့်ကောင် ဘယ်ကောင်လဲ ပြော"

တွမ်က အဖေဂျုတ်ရှေ့မှ ဝင်ရပ်လိုက်သည်။ "တဲထဲ ပြန်ဝင်ပြီး အိပ်နေတာဟာ ခင်ဗျားအတွက် အကောင်းဆုံး ဖြစ်မယ်" ဟု ပြောသည်။ မုတ်ဆိတ်နှင့်လူလည်း တွမ်၏ မျက်နှာကို ပါးစပ် အဟောင်းသားဖြင့် ကြည့်နေရာမှ ညစ်ပတ်ပေရေလျက် ရှိသော လက်ညှိုးတစ်ချောင်းဖြင့် ပါးစပ်ထဲသို့ ထိုးနှိုက်ကာ အောက်ဘက်မှ သွားဖုံးများကို ပွတ်နေသည်။ သူသည် တွမ်ကို အတန်ကြာမျှ ကြည့်နေသေးသည်။ ထို့နောက် အသာပြန်လှည့်ပြီး တဲထဲသို့ ဝင်ရောက် ပျောက်ကွယ်သွားလေ၏။

တွမ်က သူ့အဖေဘက် လှည့်၍ မျက်နှာချင်းဆိုင်လိုက်သည်။ "အဖေ လုပ်လိုက်တဲ့ အချိုးက ဘယ်လိုလဲ" ဟု မေးသည်။

အဖေဂျုတ်က ပခုံးနစ်ဖက်ကို တွန့်သည်။ သူ့မျက်လုံးများသည် စခန်းတစ်နေရာသို့ ရောက်နေသည်။ ရွက်ထည်တဲ တစ်တဲရှေ့တွင် ဖြူကားအို တစ်စီး။ ခေါင်းပိုင်းတစ်ပိုင်းလုံး ဖြုတ်ချထားသည်။ လူငယ်တစ်ယောက်သည် နပ်များကို ကျပ်လျက်ရှိသည်။ သူသည် အလုပ်ကို အဆက်မပြတ် လုပ်နေသည့် ကြားမှနေ၍ ဂျုတ်မိသားစုအား လှမ်းကြည့်နေသည်။ ဘာကို သဘောကျနေသည် မသိ။ တစ်ယောက်တည်း ပြုံးရယ်နေသည်ကို မြင်ကြရ၏။ မှတ်ဆိတ်နှင့် လူ တဲထဲ ပြန်ဝင်သွားသည့်အခါတွင်မှ လူငယ်သည် သူ့အလုပ်ကို ထားခဲ့ပြီး ဂျုတ်မိသားစုဘက်သို့ လျှောက်လာလေသည် ။

"နေကောင်းကြရဲ့လား " ဟု လူငယ်က လှမ်း၍ နှုတ်ဆက်သည်။ သူ၏ ပြာလဲ့လဲ့ မျက်လုံးအစုံသည် တစ်စုံတစ်ခုသော ရွှင်မြူးစရာ အကြောင်းတစ်ခုကို တွေ့လာရသည့်နှယ် တောက်ပနေကြသည်။ "ခင်ဗျားတို့လူစု မြို့တော်ဝန်နဲ့ တွေ့နေတာ ကျုပ် မြင်တယ်ဗျ "

"အဲဒီလူက ဘယ်လိုဖြစ်နေတာလဲ " ဟု တွမ်က မေးသည်။

"သူလည်း ခင်ဗျားတို့ ကျုပ်တို့လို ကြောင်နေတဲ့ လူတစ်ယောက်ပေါ့ဗျာ၊ တစ်ခုတော့ ရှိတယ်၊ သူက ကျုပ်တို့ထက် ပိုပြီး ကြောင်ချင် ကြောင်လိမ့်မယ်၊ ကျုပ်လည်း အတိအကျတော့ မပြောတတ်ဘူး "

"ငါက ငါတို့ ဒီမှာ တည်းခိုနိုင်မလားလို့ မေးတာပါကွာ " ဟု အဖေဂျုတ်က ဝင်ပြောသည်။

လူရွယ်က သူ့လက်များတွင် ပေကျံနေသည့် စက်ဆီချေးများကို ဘောင်းဘီနှင့် ပွတ်၍ သုတ်နေရာမှ "ဘာလို့ မတည်းနိုင်ရမှာလဲ၊ တည်းနိုင်တာပဲ၊ တည်းပေါ့၊ ခင်ဗျားတို့က အခုမှ ရောက်လာကြတာထင်တယ် ဟုတ်လား "

"ဆိုပါတော့ " ဟု တွမ်က ပြောသည်။ "ရောက်တာကတော့ မနက်ကတည်းကပါ "

"အရင်က ဟူးဗားဗီးလ်စခန်းကို တစ်ခါမှ မရောက်ဖူးသေးဘူး ထင်တယ်"

"ဟူးဗားဗီးလ်စခန်းက ဘယ်မှာ ရှိလဲ"

"ဒီမှာပဲလေဗျာ "

"အိုး" ဟု တွမ်က ရေရွတ်သည်။ "ဒီလိုဆိုတော့လည်း ကျုပ်တို့ အခုပဲ ရောက်တာလို့ ဆိုရတော့မှာပေါ့"

ဝင်းဖီးနှင့် ရူသီတို့သည် ရေပုံးတစ်ပုံးကို တစ်ဖက်တစ်ချက် ဆွဲ၍ ပြန်ရောက်လာကြလေသည်။

"ကဲ တဲထိုးကြရအောင်၊ စားသောက်ပြီးရင် တို့အားလုံး နားနိုင်ကြမှာပါ" ဟု အမေက ပြောသည်။ အဖေဂျုတ်နှင့် ဦးလေးဂျွန်တို့သည် ကားပေါ်သို့ ပြန်တက်ကာ ရွက်ထည်တဲနှင့် မွေ့ရာများကို အောက်သို့ ချသည်။

တွမ်သည် လုပ်လက်စ အလုပ်ဆီသို့ ပြန်သွားနေသော လူငယ်နှင့် လိုက်သွားသည်။ "ဟို မုတ်ဆိတ်နဲ့ လူကြီးက ဘာဖြစ်တာလဲ" ဟု တွမ်က မေးသည်။

လူငယ်က ကားချိုက်ကို ယူ၍ သူ့အလုပ်ကို ဆက်လုပ်သည်။ "မြို့တော်ဝန်ကို ပြောတာလား၊ အင်း သူ့အဖြစ်ကို ဘုရားသခင်မှပဲ သိမယ်၊ ကျုပ်ကတော့ ဒီလူကြီး ကြောင်ပေါက်ကြီး ဖြစ်နေတယ်လို့ ထင်တာပဲ"

"ဘာလဲ ကြောင်ပေါက်ကြီး ဆိုတာ"

"သူ့ကို ပုလိပ်တွေက အမြဲလိုက်ပြီး နှောင့်ယှက်တာ ခံရလွန်းလို့ ကြောင်ပြီး ပေါက်သွားတာကို ပြောတာပါ"

"သူ့လိုလူ တစ်ယောက်ကို ပုလိပ်က ဘာဖြစ်လို့ အမြဲ လိုက်နှောင့်ယှက်နေရတာလဲ" ဟု တွမ်က မေးသည်။

လူငယ်က သူ့အလုပ်ကို ရပ်ထားပြီး တွမ်၏ မျက်လုံးများကို စူးစူးရဲရဲ ကြည့်နေသည်။ "ဒါလဲ ဘုရားသခင်မှ သိမှာပဲ" ဟု ဆိုသည်။ "ခင်ဗျားက အခုမှ ရောက်လာတဲ့ လူသစ်ဆိုတော့ ဘယ်သိမလဲ၊ ဒါပေမဲ့ အခြေအနေကိုတော့ အကဲခတ်နိုင်မှာပေါ့၊ တချို့က ဒီလို ပြောကြတယ်၊ တချို့ကတော့ ဟိုလို ပြောကြတယ်၊ ပြောချင်တာ ပြောနေကြတာပဲ၊ ဒါပေမဲ့ အခု ခင်ဗျား စခန်းတစ်ခု ရောက်လို့ တည်းခိုနေပြီပဲ၊ လက်ထောက် ပုလိပ်အရာရှိ တစ်ယောက်ဟာ ခင်ဗျားကို ဘယ်လောက် ဒုက္ခပေးတယ် ဆိုတာ မကြာခင် သိလာပါလိမ့်မယ်"

"ဘာကြောင့် ဒုက္ခ ပေးရတာလဲ"

"ကျုပ် ခင်ဗျားကို ပြောပြီးပါကောလား၊ ကျုပ် မသိပါဘူးလို့၊ တချို့က ပြောကြတယ်၊ ကျုပ်တို့ကို ဒီမှာ မနေစေချင်ဘူးတဲ့၊ ဒါကြောင့် ကျုပ်တို့ကို တစ်နေရာက တစ်နေရာ လှည့်ပြီး သွားနေအောင် လုပ်ထားမှ ဖြစ်မယ်တဲ့၊ တချို့ကတော့ ကျုပ်တို့ကို ကယ်ဆယ်ရေး စခန်းမှာ ထားပြီး တစ်သက်လုံး ကျွေးမထားနိုင်ဘူးတဲ့၊ အဲ တချို့ကတော့ ကျုပ်တို့ကို တစ်နေရာတည်းမှာ စုထားလိုက်ရင် ပေါင်းစည်း ညီညွတ်သွားလိမ့်မယ်တဲ့၊ ဘာကြောင့် ဒီစကားမျိုးတွေ ပြောနေကြတယ် ဆိုတာတော့ ကျုပ်လည်း မသိဘူး၊ ကျုပ် သိနေတာ တစ်ခုပဲ ရှိတယ်၊ တခြား မဟုတ်ဘူး၊ ကျုပ်တို့ အားလုံး ဘယ်နေရာမှာမှ ဖင်ပူအောင် မနေရဘူး၊ ကားစုတ် ကားပျက်တွေနဲ့ တောက်လျှောက် သွားနေကြရတာပဲ၊ ခင်ဗျား မယုံရင် စောင့်ကြည့်လေ၊ ခင်ဗျားတို့ကိုယ်တိုင် မကြာခင် ကြုံကြရမှာပါ"

"ကျုပ်တို့ မိသားစုက သူတောင်းစားတွေ ကလေကချေတွေမှ မဟုတ်တာ၊ ဘာလို့ ကြုံရမှာလဲ" ဟု တွမ်က မခံချင်စိတ်ဖြင့် ပြောသည်။ "အခုဆို ကျုပ်တို့ အလုပ် လိုက်ရှာနေကြတာပဲ၊ ကျုပ်တို့အနေနဲ့ ဘာအလုပ်ရရ လုပ်ကြမှာပါ"

လူငယ်သည် တအံ့တသြ ဖြစ်သွားသည့်ပုံဖြင့် တွမ်၏ မျက်နှာကို ဖျတ်ခနဲ မော့ကြည့်သည်။ "အလုပ်ရှာနေတယ်၊ ဟုတ်လား" ဟု မေးသည်။ "ခင်ဗျားတို့က အလုပ်ကို လိုက်ရှာနေတယ် ဆိုပါတော့၊ ဒီလိုဆိုရင် တခြားလူတွေကော ဘာ လိုက်ရှာနေတယ်လို့ ခင်ဗျား ထင်သလဲ၊ စိန်တွေ လိုက်ရှာနေတယ်လို့များ ခင်ဗျား ထင်နေသလား၊ ကျုပ်ကိုကော ဘာ လိုက်ရှာနေတယ်လို့များ ခင်ဗျား ထင်သလဲ" လူငယ်သည် လက်ထဲမှ လွှန်ကို ပြန်လှည့်နေသည်။

တွမ်၏ မျက်လုံးများသည် စုတ်စုတ်ပြတ်ပြတ်နှင့် ညစ်ပတ် ပေရေလျက် ရှိသည့် ရွက်ထည်တဲများ၊ ဟိုတစ်ပုံ သည်တစ်ပုံနှင့် ချထားသည့် ပစ္စည်း အဟောင်း အမြင်းများ၊ ပုံပန်းမကျ ဖြစ်နေသည့် ကားအို ကားဟောင်းများ၊ နေလှန်းထားသည့် ခေါက်တိ ခေါက်ကွေး ဖြစ်နေသော မွေ့ရာများနှင့် မည်းသဲနေသည့် ထမင်းအိုး ဟင်းအိုးများကို တစ်ခုချင်း လျှောက်ကြည့်နေသည်။ ထို့နောက် သူ့မျက်လုံးများသည် လူငယ်ဆီသို့ ပြန်ရောက်လာပြီး မေးသည်။ "ဒီမှာ အလုပ်အကိုင်ကော ရှိရဲ့လား"

"ကျုပ်လည်း မပြောတတ်ဘူး၊ အလုပ်ကတော့ မရှိဘဲ ဘယ်နေမလဲ၊ ရှိမှာပေါ့၊ ဒါပေမဲ့ စိုက်တဲ့ပျိုးတဲ့ အလုပ်ကတော့ မရှိသလောက်ပါပဲ၊ စပျစ်သီး ဆွတ်တဲ့ အလုပ်မျိုးနဲ့ ဝါကောက်တဲ့ အလုပ်မျိုးတွေတော့ ရှိမှာပေါ့ဗျာ၊ ဒီအလုပ်တွေကလည်း လောလောဆယ် ကတော့ မရှိပါဘူး၊ ကျုပ်တို့လည်း ကျုပ် ကားပြင်ပြီးတာနဲ့ တစ်ပြိုင်နက် ခရီးဆက်ရဦးမှာ၊ ကျုပ်မှာလည်း မိသားစုနဲ့ဗျ၊ ကျုပ်ရယ်၊ ကျုပ် မိန်းမရယ်၊ ကျုပ် ကလေးတွေရယ်ပေါ့၊ ကျုပ် ကြားတာတော့ မြောက်ပိုင်းဘက်မှာ အလုပ်အကိုင် ပေါသတဲ့၊ အဲဒီဘက်ကို သွားမယ်၊ ဆယ်လီနတ်စ်မြို့နားက အရပ်ဒေသတွေအထိ ရောက်အောင် သွားဖို့ စိတ်ကူးထားတယ် "

ဦးလေးဂျွန်၊ အဖေဂျုတ်နှင့် တရားဟောဆရာတို့သည် ရွက်ထည်တဲများကို ထူကာ တာပေါ်လင်အစနှင့် ပူး၍ ချည်နေကြသည်။ အမေသည် တဲထဲ၌ ဒူးထောက်၍ ထိုင်ကာ မြေကြီးပေါ်၌ ချခင်းထားပြီး ဖြစ်သော မွေ့ရာများပေါ်၌ ကပ်နေသည့် ဖုန်များကို ခါလျက် ရှိ၏။ ကလေးတစ်အုပ်သည် အသစ် ရောက်လာသော မိသားစု တစ်စု အလုပ်ရှုပ်နေသည်ကို ရပ်ကြည့်နေကြသည်။ ကလေးများသည် ဆူဆူညံညံ မလုပ်။ ဖိနပ် စီးမထားကြသည့် ခြေထောက်များနှင့် ညစ်ပတ် ပေရေနေသည့် မျက်နှာများပိုင်ရှင် ကလေးများသည် ငြိမ်ဆိတ် နေကြသည်။ "ကျုပ်တို့ အရပ်က ထွက်လာတော့ တချို့ လူတွေဆီမှာ လက်ကမ်း ကြော်ငြာတွေ ရထားတာ တွေ့ရခဲ့တယ်၊ စက္ကူက အဝါရောင်လေးဗျာ၊ အဲဒီကြော်ငြာ ထဲမှာတော့ ဒီဒေသမှာ လယ်ယာလုပ်ငန်း လုပ်ဖို့ လယ်ယာလုပ်သားတွေ အများကြီး လိုတယ်လို့ ရေးထားတာပဲ " ဟု တွမ်က ပြောလေသည်။

လူငယ်က ရယ်သည်။ "သူတို့ အဆိုကတော့ ဒီပြည်နယ်ထဲကို ကျုပ်တို့ ခင်ဗျားတို့လို လူစားတွေ သုံးသိန်း ရောက်နေပြီတဲ့၊ ခင်ဗျား အခု ပြောနေတဲ့ လက်ကမ်းကြော်ငြာ စာရွက်ကို အဲဒီ လူသုံးသိန်းထဲက မိသားစုတိုင်း မြင်ဖူးကြမယ်လို့ ကျုပ်ထင်တယ် "

"အင်းပေါ့လေ၊ မြင်ဖူးကြမှာပေါ့၊ ဒါပေမဲ့ဗျာ၊ ဒီအရပ်မှာ အလုပ်သမား မလိုဘဲနဲ့ ဘာပြုလို့ လူတွေ အများကြီး ရောက်အောင် လိမ်ပြီး ကြော်ငြာရတာလဲ "

"ခင်ဗျား ခေါင်းကို သုံးကြည့်ပေါ့ဗျာ၊ ဘာပြုလို့ လျှောက်မေးနေရတာလဲ "

"ဟုတ်တော့ ဟုတ်ပါတယ်၊ ဒါပေမဲ့ ကျုပ်က သိချင်လို့ပါ"

"ဒီမှာ ကျုပ် ပြောပြမယ်" ဟု လူငယ်က ပြောသည်။ "ဆိုကြပါစို့၊ အလုပ်တစ်ခု ရှိတယ်၊ အဲဒီအလုပ်ကို လုပ်ချင်တဲ့ လူကလည်း တစ်ဦးပဲ ရှိတယ်၊ ဒါဆိုရင် ခင်ဗျားအနေနဲ့ အဲဒီလူကို သူ တောင်းသလောက် လုပ်ခပေးရမှာပဲ၊ တကယ်လို့ လုပ်ချင်တဲ့လူက တစ်ရာ ရှိနေပြီ ဆိုပါတော့" လူငယ်က သူ့လက်ထဲမှ လွန်ကို အောက်သို့ ချထားလိုက်သည်။ သူ့မျက်လုံးများသည် အေးစက် တင်းမာလာသည်။ သူ့အသံကလည်း ပြတ်သား မာကျောလာသည်။ "အဲဒီအလုပ်ကို လူတစ်ရာက လိုချင်နေတယ် ဆိုပါတော့၊ ပြီးတော့ အဲဒီ လူတစ်ရာလုံးမှာ ငတ်ပြတ်နေတဲ့ သားသမီးတွေ ကိုယ်စီ ရှိနေကြတယ် ဆိုပါတော့၊ အလုပ်က ရလာတဲ့ ငွေထဲက သူ့သားသမီးတွေအတွက် ဆယ်ဆင့်တန် မုန့်တစ်ထုပ်လောက် ဝယ်လို့ရမယ် ဆိုပါတော့၊ အိုဗျာ ကုန်ကုန် ပြောရရင် သူ ရတဲ့ သောက်လုပ်ခ ငွေထဲမှာ သူ့ကလေးအတွက် ငါးဆင့်တန် မုန့်တစ်ခု ဝယ်နိုင်တယ် ဆိုပါတော့၊ ဒါဆိုရင် သွားပြီ၊ ဒီအလုပ်ကို ရအောင် လုပ်ကြမယ့် ကောင်တွေချည်းပဲ၊ သူတို့ကို လုပ်ခငွေ ငါးဆင့်ပဲ ပေးဦးတော့၊ ဒီလူ တစ်ရာဟာ အဲဒီငွေ ငါးဆင့် ရဖို့အတွက် တစ်ယောက်ကို တစ်ယောက် သတ်ကြမှာ သေချာတယ်၊ ကျုပ် အလုပ်တစ်ခု ရခဲ့ဖူးတယ်၊ လုပ်ခ ဘယ်လောက် ရခဲ့တယ် ထင်သလဲ၊ တစ်နာရီကို ဆယ့်ငါးဆင့် ရတယ်၊ ဆယ်နာရီ လုပ်ပါမှ တစ်ဒေါ်လာခွဲပဲ ရတယ်၊ အဲဒီငွေ တစ်ဒေါ်လာခွဲနဲ့ နေလို့ထိုင်လို့ ဘယ်နည်းနဲ့မှ မဖြစ်နိုင်ဘူး" ပြောရင်းပြောရင်းနဲ့ လူငယ်သည် ဒေါသကြီးလာသည်။ သူ့မျက်လုံးများသည် မုန်းတီးခြင်းနှင့် နာကြည်းခြင်း ဟူသော စိတ်၏ ခံစားမှုများဖြင့် တဖျပ်ဖျပ် တောက်လာသည်။ "ခင်ဗျား ပြောတဲ့ ကြော်ငြာ စာရွက်တွေ ပလူပျံ့သလို ထွက်လာတာဟာ ဒါပဲ၊ ဒီအကြောင်းကြောင့်ပဲ၊ တစ်နာရီကို လုပ်ခ ဆယ့်ငါးဆင့်သာ ပေးရမယ့် အလုပ်သမားမျိုး ရဖို့အတွက် လက်ကမ်းကြော်ငြာစာရွက်တွေ ဘယ်လောက်ပဲ ရိုက်ရရိုက်ရ ရိုက်မှာပေါ့၊ မဆန်းပါဘူး"

"အင်မတန် ယုတ်မာ စုတ်ပွဲတဲ့ အလုပ်ပဲ" ဟု တွမ်က ရေရွတ်သည်။

လူငယ်က မလိုတမာသံဖြင့် ရယ်သည်။ သူ့ရယ်သံမှာ နားထောင်ချင့်စဖွယ် မရှိ။

"ဒါပေမဲ့ဗျာ၊ အလုပ်အကိုင်ကတော့ ပေါပေါများများ ရှိလိမ့်မယ် ထင်ပါတယ်" ဟု တွမ်က ထပ်ပြောသည်။ "ကျုပ် မြင်ရသလောက် ပြောရရင် ဥယျာဉ်ခြံတွေလည်း ရှိတယ်၊ စပျစ်ခြံတွေလည်း ရှိတယ်၊ ဟင်းသီး ဟင်းရွက်တွေလည်း အများကြီးပဲ၊ ဒါတွေ ရှိနေရင် သူတို့အနေနဲ့ အလုပ်သမား များများ လိုမှာပေါ့ဗျ"

မော်တော်ကား ဘေးရှိ ရွက်ထည်တဲအတွင်းမှ ကလေးတစ်ယောက် ငိုသံ ထွက်ပေါ်လာသည်။ လူငယ်သည် အလုပ် လုပ်နေရာမှ ဖြတ်ခနဲ ထကာ တဲအတွင်းသို့ ဝင်သွားလေ၏။ သူ၏ ကလေးချော့သံ သဲ့သဲ့ကို အပြင်မှ ကြားနေရသည်။ တွမ်သည် လူငယ် ချထားခဲ့သည့် လွန်ကို ကောက်ယူကာ လုပ်လက်စ အလုပ်ကို ဆက်လုပ်နေသည်။ ခဏမျှ အကြာတွင် ကလေးငိုသံ ရပ်သွားသည်။ တဲထဲမှ ပြန်ထွက်လာသော လူငယ်သည် တွမ် လုပ်ကိုင်နေသည်ကို စိတ်ဝင်တစား ကြည့်နေသည်။ "ခင်ဗျား လုပ်တတ်သားပဲ" ဟု လှမ်းပြောသည်။

"ကျုပ် ပြောတာ ဘယ်လို သဘောရသလဲ" ဟု တွမ်က စောစောက သူပြောခဲ့သည့် စကားကို ပြန်စသည်။ "စိုက်ပျိုးထားတဲ့ သစ်ပင်တွေ သီးနှံတွေကို ကျုပ်တော့ မြင်နေရတာပဲ"

လူငယ်က တွမ်နှင့် မျက်နှာချင်းဆိုင်တွင် ဖင်ချ၍ ထိုင်လိုက်သည်။ "ကျုပ် ခင်ဗျားကို ရှင်းပြမယ်" ဟု စကား စသည်။ "ခွေးမသား သူဌေးတစ်ကောင် ပိုင်တဲ့ မက်မွန်ခြံ တစ်ခြံမှာ ကျုပ် အလုပ်လုပ်ခဲ့ဖူးတယ်၊ တစ်နှစ်လုံးအတွက် သူ ငှားထားတဲ့ အလုပ်သမားက ကိုးယောက်ပဲ ရှိတယ်၊ အဲဒါ အမြဲတမ်း အလုပ်သမား"

သူသည် သူ ပြောနေသည့် စကားကို အလေးအနက် ဖြစ်စေလိုသဖြင့် ဆက်မပြောသေးဘဲ ရပ်ထားသည်။

"မက်မွန်သီးတွေ မှည့်တဲ့အချိန်ကျတော့ လူသုံးထောင်ကို တနင်္ဂနွေ နှစ်ပတ်လောက် ငှားတယ်၊ မငှားဖြစ်လို့ ငှားတာ၊ အဲဒီအချိန်မှာ လူများများ မငှားရင်လည်း မက်မွန်သီးတွေ အကုန် ပုပ်ကုန်မှာကိုးဗျ၊ အဲဒီတော့ သူတို့ ဘာလုပ်သလဲ သိလား၊ တစ်ခါတည်း ကြော်ငြာစာရွက်တွေ ဝေတော့တာပဲ၊ ကြော်ငြာ ဝေလိုက်တော့ သူတို့ လိုတာက အလုပ်သမား သုံးထောင်၊ အလုပ် လိုချင်လို့ ရောက်လာတဲ့ လူက ခြောက်ထောင် ဖြစ်လာတာပေါ့ဗျာ၊ အဲဒီတော့ လုပ်ခကို သူတို့ စိတ်ကြိုက် သတ်မှတ်ပြီး ပေးချင်သလောက်ပဲ ပေးတော့တယ်၊ ဆိုပါတော့ သူတို့ ပေးတဲ့ လုပ်ခ နည်းလို့ ခင်ဗျားက သူတို့အလုပ်ကို မလုပ်ဘူး ငြင်းမယ်၊ ငြင်းလေ၊ ဘာအရေးလဲ၊ ခင်ဗျား ငြင်းပေမဲ့ သူပေးမယ့် အလုပ်ကို စောင့်နေတဲ့ လူက တစ်ထောင်လောက် ရှိနေတာပဲဟာ၊ ဒီတော့ကာ ဘာပဲဖြစ်ဖြစ် ခင်ဗျား ငြင်းလို့ မရတော့ဘူး၊ သူ ပေးသလောက် လုပ်ခနဲ့ ဝင်ပြီး မက်မွန်သီး

ဆွတ်ရတော့တာပေါ့၊ တစ်နယ်လုံးမှာ ရှိတဲ့ မက်မွန်သီးတွေဟာ တစ်ချိန်တည်း တစ်ပြိုင်တည်း မှည့်ကြတာ၊ ခင်ဗျား မက်မွန်သီးဆွတ်တဲ့ အလုပ်ကို လုပ်နေတဲ့ အချိန်မှာဆိုရင် တခြားနေရာတွေမှာလည်း ဆွတ်နေကြပြီ၊ ဒီလို ရာသီချိန်အလိုက် လုပ်ရတဲ့ အလုပ်မျိုးက လွဲပြီး တခြား ဘာအလုပ်မှလည်း ဟုတ်တိပက်တိ မရှိပါဘူးဗျ၊ မက်မွန်သီးတွေ တစ်လုံးမကျန် ဆွတ်ပြီးပြီ ဆိုတာနဲ့ ခင်ဗျားတို့ အလုပ်သမားတွေကို မလိုတော့ဘူး၊ ခင်ဗျားတို့ အလုပ်သမား အားလုံးဆိုတော့ လူ သုံးထောင်ပေါ့၊ အလုပ်က ပြီးသွားပြီကိုး၊ ဘယ်လိုတော့မလဲ၊ ခင်ဗျားဟာ ခင်ဗျား ဖြစ်ချင်တာ ဖြစ်ပေါ့၊ ခိုးချင်ရင် ခိုး၊ အရက်မူးချင်ရင် မူး၊ ခင်ဗျား အဖြစ်က ငရဲကျသလို ဖြစ်နေကော ဘာအရေးလဲ၊ သူတို့နဲ့ ဆိုင်တာမှ မဟုတ်တာ၊ အဲဒီတော့ ခင်ဗျားမှာလည်း စုတ်တီးစုတ်ပြတ် ဖြစ်ပြီး ပေပေရေရေနဲ့ လူလုံး မလှတော့ဘူး၊ တဲစုတ် တဲပုတ်တွေထဲမှာ ဖြစ်ချင်သလို ဖြစ်ပြီးနေရတဲ့ ဘဝမျိုး ဆိုက်ကရော၊ ပြည်နယ်က သိပ်လှတယ်၊ ဒါပေမဲ့ ခင်ဗျားကြောင့် အရုပ်ဆိုးနေတယ်၊ အကျည်းတန်နေတယ်၊ ဒါကြောင့် သူတို့အနေနဲ့ ခင်ဗျားကို သူတို့ အနားမှာ မရှိစေချင်ဘူး၊ မတွေ့ချင် မမြင်ချင်ဘူး၊ ဒီတော့ သူတို့က ခင်ဗျားကို ကန်ထုတ်ရော၊ ခင်ဗျားကို တစ်နေရာတည်းမှာ အခြေချပြီး မနေနိုင်အောင် ဝိုင်းလုပ်ကြရော၊ ဒီလိုနဲ့ပဲ ခင်ဗျားအနေနဲ့ ကားစုတ် ကားအိုကြီး တစ်စီးကို မောင်းပြီး မရပ်မနား တောက်လျှောက် သွားနေရတဲ့ ခြေသလုံး အိမ်တိုင်ဘဝကို ဆိုက်ရော၊ အခု ကျုပ်တို့ ခင်ဗျားတို့ ဖြစ်နေရတဲ့ အဖြစ်က ဒါပဲ”

တွမ်သည် သူတို့ မိသားစု၏ ရွက်ထည်တဲဘက်သို့ တစ်ချက်မျှ လှမ်းကြည့်သည်။ အမေသည် သစ်ရွက် သစ်ခြောက်များဖြင့် မီးမွေးပြီးသွားခဲ့လေပြီ။ မီးဖိုပေါ်၌ ဟင်းအိုးများကို တင်ထားပြီး ဖြစ်၏။ အမေ လုပ်ကိုင်နေပုံမှာ ယခင်ကလို သွက်သွက်လက်လက် မရှိတော့။ ပင်ပန်းလွန်းသည့် ဒဏ်ကြောင့် နေးကွေး လေးလံလျက် ရှိသည်။ ကလေးအုပ်သည် အမေ့အနီးတွင် ဝိုင်းအုံ၍ ရပ်နေကြဆဲ ဖြစ်သည်။ ကလေးများ၏ တည်ငြိမ်အေးဆေးသော မျက်လုံးပေါင်းများစွာသည် အမေ့လက်များ လှုပ်ရှားသမျှကို လိုက်၍ ကြည့်နေကြလေသည်။ တဲတစ်လုံး အတွင်းမှ ခါးကုန်းကုန်းနှင့် အဖိုးအိုတစ်ယောက် ထွက်လာသည်။ သူသည် ခွေးတူ ဝက်တူတစ်ကောင် လမ်းလျှောက်သည့် ပုံစံမျိုးဖြင့် လက်နှစ်ဖက် နောက်ပစ်ကာ ကုန်းကုန်း ကုန်းကုန်းနှင့် လျှောက်လာသည်။ လျှောက်လာနေရင်းကပင် သူ့နှာခေါင်းကို ရှုံ့ချည်ပွချည် လုပ်ကာ အနံ့ခံလာသည်။ သူသည် ကလေးများနှင့် ရော၍ ရပ်ကာ အမေ လုပ်ကိုင်နေသမျှကို စိတ်ဝင်တစား ကြည့်နေသည်။ အမေ့အနီး၌ ကပ်၍ ရပ်နေသော ရှသီနှင့် ဝင်းဖီးတို့

မောင်နမသည် သူတို့အား ဝိုင်းကြည့်နေသော လူစိမ်းများအား ပြန်၍ ကြည့်နေကြလေသည်။

"မက်မွန်သီးတွေ ခူးတဲ့အခါမှာ မှည့်ခါနီးမှ ခူးရတာ ဆိုတော့ အမြန်ဆုံး ခူးပစ်ဖို့ လိုမှာပေါ့"

တွမ်က ဒေါ်သတကြီး မေးသည်။

"ဒါပေါ့၊ မှည့်ခါနီးမှ ခူးတာ ဆိုတော့ အမြန်ဆုံး ခူးပစ်မှ ဖြစ်မှာပေါ့ဗျ"

"ဒါဆိုရင် သူတို့ ငှားထားတဲ့ လူအားလုံးက တညီတညွတ်တည်း စုပြီး မက်မွန်သီးတွေ ပုပ်ချင် ပုပ်ကုန်ပါစေ၊ ကျုပ်တို့ကို လုပ်ခ တိုးမပေးရင် မခူးဘူးလို့ အကျပ်ကိုင်လို့ မရဘူးလား"

လူငယ်က တွမ်၏ မျက်နှာကို မော့ကြည့်ပြီး ပြုံးသည်။ သူ့အပြုံးသည် တွမ်အား သရော်လိုသည့် အပြုံး။ "ဘယ်ဆိုးလို့လဲ၊ ခင်ဗျားလည်း အတွေးကောင်းသားပဲ၊ ခင်ဗျား ခေါင်းထဲကလည်း အကြံကောင်း ဉာဏ်ကောင်းတွေ ထွက်သားပဲ၊ ဟဲ.. ဟဲ.. ဟဲ.."

"မနေ့ညက တစ်ညလုံး ကားမောင်းလာရလို့ ကျုပ် သိပ်ပင်ပန်းနေတယ်" ဟု တွမ်က ပြောသည်။ "ကျုပ် ခင်ဗျားနဲ့ အငြင်းအခုံ လုပ်မနေချင်ဘူး၊ ကျုပ် မသိတာ ခင်ဗျားကို မေးနေတာပဲ၊ ကျုပ်ကို လှောင်လား ပြောင်လား လုပ်မနေစေချင်ဘူး"

လူငယ်က ပြုံးဖြဲဖြဲ လုပ်သည်။ "တမင် ရည်ရွယ်ပြီး လုပ်တာ မဟုတ်ပါဘူးဗျာ၊ ခင်ဗျားက လူသစ်ဆိုတော့လည်း အခြေအနေကို ဘယ်သိပါ့မလဲ၊ ခင်ဗျား ပြောပြတဲ့ စိတ်ကူးမျိုးကို ဒီလူတွေလည်း ရခဲ့ကြပါတယ်၊ မက်မွန်သီးခူးတဲ့ အလုပ်သမားတွေဟာ အဲဒီ အကြံအစည်မျိုးကို ရခဲ့ကြတယ်၊ အလုပ်သမားတွေ စုစည်းမိတဲ့ အခါမျိုးမှာ ခေါင်းဆောင် တစ်ယောက်ဟာ ရှိစမြဲ မဟုတ်လား၊ ရှိမှလည်း ဖြစ်မှာကိုးဗျ၊ လူအားလုံးရဲ့ ကိုယ်စား စကားလေး ဘာလေး ပြောဖို့ပေါ့၊ ဒါပေမဲ့ဗျာ အဲဒီ ခေါင်းဆောင်လုပ်တဲ့လူက စကားတစ်ခွန်းလောက် ပြောဖို့ ပါးစပ်ဟရုံ ရှိသေးတယ်၊ သူတို့က ဖမ်းသွားပြီး ထောင်ထဲ ထည့်လိုက်ရော၊ ဖမ်းသွားတဲ့ လူနေရာမှာ လူစား တင်ပြန်တော့လည်း ချက်ချင်း ဖမ်းပြီး ထောင်ထဲပို့လိုက်ပြန်ရော၊ အဲဒီတော့ ဘယ်လိုလုပ်မလဲ"

"ဒီလိုဆိုလည်း ကောင်းတာပဲ၊ ဘာပဲဖြစ်ဖြစ် လူတစ်ယောက်အနေနဲ့ ထောင်ထဲမှာ ထမင်းတစ်လုတ်တော့ စားရသေးတာပေါ့"

"သူ စားရပေမဲ့ သူ့ကလေးတွေ မစားရဘူးလေဗျာ၊ အပြင်ဘက်မှာ ခင်ဗျား ကလေးတွေက ငတ်ပြတ်ပြီး တဖြည်းဖြည်း သေရမယ့် အဖြစ်နဲ့ ရင်ဆိုင်နေရတဲ့ အချိန်မှာ ခင်ဗျား တစ်ယောက်တည်း ထောင်ထဲမှာ ထမင်း နပ်မှန်အောင် စားနေရတာမျိုးဆိုရင် ခင်ဗျား ဘယ်လို သဘောထားမလဲ"

"အင်း ဟုတ်တယ်" ဟု တွမ်က ရေရွတ်သည်။ "ဒါလည်း မှန်တာပဲ"

"နောက်တစ်ခု ရှိသေးတယ်၊ နာမည်ပျက်စာရင်းဆိုတာ ခင်ဗျား ကြားဖူးသလား"

"ဟင့်အင်း၊ ဘာလဲ နာမည်ပျက်စာရင်း ဆိုတာ"

"ကျုပ်တို့ လူတွေကို စည်းလုံးညီညွတ်ရေး တရားဟောဖို့ ခင်ဗျား ပါးစပ် ဟလိုက်တာနဲ့ တစ်ပြိုင်နက် ခင်ဗျား နာမည်ပျက်စာရင်း ဝင်ပြီသာ မှတ်ပေတော့၊ အဲ ခင်ဗျားကို ဓာတ်ပုံရိုက်ယူမယ်၊ ပြီးရင် ခင်ဗျားဓာတ်ပုံကို နေရာအနှံ့ လျှောက်ပို့မယ်၊ အဲဒီနောက်မှာတော့ ခင်ဗျားအနေနဲ့ ဘယ်မှာမှ အလုပ်မရတော့ဘူး၊ တကယ်လို့ ခင်ဗျားမှာ သားသမီးတွေ ရှိတယ် ဆိုပါတော့"

တွမ်က ခေါင်းမှ ကက်ဦးထုပ်ကို ဆွဲချွတ်လိုက်ပြီး လက်နှစ်ဖက်ဖြင့် လိမ်ချိုးနေသည်။ "ဒီလိုဆိုတော့လည်း ကိုယ့်နည်းကိုယ့်ဟန်နဲ့ ကိုယ်ရနိုင်တာကို မရ ရအောင် ယူရုံပဲ ရှိတော့တာပေါ့၊ အဲသလိုမှ မလုပ်ရင် ကျုပ်တို့ အားလုံး ငတ်မှာ သေချာတယ်"

လူငယ်က ဘာမှ ပြန်မပြော။ လက်ထဲမှ လွှန်ဖြင့် အလုပ်ရှုပ်လျက် ရှိသည်။

တွမ်က အာလူးများကို အခွံနွှာလျက်ရှိသော သူ့အမေဘက်သို့ တစ်ချက်မျှ လှမ်းကြည့်ပြန်သည်။ ကလေးများသည် အမေ့အနီးတွင် ကပ်၍ ရပ်နေကြလေပြီ။ တွမ်၏ မျက်နှာသည် လူငယ်ဘက်သို့ ပြန်လှည့်လာသည်။ "ကျုပ်ကတော့ သူတို့ လုပ်သမျှကို ခေါင်းငုံ့ပြီး မခံနိုင်ဘူးဗျာ၊ ကျုပ်တို့ မိသားစုဟာ သိုးတွေမှ မဟုတ်တာ၊ လူတွေဗျ၊ အလုပ်ရှင်ကောင်တွေကို ပြန်ချမှာပဲ"

"ပုလိပ်ကိုရော ခင်ဗျား ပြန်ဆော်မှာပဲလား"

"ဘာကောင်ပဲဖြစ်ဖြစ် ဆော်မှာပဲ"

"ဒါဆိုရင်တော့ ခင်ဗျားတို့ဟာ အရူးတွေပဲ" ဟု လူငယ်က ဆိုသည်။ "သူတို့ကလည်း ဖမ်းမှာပဲ၊ ခင်ဗျားတို့မှာ ပစ္စည်းလည်း မရှိ၊ ငွေလည်း မရှိ၊ နာမည်လည်း မရှိ၊ နောက်ဆုံးတော့ ပါးစပ်နဲ့ နှာခေါင်းတွေမှာ သွေးတွေ ခြောက်နေတဲ့ ခင်ဗျား အလောင်းကို လမ်းဘေး ရေမြောင်းထဲမှာ တွေ့ရမယ်၊ ခင်ဗျားအကြောင်း သတင်းစာထဲမှာ စာကြောင်းလေး တစ်ကြောင်းလောက် ပါချင်ပါမယ်၊ သူတို့ ဘာရေးမယ် ထင်သလဲ၊ ကလေကချေ တစ်ယောက်၏ အလောင်း တွေ့ရှိခြင်း၊ အဲဒါပဲ ရေးမယ်၊ ကလေကချေ တစ်ယောက်၏ အလောင်း တွေ့ရှိခြင်း ဆိုတဲ့ အကြောင်းတွေကို သတင်းစာထဲမှာ မကြာခဏ ပါပါလာတာ အများကြီးပဲ၊ ခင်ဗျား တွေ့လာပါလိမ့်မယ်"

"ခင်ဗျား အခု ပြောတဲ့ ကလေကချေ တစ်ယောက်ရဲ့ အလောင်းဘေးမှာ သူတို့အလောင်းတွေကိုလည်း တွေ့ရမှာပေါ့ဗျာ" ဟု တွမ်က ပြောသည်။

"ခင်ဗျား အရူးပဲ" ဟု လူငယ်က မှတ်ချက်ချသည်။ "ဒီလိုလုပ်ရင် မှားမှာပေါ့"

"ကဲ ဒီလိုဆိုရင် ခင်ဗျားကကော ဘာလုပ်မလဲ" ဟု တွမ်က ဆီချေးများ ပေကျံနေသော လူငယ်၏ မျက်နှာကို စူးစူးစိုက်စိုက် ကြည့်သည်။ လူငယ်၏ မျက်လုံးများ ပေါ်၌ ဖုံးအုပ်ထားသည့် မျက်နှာဖုံးသည် ကွာကျလာသည်။

"ဘာမှမလုပ်ဘူး၊ ဒါနဲ့ ခင်ဗျားတို့ ဘယ်အရပ်က လာကြတာလဲ"

"ကျုပ်တို့လား၊ အုတ်ကလာဟိုးမားပြည်နယ် ဆယ်လီဆောမြို့နားက"

"ဒီကို အခုမှ ရောက်တာပေါ့၊ ဟုတ်လား"

"ကနေ့မှ ရောက်တာ"

"အခုလို ဘယ်လောက်ကြာကြာ လျှောက်သွားနေကြဦးမှာလဲ"

"မပြောတတ်ဘူး၊ ကျုပ်တို့ အလုပ်ရတဲ့ နေရာကျရင်တော့ အခြေချမယ် စိတ်ကူးတယ်၊ ဘာလို့ မေးတာလဲ"

"အကြောင်းထူးရှိလို့ မေးတာ မဟုတ်ပါဘူး" မျက်နှာဖုံးသည် လူငယ်၏ မျက်နှာပေါ်သို့ ပြန်ရောက်လာပြန်သည်။

"ကဲ ကျုပ် သွားအိပ်တော့မယ်" ဟု တွမ်က ပြောသည်။ "မနက်ဖြန်ကျရင်တော့ အလုပ် ထွက်ရှာကြည့်ဦးမယ်"

"ကြိုးစားကြည့်ပေါ့ဗျာ"

တွမ်သည် လူငယ်၏ အနီးမှခွာ၍ သူ့တဲဘက်သို့ ပြန်လျှောက်လာသည်။

"ဟေ့ လူ" လူငယ်က နောက်မှ နေ၍ ခေါ်သည်။

တွမ်က လှည့်ကြည့်သည်။ "ဘာပြောဦးမလို့လဲ"

"ကျုပ် တစ်ခု ပြောချင်လို့၊ ခင်ဗျား ပြဿနာတော့ မရှာနဲ့ ကိုယ့်လူ၊ စောစောက ခင်ဗျား တွေ့ခဲ့တဲ့ ကြောင်ပေါက်ကြီးရဲ့ ပုံစံကို မှတ်မိသေးလား"

"ဟိုဘက်တဲထဲက လူကြီးကို ပြောတာလား"

"ဟုတ်တယ်၊ အဲဒါကြီးပေါ့၊ သူ့ပုံကြီးက အ အကြီးနဲ့ မတူဘူးလား၊ ဘာဆို ဘာမှ မသိတဲ့ လူနံလူအ တစ်ယောက်လိုပဲလေ"

"အဲဒါ ဘာဖြစ်လ"

"ဒီလိုလေဗျာ၊ ပုလိပ်တွေ ရောက်လာတယ် ဆိုကြပါစို့၊ ပုလိပ်တွေကလည်း အမြဲတမ်း လာနေတာပါ၊ အဲ သူတို့လာရင် ခင်ဗျားအနေနဲ့ အဲဒီလူလိုသာ လုပ်နေ၊ အ အ တစ်ယောက် ပုံစံမျိုးပေါ့၊ ဘာမေးမေး ဘာမှ မသိဘူး လို့ပြော၊ ဘာကိုမှလည်း နားမလည်တဲ့ ပုံမျိုးနဲ့ နေလိုက်၊ ပုလိပ်တွေက အဲဒီလို လူထုံ လအ ပုံစံမျိုးကို သိပ်ကြိုက်တယ်၊ ဘယ်ပုလိပ်ကိုမှ ထိုးလား ကြိတ်လား မလုပ်နဲ့၊ သွားလုပ်ရင် ကိုယ့်ကိုယ်ကို သေကြောင်းကြံတာနဲ့ အတူတူပဲ၊ လူနံလူအ တစ်ယောက်လိုသာ နေပါဗျာ"

"အဲဒီ ခွေးမသားတွေက ဘာပဲလုပ်လုပ် ကျုပ်က ဘာမှ ပြန်မပြော ပြန်မလုပ်ဘဲ နေရမယ် ဆိုပါတော့၊ ဟုတ်လား"

"အဲဒီလိုတော့လည်း မဟုတ်ပါဘူး၊ ဒီမှာ ကျုပ် ပြောမယ်၊ ကျုပ် ကနေ့ည ခင်ဗျားတို့ တဲကို အလည်လာခဲ့မယ်၊ ကျုပ် အခု ပြောနေတာတွေဟာ မှားချင်လည်း မှားမယ်ပေါ့ဗျာ၊ ကျုပ်ရဲ့ ခေါင်းပတ်ပတ်လည်မှာ ဆွဲစရာ တွယ်စရာ အတက်အလက်တွေ ကတော့ အများကြီးပဲ၊ ကျုပ်လည်း တွယ်နိုင် ကပ်နိုင်မယ့် အခါအခွင့်ကို စောင့်နေတာပဲ၊ ကျုပ်မှာလည်း ကလေးတစ်ယောက်တော့ ရှိနေပြီ၊ ဒါပေမဲ့ ဘာပဲဖြစ်ဖြစ် ကျုပ် လာခဲ့မယ်လေ၊ လောလောဆယ် အရေးကြီးတာ တစ်ခု ရှိတယ်၊ တကယ်လို့ ခင်ဗျားဆီကို ပုလိပ်တစ်ကောင် ရောက်လာရင် ခင်ဗျားဟာ လူ့အလူ့န တစ်ယောက်လို နေပြပါ၊ အလွန်အ အလွန်ထူတဲ့ အုတ်ကီးတစ်ယောက်လို့ ထင်သွားအောင် နေပြလိုက်ဗျာ"

"ဘာမှ မဖြစ်ဘူးဆိုရင်တော့ ဘာမှ မလုပ်ဘဲ နေလို့ရပါတယ်" ဟု တွမ်က ပြန်ပြောသည်။

"မပူပါနဲ့ဗျာ၊ ဘာမှတော့ မဖြစ်ပါဘူး၊ အရေးကြီးတာက ကျုပ်တို့အနေနဲ့ ဟိုစပ်စပ် သည်စပ်စပ် မလုပ်ဖို့ပဲ" သူသည် သူ့အလုပ်ကို ပြန်လုပ်နေသည်။ မျက်နှာပုံစံကလည်း ချက်ချင်း ပြောင်းလဲသွားသည်။ ဘာကိုမှ မသိနားမလည်သည့် ခပ်ထုံထုံ လူတစ်ဦး၏ ပုံစံမျိုး။

တွမ်သည် သူတို့ တဲဘက်သို့ ဆက်၍ လျှောက်လာသည်။ နှုတ်မှလည်း "ကြောင်ပေါက်ကြီး" ဟု တီးတိုး ရေရွတ်လေသည်။

အဖေဂျုတ်နှင့် ဦးလေးဂျွန်တို့သည် ထင်းခွေ ထွက်သွားရာမှ ပြန်ရောက် လာကြသည်။ ပွေ့လာသော မိုးမခသား ထင်းခြောက်များကို မီးဖိုဘေးသို့ ပစ်ချလိုက်ပြီး မီးဖိုနှင့် မလှမ်းမကမ်းတွင် ဝင်ထိုင်ကြလေသည်။ "ထင်းခွေသွားရတာကလည်း မနီးလှဘူးဟ" ဟု အဖေဂျုတ်က ပြောသည်။ ပြီးတော့ ဘေးမှ ဝိုင်းအုံ၍ ရပ်နေကြသည့် ကလေးများကို မော့ကြည့်ကာ "ဘုရားသခင် ကယ်တော်မူပါ" ဟု ရေရွတ်သည်။ "ကဲ ဆိုကြစမ်း၊ မင်းတို့က ဘာကိစ္စနဲ့ ဘယ်ကများ ရောက်လာကြတာလဲဗျာ" ဟု မေးသည်။ ကလေးများက အဖြေ မပေး။ ရှက်ရွံ့စိတ်ဖြင့် မလုံမလဲဖြစ်ကာ သူတို့ ခြေထောက်များကို ငုံ့ကြည့်နေကြလေသည်။

"ဟင်းနံ့လာခံကြတာ ထင်ပါရဲ့" ဟု အမေက ပြောသည်။ "ကဲကွယ် ဝင်းဖီး၊ ဘေးဖယ်စမ်းပါဦး" အမေသည် သူ့အား မှီကပ်ရပ်နေသော ဝင်းဖီးအား တွန်း၍ ဖယ်လိုက်လေသည်။ "ဟင်းတစ်ခွက်တော့ ချက်ဦးမှ ဖြစ်မယ်" ဟု ဆိုသည်။ "အိမ်က ထွက်လာကတည်းက ဟင်းရယ်လို့ တူတူတန်တန် ချက်မစားနိုင်ခဲ့ဘူး၊ ကဲ အဖေကြီးက အသားနည်းနည်း သွားယူပေး၊ ကျွန်မ ဟင်းကောင်းတစ်ခွက် ချက်မယ်" အဖေဂျုတ်က ချက်ချင်းပင် ထိုင်နေရာမှ ထ၍ ထွက်သွားလေ၏။

အယ်လ်သည် မော်တော်ကား စက်ဖုံးကို ဖွင့်ကာ ဆီချေး အထပ်ထပ် တက်နေသော စက်ကို ငုံ့ကြည့်နေရာမှ သူ့အနီးသို့ ရောက်လာသော တွမ်အား မော့ကြည့်သည်။ "ခင်ဗျား ကြည့်ရတာ သိမ်းငှက်ပေါက်စ တစ်ကောင်နဲ့ တူတယ်၊ ရွှင်မြူးလို့ပါလား" ဟု အယ်လ်က ဆီးပြောသည်။

"ဆောင်းအကုန် နွေအကူး ရာသီမှာ ရွာတဲ့ မိုးရေအောက်က ဖားပြုပ်တစ်ကောင် မြူးသလို မြူးနေတာပေါ့ကွ" ဟု တွမ်က ပြန်ပြောလေသည်။

"အင်ဂျင်ကို လာကြည့်စမ်းပါဦး" ဟု အယ်လ်က ခေါ်ပြသည်။ "ဘယ့်နယ်လဲ၊ အိုကေနေတာပဲ မဟုတ်လား"

တွမ်က ငုံ့ကြည့်သည်။ "အိုကေပါတယ်၊ ဘာဖြစ်လို့လဲ"

"ဘာမှ မဖြစ်ပါဘူး၊ အိုကေရဲ့လားလို့ မေးတာပါ၊ ဘုရားသခင် မတာပဲ၊ ဘယ်လောက်ကောင်းတဲ့ အင်ဂျင်လဲ၊ အံ့သြဖို့ကောင်းတယ်၊ ဆီစားလည်း သက်သာတယ်၊ တစ်လမ်းလုံး ဘာဆိုဘာမှ မဖြစ်ဘူး" အယ်လ်က ပလပ်တစ်ခုကို ဖြုတ်၍ လက်ညှိုးဖြင့် အပေါက်ထဲသို့ နှိုက်ကြည့်သည်။ "ချေး နည်းနည်းလေးပဲ တက်တယ်၊ ဒါပေမဲ့ စိုမနေဘူး၊ ခြောက်နေတယ်"

"မင်း ကားဝယ်တာ တကယ့်ကို တော်တယ်ကွာ၊ မင်း ငါ့ကို ပြောစေချင်တဲ့ စကားက ဒါပဲ မဟုတ်လား"

"ထားလိုက်ပါတော့ဗျာ၊ ကျုပ်က တစ်လမ်းလုံး စိတ်ပူလာတာ၊ တစ်နေရာရာမှာ လုံးဝ မောင်းမရအောင် ပျက်သွားလိမ့်မယ်လို့ ထင်တာ၊ တကယ်လို့ ပျက်ရင်လည်း ကျုပ်အပြစ် ဖြစ်မှာ သေချာတယ် "

"မဖြစ်ပါဘူးကွာ၊ မင်း လုပ်လာတာ အဆင်ပြေပါတယ်၊ မင်း သူ့ကိုတော့ စစ်ဆေးထားဦး၊ မနက်ဖြန်ဆိုရင် ငါတို့ အလုပ်ရှာ ထွက်ရမှာ"

"မပူပါနဲ့ သူကတော့ ဆက်ပြီး လိမ့်မှာပါ" ဟု အယ်လ်က ပြောသည်။ သူသည် အိတ်ကပ်ထဲမှ မောင်းချများတစ်ချောင်းကို ထုတ်ကာ စောစောက ဖြုတ်ထားသော ပလပ်ထဲမှ ချေးများကို ခြစ်ထုတ်ပစ်နေသည်။

တွမ်သည် ရွက်ထည်တဲကို ကွေ့ပတ်၍ လျှောက်လာသည်။ တရားဟောဆရာ ကက်ဆီသည် တဲ၏ အနောက်ဘက် မြေကြီးပေါ်တွင် ခြေဆင်းထိုင်ကာ ခြေထောက်တစ်ဖက်ကို စိမ်ပြေနပြေ ကြည့်နေသည်။ တွမ်က သူ့ဘေးတွင် ဝင်၍ ခြေပစ်လက်ပစ် ထိုင်ချလိုက်လေသည်။

"သူတို့ကို အလုပ် လုပ်ခိုင်းဖို့များ စိတ်ကူးနေသလား "

"ဘာ "

"ခင်ဗျားရဲ့ ခြေချောင်းတွေကို ပြောတာပါ "

"သြော် အလကားပါ၊ ငါ ထိုင်ပြီး တွေးနေတာပါ"

"ခင်ဗျားဟာက တစ်မျိုးပဲ၊ တွေးတော့မယ်ဆိုရင် သက်သောင့်သက်သာ ဖြစ်အောင် နေပြီးမှ တွေးတတ်တယ်နော် " ဟု တွမ်က ဆိုသည်။

ကက်ဆီသည် သူ့ခြေမကို ထောင်လိုက်ကုတ်လိုက် လုပ်၍ ကစားနေရာမှ ပြုံးသည်။

"အချိန်ရှိသမျှ တွေးတောနေတာပဲလား " ဟု တွမ်က မေးသည်။

"အေး ဟုတ်တယ်၊ အချိန်ရှိသမျှ တွေးနေတာပဲ "

"တွမ်က သူ့ခေါင်းမှ ဦးထုပ်ကို ချွတ်၍ စေ့စေ့စပ်စပ် ကြည့်နေသည်။ ဦးထုပ်တစ်ခုလုံးမှာ ရစရာ မရှိအောင် ညစ်ပတ် ပေရေလျက် ရှိလေပြီ။ ဦးထုပ်လျှာများမှာလည်း ကျိုးနေပြီ ဖြစ်၏။ "ချေးက သိပ်ထွက်တော့ ကြာရှည် ဘယ်ခံမလဲ၊ ဦးထုပ်တစ်ခုလုံး ကြေမွနေတာပဲ" ဟု ရေရွတ်သည်။ သူသည် တလှုပ်လှုပ် ဖြစ်နေသော ကက်ဆီ၏ ခြေချောင်းများကို စိတ်ဝင်တစား ကြည့်နေသည်။ "ခင်ဗျားရဲ့ အတွေး သံသရာထဲက ခဏလောက် ထွက်လာပြီး တစ်မိနစ်လောက်ဖြစ်ဖြစ် ကျုပ် ပြောတာ နားထောင်နိုင်မလား"

သစ်တစ်ပင်၏ ပင်စည်နှင့် တူလှသော သူ့လည်ပင်းပေါ်မှ ဦးခေါင်းသည် တွမ်ဘက်သို့ လှည့်လာသည်။ "အချိန်ရှိသမျှ နားကလည်း ထောင်နေတာပဲ၊ ဒါကြောင့်လည်း ငါ တွေးနေတာပေါ့ကွ၊ လူတွေ ပြောသမျှကို ငါ ကြားရတယ်၊ စိတ်ကလည်း ခံစားရတယ်၊ သူတို့ အဖြစ်က အင်မတန် ကျဉ်းကျပ်တဲ့ အထပ်ခိုးလေး တစ်ခုထဲမှာ ကတ်သီးကတ်သတ် ပျံနေရတဲ့ ငှက်တစ်ကောင်ရဲ့ အဖြစ်မျိုးပဲ၊ အင်မတန် ညစ်ပတ်ပေရေနေတဲ့ ပြတင်းပေါက်က ငှက် ပျံထွက်ဖို့ ကြိုးစားရင် အတောင်တွေ ကျိုးရမယ့် အခြေအနေမျိုးပဲ"

တွမ်က ပြူးကျယ်သော မျက်လုံးအစုံဖြင့် ကက်ဆီ၏ မျက်နှာကို ကြည့်၍ အကဲခတ်သည်။ ထို့နောက် မျက်နှာကို လွှဲကာ ပေနှစ်ဆယ်ခန့် အကွာမှ ရွက်ထည်တဲ တစ်လုံးဆီသို့ လှမ်းမျှော်၍ ကြည့်သည်။ တဲ၏ ဆိုင်းကြိုးများပေါ်၌ လှန်းထားသည့် ဂျင်းဘောင်းဘီနှင့် ရှပ်အင်္ကျီများ၊ "ကျုပ် ခင်ဗျားကို ပြောမယ့်ကိစ္စက အဲဒါတွေပဲ၊ ခင်ဗျား မြင်တယ် မဟုတ်လား"

"မြင်တယ်" ဟု ကက်ဆီက ပြောသည်။ "လက်နက် ကိရိယာ တန်ဆာပလာ အစုံအလင်နဲ့ ထွက်လာတဲ့ စစ်တပ်ကြီး တစ်တပ်လိုပဲ" သူသည် ခေါင်းကို ရှေ့သို့ ငုံ့လိုက်ပြီး လက်တစ်ဖက်ဖြင့် ငယ်ထိပ်ကြီးသို့ ထိုးဖွကာ ကုတ်သည်။ "တစ်လမ်းလုံး တောက်လျှောက် မြင်လာရတာပဲ" ဟု ဆက်ပြောသည်။ "ငါတို့ နားနေခဲ့တဲ့ နေရာတိုင်းမှာလည်း မြင်ခဲ့တာပဲ၊ အားလုံး အသားလေး ဘာလေး စားချင်ကြတယ်၊ စားချင်တာလေး ရပြန်တော့လည်း မဝကြဘူး၊ သိပ်ပြီး ဝေ်လွန်းအား ကြီးပြန်တော့လည်း သူတို့ခမျာများမှာ ခံနိုင်ရည် မရှိကြတော့ဘူး၊ ဘုရားသခင်ဆီမှာ ဆုတောင်းပေးဖို့ ငါ့ကို လာပြောကြတယ်၊ တစ်ခါတစ်လေ တော့လည်း ငါက ဆုတောင်းပေးပါတယ်" သူသည် ဒူးနှစ်လုံးကို ထောင်၍

လက်နှစ်ဖက်ဖြင့် ပိုက်ထားလိုက်သည်။ "ဒါပေမဲ့ ခက်တယ်၊ ကြုံနေရသမျှ ဒုက္ခအားလုံးကို ဘုရားသခင်ဆီ တင်ပြရတာဟာ ယင်ကောင်ဖမ်းတဲ့ စက္ကူကတ်ပြားပေါ်မှာ ပျံသန်းနေတဲ့ ယင်ကောင်လိုများ ဖြစ်နေမလားလို့ ငါ တွေးမိတယ်၊ ဒါကြောင့် ငါ ဆုတောင်း မပေးချင်တော့ဘူး၊ ဆုတောင်းပေးလို့ မရပါဘူး၊ အလုပ် မဖြစ်ပါဘူး"

"ဆုတောင်းတာနဲ့ပဲ ကိုယ်စားချင်တဲ့ အသားက ရောက်လာမှာတဲ့လား၊ မရောက်လာပါ ဘူးဗျာ"

"ဒါပေါ့ကွ" ဟု ကက်ဆီက ထောက်ခံသည်။ "ဘုရားသခင်ကတော့ ဘယ်တော့မှ လုပ်ခ တိုးလာအောင် လုပ်မပေးပါဘူး၊ ဒီလူတွေ အားလုံးဟာ ကောင်းကောင်း နေချင်ကြတယ်၊ စားချင်ကြတယ်၊ ဝတ်ချင်ကြတယ်၊ သူတို့ ကလေးတွေကိုလည်း ကောင်းကောင်းမွန်မွန် ကျွေးမွေးပြီး လူလူသူသူ ဖြစ်အောင် မွေးချင်ကြတယ်၊ သူတို့ အိုမင်းသွားတဲ့အခါမှ အိမ်ထဲမှာ အေးအေးဆေးဆေး ထိုင်ပြီး အနောက်ဘက်မှာ မေးတင်နေတဲ့ ဝင်လုဆဲဆဲ နေမင်းကြီးကို ကြည့်ချင်ကြတယ်၊ သူတို့အနေနဲ့ အသက်အရွယ် ငယ်တုန်းမှာတော့ ကချင် ခုန်ချင်တယ်၊ သီချင်း ဆိုချင်တယ်၊ အတူတူတွဲပြီး အိပ်ချင်ကြတယ်၊ စားချင်တာလေး စားချင်ကြတယ်၊ အရက်လည်း သောက်ချင်တာပဲ၊ အလုပ်ကိုလည်း လုပ်ချင်တာပဲ၊ ဒါဟာ လူ့သဘာဝပါ၊ အခုလို အစိပ္ပာယ်မရှိ ခြေသလုံး အိမ်တိုင်လုပ်ပြီး တလည်လည် လျှောက်သွားနေရတဲ့ ဘဝဟာ ဘယ်လောက် ဆိုးသလဲ၊ ကိုယ်ရောစိတ်ပါ အင်မတန် ပင်ပန်းတဲ့ အဖြစ်မျိုးကို ဘယ်သူ လိုလားမလဲ၊ ဘုရားသခင်ရယ် တပည့်တော်ဆိုတဲ့အကောင် ဘာတွေများ လျှောက်ပြောနေမိပါလိမ့် "

"ကျုပ်လည်း မသိဘူး" ဟု တွမ်က ပြောသည်။ "ဒါပေမဲ့ ခင်ဗျား ပြောနေတဲ့ စကားတွေဟာ နားထောင်လို့တော့ ကောင်းတယ်၊ ဘာပဲဖြစ်ဖြစ်လေ ခင်ဗျားအနေနဲ့ အလုပ်တစ်ခု ရနိုင်တယ် ဆိုရင်တော့ အတွေးကို စွန့်တော့မယ် မဟုတ်လား၊ ကျုပ်တို့အားလုံး အလုပ်တော့ လုပ်မှ ဖြစ်တော့မယ်၊ ပါလာတဲ့ ငွေက ကုန်ခါနီးပြီ၊ အဘွားဂျုတ်ရဲ့ ခေါင်းအတွက် အဖေ ငွေ ငါးဒေါ်လာ ပေးခဲ့ရသေးတယ်၊ ကျုပ်တို့မှာ ငွေများများ မကျန်တော့ဘူးဗျ "

ခပ်ပိန်ပိန် အညိုရောင် ခွေးတစ်ကောင်သည် နာခေါင်းကို ရှုံ့ပွရှုံ့ပွ လုပ်ကာ တဲဘေးအတိုင်း လျှောက်လာသည်။ ခွေး၏ လှုပ်ရှားပုံမှာ ချောက်ချားနေပုံမျိုး ဖြစ်သည်။ တဖျပ်ဖျပ် လန့်လျက် ရှိ၏။ သူသည် တဖြည်းဖြည်းနှင့် လူနှစ်ယောက်အနီးသို့ ရောက်လာသည်။ လူနံ့ ရလိုက်သည်နှင့် တစ်ပြိုင်နက် ဖျတ်ခနဲ မော့ကြည့်သည်။ ထို့နောက် ဘေးသို့ တစ်ချက်မျှ ခုန်ရှောင်လိုက်ပြီး နားရွက်နှစ်ဖက်ကို နောက်ပစ်၍ အမြီးကို ဖင်ကြားညှပ်ကာ ဖနောင့်နှင့် တင်ပါးကို တစ်သားတည်း ကျနေအောင် ကဆုန်ဆိုင်း၍ ပြေးလေသည်။

ကက်ဆီက ခွေး ပြေးသွားနေသည်ကို မျက်စိတဆုံး ကြည့်သည်။ ပြီးတော့ သက်ပြင်း ချသည်။ "ငါ့အနေနဲ့ ဘယ်သူ့ကိုမှ ကောင်းကျိုးဖြစ်အောင် လုပ်မပေးခဲ့သေးဘူး" ဟု ပြောသည်။ "ကိုယ့်အတွက်ရော တခြားလူ အတွက်ရော ကောင်းတာ ဖြစ်အောင် လုပ်မပေးခဲ့သေးဘူး၊ ငါ တစ်ယောက်တည်း ခွဲထွက်သွားရရင် ကောင်းမလား စဉ်းစား နေတယ်၊ ခုဆို ငါ မင်းတို့နဲ့ လိုက်ပြီး မင်းတို့ရဲ့ အစားအစာကို ဝင်စားနေတယ်၊ မင်းတို့ဆီမှာ ကပ်ရပ်နေတယ်၊ မင်းတို့အတွက်ကျတော့ ငါ ဘာတစ်ခုမှ ပြန်မပေးဘူး၊ ငါ့မှာ အလုပ်တစ်ခု စွဲစွဲမြဲမြဲ ရသွားမယ် ဆိုရင်တော့ မင်းတို့ဆီက စားသောက်ထားသမျှအတွက် ပြန်ပေးနိုင်မယ်"

ကက်ဆီ ပြောသမျှကို ပါးစပ် အပေါင်းသားဖြင့် နားထောင်နေသော တွမ်သည် သူ့လက်ထဲမှ မှန်ညင်းပင် ရိုးတံခြောက် တစ်ချောင်းဖြင့် သူ့အောက်သွားများကို တဖြတ်ဖြတ် ရိုက်နေသည်။ သူ့မျက်လုံးများသည် မွဲခြောက်ခြောက် အရောင်အဆင်း ဆောင်လျက် ရှိကြသော ရွက်ထည်တဲများနှင့် ဖြစ်ကတတ်ဆန်း ဆောက်ထားသည့် တဲစုတ်တဲပုတ်များဆီသို့ လိုက်ကြည့်နေသည်။ "ဒါဟမ်ဆေး တစ်အိတ်လောက်များ ရှိရင် ဘယ်လောက် ကောင်းလိုက်မလဲ" ဟု ညည်းသည်။ "ဆေးလိပ် မသောက်ရတာ အတော့်ကို ကြာပြီဗျ၊ မက်အေလက်စတား ထောင်ထဲမှာတုန်းကတောင် ဆေးလိပ် မပြတ်ခဲ့ဘူး၊ တစ်ခါတစ်လေကျတော့ အဲဒီကိုပဲ ပြန်သွားချင်စိတ် ဖြစ်မိတယ်ဗျာ" သူသည် မှန်ညင်းရိုးဖြင့် သွားများကို ဆက်၍ ခေါက်နေပြန်သည်။ ထို့နောက် တရားဟော ဆရာဘက်သို့ ဖျတ်ခနဲ လှည့်ကြည့်သည်။ "ခင်ဗျား ထောင်ကျဖူးသလား"

"ဟင့်အင်း" ဟု ကက်ဆီက ဖြေသည်။ "တစ်ခါမှ မကျဖူးဘူး"

"အခု လောလောဆယ်တော့ မသွားပါနဲ့ဦးဗျာ၊ ကျုပ်တို့နဲ့ နေပါဦး"

"ငါ့အနေနဲ့ အလုပ်ရှာရှာချင်း သင့်ရာ တစ်ခုတော့ ရမယ်ထင်တာပဲ"

တွမ်က ကက်ဆီ၏ မျက်နှာကို စူးစူးစိုက်စိုက် ကြည့်၍ အကဲခတ်နေရင်းက သူ့လက်ထဲမှ ဦးထုပ်ကို ပြန်ဆောင်းလိုက်လေသည်။ "ကျုပ် တစ်ခု ပြောမယ်" ဟု စကားစသည်။ "ခင်ဗျားတို့ တရားဟောဆရာတွေ ဟောနေ ပြောနေကြသလို နွားနို့နဲ့ ပျားရည်ဆမ်းထားတဲ့ လောက ဆိုတာမျိုးက လက်တွေ့ကျတော့ ရှိတာ မဟုတ်ဘူးဗျ၊ လက်တွေ့ ရှိနေတာက အညံ့တွေချည်းပဲ၊ အခုပဲ ကြည့်ပါဦး၊ ဒီပြည်နယ်ထဲက လူတွေအနေနဲ့ သူတို့နယ်ထဲ ဝင်လာတဲ့ ကျုပ်တို့ကို အလကားနေရင်း ကြောက်နေကြတယ်၊ သူတို့ ကြောက်တာနဲ့ပဲ ပုလိပ်တွေကို ခေါ်ပြီး ကျုပ်တို့ကို ကြောက်အောင် ပြန်ခြောက်ဖို့ ကြိုးစားနေကြတယ်"

"အေး ဟုတ်တယ်၊ ငါ သိတယ်" ဟု ကက်ဆီက ထောက်ခံသည်။ "ဒါနဲ့ မင်းက ငါ့ကို ထောင်ကျဖူးသလားလို့ ဘာကြောင့် မေးရတာလဲ"

"ဒီလိုဗျ၊ ခင်ဗျား ထောင်ကျဖူးရင် အခြေအနေကို စိတ်က အလိုလို သိတတ်တဲ့ အလေ့အထ ရလာနိုင်တယ်၊ ထောင်ထဲမှာ ထောင်သားအချင်းချင်း အုပ်လိုက်သင်းလိုက် စကားပြောခွင့် မပေးဘူး၊ ဆိုကြပါစို့ရဲ့၊ နှစ်ယောက်ချင်းတောင် ပြောခွင့် မပေးဘူး၊ အဲဒီတော့ ဘယ်ကိစ္စမဆို ကိုယ့်စိတ်ထဲက အလိုလို တွေးပြီးသိနေတဲ့ သဘော ရိပ်မိတဲ့ သဘောတွေ ရှိလာတယ်၊ တကယ်လို့ တစ်စုံတစ်ခု အကြီးအကျယ် ဖြစ်တော့မယ်ဆိုရင် စိတ်ထဲက ယနမကင်းဘူး၊ သိနေသလို ဖြစ်လာတယ်၊ ဆိုပါတော့ ထောင်သား တစ်ယောက်က အစောင့်တစ်ယောက်ကို တုတ်တစ်ချောင်းနဲ့ ခေါင်းရိုက်ခွဲတော့မယ် ဆိုရင် မဖြစ်ခင်ကတည်းက မကြာခင် တစ်ခုခုတော့ ဖြစ်တော့မှာပဲလို့ စိတ်ထဲက ခံစားရတယ်၊ ဆိုကြပါစို့၊ ထောင်ထမှု ဖြစ်တော့မယ်၊ ဒါမှမဟုတ် ထောင်ဖောက်ပြေးတဲ့ အမှုမျိုး ပေါ်တော့မယ်ဆိုရင် ခင်ဗျားကို ဘယ်သူကမှ ပြောပြနေစရာ မလိုဘူး၊ ခင်ဗျားဘာသာ ခင်ဗျား စိတ်ထဲက အလိုလို သိနေတယ်လေ"

"အင်း"

"ခင်ဗျား ဘယ်ကိုမှ ထွက်မသွားနဲ့ဦး၊ ဒီမှာပဲ ကပ်နေဦး" ဟု တွမ်က ပြောသည်။ "နောက်ဆုံး ကုန်ကုန်ပြောလိုက်မယ်၊ ဘာပဲဖြစ်ဖြစ် မနက်ဖြန်အထိတော့ ခင်ဗျား ဒီမှာပဲ ကပ်နေဦး၊ ဒီမှာ တစ်ခုခုတော့ ဖြစ်လာလိမ့်မယ်၊ စောစောက ကျုပ် ချာတိတ်တစ်ယောက်နဲ့ ဟောဟိုဘက်မှာ စကားပြောခဲ့ရတယ်၊ သိလား၊ ဒီကောင်ကြည့်ရတာ လူလည်ဗျ၊ မြေခွေးတစ်ကောင်လို ဉာဏ်မျိုး ရှိပုံပေါ်တယ်၊ ဒါပေမဲ့ သူက မြေခွေးလိုတော့ ကောက်ကျစ်စဉ်းလဲမယ့်ပုံမျိုး မဟုတ်ဘူး၊ တခြားလူတွေကိုလည်း အန္တရာယ်ပေးမယ့် ပုံမျိုး မဟုတ်ဘူး"

ကက်ဆီက တွမ်ကို စိတ်ဝင်တစား ကြည့်နေရာမှ မေးခွန်းတစ်ခု မေးရန် ဟန်ပြင်သည်။ ထို့နောက် မမေးတော့ဘဲ ပါးစပ်ကို တင်းကျပ်စွာ စေ့ထားသည်။ သူ့ခြေချောင်းကလေးများကို တလှုပ်လှုပ် လုပ်နေရာမှ လက်နှစ်ဖက်ဖြင့် ပိုက်ထားသော ဒူးနှစ်ဖက်ကို ပြန်လွှတ်လိုက်၏။ "အေး ကောင်းပြီ၊ ငါ မသွားသေးဘူး" ဟု ရေရွတ်လေသည်။

"နားအေး ပါးအေး နေတတ်ပြီး သဘောကောင်းတဲ့ လူစုကတော့ ဘာဗဟုသုတမှလည်း ရှိတာ မဟုတ်ဘူး၊ တစ်ခုခု ဖြစ်လာလိမ့်မယ် ဆိုတာကို သူတို့ လုံးဝ မသိဘူး"

"ငါ နေဦးမှာပါ" ဟု ကက်ဆီက ထပ်ပြောသည်။

"မနက်ဖြန်ကျတော့ ကျုပ်တို့လူစု ထရပ်ကားနဲ့ ထွက်ပြီး အလုပ်ရှာကြမယ် "

"အေး ကောင်းတယ် " ဟု ကက်ဆီသည် သူ့ဝသီအတိုင်း ခြေချောင်းကလေးများကို တလှုပ်လှုပ် လုပ်နေပြန်သည်။ ပြီးတော့ တလှုပ်လှုပ် ဖြစ်နေသည့် ခြေချောင်းကလေးများကို စိတ်ပါလက်ပါ ကြည့်နေသည်။ တွမ်က မြေပေါ်၌ တံတောင်တစ်ဖက် ထောက်၍ လှဲလိုက်ပြီး မျက်လုံးများကို စုံမှိတ်ထားလိုက်၏။ တဲအတွင်းမှ ရှီစာဟန်၏ စကားတွတ်ထိုးသံနှင့် ကွန်နီ၏ ပြန်ပြောသံများ။

တာပေါ်လင် ရွက်ထည်အောက်တွင် အမှောင်သန်းလျက် ရှိသည်။ ရှီစာဟန်သည် မြေပေါ်၌ ချခင်းထားသည့် မွေ့ရာထက်၌ လဲလျောင်းလျက် ရှိ၏။ ကွန်နီကတော့ ရှီစာဟန်ဘေး၌ ထိုင်လျက်။ "ငါ အမေ့ကို ကူလုပ်ပေးသင့်တယ် " ဟု ရှီစာဟန်က ပြောသည်။ "ငါ့အနေနဲ့ ကူမလို့ ကြိုးစားပါသေးတယ်၊ ဒါပေမဲ့ မရဘူး၊ ငါ တစ်ခုခု ဖြစ်သွားမှာ ကြောက်တယ် " ကွန်နီ၏ မျက်လုံးများသည် စိတ်လက် မကြည်မသာ

ဖြစ်ခြင်းကို ဖော်ပြနေကြသည်။ "အခုလို အဖြစ်မျိုးနဲ့ ကြုံရမယ် ဆိုတာကို စောစောကသာ သိရင် ငါ လိုက်မလာပါဘူးဟာ၊ ကိုယ့်အရပ်မှာ ကိုယ်နေပြီး ထွန်စက်မောင်းသမား ဝင်လုပ်ရင် တစ်နေ့ သုံးဒေါ်လာတော့ ရမှာ ကျိန်းသေတယ်၊ တစ်နေ့ သုံးဒေါ်လာဆိုရင် ကောင်းကောင်း နေလို့ရတာပေ့ါ၊ ငါတို့ နှစ်ယောက် ညတိုင်း ရုပ်ရှင်ကြည့်ဦးမလား၊ ကြည့်နိုင်တယ်"

ရှိစာဟန်က စိုးရိမ်မကင်းသော မျက်နှာဖြင့် ကွန်နီအား ကြည့်သည်။ "နင် ပြောတော့ ညပိုင်းမှာ ရေဒီယို သင်တန်း တက်မယ်ဆို" ဟု မေးသည်။ ကွန်နီက ချက်ချင်း အဖြေမပေး။ "နင် အဲသလို ပြောခဲ့တယ် မဟုတ်လား" ဟု ထပ်မေးပြန်သည်။

"အေး ဟုတ်တယ်၊ ကိုယ့်ခြေထောက်ပေါ် ကိုယ်ရပ်နိုင်တာနဲ့ တစ်ပြိုင်နက် ရေဒီယိုပြင် ညသင်တန်း တက်မယ်လို့ စိတ်ကူးထားတယ်၊ ဒါပေမဲ့ ငွေနည်းနည်းပါးပါးတော့ ရှိထားမှ ဖြစ်မှာဟ"

ရှိစာဟန်သည် ပက်လက် အိပ်နေရာမှ သူ့ကိုယ်ကို ကွန်နီဘက်သို့ လှည့်၍ စောင်းအိပ်လိုက်ပြီး သူ့ခေါင်းကို တံတောင်တစ်ဖက်ဖြင့် ထောက်ထားလိုက်သည်။ ပြီးတော့ "နင် အားတော့ မလျှော့သေးဘူး မဟုတ်လား" ဟု မေးသည်။

"မလျှော့ဘူးဟာ၊ လုံးဝမလျှော့ဘူး၊ စိတ်ချ၊ ဒါပေမဲ့ ငါတို့ အခြေစိုက်ရမယ့် နေရာမျိုးက အခုရောက်နေတဲ့ နေရာမျိုးများ ဖြစ်မလား ဆိုတာ မသိရတာက ခက်တယ်"

ရှိစာဟန်၏ မျက်လုံးအစုံသည် အေးစက် မာကျောလာသည်။ "ဖြစ်တော့ကော ဘာလုပ်မလဲ၊ နင် နေရမှာပဲပေ့ါ" ဟု တည်ငြိမ်သော အသံဖြင့် ပြောသည်။

"ဒါပေ့ါ၊ ဒါပေ့ါ၊ နေရမှာပေ့ါ၊ ငါလည်း သိပါတယ်၊ အရေးကြီးတာက ကိုယ့်ခြေထောက်ပေါ် ကိုယ်ရပ်နိုင်ဖို့ပဲ၊ ငွေလည်း နည်းနည်းပါးပါး ရှိထားမှ ဖြစ်မယ်ဟ၊ အရင်က ထွက်မလာဘဲ ထွန်စက်မောင်း သင်တန်းသာ တက်လိုက်ရင် ပိုကောင်းမယ်လို့ ပြောတာပါ၊ နင်ပဲ စဉ်းစားကြည့်လေ၊ လုပ်ခငွေ တစ်နေ့ သုံးဒေါ်လာ ဆိုတာ နည်းသလား၊ တစ်နေ့ သုံးဒေါ်လာ အပြင် ငွေပို ရသေးတယ်" ရှိစာဟန်၏ မျက်လုံးများသည် တစ်စုံတစ်ခုသော အရာကို တွက်ချက်နေသည့်နယ် ရှိသည်။ ကွန်နီက ရှိစာဟန်၏ မျက်လုံးများကို သေသေချာချာ ကြည့်၍ အကဲခတ်သည်။ ရှိစာဟန်သည် သူ၏

အရည်အသွေးနှင့် သူ့သဘောထားကို ခန့်မှန်းနေခြင်း ဖြစ်သည်။ သံသယဖြစ်စရာ မလို။ "ဒါပေမဲ့ဟာ ငါ ပြောထားတဲ့အတိုင်း ညသင်တန်းတော့ တက်မှာပါ၊ ငါ့ခြေထောက်ပေါ် ငါ ရပ်နိုင်တာနဲ့ တစ်ပြိုင်နက် တက်မှာ"

ရိုစာဟန်က ဒေါ်သတကြီး ပြန်ပြောသည်။ "ကလေးမမွေးခင် ငါတို့မှာ အိမ်တစ်လုံးတော့ ရှိမှ ဖြစ်မယ်၊ ဒီကလေးကို ဘယ်ရွက်ထည်တဲမှာမှ မမွေးချင်ဘူး"

"အေးပါ" ဟု ကွန်နီက ပြန်ပြောသည်။ "ငါ့ခြေထောက်ပေါ်မှာ ရပ်နိုင်တာနဲ့ တစ်ပြိုင်နက် ဖြစ်ရမှာပါ" သူသည် တဲထဲမှ ထွက်ကာ မီးဖိုဘေး၌ အလုပ်ရှုပ်နေသော အမေဂျုတ်အား ရပ်ကြည့်နေသည်။ ရိုစာဟန်ကတော့ မွေ့ရာပေါ်၌ ပက်လက်လှန်ကာ တဲခေါင်မိုးကို ငေးစိုက် ကြည့်နေသည်။ ထို့နောက် သူ့ပါးစပ်ကို လက်ဝါးနှင့်အုပ်ကာ အသံမထွက်အောင် ကျိတ်၍ ငိုနေသည်။

အမေသည် မီးဖိုဘေးတွင် ဒူးထောက်ထိုင်ကာ ထင်းချောက်များကို တစ်ချောင်းပြီး တစ်ချောင်း ချိုး၍ ဟင်းအိုးကို မီးဆက်ပြတ်မသွားအောင် ထိုးပေးလျက် ရှိလေသည်။ မီးညွန့်များသည် တစ်ရှိန်ထိုး တက်လာလိုက် ပြန်ကျသွားလိုက် စုစုပေါင်း ဆယ့်ငါးယောက်မျှ ရှိသော ကလေးအုပ်သည် အမေ့ ပတ်လည်တွင် ငြိမ်သက်စွာ ရပ်ပြီး အမေ လုပ်ကိုင်နေသမျှကို စောင့်ကြည့်နေကြဆဲ။ မီးဖိုပေါ်ရှိ အသားဟင်းအိုးမှ ဟင်းနံ့ ထွက်လာသောအခါ သူတို့ နှာခေါင်းများသည် ရှုံ့ချည် ပွချည် ဖြစ်လာကြသည်။ သူတို့ ခေါင်းများပေါ်မှ ဖုန်အလိမ်းလိမ်း ကပ်နေသော နီညိုရောင် ဆံပင်များသည် နေရောင်ဖြင့် တလက်လက် တောက်ပလျက် ရှိကြလေသည်။

ကလေးများ အနားတွင် ရှိနေသဖြင့် အမေ့စိတ်မှာ အနှောင့်အယှက် ဖြစ်လျက် ရှိ၏။ သို့သော်လည်း ကလေးများကတော့ အမေ့အဖြစ်ကို မသိ။ အမေ့အပါးမှ ခွာ၍ မသွား။ အမေသည် ကလေးများ၏ အလယ်တွင် ရပ်နေသော မိန်းကလေးတစ်ယောက်ကို စကား လှမ်းပြောသည်။ ဤကလေးမသည် အခြား ကလေးများထက် အသက်ကြီးသည်။ သူသည် ခြေတစ်ဖက်တည်း ထောက်၍ ရပ်နေခြင်း ဖြစ်သည်။ အခြား ခြေတစ်ဖက်ကိုမူ နောက်သို့ ကွေးကာ ထောက်ထားသည့် ခြေထောက်၏ ဒူးခေါက်ကွေးတွင် တင်ထားသည်။ သူသည် လက်နှစ်ဖက်ကို နောက်ပစ်ကာ အမေ့အား မျက်တောင်မခတ် စိုက်ကြည့်လျက် ရှိရာမှ "အန်တီ ခိုင်းချင်တာရှိရင် ခိုင်းပါ၊ သမီး ပေါင်မုန့် လှီးတတ်တယ်" ဟု ပြောသည်။

အမေက ကလေးမအား မော့ကြည့်သည်။ "မင်းက ငါတို့ကို အစား စားစေချင်နေပြီလားဟင်"

"ဟုတ်ကဲ့ အန်တီ" ဟု ကလေးမက ဖြေသည်။

အမေက ဟင်းအိုးအောက်မှ ထင်းစများကို ပြင်၍ ထိုးသည်။ မီးတောက် မီးလျှံများသည် တဟုန်းဟုန်း ထကာ မြည်သံပေးလျက် ရှိကြလေ၏။ "မင်း မနက်စာ စားပြီးပြီလား" ဟု အမေက မေးသည်။

"မစားရသေးဘူး အန်တီ၊ ဒီက လူတွေမှာ အလုပ် မရှိကြဘူး၊ သမီးရဲ့ ပါပါကတော့ ဓာတ်ဆီဝယ်ဖို့ သူ့ပစ္စည်းတွေ ရောင်းမလို့တဲ့၊ ဓာတ်ဆီရရင် သမီးတို့ ဆက်သွားကြမှာ"

အမေက ကလေးအားလုံးကို လှည့်ကြည့်လိုက်သည်။ "မင်းတို့ အားလုံး မနက်စာ မစားကြရသေးဘူးလား"

မီးဖိုပေါ်မှ တပွက်ပွက် ဆူနေသော အိုးကို စိုက်ကြည့်နေကြသည့် ကလေးများ၏ မျက်လုံးများသည် လွှဲဖယ်သွားကြလေသည်။ သူတို့ထဲမှ ခပ်ငယ်ငယ် ကလေးတစ်ယောက် ကမူ "ကျွန်တော် စားပြီးပြီဗျ၊ ကျွန်တော်ရယ် ကျွန်တော့်အစ်ကိုရယ် နှစ်ယောက်စလုံး စားပြီးပြီ၊ ပြီးတော့ သူတို့နှစ်ယောက်လည်း စားပြီးပြီ၊ ကျွန်တော် သူတို့ စားနေတာကို မြင်ခဲ့တယ်၊ နောက်ပြီးတော့ ကျွန်တော်တို့ ကနေ့ည တောင်ပိုင်းကို သွားကြတော့မလို့" ဟု ဝင့်ကြွားသော လေသံဖြင့် ပြောသည်။

အမေက ပြုံးလေသည်။ "ဒီလိုဆိုရင် မင်းက ဘယ်ဆာတော့မလဲ" ဟု အလိုက်သင့် ပြန်ပြောသည်။

သူ၏ နှုတ်ခမ်းသည် ရှေ့သို့ ထော်၍ ထွက်လာသည်။ "ကျွန်တော်တို့ အဝစားထားကြတာ" ဟု ပြောသည်။ ထို့နောက် ချာခနဲ နောက်ပြန်လှည့်ကာ ပြေးထွက်သွားပြီး တဲတစ်လုံး အတွင်းသို့ ဝင်သွားသည်။ အမေသည် သူငယ် ထွက်ပြေး သွားရာ နောက်သို့ အချိန်အတော်ကြာမျှ ငေးမျှော်၍ ကြည့်နေသည်။ စောစောက သူနှင့် စကားပြောခဲ့သော ကလေးမ၏ အသံကို ကြားခါမှပင် သတိပြန်ဝင်လာသည်။

"မီးငြိမ်းသွားပြီ အန်တီ၊ သမီး မီးထိုးပေးရမလား"

ရှုသီနှင့် ဝင်းဖီးတို့ မောင်နှမသည် ကလေးများ၏ အလယ်တွင် ရပ်လျက် ရှိကြ၏။ သူတို့အဖို့ကတော့ အားငယ်စရာ မရှိ။ အခြေအနေက ကောင်းနေသဖြင့် ဂုဏ်တက်လျက် ရှိသည်။ သူတို့သည် အခြား ကလေးများနှင့် မတူ။ သူတို့ဘဝသည် လုံခြုံမှု အပြည့်။ ရှုသီက သူ့အမေအား လှမ်း၍ မေးလိုက်သည့် ကလေးမကို မနှစ်သက်သော မျက်နှာထားဖြင့် မျက်စောင်းထိုး၍ ကြည့်သည်။ ထို့နောက် အမေ့ဘေး၌ ဝင်ထိုင်ကာ ထင်းခြောက်များကို ချိုးသည်။

အမေက ဟင်းအိုးအဖုံးကို ဖွင့်ပြီး အထဲမှ ဟင်းရည်ကို တုတ်တစ်ချောင်းဖြင့် မွှေသည်။ "အင်း မင်းတို့တတွေ အခုအချိန်အထိ မဆာသေးတာကိုပဲ ငါ ဝမ်းသာလှတယ်ကွယ်၊ ဘာပဲဖြစ်ဖြစ် ဟိုကလေး တစ်ယောက်ကတော့ စားပြီးသွားပြီ၊ တော်ပါသေးရဲ့"

ကလေးမက နှာခေါင်းရှုံ့သည်။ "ဟိုကောင်လေးက ငကြွားလေး အန်တီရဲ့၊ လေလုံး မိုးလုံးက ထွားတယ်၊ ညစာ မစားရတဲ့အခါဆိုရင် သူ ဘာလုပ်တယ် ထင်သလဲ၊ မနေ့ညက သူ ညစာ မစားရတော့ အပြင်ထွက်လာပြီး သူတို့ ကြက်သား ချက်စားတယ်လို့ လျှောက်ပြောတယ်၊ သမီး သွားချောင်းကြည့်တော့ ကြက်သားမပြောနဲ့ ညစာတောင် စားစရာမရှိဘူး၊ သူတို့လည်း တခြား လူတွေလိုပဲ ဂျုံမှုန့်မီးဖုတ်ကိုပဲ စားနေရတာ"

"အိုကွယ်" ဟု အမေ့နှုတ်မှ ရေရွတ်သံ တစ်ခွန်း ထွက်လာသည်။ အမေ့မျက်လုံးများသည် စောစောက သူငယ်ကလေး ပြေးဝင်သွားသော တဲဆီသို့ ရောက်သွားသည်။ အတန်ကြာမှ ကလေးမဘက်သို့ ပြန်လှည့်ကြည့်သည်။ "သမီးတို့ ကယ်လီဖိုးနီးယားကို ရောက်နေတာ ဘယ်လောက် ကြာပြီလဲ" ဟု မေးသည်။

"ခြောက်လလောက် ရှိပြီ အန်တီ၊ သမီးတို့ အစိုးရ ဖွင့်ထားတဲ့ စခန်းတစ်ခုမှာ နေခဲ့သေးတယ်၊ ပြီးတော့မှ ဟိုး မြောက်ဘက်ကို သွားခဲ့ကြတာ၊ သမီးတို့ အဲဒီက ပြန်လာတော့ စခန်းမှာ လူတွေ ပြည့်နေပြီ၊ နေစရာ မရှိတော့ဘူး၊ အဲဒီစခန်းက သိပ်ကောင်းတာ"

"အဲဒီ စခန်းက ဘယ်မှာလဲ" ဟု အမေက မေးသည်။ သူသည် ရှုသီ၏ လက်တွင်းမှ ထင်းချောင်းများကို ယူကာ မီးထပ်ထိုးသည်။ ရှုသီကတော့ သူ့ထက် အသက်နည်းနည်းကြီးပုံရသော ကလေးမအား မုန်းတီး ရွံရှာသည့်ဟန်ဖြင့် ကြည့်လျက် ရှိလေသည်။

"ဝိပက်ချ်ဘက်မှာ အန်တီရဲ့၊ အိမ်သာ ရေချိုးခန်းတွေကလည်း သိပ်သန့်တာပဲ၊ အဝတ်လျှော်တော့လည်း ကြွေဇလုံကြီးတွေနဲ့ လျှော်လို့ရတယ်၊ ရေကလည်း ပေါမှ ပေါပဲ၊ သောက်ရေကျတော့လည်း သိပ်ကောင်းတာပဲ၊ ညဆိုရင် လူကြီးတွေက သီချင်းဆိုကြ၊ ဂီတာတီးကြနဲ့ ပျော်စရာ ကောင်းတယ်၊ စနေနေ့ညဆိုရင် သူတို့က ကပွဲ လုပ်ပေး သေးတယ်၊ ဒီလောက် ကောင်းတဲ့ နေရာမျိုးကို အန်တီ ဘယ်တော့မှ မြင်ဖူးမှာ မဟုတ်ဘူး သိလား၊ သမီးတို့ ကလေးတွေ အတွက်လည်း ကစားစရာ နေရာ လုပ်ပေးထားတယ်၊ အီအီးကုန်းတော့လည်း စက္ကူနဲ့ ကုန်းရတာ၊ အီးပါပြီးရင် ကြိုးကိုသာ ဆွဲလိုက် ရေတွေ ဝေါခနဲကျလာပြီး ဆေးပြီးသား ဖြစ်သွားရော၊ အချိန်မဟုတ် အခါမဟုတ် လာလာပြီး စစ်တဲ့ ဆေးတဲ့ ပုလိပ်တွေလည်း မရှိဘူး၊ စခန်းကို အုပ်ချုပ်တဲ့ လူတွေကဆို သိပ်သဘော ကောင်းတယ်၊ ဘယ်သူမဆို အလည်လာလို့ရတယ်၊ စကားပြောလို့ရတယ်၊ အဲဒီစခန်းမှာ ထပ်နေပါရစေလို့ သမီး အမြဲ ဆုတောင်းတယ်"

"ဒီစခန်းအကြောင်း ငါ မကြားဖူးဘူး၊ အဝတ်လျှော်တဲ့ ကြွေဇလုံခွက်ကြီးတွေကို ငါလည်း သုံးတတ်မှာပါ"

ကလေးမက သူ့စကားကို ဆက်ပြန်သည်။ "သူတို့က ရေနွေးလည်း အမြဲရအောင် လုပ်ထားတာ၊ ရေနွေးတွေက ပိုက်တွေထဲမှာ အမြဲ ရှိနေတာ၊ ရေချိုးရင်လည်း ရေပန်းကရားလို ဟာမျိုးနဲ့ အန်တီရဲ့၊ ရေနွေးနဲ့ ချိုးချင်လည်း ရတယ်၊ ဒီလိုနေရာမျိုးကို မြင်ဖူးဖို့ မလွယ်လှဘူး"

"အခုတော့ လူပြည့်နေပြီဆို"

"ဟုတ်တယ် တစ်ချိန်က နေခဲ့ဖူးတာ"

"ငွေသိပ်ကုန်မယ် ထင်တယ်ကွယ့်" ဟု အမေက ဆိုသည်။

"ဟုတ်တယ် ငွေတော့ ကုန်တယ်၊ ဒါပေမဲ့ တကယ်လို့ အန်တီ့မှာ ငွေပေးစရာ မရှိရင် သူတို့က အလုပ် လုပ်ခိုင်းတယ်၊ တစ်ပတ်ကို နှစ်နာရီ သန့်ရှင်းရေး လုပ်ခိုင်းတယ်၊ အမှိုက်သရိုက်တွေကို ရှင်းပေးရတယ်၊ ညကျရင် အားလုံး သီချင်းဆိုကြ၊ တီးကြ မှုတ်ကြ၊ စကားတွေ ပြောကြနဲ့ ပျော်စရာကြီးပဲ၊ ဒီလောက်ကောင်းတဲ့ နေရာမျိုးကို မတွေ့ဖူးဘူး"

"အဲဒီနေရာမျိုးကို တို့လည်း သွားချင်တယ်ကွယ် " ဟု အမေက ပြောသည်။

ရှုသီအနေဖြင့် သည်းခံနိုင်သမျှ သည်းခံနေသေးသည်။ နောက်ဆုံး သည်းမခံနိုင်တော့သည့် အခါတွင်မူ သူ့စိတ်ထဲရှိရာကို ဒေါသတကြီး ပြောသည်။ "အဘွား ကားပေါ်မှာ သေသွားတာ မမှတ်မိတော့ဘူးလား " ကလေးမသည် ရှုသီ၏ စကားကို နားမလည်သဖြင့် ငေး၍ ကြည့်နေသည်။ "ဟုတ်တယ်၊ တို့အဘွားသေတာ ထရပ်ကားကြီးပေါ်မှာ သေရတာ၊ ကောင်းကောင်းလည်း မသင်္ဂြိုဟ်ခဲ့ရဘူး" ရှုသီက နှုတ်ခမ်းများကို တင်းတင်းစေ့ကာ ထင်းခြောက်များကို ဆက်၍ ချိုးနေသည်။

ရဲရဲဝံ့ဝံ့ ဖွင့်၍ တိုက်လိုက်သော ရှုသီ၏ ရဲရင့်မှုကို သဘောကျသူမှာ ဝင်းဖီး။ "ဟုတ်တယ်၊ ကားပေါ်မှာ သေတာ " ဟု သံယောင်လိုက်ပြောသည်။ "သူ့ကို ပေးတဲ့ ခေါင်းအကြီးကြီးထဲကို ထည့်ပြီး ထားခဲ့ရတာ"

"နင်တို့ နှစ်ယောက်စလုံး အခုချက်ချင်း ပါးစပ်တွေကို ပိတ်ထားကြစမ်း၊ ပိတ်မထားရင် ဒီနေရာမှာ မနေကြနဲ့၊ သွားကြ" ဟု အမေက ထ၍ ကြိမ်းသည်။ သူသည် ထင်းချောင်းများကို မီးဖိုထဲသို့ ထည့်နေသည်။

အယ်လ်သည် အပေါက်ဖာနေသော လူငယ်အနီးတွင် ရပ်လျက် ရှိ၏။ "ကြည့်ရတာ ပြီးခါနီးသွားပြီ ထင်ပါရဲ့ " ဟု အယ်လ်က စကားစသည်။

"နှစ်ပေါက် ကျန်သေးတယ်ကွ "

]"ဒီစခန်းမှာ ကောင်မလေးတွေ မရှိဘူးလားဗျ"

"ငါ့မှာ မိန်းမ ရှိတယ်" ဟု လူငယ်က ပြန်ပြောသည်။ "ကောင်မလေးတွေကို လိုက်ဖို့အချိန် ငါ့မှာ မရှိဘူး"

"ကျုပ်ကတော့ ကောင်မလေးတွေ အတွက်ဆိုရင် အမြဲတမ်း အချိန်ရတယ်၊ တခြားကိစ္စအတွက် ဆိုရင်တော့ အချိန် သိပ် မရှိဘူး"

"မင်း မငတ်သေးလို့ပါ၊ နည်းနည်းပါးပါးလောက် ငတ်လိုက်တာနဲ့ တစ်ပြိုင်နက် မင်းရဲ့ အချိုးဟာ ပြောင်းသွားပါလိမ့်မယ် "

အယ်လ်က ဟက်ဟက်ပက်ပက် ရယ်သည်။ "မှန်ကောင်း မှန်ပါလိမ့်မယ်၊ ဒါပေမဲ့ အခု အချိန်အထိတော့ ကျုပ် အကျင့်က လုံးဝ အပြောင်းအလဲ မရှိသေးဘူး"

"စောစောက ငါ လူတစ်ယောက်နဲ့ စကား ပြောလိုက်ရတယ်၊ သူက မင်းနဲ့ အတူတူ လာကြတာ မဟုတ်လား"

"ဟုတ်တယ်၊ ကျုပ်အစ်ကို တွမ် ဆိုတာ သူပဲ၊ သူ့ကိုတော့ သွားပြီး အရှုး မလုပ်လေနဲ့၊ သူက လူတစ်ယောက် သတ်လာတာ "

"ဟုတ်လား၊ ဘာပြုလို့ သတ်တာလဲ "

"ရန်ပွဲပေါ့ဗျာ၊ ဟိုအကောင်က တွမ်ကို ဓားနဲ့ထိုးတယ်၊ တွမ်က တူရွင်းပြားနဲ့ ကောက်ရိုက်တယ် "

"သူ့ကြည့်တော့ ရန်ဖြစ်တတ်မယ့်ပုံ မပေါ်ဘူး၊ ခပ်အေးအေးပဲ"

"ဟုတ်တယ်ဗျ၊ ဒါပေမဲ့ တွမ်က ဘယ်သူ စော်ကားတာကိုမှ ခံတတ်တဲ့ လူစား မဟုတ်ဘူး" အယ်လ်၏ အသံက ဂုဏ်ယူဝင့်ကြွားသည့် လေသံ။ "ခင်ဗျား ပြောသလိုပဲ သူနေတာ ထိုင်တာက ခပ်အေးအေးပဲ၊ ဒါပေမဲ့ သတိထားပေါ့ဗျာ "

"အင်း၊ ငါ သူနဲ့ စကားပြောခဲ့ရတယ်၊ ကြည့်ရတာ ဆိုးမယ့်ပုံ မပေါ်ပါဘူး"

"ဟုတ်တယ်၊ မဆိုးပါဘူး၊ သဘောလည်း ကောင်းပါတယ်၊ ဒါပေမဲ့ သတိတော့ ထားပါ၊ ခင်ဗျား စက်ခေါင်းပြန်တင်တဲ့အခါ ကျုပ်ရဲ့ အကူအညီများ လိုမလား"

"မင်းမှာ တခြားအလုပ် မရှိရင်တော့ ကောင်းသားပဲ "

"တရေးလောက်တော့ အိပ်သင့်နေပြီဗျာ" ဟု အယ်လ်က ဆိုသည်။ "ဒါပေမဲ့ ခက်တာက ကားပျက်နေတာတွေ့ရင် ကျုပ် ဝင်မလုပ်ဘဲ နေလို့မရတော့ဘူး၊ လုပ်ကို လုပ်ရမှ"

"ကူမယ့်လူ ရှိလာရင်တော့ ဝမ်းသာရတာပေါ့ကွာ" ဟု လူငယ်က ပြောသည်။ "ငါ့နာမည်က ဖလွိုက်နီးလက်စ်"

"ကျုပ်က အယ်လ်ဂျုတ်"

"တွေ့ရတာ ဝမ်းသာတယ်ကွာ"

"ကျုပ်ကလည်း ဝမ်းသာပါတယ်" ဟု အယ်လ်က ပြန်ပြောသည်။ "ခင်ဗျား ဒီဂတ်စကက်ဟောင်းကိုပဲ သုံးမှာလား"

"အေး" ဟု ဖလွိုက်က ပြောသည်။

အယ်လ်က သူ့မောင်းချွားဖြင့် အနားများကို လိုက်၍ ချောနေသည်။ "မော်တော်ကားတစ်စီးရဲ့ အင်ဂျင်ထဲမှာ ရှိနေတဲ့ ကလီစာတွေကို ကျုပ် သိပ်ချစ်တယ်ဗျာ"

"ကောင်မလေးတွေ ကျတော့ကော"

"အင်း သူတို့ကိုကျတော့လည်း ကျုပ် ချစ်တာပဲ၊ ကျုပ်လေ ရိုးလ်ရွိုက် ကားတစ်စီးရဲ့ အင်ဂျင်ကို တစ်စစီ ဖြုတ်ချပြီး ပြန်တပ်ကြည့်ချင်တာ အလွန်ပဲ၊ တစ်ခါတုန်းက ကတ်စ် ၁၆ အမျိုးအစား ကားတစ်စီးရဲ့ စက်ကို ကြည့်ဖူးတယ်၊ လှမှလှပဲဗျာ၊ သိပ်ကို ချစ်စရာကောင်းတာပဲ၊ ကျုပ် ဆယ်လီဆောမြို့ကို ရောက်တုန်းကပေါ့၊ စားသောက်ဆိုင် တစ်ဆိုင်ရှေ့မှာ ကတ်စ် ၁၆ အမျိုးအစား ကားတစ်စီး ရပ်ထားတယ်၊ ကျုပ် မနေနိုင်ဘူး၊ ကားစက်ဖုံးကို ဖွင့်ပြီး အထဲကို ငုံ့ကြည့်မိတယ်၊ ဆိုင်ထဲက ငနဲတစ်ကောင် ထွက်လာပြီး ဟေ့ကောင် မင်း ဘာလုပ်တာလဲ တဲ့၊ ကျုပ်က ကြည့်ချင်လွန်းလို့ ကြည့်တာပါဗျာ၊ ကြည့်ပါဦး ဘယ်လောက် လှသလဲလို့ ပြန်ပြောတယ်၊ သူလည်း ဆက်မပြောတော့ဘူး၊ ကျုပ် အနားမှာ ရပ်နေတယ်၊ ကျုပ် အထင် ပြောရရင်တော့ အဲဒီ ငနဲဟာ တစ်ခါမှ စက်ဖုံးဖွင့်ပြီး အထဲက အင်ဂျင်ကို ကြည့်ဖူးခဲ့ဟန် မတူဘူး၊ ကျုပ် အနားမှာ ငူငူကြီး ရပ်နေတယ်၊ ကြည့်ရတာတော့ ပိုက်ဆံ ချမ်းသာပုံပဲ၊ ကောက်ရိုးဦးထုပ်

ဆောင်းလို့၊ ဝတ်စားထားတာကလည်း တကယ့်ကို သားနားတယ်၊ ကျုပ်ကလည်း သူ့ကို ဘာမှ ထွေထွေထူးထူး မပြောဘူး၊ အင်ဂျင်ကိုပဲ သေသေချာချာ ကြည့်မိတယ်၊ မကြာပါဘူး၊ သူက မေးတယ်၊ မင်း မောင်းကြည့်ချင်သလား တဲ့"

"စံပါပဲကွာ" ဟု ဖလွိုက်က ရေရွတ်သည်။

"စံပဲပေါ့လေဗျာ၊ မေးပုံက မင်း မောင်းကြည့်ချင်သလားတဲ့၊ အဲဒီအချိန်က သောက်ကျိုးနည်း ကျုပ်ရဲ့ ဂျင်းဘောင်းဘီ တစ်ထည်လုံးဟာ ရစရာ မရှိအောင်ကို ပေရေ ညစ်ပတ်နေတာဗျ၊ ကျုပ်က ပြောလိုက်တယ်၊ ခင်ဗျားကား ပေကုန်လိမ့်မယ်လို့၊ လာစမ်းပါကွာလို့ သူက ခေါ်တယ်၊ ဒီနေရာမှာ တစ်ပတ်လောက် မောင်းကြည့်ပေါ့တဲ့၊ ဘာပြောကောင်းမလဲကွာ၊ ကျုပ် သူ့ကားကို အဲဒီနေရာမှာ ရှစ်ပတ်တိတိ မောင်းပစ်လိုက်တယ်"

"မောင်းလို့ ကောင်းရဲ့လား" ဟု ဖလွိုက်က ကြားဖြတ် မေးသည်။

"ကောင်းလိုက်သမှဗျာ၊ သိပ်ကို ကောင်းတာပေါ့၊ တကယ့် အံ့မခန်းပါပဲ"

တုတ်တုတ် ဖိုင့်ဖိုင့် အမျိုးသမီး နစ်ယောက်သည် နွားနို့ရောင်ထနေသည့် ရေများဖြင့် ပြည့်လျက်ရှိသော ရေပုံးကြီးတစ်ပုံးကို အလယ်မှ ထားပြီး တစ်ယောက်တစ်ဖက် မနိုင်မနင်း ဆွဲကာ သူတို့အနီးမှ ဖြတ်လျှောက်သွားသည်။ နစ်ဦးစလုံးမှာ ခေါင်းတွင် အဆောင်းမပါ။ ခြေတွင်လည်း ဖိနပ် မရှိ။ မွန်းလွဲပိုင်းနေသည် အညာအတာ ကင်းမဲ့စွာ ပူပြင်းလျက် ရှိလေသည်။

"ငါ ဒီကို ရောက်လာတာ ခြောက်လ ရှိသွားပြီ" ဟု လူငယ်က ပြောသည်။ "ဒီပြည်နယ်ထဲမှာ နေရာအနှံ့အပြားသွားပြီး အလုပ်ရှာတယ်၊ ရတဲ့အလုပ်ကို အပင်ပန်းခံပြီး ကြိုးစား လုပ်တယ်၊ ငါရယ်၊ ငါ့မိန်းမရယ်၊ ငါ့ကလေးတွေရယ်၊ တို့မိသားစု အားလုံးနဲ့ အမဲသား ဝဝမှန်မှန် စားနိုင်ဖို့အတွက် တစ်နေရာက တစ်နေရာကို ရွှေ့ပြောင်းပြီး ရသမျှ ပျံကျအလုပ်တွေကို မနားမနေ လုပ်ခဲ့ရတယ်၊ အစားလေး တစ်လုတ် တစ်ဆုပ် စားရဖို့အတွက် ပြေးလွှားနေရတဲ့ ငါ့အဖြစ်ဟာ တောယုန်ကြီးတစ်ကောင်ရဲ့ ဘဝနဲ့ ဘာမှ မခြားဘူး၊ ဒါပေမဲ့ကွာ ငါတို့မှာ ဝဝလင်လင်နဲ့ ကျွေမပျက် စားနေ သောက်နေ ရတယ်လို့ကို မရှိပါဘူး၊ ငါ ဘယ်လောက်ပဲ ကြိုးစား အားထုတ်ပြီး လုပ်ပေမဲ့ အလကားပါပဲ၊

လူလည်း နားရတယ်လို့ကို မရှိဘူး၊ ပင်ပန်းလိုက်တာလည်း အလွန်ပဲ၊ အခုဆို ငါ့အနေနဲ့ ဘာကို ဘယ်လို ဆက်လုပ်ရမှန်းတောင် မသိတော့တဲ့ အဖြစ် ဆိုက်နေပြီကွ"

"လူတစ်ယောက်အတွက် အမြဲတမ်း အလုပ်ကလေး တစ်ခုလောက်မှ မရနိုင်တော့ဘူးလားဗျာ" ဟု အယ်လ်က မေးသည်။

"မရဘူးကွ၊ အမြဲတမ်းအလုပ် ဆိုတာက လုံးဝ မရှိသလောက်ဘဲ" လူငယ်သည် သံဖြတ်စို့ဖြင့် ထိပ်ဖူးတစ်ခုကို ဖြတ်ထုတ်လိုက်သည်။

သံချေး အထပ်ထပ် တက်နေသော ကားအိုတစ်စီး စခန်းအတွင်းသို့ ဝင်လာသည်။ ကားထဲတွင် ပါလာသည့် လူလေးယောက်၏ မျက်နှာများမှာ နေလောင်ထားသဖြင့် အညိုရောင် သန်းလျက် ရှိကြ၏။ ဖြည်းဖြည်းချင်း မောင်းဝင်လာသော ကားကို မြင်သည့်အခါ ဖလွိုက်က အော်၍ မေးသည်။ "အဆင်ပြေကြရဲ့လား"

မော်တော်ကားသည် သူတို့နှင့် မလှမ်းမကမ်းတွင် ရပ်သွားသည်။ "ငါတို့ ရောက်ခဲ့တာဖြင့် နေရာအနှံ့ပဲဟေ့၊ ဒီပြည်နယ်ထဲမှာ လက်နဲ့ လုပ်ရမယ့် အလုပ်ဟာ လုံးဝကို မရှိသလောက်ဘဲ၊ ဒီပုံအတိုင်းကတော့ ဒီမှာ ဆက်နေလို့ မဖြစ်တော့ဘူး၊ ဒီနေရာက ရွှေ့ဦးမှ ဖြစ်မယ်" ဟု ကားမောင်းလာသူက ပြန်ဖြေသည်။

"ဘယ်ကို သွားကြမလဲ" ဟု အယ်လ်က လှမ်းမေးသည်။

"ဘုရားသခင်မှ သိမယ်၊ တို့လည်း ဒီမှာ အလုပ် လိုက်ရှာတာ နေရာအနှံ့ ဖြစ်နေပြီ" သူသည် ပြောပြောဆိုဆိုနှင့်ပင် ကလပ်ချ်ကို လွှတ်လိုက်သည်။ ကားသည် တစ်ဘီးချင်း လိမ့်၍ ထွက်ခွာသွားလေပြီ။

အယ်လ်က ကားကြီး ထွက်သွားရာဘက်သို့ လှမ်းမျှော် ကြည့်နေသည်။ "အလုပ်ရှာ ထွက်တဲ့အခါ တစ်ဦးချင်းစီသွားတာ မကောင်းဘူးလား၊ ဆိုပါတော့ တစ်နေရာရာမှာ အလုပ်တစ်ခုတည်း ရှိနေရင် ချက်ချင်း ရနိုင်တာပေါ့"

ဖလွိုက်က လက်ထဲမှ သံဖြတ်စို့ကို ဘေးသို့ ချထားလိုက်ပြီး စိတ် မပါ့တပါဖြင့် ပြုံးသည်။ "မင်းက မသိလို့ ဒီစကား ပြောတာပါ" ဟု ဆိုသည်။ "အလုပ်ထွက်ရှာရင် နေရာအနှံ့ သွားရတာ၊ နေရာအနှံ့ကို သွားတော့မယ်ဆိုရင် ဓာတ်ဆီ လိုတယ်၊ ဓာတ်ဆီက

တစ်ဂါလန်ကို ဆယ့်ငါးဆင့် ပေးရတယ်၊ လူတစ်ယောက်က ကားလေးစီးနဲ့ ထွက်ဖို့ဆိုတာ တယ်မလွယ် ဘူးကွ၊ ဓာတ်ဆီဖိုး မတတ်နိုင်ကြဘူး၊ ဒါကြောင့် လူလေးယောက် ပေါင်းပြီး ဓာတ်ဆီ ဝယ်ရတယ်၊ ပေါင်းပြီး ထွက်ရတယ်၊ အဖြစ်က ဒါပဲ”

“အယ်လ် ”

ခေါ်သံကြောင့် အယ်လ်က ငုံ့ကြည့်သည်။ သူ့ဘေး၌ ရပ်နေသော ဝင်းဖီး။

“အယ်လ် အမေက အခေါ်ခိုင်းလိုက်လို့၊ စားရသောက်ရအောင် လာခဲ့တော့တဲ့ ”

အယ်လ်က သူ့လက်များကို ဘောင်းဘီနှင့် ပွတ်၍ သုတ်သည်။ “ကျုပ်တို့ ဘာမှ မစားကြရသေးဘူး” ဟု ဖလွိုက်အား လှမ်းပြောသည်။ “ကျုပ် စားသောက်ပြီးတာနဲ့ တစ်ပြိုင်နက် ပြန်လာခဲ့မယ် ”

“မင်း စိတ်ပါမှ လုပ်ပါ”

“ဘာလို့ စိတ်မပါရမှာလဲ၊ ကျုပ် ဆက်ဆက် ပြန်လာပြီး ကူပေးမယ်” သူသည် တဲဆီသို့ ပြန်သွားနေသော ဝင်းဖီး၏ နောက်မှ လိုက်သွားသည်။ တဲအနီးတွင် လူစည်ကားလျက် ရှိသည်။ ကလေးတစ်အုပ်သည် ဟင်းအိုးအနီးတွင် ရပ်နေကြသည်။ အမေသည် သူ့အလုပ်ကို လွတ်လွတ်ကျွတ်ကျွတ် မလုပ်နိုင်။ စုအုံနေကြသည့် ကလေးများကို သူ့တံတောင်နှစ်ဖက်ဖြင့် တွန်းဖယ်ကာ လုပ်ကိုင်နေရလေသည်။ တွမ်နှင့် ဦးလေးဂျွန်ကတော့ အမေ့ဘေးတွင် ရပ်နေကြလေသည်။

အမေသည် ကြံရာမရ ဖြစ်လျက် ရှိ၏။ “ကျွန်မဖြင့် ဘယ်လို လုပ်ရမှန်းတောင် မသိတော့ဘူး၊ မိသားစုကို ကျွေးရမယ့် တာဝန်ကလည်း ရှိတယ်၊ ဒီကလေး တစ်အုပ်ကလည်း ရှိနေတယ်၊ သူတို့ကို ကျွန်မ ဘာလုပ်ပေးရမလဲ” ဟု ညည်းသည်။ ကလေးများကတော့ သူတို့ရပ်နေသည့် နေရာမှ နည်းနည်းကလေးမှ ရွေ့လျားခြင်း မရှိ၊ ရပ်လက်စနေရာ၌ ကျောက်ချ၍ ရပ်ပြီး အမေ့မျက်နှာကိုသာ မျက်ခြည်မပြတ် ကြည့်နေသည်။ သူတို့မျက်လုံးများသည် ဂနာမငြိမ်။ ဟင်းအိုးဆီ ရောက်သွားလိုက် အမေကိုင်ထားသည့် သံပန်းကန်ပြားဆီ ရောက်လာလိုက်။ သူတို့ အကြည့်သည် ဟင်းအိုးနှင့် ပန်းကန်ပြားတွင် လူးလာခေါက်ပြန် သွားလာနေသည့် ဇွန်းနောက်သို့လည်း

တကောက်ကောက် လိုက်လျက် ရှိ၏။ အမေက သူ့လက်ထဲမှ ပန်းကန်ကို ဦးလေးဂျွန်အား လှမ်းပေးလိုက်သည့်အခါ ကလေးများ၏ မျက်လုံးများသည် ဦးလေးဂျွန် လက်တွင်းမှ ပန်းကန်ဆီသို့ ကူးပြောင်းသွားသည်။ ဦးလေးဂျွန်က ပန်းကန်ထဲမှ ဟင်းကို ဇွန်းဖြင့် ခပ်ယူလိုက်သည့် အခါတွင်မူ သူတို့ မျက်လုံးများသည် ဇွန်းရွေ့လျားရာ နောက်သို့ ပါသွားကြလေ၏။ အာလူးတစ်ဖတ်သည် ဦးလေးဂျွန် ပါးစပ်အတွင်းသို့ ရောက်သွားသည်။ ထိုအခါ ကလေးများ၏ အကြည့်သည် ဦးလေးဂျွန် မျက်နှာထား ပြောင်းလဲမှုကို မျက်ခြည်မပြတ် အကဲခတ် နေကြသည်။ ဦးလေးဂျွန်အနေဖြင့် သူ စားလိုက်ရသည့် အာလူး အပေါ်တွင် မည်ကဲ့သို့ တုံ့ပြန်သနည်း။ အာလူးသည် အရသာမှ ရှိပါလေစ။ သူ ကြိုက်မှ ကြိုက်ပါရဲ့လား။

ဦးလေးဂျွန်သည် ကလေးများကို ကြည့်ကာ မျက်စိမျက်နှာ ပျက်လျက် ရှိသည်။ သူသည် အာလူးကို ဖြည်းဖြည်းချင်း ဝါးနေရာမှ လက်ထဲမှ ပန်းကန်ကို တွမ်အား လှမ်းပေးသည်။ "မင်း စားလိုက်တော့ကွာ၊ ငါ မဆာဘူး"

"ခင်ဗျား ကနေ့ ဘာမှ မစားရသေးဘူး မဟုတ်လား"

"ငါ သိပါတယ်၊ ဒါပေမဲ့ ဗိုက်နာနေလို့၊ ဆာလည်း မဆာဘူးကွာ"

တွမ်က လေသံ ခပ်တိုးတိုးဖြင့် ပြောသည်။ "ပန်းကန်ကို တဲထဲယူသွားပြီး စားပါလားဗျာ"

"မဆာလို့ပါကွာ" ဦးလေးဂျွန်က ဖွတ်ငြင်းသည်။ "တဲထဲ သွားစားတော့ကော ဘာထူးမှာလဲ၊ သူတို့မျက်နှာတွေကို ငါ မြင်နေရမှာပဲ"

တွမ်က ကလေးများအား လှည့်ကြည့်သည်။ "မင်းတို့ သွားကြကွာ" ဟု ပြောသည်။ "ကဲကွာ သွားကြစမ်း" ကလေးများ၏ အကြည့်သည် တွမ်၏ မျက်နှာပေါ်သို့ ရောက်လာသည်။ "သွားကြကွာ၊ သွားကြတော့၊ မင်းတို့ ရှိနေတော့ ဒီမှာ ခွကျကုန်ပြီ၊ မင်းတို့ကို ကျွေးဖို့ကလည်း မရှိဘူး၊ တို့မှာ မလောက်ဘူးကွ"

အမေသည် ယောက်ချိုဇွန်းဖြင့် ဟင်းနည်းနည်းစီခပ်၍ သံပန်းကန်များထဲသို့ လိုက်ထည့်သည်။ ထို့နောက် ပန်းကန်များကို မြေကြီးပေါ်သို့ ချပေးသည်။ "အမေ သူတို့ကို

မောင်းမထုတ်ရက်ဘူးကွယ်" ဟု အမေက ပြောသည်။ "အမေ ဘာလုပ်ရမှန်းတောင် မသိတော့ပါဘူး၊ မင်းတို့ ပန်းကန်တွေကို ယူပြီး တဲထဲ ဝင်စားကြကွယ်၊ ဟင်းအိုးထဲ ကျန်ခဲ့တဲ့ဟာကို နည်းနည်းစီမျှပြီး ကျွေးလိုက်မယ်၊ ရော့ ဒီမှာ တစ်ပန်းကန် ရှိစာဟန်အတွက် ယူသွားလိုက်ဦး" အမေသည် ကလေးများဘက်သို့ လှည့်၍ ပြုံးပြသည်။ "ကဲ မင်းတို့ ခပ်စားစရာ တစ်ခုခု သွားယူကြ၊ ဒီမှာ ကျန်တဲ့ဟာထဲက နည်းနည်းစီ ဝေပေးမယ်၊ ဒါပေမဲ့ စားတဲ့အခါ ရန်မဖြစ်ရဘူးနော်"

ကလေးအုပ်စုသည် ချက်ချင်းပင် လူစု ကွဲသွားသည်။ သူတို့ တဲများဆီသို့ ပြန်ပြေးပြီး ဇွန်းများ ကိုယ်စီယူကာ ဒုန်းစိုင်း၍ ပြေးလာကြသည်။ အမေသည် အိုးထဲ၌ ကျန်သည့် အသားပြုတ်ဟင်းကို ပန်းကန်များထဲသို့ မျှတ ခွဲဝေ၍ ထည့်သည်။ ကလေးများသည် အမေ လုပ်ကိုင်နေသမျှကို ကြည့်ကာ ပါးစပ်တပြင်ပြင်နှင့် အငမ်းမရ ဖြစ်နေလျက် ရှိကြလေ၏။ အမေသည် ကလေးများ၏ အဖြစ်ကို ကြည့်၍ ခေါင်းယမ်းသည်။ "ငါလည်း ဘယ်လိုမှ မလုပ်တတ်တော့ဘူး၊ ကိုယ့်မိသားစု ပါးစပ်ထဲက အစာကို လုကျွေးရတဲ့ အဖြစ်မျိုးလည်း အရောက်မခံနိုင်ဘူး၊ ခက်တာပဲ၊ ရှုသီ၊ ဝင်းဖီးနဲ့ အယ်လ်.." အမေက စိတ်ဆိုးမာန်ဆိုးဖြင့် အော်ခေါ်သည်။ "နင်တို့ ပန်းကန်တွေ လာယူကြစမ်းဟယ်၊ မြန်မြန်လာယူကြစမ်း၊ ကဲ သွားကြ၊ တဲထဲဝင်ပြီး စားကြ"

အမေသည် ကလေးများအား ပြုံးချိုသော မျက်နှာထားဖြင့် ကြည့်သည်။ "အန်တီတို့မှာလည်း များများစားစား မရှိဘူး ကလေးတို့ရဲ့" ဟု သိမ်မွေ့ နူးညံ့စွာ ပြောသည်။ "ဒီအိုးထဲက ကျန်နေသလောက်ကိုပဲ ပေးရမှာ၊ မင်းတို့အားလုံး နည်းနည်းစီတော့ ရကြမှာပေါ့၊ မင်းတို့ ဗိုက်ဝမှာတော့ မဟုတ်ဘူး၊ အန်တီလည်း ဒီထက်ပိုပြီး မတတ်နိုင်ဘူး" အမေက မီးဖိုပေါ်မှ အိုးကို မ၍ မြေကြီးပေါ်သို့ ချပေးသည်။ "နည်းနည်းစီ ခပ်ယူကြ၊ စောင့်တော့ စောင့်ဦး၊ ဟင်းအိုး ပူသေးတယ်" အမေသည် ပြောပြောဆိုဆိုနှင့်ပင် တဲအတွင်းသို့ ကပျာကယာ ဝင်လာခဲ့သည်။ အမေ့အနေဖြင့် ကလေးများ၏ အဖြစ်ကို မကြည့်ချင် မမြင်ရက်။ တဲအတွင်းဝယ် သူ့မိသားစုသည် မြေပေါ်၌ ဖင်ချထိုင်ကာ စားသောက်နေကြလေပြီ။

အပြင်မှ ကလေးများ၏ လှုပ်ရှားသံသည် တဲအတွင်းသို့ ဝင်လာလျက် ရှိ၏။ ဟင်းအိုးထဲသို့ ဇွန်းနှင့် ခပ်သံများ။ အိုးဖင်ကပ်ကို ခြစ်နေသည့် အသံများ။ ဟင်းအိုးသည် ပြုံနေသော ကလေးများ၏ အလယ်တွင် ပျောက်ကွယ်လျက် ရှိသည်။ သူတို့အချင်းချင်း

စကားလည်း မပြော။ ရန်လည်း မဖြစ်။ အငြင်းအခုံလည်း မလုပ်။ သူတို့ အာရုံသည် တစ်ခုတည်းသော အရာပေါ်၌သာ စူးစိုက်လျက် ရှိလေသည်။ "ဒီလိုပဲ လုပ်ရတော့မှာပဲ" ဟု အမေဂျုတ်က ပြောသည်။ "အခုလို ခွဲစားလိုက်ရတာဟာ အမှန်ဆုံးပဲ" အပြင်မှ ဝင်လာသော အသံဗလံများသည် တဖြည်းဖြည်း ငြိမ်သွားသည်။ ကလေးများသည် ဟင်းအိုးကို ချထားခဲ့ကာ ထွက်သွားကြလေပြီ။ အမေဂျုတ်သည် ပန်းကန်လွတ်များကို တစ်ချက်မျှ ဝေ့ကြည့်လိုက်ပြီး "ဘယ်သူမှ ဝကြမယ် မထင်ဘူး၊ ရှင်တို့ ဝကြရဲ့လား ဟင်" ဟု မေးသည်။

အဖေဂျုတ်သည် အမေဂျုတ်၏ အမေးကို မဖြေဘဲ ထိုင်ရာမှ ဖျတ်ခနဲ ထကာ တဲအပြင်ဘက်သို့ ထွက်သွားသည်။ တရားဟောဆရာကတော့ သူ့အတွေးနှင့်သူ တစ်ယောက်တည်း ပြုံးကာ မြေကြီးပေါ်သို့ ကျောခင်းလိုက်သည်။ ထို့နောက် လက်ဝါး နှစ်ဖက်ကို ပတ္တာဆက်သလို ဆက်ကာ သူ့ခေါင်းအောက်မှ ခေါင်းအုံးသဖွယ် ခံထားလိုက်သည်။ အယ်လ်ကမူ ထိုင်နေရာမှ ထရပ်လိုက်ပြီး "လူတစ်ယောက် ကားပြင် နေတာကို သွားကူလိုက်ဦးမယ်" ဟု ဆိုသည်။

အမေဂျုတ်သည် မြေကြီးပေါ်၌ ချထားခဲ့သည့် ပန်းကန်များကို လိုက်သိမ်းကာ အပြင်သို့ ထုတ်ယူလာခဲ့လေသည်။

"ရူသီရေ၊ ဝင်းဖီးရေ" ဟု အမေဂျုတ်က အော်ခေါ်သည်။ "အမေ ပန်းကန်တွေကို ဆေးမလို့၊ ရေတစ်ပုံး ဆွဲပေးကြဦး" ဟု ခိုင်းသည်။ ပြောပြောဆိုဆိုနှင့်ပင် သူ့အနီးမှ ရေပုံးကို ယူ၍ ရူသီအား လှမ်းပေးသည်။ ရူသီတို့ မောင်နှမသည် မြစ်ဆိပ်သို့ အပြေးအလွှား ထွက်သွားကြလေ၏။

ကိုယ်လုံးကိုယ်ထည် တုတ်ခိုင်ခိုင်နှင့် ထွားကျိုင်း သန်မာလှသော မိန်းမကြီး တစ်ယောက်သည် အမေဂျုတ်ဆီသို့ လျှောက်လာသည်။ သူ့အဝတ်အစားများမှာ ဖုန်များ၊ ဆီချေးများဖြင့် ညစ်ပတ်ပေရေလျက် ရှိ၏။ ခပ်မော့မော့ လုပ်ထားသော သူ့မျက်နှာထား သည် သူ့မာန်မာနကို ဖော်ပြလျက် ရှိသည်။ သူသည် အမေဂျုတ်နှင့် မလှမ်းမကမ်းတွင် ရပ်ကာ အမေဂျုတ်ကို ရန်ပြုလိုသော မျက်နှာထားဖြင့် စူးစူးရဲရဲ ကြည့်လျက် ရှိသည်။ နောက်ဆုံးကျတော့ အမေ့အနီးသို့ ရောက်အောင် လျှောက်လာပြီး အေးတိအေးစက် အသံဖြင့် လှမ်း၍ နှုတ်ဆက်သည်။ "မင်္ဂလာ နေ့ခင်းပါ"

"မင်္ဂလာ နေ့ခင်းပါရှင်" ဟု အမေဂျူတ်က ပြန်၍ နှုတ်ဆက်သည်။ ပြီးတော့ ထိုင်ရာမှ ထကာ သေတ္တာဟောင်းတစ်လုံးကို မိန်းမကြီးဘက်သို့ တွန်းပို့သည်။ "ထိုင်ပါဦး ရှင်"

မိန်းမကြီးက အမေဂျူတ်နား ရောက်အောင် တိုးကပ်လာသည်။ "ကိစ္စမရှိဘူး၊ မထိုင်တော့ဘူး"

အမေဂျူတ်က မော့ကြည့်သည်၊ အမေဂျူတ်၏ အကြည့်သည် စူးစမ်းသော အကြည့်။ "ကျွန်မ ဘာများ ကူညီနိုင်မလဲ"

မိန်းမကြီးက သူ့လက်နှစ်ဖက်ကို ခါးနှစ်ဖက်တွင် ထောက်လိုက်သည်။ "ရှင် ကူညီနိုင်တာ တစ်ခု ရှိတယ်၊ တခြား မဟုတ်ဘူး၊ ရှင် မွေးထားတဲ့ ရှင့်ကလေးတွေအတွက်ပဲ ရှင် ပူပါ၊ ကျွန်မ ကလေးတွေအတွက် ကျွန်မဘာသာ ကျွန်မ ပူပါရစေ၊ ရှင်နဲ့ လုံးဝ မဆိုင်ပါဘူး"

အမေဂျူတ်၏ မျက်လုံးများသည် ပြူးကျယ်လာသည်။ "ကျွန်မလည်း ဘာမှ မလုပ်မိပါကလား"

မိန်းမကြီးက အမေဂျူတ်အား မျက်မှောင်ကုတ်၍ ကြည့်သည်။ "ကျွန်မကလေး ခုနက ပြန်လာတယ်၊ ရှင်က အသားဟင်း ကျွေးလိုက်တယ်လို့ ပြောတယ်၊ ရှင်ကတော့ ငါတို့ အသားဟင်း ချက်နိုင်တယ် ဆိုပြီး ကြွားလိုက်တာပဲ၊ ဒီအချိုးမျိုးလုပ်တာ မကောင်းပါဘူး၊ မလုပ်ပါနဲ့၊ ကလေး ဆိုတာက ဘာမှသိတာ မဟုတ်ဘူး၊ ကျွန်မဆီလာပြီး ပြောတယ်၊ သားတို့ကျတော့ ဘာဖြစ်လို့ အသားဟင်း မချက်နိုင်တာလဲတဲ့၊ ကျွန်မ ဒီကိစ္စနဲ့ ပတ်သက်ပြီး ရန်မဖြစ်ချင်ဘူး" သူ့အသံမှာ ဒေါသကြောင့် တုန်လျက် ရှိသည်။

အမေဂျူတ်သည် မိန်းမကြီးအနီးသို့ တိုးသွားသည်။ "ထိုင်ပါဦး" ဟု ထပ်ပြောသည်။ "ထိုင်ပြီး ပြောပါလား"

"ထိုင်ဖို့ မလိုပါဘူး၊ ကျွန်မ ကလေးတွေကို ကောင်းကောင်း ကျွေးနိုင်အောင် ကျွန်မ ကြိုးစားနေတယ်၊ ရှင့် အသားဟင်းကြောင့် ပြဿနာ မဖြစ်ချင်ဘူး၊ ဝင်မရှုပ်ပါနဲ့၊ ဒါပဲ"

"ထိုင်ပါဦးလားရှင်" ဟု အမေဂျုတ်က ထပ်ပြောပြန်သည်။ "ရှင် အခု ပြောနေတဲ့ အသားဟင်းက ကျွန်မတို့ အလုပ်မရခင် နောက်ဆုံး စားရတဲ့ အသားဟင်းပါ၊ ကျွန်မတို့မှာ ကြွားလောက်အောင် မရှိပါဘူး၊ ရှင်က အသားဟင်းတစ်ခွက် ချက်နေတယ်၊ ကလေးတွေက ရှင့်အနား လာရပ်ပြီး မျှော်နေတယ်၊ အဲသလိုဆိုရင် ရှင် ဘာလုပ်မလဲ၊ ကျွန်မတို့မှာလည်း အလုံအလောက် ချက်ထားတာ မဟုတ်ပါဘူး၊ ဒါပေမဲ့ လာရပ်နေတဲ့ ကလေးတွေကို မြင်ရင် ရှင် မကျွေးဘဲ နေနိုင်မလား"

ခါးနှစ်ဖက်တွင် ထောက်ထားသည့် မိန်းမကြီး၏ လက်များသည် ဘေးတစ်ဖက် တစ်ချက်သို့ တွဲလောင်း ကျသွားသည်။ သူ့မျက်လုံးများသည် တစ်ခဏမျှ အမေ့ မျက်နှာပေါ်တွင် စူးစိုက်လျက် ရှိ၏။ ထို့နောက် ချာခနဲ ပြန်လှည့်ကာ အမေဂျုတ်အနားမှ ထွက်သွားသည်။ သူသည် ရွက်ထည်တဲတစ်လုံးအတွင်းသို့ ဝင်ရောက် ပျောက်ကွယ်သွား၏။ အမေသည် မိန်းမကြီး ထွက်သွားရာဘက်သို့ အချိန် အတန်ကြာမျှ ငေးမော နေသည်။ ထို့နောက် ပန်းကန်ပုံဘေးတွင် ပြန်၍ ထိုင်ချလိုက်လေသည်။

အယ်လ်တစ်ယောက် ရေးကြီးသုတ်ပျာနှင့် ပြန်ရောက်လာသည်။ "တွမ်" ဟု လှမ်းခေါ်သည်။ "အမေ၊ တွမ် အထဲမှာ ရှိသလားဟင်"

တွမ်၏ခေါင်းသည် တဲထဲမှ ထွက်လာသည်။ "ဘာလဲဟ"

"ကျုပ်နဲ့ လိုက်ခဲ့စမ်းပါ" အလွန် စိတ်လှုပ်ရှားနေသည့် အသံဖြင့် အယ်လ်က ခေါ်သည်။

နှစ်ယောက်သား အတူတွဲ၍ လျှောက်လာကြ၏။ "မင်း ဘာပြဿနာ ဖြစ်လာသလဲ" ဟု တွမ်က မေးသည်။

"ခင်ဗျား မကြာခင် သိမှာပါ၊ ခဏ စောင့်လိုက်ပါဦး" သူသည် တွမ်ကို အင်ဂျင်ချထားသည့် မော်တော်ကားဆီသို့ ခေါ်သွားသည်။ ဖလွိုက်နီးလက်စ် ဆိုတာ သူပဲ ဟု မိတ်ဆက်ပေးသည်။

"သိတယ်၊ ငါ သူနဲ့ စကားပြောပြီးပြီ၊ ခင်ဗျား ကားက ဘယ်လိုလဲ"

"အခုမှ ပြန်ဆင်မလို့ အစပဲ ရှိသေးတယ်" ဟု ဖလွိုက်က ပြန်ပြောသည်။

တွမ်က သူ့လက်ညှိုးဖြင့် အင်ဂျင်ထိပ်ကို အသာ ပွတ်ကြည့်သည်။ "မင်း ကျောပေါ်မှာ ဘယ်လို ပိုးကောင်မျိုး လျှောက်နေလို့လဲ အယ်လ်ရဲ၊ မင်း ဘာဖြစ်လာတာတုံး "

"စောစောကပဲ ဖလွိုက် ပြောပြလို့ သိရတာဗျ၊ ပြောပြလိုက်စမ်းပါ ဖလွိုက်ရာ "

"ကျုပ် အနေနဲ့ ပြောပြလို့ သင့်ချင်မှ သင့်မယ်၊ ဒါပေမဲ့ မထူးပါဘူးလေ၊ ကျုပ် ခင်ဗျားကို ပြောပြပါ့မယ်၊ ကျုပ် တွေ့ခဲ့တဲ့ လူတစ်ယောက်ဆီက ကြားခဲ့ရတာပဲ၊ သူ့အနေနဲ့ ဟိုး မြောက်ပိုင်းအထိ သွားပြီး အလုပ်လုပ်မယ်တဲ့ "

"မြောက်ပိုင်းအထိ "

"ဟုတ်တယ်၊ ဆန်တာကလားရား တောင်ကြား လွင်ပြင်လို့ ခေါ်တဲ့ နေရာအထိ သွားရမှာ၊ ခရီးကတော့ ငရဲပြည် သွားရတာလောက်ကို ဝေးမယ် ထင်တယ်"

"အင်း အလုပ်က ဘာအလုပ်မျိုးလဲ"

"ဆီးသီးဆွတ်တဲ့ အလုပ်နဲ့ သစ်တော်သီး ခူးတဲ့ အလုပ်ရယ်၊ ပြီးတော့ စည်သွပ်တဲ့ အလုပ်ရယ်၊ အလုပ်တော့ လွယ်တယ်လို့ ပြောကြတာပဲ "

"ခရီးက ဘယ်လောက် ဝေးသတဲ့လဲ "

"ဒါကတော့ ဘုရားသခင်မှပဲ သိမယ်၊ ကျုပ် ထင်တာတော့ မိုင်နှစ်ရာခရီးလောက် ရှိချင် ရှိလိမ့်မယ် "

"သောက်ကျိုးနည်း ဝေးတဲ့ခရီးပဲ" ဟု တွမ်က စိတ်ပျက်သံဖြင့် ပြောသည်။ "ကျုပ်တို့ ဟိုရောက်သွားတဲ့အခါ အလုပ် ရလိမ့်မယ်လို့ ဘယ်လိုနည်းနဲ့ ကျုပ်တို့က အတိအကျ သိနိုင်မှာလဲ "

"ဒါကတော့ ကျုပ်လည်း မပြောတတ်ဘူး " ဟု ဖလွိုက်က ပြောသည်။ "ဒါပေမဲ့ ဒီမှာကတော့ ခင်ဗျား သိတဲ့အတိုင်းပဲ၊ ဘာအလုပ်မှ မရှိဘူး၊ ကျုပ်မိတ်ဆွေ ပြောတာကတော့ သူ့အစ်ကို အဲဒီခရီးကို ထွက်သွားပြီတဲ့၊ သူ့အစ်ကိုကတော့ ဒီအကြောင်း ဘယ်သူ့ကိုမှ မပြောနဲ့လို့ ရေးလိုက်တယ်တဲ့၊ လူတွေ များလာရင် မလွယ်ကြော

ဆိုက်သွားမှာ ကြောက်တယ် ထင်ပါရဲ့၊ ကျုပ်တို့ သွားမယ် ဆိုရင်လည်း လူမသိ သူမသိအောင် ညပိုင်းမှာ တိတ်တိတ် ကျိတ်ထွက်မှ ဖြစ်မှာ၊ ဟိုကို စောစောသွားပြီး အလုပ်ရအောင်တော့ လုပ်ထားသင့်တယ်ဗျ"

တွမ်က ဖလွိုက်ကို စေ့စေ့စပ်စပ် ကြည့်၍ အကဲခတ်သည်။ "ကျုပ်တို့က ဘာဖြစ်လို့ တိတ်တိတ်ကလေး ကျိတ်ပြီး ထွက်ရမှာလဲ"

"ဒါက ဒီလိုလေဗျာ၊ လူတိုင်း အဲဒီဒေသကို ရောက်လာကြရင် အလုပ် ရှားသွားမှာပေါ့"

"ခရီးက သိပ်ဝေးတယ်" ဟု တွမ်က ဆိုသည်။

ဖလွိုက်အနေဖြင့် စိတ်မကောင်း ဖြစ်သွားသည်။ "ကျုပ်ကတော့ ကျုပ်ရဲ့ လျှို့ဝှက်ချက်ကို စေတနာနဲ့ ပြောတာပါ၊ ခင်ဗျား မလုပ်ချင်လည်း ရပါတယ်၊ ခင်ဗျား ညီက ကျုပ်ကို ကူညီလို့ ကျုပ်က ကျေးဇူးတုံ့ပြန်တဲ့ အနေနဲ့ ထုတ်ပြောတာပါ"

"ဒီအရပ်မှာ အလုပ်အကိုင် မရှိဘူးဆိုတာ သေချာရဲ့လား"

"ကျုပ် ပြောမယ်လေ၊ ကျုပ် ဒီနယ်ထဲမှာ အလုပ် လိုက်ရှာနေတာ တနင်္ဂနွေ သုံးပတ် ရှိနေပြီ၊ ဘာအလုပ်မှ မရဘူး၊ အလုပ်ဆိုလို့ မူးလို့တောင် ရှူစရာ မရှိဘူး၊ အဖြစ်က ဒီအတိုင်းပဲ၊ တကယ်လို့ ခင်ဗျား မယုံရင် ဓာတ်ဆီ အကုန်ခံပြီး ကိုယ်တိုင် ထွက်ရှာကြည့်ပေါ့၊ ခင်ဗျား သဘောအတိုင်းပါ၊ ထွက်ရှာချင်သပဆိုရင် ကျုပ်က ဘာကြောင့် တားနေရမှာလဲ၊ ကျုပ်က ခင်ဗျားကို မသွားပါနဲ့လို့ တောင်းပန်နေတာလည်း မဟုတ်ပါဘူး၊ လူများများထွက်ပြီး အလုပ်ရှာလေလေ ကျုပ်မှာ အလုပ်ရဖို့ အခွင့်အလမ်း နည်းသွားလေပဲ ကိုယ့်လူရေ"

"ကျုပ်က အပြစ်တင်တဲ့ သဘောနဲ့ ပြောတာ မဟုတ်ပါဘူး၊ ခင်ဗျား ပြောတဲ့ ခရီးက တကယ့်ကို ဝေးလွန်းအားကြီးလို့ ပြောတာပါ၊ ကျုပ်တို့ မျှော်လင့်ထားတာက ဒီအရပ်မှာတင် အလုပ်အကိုင်ရ၊ အိမ်လေးဘာလေး ငှားနေ၊ အဲသလို အခြေချမယ်လို့ ဆုံးဖြတ်ထားခဲ့တာ" ဟု တွမ်က ရှင်းပြသည်။

ဖလွိုက်ကလည်း သူ့သဘောထားကို စိတ်ရှည်လက်ရှည်ပင် ပြန်၍ ရှင်းပြသည်။ "ကျုပ် သိပါတယ်၊ ခင်ဗျားက ခုမှ ရောက်လာတဲ့ လူသစ်ပဲ၊ ခင်ဗျား လေ့လာစရာတွေ အများကြီး ရှိနေသေးတာပေါ့၊ တကယ်လို့ ခင်ဗျား ကျုပ်ဆီက လေ့လာမယ် ဆိုရင်တော့ ကျုပ်က ပြောပြမှာပေါ့၊ ကျုပ်က ပြောပြလို့ သိသွားရင်လည်း ခင်ဗျားအဖို့ အချိန်လည်း သိပ်မကုန်ဘူး၊ လူလည်း သက်သာမယ်၊ ခင်ဗျားက မလေ့လာချင်ဘူး ဆိုရင်တော့လည်း ခင်ဗျား ပင်ပန်းမှာပေါ့၊ ခင်ဗျား ဒီအရပ်မှာ အခြေစိုက်ဖို့ ဆိုတာကတော့ မလွယ်ပါဘူး၊ ဘာကြောင့်လဲ ဆိုတော့ ခင်ဗျား အခြေချနိုင်လောက်မယ့် အလုပ်က ရှိမှ မရှိတာ၊ အဲဒီတော့ ခင်ဗျားရဲ့ ဗိုက်ကလည်း ဒီအရပ်မှာ အခြေစိုက်ဖို့ ဘယ် ခွင့်ပြုတော့မလဲ၊ ဒါ အမှန်အတိုင်း ပြောပြတာပဲ"

"ကျုပ်တော့ ကိုယ်တိုင် စမ်းကြည့်ချင်သေးတယ်ဗျာ" ဟု တွမ်က အားတုံ့အားနာ ဖြစ်နေသော အသံဖြင့် ပြောသည်။

ဆီဒင်ကားတစ်စီးသည် စခန်းအတွင်းသို့ မောင်းဝင်လာပြီး တဲတစ်လုံး ရှေ့၌ ရပ်သည်။ ကားထဲမှ ရှပ်အင်္ကျီ အပြာရောင်နှင့် လူတစ်ယောက် ဆင်းလာသည်။ ဖလွိုက်က ထိုလူအား လှမ်းမေးသည်။ "ဘယ့်နှယ်လဲ အဆင်ပြေရဲ့လား"

"ဒီအရပ်မှာ ဘာအလုပ်မှ မရှိပါဘူးဗျာ၊ အလကားပါပဲ၊ ဝါကောက်ချိန်ကလည်း အခုထက်ထိ မရောက်သေးတော့ ပို ခွကျတာပေါ့" ထိုလူသည် အပေါက်တွေ ဗရပွနှင့် စုတ်ပြတ်နေသော သူ၏ ရွက်ထည်တဲ အတွင်းသို့ ဝင်သွားလေ၏။

"ကြားတယ် မဟုတ်လား" ဟု ဖလွိုက်က တွမ်အား လှမ်းပြောသည်။

"အင်း၊ ကြားတယ်၊ ဒါပေမဲ့ ခင်ဗျား ပြောတဲ့ အရပ်ကလည်း မိုင်နှစ်ရာဆိုတော့ ဘုရားသခင်ကို တမ်းတရမလို ဖြစ်နေတယ်ဗျ"

"အခု လောလောဆယ် ခင်ဗျားအနေနဲ့ အခြေစိုက်စရာ နေရာမှ မရွေးရသေး တာပဲဗျာ၊ ဒီကိစ္စကို ခင်ဗျား စဉ်းစားလို့ ရပါတယ်"

"ကျုပ်ကတော့ သူနဲ့ လိုက်သွားရင် ကောင်းမယ်လို့ ထင်တာပဲဗျာ" ဟု အယ်လ်က ဝင်ပြောသည်။

"ဒီအရပ်မှာ အလုပ်ရှိလာမယ့် အချိန်က ဘယ်အချိန်လဲ" ဟု တွမ်က စုံစမ်းသည်။

"နောက် တစ်လလောက် ဆိုရင်တော့ ဝါကောက်လုပ်ငန်း စတော့မယ်၊ တကယ်လို့ ခင်ဗျား လက်ထဲမှာ ငွေများများ ရှိနေရင်တော့ ဝါကောက်လုပ်ငန်း စမယ့် အချိန်အထိ စောင့်နိုင်ပါတယ်"

"ကျုပ် အမေက ရှေ့ဆက်ပြီး ခရီးမသွားချင်တော့ဘူး၊ သူ့အနေနဲ့ သိပ်ကို ပင်ပန်းနေပြီဗျ"

ဖလွိုက်က ပခုံးနှစ်ဖက်ကို တွန့်လိုက်သည်။ "အင်းပေါ့လေ၊ ခင်ဗျား သဘောပါပဲ၊ ကျုပ်က ဖွတ်မတိုက်တွန်းပါဘူး၊ ခင်ဗျား အခြေအနေအရပဲ လုပ်ပါ၊ ကျုပ်ကတော့ ကျုပ်ကြားထားတာကို ပြောတာပါ" သူသည် ဆီစိုနေသော ဂတ်စကတ်ကို ကောက်ယူကာ သူ့နေရာတွင် ပြန်တပ်နေသည်။ "ကဲ မင်း ကူနိုင်မယ်ဆိုရင် အင်ဂျင်ဟက် ပြန်ထိုင်ရအောင်" ဟု အယ်လ်အား လှမ်းပြောသည်။

ဖလွိုက်နှင့် အယ်လ်တို့သည် အင်ဂျင်ကို မ၍ ပြန်တင်ကြသည်။ သူတို့နှစ်ယောက် လုပ်ကိုင်နေသမျှကို ရပ်၍ ကြည့်နေသော တွမ်က "ဒီကိစ္စကို တိုင်ပင်ကြည့်ရဦးမှာပဲ" ဟု ရေရွတ်သည်။

"ခင်ဗျားတို့ မိသားစုက လွဲပြီး တခြား ဘယ်သူ့ကိုမှ မသိစေချင်ဘူး၊ ခင်ဗျားညီကသာ အခုလိုလာပြီး မကူညီရင် ဒီကိစ္စကို ကျုပ် ဖွင့်မပြောပါဘူး" ဟု ဖလွိုက်က ဆိုသည်။

"ကျုပ်တို့ကို အခုလို ပြောပြတဲ့အတွက် ခင်ဗျားကို ကျေးဇူးတင်ပါတယ်ဗျာ၊ ကျုပ်တို့ကလည်း စဉ်းစားကြရမှာပေါ့၊ ကျုပ်တို့အနေနဲ့ လိုက်ချင်လည်း လိုက်ဖြစ်မှာပါ"

"ကျန်တဲ့လူတွေ လိုက်ချင်လိုက် မလိုက်ချင်နေ၊ ကျုပ်ကတော့ လိုက်သွားမယ် စိတ်ကူးတယ်၊ ကျုပ်အနေနဲ့ ဟိုမှာပဲ တွယ်ကပ်နေလိုက်တော့မယ်" ဟု အယ်လ်က ပြောသည်။

"မင်းက မိသားစုနဲ့ ခွဲသွားမယ် ဆိုပါတော့"

"ဒါပေါ့"

"အမေက ဘယ်နည်းနဲ့မှ သဘောတူမှာ မဟုတ်ဘူး" ဟု တွမ်က ဆိုသည်။ "ပြီးတော့ မင်း စဉ်းစားကြည့် အဖေကလည်း သဘောတူမှာ မဟုတ်ဘူး"

ဖလွိုက်က နပ်များကို ပြန်တပ်ပြီး ကျပ်ပေးနေသည်။ "ကျုပ်နဲ့ ကျုပ် မိန်းမလည်း ဆွေမျိုးသားချင်းတွေနဲ့ အတူတူ ထွက်လာခဲ့ကြတာပဲဗျာ" ဟု ဖလွိုက်က ပြောသည်။ "ကိုယ့်အရပ် ကိုယ့်ဒေသမှာ နေကြတုန်းကတော့ လူချင်းခွဲသွားဖို့ဆိုတာ လုံးဝ စိတ်မကူးခဲ့ကြဘူး၊ ဒါပေမဲ့ အခုလို တနယ်တကျေး ရောက်လာတော့ အခြေအနေက တစ်မျိုး ဖြစ်လာတယ်၊ မြောက်ပိုင်းကို သွားမယ်ဆိုပြီး ထွကလာလိုက်ကြတာ၊ အခုတော့ ကျုပ်က ဒီမှာ ရောက်နေတယ်၊ သူတို့က ဆက်သွားတယ်၊ သူတို့တစ်တွေ ဘယ်ရောက် နေကြတယ်ဆိုတာ ဘုရားသခင်မှပဲ သိတော့မယ်" သူသည် လက်ထဲမှ ခွဖြင့် အင်ဂျင်ဟက် ပေါ်မှ မူလီများကို လိုက်၍ စုပ်ပေးနေသည်။

တွမ်သည် မော်တော်ကားဘေး၌ ဖင်ချကာ အစီအရီတန်းလျက် ရှိသော တဲများဆီသို့ မျှော်ကြည့်နေသည်။ "မဖြစ်နိုင်ဘူး ဆရာလေးရေ့" ဟု ရေရွတ်သည်။ "အမေက မင့်ကို ဘယ်နည်းနဲ့မှ သွားခွင့်ပြုမှာ မဟုတ်ဘူး"

"ကျုပ်ကတော့ တစ်ယောက်တည်းဆိုရင် အလုပ် ရလွယ်လိမ့်မယ် ထင်တာပဲဗျာ"

"ဒါကတော့ မင်း ထင်သလို ဖြစ်ချင်လည်း ဖြစ်မှာပေါ့၊ ဒါပေမဲ့ အမေကတော့ လုံးဝ သဘောတူမှာ မဟုတ်ဘူး"

ယောက်ျားများ အပြည့်ပါလာသော မော်တော်ကား နှစ်စီးသည် စခန်းအတွင်းသို့ ဝင်လာသည်။ ကားပေါ်ရှိ လူအားလုံးသည် စိတ်ပျက်လက်ပျက် ဖြစ်နေကြပုံရ၏။ ဖုန်အလိမ်းလိမ်း ကပ်ကာ ညစ်ပတ် ပေရေလျက် ရှိသော သူတို့မျက်နှာများသည် ဝမ်းနည်း ကြေကွဲခြင်းကို ဖော်ပြနေကြလေသည်။ နေသည် အနောက်ဘက် မိုးကုပ်စက်ဝိုင်းဆီသို့ နိမ့်ဆင်းလျက် ရှိလေပြီ။ အဝါရောင်သန်းနေသော နေရောင်ခြည်သည် ဟူးဗားဗီးလ် စခန်းတစ်ခုလုံးနှင့် စခန်း၏ အနောက်ဘက်ရှိ မိုးမခပင် အုပ်အုပ်များပေါ်သို့ ဖြန့်ကျက် အုပ်မိုးထားလေသည်။ ကလေးများသည် တဲများအတွင်းမှ အလျှို အလျှို ထွက်လာကြပြီး စခန်းအတွင်း၌ လျှောက်သွားလျက် ရှိကြ၏။ အမျိုးသမီးများသည်လည်း တဲများအတွင်းမှ

ထွက်လာကြပြီး မီးများ မွေးနေကြလေပြီ။ ယောကျ်ားများကတော့ တစ်နေရာတွင် စုထိုင်ကာ ရောက်တတ်ရာရာ အကြောင်းများကို ပြောစပြုနေကြပြီ ဖြစ်၏။

ချက်ပလက် ကားသစ်တစ်စီးသည် လမ်းမကြီးပေါ်မှ ဖဲ့ဆင်းကာ စခန်းဆီသို့ မောင်းလာသည်။ စခန်းအလယ်လောက် ရောက်သည့်အခါ ရပ်သွားလေသည်။ "ဘယ်က လူတွေလဲဗျ၊ သူတို့ ကြည့်ရတာ ဒီစခန်းက ဟုတ်ပုံ မရဘူး" ဟု တွမ်က ပြောသည်။

"ကျုပ်လည်း မသိဘူး၊ ပုလိပ်တွေ ဖြစ်ချင် ဖြစ်မယ်"

ကားတံခါး ပွင့်လာပြီး အထဲမှ လူတစ်ယောက် ထွက်လာကာ မော်တော်ကား ဘေးတွင် ရပ်သည်။ ထိုင်၍ စကားပြောနေကြသူများသည် အခုမှ ရောက်လာသည့် လူစိမ်းများကို ကြည့်နေကြ၏။ သူတို့သည် ပြောလက်စ စကားကို ဆက်မပြောတော့။ ငြိမ်နေကြသည်။ မီးမွေးနေကြသော အမျိုးသမီးများသည် တလက်လက် တောက်နေသော ကားဆီသို့ မသိမသာ ခိုးကြည့်ကြသည်။ အထူးအဆန်းဆိုလျှင် ကြည့်ချင် မြင်ချင် တတ်သော ကလေးများသည် ကားနှင့် မနီးမဝေးတွင် လာ၍ ရပ်ကြလေသည်။

ဖလွိုက်က လက်ထဲမှ ခွက်ကို ဘေးသို့ ချလိုက်သည်။ ထိုင်နေသော တွမ်က ထရပ်သည်။ အယ်လ်က သူ့လက်များကို ဘောင်းဘီနှင့် ပွတ်၍ သုတ်နေသည်။ သုံးယောက်သား ချက်ပလက် ကားဆီသို့ လျှောက်လာကြသည်။ ကားထဲမှ ထွက်ပြီး ရပ်နေသူသည် ကာကီ ဘောင်းဘီရှည် ဝတ်ထားသည်။ အင်္ကျီက ဖလန်နယ် ရှပ်လက်ရှည်။ ထိပ်မြင့်ပြီး အနားကျယ်သော စတက်ဆန် ဦးထုပ် ဆောင်းထားသည်။ ရှပ်အင်္ကျီရှေ့ အိတ်ကပ်ထဲတွင် ထိုးထိုးထောင်ထောင် ထွက်နေသော စာရွက်တစ်ထပ်နှင့် ဖောင်တိန်များ၊ ပြီးတော့ အဝါရောင် ခဲတံများ။ နောက်ဘက်ရှိ ဘောင်းဘီ အိတ်ထဲတွင်မူ မှတ်စု စာအုပ် တစ်အုပ်။ သူသည် ထိုင်နေသော လူတစ်စုဆီသို့ လျှောက်သွားသည်။ ထိုင်နေသူများက သူ့ကို သင်္ကာယနမကင်းသော မျက်လုံးများဖြင့် ဆီး၍ ကြည့်ကြသည်။ အားလုံး လှုပ်ရှားခြင်း မရှိ။ သူတို့ ကြည့်နေပုံမှာ ဦးခေါင်းများကို မော့၍ ကြည့်ကြခြင်း မဟုတ်သဖြင့် အားလုံး မျက်ဖြူလန်သလို ဖြစ်လျက် ရှိကြသည်။ တွမ်၊ အယ်လ်နှင့် ဖလွိုက် တို့သည် ထိုလူ၏အနီးသို့ တဖြည်းဖြည်း ကပ်လာကြသည်။

"မင်းတို့ အလုပ် လုပ်ချင်ကြသလား" ဟု ထိုလူက မေးသည်။ မည်သူကမှ အဖြေမပေး။ အားလုံး ရေငုံနှုတ်ပိတ်။ မသင်္ကာစိတ်ဖြင့် ဆက်၍ ကြည့်နေကြဆဲ။ စခန်းအတွင်းရှိ ယောကျ်ား အားလုံးသည် ထိုနေရာသို့ ရောက်လာကြသည်။

ထိုင်နေသော အုပ်စုထဲမှ တစ်ယောက်က စကား စပြောသည်။ "လုပ်ချင်တာပေါ့ဗျ၊ ဘယ်မှာလဲ အလုပ်"

"တူလဲရားကောင်တီ ခရိုင်ထဲမှာလေ၊ သစ်သီးတွေ မှည့်တော့မယ်၊ သစ်သီးခူးတဲ့ အလုပ်သမားတွေ အများကြီး လိုနေတယ်"

ဖလွိုက်က တစ်ခွန်း ဝင်မေးသည်။ "ခင်ဗျားက အလုပ်သမား ရှာငှားတဲ့ လူလား"

"ငါက မြေကို ကန်ထရိုက် ယူထားတယ်"

လူစုလူဝေး ပို၍ များလာသည်။ အပေါ်ဝတ်အင်္ကျီနှင့် လူတစ်ယောက်သည် သူ့ခေါင်းပေါ်မှ ဦးထုပ်အနက်ကို ဆွဲချွတ်လိုက်ပြီး ဆံပင်များကြားသို့ လက်ချောင်းများ ထိုးသွင်းကာ တဖြင်းဖြင်းမြည်အောင် ကုတ်လျက်ရှိရာမှ လှမ်းမေးသည်။ "လုပ်ခက ဘယ်လောက် ပေးမှာလဲ"

"အင်း၊ အတိအကျ မပြောနိုင်သေးဘူး၊ ဆင့်သုံးဆယ်လောက် ဖြစ်မယ်လို့ ထင်တယ်"

"ခင်ဗျားက ဘာကြောင့် အတိအကျ မပြောနိုင်ရတာလဲ၊ ခင်ဗျား ကန်ထရိုက် ယူထားပြီးပြီ မဟုတ်လား"

"ယူထားပြီးပြီလေ" ဟု ကာကီဘောင်းဘီနှင့် လူက ဖြေသည်။ "ဒါပေမဲ့ လုပ်ခဆိုတာက သစ်သီးဈေးနှုန်းပေါ်မှာ တည်နေတယ်၊ အခု ပြောတဲ့နှုန်းထက် နည်းနည်း ပိုချင်လည်း ပိုရမယ်၊ လျော့ရင်လည်း နည်းနည်းပဲ လျော့မယ်"

ဖလွိုက်က ရှေ့သို့ တစ်လှမ်းတိုး၍ ရပ်လိုက်သည်။ "ကျုပ် လုပ်မယ် မစ္စတာ၊ ခင်ဗျားဟာ ကန်ထရိုက်တစ်ယောက်ပဲ၊ လိုင်စင် ရှိရမှာပေါ့၊ ခင်ဗျားရဲ့ လိုင်စင်ကို ပြပါ၊ ပြီးရင် ကျုပ်တို့ကို အလုပ် လုပ်ဖို့ ခိုင်းပါ၊ ဘယ်သွား လုပ်ရမယ်၊ ဘယ်အချိန် လုပ်ရမယ်၊

ဘယ်လောက် ရမယ် ဆိုတဲ့ စာချုပ်တစ်ခုလုပ်ပြီး လက်မှတ် ထိုးပေးပါ၊ ကျုပ်တို့အားလုံး သွားမယ်”

ကန်ထရိုက်က မျက်မှောင်ကြုတ်၍ ကြည့်သည်။ “ငါ့လုပ်ငန်းကို ဘယ်လို လုပ်ရမယ်လို့ မင်းက ဆရာလုပ်နေတာလားကွ ဟင်”

“တကယ်လို့ ကျုပ်တို့ လုပ်ရမယ့် အလုပ်ဟာ ခင်ဗျားအတွက်ဆိုရင် ခင်ဗျားရဲ့လုပ်ငန်းဟာ ကျုပ်တို့ လုပ်ငန်းပဲပေါ့ဗျာ”

“ဒီလိုဆိုရင် မင်း ဆရာလုပ်တာ မဟုတ်ဘူးပေါ့၊ ငါ မင်းတို့ကို ပြောပြီးပါပကောလား၊ လူ လိုတယ်လို့”

ဖလွိုက်က ဒေါ်သတကြီးဖြင့် ပြန်ပြောသည်။ “ခင်ဗျားဟာက အလုပ် မဟုတ်သေးပါဘူး၊ လူဘယ်လောက် လိုတယ် ဆိုတာလည်း မပြောဘူး၊ လုပ်ခ ဘယ်လောက် ပေးမယ်ဆိုတာလည်း မပြောဘူး”

“ဘယ်ပြောနိုင်မလဲကွ၊ ငါကိုယ်တိုင် အခုထက်ထိ တိတိကျကျ မသိရသေးတဲ့ဟာ”

“တကယ်လို့ ဒါတွေကို အခုထက်ထိ ခင်ဗျား မသိသေးဘူး ဆိုရင် ခင်ဗျားမှာ လူငှားပိုင်ခွင့်လည်း မရှိဘူးပေါ့ဗျ”

“ငါ့စီးပွားရေးအလုပ်ကို ငါ့နည်း ငါ့ဟန်နဲ့ ထင်သလို လုပ်ပိုင်ခွင့် ရှိတယ်လေကွာ၊ တကယ်လို့ မင်းတို့အနေနဲ့ မင်းတို့ ဖင်တွေကို ဒီနေရာမှာပဲ ကျောက်ချပြီး ထိုင်နေချင်ကြရင်တော့ သဘောပဲ၊ လိုနေတဲ့ အလုပ်သမားကို ငါ့ဘာသာငါ တခြားမှာ သွားရှာရုံပဲ၊ လူကတော့ လိုနေတာ အများကြီး”

ဖလွိုက်က လူစုလူဝေးဘက်သို့ လှည့်၍ မျက်နှာချင်း ဆိုင်လိုက်သည်။ လူအားလုံးသည် မတ်တတ်ရပ်ကာ သူတို့နှစ်ယောက် အချီအချ ပြောနေကြသည်ကို စိတ်ဝင်တစား ကြည့်လျက် ရှိကြ၏။ “ဒါမျိုး ကျုပ် ခံခဲ့ရတာ နှစ်ခါတောင် ရှိပြီ၊ သူ့အနေနဲ့ လိုနေတာ လူတစ်ထောင် ဖြစ်ချင် ဖြစ်မယ်၊ ဒီတော့ သူက လူ ငါးထောင်လောက် ရအောင် စုမယ်၊ လူ ငါးထောင်လောက် ရှိနေပြီ ဆိုတော့မှ လုပ်ခကို တစ်နာရီ ဆယ့်ငါးဆင့်ပေးမယ်၊

ခင်ဗျားတို့ ကျုပ်တို့လို ဆင်းရဲတဲ့ ကောင်တွေကတော့ ငတ်ပြတ်နေတာဆိုတော့ လက်ခံရတာပေါ့၊ တကယ်လို့ သူ လူငှားချင်တယ် ဆိုရင် ငှားပစေပေါ့၊ စာနဲ့ဘာနဲ့ အခိုင်အမာ ရေးပေးထားဖို့ လိုတယ်၊ လုပ်ခ ဘယ်လောက် ပေးမယ် ဆိုတာလည်း အတိအကျ ပြောရမယ်၊ ခင်ဗျားတို့ သူ့လိုင်စင်ကို တောင်းကြည့်၊ လိုင်စင်မရှိရင် သူ လူငှားခွင့် မရှိဘူး"

ကန်ထရိုက်သည် ချက်ပလက်ကားဘက်သို့ ပြန်လှည့်ကာ လူတစ်ယောက်ကို ခေါ်သည်။ "ဂျိုး" သူ့အဖော်က ကားထဲမှ ခေါင်းထွက်၍ ကြည့်သည်။ ထို့နောက် ကားတံခါးဖွင့်၍ ဆင်းလာသည်။ သူ့ခါးမှ ပစ္စတိုတစ်လက် ထည့်ထားသည့် အိတ်သည် တွဲလောင်းကျလျက် ရှိ၏။ သူ၏ အညိုရောင် ရှပ်အင်္ကျီရင်ဘတ်တွင် လက်ထောက်ပုလိပ် အရာရှိ တံဆိပ် ဖြစ်သော ကြယ်ပွင့်တစ်ပွင့် တပ်ထားသည်။ သူသည် နေးကွေး လေးလံသော ခြေလှမ်းများဖြင့် လျှောက်လာသည်။ မျက်နှာထားက ခပ်ပြုံးပြုံး။ "ဘာလဲဗျ" ဟု လှမ်းမေးသည်။ သူ့ခါးမှ သေနတ်အိတ်သည် ရှေ့တိုးနောက်ငင် လှုပ်ရှားလျက် ရှိလေသည်။

"ဒီကောင်ကို အရင်က တွေ့ဖူးသလား ဂျိုး"

ပုလိပ်အရာရှိက ပြန်မေးသည် "ဘယ်အကောင်လဲ"

"ဟော့ဒီကောင်" ကန်ထရိုက်က ဖလွိုက်ကို လက်ညှိုးထိုး ပြသည်။

"ဒီကောင် ဘာလုပ်သလဲ" ပုလိပ်အရာရှိက ဖလွိုက်ကို ကြည့်၍ ပြုံးသည်။

"သူက အနီ စကားတွေ ပြောနေတယ်၊ ပြဿနာ ဖြစ်အောင် အတို့အထောင် လာလုပ်နေတယ်"

"ဟင်း.. ဟင်း" ပုလိပ်အရာရှိက ဖလွိုက်ကို လှည့်ပတ်ပြီး တစ်ကိုယ်လုံး စေ့စေ့စပ်စပ် ကြည့်သည်။ ဖလွိုက်၏ မျက်နှာတစ်ခုလုံး နီရဲလာသည်။

"မြင်ကြတယ် မဟုတ်လား" ဟု ဖလွိုက်က အော်ပြောသည်။ "တကယ်လို့ ဒီလူဟာ မှန်မှန်ကန်ကန်သမားဆိုရင် ပုလိပ်ကို ခေါ်လာမလား"

"သူ့ကို အရင်က မြင်ဖူးသလား" ဟု ကန်ထရိုက်က ထပ်မေးပြန်သည်။

"အင်း မြင်ဖူးသလိုပဲ၊ လွန်ခဲ့တဲ့ အပတ်ထဲက ကားဟောင်းတွေ ရောင်းတဲ့ ဆိုင်ရဲ့ဝင်းခြံကို ဖောက်ဝင်တဲ့ အမှုတစ်မှု ဖြစ်ခဲ့တယ်လေ၊ အဲဒီတုန်းက ဒီအကောင် အဲဒီနားမှာ ယောင်လည်လည်လုပ်နေတာ မြင်ခဲ့ဖူးသလိုပဲ၊ ဟာ ဟုတ်တာပေါ့၊ ဒီကောင်မှ ဒီကောင် အစစ်ပဲ၊ ကျုပ် ကျိန်ပြောရဲတယ်" ချက်ချင်းပင် သူ့မျက်နှာပေါ်မှ အပြုံးရိပ် ပျောက်ကွယ် သွားသည်။ "ဟော့ကောင် ကားထဲဝင်စမ်း" ဟု ဖလွိုက်အား လှမ်း၍ ခိုင်းသည်။ တစ်ဆက်တည်းပင် သူ့ခါးမှ သေနတ်အိတ် ကြယ်သီးကို ဖြုတ်လိုက်သည်။

"သူ့မှာ ဘာအပြစ် ရှိလို့လဲ" ဟု တွမ်က မေးသည်။

ပုလိပ်အရာရှိက နောက်သို့ ပြန်လှည့်ပြီး တွမ်အား ကြည့်သည်။ "မင်းကလည်း သူနဲ့အတူ လိုက်ချင်ပုံရတယ်၊ လိုက်ချင်ရင် ရတယ်၊ ကားတွေ ထားတဲ့နေရာမှာ ရစ်သီရစ်သီ လုပ်နေတာ ဟိုအကောင် တစ်ယောက်တည်း မဟုတ်ဘူး၊ နှစ်ယောက်ကွ"

"ကျုပ် လွန်ခဲ့တဲ့ အပတ်ထဲက ဒီပြည်နယ်ထဲကို ရောက်တောင် မရောက်သေးဘူး"

"ဒါဆိုရင်တော့ မင်းဟာ တခြားနေရာက အလိုရှိနေတဲ့ကောင် ဖြစ်မှာပေါ့ကွာ"

ကန်ထရိုက်က ရပ်နေသူများဘက်သို့ လှည့်လိုက်သည်။ "မင်းတို့ ဟောဒီ ခွေးမသား အနီကောင်တွေရဲ့ စကားကို နားမထောင်ချင်ကြနဲ့၊ ဒီကောင်တွေက ပြဿနာရှာနေတဲ့ ကောင်တွေ၊ မင်းတို့အားလုံး ဒုက္ခရောက်သွားမယ်၊ ကဲ အခု တူလဲရဲ ကောင်တီ ခရိုင်ထဲက အလုပ်အတွက် မင်းတို့အားလုံးကို ငါ သုံးမယ်ကွာ"

အားလုံး တုတ်တုတ်မျှ မလှုပ်။ စကားပြန်လည်း မပေး။

ပုလိပ်အရာရှိကပါ သူတို့အား လှည့်ကြည့်သည်။ "မင်းတို့အားလုံး သူ ပြောတဲ့အတိုင်း လိုက်သွားတာ အကောင်းဆုံး ဖြစ်လိမ့်မယ် ထင်တယ်ကွ" ဟု ပြောသည်။ သူ့မျက်နှာတွင် အပြုံးရိပ် ပြန်၍ သန်းလာပြန်၏။ "ကျန်းမာရေးဌာန ဘုတ်အဖွဲ့က ပြောတယ်၊ ဒီစခန်းကို ဖျက်ပစ်ရမယ်တဲ့၊ အေး မင်းတို့အထဲမှာ အနီကောင်တွေ ရှိနေပြန်ရင်လည်း မင်းတို့ နာဦးမယ်၊ အဲဒီတော့ မင်းတို့အားလုံး တူလဲရဲကို ရွှေ့သွားကြတာ အကောင်းဆုံး ဖြစ်လိမ့်မယ်၊ ဒီမှာဆိုရင် ဘာမှလည်း လုပ်စရာ မရှိဘူး၊

မိတ်ဆွေကောင်း တစ်ယောက် အနေနဲ့ ငါက အကြံပေးနေတာပါ၊ တကယ်လို့ပေါ့လေ မင်းတို့ မသွားဘူးလို့ ငြင်းရင်တော့ အင်း လူတစ်စု ရောက်လာလိမ့်မယ်၊ သူတို့လက်ထဲမှာ ပေါက်တူးတွေ ပေါက်ချွန်းတွေ တုတ်တွေ ပါလာလိမ့်မယ်၊ ဒီလိုဆိုရင်တော့လည်း ..”

ကန်ထရိုက်က စကားတစ်ခွန်း ဝင်ပြောပြန်သည်။ “ငါ အလုပ်သမား လိုတယ်လို့ မင်းတို့ကို ပြောပြီးပြီပဲ၊ တကယ်လို့ မင်းတို့က အလုပ် မလုပ်ချင်ကြဘူး ဆိုရင်တော့ ဒါက မင်းတို့ကိစ္စပဲလေ ”

ပုလိပ်အရာရှိက ပြုံးသည်။ “တကယ်လို့ သူတို့လူစု အလုပ် မလုပ်ချင်ကြဘူးဆိုရင် ဒီပြည်နယ်ထဲမှာ သူတို့အတွက် နေစရာ နေရာ မရနိုင်ဘူးလေ၊ သူတို့ကို ဒီအရပ်က မြန်မြန် မောင်းထုတ်မှ ဖြစ်မှာ”

ဖလွိုက်သည် သူ့လက်မနှစ်ချောင်းကို သူ့ခါးပတ်တွင် ထိုးချိတ်ကာ ပုလိပ်အရာရှိ၏ ဘေး၌ ကျောက်ရုပ်တစ်ရုပ်သဖွယ် ရပ်လျက် ရှိသည်။ တွမ်က ဖလွိုက်မျက်နှာကို တစ်ချက် ခိုးကြည့်သည်။ ထို့နောက် မျက်လွှာကို ပြန်ချကာ မြေကြီးကို ငုံ့ကြည့်နေသည်။

“အဲဒါပဲဟေ့” ဟု ကန်ထရိုက်က ထပ်ပြောသည်။ “တူလဲရားကောင်တီ ခရိုင်ထဲမှာ အလုပ်သမား အများကြီး လိုနေတယ်၊ အလုပ်တွေ အများကြီး ရှိနေတယ် ”

တွမ်က ဖလွိုက်၏ လက်များကို မသိမသာ လှမ်း၍ ကြည့်သည်။ ထို့နောက် သူ့လက်မများကို ခါးပတ်အတွင်းသို့ ထိုးချိတ်ကာ ကိုယ်ကိုပြင်၍ ရပ်လိုက်လေသည်။

“အေး ဒါပဲ၊ မနက်ဖြန် မနက်ဆိုရင် မင်းတို့ လူစုထဲက တစ်ယောက်မှ ဒီနေရာမှာ မရှိစေချင်ဘူး ”

ကန်ထရိုက်က ချက်ပလက်ကား အတွင်းသို့ ပြန်ဝင်သည်။

“ကဲ ဟေ့ကောင် ” ပုလိပ်အရာရှိက ဖလွိုက်အား လှမ်း၍ အသံပြုသည်။

“မင်း ကားထဲဝင်စမ်း ” ပုလိပ်အရာရှိ၏ လက်တစ်ဖက်သည် ဖလွိုက်၏ ဘယ်ဘက် လက်မောင်းကို ဆုပ်ကိုင်သည်။ ဖလွိုက်က လက်ကို ဆတ်ခနဲ

ဆောင့်ရုန်းလိုက်ပြီး ချာခနဲ လှည့်၍ မျက်နှာချင်း ဆိုင်လိုက်သည်။ သူ့ညာဘက်လက်သီးသည် ပုလိပ်အရာရှိ၏ မျက်ခွက်ပေါ်သို့ အရှိန်ပြင်းစွာဖြင့် ကျလာသည်။ တစ်ပြိုင်တည်းလိုလိုပင် နောက်သို့ ပြန်လှည့်ကာ တဲတန်းနှစ်တန်းကြားရှိ လမ်းအတိုင်း ကဆုန်ဆိုင်း၍ ပြေးထွက်သွားလေ၏။ ဖလ္လိုက်၏ လက်သီးချက်ကြောင့် ပုလိပ်အရာရှိသည် နောက်သို့လန်ကာ ဒယီးဒယိုင် ဖြစ်သွားသည်။ ဤအဖြစ်ကို အကွက်ကောင်းယူ၍ တွမ်က သူ့ခြေထောက်တစ်ဖက်ကို ပုလိပ်အရာရှိ၏ ခြေနှစ်ချောင်း နောက်မှ ထိုးခံလိုက်သည်။ တွမ်၏ ခြေထောက် အရှိန်ကြောင့် ပုလိပ်အရာရှိမှာ သူ့ကိုယ်သူ မဟန်နိုင်တော့ဘဲ ခြေပစ်လက်ပစ် လဲကျကာ မြေပေါ်မှာ တလိမ့်ခေါက်ကွေး ဖြစ်သွားသည်။ တစ်ဖက်သို့ လိမ့်သွားနေသည့် ကြားမှပင် ပုလိပ်အရာရှိ၏ လက်သည် သူ့ခါးမှ သေနတ်ကို ဆွဲထုတ်လိုက်သည်။ တစ်ဟုန်ထိုး ပြေးထွက်သွားသော ဖလ္လိုက်သည် လူအားလုံး၏ မျက်စိများ အောက်မှ ပျောက်ကွယ်သွားသည်။ မြေကြီးပေါ်တွင် ပက်လက်ဖြစ်နေသော ပုလိပ်အရာရှိက သူ့လက်ထဲမှ သေနတ်ဖြင့် တစ်ချက် လှမ်းပစ်သည်။ တဲတစ်လုံးရှေ့မှ စူးစူးဝါးဝါး အော်လိုက်သည့် အမျိုးသမီးတစ်ဦး၏ အသံ။ အမျိုးသမီးသည် လက်ဆစ်များ မရှိတော့သည့် သူ့လက်တစ်ဖက်ကို ကြောင်၍ ကြည့်နေသည်။ အသားများ ပြတ်ထွက်သွားသည့် လက်ချောင်း ငုတ်တိုများတွင် သွေးမရှိ။ ဖြူဖွေးလျက် ရှိသည်။

ကဆုန်ဆိုင်း၍ ပေးနေသော ဖလ္လိုက်၏ သဏ္ဌာန်သည် မိုးမခပင်များ ကြားတွင် ပေါ်လာလိုက် ပျောက်သွားလိုက်။ မြေပေါ်တွင် ဖင်ထိုင်မိပြီ ဖြစ်သော ပုလပ်အရာရှိက လက်ကိုမြှောက်၍ သေနတ်ဖြင့် လှမ်းချိန်သည်။ သူ့အနီးတွင် ရပ်နေသော လူအုပ်ထဲမှ တရားဟောဆရာ ကက်ဆီသည် ဖြုန်းခနဲ ရှေ့သို့ ထွက်လာပြီး ပုလိပ်အရာရှိ၏ လည်ပင်းကို ခြေထောက်ဖြင့် တအားကြုံး၍ ကန်လိုက်သည်။ ထို့နောက် လူအုပ်ထဲသို့ ပြန်ဝင်ကာ ဣန္ဒြေမပျက် ရပ်နေလိုက်၏။ ပုလိပ်အရာရှိသည် တစ်ချက်မျှ တွန့်ခနဲ ဖြစ်သွားပြီး မြေကြီးပေါ်သို့ ဗိုင်းခနဲ လဲကျကာ သတိလစ်သွားလေ၏။

ချက်ပလက်ကား စက်နှိုးသံသည် ကျယ်လောင်စွာ ထွက်ပေါ်လာသည်။ ထို့နောက် တရကြမ်း မောင်းထွက်သွားသည့် ကားသံ။ ဖုန်လုံးကြီးသည် ထောင်းထောင်းထ၍ ကျန်ခဲ့သည်။ မော်တော်ကားသည် အဝေးပြေး ကားလမ်းမကြီးပေါ်သို့ တရကြမ်း ထိုးတက်ကာ တစ်ဟုန်ထိုး မောင်းထွက်သွား သည်။ အမျိုးသမီးသည် တဲရှေ့၌ ရပ်ဆဲ။ လက်ချောင်း ကလေးများ ပြတ်ထွက်သွားသည့် သူ့လက်ကို ပါးစပ်အဟောင်းသားဖြင့် ကြည့်နေဆဲ။ ဒဏ်ရာမှ သွေးများသည် စိမ့်ထွက်လျက် ရှိလေပြီ။

သူ့လည်ချောင်းအတွင်းမှ မပီမသ အသံများ ထွက်လာလျက် ရှိ၏။ တဖြည်းဖြည်းနှင့် အသံများသည် ပို၍ ကျယ်လောင် စူးရှလာသည်။ ထို့နောက် ငိုသံနှင့် ရယ်သံများကို ပေါင်းစပ်ထားသည့် အသံများ။

ပုလိပ်အရာရှိကတော့ မြေပေါ်တွင် တစောင်းလဲကျလျက် ရှိ၏။ သူ့ပါးစပ်သည် ဟောင်းလောင်းပွင့်ကာ မြေကြီးပေါ်တွင် အပ်လျက်။

တွမ်က ပုလိပ်အရာရှိ၏ ဘေး၌ ကျနေသော ပစ္စတိုကို ကောက်ယူပြီး မက်ဂဇင်းကို ဆွဲဖြုတ်ယူကာ ချုံပုတ်များဘက်သို့ လွှင့်ပစ်လိုက်သည်။ ထို့နောက် ပြောင်းဝ၌ အသင့် ရောက်နေသည့် မပစ်ရသေးသည့် ကျည်ဆန်ကို ထုတ်ယူလိုက်သည်။ "ဒီလို ကောင်စားမျိုးကို သေနတ်ကိုင်ခွင့် မပြုသင့်ဘူး" ဟု ပြောသည်။ သူသည် လက်ထဲမှ ပစ္စတိုကို မြေကြီးပေါ်သို့ ပစ်ချလိုက်လေသည်။

လူအုပ်သည် လက်ချောင်းကလေးများ ပြတ်နေသည့် အမျိုးသမီး အနီးသို့ ရောက်လာသည်။ အမျိုးသမီး၏ ငိုသံသည် ကျယ်လောင်စွာ ထွက်ပေါ်လာလျက် ရှိ၏။

ကက်ဆီက တွမ်၏ အနီးသို့ ကပ်သွားသည်။ "မင်း ဒီနေရာက သွားမှ ဖြစ်တော့မယ်" ဟု ပြောသည်။ "မင်း ဟို မိုးမခပင် တောအုပ်ဘက်ကိုသွား၊ အဲဒီကနေ စောင့်၊ ငါ ကန်လိုက်တာကို သူ မမြင်ဘူး၊ ဒါပေမဲ့ လဲကျသွားအောင် မင်း ခြေထောက်နဲ့ ထိုးခံလိုက်တာကိုတော့ သူ မြင်သွားတယ်"

"ကျုပ် မသွားချင်ဘူးဗျာ" ဟု တွမ်က ငြင်းသည်။

ကက်ဆီက သူ့ခေါင်းကို တွမ်အနီးသို့ ကပ်ကာ နှစ်ကိုယ်ကြား လေသံဖြင့် ပြောသည်။ "သူတို့က မင်းရဲ့ လက်ဗွေကို ယူလိမ့်မယ်၊ ဒါဆိုရင် မင်း ခံဝန်ချုပ်ဖောက်တာကို သိသွားမှာ၊ သိတယ်ဆိုရင် သူတို့က မင်းကို ထောင်ပြန်ပို့မှာပဲ"

တွမ်က သက်ပြင်းတစ်ချက် မှုတ်ထုတ်လိုက်သည်။ "ဟုတ်သားပဲ၊ ကျုပ် မေ့နေတယ်"

"ကဲ မြန်မြန်သာ လစ်ပေတော့" ဟု ကက်ဆီက တိုက်တွန်းသည်။ "ဒီကောင် သတိရမလာခင် လစ်တာ အကောင်းဆုံးပဲ"

"ကျုပ် သေနတ်ကို ယူသွားချင်တယ်"

"မလုပ်ပါနဲ့ကွာ၊ ထားပစ်ခဲ့၊ မင်း ပြန်လာလို့ရပြီဆိုရင် ငါ လေးခါတိတိ လေချွန်သံ ပေးလိုက်မယ်"

တွမ်သည် စိတ်မပါ့တပါဖြင့် အနားမှ ခွာသွားသည်။ သို့သော်လည်း လူအုပ်နှင့် ခပ်လှမ်းလှမ်းသို့ ရောက်သောအခါ ခြေကုန်သုတ်လေတော့၏။ သူသည် တစ်ခဏ အတွင်းမှာပင် မြစ်ကမ်းတစ်လျှောက်၌ ပေါက်နေသော မိုးမခပင်များကြားသို့ ဝင်ရောက် ပျောက်ကွယ်သွားလေသည်။

အယ်လ်က လဲကျနေသော ပုလိပ်အရာရှိကို ခွကျော်၍ ကက်ဆီထံသို့ လျှောက်လာသည်။ နှုတ်မှလည်း ချီးမွမ်းအံ့သြသည့် လေသံဖြင့် ဘုရားတသည်။ "ပြောင်မြောက်ပါပေ့ဗျာ၊ တစ်ချက်တည်းနဲ့ မှောက်သွားတာပဲ "

လူအုပ်သည် သတိလစ်နေသော ပုလိပ်အရာရှိကို ဆက်၍ ကြည့်နေကြသည်။ အဝေးမှ ထွက်ပေါ်လာနေသည့် ပုလိပ်ကား ဥသြသံ။ အသံသည် ကျယ်ကျယ်လောင်လောင် စူးစူးရှရှ။ တစ်ချက်တစ်ချက် ပျောက်ကွယ်သွားသော်လည်း ချက်ချင်းလိုလိုပင် ပြန်ပေါ်လာသည်။ တဖြည်းဖြည်းနှင့် အသံသည် နီး၍နီး၍ လာသည်။ အားလုံး စိတ်လှုပ်ရှား လာကြသည်။ သူတို့ ခြေထောက်များသည် မငြိမ်မသက် ဖြစ်လာသည်။ ထို့နောက် တစ်ယောက်မျက်နှာ တစ်ယောက် ကြည့်ကာ လူစု ခွဲသွားကြသည်။ လူတိုင်း ကိုယ့်တဲကိုယ် ပြန်ကြသည်။ ထိုနေရာတွင် အယ်လ်နှင့် တရားဟောဆရာတို့သာ ကျန်ခဲ့လေ၏။

ကက်ဆီက အယ်လ်ကို လှည့်ကြည့်ပြီး "မင်း သွားတော့" ဟု နှင်သည်။ "သွားတော့လေကွာ၊ ဘာလုပ်ဖို့ ရပ်နေတာတုံး၊ တဲကို ပြန်တော့၊ မင်း ဘာမှ သိတာမှ မဟုတ်ဘဲ"

"ခင်ဗျားကကော"

ကက်ဆီက ပြုံးသည်။ "အပြစ်ကို ဝန်ခံမယ့်လူ တစ်ယောက်တော့ ရှိမှ ဖြစ်မှာပေါ့ကွ၊ မဟုတ်ဘူးလား၊ ငါ့မှာ သားသမီး သားမယား ရှိတာမှ မဟုတ်တာ၊ သူတို့က ထောင်ကို ပို့လည်း သွားနေလိုက်ရုံပဲ၊ နောက်ပိုင်း ပြဿနာရှင်းတယ် "

"ခင်ဗျားဟာက အဓိပ္ပာယ်မရှိ "

"ကဲကွာ သွားစမ်း" ဟု ကက်ဆီက သံပြတ်နှင့် ပြောသည်။ "သွားဆို သွားကွာ"

အယ်လ်က ဒေါသထွက်လာသည်။ "ကျုပ် ဘယ်ကောင့် အမိန့်ကိုမှ မနာခံဘူးဗျ"

ကက်ဆီ လေသံ ပျော့သွားသည်။ "တကယ်လို့ ဒီကိစ္စထဲမှာ မင်းပါလာရင် မင်းရဲ့ မိသားစုတစ်ခုလုံး ဒုက္ခရောက်မှာကွ၊ မင်း တစ်ယောက်တည်းဆိုရင်တော့ ငါကလည်း ဂရုမစိုက်ပါဘူး၊ ဒါပေမဲ့ မင်း အမေနဲ့ မင်း အဖေ ပါလာလိမ့်မယ်၊ သူတို့ပါလာရင် ဒုက္ခရောက်မှာ၊ နောက်ဆုံး သူတို့က တွမ်ကို မက်အေလက်စတားထောင်ကို ပြန်ပို့မှာ သေချာတယ် "

အယ်လ် ငြိမ်ဆိတ်သွားသည်။ သူသည် အတန်ကြာမျှ ငိုင်၍ စဉ်းစားနေသည်။ "ကောင်းပြီလေ " ဟု ရေရွတ်သည်။ "ဒါပေမဲ့ ခင်ဗျားဟာ လုံးဝ အစဉ်းစား အဆင်ခြင်မရှိတဲ့ သောက်ရူးကြီးတစ်ယောက်လို့ပဲ ကျုပ်တော့ ထင်တယ်ဗျာ "

"မင်းပြောတာ မမှားပါဘူးကွာ" ဟု ကက်ဆီက ပြန်ပြောသည်။ "ဘာကြောင့် မှားရမှာလဲ"

ပုလိပ်ကား ဥဩသံကို အဆက်မပြတ် ကြားလာရသည်။ အသံသည် ပို၍ ပို၍ နီးကပ်လာသည်။ ကက်ဆီသည် သတိလစ်နေသော ပုလိပ်အရာရှိဘေးတွင် ဒူးထောက်ထိုင်ကာ ပွေ့ထူလိုက်သည်။ ပုလိပ်အရာရှိထံမှ ညည်းသံ ထွက်လာသည်။ မျက်တောင်များလည်း ခတ်လာသည်။ သူသည် မျက်လုံးကို ဖွင့်နိုင်ရန် အားထုတ်လျက် ရှိလေသည်။ ကက်ဆီက သူ့နှုတ်ခမ်းများ၌ ပေကျံနေသည့် ဖုန်များကို သုတ်ပေးနေသည်။ စခန်းအတွင်းရှိ မိသားစုများ အားလုံးသည် တဲများအတွင်းသို့ဝင်ကာ ငြိမ်နေကြသည်။ ဝင်လဲဆဲဆဲ နေမင်းသည် ပတ်ဝန်းကျင်ကို အနီရောင်ဖြင့် လွှမ်းခြုံထားသည်။ စောစောက ညိုမှိုင်းမှိုင်း ဖြစ်နေသော တဲများသည် ကြေးနီရောင် ပေါက်လျက် ရှိလေသည်။

ကားဘီးတာယာများနှင့် လမ်းမကြီး ပွတ်တိုက်သံတစ်ချက် ထွက်လာသည်။ တစ်ဆက်တည်းမှာပင် ပုလိပ်ကားတစ်စီးသည် စခန်းအတွင်းသို့ ဝင်လာသည်။ ကားအတွင်းမှ ရိုင်ဖယ်သေနတ်ကိုယ်စီနှင့် လူလေးယောက် ထွက်လာသည်။ ကက်ဆီက ထိုင်ရာမှ ထကာ သူတို့ဆီသို့ လျှောက်သွားသည်။

"ဒီမှာ ဘာဖြစ်တာလဲ ဟေ့"

"ကျုပ် ခင်ဗျားတို့ လူတစ်ယောက်ကို ထိုးလှဲလိုက်တယ်၊ ဟောဟိုမှာ" ဟု ကက်ဆီက ဖြေသည်။

လက်နက်ကိုင်တစ်ဦးသည် လဲနေသော ပုလိပ်ထံသို့ သွားသည်။ သတိရနေပြီ ဖြစ်သော ပုလိပ်သည် ထ၍ ထိုင်နိုင်ရန် ကြိုးစားလျက် ရှိ၏။

"ဘယ်လို ဖြစ်ကြတာလဲ"

"ဒီလိုဗျာ" ဟု ကက်ဆီက စကားစသည်။ "သူက သိပ်ကိုရိုင်းစိုင်းတယ်၊ ဒါကြောင့် ကျုပ်က ထိုးတာ၊ အဲဒီတော့ သူက သေနတ်နဲ့ ပစ်တယ်၊ မိန်းမတစ်ယောက်ကို မှန်သွားတယ်၊ ကျုပ်က နောက်တစ်ချက် ထိုးလိုက်တယ်"

"ကဲ အစက ပြော၊ ပထမဆုံး ဘာဖြစ်သလဲ၊ မင်းက ဘာစလုပ်သလဲ"

"ကျုပ်က ပြန်ပြောတယ်" ဟု ကက်ဆီက ပြောသည်။

"ဒီလိုဆို ကားပေါ်တက်"

"ရပါတယ်" ဟု ကက်ဆီက ပြောကာ ကားထဲသို့ ဝင်ထိုင်လိုက်သည်။ လူနှစ်ယောက်က ဒဏ်ရာရထားသော ပုလိပ်ကို တစ်ယောက်တစ်ဖက် မ၍ ဆွဲထူပေးသည်။ ပုလိပ်သည် သူ့လည်ပင်းကို အသာအယာ ပွတ်လျက် ရှိသည်။ ကက်ဆီက ကားထဲမှ နေ၍ လှမ်းပြောသည်။ "သူ သေနတ်နဲ့ ပစ်လို့ မှန်ထားတဲ့ မိန်းမတစ်ယောက်ဆိုတာ ဟိုရှေ့နားမှာ ရှိတယ်၊ သွေးလွန်ပြီး သေလိမ့်မယ်"

"အဲဒါကို နောက်ကျမှ တို့ သွားပြီး ကြည့်မယ်၊ ဒီမယ် မိုက်၊ ခင်ဗျားကို ထိုးတာ ဒီအကောင် ဟုတ်ရဲ့လား"

ဒဏ်ရာနှင့် ပုလိပ်က ကက်ဆီ၏ မျက်နှာကို ကြည့်သည်။ "သူနဲ့တော့ မတူဘူး"

"ကျုပ်ပါဗျ" ဟု ကက်ဆီက ပြန်ပြောသည်။ "ခင်ဗျားက လူလွဲပြီး မှတ်ထားလို့ပါ"

မိုက်က ခေါင်းကို ဖြည်းညင်းစွာ ယမ်းသည်။ "မင်းမျက်နှာက ငါ့ကို ထိုးသွားတဲ့ ကောင်နဲ့ မတူဘူး၊ ဘုရား ဘုရား၊ ခေါင်းထဲက မူးလိုက်တာ"

"ကျုပ်အဖို့ကတော့ ကိစ္စ မရှိပါဘူး၊ ဟိုမိန်းမရဲ့ ဒဏ်ရာကိုတော့ သွားပြီး ကြည့်ပေးကြပါဦး"

"အဲဒီ မိန်းမက ဘယ်မှာလဲ"

"ဟို ရှေ့ တဲထဲမှာ"

ပုလိပ်အဖွဲ့ခေါင်းဆောင်က ရိုင်ဖယ်ကို လက်တစ်ဖက်ဖြင့် ကိုင်၍ တဲဆီသို့ လျှောက်သွားသည်။ အပြင်မှနေ၍ လှမ်း စကားပြောသည်။ ထို့နောက် တဲထဲသို့ ဝင်သွားသည်။ ခဏမျှအကြာတွင် ပြန်ထွက်လာပြီး ကားဘက်သို့ ပြန်လျှောက်လာသည်။ ပြီးတော့ ဂုဏ်ယူ ဝင့်ကြွားသော လေသံဖြင့် "ပွိုင့် လေးငါး ပစ္စတိုဟာ တကယ်ကောင်းတာပဲကွာ၊ ဒါပေမဲ့ ကိစ္စတော့ မရှိပါဘူး၊ သွေးတိတ်အောင် ပတ်တီးစည်းထားကြတယ်၊ ဆရာဝန်တစ်ယောက်ကိုတော့ ခေါ်ပေးမှ ဖြစ်မယ်" ဟု ပြောလေသည်။

ပုလိပ် နှစ်ယောက်က ကက်ဆီ၏ ဘေးတစ်ဖက်တစ်ချက်မှ ဝင်ထိုင်လိုက်သည်။ ပုလိပ်အဖွဲ့ ခေါင်းဆောင်သည် မော်တော်ကား ဟွန်းကို အဆက်မပြတ် နှိပ်သည်။ စခန်းအတွင်းမှ လှုပ်ရှားမှု ဟူ၍ လုံးဝ မရှိ။ ရွက်ထည်တဲ တံခါး အားလုံးသည် ပိတ်လျက် ရှိသည်။ တဲများအတွင်းမှ လူတစ်ယောက်တစ်လေမှပင် ထွက်မလာ။ ကားစက်နှိုးသံ ထွက်လာသည်။ ကားသည် နောက်သို့ ခပ်ကြမ်းကြမ်း ပြန်ဆုတ်ကာ စခန်းအတွင်းမှ အရှိန်ပြင်းစွာဖြင့် ထွက်ခွာသွားလေသည်။ ကက်ဆီကတော့ သူ့အား ညှပ်၍ ထိုင်နေသော ပုလိပ် နှစ်ယောက် ကြားတွင် အလွန် ဂုဏ်ယူသော မျက်နှာထားဖြင့် ထိုင်လျက် ရှိ၏။ သူ့ခေါင်းသည် မော့လျက် ရှိသည်။ တုတ်ခိုင်ကြီးမားသော လည်ပင်းမှ အကြောများသည် ထောင်လျက် ရှိသည်။ သူ၏ နှုတ်ခမ်းတွင် အပြုံးရိပ် သန်းလျက် ရှိ၏။ သူ့မျက်နှာထားတွင်

ထူးဆန်းသော အကြည့်တစ်ခု ထင်ဟပ်လျက် ရှိသည်။ တခြားတော့ မဟုတ်။ အနိုင်ရရှိခြင်းကို ဖော်ပြနေသော အကြည့်။

ပုလိပ်များ ထွက်သွားသည်နှင့် တစ်ပြိုင်နက် တဲများအတွင်းမှ လူအားလုံး အပြင်သို့ ထွက်လာကြသည်။ နေဝင်သွားခဲ့လေပြီ။ ညနေခင်း၏ မှုန်မွှားမွှား အလင်းရောင်သည် စခန်းတစ်ခုလုံးကို လွှမ်းခြုံစ ပြုလေပြီ။ အရှေ့ဘက်ရှိ တောင်တန်းကြီးများသည် နေရောင်ဖြင့် အဝါရောင် သန်းနေဆဲ။ မိန်းမများသည် ငြိမ်းနေပြီဖြစ်သော မီးဖိုများဆီသို့ ပြန်သွားကြသည်။ ယောကျ်ားများသည် တစ်နေရာတွင် စုထိုင်ကာ တိုးတိုး တိုးတိုးနှင့် စကားပြောလျက် ရှိကြ၏။

အယ်လ်သည် သူတို့မိသားစု၏ တာပေါ်လင် ရွက်ထည်တဲ အတွင်းမှ ထွက်လာပြီး တွမ်အား လေချွန်၍ အချက်ပေးရန် မိုးမခပင်များဘက်သို့ လျှောက်သွားသည်။ သူ့နောက်မှ ထွက်လာသည်မှာ အမေဂျုတ်။ အမေဂျုတ်သည် ထင်းခြောက်များဖြင့် မီးပြန်မွှေးသည်။

"ကျွန်မတို့ ညစာကို များများ ချက်ဖို့ မလိုဘူး၊ မနက်စာ စားတာ သိပ်နောက်ကျတယ် မဟုတ်လား" ဟု အဖေဂျုတ်အား လှမ်းပြောသည်။

အဖေဂျုတ်နှင့် ဦးလေးဂျွန်တို့သည် တဲအနီး၌ ထိုင်ကာ အမေဂျုတ် အာလူးများ အခွံနွှာနေသည်ကို ကြည့်နေကြသည်။ "ဒီ တရားဟောဆရာ ဘယ်လို အချိုးမျိုး လုပ်သွားတာပါလိမ့်"

ရှုသီနှင့် ဝင်းဖီးတို့ မောင်နှမသည် လူကြီးနှစ်ဦး ပြောသမျှကို ကြားလိုသဖြင့် အနားသို့ တိုးလာကြသည်။

ဦးလေးဂျွန်သည် သံချေးတက်နေသော သံချောင်းတစ်ချောင်းဖြင့် မြေကြီးကို တအားခြစ်နေသည်။ "ဒီလူက ဒုစရိုက်အကြောင်းကို ကောင်းကောင်း သိတယ်ကွ၊ ငါ သူ့ကို ဒုစရိုက်အကြောင်း မေးဖူးတယ်၊ သူကလည်း ရှင်းပြတယ်၊ ဒါပေမဲ့ သူ ပြောတာ မှန် မမှန် ငါလည်း အတိအကျ မသိဘူး၊ သူ ပြောသွားတာ တစ်ခုကတော့ လူတစ်ယောက်ဟာ သူ့ကိုယ်သူ ဒုစရိုက်ကောင်လို့ ထင်နေရင် သူဟာ ဒုစရိုက်ကောင်ပဲတဲ့" ဦးလေးဂျွန်၏ မျက်လုံးများသည် ပင်ပန်းနွမ်းနယ်ခြင်းနှင့် ကြေကွဲ ဝမ်းနည်းခြင်းများကို ဖော်ပြလျက်

ရှိကြ၏။ "ငါကတော့ ငါ့အပြစ် ဟူသမျှကို တောက်လျှောက် ဖုံးလာခဲ့တာပဲ" ဟု ဆိုသည်။ "ငါ ဘယ်သူ့ကိုမှ ဖွင့်မပြောခဲ့သေးတဲ့ ဒုစရိုက်မှုတွေ ငါ့မှာ အများကြီး ရှိသေးတယ်"

အမေဂျုတ်က လှည့်ကြည့်သည်။ "ပြောမနေပါနဲ့တော့ ဂျွန်ရယ်" ဟု လှမ်းပြောသည်။ "အဲဒါမျိုးတွေကျတော့ ဘုရားသခင်ကိုပဲ ပြောပါ၊ ရှင့်ရဲ့ ဒုစရိုက်မှုကြောင့် တခြား လူတွေမှာ တာဝန် မတက်ပါစေနဲ့၊ အဲဒီ အလုပ်မျိုးဟာ အလွန် မကောင်းတာ"

"အဲဒီ ဒုစရိုက်မှုတွေက ငါ့အသွေး ငါ့အသားကို စားနေကြပြီ" ဟု ဦးလေးဂျွန်က ပြောသည်။

"ဒီလိုဆိုရင်လည်း ဒီမှာ လာမပြောပါနဲ့၊ မြစ်ထဲကို ဆင်း ရေငုပ်ပြီး တစ်ယောက်တည်း ပြောပေါ့"

အဖေဂျုတ်က အမေဂျုတ်၏ စကားကို ထောက်ခံသည့်အနေဖြင့် သူ့ခေါင်းကို ဖြည်းညင်းစွာ ညိတ်သည်။ "သူ ပြောတာ မှန်တယ်" ဟု ဆိုသည်။ "ကိုယ့်ရင်ထဲမှာ ရှိသမျှကို ပြောလိုက်ရတဲ့အတွက် ပြောလိုက်တဲ့လူမှာတော့ စိတ်သက်သာသွားတာ အမှန်ပဲ၊ ဒါပေမဲ့ သူ့မကောင်းမှုတွေကို တခြားလူတွေဆီ ဝေငှပေးလိုက်သလို ဖြစ်သွားတယ်"

ဦးလေးဂျွန်သည် နေရောင်ဖြင့် ရွှေရောင်သန်းနေသော တောင်တန်းကြီးများဆီသို့ တွေဝေ ငေးမောလျက် ရှိသည်။ တောင်တန်းကြီးများသည် သူ့မျက်လုံးများထဲတွင် ရောင်ပြန်ဟပ်လျက် ရှိကြလေသည်။ "ငါ မေ့ပစ်ချင်တယ်၊ ဒါပေမဲ့ မေ့လို့ မရဘူး၊ သူဟာ ငါ့ကို ဖြည်းဖြည်းချင်း ကိုက်ဝါး စားနေသလိုပဲ"

တဲအတွင်းမှ ထွက်လာသော ရိုစာဟန်သည် ဦးလေးဂျွန်၏ နောက်တည့်တည့် တွင် လာ၍ ရပ်သည်။ "ကွန်နီ ဘယ်ရောက်နေသလဲ" ဟု မေးသည်။ "ကွန်နီ ပျောက်နေတာ အတော်ကြာပြီ၊ ဘယ်များ သွားနေပါလိမ့်"

"အေး ဟုတ်တယ်၊ ငါလည်း မမြင်မိဘူး" ဟု အမေဂျုတ်က ပြန်ပြောသည်။ "အမေ သူ့ကိုတွေ့ရင် ပြောလိုက်မယ်လေ"

"ကျွန်မ သိပ်နေမကောင်းဘူး" ဟု ရိစာဟန်က ဆိုသည်။ "ကွန်နီ ကျွန်မကို တစ်ယောက်တည်း ပစ်မထားသင့်ဘူး"

အဧျေတ်သည် သူ့သမီး၏ မျက်နှာ အဆမတန် မို့နေသည်ကို သတိထားမိသည်။ "နင် ငိုနေတယ် ဟုတ်လား" ဟု မေးသည်။

ရိစာဟန်၏ မျက်လုံးများတွင် မျက်ရည်များ စို့လာပြန်သည်။ "နင်က နင့်ဟာနင် တစ်ယောက်တည်းလို့ ထင်နေတာကိုး၊ ဒီမှာ ငါတို့အားလုံး ရှိနေကြတာပဲ၊ ဘာ အားငယ်စရာရှိလဲ၊ ကဲလာ၊ အာလူးတွေ အခွံနွှာလှည့်၊ နင့်ဟာက အလုပ်မရှိ အလုပ်ရှာသလို ဖြစ်နေတယ်၊ ကိုယ့်အကြောင်း ကိုယ်တွေးပြီး ဝမ်းနည်းနေတာပဲ"

ရိစာဟန်က တဲအတွင်းသို့ ပြန်ဝင်ရန် ဟန်ပြင်သည်။ အမေဂျုတ်၏ တင်းမာသော မျက်လုံးများနှင့် မျက်နှာချင်း မဆိုင်မိစေရန် အားထုတ်သည်။ သို့သော်လည်း မရ။ သူသည် မီးဖိုဆီသို့ လျှောက်လာသည်။ "သူ အခုလို လျှောက်သွားမနေသင့်ဘူး အမေ" ဟု ပါးစပ်က ပြောလိုက်သော်လည်း မျက်ရည်ကတော့ မကျ။

"နင့်အနေနဲ့ အလုပ်တစ်ခုခုတော့ လုပ်နေမှပေါ့ဟဲ့" ဟု အမေဂျုတ်က ပြောသည်။ "အချိန်ရှိသမျှ တဲထဲမှာချည်း တငုတ်ငုတ်တုတ် ထိုင်နေပြီး ကိုယ့်အကြောင်း ကိုယ်တွေးလိုက် ဝမ်းနည်းလိုက် လုပ်နေလို့ ဘယ်ဖြစ်ပါ့မလဲ၊ ငါ နင့်ကို မျက်ခြည်မပြတ် စောင့်ကြည့်နေဖို့ အချိန် လုံးဝ မရှိခဲ့ဘူး၊ ခုတော့ အချိန်ရှိလာပြီ၊ ကဲ လာ၊ ဟောဒီ ဓားကိုယူ၊ အာလူးတွေကို အခွံနွှာ"

မိန်းကလေးက သူ့အမေဘေးတွင် ထိုင်ပြီး သူ့အမေ ခိုင်းသည့်အတိုင်း လုပ်သည်။ ပြီးတော့ ဒေါသသံနှင့် ကြိမ်းသည်။ "လာပစေဦး၊ လာမှ အကြောင်းသိမယ် "

အမေဂျုတ်က ပြုံးလေသည်။ "နင်က သူ့ကို အကြောင်းပြရင် သူက နင့်ကို ပါးပိတ်ရိုက်မှာပေါ့၊ တကယ်လို့ သူက ရိုက်မယ်ဆိုရင်လည်း ငါကတော့ ကြိုက်တယ်၊ နင်က ရိုက်ပေးမှ အသိတရားရမယ့် မိန်းကလေးမျိုးပဲ" ရိစာဟန်၏ မျက်လုံးအစုံသည် ဒေါသငွေ့များဖြင့် တောက်ပနေသည်။ သို့သော်လည်း သူ့အမေကို နှုတ်လှန်ထိုးခြင်း မပြု။

ဦးလေးဂျွန်ကတော့ လက်ထဲမှ သံချောင်းဖြင့် မြေကြီးကို ခြစ်နေသည်။ "ငါ့မှာ ပြောစရာ ရှိနေတယ်" ဟု ရေရွတ်ပြန်သည်။

အဖေဂျုတ်က စိတ်မရှည်တော့သည့် အသံဖြင့် ပြန်ပြောသည်။ "ကဲဟာ ဒီလောက် ဖြစ်နေရင်လည်း ပြော၊ သိပ်ပြီး လျှာမရှည်နဲ့တော့၊ မင်း ဘယ်သူ့ကို သတ်ခဲ့သလဲ"

ဦးလေးဂျွန်သည် သူ၏ အပြာရောင် ဂျင်းဘောင်းဘီ အိတ်ကပ်ထဲသို့ လက်တစ်ဖက်ဖြင့် နှိုက်ကာ အထပ်ထပ် ခေါက်ထားသည် ဟောင်းနွမ်း ညစ်ပတ်နေပြီ ဖြစ်သော ငွေစက္ကူ တစ်ရွက်ကို ထုတ်ယူသည်။ ထို့နောက် ငွေစက္ကူကို ကျကျနန ဖြန့်၍ ပြသည်။ "ငါးဒေါ်လာကွ" ဟု ပြောသည်။

"ခိုးထားတာလား" ဟု အဖေဂျုတ်က မေးသည်။

"ဟုတ်ပါဘူးကွ၊ ငါ့အပိုင်ပါ၊ ဖွက်ထားတာ"

"ဒီဆိုလို ဒါဟာ မင်းအပိုင်ငွေပေါ့၊ ဟုတ်လား"

"ဟုတ်တယ်၊ ဒါပေမဲ့ ငါ ဒီငွေကို ဖွက်ထားဖို့ မသင့်ဘူးကွ"

"ကျွန်မကတော့ ဒီကိစ္စထဲမှာ အပြစ်ရယ်လို့ မတွေ့ပေါင်" ဟု အမေဂျုတ်က ဆိုသည်။ "ဒီငွေက ရှင့်ငွေပဲဟာ၊ ကိုယ့်ငွေ ကိုယ်သိမ်းတာ ဘာကြောင့် အပြစ် ဖြစ်ရမှာလဲ"

ဦးလေးဂျွန်က သူ့အပြစ်ကို ရှင်းပြသည်။ "ရိုးရိုးသားသား ဖွက်ထားတာ မဟုတ်ဘူးဟ။ အရက်သောက်ဖို့ ဖွက်ထားတာ၊ တစ်ချိန်ချိန်မှာ အကြောင်းတစ်ခုခုကြောင့် အရက်သောက်ချင်စိတ် ပေါ်လာလိမ့်မယ် ဆိုတာ ငါ သိထားတယ်၊ အထူးသဖြင့် ငါ့ရင်ထဲမှာ ထိခိုက်တဲ့အခါမျိုးပေါ့၊ အဲသလို အချိန်မျိုးဆိုရင် ငါက မူးနေမှ ဖြစ်တာ၊ ဒါပေမဲ့ အရက်သောက်ချင်စိတ်က အခုအချိန်ထိ မပေါ်လာဘူး၊ အခုတော့ တရားဟောဆရာ ကက်ဆီက တွမ် အဖမ်းမခံရအောင် သူက ဓားစာခံလုပ်ပြီး အဖမ်းခံလိုက်တယ် မဟုတ်လား၊ ဒီတော့.."

အဖေဂျုတ်က ခေါင်းကို ထောင်၍ နားစွင့်နေရာမှ ခေါင်းတညိတ်ညိတ် လုပ်သည်။ ရှုသီသည် ခွေးတစ်ကောင်သဖွယ် မြေကြီးပေါ် တံတောင်နှစ်ဖက် ထောက်၍ တွားသွားကာ လူကြီးနှစ်ယောက်နားသို့ ကပ်လာသည်။ ဝင်းဖီးက သူ လုပ်သလို လုပ်၍ နောက်မှ ကပ်လိုက်သည်။ ရိုစာဟန်ကတော့ သူ့မျက်လုံးများကို သူ့လက်တွင်းရှိ အခွံသင်လက်စ အာလူးပေါ်မှ မခွာ။ နေဝင်ဆည်းဆာ အလင်းရောင်သည် တိုး၍ နက်ရှိုင်းလာသည်။ ပတ်ဝန်းကျင်တစ်ခုလုံးကို အပြာရောင် လွှမ်းခြုံစ ပြုလေပြီ။

"တရားဟောဆရာက တွမ်ကို ဝင်ကယ်တာနဲ့ ရှင်က ဘာကြောင့် အရက်မူး ရမှာလဲ၊ မဆိုင်လိုက်တာ"

အမေဂျုတ်က တိုတိုပြတ်ပြတ် လေသံဖြင့် ပြောသည်။

ဦးလေးဂျွန်က ဝမ်းနည်း စိတ်ထိခိုက်သံဖြင့် ပြန်ပြောသည်။ "ပြောတာကို နားမလည်ပါလား၊ ငါ အကြီးအကျယ် စိတ်ထိခိုက်နေတယ်၊ ကက်ဆီ လုပ်သွားတာ အေးအေးဆေးဆေးကလေးပဲ၊ သူတို့ရှေ့ လျှောက်သွားပြီး ကျုပ်လုပ်တာလို့ ပြောလိုက်တယ်၊ သူတို့က ဖမ်းသွားရော၊ ငါ အရက်သောက်မှ ဖြစ်မှာ၊ မူးနေမှ ဖြစ်မှာ"

အဖေဂျုတ်ကတော့ အခုအချိန်အထိ သူ့ခေါင်းကို တဆတ်ဆတ် ညိတ်နေဆဲ။ "မင်းက ဒီကိစ္စကို ဘာပြုလို့ မနေနိုင် မထိုင်နိုင်ဖြစ်ပြီး ဖွင့်ပြောနေရတာလဲကွာ" ဟု အပြစ်တင်သည်။ "တကယ်လို့ ငါသာ မင်းနေရာမှာဆိုရင် ဘယ်သူ့ကိုမှ ပြောမနေတော့ဘူး၊ ကိုယ် မူးချင်တာ သွားပြီး မူးလိုက်မှာပဲ"

"မင်းမှာ ပိုက်ဆံ ရှိသေးလား ဟင်" ဟု ဦးလေးဂျွန်က မေးသည်။ "ငါ့ကို နှစ်ဒေါ်လာလောက် ပေးကွာ"

အဖေဂျုတ်က သူ့အိတ်ကပ်ထဲသို့ နှိုက်ပြီး ပိုက်ဆံအိတ်ကို ထုတ်သည်။ "မူးရုံလောက်တော့ ခုနစ်ဒေါ်လာ လိုမယ် မထင်ပါဘူးကွာ၊ မင်းအနေနဲ့ ရှန်ပိန်လည်း သောက်ဖို့ လိုမယ် မထင်ပါဘူး"

ဦးလေးဂျွန်က သူ့လက်ထဲမှ ငါးဒေါ်လာတန် ငွေစက္ကူကို လှမ်းပေးသည်။ "မင်းက ဒါကိုယူ၊ ငါ့ကို နှစ်ဒေါ်လာပေး၊ နှစ်ဒေါ်လာဆိုရင် မူးအောင် သောက်လို့ရတယ်၊ ငါ့အတွက် ငွေများများ ကုန်သွားရင် ငါ့မှာ အပြစ် ဖြစ်နေဦးမယ်၊ ငါ့မှာ ရှိနေတာလောက်ပဲ သုံးမယ်"

အဖေဂျုတ်က ငွေစက္ကူကို လှမ်းယူလိုက်ပြီး ဒေါ်လာ နှစ်ပြားကို ဦးလေးဂျွန်အား ပေးသည်။ "ကဲ ရော့ နှစ်ဒေါ်လာ" ဟု ပြောသည်။ "လူတစ်ယောက်အနေနဲ့ မလုပ်မဖြစ်တဲ့ အလုပ်တစ်ခုကို လုပ်ရမှာပဲ၊ ဘယ်သူကမှ နားဝင်အောင် ပြောလို့လည်း ရမှာ မဟုတ်ဘူး"

ဦးလေးဂျွန်က ဒေါ်လာနှစ်ပြားကို လှမ်းယူသည်။ "မင်း စိတ်မဆိုးဘူး မဟုတ်လား၊ ငါ မလုပ်လို့ မဖြစ်ဘူးဆိုတာ မင်း သိတယ် မဟုတ်လား"

"အေးပါ၊ ငါ သိပါတယ်" ဟု အဖေဂျုတ်က ဖြေသည်။ "မင်း ဘာလုပ်ရမယ်ဆိုတာ မင်းဟာမင်း သိရင် ပြီးရောပေါ့ကွာ"

"ငါ့အနေနဲ့ ဒီညအတွက် ဒီတစ်နည်းပဲ ရှိတော့တယ်၊ တခြားနည်း မရှိတော့ဘူး" ဟု ပြောသည်။ သူသည် အမေဂျုတ်ဘက်သို့ လှည့်ကြည့်သည်။ "နင်ကကော ငါ့ကို မလုပ်ဖို့ တားဦးမှာလား"

အမေဂျုတ်က မော့မကြည့်။ "မတားပါဘူး" ဟု လေသံဖြင့် ပြောသည်။ "မတားပါဘူး၊ သွားပါ"

ဦးလေးဂျွန်က ထိုင်ရာမှ ထရပ်ကာ ကွန်ကရိ လမ်းမကြီးဘက်သို့ ထွက်သွားသည်။ ထို့နောက် လူသွားလမ်းမ ပလက်ဖောင်းတစ်ခုကို ဖြတ်၍ စတိုးဆိုင် တစ်ဆိုင်ဆီသို့ လျှောက်သည်။ ဆိုင်ရှေ့ ရောက်သည့်အခါ သူ့ခေါင်းမှ ဦးထုပ်ကို ချွတ်၍ သူ့ရှေ့ မြေကြီးပေါ်သို့ ပစ်ချလိုက်ကာ သူ့သိက္ခာ သူပြန်ချသည့်အနေဖြင့် ဖိနပ်ဖြင့် နင်းခြေပစ်သည်။ ပြီးတော့ ကျိုးပဲ့ပျက်စီး ညစ်ပတ်ပေရေသွားပြီ ဖြစ်သော ဦးထုပ်အနက်ကို ထိုနေရာမှာပင် ထားပစ်ခဲ့သည်။ ထို့နောက် ဆိုင်ထဲသို့ ဝင်လာခဲ့ပြီး ဝီစကီပုလင်းများ တင်ထားသည့် စင်များရှိရာသို့ လျှောက်သွားလေသည်။

အဖေဂျုတ် အမေဂျုတ်နှင့် ကလေးများသည် ဦးလေးဂျွန် ထွက်သွားသည်ကို မျက်စိတဆုံး လိုက်ကြည့်နေကြသည်။ ရိုစာဟန်ကတော့ မကြည့်။ မနစ်မြို့သည့် လက္ခဏာဖြင့် အာလူးများကိုသာ သဲသဲမဲမဲ စိုက်ကြည့်နေသည်။

"ဂျွန်ဟာ သနားစရာ ကောင်းပါတယ်" ဟု အမေဂျုတ်က ဆိုသည်။

"သူ့အတွက် ကောင်းတာလေးတစ်ခု ဖြစ်သွားအောင် လုပ်ပေးနိုင်ရင် ကောင်းမှာပဲ၊ သူ့လောက် ကံဆိုးတဲ့လူ မတွေ့ဖူးဘူး"

မြေကြီးပေါ်၌ အလျားမှောက်နေသော ရူသီက ဝင်းဖီးဘက်သို့ စောင်းလိုက်သည်။ သူ့ဦးခေါင်းကို ဝင်းဖီး၏ ခေါင်းအနားသို့ တိုးကာ ဝင်းဖီး၏ နားရွက်ကို ဆွဲ၍ သူ့ပါးစပ်နှင့် ကပ်လိုက်သည်။ ပြီးတော့မှ တိုးတိုးကလေး ပြောသည်။ "ငါလည်း သွားပြီး မူးနေအောင် သောက်မယ်" ဝင်းဖီးသည် ရယ်မိမည်စိုးသဖြင့် သူ့နှုတ်ခမ်းများကို တအား ကိုက်ထားသည်။ ကလေးနှစ်ယောက်သည် မရယ်မိအောင် ချုပ်တည်းကာ တဲကိုပတ်၍ အသာကလေး ပြန်ထွက်လာကြသည်။ လူကြီးများ မမြင်နိုင်သည့် နေရာသို့ ရောက်သော အခါ ပြိုင်တူ ခုန်ထလိုက်ပြီး တဲနှင့် ဝေးရာသို့ ကဆုန်ပေါက်၍ ပြေးသွားကြသည်။ မိုးမခပင်များကြားသို့ ရောက်သည်နှင့် တစ်ပြိုင်နက် စောစောက ချုပ်တည်းထားသမျှကို အတိုးချ၍ အားရပါးရ ရယ်ကြလေ၏။ ရူသီက မျက်စိများကို မှေးကာ ကိုယ်ကို ယိမ်းထိုး၍ အရက်သမားဟန်မျိုးဖြင့် လျှောက်သည်။ လျှာကို အပြင်သို့ ထုတ်ကာ အာလေးလျှာလေး အသံဖြင့် "ငါ မူးတယ်ကွာ" ဟု ပြောသည်။

"ဒီမှာ ကြည့်" ဟု ဝင်းဖီးက အော်သည်။ "ငါ့ကို ကြည့်စမ်း၊ ဒီမှာ တွေ့လား၊ ငါက ဦးလေးဂျွန်က"

"နင်က ဦးလေးဂျွန်နဲ့ လုံးဝ မတူဘူး" ဟု ရူသီက ပြန်အော်သည်။ "ဒီမှာ ကြည့်စမ်း၊ မြင်လား၊ ငါ လုပ်တာမှ တူတာ၊ ငါကမှ ဦးလေးဂျွန် အစစ် သိလား၊ ငါ မူးနေပြီ၊ ငါ သိပ်မူးတယ်"

အယ်လ်နှင့် တွမ်တို့သည် မိုးမခပင်များ ကြားမှ ဖြတ်၍ ခြေသံမကြားအောင် လျှောက်လာကြသည်။ အမူးသမား လုပ်တမ်း ကစားနေကြသော ရူသီနှင့် ဝင်းဖီးတို့ မောင်နှမကို အဝေးမှပင် လှမ်းမြင်ရသည်။ တွမ်က ခဏမျှ ရပ်၍ မျှော်ကြည့်သည်။ "ဟော့

အယ်လ်၊ ဟိုဟာ ရှုသီနဲ့ ဝင်းဖီးတို့ မဟုတ်လားကွ၊ ဒီနှစ်ကောင် ဘာဖြစ်နေတာလဲ ” သူတို့သည် ကလေးနှစ်ယောက် အနီးသို့ ရောက်လာကြသည်။ “နင်တို့ ရှုးနေသလား ” ဟု တွမ်က မေးသည်။

ကလေးနှစ်ယောက် တွန့်ခနဲ ဖြစ်သွားကြသည်။ နှစ်ဦးစလုံး ရက်ကိုးရက်ကန်း ဖြစ်လျက် ရှိကြ၏။ “ကျွန်မတို့ ကစားနေကြတာ ” ဟု ရှုသီက ပြောသည်။

“နင်တို့ ကစားနည်းက သောက်ရှုး ကစားနည်းပဲ” ဟု အယ်လ်က ဟောက်သည်။

ရှုသီက စွာကျယ်ကျယ်အသံဖြင့် ပြန်ပြောသည်။ “ဒီထက် ပိုပြီး ရှုးတဲ့ ကစားနည်းတွေ အများကြီး ရှိသေးတယ် ”

အယ်လ်က ဘာမှ ပြန်မပြောဘဲ ဆက်လျှောက်သွား သည်။ “ရှုသီ တစ်ယောက်လည်း မငယ်တော့ဘူး၊ ဖင်တွေ တင်တွေ ထွက်လာပြီ၊ အပျို ဖြစ်တော့မယ် ” ဟု တွမ်အား လှမ်းပြောသည်။

ရှုသီက နောက်မှနေ၍ မျက်နှာကို ရှုံ့မဲ့လိုက်ပြီး လျှာထုတ်ပြသည်။ အယ်လ်က နောက်လှည့် မကြည့်သဖြင့် ရှုသီ ပြောင်ပြလိုက်သည်ကို မမြင်။ ရှုသီက ဝင်းဖီးဘက် လှည့်ကြည့်ကာ ဆက်၍ ကစားရန် အချက်ပြသည်။ သို့သော်လည်း သူတို့ကစားပွဲမှာ ပျက်သွားပြီ ဖြစ်၏။

“ငါတို့ ရေသွားငုပ်ကြရအောင် ” ဟု ဝင်းဖီးက အကြံပြုသည်။ သူတို့သည် မိုးမခပင်များကို ဖြတ်၍ မြစ်ဆိပ်သို့ ဆင်းသည်။ နှစ်ယောက်စလုံး အယ်လ်ကို ဒေါပွလျက် ရှိကြ၏။

အယ်လ်နှင့် တွမ်တို့သည် အမှောင်အောက်တွင် ငြိမ်ငြိမ်ဆိတ်ဆိတ် လျှောက်လာကြသည်။ “ကက်ဆီအနေနဲ့ အခုလို မလုပ်သင့်ဘူး” ဟု တွမ်က ပြောသည်။ “ဘာပဲဖြစ်ဖြစ်ပေါ့လေ၊ သူ ဒီလို လုပ်လိမ့်မယ်ဆိုတာ ငါက ကြိုပြီး သိသင့်တယ်၊ သူ့အနေနဲ့ ငါတို့ မိသားစုအတွက် ဘာတစ်ခုမှ အကျိုးဖြစ်အောင် မလုပ်ပေးရသေးဘူးဆိုတဲ့ စကားတော့ မကြာသေးခင်က ငါ့ကို ပြောဖူးတယ်၊ ဒီလူက လူတစ်မျိုးကွ၊ ရယ်စရာတော့ ကောင်းတယ်၊ အချိန်ရှိသမျှ အမြဲတမ်း တွေးနေတာပဲ ”

"တရားဟောဆရာ လုပ်ခဲ့ဖူးလို့ အကျင့်ပါနေတာဗျ" ဟု အယ်လ်က ထင်မြင်ချက်ပေးသည်။ "သူတို့လူစုက ဒီလိုပဲ၊ မဟုတ်က ဟုတ်ကတွေ လျှောက်တွေးနေတတ်တယ်"

"ကွန်နီတစ်ယောက် ပျောက်နေတယ်၊ ဘယ်သွားတယ် ထင်လဲ"

"လျှောက်လည်နေတယ် ထင်တာပဲ"

"ဒီအကောင်က ဘယ်လောက် ဝေးဝေးထိအောင်များ သွားနေပါလိမ့်ကွာ"

နှစ်ယောက်သား တဲနံရံများဘက်သို့ ကပ်နိုင်သမျှကပ်၍ လျှောက်ကြသည်။ ဖလွိုက်၏ တဲအနီးသို့ ရောက်သောအခါ ခပ်တိုးတိုး ခေါ်သံ ကြားရသဖြင့် ရပ်လိုက်ကြသည်။ သူတို့သည် တဲ၏ ဝင်ပေါက်အနီးတွင် အသာ ဝင်ထိုင်ကြသည်။ ဖလွိုက်က တဲအတွင်းမှ နေ၍ ရွက်ထည်စကို လှန်ပြီး ခေါင်းပြူကြည့်သည်။ "ခင်ဗျားတို့ လစ်ကြတော့မလို့လား"

"မသိသေးဘူး၊ အားလုံး လစ်ရင်ကောင်းမယ် ထင်သလား" ဟု တွမ်က ပြန်မေးသည်။ ဖလွိုက်က မခံချိမခံသာ ဖြစ်လွန်းသော အသံဖြင့် ရယ်သည်။ "ကျုပ်တို့ မိတ်ဆွေ ကြောင်ပေါက်ကြီးက ဘာပြောတယ် ထင်သလဲ၊ မင်းတို့ လစ်ကြတော့တဲ့၊ မလစ်ရင် ဟိုကောင်တွေက မီးရှို့သတ်လိမ့်မယ်တဲ့၊ အနက်ခံထားရတဲ့ သူတို့လူအတွက် လက်စားတော့ ချေမှာပဲ၊ လက်စားမချေဘူးလို့ ထင်ရင် ထင်တဲ့အကောင် အရူးပဲ၊ ဘယ်နည်းနဲ့မဆို ဒီကောင်တွေက ဒီနေ့ည ပြန်လာမယ်၊ တဲတွေကို မီးရှို့မယ်၊ ကျုပ်တို့ကို မောင်းထုတ်မယ်"

"ဒီလိုဆိုရင်တော့ ဒီနေရာက လစ်တာ အကောင်းဆုံး ဖြစ်မယ်ထင်တယ်" ဟု တွမ်က ပြောသည်။ "ခင်ဗျား ဘယ်သွားမယ် စိတ်ကူးလဲ"

"ကျုပ် ခင်ဗျားကို ပြောပြထားတဲ့ အတိုင်းပေါ့၊ မြောက်ပိုင်းကို လစ်မယ်"

"လူတစ်ယောက်က ကျုပ်ကို ပြောဖူးတယ်၊ ဒီအနီးအနားမှာ အစိုးရစခန်းတစ်ခု ရှိတယ်တဲ့၊ အဲဒီစခန်းက ဘယ်မှာလဲ"

"ဟာကွာ၊ လူပြည့်နေရောပေါ့"

"စခန်းက ဘယ်နားမှာလဲ"

"ဒီကနေပြီး ၉၉ လမ်းမကြီးအတိုင်း တောင်ဘက်တည့်တည့်ကို ဆယ့်နှစ်မိုင် ဆယ့်လေးမိုင်လောက် သွားရတယ်၊ ပြီးတော့ အရှေ့ကို ချိုး၊ ဝိဒ်မက်ချ်ထိ သွား၊ စခန်းက အဲဒီအနားမှာကွ၊ ဒါပေမဲ့ကွာ ငါ့အထင် ပြောရရင်တော့ နေစရာ မရလောက်အောင်ကို လူပြည့်နေမှာပေါ့"

"ဟိုလူ ပြောတာကတော့ စခန်းက သိပ်နေလို့ ကောင်းသတဲ့" ဟု အယ်လ်က ပြောသည်။

"ဟုတ်တယ်၊ သိပ်ကောင်းတယ်၊ မင်းကို ခွေးတစ်ကောင်လို မဆက်ဆံဘူး၊ လူတစ်ယောက်လို ဆက်ဆံတယ်၊ ပြီးတော့ ပုလိပ်လည်း မရှိဘူး၊ ဒါပေမဲ့ လူက အပြည့်ပဲ"

"ကျုပ် နားမလည်နိုင်တာ တစ်ခု ရှိတယ်ဗျာ" ဟု တွမ်က ပြောသည်။ "ဒီပုလိပ်က ဘာကြောင့် ဒီလောက် ရိုင်းစိုင်းရတာလဲ၊ သူ လုပ်ပုံက ပြဿနာ မဖြစ်ဖြစ်အောင် လုပ်နေသလိုပဲ၊ တစ်ဖက်လူက ပြဿနာ မလုပ် လုပ်အောင် တမင်သက်သက် ရန်စသလိုပဲ"

"ဒီက အခြေအနေကိုတော့ ကျုပ် မသိဘူး၊ မြောက်ပိုင်းက အခြေအနေကိုတော့ ကျုပ် မိတ်ဆွေ ပုလိပ်တစ်ယောက် ပြောပြလို့ သိထားတယ်၊ အဲဒီ ပုလိပ်ကတော့ အတော်ကလေး သဘောကောင်းပါတယ်၊ သူ ပြောပြတာက ဟိုအရပ်မှာတော့ဖြင့် လက်ထောက် ပုလိပ်အရာရှိတွေဟာ လူတွေကို လိုက်မဖမ်းလို့ မဖြစ်ဘူးတဲ့၊ ပုလိပ်အရာရှိချုပ်အနေနဲ့ အချုပ်သား တစ်ယောက်အတွက် တစ်ရက်ကို ခုနှစ်ဆယ့်ငါးဆင့်နှုန်း ရတယ်၊ အချုပ်သားကို သူက ပြန်ကျွေးတော့ ဆယ်ဆင့်ဖိုးပဲ ကျွေးတယ်၊ အဲဒီတော့ အချုပ်သား များများ မရရင် သူ့မှာ အမြတ် မထွက်တော့ဘူး၊ ကျုပ် မိတ်ဆွေ ပုလိပ် ပြောပြတာကတော့ သူ့အနေနဲ့ လူတစ်ယောက်မှ ဖမ်းမပေးဘဲ တစ်ပတ်လောက် နေလိုက်မိတယ်တဲ့၊ အဲဒီတော့ ပုလိပ်အရာရှိချုပ်က သူ့ကို ခေါ်ပြီး မင်း လူများများ ဖမ်းပေးရင်ပေး၊ မပေးရင်တော့ တံဆိပ်ကို ပြန်အပ်ပြီး အလုပ်က ထွက်သွားတော့လို့ ပြောသတဲ့၊ အခုဆိုရင် ကျုပ်မိတ်ဆွေ ပုလိပ်လည်း တစ်နည်းမဟုတ် တစ်နည်းနည်းနဲ့ အချုပ်သား များများရအောင် လုပ်နေရောပေါ့"

"ကျုပ်တို့ သွားကြမှပဲ" ဟု တွမ်က ပြောသည်။ "ကဲ သွားမယ် ဖလွိုက်"

"အေးဗျာ၊ သွားကြတာပေါ့၊ ပြန်တော့ ဆုံမိကြ ကောင်းပါရဲ့၊ ပြန်ဆုံမိကြလိမ့်မယ်လို့လည်း ကျုပ် မျှော်လင့်ပါတယ်ဗျာ"

"သွားမယ်ဗျာ" ဟု အယ်လ်က နှုတ်ဆက်သည်။ သူတို့သည် အမှောင်ရိပ်ကို ခို၍ ဂျုတ် မိသားစုတဲဆီသို့ လျှောက်ခဲ့ကြလေ၏။

မီးဖိုပေါ်မှ အာလူး ဟင်းအိုးသည် ပွက်ပွက်ဆူလျက် ရှိသည်။ အမေသည် ဟင်းအိုးအပေါ်သို့ တက်လာနေသော အာလူးခွံများကို ဇွန်းတစ်ချောင်းဖြင့် ခပ်၍ ဖယ်ထုတ်ပစ်လျက် ရှိ၏။ အဖေဂျုတ်သည် သူ့ဒူးနှစ်လုံးကို လက်ဖြင့် ပိုက်ကာ အမေ့ဘေး၌ ထိုင်နေသည်။ ရိုစာဟန်ကတော့ တာပေါ်လင် ရွက်ထည်အောက်တွင် ထိုင်လျက် ရှိလေသည်။

"တွမ် ပြန်ရောက်လာပြီ" အမေက ဝမ်းသာအားရ အော်ပြောသည်။ "တော်ပါသေးရဲ့၊ ဘုရားသခင်ရဲ့ ဂုဏ်ကျေးဇူးပဲ"

"ကျုပ်တို့ ဒီနေရာက သွားမှ ဖြစ်တော့မယ်" ဟု တွမ်က ပြောသည်။

"ဘာဖြစ်လို့လဲ"

"ဖလွိုက်က ပြောတယ်၊ ကနေ့ည ဒီစခန်းကို သူတို့လာပြီး မီးရှို့ကြလိမ့်မယ်တဲ့"

"ဘာကြောင့် မီးရှို့ရမှာလဲ" ဟု အဖေက မေးသည်။ "ငါတို့လည်း သူတို့ကို ဘာမှလုပ်တာ မဟုတ်ဘဲနဲ့"

"ဘာမှတော့ မလုပ်ဘူးလေ၊ ဒါပေမဲ့ ပုလိပ်တစ်ယောက်ကိုတော့ ဆော်လွှတ်လိုက်တယ် မဟုတ်လား" ဟု တွမ်က ပြောသည်။

"ဒါလည်း ငါတို့လုပ်တာမှ မဟုတ်တာ"

"ဘာပဲဖြစ်ဖြစ်လေ၊ ပုလိပ်ပါးစပ်က ထွက်လာတဲ့ စကားက ကျုပ်တို့ကို ဒီနေရာက ရွှေ့သွားအောင် လုပ်မှာပါပဲ"

ရှိစာဟန်က ကြားဖြတ်၍ မေးသည်။ "တွမ် ကွန်နီကို မတွေ့ဘူးလား"

"တွေ့တယ်" ဟု အယ်လ်က ဝင်ဖြေသည်။ "ငရဲပြည်ကို သွားမလို့လား မပြောတတ်ဘူး၊ မြစ်ကမ်းပါးအတိုင်း တောင်ဘက်ကို သွားတာ မြင်လိုက်တယ်"

"သူ.. သူ အပြီးအပိုင် ထွက်သွားတာလား"

"ဒါတော့ ငါ မသိဘူး"

အမေက မိန်းကလေးအား လှည့်ကြည့်သည်။ "ရှိစာဟန်ရယ် ညည်းဟာ စကားပြောတာရော လုပ်တာကိုင်တာရော ကလေးဆန်တုန်းပါကလား၊ ညည်းကို ကွန်နီက ဘာများ ထွေထွေထူးထူး ပြောသွားသလဲ၊ ပြောစမ်း"

"ကိုယ့်အရပ်မှာ အိုးမကွာ အိမ်မကွာ နေပြီး ထွန်စက်မောင်းတတ်အောင် သင်လိုက်ရင် ကောင်းမှာပဲလို့ ပြောတယ်" ရှိစာဟန်က စိတ်လက် မကြည်မလင် ပြန်ဖြေသည်။

အားလုံး ငြိမ်ဆိတ် သွားကြလေသည်။ ရှိစာဟန်သည် မီးဖိုဆီသို့ ငေးကြည့် နေသည်။ သူ့မျက်လုံးများသည် မီးရောင်ဖြင့် တလက်လက် တောက်နေကြ၏။ မီးဖိုပေါ်ရှိ ဟင်းအိုးမှ အာလူးများသည် တဖျစ်ဖျစ် မြည်လျက် ရှိကြသည်။ ရှိစာဟန်က နှပ်တစ်ချက် ရှုံ့လိုက်သည်။ ပြီးတော့ သူ့နှာခေါင်းကို လက်ခုံဖြင့် သုတ်လိုက်လေသည်။

"ကွန်နီဟာ မကောင်းဘူး၊ ဒီကောင် မကောင်းဘူးဆိုတာ ငါ အစောကြီး ကတည်းက သိတယ်၊ လုံးဝ သတ္တိမရှိဘူး၊ လူကောင်ကသာ ကြီးနေတာ၊ အချိန်စီးတဲ့ကောင် မဟုတ်ဘူး" ဟု အဖေက ပြောသည်။

ရှိစာဟန်သည် ထိုင်ရာမှ တဲအတွင်းသို့ ဝင်သွားသည်။ မွေ့ရာပေါ်၌ လှဲကာ မှောက်အိပ်လိုက်ပြီး မျက်နှာကို လက်နှစ်ဖက်ဖြင့် အုပ်ထားသည်။

"သူ့ကို လိုက်ခေါ်လို့လည်း မကောင်းဘူးထင်တာဘဲ" ဟု အယ်လ်က ဆိုသည်။

"မခေါ်နဲ့၊ မကောင်းတဲ့လူကို တို့ မလိုချင်ဘူး" ဟု အဖေက ပြန်ပြောသည်။

အမေက တဲထဲသို့ တစ်ချက် လှမ်းကြည့်သည်။ "ရှူး တိုးတိုး၊ အဲသလို မပြောပါနဲ့"

"ပြောတော့ ဘာဖြစ်သလဲ၊ သူ့မှ မကောင်းတာ" အဖေဂျုတ်က ဖွတ်တိုး ပြောသည်။ "တစ်ချိန်လုံး သူ ဘာတွေ သင်လိုက်မယ်၊ ဘာတွေ လုပ်လိုက်မယ်နဲ့ ပြောနေတာပဲ၊ လက်တွေ့ကျတော့ ဘာတစ်ခုမှ ဖြစ်အောင် မလုပ်ဘူး၊ သူ ရှိတုန်းက ငါ မပြောချင်လို့ ကြည့်နေတာ၊ အခုတော့ ကောင်းတယ်၊ ဒီကောင် ကြောက်လို့ ထွက်ပြေးပြီ"

"ရှူး" အမေက လှမ်းပြောသည်။

"ဘာရှူးရှူးလဲ၊ ငါ့ကိုလာပြီး ဘာကြောင့် တရှူးရှူး လုပ်နေရတာလဲ၊ သူ အခု လုပ်သွားတာဟာ သရဲဘောကြောင်ပြီး ထွက်ပြေးတာပဲ၊ ငါပြောတာ မဟုတ်ဘူးလား"

အမေက လက်ထဲမှ ဖွန်းဖြင့် အာလူးများကို လှန်ပေးသည်။ မီးဖိုထဲသို့ ထင်းထပ်ထိုးသည်။ မီးတောက်များသည် ဟုန်းခနဲ တက်လာပြီး တဲ တစ်တဲလုံးကို လင်းထိန် သွားစေသည်။ "ရှိစာဟန်မှာ မကြာခင် ကလေးတစ်ယောက် ရတော့မယ်၊ အဲဒီကလေးမှာ ကွန်နီရဲ့သွေး ပါလာမှာ၊ နင့်အဖေဟာ ကောင်းတဲ့အကောင် မဟုတ်ဘူးလို့ ပြောပြီး ဒီကလေးကို ကျွေးမွေး စောင့်ရှောက်လာမယ်ဆိုရင် တော်ပါ့မလား"

"လိမ်ပြောတာနဲ့စာရင် အများကြီး ကောင်းတာပေါ့" ဟု အဖေက ပြောသည်။

"ဒီလိုလည်း မဟုတ်သေးဘူးလေ" ဟု အမေက ဟန့်သည်။ "သူ့အဖေ သေပြီလို့ မှတ်ထားလိုက်ပေါ့၊ ကွန်နီကို သေပြီလို့ သတ်မှတ်ထားလိုက်ရင် သူ့အကြောင်း မကောင်းပြောစရာ အကြောင်း ရှိပါတော့မလား"

အဖေနှင့် အမေ အငြင်းအခုံ ဖြစ်နေကြသည်ကို တွမ်က ကြားဝင်၍ ဖျန်သည်။ "ဟာ၊ ဘာတွေ လျှောက်ပြောနေကြတာလဲ၊ ကွန်နီသွားတာ အကောင်းလား အဆိုးလား ဆိုတာ သေချာပေါက် မသိသေးဘဲနဲ့ အလကား ငြင်းနေကြတယ်၊ ကျုပ်တို့ စကားပြောနေဖို့ အချိန်မရှိဘူး၊ စားစရာရှိတာ မြန်မြန်စားပြီး ဒီက ထွက်ကြမှ ဖြစ်မှာ"

"ဘယ်ကို ထွက်ရဦးမှာလဲကွယ်၊ ဒီရောက်လာတာမှ မကြာသေးဘူး" အမေက မီးဖိုမှ မီးရောင်ဖြင့် တွမ်၏ မျက်နှာကို လှမ်းကြည့်သည်။

တွမ်က အမေ နားလည်သွားအောင် ရှင်းပြသည်။ "ဒီလို အမေ၊ သူတို့ ဒီညစခန်းကို မီးရှို့လိမ့်မယ်၊ ကျုပ်တို့ တဲနဲ့ ကျုပ်တို့ ပစ္စည်းတွေကို မီးလာရှို့ရင် ကျုပ်လည်း ခံနိုင်မှာ မဟုတ်ဘူး၊ အဖေနဲ့ ဦးလေးဂျွန်တို့ကလည်း ဒီအတိုင်း လက်ပိုက်ကြည့်နေနိုင်မှာ မဟုတ်ဘူး၊ ကျုပ်တို့ ပြန်ပြီး ချမိကြမှာ သေချာတယ်၊ တစ်ဖက်က လုပ်သမျှကို ဒီအတိုင်း ခေါင်းငုံ့ခံနေရမယ် ဆိုတာကတော့ အမေ သိတဲ့အတိုင်းပဲ၊ လုံးဝ မဖြစ်နိုင်ဘူး၊ ကနေ့ ဖြစ်သွားတာကိုပဲ ကြည့်၊ တရားဟောဆရာကသာ ဝင်ပြီး မလုပ်ရင် ကျုပ် လုပ်မိမှာ"

အမေသည် အာလူးဖတ်များကို ဆီထဲတွင် အထက်အောက် လှန်ပေးလျက် ရှိရာမှ ဆုံးဖြတ်ချက်ကို ချက်ချင်းချသည်။ "ကဲ အားလုံးလာကြ" ဟု အော်ခေါ်သည်။ "စားစရာရှိတာကို မြန်မြန်လုပ်၊ မြန်မြန် စားကြမယ်၊ တို့များ ဒီက အမြန်ထွက်မှ ဖြစ်မယ်" အမေက သံပန်းကန်များကို ထုတ်၍ ချသည်။

"ဂျွန်ကို ဘယ်လို လုပ်ကြမလဲ" ဟု အမေက ပြောသည်။

"ဦးလေးဂျွန် ဘယ်သွားလဲ" ဟု တွမ်က မေးသည်။

အဖေနှင့် အမေက ချက်ချင်း အဖြေမပေး။ တစ်ခဏမျှ ငြိမ်နေသည်။ ထို့နောက် အဖေက "အရက်သောက်ဖို့ သွားတယ်" ဟု ပြောလေသည်။

"ဘယ်အချိန်ကများ ထွက်သွားပါလိမ့်၊ သူ ဘယ်နေရာ သွားမယ်လို့ ပြောသွားသလဲ"

"ငါလည်း မသိဘူး"

"တွမ်က ထရပ်သည်။ "ဒီလို လုပ်ရအောင်" ဟု ပြောသည်။ "အဖေတို့အားလုံး စားစရာရှိတာ စားပြီး ပစ္စည်းတွေကို ကားပေါ် အသင့်တင်ထားနှင့်၊ ကျုပ် ဦးလေးဂျွန်ကို လိုက်ရှာမယ်၊ လမ်းတစ်ဖက်က စတိုးဆိုင်ကို သွားချင် သွားမှာ"

တွမ်က ခပ်သုတ်သုတ် ထွက်သွားသည်။ အစားအစာ ချက်ပြုတ်နေကြသည့် ထင်းမီးဖိုများသည် ရွက်ထည်တဲများနှင့် တဲစုတ်တဲပုတ်များ ရှေ့တွင် တညီးညီး တောက်လောင်လျက် ရှိကြသည်။ အလင်းရောင်သည် အဝတ်အစား စုတ်စုတ်ပြတ်ပြတ် ပေပေရေရေနှင့် လူရုပ်မပေါ်အောင် ဖြစ်နေသော ယောကျ်ားများနှင့် မိန်းမများ၏

မျက်နှာများပေါ်သို့ တဖျပ်ဖျပ် ဟပ်လျက် ရှိသည်။ အရေအတွက်အားဖြင့် နည်းပါးလှသော ရွက်ထည်တဲများအတွင်းမှ ရေနံဆီ မီးဖိုများ၏ အလင်းရောင်ကြောင့် ရွက်ဖျင်များပေါ်၌ ထင်ဟပ်လျက်ရှိသော လူရိပ်ကြီးများသည် တလှုပ်လှုပ် ရွေ့လျားလျက် ရှိကြလေသည်။

တွမ်သည် ဖုန်ထူထူ လမ်းမအတိုင်း လိုက်ကာ ကွန်ကရီကားလမ်းမကြီးကို ဖြတ်၍ စတိုးဆိုင်ဘက်သို့ လျှောက်လာခဲ့သည်။ သူသည် ဆိုင်ဝမှ ရပ်ကာ အတွင်းသို့ လှမ်းကြည့်သည်။ လူလုံးလူဖန် ခပ်သေးသေး၊ အသားအရေ မွဲပြာပြာ၊ မသပ်မရပ် နှုတ်ခမ်းမွေးနှင့် ဆိုင်ပိုင်ရှင်သည် ကောင်တာကို မှီ၍ သတင်းစာတစ်စောင် ဖတ်လျက် ရှိသည်။ သူ့ကိုယ်တွင် ခါးစည်း အဝတ်ဖြူတစ်ထည် ပတ်ထားသည်။ သူ့ဘေး ပတ်ပတ်လည်နှင့် သူ့နောက်ဘက်တွင် အစားအသောက် စည်သွတ်ဘူးများ တန်းစီလျက် ရှိသည်။ ဆိုင်ထဲသို့ တွမ် ဝင်လာသည့်အခါ သတင်းစာ ဖတ်နေရာမှ မော့ကြည့်သည်။ တွမ်အား လှမ်းကြည့်သည့် သူ့မျက်လုံးများမှာ မေးလွန်းလှသဖြင့် ပြောင်းတိုသေနတ် တစ်လက်ကို ချိန်နေသည်နှင့် တူနေသည်။

"မင်္ဂလာ ညခင်းပါ" ဟု ဆီး၍ နှုတ်ဆက်သည်။ "တစ်ခုခု လိုက်ရှာတာ ထင်တယ် "

"ကျုပ် ဦးလေးကို လိုက်ရှာနေတာပါ " ဟု တွမ်က ပြောသည်။

ဆိုင်ရှင်၏ အကြည့်တွင် ဝေခွဲမရခြင်းနှင့် သောက မကင်းခြင်း အရိပ်လက္ခဏာများ ထင်ဟပ်လာသည်။ သူသည် သူ့နှာခေါင်းထိပ်ကို လက်ညှိုးနှင့် ထိလိုက်ပြီး ဘေးပတ်ပတ်လည် ကို အသာအယာ ပွတ်ကာ အယားဖျောက်လျက် ရှိသည်။ "ခင်ဗျားတို့ လူစုဟာ လူ တစ်ယောက်တော့ အမြဲတမ်း ပျောက်နေတာပဲနော် " ဟု ပြောသည်။ "တစ်နေ့ တစ်နေ့ ဆယ်ကြိမ်၊ ဆယ်ကြိမ်ကျော်ကျော်လောက် လူတစ်ယောက် ရောက်လာတတ်တယ်၊ ပြီးတော့ တကယ်လို့များဗျာ၊ ခင်ဗျားအနေနဲ့ ဒီလို အသားအရေ ဒီလို ပုံပန်း ဒီနာမည်မျိုးနဲ့ လူကို တွေ့ရင် ကျုပ်တို့အားလုံး မြောက်ပိုင်းကို သွားကြပြီလို့ ပြောပေးစမ်းပါဗျာလို့ မှာတတ်တယ်၊ အချိန်ရှိသမျှ အဲသလိုပဲ လာလာ ပြောနေကြတာပဲ "

တွမ်က ရယ်သည်။ "တကယ်လို့ပေါ့ဗျာ၊ လူပုံ ခပ်ကြွားကြွား၊ ဘဝင် ခပ်မြင့်မြင့်၊ မျက်နှာက ဝံပုလွေတစ်ကောင်ရဲ့ မျက်နှာမျိုးနဲ့ တူတယ်၊ သူ့နာမည်က ကွန်နီတဲ့၊ အဲဒီကောင်နဲ့များ ခင်ဗျား တွေ့ရင် ပြောလိုက်စမ်း ပါ၊ ငရဲပြည်ကို သွားတော့လို့၊ ကျုပ်တို့တော့ တောင်ပိုင်းကို ဆက်သွားကြပြီလို့ ပြောလိုက်ပါ၊ ဒါပေမဲ့ အခု ကျုပ်

လိုက်ရှာနေတာက ဒီကောင်ကို မဟုတ်ဘူး၊ ကျုပ် ရှာနေတာက အသက်ခြောက်ဆယ် အရွယ်လောက် ရှိပြီ၊ ဘောင်းဘီအနက်နဲ့ ဆံပင်က မွဲခြောက်ခြောက်၊ အဲ သူ ဒီဆိုင်ကိုလာပြီး ဝီစကီ သောက်သွားသေးလား ”

ဆိုင်ရှင်၏ မျက်လုံးများသည် တောက်ပလာသည်။ “လာတယ် လာတယ်၊ အရက်လာသောက်တာ၊ သူ့လို လုပ်ပုံကိုင်ပုံမျိုး တစ်ခါမှ မတွေ့ဖူးဘူး၊ သူ ဆိုင်ရှေ့မှာ ရပ်တယ်၊ သူ့ဦးထုပ်ကို ချပြီး ခြေထောက်နဲ့ နင်းပစ်တယ်၊ ဟောဒီမှာ သူ့ဦးထုပ်၊ ကျွန်တော် ကောက်သိမ်းထားတာ ” ဆိုင်ရှင်က ကောင်တာအောက်တွင် ထိုးထည့်ထားသည့် ဦးထုပ်ကို ထုတ်ပေးသည်။ ဦးထုပ်မှာ ဖုန်အလူးလူး ဖြစ်ကာ ကျိုးပဲ့လျက် ရှိလေပြီ။

တွမ်က ဆိုင်ရှင်လက်ထဲမှ ဦးထုပ်ကို လှမ်းယူလိုက်ပြီး။ “ဟုတ်တယ်၊ ဒါ သူ့ဦးထုပ်ပဲ ”

“သူ ဒီထဲ ဝင်လာတယ်၊ ဝီစကီ ဝယ်တယ်၊ စကား တစ်ခွန်းမှ မပြောဘူး၊ ဝီစကီပုလင်းကို ဖွင့်ပြီး သောက်မလို့ လုပ်တယ်၊ ကျွန်တော့်ဆိုင်က အရက် ရောင်းခွင့် ရှိပေမဲ့ ဆိုင်ထဲမှာ သောက်ခွင့်ပြုနိုင်တဲ့ လိုင်စင် မရှိဘူး၊ ဒါနဲ့ပဲ ကျွန်တော်က ပြောတယ်၊ ခင်ဗျား ဆိုင်ထဲမှာ သောက်လို့ မဖြစ်ဘူး၊ အပြင်ထွက်သောက်ပါလို့၊ ဒါနဲ့ပဲ သူ အပြင်ထွက်သွားတယ်၊ အပြင်ရောက်တော့ ဝီစကီကို ပုလင်းလိုက် မော့တယ်၊ အံ့ရော၊ တကယ်ပြောတာ၊ ခင်ဗျား မယုံ မရှိနဲ့၊ ဝီစကီလည်း ကုန်ရော ပုလင်းကို လွှင့်ပစ်လိုက်ပြီး တံခါးကို မှီရပ်နေတယ်၊ မျက်လုံးတွေကလည်း ကြည်ကြည်လင်လင် ရွှင်ရွှင်ပျပျ မရှိဘူး၊ ပြီးတော့ သူက ကျွန်တော့်ကို လှမ်းပြောတယ်၊ ကျေးဇူးတင်ပါတယ်ဗျာတဲ့၊ ပြီးတော့ ထွက်သွားတာပဲ၊ ဝီစကီကို အခုလို သောက်တာမျိုး ကျွန်တော့် တစ်သက်မှာ တစ်ကြိမ်တစ်ခါ မမြင်ဖူးခဲ့ဘူး၊ တကယ်ပါ ”

“ထွက်သွားတယ်၊ ဘယ်ဘက်ကို ထွက်သွားလဲ၊ ကျုပ် သူ့ကို တွေ့အောင် ရှာရမှာ ”

“ကျွန်တော် ပြောခဲ့တဲ့အတိုင်းပဲ၊ အရက်ကို ဒီလိုသောက်တဲ့ လူစားမျိုး မမြင်ဖူးခဲ့တော့ သူ့ကို စိတ်ဝင်စားသွားတယ်၊ သူ ထွက်သွားတဲ့ဘက်ကို လိုက်ကြည့်တယ်၊ သူ မြောက်ဘက်ကို ထွက်သွားတာ မြင်လိုက်တယ်၊ ကားတစ်စီး သူ့အနားက ဖြတ်သွားလို့ မီးရောင်အောက်မှာ ကောင်းကောင်း မြင်လိုက်တယ်၊ သူ မြစ်ကမ်းပါးဘက် ဆင်းသွားတယ်၊

ခြေထောက်တွေကတော့ သိပ်မခိုင်တော့ဘူး၊ ခပ်ယိုင်ယိုင် ဖြစ်နေပြီ၊ လက်ထဲမှာ ကျန်တဲ့ ဝီစကီ ပုလင်းကိုလည်း ဖွင့်ထားတာ တွေ့လိုက်တယ်၊ ဒီလူကြီး ဝေးဝေးလံလံတော့ ရောက်ဦးမယ် မထင်ဘူး"

"ကျေးဇူးပဲဗျာ၊ ကျုပ် သူ့ကို တွေ့အောင် ရှာရမှာ"

"သူ့ဦးထုပ် ခင်ဗျား ယူသွားမလား"

"ယူသွားမယ်လေ၊ သူ ပြန်လိုချင်မှာပေါ့၊ ကဲ သွားမယ်၊ ကျေးဇူးတင်တယ်ဗျာ"

"သူ ဘာများ ဖြစ်လာတာလဲဗျာ" ဟု ဆိုင်ရှင်က စိတ်ဝင်တစား မေးသည်။ "အရက်သောက်ပုံက ပျော်ပျော်ရွှင်ရွှင်နဲ့ အရသာခံသောက်တဲ့ ပုံမျိုးလည်း မဟုတ်ဘူး"

"အို သူ ဖြစ်တာက .. ဩော် .. စိတ်ညစ်တာပေါ့ဗျာ၊ ကဲ သွားမယ်၊ မင်္ဂလာညခင်းပါ၊ ဒါနဲ့လေ.. ဟို.. အခြောက်ကောင် ကွန်နီနဲ့ ဆုံမိရင် ကျုပ်တို့ တောင်ဘက်ကို သွားကြပြီလို့ ပြောပေးပါ"

"ကျွန်တော့်ကို ခင်ဗျား မှာသလို မှာသွားတဲ့ လူတွေက အများကြီးဗျ၊ အားလုံးကို မှတ်မိဖို့ မလွယ်ဘူး"

"အင်းပေါ့ဗျာ၊ သိပ်ကြီးလည်း အလေးအနက် မထားနဲ့ပေါ့" ဟု တွမ်က ပြောသည်။ သူသည် ဦးလေးဂျွန်၏ ဦးထုပ်အစုတ်ကို ကိုင်ကာ ဆိုင်ထဲမှ ထွက်လာသည်။ ထို့နောက် ကွန်ကရီလမ်းမကြီးကို ပြန်၍ ဖြတ်ကာ လမ်းဘေးအတိုင်း လျှောက်လာသည်။ အောက်ဘက် အနိမ့်ပိုင်းထဲမှ လယ်ကွက်ပေါ်တွင် ဟူးဗားဗီးလ်စခန်း။ စခန်းအတွင်းရှိ ထင်းမီးဖိုများဆီမှ တောက်လောင်နေကြသည့် မီးရောင်များနှင့် ရွက်ထည်တဲများ အတွင်းမှ ဖယောင်းတိုင်မီးရောင်များသည် တလှုပ်လှုပ် ယိမ်းကလျက် ရှိကြလေသည်။ စခန်းအတွင်း တစ်နေရာမှ ပေါ်ထွက်လာနေသည့် ဂီတာသံ။ အသံက ဖြည်းဖြည်းနှင့် မှန်မှန်။ စည်းချက်ကျကျတော့ မဟုတ်။ အလေ့အကျင့် လုပ်နေသည့် မတီးတတ် တီးတတ် အသံမျိုး။ တွမ်က ခဏမျှ ရပ်၍ နားထောင်သည်။ ထို့နောက် လမ်းဘေး လူသွားလမ်းမပေါ်အတိုင်း ဆက်လျှောက်သည်။ ခြေနှစ်လမ်း သုံးလမ်းမျှ လျှောက်မိတိုင်း ရပ်၍ ရပ်၍ နားစွင့်သည်။ နှစ်ဖာလုံကျော်ကျော်ခန့် လျှောက်မိသောအခါ သူ

ကြားလိုသောအသံကို ကြားလာရ၏။ တာတမံ၏ အောက်ဘက်ဆီမှ လာနေသော အသံ ဖြစ်သည်။ အသံက စည်းဝါးမကျသည့် အသံ။ ကြားရသည်မှာ ငြီးငွေ့စရာ ကောင်းသည်။ တွမ်က ခေါင်းထောင်ပြီး သေသေချာချာ နားစွင့်လေသည်။

"ငါ့နလုံးသား၊ သခင်ယေရှုအား၊ ပေးထားလိုက်ပြီ၊ ယေရှုသခင်၊ အရှင်သူမြတ်သည်၊ ငါ့အား ဌာနေသို့ ပြန်၍ ပို့ပေးတော့မည်၊ ငါ့ဝိညာဉ်၊ သခင်ယေရှုအား၊ ပေးထားလိုက်ပြီ၊ ယေရှုသခင်၊ အရှင်သူမြတ်သည်ပင်လျှင်၊ ငါ၏ ဌာနေ ဖြစ်သွားချေပြီ" သံနေ သံထားနှင့် နားထောင်ချင်စဖွယ် ဖြစ်အောင် ဆိုနေသည့် အသံ မဟုတ်။ အာလေးလျှာလေးနှင့် စာတစ်ပိုဒ်ကို ပျင်းတိပျင်းတွဲ ရွတ်ဖတ်နေသည့် အသံမျိုး ဖြစ်သည်။ တွမ်က တာတမံကို ကျော်ခွဆင်းကာ အသံလာရာဆီသို့ မှန်း၍ လျှောက်သည်။ သီချင်းသံ ရပ်သွားသည်။ တွမ်ကလည်း ရပ်သွားပြီး နားစွင့်သည်။ သီချင်းသံ ပြန်ပေါ်လာသည်။ ဤတစ်ကြိမ်တွင် အသံသည် စောစောကထက် ပို၍ နီးလာသည်။ အသံကတော့ စောစောက အသံပင် ဖြစ်၏။ နားထောင်၍ မကောင်းသည့် အသံ။ "အို မဂ္ဂီသေသောည၊ ငါ့အား သူ့အနားသို့ ခေါ်၍ သူဝတ်ခဲ့သော အနီရောင် ဖလန်နယ် ခြုံစောင်ဟောင်း တစ်ထည်ကို ငါ့အား ပေး၏။ သူ့ဒူးအောက်တွင် အဝတ်ပုံ တစ်ပုံ.."

တွမ်က သတိနှင့် ရှေ့သို့ တိုးသွားသည်။ မြေကြီးပေါ်၌ပင် ဖင်ချ ထိုင်နေသော သဏ္ဌာန်တစ်ခု။ သူသည် အသံ မကြားအောင် အသာကလေး လျှောက်သွားပြီး ဘေးမှ ဝင်ထိုင်သည်။ ဦးလေးဂျွန်သည် ဝီစကီ ပုလင်းကို မော့လိုက်သည်။

တွမ်က နားနားကပ်၍ တိုးတိုး ပြောသည်။ "ကျုပ် ဘယ်ကလာသလဲ သိလား"

ဦးလေးဂျွန်၏ ဦးခေါင်းသည် တွမ်ဘက်သို့ လှည့်လာသည်။ "မင်း ဘယ်သူလဲ"

"ခင်ဗျား ကျုပ်ကို ချက်ချင်း မေ့သွားပြီလား၊ ကျုပ်ရဲ့ ဝီစကီ ပုလင်းကို လေးကျိုက်တည်းနဲ့ ကုန်အောင် မော့သွားခဲ့တယ်လေ "

"ငါ့ကို အရှုးလာမလုပ်နဲ့ တွမ်၊ ဒီနေရာမှာ ငါတစ်ယောက်တည်းရယ်၊ ဘယ်ကောင်မှ မရှိဘူး၊ မင်းလည်း မရှိဘူး"

"ဟုတ်ပါပြီ၊ ကျုပ်ကို တစ်ကျိုက်လောက်မှ ပေးမသောက်တော့ဘူးလား "

ဦးလေးဂျွန်က ပုလင်းကို မော့ပြန်သည်။ ပုလင်းထဲမှ ဝီစကီလှုပ်ရှားသံကို ကြားနေရ၏။ မော့၍ အားရတော့ သူ့ပါးစပ်၌ တပ်ထားသည့် ပုလင်းကို ပြန်ခွာလိုက်ပြီး လှုပ်ကြည့်သည်။ အထဲမှာ ဘာမှ မရှိတော့။ "ကုန်သွားပြီ" ဟု ရေရွတ်သည်။ "ငါ သိပ်ကို သေချင်တယ်ကွာ၊ နည်းနည်းလောက်ပဲ ဖြစ်ဖြစ် သေလိုက်ချင်တယ်၊ အိပ်ပျော်သွားသလို သေတာမျိုးပေါ့ကွာ၊ သိပ်မောတယ်ကွာ၊ သိပ်မောတယ်၊ သိလား၊ ငါ့ကို နိုးလို့မရအောင် အိပ်ချင်တယ်" သူ့အသံသည် ငိုညည်းသံ ပါလာသည်။ "ငါ သရဖူ ဆောင်းတော့မယ်၊ ရွှေသရဖူကွ၊ သိလား"

"ကျုပ် ပြောတာ နားထောင်ဦး ဦးလေးဂျွန်" ဟု တွမ်က ပြောသည်။ "ကျုပ်တို့ ဒီက ထွက်သွားကြတော့မလို့၊ ဦးလေး တစ်ခါတည်း လိုက်ခဲ့မှဖြစ်မယ်၊ အိပ်ချင်ရင် ကားပေါ်မှာ အိပ်လိုက်လို့ရတယ်" ဦးလေးဂျွန်က ခေါင်းယမ်းသည်။ "မဖြစ်ဘူး၊ သွားကြတော့၊ ငါ မလိုက်တော့ဘူး၊ ငါ ဒီမှာ အနားယူမလို့ကွ၊ ပြန်လိုက်ရင် မကောင်းဘူး၊ ဘယ်သူ့အတွက်မှ မကောင်းဘူး၊ လူကောင်း သူကောင်းတွေ ကြားထဲမှာ ငါ့မကောင်းမှုတွေ ဖြန့်ပေးနေသလို ဖြစ်နေမှာ၊ မလိုက်ဘူး၊ ငါ ပြန်မလိုက်တော့ဘူး"

"လာစမ်းပါ၊ ဦးလေး မပါရင် ကျုပ်တို့ သွားလို့ မဖြစ်ဘူး"

"မင်းတို့ဘာသာ မင်းတို့ပဲ သွားကြ၊ ငါဟာ ကောင်းတဲ့ကောင် မဟုတ်ဘူး၊ ငါဟာ အကုသိုလ် သိပ်များတဲ့ကောင်၊ ငါ လုပ်ထားခဲ့တဲ့ မကောင်းမှု ဒုစရိုက်တွေဟာ တခြားလူတွေကိုပါ ညစ်ပတ် ပေကျံကုန်လိမ့်မယ်"

"ဦးလေးမှာရှိတဲ့ ဒုစရိုက်မှုတွေဟာ တခြားလူတွေထက် မပိုနိုင်ပါဘူးဗျာ၊ အတူတူပါပဲ"

ဂျွန်က သူ့ခေါင်းကို တွမ်၏ အနီးသို့ ကပ်လိုက်သည်။ မှိန်ဝါးဝါး ဖြစ်နေသော ကြယ်ရောင်အောက်တွင် ဦးလေးဂျွန်၏ မျက်နှာကို သဲသဲကွဲကွဲ မမြင်ရ။ "ငါ့ အပြစ်တွေကို ဘယ်သူမှ မသိဘူး၊ သခင်ယေရှုက လွဲညပီး တခြား ဘယ်သူမှ သိတာ မဟုတ်ဘူး၊ သူတစ်ယောက်ပဲ သိတာ"

တွမ်က သူ့ဦးလေးဘေးတွင် ဒူးနှစ်ဖက် ထောက်၍ ထိုင်သည်။ ဦးလေးဂျွန်၏ နဖူးကို သူ့လက်တစ်ဖက်ဖြင့် စမ်းသည်။ နဖူးသည် ပူလျက် ရှိရုံမျှမက ခြောက်သွေ့နေသည်။ ဂျွန်က တွမ်၏လက်ကို ပုတ်ချလိုက်လေသည်။

"ထစမ်းပါဗျာ" ဟု တွမ်က ထပ်ပြောသည်။ "လာဗျာ၊ သွားကြမယ်၊ ဒီလို လုပ်နေလို့ မဖြစ်ဘူး ဦးလေးဂျွန်"

"မသွားဘူးကွာ၊ ငါ သိပ်မောနေပြီကွ၊ ငါ ဒီနေရာမှာ နားမလို့၊ နားမယ်၊ နားလိုက်ဦးမယ်"

တွမ်က လူချင်း ပူးမိစေရန် ဦးလေးဂျွန်အနီးသို့ တိုးကပ်သွားသည်။ သူ့လက်သီးဖြင့် ဦးလေးဂျွန်၏ မေးစေ့ကို ချိန်ဆ ကြည့်နေသည်။ ထို့နောက် လက်ကို အနည်းငယ်မျှ လွှဲ၍ အရှိန်ယူလိုက်ပြီး မေးစေ့ကို ခပ်ဆတ်ဆတ် ထိုးလိုက်သည်။ ဦးလေးဂျွန် မေးစေ့သည် အပေါ်သို့ လန်သွားပြီး တစ်ကိုယ်လုံး နောက်သို့ ပစ်လဲသွားလေသည်။ သူသည် ပြန်ထပြီး ထိုင်ရန် အားထုတ်လျက် ရှိ၏။ တွမ်က ဦးလေးဂျွန်၏ ကိုယ်ပေါ်မှ ခွထိုင်လိုက်သည်။ ဦးလေးဂျွန်၏ တံတောင်တစ်ဖက် မြေပေါ်ထောက်မိ၍ ခေါင်းထောင်မိလာသည်နှင့် တစ်ပြိုင်နက် တွမ်၏ ဒုတိယ လက်သီး တစ်ချက်သည် ဦးလေးဂျွန်၏ မေးရိုးပေါ်သို့ ကျသွားပြန်သည်။ ဦးလေးဂျွန်သည် ခြေပစ်လက်ပစ် ပြန်၍ လဲကျကာ သတိမေ့သွားလေ၏။

တွမ်သည် မတ်တတ်ရပ်လိုက်ပြီး ကိုယ်ကို ရှေ့သို့ ကိုင်းကာ ခြေပစ်လက်ပစ် လဲကျနေသော ဦးလေးဂျွန်အား ပွေ့၍ သူ့ပခုံးပေါ်သို့ ထမ်းလိုက်သည်။ တွဲလောင်း ကျနေသော ဦးလေးဂျွန်၏ လက်နှစ်ဖက်သည် ယိုင်တီးယိုင်ထိုး လျှောက်နေရသည့် တွမ်၏ နောက်ကျောကို တဖျပ်ဖျပ် ရိုက်လျက် ပါလာလေသည်။ တစ်နေရာ အရောက်တွင် အဝေးမှ လာနေသည့် ကားမီးရောင်သည် လူတစ်ယောက် ထမ်းလာလျက်ရှိသော သူ့ကိုယ်ပေါ်သို့ ထိုးကျလာသည်။ ကားအရှိန်သည် တစ်ခဏမျှ နှေးသွားသည်။ ထို့နောက် ကားစက်ကို အရှိန်ပြန်မြှင့်ကာ တစ်ဟုန်ထိုး မောင်းထွက်သွားလေသည်။

မော်တော်ကားလမ်းမကြီးပေါ်မှ ဆင်းပြီး ဟူးဗားဗီးလ် စခန်းအတွင်းသို့ ပြန်ရောက်လာချိန်တွင် တွမ်မှာ မောဟိုက်လျက် ရှိလေပြီ။ သူသည် ခြေထောက်နှစ်ဖက်ကို ကြိုးစား အားထုတ်၍ ရန်းကန်ကာ မိမိတို့ မိသားစု၏ ထရပ်ကား အနီးသို့ ရောက်အောင်

ဒယီးဒယိုင်နှင့် လျှောက်လာသည်။ သူ့ပခုံးထက်မှ ဦးလေးဂျွန်ကို လက်ဖြင့် ထိန်းကာ မြေကြီးပေါ်သို့ ချလိုက်သည်။

သူ သွားနေခိုက် အတွင်းတွင် စခန်းတစ်ခုလုံး သိမ်းဆည်းပြီး နေကြလေပြီ။ အယ်လ်သည် ပစ္စည်းထုပ်များကို ကားပေါ်သို့ တင်လျက် ရှိ၏။ ကားပေါ်မှ ပစ္စည်းများကို အုပ်မိုးရမည့် တာပေါ်လင် ရွက်ထည်မှာလည်း ဖြုတ်ပြီးနေလေပြီ။

"သူ ချက်ချင်းမှ အမူးပြေပ့ါမလားဗျာ" ဟု အယ်လ်က မေးသည်။

"မလိုကဘူး လုပ်နေလို့ လက်သီးနဲ့ ထိုးခဲ့ရတယ်၊ သနားတော့ သနားပါတယ်၊ ဒါပေမဲ့ မတတ်နိုင်ဘူး" ဟု တွမ်က ပြန်ဖြေသည်။

"သိပ်များ နာသွားမလား" အမေက မေးသည်။

"ကိစ္စ မရှိပါဘူး အမေ၊ ဒီလောက် မတွေးပါနဲ့၊ သူ သတိရလာမှာပါ"

ဦးလေးဂျွန်သည် မြေကြီးပေါ်တွင် ပက်လက်။ တစ်ချက် တစ်ချက်တွင် အန်ချလိုက်တော့မည့်နှယ် ပျို့လျက် ရှိ၏။

အမေက လှမ်းပြောသည်။ "မင့်အတွက် အာလူးပြုတ် တစ်ပန်းကန် ချန်ထားတယ် တွမ်"

"အခုလောလောဆယ်တော့ဖြင့် ကျုပ် ဘာမှ စားချင်စိတ် မရှိဘူး အမေ"

ပစ္စည်းအားလုံး တင်ထားပြီး ဖြစ်၍ ထရပ်ကားသည် အဆင်သင့် ဖြစ်လျက် ရှိလေပြီ။ ဦးလေးဂျွန်သည် အိပ်မောကျလျက် ရှိပြီ ဖြစ်၏။ တွမ်နှင့် အယ်လ်တို့သည် ဦးလေးဂျွန်ကို မ၍ ကားပေါ်သို့ တင်ကြသည်။ ထရပ်ကား၏ နောက်တွင် ရပ်နေသော ဝင်းဖီးက အရက်မူးသမား အော့သံ အန်သံမျိုး လုပ်လျက် ရှိသည်။ သူ့ဘေးမှ ရှသီသည် သူ့ပါးစပ်ကို လက်နှင့်ပိတ်ကာ အသံမထွက်အောင် ကျိတ်၍ ရယ်လျက် ရှိလေသည်။

"အားလုံး ပြီးသွားပြီ" ဟု အဖေက ပြောသည်။

"ရှိစာဟန်တစ်ယောက်ကော ဘယ်မှာလဲ" ဟု တွမ်က မေးသည်။

"ဟိုမှာကွယ့်" ဟု အမေက ပြောသည်။ "ကဲ လာ ရှိစာဟန် အမေတို့ သွားကြတော့မယ်"

မိန်းကလေးက ထိုင်ရာမှ မထ။ သူ့မေးစေ့ကို ရင်ဘတ်ပေါ် တင်ထားသည်။ တွမ်က သူ့အနီးသို့ ရောက်လာသည်။ "ကဲ ထ သွားမယ်" ဟု ဆိုသည်။

ရှိစာဟန်က သူ့ခေါင်းကို မမော့ "ကျွန်မ မလိုက်တော့ဘူး"

"နင် မလိုက်လို့ မဖြစ်ဘူး"

"ကျွန်မ ကွန်နီနဲ့ တွေ့ချင်တယ်၊ သူ ပြန်မလာမချင်း ဘယ်ကိုမှ မလိုက်ဘူး"

ကားသုံးစီးသည် စခန်းအတွင်းမှ ထွက်ကာ အဝေးပြေး လမ်းမကြီးပေါ်သို့ တက်သွားသည်။ ကားအို ကားဟောင်းတွေချည်း ဖြစ်သည်။ ကား သုံးစီးစလုံးပေါ်တွင် ပစ္စည်းများ အပြည့်။ ကားလမ်းမကြီးပေါ် ရောက်သွားသည်နှင့် တစ်ပြိုင်နက် ကားသုံးစီးသည် ရှေ့နောက် တန်းစီကာ ထွက်သွားကြလေသည်။

"ကွန်နီ လိုက်လာမှာပေါ့ဟ၊ လမ်းဟိုဘက် စတိုးဆိုင်ရှင်ကို ငါတို့ ဘယ်သွားတယ် ဆိုတာ ပြောပြခဲ့တယ်၊ သေသေချာချာလည်း မှာခဲ့တယ်၊ သူ တွေ့အောင် ရှာလာမှာပေါ့" ဟု တွမ်က ဆိုသည်။

အမေက တွမ် ဘေးမှ ဝင်ရပ်သည်။ "လာ သမီး၊ မလိုက်လို့ ဘယ်ဖြစ်မလဲကွယ်" ဟု အမေက ချော့မော့ ပြောသည်။

"သမီး သူ့ကို စောင့်ချင်သေးတယ်"

"အမေတို့ မစောင့်နိုင်ဘူး သမီးရဲ့" အမေက ရှိစာဟန်၏ လက်မောင်းတစ်ဖက်ကို ဆွဲ၍ ထူသည်။

"သူ တို့ကို တွေ့မှာပါ" ဟု တွမ်က နှစ်သိမ့်သည်။ "စိတ်မပူပါနဲ့၊ သူ တွေ့အောင် ရှာမှာပါ" အမေနှင့် တွမ်က ရှိစာဟန်ကို တစ်ဖက်တစ်ချက် ညှပ်၍ ခေါ်လာခဲ့ကြလေသည်။

"ကွန်နီ သွားတာဟာ သူ တက်မယ့် သင်တန်းအတွက် စာအုပ်တွေ သွားရှာတာ ဖြစ်ချင် ဖြစ်မှာပါ" ဟု `ရိုစာဟန်က ပြောသည်။ "တိတ်တိတ် ထွက်သွားပြီး တိတ်တိတ် ကလေးပဲ ပြန်ရောက်ချင် ရောက်လာမှာ၊ သမီးတို့ကို အံ့ဩသွားအောင်ပေါ့"

အမေက ခေါင်းညိတ်သည်။ "ဖြစ်ချင်လည်း ဖြစ်မှာပေါ့" သူတို့သည် ရိုစာဟန်ကို တွဲ၍ ခေါ်လာကြပြီး ထရပ်ကားပေါ်သို့ တွဲ၍ တင်ပေးကြသည်။ ရိုစာဟန်သည် သူနှင့် ကွန်နီတို့ ထိုင်နေကျဖြစ်သော ထောင့်သို့ သွား၍ ထိုင်သည်။ ရိုစာဟန်သည် တာပေါ်လင်ရွက်ထည်မိုး၏ မှောင်ရိပ်အောက်တွင် ပျောက်ကွယ်သွားလေ၏။

စခန်းသို့ ရောက်စက ဆုံမိခဲ့ကြသော တဲစုတ် တစ်ခုအတွင်းမှ မုတ်ဆိတ်မွေး ဗရပွနှင့် လူသည် သူတို့ ထရပ်ကားအနီးသို့ မဝံ့မရဲဖြင့် ကပ်လာသည်။ သူသည် လက်နှစ်ဖက်ကို နောက်တွင် ပစ်၍ ရပ်ကာ ကားပေါ်မှ လူများကို ကြည့်နေသည်။ "ကျုပ်တို့အတွက် အသုံးဝင်မယ့် ပစ္စည်း တစ်ခုတလေများ လွှင့်မပစ်ခဲ့ကြဘူးလား" နောက်ဆုံးကျတော့ သူသိချင်သော မေးခွန်းကို မေးသည်။

"စိတ်ကူးစရာ ပစ္စည်းတောင်မှ မရှိဘူး၊ လွှင့်ပစ်ခဲ့စရာဆိုလို့ ဘာတစ်ခုမှ မရှိပေါင်ဗျာ" ဟု အဖေဂျုတ်က ပြန်ဖြေသည်။

"ခင်ဗျားတို့ ဘယ်ကိုမှ မသွားကြဘူးလား" ဟု တွမ်က ပြန်မေးသည်။

မုတ်ဆိတ်နှင့် လူသည် တွမ်၏ မျက်နှာကို အတန်ကြာမျှ စိုက်ကြည့်နေသည်။ အကြာကြီးနေမှ "မသွားဘူး" ဟု ပြောသည်။

"သူတို့လာပြီး မီးရှို့လိမ့်မယ်"

မငြိမ်မသက် ဖြစ်နေသော ထိုလူ၏ မျက်လုံးများသည် မြေကြီးကို စူးစိုက် ကြည့်နေပြန်သည်။ "ကျုပ်သိတယ်၊ အရင်ကလဲ အဲသလို လုပ်နေကျပဲ"

"ဒီလိုဆို ဘာပြုလို့ မသွားတာလဲဗျ၊ ခင်ဗျားဟာကလည်း မဟုတ်သေးပါဘူး"

အလွန် စိတ်ရှုပ်ထွေး နောက်ကျိနေပုံရသော မျက်လုံး အစုံသည် အပေါ်သို့ ကြည့်နေပြန်သည်။ ထို့နောက် သူ့မျက်လွှာများသည် အောက်သို့ ပြန်ကျသွားပြန်၏။

သေလုသေခင် ဖြစ်နေသော ထင်းမီးဖိုမှ မီးရောင်သည် နီရဲလျက် ရှိသည်။ "ကျုပ် မသိဘူး၊ ပစ္စည်းတွေကို သိမ်းရင် အချိန် သိပ်ကြာမှာ

"သူတို့ လာပြီး မီးရှို့ရင် ခင်ဗျားတို့ ပစ္စည်းတွေ ဘာတစ်ခုမှ ကျန်တော့မှာ မဟုတ်ဘူး"

"သိတယ်၊ ကျုပ်အတွက် အသုံးချလို့ရမယ့် ပစ္စည်း တစ်ခုတလေများ ခင်ဗျားတို့ မထားခဲ့ဘူးလား"

"အားလုံး သိမ်းပြီးနေပြီကွ" ဟု အဖေက ပြောသည်။ မှတ်ဆိတ်နှင့် လူသည် အူကြောင်ကြောင်ဖြင့် ပြန်ထွက်သွားသည်။ "ဒီကောင် ဘာဖြစ်တာလဲကွာ" ဟု အဖေက ရေရွတ်သည်။

"ပုလိပ်ကြောင့်ပေါ့ အဖေရာ" ဟု တွမ်က ပြောသည်။ "ဟိုလူက ပြောသွားတော့ ပုလိပ်က နှိပ်စက်လွန်းလို့တဲ့၊ သူ့ခေါင်းကို ရိုက်တာက များလာတော့ ကြောင်သွားတာပေါ့"

ကားငယ်တစ်စီးသည် စခန်းအတွင်းမှ ထွက်ကာ လမ်းမကြီးပေါ်သို့ တက်သွား ပြန်လေသည်။

"ကဲ လာ၊ ကျုပ်တို့ သွားကြစို့၊ အဖေရယ် ကျုပ်ရယ် အယ်လ်ရယ်၊ ကျုပ်တို့ သုံးယောက်က ရှေ့ခန်းက စီးကြတာပေါ့၊ အမေက ပစ္စည်းတွေပေါ်က ထိုင်လိုက်ရင် ရပါတယ်၊ အင်း ဒါပေမဲ့ အဲသလိုလည်း မကောင်းဘူး၊ အမေက ကျုပ်တို့နဲ့ ရှေ့ခန်းက စီး၊ အဖေနဲ့ ကျုပ်ရဲ့ကြား အလယ်ကထိုင်၊ ဒီမှာ အယ်လ်" တွမ်က သူ၏ ဖင်ထိုင်ခုံအောက်သို့ လက်နှိုက်ကာ တူကြီးတစ်ချောင်းကို ထုတ်ယူလိုက်သည်။ "ဒီမှာ အယ်လ်၊ မင်းနောက်ကလိုက်၊ ရော့ ဒါကြီး ယူ၊ အရေးအကြောင်းဆို သူ့ကိုသုံး၊ တကယ်လို့ ကားပေါ်ကို ဖွတ်တက်ဖို့ ကြိုးစားရင် ဒါနဲ့ ဆီးဆော်ပေတော့"

အယ်လ်က တူကြီးကို လှမ်းယူပြီး ကားနောက်မှ ခို၍ တက်လိုက်သည်။ ကားပေါ်ရောက်တော့ တင်ပျဉ်ခွေ၍ ထိုင်သည်။ တူကြီးကို လက်မှ အသင့် ကိုင်ထားသည်။ တွမ်သည် သူ့ခုံအောက်မှ ဟန်ဒယ်ကြီးတစ်ချောင်းကို ထပ်၍ ထုတ်ကာ သူ့ရှေ့နားတွင် ချထားလိုက်၏။ "ကဲ ပြီးပြီ၊ အမေ တက်၊ အလယ်က ထိုင်" ဟု ပြောသည်။

"ငါ့လက်ထဲမှာ ဘာလက်နက်မှ မရှိတော့ဘူး" ဟု အဖေဂျုတ်က ရေရွတ်သည်။

"ဒီဟန်ဒယ်ကို အဖေ လက်လှမ်းမှီသားပဲ၊ အရေးအကြောင်းဆိုရင် လှမ်းယူပေါ့" ဟု တွမ်က ဆိုသည်။ "ဒါပေမဲ့ ဒီဟန်ဒယ်ကို အဖေ မသုံးဖြစ်ပါစေနဲ့လို့ ဆုတောင်းပါတယ်" တွမ်သည် စတတ်တာကို နှိုးသည်။ ကားသည် စက်နိုးလာပြီးမှ ပြန်ရပ်သွားသည်။ တွမ်က ထပ်၍ နှိုးပြန်သည်။ ထို့နောက် ရှေ့မီးများကို ဖွင့်လိုက်ပြီး စခန်းအတွင်းမှ ထွက်သည်။ မှေးမှိန်သော ကားမီးရောင်သည် လမ်းမပေါ်သို့ ထိုးထားလေသည်။ သူတို့သည် ကွန်ကရီ လမ်းမကြီးပေါ်သို့ တက်ကာ တောင်စူးစူးသို့ ဦးတည်၍ မောင်းသည်။ "လူတစ်ယောက် အနေနဲ့ သည်းမခံနိုင်တော့တဲ့ အချိန်ကို ရောက်လာတော့မယ်" ဟု တွမ်က ဒေါသဖြင့် ရေရွတ်လိုက်၏။

"တွမ် မင်း ပြောခဲ့တာ ရှိတယ်လေ" ဟု အမေက သတိပေးသည်။ "မင်း အဲသလို မလုပ်ပါဘူးလို့ အမေ့ကို ကတိပေးခဲ့တယ် မဟုတ်လား၊ မင်း ကတိပေးထားပြီးပြီလေ"

"ကျုပ် မှတ်မိပါတယ် အမေရယ်၊ ကျုပ် ကြိုးစားပြီး ထိန်းသွားပါ့မယ်၊ ဒါပေမဲ့ ဒီလက်ထောက် ပုလိပ်အရာရှိ ဆိုတဲ့ ကောင်တွေကြောင့် ခက်တယ်၊ ခါးမှာ ချိတ်ထားတဲ့ ပျောက်ကလေးကို အများမြင်သာအောင် ဖင်ကလေး ရမ်းတမ်းရမ်းတမ်း လုပ်ပြီး လျှောက်သွားနေတဲ့ လက်ထောက် ပုလိပ်အရာရှိ တစ်ယောက်တလေကို အမေ မြင်ဖူးရဲ့လား" ဟု တွမ်က ပြောသည်။ "တကယ်လို့ သူတို့အနေနဲ့ တရားဥပဒေအရ လုပ်တယ်ဆိုရင် လုပ်ပေါ့၊ ကျုပ်တို့က ဘာကြောင့် မနာခံရမှာလဲ၊ နာခံရမှာပေါ့၊ နာလည်း နာခံနိုင်ပါတယ်၊ ဒါပေမဲ့ အခု သူတို့ လုပ်ကိုင်နေတာက တရားဥပဒေနဲ့ မဟုတ်ဘူး အမေရဲ့၊ ကျုပ်တို့ကို တမင်သက်သက် စိတ်ဆင်းရဲ ကိုယ်ဆင်းရဲ ဖြစ်အောင် လုပ်နေကြတာ၊ ကျုပ်တို့ကို ခွေးလေ ခွေးလွင့်တွေလို လေးဖက်ထောက်အောင် လုပ်နေကြတာ၊ ကျုပ်တို့တစ်တွေ ရိုးတာ အတာ မသိ နားမလည် သဘောကောင်းတာတွေကို အခွင့်ကောင်းယူပြီး အနိုင်ကျင့်နေကြတာဗျ"

"မင်း ကတိပေးထားတယ် မဟုတ်လား တွမ်ရယ်၊ ဟိုတစ်ခါ အမေ မင်းကို ပြောပြခဲ့ဖူးတဲ့ ဖလွိုက် ဆိုတဲ့ ကောင်လေးဟာ အခု မင်း ခံစားရသလို ခံစားရတာပဲ၊ နောက်ဆုံး သူတို့ နှိပ်စက်တာကိုပဲ ခံသွားခဲ့ရတယ်"

"ကျုပ် အမေ့ကို ပေးထားတဲ့ ကတိအတိုင်း နေဖို့ ကြိုးစားပါ့မယ် အမေရာ၊ ဘုရားစူးရပါစေရဲ့၊ ကျုပ် ကြိုးစားပါ့မယ်၊ ဒါပေမဲ့ အမေ့ကို ကျုပ် တစ်ခု မေးမယ်၊ အမေ့ အနေနဲ့ ကျုပ်ကို အရိုက်ခံထားရတဲ့ ခွေးတစ်ကောင် ကြောက်လန့်ပြီး လေးဖက် သွားနေရသလို အဖြစ်မျိုး ရောက်စေချင်သလားဟင် "

"အမေ ဘုရားသခင်ဆီမှာ ဆုတောင်းပါတယ်ကွယ်၊ မင်းကသာ သူတို့နဲ့ ပြဿနာ မဖြစ်အောင်နေပါ၊ အမေတို့ မိသားစုဟာ ဖရိုဖရဲ ဖြစ်နေပြီကွယ့်၊ ဒီအချိန်မှာ မင်းက ပြဿနာ မဖြစ်အောင် နေဖို့လိုတယ် "

"ကျုပ် ကြိုးစားပြီး နေပါ့မယ် အမေ၊ ဒါပေမဲ့ သူတို့ထဲက တစ်ယောက်က ကျုပ်ကို မတရားသဖြင့် လာပြီးစော်ကားရင်တော့ အတော့်ကို ခက်ခက်ခဲခဲ ချုပ်တည်းရမှာ၊ တကယ်လို့ တရားဥပဒေအရ လုပ်တာ ဆိုရင်တော့ တစ်မျိုးပေါ့၊ ဒါပေမဲ့ အမေရာ စခန်းတစ်ခုလုံးကို မီးနဲ့ရှို့တာမျိုးကတော့ ဥပဒေ မဟုတ်ဘူးဗျ"

ထရပ်ကားသည် လမ်းမကြီးတစ်လျှောက် တစ်လှုပ်လှုပ် သွားလျက် ရှိသည်။ သူတို့ရှေ့တည့်တည့်တွင် တန်းစီ၍ ချထားသည့် မီးနီများ။ လမ်းမကြီးကို ကန့်လန့်ဖြတ် ချ၍ ပိတ်ထားခြင်း ဖြစ်သည်။

"လမ်းလွှဲထားတာ ထင်တယ်" ဟု တွမ်က ရေရွတ်သည်။ သူသည် ကားအရှိန်ကို လျှော့ချပြီး ရပ်လိုက်သည်။ ချက်ချင်းလိုလိုပင် လူအုပ်တစ်အုပ်သည် ထရပ်ကားကို ဝိုင်းလိုက်သည်။ သူတို့လက်ထဲတွင် တုတ်များ၊ ပြောင်းတိုသေနတ်များ ကိုင်ထားသည်။ သူတို့ထဲမှ တချို့သည် သံခမောက်များ ဆောင်းထားကြလေသည်။ တချို့ကတော့ အမေရိကန်စစ်တပ်မှ ကက်ဦးထုပ်များ ဆောင်းထားကြလေသည်။ လူတစ်ယောက်က ကားရှေ့ခန်း ပြတင်းမှ နေ၍ အတွင်းသို့ ငုံ့ကြည့်သည်။ သူ့ထံမှ ဝီစကီ အနံ့သည် တထောင်းထောင်း ထလျက် ရှိ၏။

"မင်း ဘယ်ကို သွားမယ်လို့ စိတ်ကူးပြီး လာနေတာလဲ" သူသည် သူ၏ နီရဲနေသော မျက်နှာကို တွမ်၏ မျက်နှာအနီးသို့ ကပ်၍ မေးသည်။

တွမ်၏ တစ်ကိုယ်လုံး တောင့်တင်းသွားသည်။ သူ့လက်တစ်ဖက်သည် သူ့ရှေ့၌ ချထားသည့် ဟန်ဒယ်ဆီသို့ ရောက်သွားသည်။ အမေက သူ့လက်ကို ဖမ်းဆွဲပြီး တအား

ဆုပ်ကိုင်ထားသည်။ တွမ်က ပြန်၍ အဖြေပေးသည်။ သူ့အသံသည် သံမှန် မဟုတ်။ အလွန် ချုပ်တည်းထားရသည့် အသံ။ "ကျုပ်တို့ တစ်ရပ်သားတွေပါဗျာ၊ တူလဲရားလို့ ခေါ်တဲ့ နေရာမှာ အလုပ်တွေ ပေါ်နေတယ် ကြားလို့ လာတာပါ"

"ဒါဆိုရင် မင်းတို့ကောင်တွေ လမ်းမှားနေပြီ၊ ဒီမြို့မှာ ဘယ်ခွေးမသား အုတ်ကီးကိုမှ ငါတို့ လက်မခံဘူး "

တွမ်၏ လက်များနှင့် လက်မောင်းများသည် တင်းလာသည်။ တစ်ကိုယ်လုံး အေးခနဲ ဖြစ်သွားသည်။ အမေက လှမ်း၍ သူ့လက်ကို ဆုပ်ကိုင်ထားသည်။ ထရပ်ကား ရှေ့ပိုင်းကို သေနတ်ကိုင် လူတစ်စုက ဝိုင်းထားလေသည်။ သူတို့ လူစုထဲမှ တချို့သည် စစ်တပ် တစ်တပ် အသွင်မျိုး ဖြစ်စေရန် စစ်ယူနီဖောင်းများ ဝတ်ထားကြ၏။

တွမ်က လေသံကို ပျော့နိုင်သမျှ ပျော့၍ မေးသည်။ "ဒီလိုဆိုရင် ဘယ်လမ်း လိုက်ရမှာလဲ မစ္စတာ"

"နောက်ပြန်လှည့် မြောက်ဘက်ကို မောင်း၊ ဝါကောက်ချိန် မကျမချင်း၊ မင်းတို့ကောင်တွေ ဒီဘက်ကို ပြန်မလာခဲ့ကြနဲ့၊ ကြားလား ငါပြောတာ"

ဒေါသအရှိန်ဖြင့် တွမ်၏ တစ်ကိုယ်လုံး တုန်လျက် ရှိသည်။ သူသည် ပေါက်ကွဲလုမတတ် ဖြစ်နေသော စိတ်ကို အစွမ်းကုန် ထိန်းချုပ်ကာ "ဟုတ်ကဲ့ ခင်ဗျာ" ဟု တရိုတသေ ပြန်ပြောသည်။ ပြီးတော့ ထရပ်ကားကို နောက်သို့ ပြန်လှည့်လိုက်ပြီး လာလမ်းအတိုင်း ပြန်၍ မောင်းလာခဲ့လေ၏။ အမေကမူ တွမ်၏လက်ကို ကိုင်ထားရာမှ ပြန်လွှတ်လိုက်ပြီး ပခုံးကို တစ်ချက် နှစ်ချက်မျှ အသာအယာကလေး ပုတ်လိုက်သည်။ တွမ်ကတော့ အလွန်အမင်း ထိခိုက်လျက်ရှိသော သူ့စိတ်ကို ကြိုးစား၍ ထိန်းချုပ်နေသည်။

"စိတ်ကို လျှော့ပါကွယ်၊ လျှော့ပါ" ဟု အမေက သတိပေးသည်။

တွမ်သည် သက်ပြင်းတစ်ချက် မှုတ်ထုတ်လိုက်ပြီး သူ့မျက်စိများကို အင်္ကျီလက်ဖြင့် သုတ်လိုက်သည်။ "ခွေးမသားတွေ" ဟုလည်း ရေရွတ်လိုက်၏။

"အခုဟာ မင်းက သည်းခံလိုက်တာပဲ" ဟု အမေက ပျော့ပျောင်း ချိုသာသော လေသံဖြင့် ပြောသည်။ "မင်းလုပ်လိုက်တာ ကောင်းပါတယ်ကွယ် "

တွမ်သည် ထရပ်ကားကို ကွန်ကရိ လမ်းမကြီးဘေးသို့ ချလိုက်ပြီး တစ်ဖက်သို့ ခွဲထွက်သွားရာ မြေလမ်းအတိုင်း မောင်းဝင်ခဲ့သည်။ အတွင်းဘက်သို့ ကိုက်တစ်ရာခန့် ဝင်မိလာသောအခါ ကားမီးများကို မှိတ်လိုက်ပြီး ကားစက်ကိုပါ ရပ်ထားလိုက်သည်။ သူသည် ဟန်ဒယ်ကို ဆွဲကာ ကားပေါ်မှ ဆင်းသည်။

"မင်း ဘယ်သွားမလို့လဲ တွမ်" အမေက စိုးရိမ်မကင်းသံဖြင့် မေးသည်။

"ကြည့်စရာ ရှိလို့ပါဗျာ၊ ကျုပ်တို့ မြောက်ဘက်ကိုတော့ ဘယ်နည်းနဲ့မှ မသွားဘူး အမေ" စောစောက လမ်းမကြီးပေါ်၌ ချထားသော မီးနီများသည် တလှုပ်လှုပ် တရွရွ သွားလျက် ရှိသည်။ တွမ်သည် မြေလမ်းတစ်ခုဆီသို့ ဆင်းသွားနေသော မီးနီများကို မျက်ခြည်မပြတ် စောင့်ကြည့်သည်။ မီးနီများသည် မြေလမ်းပေါ်အတိုင်း ဆက်၍ ရွေ့လျားသွားလျက် ရှိ၏။ အတန်ကြာသောအခါ အမိန့်ပေးသံများ ကြိမ်းမောင်းသံများနှင့် အတူ အလန့်တကြား အော်ဟစ်သံများကို ကြားလာရသည်။ ချက်ချင်းလိုလိုပင် ဟူးဟားဗီးလ် စခန်းဘက်မှ ကောင်းကင်သို့ ထိုးတက်လာသော မီးတောက် မီးလျှံများ။ မီးရောင်များသည် ပိုမို ကျယ်ပြန့်လာပြီး ပတ်ဝန်းကျင်ကို ပြန့်နှံ့သွားလျက် ရှိ၏။ ထို့နောက် ဖြိုးဖြိုးဖြောက်ဖြောက် မြည်သံများ။ တွမ်သည် ထရပ်ကားထဲသို့ ပြန်ဝင်ပြီး ကားကို နောက်ပြန်ကွေ့သည်။ ကားမီးများကို မဖွင့်ဘဲ မြေလမ်းမပေါ်အတိုင်း နောက်ရင်းသို့ ပြန်မောင်းသည်။ ကွန်ကရိ လမ်းမကြီးပေါ် ပြန်ရောက်သည့်အခါ ကားကို တောင်ဘက်သို့ ဦးတည်လိုက်သည်။ ရှေ့မီးလုံးများကိုလည်း ဖွင့်လိုက်လေသည်။

"အမေတို့ ဘယ်သွားမှာလဲ တွမ်"

"တောင်ဘက်ကိုပဲ သွားမယ် အမေ" ဟု တွမ်က ဖြေသည်။ "ဒီခွေးမသားတွေက ကျုပ်တို့ကို တလည်လည် ဖြစ်နေအောင် လုပ်နေတာ၊ သူတို့လုပ်တိုင်း မခံနိုင်ဘူး၊ မြို့ကို ရောက်အောင် သွားမယ်၊ ရအောင် ဖြတ်မယ်"

"ဟုတ်ပါပြီလေ၊ ဒါပေမဲ့ ငါတို့ ဘယ်နေရာကို သွားမှာလဲ" ဟု အဖေက ဝင်မေးသည်။ "ငါသိချင်တာက ငါတို့ သွားမယ့်နေရာကို ပါ"

"အစိုးရ ကယ်ဆယ်ရေးစခန်းကို လိုက်ရှာမလို့" ဟု တွမ်က ပြန်ပြောသည်။ "လူတစ်ယောက်က ပြောတယ်၊ အဲဒီစခန်းမှာ လက်ထောက် ပုလိပ်အရာရှိ ဆိုတဲ့

အကောင်တွေ မရှိဘူးတဲ့၊ မလာရဘူးတဲ့၊ အမေရေ ကျုပ်တော့ ဒီကောင်တွေကို ဝေးဝေးက ရှောင်မှ ဖြစ်မှာ၊ သူတို့ထဲက တစ်ယောက်ယောက်ကို သတ်မိမှာ ကျုပ် ကြောက်နေတယ်"

"သည်းခံပါ တွမ်ရယ်" ဟု အမေက ဖျောင်းဖျသည်။ "သည်းခံပါ ငါ့သားရယ်၊ အခုတစ်ကြိမ် သည်းခံနိုင်ရင် နောက်တစ်ကြိမ်ကျတော့လည်း မင်း သည်းခံနိုင်မှာပါ"

"အင်းပါ အမေရယ်၊ ဒါပေမဲ့ သည်းမခံနိုင်တဲ့ အချိန် ရောက်လာမှာ စိုးတယ်ဗျာ"

"သည်းခံပါကွယ်" ဟု အမေက ထပ်ပြောသည်။ "မင်း စိတ်မရှည်လို့ မဖြစ်ဘူးကွယ့်၊ ဘာကြောင့်လဲ သိလား၊ အမေတို့ အသက်ရှင်နေဖို့ လိုသေးတယ် မဟုတ်လား၊ အမေတို့ဟာ လူတွေပါ၊ အမေတို့ အသက်ရှင်နေကြရဦးမှာ၊ သူတို့အနေနဲ့လည်း အမေတို့ကို ရှင်းလင်း သုတ်သင်ပစ်မယ် မထင်ပါဘူး၊ ဘာကြောင့်လဲ ဆိုတော့ အမေတို့လည်း လူတွေပဲ မဟုတ်လား"

"ဒီလိုဆိုရင် အချိန်ရှိသမျှ သူတို့ရဲ့ အရိုက်အနှက် အထုအထောင်း အဖိအနှိပ်ကို ခံနေရတော့မှာ"

"ဒါကို အမေ သိပါတယ်ကွယ်၊ ဒါပေမဲ့ သူတို့ ဖိနှိပ်သမျှဟာ အမေတို့ကို ခံနိုင်ရည်ရှိအောင် လုပ်ပေးနေတာပါ၊ စိတ်မပျက်ပါနဲ့ သားရယ်၊ စိတ်ပျက်စရာ ဘာမှ မရှိပါဘူး၊ ပြောင်းလဲတဲ့ အချိန် တစ်ချိန်ဟာ ရှိလာမှာပါ"

"အမေက ဘယ်လိုနည်းနဲ့ သိတာလဲ"

"ဘယ်လိုနည်းနဲ့ သိတယ်ဆိုတာတော့ အမေလည်း မပြောတတ်ဘူး"

သူတို့ ထရပ်ကားသည် မြို့တွင်းသို့ ဝင်လာခဲ့သည်။ တွမ်က မြို့လယ်ဘက် ရောက်အောင် သတိထား၍ ရှောင်ကွင်း မောင်းသည်။ သူသည် မြို့အစွန်မှ လမ်းတစ်လမ်းကို ရွေး၍ ထိုလမ်းအတိုင်း လိုက်သည်။ လမ်းမီးတိုင်များမှ အလင်းရောင်ဖြင့် တွမ်က အမေ့မျက်နှာကို ကြည့်သည်။ အမေ့မျက်နှာသည် တည်ငြိမ် အေးဆေးလျက် ရှိ၏။ သူ့မျက်လုံးအစုံတွင် ထူးဆန်းသော အကြည့်တစ်ခု၏ အရိပ်ငွေ့များသည် ထင်ဟပ်လျက် ရှိသည်။ အမေ့ မျက်လုံးအစုံသည် ကျောက်ရုပ်တစ်ရုပ်၏ အဆုံးမရှိသော အချိန်ကာလ သတ်မှတ်၍ မရသော မျက်လုံးများနှင့် တူနေ၏။ တွမ်က သူ့ညာလက်ကို အမေ့

ပခုံးထက်သို့ လှမ်းတင်သည်။ မတင်၍ မဖြစ်။ အမေ့ကို နှစ်သိမ့်ရမည်။ အားပေးရမည်။ ထို့နောက် သူ့လက်ကို အမေ့ ပခုံးပေါ်မှ ပြန်၍ ရုပ်လိုက်သည်။ "အမေ ဒီတစ်ခါလောက် စကားများများ ပြောတာ ကျုပ်တစ်သက်မှာ တစ်ကြိမ်တစ်ခါမှ မကြားခဲ့ရဖူးသေးဘူး" ဟု ပြောသည်။

"အမေ့တစ်သက်မှာ ဘယ်တုန်းကမှလည်း ဒီတစ်ခါလောက် စကားများများ ပြောစရာ အကြောင်းတွေက မများခဲ့ဘူး မဟုတ်လားကွယ် " ဟု အမေက ပြန်ပြောသည်။

တွမ်သည် သူ့ကားကို မြို့စွန် မြို့ဖျားမှ လမ်းများပေါ်၌ ရွေး၍ မောင်းသည်။ လမ်းဆုံ တစ်ခုသို့ ရောက်သောအခါ ၉၉ ဟု ရေးထားသည့် ဆိုင်းဘုတ်တစ်ခုကို တွေ့သည်။ သူသည် ထရပ်ကား ခေါင်းကို တောင်စူးစူးသို့ ဦးတည်လိုက်လေ၏။

"ဘာပဲဖြစ်ဖြစ် သူတို့အနေနဲ့ ကျုပ်တို့ကို မြောက်ဘက်သွားအောင် မောင်းထုတ်လို့မရပါဘူး " ဟု တွမ်က ရေရွတ်သည်။ " တကယ်လို့ပေါ့လေ၊ ကျုပ်တို့အနေနဲ့ အမှန်တရားအတွက် လေးဖက်ထောက် နေရသည့်တိုင်အောင် အခု အချိန်ထိတော့ ကျုပ်တို့ သွားချင်တဲ့ နေရာကို သွားနေရတုန်းပါပဲ "

ထရပ်ကား မီးရောင် မှုန်မွှားမွှားသည် ကျယ်ဝန်း ပြန့်ပြူးပြီး မည်းနက် တောက်ပြောင်နေသော အဝေးပြေး ကားလမ်းမကြီးကို စမ်းတဝါးဝါးဖြင့် ထိတွေ့ ပွတ်သပ်သွားလျက် ရှိလေ၏။

* * *

## အခန်း (၂၁)

တစ်နေရာမှ တစ်နေရာသို့ ရွှေ့လျားနေကြသော၊ တစ်စုံတစ်ခုသော အရာကို လိုက်လံ ရှာဖွေနေကြသော လူထုကြီးသည် ယခုအခါတွင် ခြေသလုံး အိမ်တိုင်သမားများ ဘဝသို့ ရောက်ခဲ့ကြရလေပြီ။ မြေယာ အနည်းငယ်မျှအပေါ်တွင် နေထိုင်ခဲ့ကြသည့် မိသားစုများ၊ ဧက လေးဆယ်မျှရှိသော မြေယာပေါ်၌ နေခဲ့ကြ၊ သေခဲ့ကြသော မိသားစုများ၊ ထိုဧက လေးဆယ်တည်း ဟူသော မြေယာမှ ထွက်သမျှ အပေါ်တွင် အမှီသဟဲ ပြု၍ စားခဲ့ကြသော သောက်ခဲ့ကြသော၊ ဝတ်ခဲ့ကြ ပြတ်ခဲ့ကြသော မိသားစုများသည် ယခုအခါတွင် အနောက်ပိုင်း ဒေသအတွင်း၌ အခြေစိုက်စရာ နေရာ ဟူ၍ လုံးဝ မရှိတော့ဘဲ တလည်လည် ဖြစ်နေကြလေပြီး သူတို့ အားလုံးသည် အလုပ်အကိုင် ရှာဖွေရေးအတွက် နေရာအနှံ့အပြားသို့ အလုအယက် အပြေးအလွှား သွားနေကြရ၏။

ဤသို့ဖြင့် အဝေးပြေး ကားလမ်းမကြီးပေါ်တွင် လူထု ရေစီးကြောင်းကြီးများသည် အဆက်မပြတ် စီးဆင်းလျက် ရှိသည်။ ထိုအဝေးပြေး ကားလမ်းမကြီးများ၏ ဘေးတစ်ဖက် တစ်ချက်ရှိ မြောင်းပေါင်များအပေါ်တွင်လည်း လူတန်းကြီးများသည် တရွေ့ရွေ့ သွားလျက် ရှိသည်။ သူတို့နောက်မှ မရေမတွက်နိုင်လောက်အောင် များပြားလှသော လူထုကြီးသည် လိုက်လာနေဆဲ။ အဝေးပြေး ကားလမ်းမကြီးပေါ်ဝယ် အဆက်မပြတ် ရွေ့လျားနေသော လူထုကြီးနှင့် ပြည့်လျက် ရှိ၏။ ထိုဒေသ၏ အလယ်ပိုင်းနှင့် အနောက်တောင်ပိုင်းတွင် စက်မှု လုပ်ငန်းများကြောင့် ဘဝပြောင်းသွားသော၊ စိုက်ပျိုးရာ၌ စက်ကိရိယာ ပစ္စည်းများကို လုံးဝ အသုံးမပြုသော ပုဂ္ဂလိကပိုင် စက်ကိရိယာများ၏ စွမ်းအင်နှင့် အန္တရာယ်ကို လုံးဝ မသိနားမလည်သော အလွန် ရိုးသားသည့် လယ်သမား လူတန်းစားတစ်ရပ် နေထိုင်ခဲ့ကြသည်။ သူတို့သည် သူတို့ဘဝတစ်လျှောက်လုံး စက်မှုလုပ်ငန်း၏ အဆိုးအကောင်း သံသရာထဲ၌ ကျင်လည် ကြီးပြင်းခဲ့ရသူများ မဟုတ်။ စက်မှုဘဝ၏ နားလည်ရခက်ခဲသော လျှို့ဝှက် နက်နဲမှုများ၏ ဒဏ်ကိုလည်း အထိခံနိုင်သူများ မဟုတ်။

ထို့နောက် ရုတ်တရက် ချက်ချင်း စက်ပစ္စည်းများက သူတို့အား တွန်းထုတ်လိုက်သဖြင့် ကစဉ့်ကလျား ဖြစ်ကာ အဝေးပြေး ကားလမ်းမကြီးပေါ်သို့ ရောက်သွားသည်။ ဤလှုပ်ရှားမှုသည် သူတို့ဘဝကို ပြောင်းလဲပစ်လိုက်သည်။ ပြီးတော့ အဝေးပြေး ကားလမ်းမကြီးများ၊ လမ်းမကြီး တစ်လျှောက်ရှိ ဒုက္ခသည်စခန်းများ၊ ငတ်မည်ကို စိုးရိမ်ကြောက်လန့်ခြင်းနှင့် တကယ် ငတ်ပြတ်ခြင်းများက သူတို့ဘဝကို

ပြောင်းလဲစေခဲ့သည်။ ညစာ မစားရသော ကလေးသူငယ်များက သူတို့ဘဝကို ပြောင်းလဲစေခဲ့သည်။ အဆုံးအစမရှိ ရွှေ့လျားနေရသည့် အဖြစ်က သူတို့ဘဝကို ပြောင်းလဲစေခဲ့သည်။ သူတို့သည် အခြေအနေမဲ့သူများ ဖြစ်လာကြ၏။ တစ်နေရာမှ တစ်နေရာသို့ အမြဲတစေ လှုပ်ရှားသွားလာနေကြသော ခြေသလုံး အိမ်တိုင်သမားများ ဖြစ်လာကြ၏။ သူတို့အား ဆီး၍ ရန်ပြုခြင်းသည်လည်း သူတို့ဘဝကို ပြောင်းလဲစေခဲ့သည်။ ဘဝတူ အချင်းချင်း ကိုယ်ချင်းစာနာစိတ်ဖြင့် ပေါင်းစည်းမိလာကြသည်။ ညီညွတ်လာကြသည်။

ဤရန်ပြုမှုများမှာလည်း ကိုယ်နေထိုင်ရာ ကမ္ဘာလေးတစ်ခုကို အကာအကွယ် ပြုလိုစိတ်ဖြင့် ကိုယ့်သွေးကိုယ့်သား ကိုယ့်လူမျိုးအချင်းချင်း ရန်ပြုကြခြင်း ဖြစ်၏။ မြို့သိမ် မြို့ငယ်များ၌ နေထိုင်လျက် ရှိကြသည့် မြို့ခံလူများသည် အချင်းချင်း စုစည်း၍၊ လက်နက်များ တပ်ဆင်၍ တိုင်းတစ်ပါးမှ ကျူးကျော် ဝင်ရောက်လာသူများအား တွန်းလှန် တိုက်ခိုက်နေသည့်နယ် ရန်ပြုကြခြင်း ဖြစ်၏။ မြို့တွင်းရှိ စာရေးစာချီများနှင့် စတိုးဆိုင်ရှင်များသည် တုတ်များ ပြောင်းတိုသေနတ်များ စသည့် ရရာလက်နက်များကို ကိုင်စွဲ၍ စစ်တပ်များ ဖွဲ့စည်းသည့်နှယ် ဖွဲ့စည်းကာ ရန်ပြုကြခြင်း ဖြစ်လေသည်။

ဝင်လာမစဲ တသဲသဲ ဖြစ်နေသော ခြေသလုံး အိမ်တိုင်သမားများ ဦးရေသည် လမ်းမကြီးပေါ်၌ နှစ်ဆခန့် တိုးလာပြီ ဟူသော သတင်း ကြားရသည့်အခါ အနောက်ဘက်ဒေသ တစ်ခုလုံး အလန့်တကြား ဖြစ်ကုန်ကြသည်။ ပစ္စည်းပိုင်ရှင်များသည် သူတို့ပစ္စည်းတွေအတွက် ကြောက်လန့်တကြား ဖြစ်ကြသည်။ ဘယ်တုန်းကမှ ဆာလောင် မွတ်သိပ်ခြင်း မဖြစ်ခဲ့ဖူးကြသော လူများသည် ဆာလောင်မွတ်သိပ်နေကြသူများ၏ မျက်လုံး များကို မြင်ကြရသည်။ ဘယ်အရာကိုမှ ပြင်းပြင်းထန်ထန် လိုချင်တပ်မက်စိတ် မရှိခဲ့ဖူးကြသော သူများသည် ခြေသလုံး အိမ်တိုင်သမားများ၏ မျက်လုံးများထဲတွင် တောက်လောင်နေသည့် အပြင်းအထန် လိုချင်တပ်မက်မှု မီးတောက်မီးလျှံများကို မြင်တွေ့ကြရသည်။

ထိုအခါ မြို့များပေါ်မှ လူများနှင့် မြို့ဆင်ခြေဖုံး တောပိုင်းဒေသများမှ လူများသည် သူတို့ကိုယ်သူတို့ ကာကွယ်ရန်အတွက် ပေါင်းစည်းလာကြသည်။ သူတို့သည် သူကောင်းများ ဖြစ်၍ သူတို့ဒေသအတွင်းသို့ ကျူးကျော် ဝင်ရောက်လာသူများသည် လူဆိုးများ ဖြစ်သည် ဟူသော အယူအဆကို အခိုင်အမာ ပြုလာကြသည်။ သူတို့က

ပြောလာကြသည်။ ဒီခွေးမသား အုတ်ကီးတွေဟာ အလွန် ညစ်ပတ် စုတ်ပဲ့တဲ့ ကောင်တွေ။ ဘာမှ မသိနားမလည်တဲ့ ကောင်တွေ၊ ဒီကောင်တွေဟာ မျိုးရိုးယုတ်ညံ့တဲ့ တဏှာရူးတွေ။ ဒီကောင်တွေဟာ သူခိုးတွေ။ ဘာမဆို ခိုးမှာ။ လူတစ်ဦးရဲ့ ပစ္စည်းပိုင်ဆိုင်မှု အခွင့်အရေး ဆိုတာကို လုံးဝ နားမလည်တဲ့ကောင်တွေ။

နောက်ဆုံး ပြောစကားသည် မှန်သည်။ ဘာပစ္စည်းမှ မပိုင်ဆိုင်သော လူတစ်ယောက်သည် ပစ္စည်းပိုင်ရှင်တစ်ဦး ဆုံးရှုံး၍ ခံစားရသည့် စိတ်နလုံး ထိခိုက် ကြေကွဲမှုမျိုးကို အဘယ်မှာလျှင် နားလည်သဘောပေါက်နိုင်ပါမည်နည်း။ သူတို့ကိုယ် သူတို့ ကာကွယ်နေသော လူများက ပြောကြသည်။ ဒီကောင်တွေဟာ အလွန် ညစ်ပတ်တယ်။ သူတို့ဟာ ရောဂါမျိုးစုံ ယူလာတဲ့ ကောင်တွေ။ သူတို့ ကလေးတွေကိုလည်း ငါတို့ ကျောင်းတွေမှာ လက်မခံနိုင်ဘူး။ ဒီကောင်တွေဟာ လူစိမ်းတွေ။ တစ်နယ်သားတွေ။ မင်းနှမ သူတို့အထဲက ကောင်တစ်ယောက်နဲ့ တွဲသွားရင် မင်း ဘယ်လိုနေမလဲ။

ဤသို့ဖြင့် ဒေသခံလူများသည် ကိုယ်ချင်းစာတရား ကင်းမဲ့လာကြသည်။ ရက်စက် ကြမ်းကြုတ်မှုများကို ရှေ့တန်း တင်လာကြသည်။ သူတို့ချင်း ညှိနှိုင်းပြီး အုပ်စုကလေးများ၊ အဖွဲ့ကလေးများ ဖွဲ့လာကြ၏။ ဒီပြည်နယ်ဟာ ငါတို့ပြည်နယ်ကွ။ ဒီအုတ်ကီးကောင်တွေကို ထင်ရာသွားပြီး ထင်ရာလုပ်နေနိုင်အောင် လွှတ်ပေးထားလို့ ဘယ်ဖြစ်မလဲ ဟု ဆိုလာကြသည်။

အမှန်တော့ လက်နက်ကိုင်ဆောင်ထားသူများသည် မြေယာပိုင်ဆိုင်သူများ မဟုတ်။ သို့သော်လည်း သူတို့က သူတို့နေထိုင်ရာ သူတို့ပြည်နယ်အတွင်းက မြေများကို သူတို့ပိုင်မြေများဟု တွက်ကြသည်။ ညပိုင်းတွင် စစ်ရေးလေ့ကျင့်နေကြသော စာရေးစာချီများမှာလည်း တကယ်တော့ ဘာမှ ရှိသူများ မဟုတ်။ ဘာကိုမှလည်း ပိုင်ဆိုင်သူများ မဟုတ်။ အသေးစား စတိုးဆိုင်ရှင်များမှာလည်း သူတို့ ကိုယ်ပိုင်ပစ္စည်း ဆို၍ အကြွေးများသာ အစုလိုက် အပုံလိုက် ပိုင်ဆိုင်နေသူများ ဖြစ်၏။ သို့သော်လည်း ဘာပစ္စည်းမှ ကိုယ်ပိုင် မရှိသည့်အခါတွင် အကြွေးသည်ပင်လျှင် အရေးပါ အရာရောက်သည့် ပြစရာပစ္စည်းတစ်ခု ဖြစ်လာလေသည်။ စာရေးဆိုသူက တွေးသည်။ ငါ တနင်္ဂနွေတစ်ပတ်မှာ ဆယ့်ငါးဒေါ်လာ ရတယ် ဆိုကြပါစို့ကွာ။ ခွေးမသား အုတ်ကီးတစ်ကောင်က တစ်ပတ် ဆယ့်နှစ်ဒေါ်လာနဲ့ ဝင်လုပ်ရင် ငါ ဘာဖြစ်မလဲ။

စတိုးဆိုင်ငယ်တစ်ခု ပိုင်သူကလည်း တွေးသည်။ အကြွေး လုံးဝ မရှိတဲ့ လူတစ်ယောက်က ဆိုင်ဖွင့်ပြီး ငါနဲ့အပြိုင် ရောင်းလာရင် ငါ ဘယ်လိုလုပ်ပြီး သူ့ကို ပြိုင်နိုင်ပါ့မလဲ။

ခြေသလုံး အိမ်တိုင်သမားများသည် လမ်းမကြီးများပေါ်၌ မြစ်ရေများ စီးဆင်းနေသည့်နှယ် အဆက်မပြတ် သွားလျက် ရှိကြ၏။ ဆာလောင်မွတ်သိပ်မှုသည် သူတို့၏ မျက်လုံးများအတွင်း၌ ကိန်းအောင်းနေကြသည်။ သူတို့တွင် ဆင်ခြေပေးစရာလည်း မရှိ။ စနစ်လည်း မရှိ။ သူတို့တွင် အရေအတွက်နှင့် လိုအင်ဆန္ဒမှ တစ်ပါး အခြား ဘာမှ မရှိ။ လူတစ်ယောက်တွင် အလုပ်တစ်ခု ပေါ်လာသည့်အခါ ထိုအလုပ် ရရှိရေးအတွက် လူဆယ်ဦးက ဝိုင်း၍ လုကြ ယက်ကြသည်။ အနည်းဆုံး သို့မဟုတ် အနိမ့်ဆုံးလုပ်ခကို ယူ၍ လုကြယက်ကြခြင်း ဖြစ်၏။ တကယ်လို့ ဟိုအကောင်က ဆင့်သုံးဆယ်နဲ့ လုပ်မယ်ဆိုရင် ကျုပ်က နှစ်ဆယ့်ငါးဆင့်နဲ့ လုပ်မယ်ဗျာ။

တကယ်လို့ သူက နှစ်ဆယ့်ငါးဆင့်ပဲ ယူရင် ကျုပ်က ဆင့်နှစ်ဆယ်နဲ့ လုပ်မယ်။

မဟုတ်ဘူး။ ကျုပ် ပြောမယ်။ ကျုပ်က ငတ်နေတဲ့ကောင်။ ကျုပ်က ဆယ့်ငါးဆင့်နဲ့ လုပ်မယ်။ ကျုပ်ကတော့ အစားအစာ ရရင် လုပ်မှာပဲ။ ကလေးတွေက ရှိသေးတယ်။ ခင်ဗျား ကျုပ်ကလေးတွေကို လာကြည့်စမ်းပါ။ မပြေးနိုင် မလွှားနိုင် မကစားနိုင်ကြတော့ဘူးဗျ။ လေတိုက်လို့ ကြွေကျနေတဲ့ သစ်သီးတစ်လုံးကိုသာ ပေးကြည့်လိုက်စမ်း။ သူတို့အားလုံး ခုန်ပေါက်နေကြမှာပဲ။ ကျုပ်လား၊ ကျုပ်ကတော့ အသားနည်းနည်းရရင် လုပ်မှာပဲ။

ဒီတစ်ချက်တော့ အလွန်ကောင်းသည်။ အဘယ်ကြောင့်ဆိုသော် လုပ်ခများက တစ်ရှိန်ထိုး ကျသွားသည်။ ကုန်ပစ္စည်း ဈေးနှုန်းများကတော့ မကျ။ ပေါက်ဈေးအတိုင်း တည်နေသည်။ ဤအချက်ကြောင့် မဟာပိုင်ရှင်ကြီးများသည် ဝမ်းသာအားရ ဖြစ်ကြသည်။ သူတို့နယ်ပယ်အတွင်းသို့ လူအများအပြား ရောက်လာစေရန်အတွက် လက်ကမ်း ကြော်ငြာများကို အများအပြား ရိုက်နှိပ်၍ ဖြန့်ဖြူးဝေငှကြသည်။ လုပ်ခဈေးတွေ ကျသွားပြီး ကုန်ဈေးနှုန်းကတော့ မကျ။ သူ့ပေါက်ဈေးအတိုင်း တည်နေသည်။ ဒါဆိုလျှင် မကြာခင် ငါတို့ ကျွန်များကို ပိုင်ဆိုင်ကြရပေဦးတော့မည်။

အခုဆိုလျှင် မဟာပိုင်ရှင်ကြီးများနှင့် ကုမ္ပဏီကြီးများသည် နည်းသစ်တစ်ရပ်ကို တီထွင်လာကြသည်။ မဟာပိုင်ရှင်ကြီးတစ်ဦးသည် စည်သွတ်လုပ်ငန်းတစ်ခုကို အပိုင် ဝယ်ယူလိုက်၏။ မက်မွန်သီးများနှင့် သစ်တော်သီးများ မှည့်သောအခါ သစ်သီးများ၏

ဈေးနှုန်းကို သူ့ကြိုက်ဈေး ပေး၍ ဝယ်သည်။ သူ ပေးသော ဈေးသည် စိုက်ပျိုးစရိတ် အနေဖြင့် ကုန်ကျခဲ့ရသည့် အရင်းအနှီးအောက် များစွာ လျော့နည်းနေသော ဈေး ဖြစ်လေသည်။ စည်သွတ်ဘူး စက်ရုံလုပ်ငန်း ပိုင်ရှင်တစ်ဦး အဖြစ်ဖြင့် သစ်သီးများကို အနိမ့်ဆုံး အနည်းဆုံးဈေးပေး၍ ဝယ်ခဲ့ပြီး သစ်သီးများကို သစ်သီးဘူးများအဖြစ် ထုတ်လုပ်၍ ပြန်လည် ရောင်းသည့်အခါ ဈေးအများကြီးတင်၍ ရောင်းချသည်။ ဤနည်းဖြင့် အမြတ်ငွေ အမြောက်အမြားကို ယူသည်။ ထိုအခါ စည်သွတ်ဘူး လုပ်ငန်းကို မပိုင်သော လယ်သမား၊ ယာသမား၊ ခြံသမားများသည် သူတို့၏ လယ်ယာ လုပ်ငန်းများကို လက်လွှတ် ဆုံးရှုံးကြရသည်။ သူတို့၏ လယ်ယာ ခြံလုပ်ငန်းများကို စည်သွတ်ဘူးလုပ်ငန်း ပိုင်ဆိုင်နေကြသည့် မဟာပိုင်ရှင်ကြီးများ၊ ဘဏ်ကြီးများနှင့် ကုမ္ပဏီကြီးများက သိမ်းပိုက်သွား ကြသည်။ အချိန်ကာလများ တရွေ့ရွေ့ ကုန်လွန်သောအခါ လယ်ယာခြံ လုပ်ငန်းသည် နည်း၍ နည်း၍ လာကြသည်။ လယ်သမား၊ ယာသမား၊ ခြံသမားများတို့သည် မြို့ပေါ်သို့ အခိုက်အတန့် သဘောဖြင့် ရွှေ့ပြောင်းနေထိုင်ကြသည်။ ထိုအခါ သူတို့တွင် စုဆောင်းထားသည့် ငွေများ ကုန်ခန်းလာရသည်။ မိတ်ဟောင်း ဆွေဟောင်းများနှင့်လည်း ကင်းကွာလာရသည်။ ထို့နောက် သူတို့လူစုသည်လည်း အဝေးပြေး ကားလမ်းမကြီးများ ပေါ်သို့ ရောက်လာကြ၏။ ဤသို့ဖြင့် လမ်းမကြီးများသည် အလုပ်အတွက် အငမ်းမရ ဖြစ်နေသော လူများ၊ အလုပ်အတွက် လူသတ်ရ သတ်ရ သတ်မည် ဟူသော စိတ်နေ စိတ်ဓာတ် ကိန်းအောင်းနေကြသည့် လူများဖြင့် ပြည့်လျှံလာခဲ့ရလေ၏။

ကုမ္ပဏီကြီးများနှင့် ဘဏ်ကြီးများသည် သူတို့ ပျက်စီးရာတိုင်မည့် အလုပ်ကို လုပ်ကြသည်။ တစ်နည်းအားဖြင့် သူတို့ သေတွင်းကို သူတို့ကိုယ်တိုင် တူးကြသည်။ သို့သော်လည်း သူတို့သည် ပျက်စီးရာဆိုက်မည့် အလုပ်ကို လုပ်နေမှန်း မသိ။ သူတို့သေတွင်းကို သူတို့ကိုယ်တိုင် တူးနေမှန်း မသိ။ သူတို့ပိုင် လယ်မြေများသည် သီးနှံများစွာ ထွက်လျက် ရှိ၏ ငတ်ပြတ်နေသူများကတော့ လမ်းမကြီးပေါ်သို့ ရောက်သွားကြပြီ။ သူတို့ပိုင် ဂိုဒေါင်များတွင် သီးနှံများ အပြည့်။ ဆင်းရဲမွဲတေနေသူများ၏ သားသမီးများကတော့ အာဟာရဓာတ်ချို့တဲ့သည့် ရောဂါဒဏ်မျိုးစုံကို ခံနေကြရပြီ။ မဟာကုမ္ပဏီကြီးများ အနေဖြင့် အဝတ်နှင့် ဒေါသကြား၌ ခြားထားသည့် ကြိုးကလေးသည် သေးသေးမျှင်မျှင်နှင့် တဲတဲကလေးမျှသာ ဖြစ်သည် ဟူသော အချက်ကို သတိမထားမိကြ။ သိလည်း မသိကြ။ သူတို့လက်ထဲတွင် အစုလိုက် အပုံလိုက် ရောက်ရှိနေသည့် ငွေများကို အလုပ်သမားများ အတွက် လုပ်ခ ပေးရမည့်အစား ဓာတ်ငွေ့များ၊ သေနတ်များ၊

သူလျှိုများနှင့် နာမည်ပျက် စာရင်းများ ရရှိရေးနှင့် ငတ်ပြတ်နေသူများအား မောင်းထုတ်ရေးအတွက်သာ သုံးကြတော့၏။ အဝေးပြေး ကားလမ်းမကြီးပေါ်တွင်မူ လူအများသည် ပုရွက်ဆိတ်များသဖွယ် ရှေ့နောက် တန်းစီ၍ ရွှေ့လျားလျက် ရှိကြကုန်၏။ အလုပ်အကိုင် ရှာဖွေလျက် ရှိကြကုန်၏။ အစားအစာ ရှာဖွေလျက် ရှိကြကုန်၏။ တစ်ချိန်တည်းမှာပင် အလွန်ပြင်းထန်သော ဒေါသမာန်သည် သူတို့၏ရင်ထဲတွင် လှုပ်ရှားထကြွစ ပြုလျက် ရှိလေပြီ။

* * *

## အခန်း (၂၂)

တွမ်ဂျုတ်၏ ထရပ်ကားသည် တောင်ပိုင်းဘက်ရှိ လမ်းတစ်လမ်းပေါ်၌ ပြေးလွှားသွားလျက် ရှိလေသည်။ သူသည် ဝိဒ်ပက်ချ် ဒုက္ခသည်စခန်းကို လိုက်လံရှာဖွေနေခြင်း ဖြစ်၏။ အချိန်မှာ အတော်ကြီး နောက်ကျလျက် ရှိလေပြီ။ တောပိုင်းကျတော့လည်း လျှပ်စစ်မီးက များများစားစား ရှိသည် မဟုတ်။ ဘယ်ကိုပဲ ကြည့်ကြည့် အလင်းရောင်က မှုန်ဝါးဝါး။ ထရပ်ကား နောက်ဘက်မှ လင်းလက် တောက်ပနေသော ကောင်းကင်သည် ဘေးကားစ်ဖီးလ်မြို့သို့ သွားရာလမ်းကို ညွှန်ပြလျက် ရှိသည်။ ထရပ်ကားသည် ချည့်နဲ့ လေးကန်စွာဖြင့် တလှုပ်လှုပ်သွားလျက် ရှိသည်။ သားကောင်ချောင်းနေကြသော တောကြောင်များသည် ကားသံကြောင့် လန့်ဖျပ်ကာ လမ်းမကြီးပေါ်မှ ပြေးဆင်းသွားလျက် ရှိကြ၏။ လမ်းဆုံတစ်ခုတွင် ဆေးအဖြူရောင် သုတ်ထားသည့် သစ်သားအဆောက်အအုံ တချို့။

အမေသည် သူ့ထိုင်ခုံထက်တွင် ထိုင်လျက် အိပ်ပျော်နေသည်။ အဖေကတော့ မတုန်မလှုပ် ကျောက်ရုပ်သဖွယ် ငြိမ်ဆိတ်လျက် ရှိလေသည်။

"စခန်းက ဘယ်နေရာမှာလဲ မသိပါဘူးဗျာ" ဟု တွမ်က ညည်းသည်။ "မိုးလင်းအောင် စောင့်ပြီး တစ်ယောက်ယောက်ကို မေးမှ ကောင်းမယ် ထင်တာပဲ" သူသည် လမ်းကျယ်ကြီး တစ်ခု၏ မီးပွိုင့်အရောက်တွင် ကားကို ရပ်လိုက်သည်။ တစ်ဖက်သော လမ်းပေါ်တွင် အခြား ကားတစ်စီး ရပ်လျက် ရှိလေသည်။ တွမ်က သူ့ကားပြတင်းမှ ခေါင်းထွက်ပြီး ကြည့်လိုက်သည်။ "မစ္စတာ၊ အစိုးရက ဖွင့်ထားတဲ့ စခန်းကြီးက ဘယ်မှာလဲ"

"ရှေ့တည့်တည့်မှာ"

တွမ်သည် ကားကို မျက်နှာချင်းဆိုင်လမ်းပေါ်သို့ ကူးလာခဲ့၏။ ကိုက်အနည်းငယ်မျှ ဆက်၍ မောင်းလာခဲ့ပြီးသော် ကားကို ရပ်လိုက်သည်။ သံဆူးကြိုးများ ကာထားသည့် ဝင်းကျယ်ကြီးတစ်ခုသည် လမ်းမကြီးကို မျက်နှာပြုလျက် ရှိလေသည်။ ထိုဝင်းအတွင်းသို့ ကားဝင်ရာ လမ်းသည် လမ်းမကြီးနှင့် ဆက်လျက် ရှိ၏။ အဝင်ဂိတ်အတွင်းဘက်ထောင့်တွင် အိမ်ငယ်တစ်လုံး။ ထိုအိမ်ငယ်၏ ပြတင်းပေါက်မှ မီးရောင်သည် အပြင်သို့ ထွက်လျက် ရှိ၏။ တွမ်က ကားကို လမ်းမကြီးပေါ်မှ ကွေ့ဆင်းပြီး ဝင်းအတွင်းသို့

ဝင်ရန် ခေါင်းတည့်လိုက်သည်။ ထရပ်ကားတစ်စီးလုံးသည် လေထဲသို့ မြောက်တက်သွားပြီး အခြား တစ်ဖက်သို့ ဝုန်းခနဲ ကျသွားလေ၏။

"ဘုရား.. ဘုရား" ဟု တွမ်က ရေရွတ်သည်။ "ဒီဟာကြီးကို ကျုပ် မမြင်မိဘူး"

ဂိတ်အတွင်းမှ အစောင့်သည် ကားဆီသို့ လျှောက်လာသည်။ "ကွေ့ဝင်လိုက်တဲ့ အရှိန်က ပြင်းတော့ တအား ဝင်ဆောင့်တာပေါ့" ဟု ပြောသည်။ "နောက်တစ်ခါဆိုရင် ဖြည်းဖြည်းလုပ်"

"အဲဒါ ဘာကြီးလဲဗျ"

အစောင့်က ရယ်သည်။ "ဒီအထဲမှာ ချာတိတ်တွေ ကစားလေ့ ရှိတယ်၊ ဒါကြောင့်မို့ ကားကို ဖြည်းဖြည်းမောင်းဝင်ဖို့ အမြဲ သတိပေးရတယ်၊ သိတဲ့အတိုင်းပဲ ဘယ်လောက်ပဲ သတိပေးပေး လူတွေက ကြာရင် မေ့သွားရော၊ ဒါပေမဲ့ ဒီကမှူကြီးကို တစ်ကြိမ်လောက် ဝင်ဆောင့်မိရင် တစ်သက်လုံး မမေ့တော့ဘူး"

"အိုး ဟုတ်လား၊ ကျုပ်ကား ဘာမှမဖြစ်ဘူးလို့တော့ မျှော်လင့်ရတာပဲ၊ ဒါနဲ့ဗျာ ခင်ဗျားတို့ စခန်းမှာ ကျုပ်တို့အတွက် နေရာထိုင်ခင်းလေး ဘာလေး ရှိဦးမလား"

"တစ်နေရာတော့ ရှိတယ်၊ ခင်ဗျားတို့ မိသားစုက ဘယ်နှစ်ယောက်လဲ"

တွမ်က လက်ချိုး၍ ရေသည်။ "ကျုပ်ရယ်၊ အဖေနဲ့ အမေရယ်၊ အယ်လ်နဲ့ ရိုစာဟန်ရယ်၊ ဦးလေးဂျွန်ရယ်၊ ပြီးတော့ ရှုသီနဲ့ ဝင်းဖီးရယ်၊ နောက်ဆုံးနှစ်ယောက်က ချာတိတ်တွေပါ"

"ဒါဆိုရင် ဖြစ်မှာပါ၊ ခင်ဗျားတို့ အိပ်ရာအိပ်ခင်း ပစ္စည်းတွေကော ပါရဲ့လား"

"တာပေါ်လင် ရွက်ထည်ကြီးတစ်ခုနဲ့ မွေ့ရာတွေတော့ ပါတယ်"

အစောင့်က တွမ်၏ ဘေးမှ ခြေနင်းခုံပေါ်သို့ တက်၍ ရပ်လိုက်သည်။ "ဒီလမ်းအတိုင်း တည့်တည့်မောင်း၊ ဟိုးရှေ့ လမ်းဆုံရောက်တော့ ညာဘက်ကိုချိုး၊ ခင်ဗျားတို့က အမှတ်လေး စံပြ သန့်ရှင်းမှု အုပ်စုထဲမှာ နေရလိမ့်မယ်"

"အဲဒါက ဘာလဲ"

"အဝတ်အစားလဲဖို့ ပစ္စည်းပစ္စယတွေ၊ ရေချိုးဖို့ ရေပန်းတွေ၊ အဝတ်လျှော် ကြွေခွက်တွေ ထားပေးတဲ့ နေရာကို ခေါ်တာ"

"အဝတ်လျှော် ကြွေခွက် ရှိတယ် ဟုတ်လား၊ ဒါဆိုရင် ဘုံဘိုင်ရေ ရမှာပေါ့" ဟု ဝင်မေးသည်။

"ရတာပေါ့"

"အို ဘုရားသခင်ရဲ့ ဂုဏ်ကျေးဇူးပါပဲ" ဟု အမေက ဝမ်းသာအားရ ရေရွတ်သည်။

တွမ်က ကားကို မှောင်မည်းနေသော တဲများကြားမှ မောင်း၍ ဝင်သွားသည်။ ညာဘက်သို့ ချိုးလိုက်သည့်အခါ အဆောက်အအုံတစ်ခု တွေ့ရသည်။ အတွင်းမှ ထွက်လာနေသည့် မီးရောင်မှာ ခပ်မှိန်မှိန်။ "ကားကို ဟိုဘက်နားထိုး" ဟု အစောင့်က ပြောသည်။ "နေရာကတော့ သိပ်ကောင်းတယ်၊ ဒီမှာ နေသွားတဲ့ မိသားစု ထွက်သွားတာ သိပ်မကြာသေးဘူးဗျ"

တွမ်က ကားကို ထိုးရပ်လိုက်သည်။ "ဟိုနေရာမှာ ထိုးရမလား"

"အင်း၊ ကဲ ခင်ဗျားက လက်မှတ်ထိုးဖို့ ကျုပ်နဲ့ လိုက်ခဲ့ဦး၊ ကျန်တဲ့လူတွေ ကားပေါ်က ပစ္စည်းတွေ ချနိုင်းပေါ့၊ ပြီးရင် အိပ်ကြတော့၊ စခန်းကော်မတီနဲ့တော့ မနက်ကျမှ တွေ့ရမယ်၊ သူတို့ဆီက တရားဝင် နေခွင့် ယူရဦးမယ်"

"ပုလိပ်တွေကော မရှိဘူးလား" ဟု တွမ်က မေးသည်။

အစောင့်က ရယ်သည်။ "ပုလိပ် မရှိပါဘူး၊ ကျွန်တော်တို့ စခန်းက ထားတဲ့ ကိုယ်ပိုင်ပုလိပ်တော့ ရှိတယ်၊ ဒါကလည်း အားလုံးသဘောတူ ရွေးထားတာပါ၊ ကဲ လာ"

အယ်လ်က ကားပေါ်မှ ခုန်ဆင်းလိုက်သည်။ "ဒီမှာ နေရမလား"

"အေး ဟုတ်တယ်" ဟု တွမ်က ဖြေသည်။ "မင်းနဲ့ အဖေက ပစ္စည်းတွေ ချထားနှင့်၊ ငါ ရုံးခန်းဘက်ကို သွားလိုက်ဦးမယ်"

"တိုးတိုးသာသာတော့ လုပ်ကြမှ ဖြစ်မယ်၊ လူတွေအားလုံး အိပ်နေကြပြီ" ဟု အစောင့်က သတိပေးသည်။

တွမ်သည် အမှောင်ထုကို ဖြတ်၍ နောက်မှ လိုက်သွားကာ ရုံးပေါ်သို့ တက်ခဲ့သည်။ စားပွဲဟောင်း တစ်လုံးနှင့် ကုလားထိုင် တစ်လုံး ချထားသည့် အခန်းတစ်ခုအတွင်းသို့ ဝင်ခဲ့သည်။ အစောင့်က စားပွဲတွင် ဝင်ထိုင်ပြီး ပုံစံစာရွက်ကို ထုတ်လိုက်၏။

"နာမည်"

"တွမ်ဂျုတ်"

"ဟိုဟာက ခင်ဗျားအဖေလား"

"ဟုတ်တယ်"

"သူ့နာမည်က"

"တွမ်ဂျုတ်ပဲ"

မေးခွန်းများ တစ်ခုပြီး တစ်ခု ဆက်မေးသွားသည်။ ဘယ်အရပ်ကလဲ။ အခု ဘယ်ကလာသလဲ။ ဒီပြည်နယ်ထဲ ရောက်နေတာ ဘယ်လောက် ကြာပြီလဲ။ ဘာအလုပ်တွေ လုပ်ခဲ့ဖူးပြီလဲ။ အစောင့်က တွမ်အား မော့ကြည့်သည်။ "ကျွန်တော်က စပ်စုနေတာ မဟုတ်ဘူး၊ ကျွန်တော်တို့ဆီမှာ ဒီအချက်တွေ ရှိထားဖို့ လိုလို့ မေးရတာ"

"ရပါတယ်" ဟု တွမ်က ပြောသည်။

"ငွေကော ပါလာသလား"

"နည်းနည်းပါးပါးပေါ့"

"အခြေအနေမဲ့ မဟုတ်ဘူးနော်"

"အခြေအနေလည်း နည်းနည်းပါးပါး မဲ့နေတယ်၊ ဘာပြုလို့ မေးတာလဲ"

"စခန်းမှာ နေခွင့်အတွက် တစ်ပတ်ကို တစ်ဒေါ်လာကျတယ်၊ ဒါပေမဲ့ စခန်းအတွက် အမှိုက်ရှင်းပေးတာတို့ ဘာတို့ လုပ်ပေးမယ် ဆိုရင် ပေးစရာ မလိုဘူး၊ ကင်းလွတ်ခွင့် ပေးတယ်"

"ကျုပ်တို့ အလုပ်ပဲ လုပ်ပေးမယ်လေ"

"မနက်ဖြန်ကျတော့ ကော်မတီနဲ့ တွေ့ရမယ်၊ သူတို့က စခန်းမှာ ဘယ်လိုနေရမယ်၊ ထိုင်ရမယ်ဆိုတာ ပြောပြလိမ့်မယ်၊ စခန်းက ချမှတ်ထားတဲ့ စည်းကမ်းတွေကိုလည်း ရှင်းပြလိမ့်မယ်"

တွမ်က မေးသည်။ "နားလည်အောင်တော့ ပြောပြပါဦးဗျာ၊ အဲဒီ ကော်မတီဆိုတာ ဘာလဲ"

အစောင့်က နေရာပြင်၍ ထိုင်သည်။ "လုပ်ပုံက အတော်ကောင်းပါတယ်၊ ဒီစခန်းမှာ သန့်ရှင်းရေးအဖွဲ့ ငါးဖွဲ့ ရှိတယ်။ အဖွဲ့ တစ်ဖွဲ့စီက စခန်း ဗဟိုကော်မတီဝင် ကိုယ်စားလှယ် တစ်ဦးစီ ရွေးပေးရတယ်၊ အဲဒီ ကော်မတီက စခန်းအတွက် ဥပဒေစည်းကမ်း လုပ်ပေးတယ်၊ သူတို့ လုပ်ပေးတဲ့ စည်းကမ်း နည်းလမ်းအတိုင်း အားလုံးက လိုက်နာရတယ် "

"တကယ်လို့ ကော်မတီဝင်တွေက လူဆိုးတွေ ဖြစ်နေရင် ဘယ်လို လုပ်မလဲ"

"ဒါက အလွယ်ကလေးပါ၊ ခင်ဗျား သူတို့ကို မဲနဲ့ ရွေးခဲ့သလို မဲနဲ့ပဲ ပြန်ပြီး ဖယ်ပစ်နိုင်တယ်၊ သူတို့ လုပ်နည်း လုပ်ဟန်တွေကတော့ မဆိုးပါဘူးဗျ၊ သူတို့ လုပ်ခဲ့တာလေးတစ်ခု ကျွန်တော် ပြောပြမယ်၊ ခင်ဗျား ဟိုးလီးရိုးလား တရားဟောအဖွဲ့ကို သိတယ် မဟုတ်လား၊ အဲဒီ အဖွဲ့က တရားဟောဆရာတွေက လူတွေ သွားရာနောက် တကောက်ကောက်လိုက်ပြီး တရားဟောလေ့ ရှိတယ်၊ ပြီးတော့ တရားဟောခ သဒ္ဓါကြေးလည်း ကောက်ခံတတ်တယ်၊ အဲ သူတို့လူစုက ဒီစခန်းမှာလာပြီး တရားဟောချင်ကြတယ်၊ စခန်းထဲမှာ ရှိတဲ့ မိသားစုတွေထဲက အဘိုးကြီး အဘွားကြီးတွေကလည်း သူတို့တရားကို နာချင်ကြတယ်၊ ဒါနဲ့ပဲ ဒီကိစ္စကို ကော်မတီမှာ တင်ပြလိုက်တယ်၊ ကော်မတီက အစည်းအဝေး လုပ်ပြီး ဆွေးနွေး ညှိနှိုင်းကြတယ်၊ ပြီးတော့ ကော်မတီက ပြောတယ်၊ ဘယ် တရားဟောဆရာမဆို ဒီစခန်းမှာလာပြီး တရားဓမ္မ ဟောပြောနိုင်တယ်၊

ဒါပေမဲ့ စခန်းအတွင်းမှာ ဘယ်သူမှ ငွေကြေး ကောက်ခံခွင့် မပြုဘူးတဲ့၊ သက်ကြီး ရွယ်အိုတွေကတော့ စိတ်မကောင်းကြဘူးပေါ့ဗျာ၊ ဘာကြောင့်လဲဆိုတော့ အခုအချိန်ထိ ဒီစခန်းကို တရားဟောဆရာ တစ်ယောက်မှ ရောက်မလာသေးလို့ ”

တွမ်ကရယ်သည်။ “ခင်ဗျား ပြောပုံဆို ဒီစခန်းကို အုပ်ချုပ်နေတဲ့ ကော်မတီ ဝင်တွေဟာ ဒီစခန်းမှာ လာနေတဲ့ လူတွေထဲက ရွေးထားတာပေါ့၊ ဟုတ်လား ”

“ဒါပေါ့၊ ဒါပေမဲ့ အလုပ်ကတော့ ဖြစ်တယ်ဗျ ”

“ခင်ဗျား စောစောက ပြောခဲ့တဲ့ ပုလိပ်တွေ ဆိုတာက ... ”

“ဗဟိုကော်မတီက စည်းကမ်းတွေ ချတယ်၊ လိုက်နာအောင် ထိန်းတယ်၊ ပြီးတော့ ကော်မတီမှာ အမျိုးသမီးတွေလည်း ပါတယ်၊ သူတို့က ခင်ဗျားရဲ့ အမေကို ခေါ်တွေ့ကြလိမ့်ဦးမယ်၊ သူတို့က ကလေးတွေကိုလည်း တာဝန်ယူပြီး စောင့်ရှောက်တယ်၊ အုပ်စုအလိုက် နေကြတဲ့ မိသားစုတွေကိုလည်း စောင့်ရှောက်ပေးတယ်၊ တကယ်လို့ ခင်ဗျား အမေက အလုပ်မလုပ်ဘူးဆိုရင် အလုပ် လုပ်နေကြတဲ့ မိန်းမတွေရဲ့ ကလေးတွေကို ထိန်းပေးရမယ်၊ သူ အလုပ်ရသွားရင် သူ့နေရာကို တခြားလူက အစားဝင်ရမယ်၊ အချုပ်အလုပ်လည်း လုပ်ရတယ်၊ သူနာပြုဆရာမ တစ်ယောက်လည်း လာလာပြီး သူနာပြုစုနည်း သင်ပေးတယ်၊ လုပ်ငန်းအစုံ လုပ်ကြတယ် ဆိုပါတော့ဗျာ ”

“ခင်ဗျား ပြောချင်တာက စခန်းမှာ ပုလိပ်ဆိုတာ မရှိဘူးပေါ့၊ ဟုတ်လား ”

“မရှိဘူး၊ ဘယ် ပုလိပ်မှလည်း ဝရမ်းမပါဘဲ စခန်းထဲကို ဝင်ခွင့် မရှိဘူး ”

“ကဲဗျာ၊ ဆိုပါတော့၊ လူတစ်ယောက်က အကျင့်မကောင်းဘူး၊ ဆိုးတယ်၊ အရက်တွေ သောက်ပြီး မူးမယ်၊ ရမ်းမယ်၊ ရန်လည်း ဖြစ်မယ်၊ ဒါမျိုးကျတော့ ဘာလုပ်မလဲ ”

အစောင့်သည် သူ့လက်ထဲမှ ခဲတံဖြင့် မင်နှိပ်စက္ကူကို ထိုးဖောက်လိုက်သည်။ “ပထမ အကြိမ်မှာ ကော်မတီက သတိပေးတယ်၊ ဒုတိယ အကြိမ်ကျတော့ ပြင်းပြင်းထန်ထန် သတိပေးတယ်၊ တတိယ အကြိမ်ကျတော့ စခန်းက အပြီးအပိုင် ထုတ်ပစ်တယ် ”

"ကျုပ်ဖြင့် ကြားရတာကို မယုံနိုင်အောင် ဖြစ်နေပြီဗျာ၊ ကနေ့ည လက်ထောက် ပုလိပ်အရာရှိဆိုတဲ့ ငနဲတွေ ရောက်လာပြီး မြစ်ကမ်းနားက စခန်းကို မီးရှို့ပစ်ကြတယ်ဗျ"

"ဒီကိုတော့ သူတို့ မလာပါဘူး" ဟု အစောင့်က ပြောသည်။ "တချို့ ညတွေမှာတော့ လူငယ်တွေက ဝင်းထဲမှာ ကင်းလှည့်ကြတယ်၊ အထူးသဖြင့် ကပွဲရှိတဲ့ ညတွေမှာပေါ့"

"ကပွဲရှိတဲ့ ညတွေ ဟုတ်လား၊ ယေရှုသခင် ကယ်တော်မူပါ"

"ဒီကောင်တီခရိုင်ထဲမှာ အကောင်းဆုံး ဆိုတဲ့ ကပွဲတွေကို ကျုပ်တို့ စခန်းမှာ စနေနေ့ညတိုင်း လုပ်တယ်"

"ကောင်းပါလေ့ဗျာ၊ ဒါနဲ့ မေးစမ်းပါရစေ၊ ဒီလို စခန်းတွေကျတော့ ဘာကြောင့် များများ မဖွင့်တာလဲ"

အစောင့်၏ မျက်နှာသည် ညှိုးငယ်ကြီးနှင့် တည်တည်ကြီး ဖြစ်သွားသည်။ "ဒါကိုတော့ ခင်ဗျားဘာသာ ခင်ဗျား စုံစမ်းကြည့်တာ ကောင်းပါလိမ့်မယ်၊ ကဲ ခင်ဗျား ပြန်ပြီး တစ်ရေးလောက် အိပ်ချေဦး"

"မင်္ဂလာညပါ" ဟု တွမ်က နှုတ်ဆက်သည်။ "ကျုပ်အမေကတော့ ဒီနေရာကို သိပ်သဘောကျမှာ၊ သူ့ကို ယဉ်ယဉ်ကျေးကျေး သိမ်သိမ်မွေ့မွေ့ အဆက်ဆံ မခံရတာ အတော်ကို ကြာပြီ"

"မင်္ဂလာပါညပါ" ဟု အစောင့်က ပြန်၍ နှုတ်ဆက်သည်။ "ခင်ဗျား အိပ်လိုက်ဦး၊ စခန်းက မနက်ဆို အစောကြီး ထကြတာ"

တွမ်သည် တဲတန်း နှစ်တန်းကြားမှ ဖြတ်လျှောက်လာသည်။ သူ့မျက်လုံးများသည် ကြယ်ရောင်ဖြင့် မြင်သော အလေ့အထကို ရလာသည်။ တဲတန်းများသည် တစ်ဖြောင့်တည်း တန်း၍ တည်ဆောက်ထားကြခြင်း ဖြစ်၏။ တဲများ ပတ်လည်တွင် အမှိုက်သရိုက် ဟူ၍ လုံးဝ မရှိ။ လမ်းကိုလည်း လှည်းကျင်းထားသဖြင့် ပြောင်လက်နေလေသည်။ တဲများဆီမှ အိပ်မောကျနေသူများ၏ ဟောက်သံများ။ စခန်းတစ်ခုလုံးတွင် အသက်ရှူသံများမှ တစ်ပါး အခြား ဘာသံမျှ မကြားရ။ ပကတိ တိတ်ဆိတ်ငြိမ်သက်ခြင်း။

တွမ်သည် ဖြည်းဖြည်းမှန်မှန် လျှောက်လာသည်။ အမှတ်လေး စံပြ သန့်ရှင်းမှု အုပ်စု အဆောက်အအုံအနီးသို့ ကပ်မိသည်။ သူသည် အဆောက်အအုံကို အထူးအဆန်း တစ်ခုနယ် စိတ်ဝင်တစား ရပ်၍ ကြည့်မိနေ၏။ အဆောက်အအုံမှာ ဆေးသုတ်ထားခြင်း မရှိ။ အဖြူထည်သက်သက် ဖြစ်သည်။ ပြီးတော့ ခပ်နိမ့်နိမ့်၊ ခပ်ကြမ်းကြမ်း ဆောက်ထားသည့် အဆောက်အအုံ။ အမိုးရှိသော်လည်း လေးဖက်လေးတန်တွင် နံရံများ မရှိ။ မျက်နှာသစ်စရာ အဝတ်လျှော်စရာ ခွက်များသည် အစီအရီတန်းလျက် ရှိနေကြလေသည်။ မနီးမဝေးတွင်မူ ဂျုတ်မိသားစု ထရပ်ကား။ သူသည် ကားဆီသို့ ဖြည်းညင်းစွာ လျှောက်လာခဲ့၏။ တာပေါ်လင် ရွက်ထည်တဲမှာ ထိုးပြီးနေလေပြီ တဲတစ်ခုလုံး ငြိမ်ဆိတ်လျက် ရှိ၏။ သူ ကားနားသို့ ကပ်သွားချိန်တွင် ထရပ်ကားအောက်မှ မည်းမည်းသဏ္ဌာန်တစ်ခု ထွက်လာပြီး သူ့ထံသို့ လျှောက်လာလျက် ရှိသည်။

အမေက ညင်သာသော အသံဖြင့် ဆီးမေးသည်။ "တွမ်လား"

"ဟုတ်တယ် အမေ"

"ရှူး" ဟု အမေက တားသည်။ "သူတို့အားလုံး အိပ်ကုန်ကြပြီ၊ အားလုံး မောကုန်ကြပြီ"

"အမေလည်း အိပ်သင့်နေပြီ" ဟု တွမ်က ပြောသည်။

"အမေ မင်းနဲ့ စကားပြောချင်လို့၊ အားလုံး အဆင်ပြေရဲ့လားဟင်"

"ပြေပါတယ် အမေ" ဟု တွမ်က ဖြေသည်။ "အခုတော့ မပြောပြသေးဘူး၊ မနက်ကျတော့ သူတို့က အမေ့ကို ပြောပြမှာပါ၊ အမေ ကြိုက်မှာပါ"

အမေက တိုးတိုးကလေး ကပ်မေးသည်။ "သူတို့မှာ ရေနွေးလည်း ရှိတယ်လို့ ကြားတယ် ဟုတ်သလား"

"ဟုတ်တယ်၊ ကဲ အမေ အိပ်တော့၊ နောက်ကျနေပြီ၊ အမေအိပ်တာကို မတွေ့ရတာ ကြာပြီ"

အမေက ထပ်မေးပြန်သည်။ "မင်း အခုနက ပြောတယ်၊ ကျုပ် အခု မပြောပြသေးဘူးတဲ့၊ အဲဒါက ဘာလဲ"

"မပြောသေးဘူး အမေ၊ အခုလောလောဆယ် အမေ အိပ်ဖို့ လိုတယ်"

အမေ့မျက်နှာနှင့် အပြုအမူသည် နုနယ်ငယ်ရွယ်သော မိန်းကလေးတစ်ယောက် အသွင်မျိုး ပေါက်လာသည်။ "ကျုပ် အခု မပြောပြသေးဘူး ဆိုတဲ့ မင်းစကားဟာ ဘာပါလိမ့်လို့ တွေးနေရင် အမေ ဘယ်လိုလုပ်ပြီး အိပ်ပျော်နိုင်ပါ့မလဲကွယ်"

"မဟုတ်သေးဘူး အမေ၊ အဲသလို တွေးနေလို့ မဖြစ်ဘူး" ဟု တွမ်က ပြန်ပြောသည်။ "မနက်ဖြန် မနက်ကျရင် အမေ ပထမဆုံး လုပ်ရမှာက အဝတ်အစား အသစ် လဲရမယ်၊ ပြီးတော့ ကိုယ့်ဘာသာကိုယ် အဖြေရှာရမယ်၊ ဒါပဲ"

"စိတ်မအေးရတဲ့ အတွေးမျိုး ဝင်နေလို့ကတော့ အမေ အိပ်နိုင်မှာ မဟုတ်ဘူး"

"အိပ်ရမယ် အမေ" တွမ်က ရှင်လန်းတက်ကြွသော လေသံဖြင့် ပြောသည်။ "အမေ မအိပ်လို့ ဘယ်ဖြစ်မလဲဗျာ"

"မင်္ဂလာညပါ တွမ်" အမေက သိမ်မွေ့နူးညံ့သော အသံဖြင့် နှုတ်ဆက်စကား ဆိုသည်။ အမေသည် ခါးကို ကုန်းလိုက်ပြီး မှောင်မည်းလျက်ရှိသော တာပေါ်လင် ရွက်ထည်အောက်သို့ ဝင်ရောက် သွားလေသည်။

တွမ်သည် နောက်ဘက် ခြေနင်းခုံကို နင်း၍ ထရပ်ကားပေါ်သို့ တက်လိုက်သည်။ သူသည် ကားကြမ်းပြင်ထက်သို့ လှဲချလိုက်သည်။ သူ့လက်မောင်းနှစ်ဖက်ကို ဆက်ပြီး နောက်စေ့အောက်မှ ထိုးသွင်းကာ ခေါင်းအုံး လုပ်လိုက်လေသည်။ ညသည် တိုး၍ တိုး၍ အေးမြလာသည်။ တွမ်သည် သူ့ကုတ်အင်္ကျီရင်ဘတ် ကြယ်သီးများကို တပ်သည်။ ပြီးတော့ ပြန်၍ လှဲအိပ်လိုက်၏။ သူ့အပေါ်ရှိ မိုးကောင်းကင်ထက်မှ ကြယ်များသည် တလက်လက်။

သူ အိပ်ရာမှ ပြန်နိုးလာချိန်တွင် အမှောင်ထုသည် မင်းမူနေဆဲ။ ပစ္စည်းတစ်ခုနှင့် တစ်ခု ထိတွေ့ ပွတ်တိုက်နေသည့် အသံ တစ်သံကြောင့် သူ အိပ်ရာမှ နိုးလာခဲ့ခြင်း ဖြစ်သည်။ တွမ်သည် ခေါင်းထောင်ကာ အသံကို နားစွင့်သည်။ အသံမှာ သံသံချင်း ပွတ်တိုက်နေသော အသံ။ သူသည် လှဲနေရာမှ ထထိုင်သည်။ နံနက်ခင်းလေ၏

အအေးဓာတ်ကြောင့် သူ့တစ်ကိုယ်လုံး တုန်လျက် ရှိ၏။ စခန်းကတော့ အိပ်မောကျနေဆဲ။ တွမ်သည် ထိုင်ရာမှ ထရပ်ကာ မော်တော်ကား ဘေးတစ်ဖက်ကို ကျော်၍ အဝေးသို့ မျှော်ကြည့်သည်။ အရှေ့ဘက်ဆီမှ တောင်တန်းကြီးများသည် နက်ပြာရောင် သန်းလျက် ရှိလေသည်။ သူ စောင့်ကြည့်နေခိုက်မှာပင် တောင်တန်းကြီးများ၏ နောက်မှ မှုန်ဝါးဝါး အလင်းရောင်သည် အထက်မိုးကောင်းကင် ဆီသို့ ထိုးတက်လာသည်။ တဖြည်းဖြည်းနှင့် တောင်စွယ် တောင်ထွတ်များသည် အနီရောင် သန်းလာသည်။ ထို့နောက် ပတ်ဝန်းကျင်သည် ပို၍ အေးလာသည်။ ညို့မှိုင်းမှိုင်း ဖြစ်လာသည်။ အနောက်ဘက် မိုးကုပ်စက်ဝိုင်းဆီတွင်မူ ည၏ အမှောင်သည် ပျက်ပြယ်ခြင်း မရှိသေး။ တောင်ကြားလွင်ပြင် တစ်လျှောက်တွင်မူ မြေပြင်သည် အရုဏ်ဦး အလင်းရောင်၏ ပက်ဖျန်းထားမှုကြောင့် ပြာလဲ့လဲ့ အဆင်းကို ဆောင်လျက် ရှိလေပြီ။

သံသံချင်း ထိတွေ့ ရိုက်ခတ်သံသည် ထပ်မံ၍ ထွက်ပေါ်လာပြန်သည်။ တွမ်၏ မျက်လုံးများသည် တဲတန်းများဘက်သို့ ရွေ့သွားသည်။ တဲတစ်လုံး၏ ဘေးတွင် သံမီးဖိုဟောင်း တစ်လုံးမှ ထိုးတက်လာနေသည့် လိမ္မော်ရောင် မီးတောက်တစ်ခု။ ခပ်တိုတို မီးခိုးခေါင်းတိုင်မှ ထွက်လာနေသည့် ပြာလဲ့လဲ့ မီးခိုးများ။

တွမ်သည် ထရပ်ကား၏ ဘေးတစ်ဖက်သို့ ခုန်ချလိုက်သည်။ သူသည် မီးဖိုရှိရာသို့ လျှောက်လာခဲ့၏။ မီးဖိုအနီး၌ အလုပ်ရှုပ်နေသော မိန်းမငယ် တစ်ယောက်။ ကွေးထားသည့် လက်တစ်ဖက်ပေါ်တွင် နို့စို့ကလေး တစ်ယောက်။ ကလေးကို နို့ချို တိုက်ကျွေးလျက် ရှိသည်။ ကလေး၏ ဦးခေါင်းသည် မိန်းမငယ်၏ အင်္ကျီလက်မောင်း အောက်နားတွင် ရောက်လျက် ရှိလေသည်။ မိန်းမငယ်သည် တလှုပ်လှုပ်နှင့် အလုပ်ရှုပ်လျက် ရှိသည်။ မီးကို ထိုးလိုက် ဆွလိုက်။ သံချေးတက်နေပြီ ဖြစ်သော မီးဖိုအဖုံးကို မလိုက် ပြန်ချလိုက်။ ရင်ခွင်ထဲမှ ကလေးငယ်သည် နို့စို့မပျက်။ မိခင် လုပ်သူသည် ကလေးကို မကြာခဏ ဘယ်ညာ ပြောင်း၍ ချီသည်။ ကလေးသည် မိခင်၏ အလုပ်ကို အနှောင့်အယှက် မပေး။ မိခင်၏ ကျက်သရေရှိလှသော လှုပ်ရှားမှုများကို နှောင့်နှေးသွားအောင် အဟန့်အတား မပြု။ မီးဖိုအတွင်းမှ လိမ္မော်ရောင် မီးတောက်သည် အပြင်သို့ အရှိန်နှင့် တိုး၍တိုး၍ ထွက်လာကာ တဲ၏ ရွက်ထည်ဖျင်ပေါ်သို့ အလင်းရောင် ထိုးပေးလျက် ရှိလေသည်။

တွမ်က သူ့အနီးသို့ ရောက်အောင် လျှောက်သွားသည်။ ဝက်ပေါင်ခြောက်ကြော် အနံ့နှင့် ပေါင်မုန့် အနံ့သည် သူ၏ နှာခေါင်းဆီသို့ ပြေးဝင်လာသည်။ အရှေ့ဘက်

မိုးကောင်းကင် တစ်ဝိုက်တွင် အလင်းရောင်သည် လျင်မြန်စွာ ဝင်လာလျက် ရှိ၏။ တွမ်သည် သံမီးဖိုနားအထိ တိုးကပ်လာပြီး လက်ဖဝါးများကို ဖြန့်၍ မီးကင်သည်။ မိန်းမငယ်က သူ့ကို ဖျတ်ခနဲ လှည့်ကြည့်ပြီး ခေါင်းတစ်ချက် ဆတ်၍ ပြသည်။ မိန်းမငယ်၏ ကျစ်ဆံမြီး နှစ်ချောင်းသည် ယမ်းခါသွားလေသည်။

"မင်္ဂလာ နံနက်ခင်းပါ" ဟု မိန်းမငယ်က နှုတ်ဆက်ပြီး ဒယ်အိုးထဲမှ ဝက်ပေါင်ခြောက်များကို သံယောက်မနှင့် ကော်၍ လှန်ပေးနေသည်။

ရွက်ထည်စ တံခါးသည် ဘေးသို့ လန်တက်သွားပြီး အထဲမှ လူငယ်တစ်ယောက် ထွက်လာသည်။ သူ့နောက်မှ ကပ်လိုက်လာသူမှာ အသက်ခပ်ကြီးကြီး လူတစ်ယောက်။ သစ်လွင်သော အပြာရောင် အပေါ်အင်္ကျီနှင့် ကုတ်အင်္ကျီများ ဝတ်ထားသည်။ ရင်ဘတ်မှ ကြယ်သီးများသည် အရောင်တလက်လက် ထွက်လျက် ရှိ၏။ လူနှစ်ယောက်သည် ရုပ်ချင်းဆင်သည်။ လူငယ်တွင် မည်းနက်သော မုတ်ဆိတ်မွေး ငုတ်တိုများ ရှိ၍ လူကြီးတွင် ဖြူဖွေးသော မုတ်ဆိတ်မွေး ငုတ်တိုများ ရှိသည်။ နှစ်ဦးစလုံး၏ ခေါင်းများနှင့် မျက်နှာများသည် ရေများဖြင့် စိုရွှဲလျက် ရှိသည်။ ဆံပင်မှ ရေစက်များသည် အောက်သို့ တစ်စက်ချင်း တစ်ပေါက်ချင်း စီးကျကာ မုတ်ဆိတ်မွေးများတွင် တွဲလွဲခိုနေကြလေသည်။ ရေစိုနေသော ပါးများသည် ပြောင်လက်နေကြသည်။ လူနှစ်ယောက်သည် ငြိမ်သက်စွာ ရပ်ပြီး အလင်းရောင် ပြေးလျက် ရှိသော အရှေ့ဘက် ကောင်းကင်ဆီသို့ ငေးမောနေကြ၏။ နှစ်ဦးစလုံး ပြိုင်တူ သမ်းလိုက်ပြီး တောင်ထိပ် တောင်စွန်းများပေါ်သို့ ကျဆင်းစ ပြုနေသည့် အလင်းရောင်ကို မျက်တောင်မခတ် ကြည့်နေကြသည်။ ထို့နောက် သူတို့ မျက်နှာများသည် ဘေးသို့ လှည့်လာကြသည်။ ထိုအခါကျမှပင် မီးဖိုအနီး၌ ရပ်နေသော တွမ်ကို သတိပြုမိကြလေ၏။

"မင်္ဂလာ နံနက်ပါ" ဟု လူကြီးက စ၍ နှုတ်ဆက်သည်။ သူ့မျက်နှာထားမှာ ဖော်ရွေသည်ဟုလည်း မဆိုနိုင်၊ ဖော်ရွေခြင်း မရှိဟုလည်း မပြောသာ။

"မင်္ဂလာ နံနက်ပါ" ဟု တွမ်က အလိုက်သင့် ပြန်၍ ရေရွတ်သည်။

"မင်္ဂလာ နံနက်ပါ" ဟု လူငယ်ကလည်း ဝင်၍ နှုတ်ဆက်သည်။

သူတို့ မျက်နှာပေါ်မှ ရေများသည် တဖြည်းဖြည်းနှင့် ခြောက်စ ပြုလာသည်။ နစ်ယောက်စလုံး သံမီးဖိုအနီးသို့ ကပ်လာပြီး လက်များကို မီးကင်သည်။

မိန်းမငယ်ကတော့ သူ့အလုပ်တွင်သာ အာရုံ စူးစိုက်လျက် ရှိသည်။ သူသည် ရင်ခွင်ထက်မှ ကလေးကို တစ်နေရာတွင် အသာအယာ ချထားလိုက်ပြီး နောက်ကျောဘက်မှ တန်းလန်း တန်းလန်း ဖြစ်နေသော ကျစ်ဆံမြီး နှစ်ချောင်းကို ပူး၍ ကြိုးတစ်စဖြင့် ချည်လိုက်၏။ သူသည် သံခွက်များကို စက္ကူဘူးကြီး တစ်ခုပေါ်၌ တင်သည်။ ထို့နောက် သံပန်းကန်နှင့် ဓားများ၊ ဇွန်းများ၊ ခက်ရင်းများကို ခင်းသည်။ မီးဖိုပေါ်ရှိ ဒယ်အိုးထဲမှ ဝက်ပေါင်ခြောက်ကြော်များကို ဆယ်၍ သံပန်းကန်ပြား တစ်ချပ်ထဲသို့ ထည့်သည်။ ပြီးတော့ သံချေးများ တက်နေသော မုန့်ပေါင်းဖို အဖုံးကို ဆွဲဖွင့်လိုက်ပြီး အတွင်းမှ ဘီစကွတ်များ ထည့်ထားသည့် သံလင်ပန်းတစ်ချပ်ကို ထုတ်ယူလိုက်လေသည်။

ဘီစကွတ်မုန့်နံ့ကို ရသောအခါ လူနစ်ယောက်စလုံးသည် အသက်ကို ပြင်းစွာ ရှူလိုက်ကြသည်။

"မင်း မနက်စာ စားပြီးပြီလား" ဟု လူကြီးက တွမ်အား လှမ်းမေးသည်။

"အင်း.. အဲ၊ မစားရသေးဘူး၊ ကျုပ်တို့ မိသားစုက ဟိုဘက်မှာ၊ အိပ်ရာက မနိုးကြသေးဘူး၊ အိပ်ရေးဝဖို့ လိုတယ် မဟုတ်လား"

"ဒီလိုဆိုရင် တို့နဲ့ တစ်ခါတည်း စားလိုက်ပေါ့ကွာ၊ တို့မှာ အများကြီးပါ"

"အင်း.. ဘာကြောင့်.. ဟို.. ကျေးဇူးပဲ၊ ကျေးဇူးပဲ" ဟု တွမ်က ရေရွတ်သည်။ "အနံ့က သိပ်မွှေးတော့ မစားတော့ဘူးလို့တောင် မငြင်းနိုင်တော့ဘူးဗျာ"

"မွှေးတယ်၊ ဟုတ်လား" ဟု လူငယ်က ပြောသည်။ "ဒီလောက် မွှေးတဲ့အနံ့ အရင်က ရခဲ့ဖူးရဲ့လား" သူတို့သုံးဦးသည် စက္ကူဘူးကြီးကို ဝိုင်း၍ ထိုင်လိုက်ကြလေ၏။

"ဒီအနီးအနားမှာ အလုပ် လုပ်နေသလား" ဟု လူငယ်က မေးသည်။

"လုပ်မလို့ စိတ်ကူးတုန်းပဲ" ဟု တွမ်က ပြန်ဖြေသည်။ "ကျုပ်တို့ မနေ့ညကမှ ရောက်တာ၊ ဒီအနီးအနားကိုတောင် လျှောက်မကြည့်ရသေးဘူး"

"ကျုပ်တို့တော့ အလုပ်လုပ်နေကြတာ ဆယ့်နှစ်ရက်တောင် ရှိပြီ" ဟု လူငယ်က ပြောသည်။

မီးဖိုအနီး၌ အလုပ်ထိုင်လုပ်နေသော မိန်းမငယ်က လှမ်းပြောသည်။ "သူတို့တော့ အဝတ်အစား အသစ်တွေတောင် ရနေပြီ" ယောကျ်ား နှစ်ယောက်သည် သူတို့အပေါ်မှ အပြာရောင် အဝတ်အစားများကို ငုံ့ကြည့်ပြီး ရက်ပြုံးပြုံးကြလေသည်။ မိန်းမငယ်သည် ဝက်ပေါင်ခြောက်ကြော်၊ ဘီစကွတ်မုန့်၊ ဝက်ပေါင်ခြောက်ဟင်း၊ ကော်ဖီအိုး စသော စားစရာများကို တစ်ခုပြီး တစ်ခု ယူလာပြီး ချသည်။ ထို့နောက် သူကိုယ်တိုင် စက္ကူဘူးကြီး၏ ဘေးနေရာလွတ်တွင် ဝင်ထိုင်သည်။ ကလေးကိုမူ လက်က မချ။ ရင်ခွင်၌ အပ်လျက် နို့တိုက်ဆဲ။

သူတို့သည် သူတို့ပန်းကန်များထဲသို့ ဘီစကွတ်မုန့်များ ထည့်ပြီး အပေါ်မှ ဝက်ပေါင်ခြောက် ဟင်းရည် ဆမ်းသည်။ အသင့်ထားသော ကော်ဖီအိုးများထဲသို့ သကြားထည့်သည်။

လူကြီးသည် ဘီစကွတ်မုန့်များကို ပါးစပ်နှင့် အပြည့်ထည့်ကာ တစ်ချက် နှစ်ချက်မျှ ဝါးလိုက်ပြီး ကော်ဖီနှင့် မျှော၍ မျိုချလိုက်သည်။ "တော်တော် ကောင်းတာပဲကွ" ဟု ရေရွတ်ကာ နောက်ထပ် ပါးစပ်နှင့် အပြည့်ထည့်ပြီး ပလုတ်ပလောင်း ဝါးပြန်လေသည်။

"ကျုပ်တို့ ကောင်းကောင်း စားနေရတာ အခုဆိုရင် ဆယ့်နှစ်ရက် ရှိသွားပြီ" ဟု လူငယ်က ပြောသည်။ "ဒီဆယ့်နှစ်ရက်အတွင်းမှာ ကျုပ်တို့ အစား နပ်မှန်အောင် စားခဲ့ကြရတယ်၊ အလုပ်လုပ်ရတော့ လုပ်ခ ရတယ်၊ လုပ်ခ ရတော့ မှန်မှန် စားရတာပေါ့ဗျာ" သူသည် အစားကို ပါးစပ်တွင်းသို့ ထပ်သွင်းလိုက်ပြန်သည်။ သူတို့အားလုံး ကော်ဖီ ပူပူကို ဖူးဖူးမှုတ်၍ သောက်ကြသည်။ ကုန်သွားသည့် အခါတွင် ထပ်၍ ဖြည့်ကြသည်။

အခုဆိုလျှင် ဖျော့တော့တော့ အလင်းရောင်ထဲ၌ အနီရောင် သန်းစ ပြုလေပြီ။ အဖေနှင့် သားတို့သည် အစား ရပ်သွားကြပြီ ဖြစ်၏။ သူတို့သည် အရှေ့ဘက်ကို မျက်နှာပြု၍ ထိုင်လျက် ရှိကြသည်။ သူတို့ မျက်နှာများသည် အရုဏ်၏ အလင်းရောင်ဖြင့် ကြည်လင် ဝင်းလက်နေကြလေသည်။ တောင်၏ အရိပ်နှင့် ထိုတောင်ပေါ်မှ ကျော်ဖြတ်လာနေသော အလင်းရောင်သည် သူတို့ မျက်လုံးများအတွင်း၌ ပြန်ဟပ်လျက်

ရှိ၏။ ထို့နောက် သူတို့ သုံးယောက်သည် ကော်ဖီခွက်များထဲမှ ကော်ဖီအကျန်များကို မြေကြီးပေါ်သို့ သွန်ချလိုက်ပြီး မတ်တတ်ရပ်လိုက်ကြလေ၏။

"တို့မှာ လုပ်စရာ ရှိသေးတယ်၊ သွားပြီး လုပ်ကိုင်ကြဦးစို့ရဲ့" ဟု ဖအေက ပြောသည်။

လူငယ်က တွမ်အား လှမ်းကြည့်သည်။ "ကျုပ်တို့ ပိုက်လုံးတွေ ချနေကြတယ်၊ တကယ်လို့ ခင်ဗျား လိုက်ကြည့်ချင်တယ်ဆိုရင် လိုက်ခဲ့ပါလား"

တွမ်က ပြန်ပြောသည်။ "သိပ်ကောင်းတာပေါ့၊ မနက်စာအတွက်လည်း ခင်ဗျားတို့ကို ကျုပ် သိပ်ကျေးဇူးတင်ပါတယ်"

"ကျွေးခွင့်ရတာကိုပဲ တို့က ဝမ်းသာလှပါတယ်ကွာ" ဟု လူကြီးက ပြောသည်။ "တကယ်လို့ မင်း လုပ်ချင်တယ် ဆိုရင်တော့ အလုပ်ရအောင်လည်း တို့က ကူညီပေးပါ့မယ်"

"ဟာ ရမယ်ဆိုရင် လုပ်ချင်တာပေါ့ဗျာ" ဟု တွမ်က အားတက်သရော ပြောသည်။ "ခဏတော့ စောင့်ပါဦး၊ ကျုပ် မိသားစုကို ပြောခဲ့ပါရစေဦး" သူသည် ဂျုတ်မိသားစုထံသို့ အပြေးအလွှား ပြန်သည်။ ရွက်ထည်တဲတံခါးကို လှပ်၍ အတွင်းသို့ ငုံ့ကြည့်သည်။ ခပ်မှောင်မှောင် ဖြစ်နေသော တဲအတွင်းဝယ် အတုံးအရုံး အိပ်မောကျနေသူများ။ သို့သော်လည်း ထိုလူစုထဲမှ အိပ်ရာခင်းများ ခြုံ၍ အိပ်နေသော လူတစ်ယောက်သည် လှုပ်ရှားလာသည်။ တခြားလူ မဟုတ်။ ရှသီ။ ရှသီသည် မြွေတစ်ကောင်သဖွယ် တွန့်လိမ်ကောက်ကွေးပြီး အိပ်ရာမှ ထထိုင်သည်။ သူ့ခေါင်းမှ ဆံစများသည် ရှေ့သို့ ငိုက်ကျကာ မျက်နှာတစ်ခုလုံးကို ဖုံးအုပ်လျက် ရှိသည်။ သူ့အဝတ်အစားများမှာ တွန့်လိမ်ကြေမွလျက် ရှိလေသည်။ သူသည် အိပ်နေသူများကြားမှ အသာတွား၍ ထွက်လာပြီး မတ်တတ်ရပ်လိုက်သည်။ သူ၏ အညိုရောင် မျက်လုံးအစုံသည် အိပ်ရေးဝထားသဖြင့် ကြည်လင် တောက်ပလျက် ရှိသည်။ နောက်တောက်တောက် ပြောင်စပ်စပ် အမူအရာမျိုးကို လုံးဝ မတွေ့ရ။ တွမ်က သူ့ကို မျက်ရိပ်မျက်ခြည်ပြ၍ အပြင်သို့ ထွက်လာရန် ခေါ်သည်။

"အင်း နင်လည်း မငယ်တော့ပါလား ရှသီရယ်" တွမ်က သူ့အား မော့ကြည့်နေသည့် နှမငယ်၏ မျက်နှာကို ကြည့်၍ အမှတ်မထင် ရေရွတ်သည်။

ရုတ်တရက် ရက်စိတ်ဝင်သွားသော ရှုသီသည် တွမ်ကို မော့ကြည့်နေရာမှ မျက်လွှာကို တစ်ဖက်သို့ လွှဲထားလိုက်သည်။ "ငါ ပြောတာ နားထောင်စမ်း" ဟု တွမ်က ပြောသည်။ "ဘယ်သူ့ကိုမှတော့ သွားပြီး မနိုးနဲ့နော်၊ ဒါပေမဲ့ သူတို့ နိုးလာရင်တော့ အလုပ်တစ်ခု ရနိုင်တဲ့ အခွင့်အရေးပေါ်လာလို့ ငါ အပြင်သွားတယ်လို့ ပြောပြ၊ အမေ့ကိုလည်း ပြောပြလိုက် တဲနီးနားချင်း မိတ်ဆွေ တချို့နဲ့ ငါ မနက်စာ စားပြီးပြီလို့၊ ငါပြောတာ ကြားရဲ့လား ဟင်"

ရှုသီက ခေါင်းညိတ်သည်။ မျက်နှာကတော့ လွှဲဌားဆဲ။ သူ့မျက်လုံးများသည် ပကတိ ဘာကိုမှ နားမလည်သော ကလေးငယ် တစ်ဦး၏ မျက်လုံးများ ဖြစ်ချေသည်။ "အိပ်နေတဲ့ လူတွေကို သွားမနိုးနဲ့နော်" ဟု တွမ်က ထပ်၍ သတိပေးသည်။ သူသည် မိတ်ဆွေသစ်များ ရှိရာသို့ လျင်မြန်စွာ ပြန်လာခဲ့၏။ ရှုသီသည် သန့်ရှင်းရေးအုပ်စု အဆောက်အအုံ အနီးသို့ ကပ်သွားပြီး အတွင်းသို့ ချောင်းကြည့်နေသည်။

မိတ်ဆွေနှစ်ယောက်သည် တွမ်အား စောင့်မျှော်လျက် ရှိကြလေသည်။ မိန်းမငယ်ကတော့ တဲအတွင်းမှ မွေ့ရာတစ်ခုကို ဆွဲထုတ်လာပြီး ကလေးကို ချထားလိုက်၏။ ပြီးတော့ ပန်းကန်များကို ဆေးနေသည်။

"ကျုပ် မိသားစုကို ကျုပ် ဘယ်သွားတယ်ဆိုတာ မှာခဲ့ချင်လို့ ပြန်ပြေးတာ၊ သူတို့ မနိုးကြသေးဘူး" ဟု တွမ်က ပြောသည်။ သုံးယောက်သား တဲနှစ်တန်းကြားရှိ လမ်းအတိုင်း လျှောက်လာခဲ့ကြလေ၏။

စခန်းတစ်ခုလုံးမှာ အသက်ဝင် လှုပ်ရှားလျက် ရှိနေလေပြီ။ မီးဖိုအသစ်များသည် အလျှို အလျှို ပေါ်လာကြသည်။ ထိုမီးဖိုများ အနီးတွင် မိန်းမများသည် အလုပ်ရှုပ်လျက် ရှိကြ၏။ အသားလှီးသူ လှီး။ ပေါင်မုန့်ဖုတ်ဖို့အတွက် ဂျုံမှုန့်နယ်သူနယ်။ ယောကျ်ားများကတော့ တဲပတ်ဝန်းကျင်ကို ကြည့်သူက ကြည့်နေသည်။ တချို့ကတော့ သူတို့ ကားများကို စစ်ဆေးနေကြသည်။ မိုးကောင်းကင်သည် နှင်းဆီရောင် ပြေးလျက် ရှိလေပြီ။ ရုံးအဆောက်အအုံ ရှေ့တွင်မှ ပိန်ပိန်ပါးပါး အဘိုးအိုတစ်ယောက်သည် ထွန်ခြစ်တစ်ချောင်းနှင့် အမှိုက်သရိုက်များကို စုလျက် ရှိ၏။ ထွန်ခြစ်ကို အားစိုက်ပြီး ဆွဲဆွဲသွားသော အရှိန်ကြောင့် ထွန်ခြစ်များသည် မြေပေါ်တွင် ထင်းထင်းကြီး ပေါ်လာလျက် ရှိလေသည်။

"ကနေ့ထွက်လာတာ သိပ်စောတယ် အဖေရ" လူငယ်က သူ့အဖေအား လှမ်းပြောသည်။

"အေး ဟုတ်တယ်၊ ဒါပေမဲ့ အလုပ်ကြွေးက ဆပ်စရာရှိနေတာကိုးကွ"

"ဘာ အလုပ်ကြွေးလဲ၊ အလကား" ဟု လူငယ်က ရေရွတ်သည်။ "ပြီးခဲ့တဲ့ အပတ် စနေနေ့ညက သူ မူးတယ်လေ၊ တဲထဲမှာ တစ်ညလုံး သီချင်းထိုင်ဆိုနေတယ်၊ ဒါကြောင့် ကော်မတီက အပြစ်ပေးတဲ့အနေနဲ့ လုပ် ပိုလုပ်ခိုင်းထားတယ်" သူတို့သည် ပြောင်လက် နေသော ကားလမ်းမကြီး၏ ဘေးအတိုင်း လျှောက်သွားကြသည်။ လမ်းဘေးတစ်လျှောက်တွင် သစ်ချပင်များသည် အစီအရီတန်းလျက် ရှိကြ၏။ နေရောင်ခြည်သည် တောင်တန်းများထက်သို့ အရှိန်ပြင်းစွာဖြင့် ကျရောက်စ ပြုလေပြီ။

တွမ်က ပြောသည်။ "အဖြစ်က ရယ်စရာ ကောင်းနေသလိုပဲ၊ ကျုပ် ခင်ဗျားတို့ ကျွေးတဲ့အစာကို အစားပြီးနေပြီ၊ အခုထက်ထိ ကျုပ် နာမည်ကို မပြောရသေးဘူး၊ ခင်ဗျားတို့ကလည်း ခင်ဗျားတို့ နာမည်ကို မပြောကြသေးဘူး၊ ကျုပ် နာမည်က တွမ်ဂျုတ်"

လူကြီးက တွမ်ကို ကြည့်၍ ပြုံးသည်။ "မင်း ဒီဘက်ရောက်တာ မကြာသေးဘူးနော်"

"မကြာသေးဘူး၊ နှစ်ရက်လောက်ပဲ ရှိသေးတယ်"

"အေးပါ၊ ငါသိပါတယ်၊ တစ်ယောက်နဲ့ တစ်ယောက် တွေ့ရင် နာမည် မပြောဘဲ နေတဲ့ အလေ့အထ ခေတ်စားနေတာ ကြာပြီကွ၊ ထားပါတော့လေ၊ ငါ့နာမည်က တီမိုသီဝေါလေ့စ်၊ ဟောဒီ ငါ့သားက ဝစ်လ်ကီ"

"တွေ့ရတာ ဂုဏ်ယူပါတယ်ဗျာ" ဟု တွမ်က ဆိုသည်။ "ခင်ဗျားတို့ကတော့ ဒီဘက်ရောက်နေတာ ကြာလှရောပေါ့"

"ဆယ်လ" ဟု ဝစ်လ်ကီက ပြောသည်။ "ကျုပ်တို့ ဒီရောက်စ မနှစ်ကပေါ့၊ ရေကြီးတဲ့ ဘေးနဲ့လည်း ကြုံခဲ့ရတယ်၊ ကျုပ်တို့ ဘဝက မမေ့နိုင်လောက်တဲ့ အချိန် တစ်ချိန်နဲ့လည်း ကြုံခဲ့ရတယ်၊ အစာငတ်ပြီး သေရတော့မယ့် အခြေအနေကို ရောက်သွားတဲ့ အချိန်ပေါ့ဗျာ" သူတို့၏ ဖိနပ်ခွများနှင့် ပြောင်လက်နေသော

လမ်းမမျက်နှာပြင် ထိတွေ့သံများသည် တဂေါက်ဂေါက် ထွက်ပေါ်လာလျက် ရှိသည်။ လူအပြည့် တင်လာသော ထရပ်ကားတစ်စီးသည် သူတို့ဘေးမှ ဖြတ်သွားလေသည်။ ကားပေါ်ရှိ လူများသည် တစ်ယောက်နှင့် တစ်ယောက် စကားမပြောကြ။ ကိုယ့်အတွေးနှင့်ကိုယ် ငြိမ်ဆိတ်စွာ လိုက်ပါလာကြ၏။

"ခါတ်ငွေ့ ကုမ္ပဏီကို သွားကြတာ" ဟု တီမိုသီက လှမ်းပြောသည်။ "သူတို့အားလုံး အလုပ်ကောင်းကို ရထားကြတာ"

"ကျုပ်တို့ ထရပ်ကားနဲ့ လာရင် ရတယ်" ဟု တွမ်က ဆိုသည်။

"မလိုပါဘူး" တီမိုသီက သူ့ရှေ့မှ သစ်ချကိုင်းတစ်ကိုင်းကို ကုန်း၍ ကောက်လိုက်ပြီး လက်နှင့် ကွေးကြည့်သည်။ ထို့နောက် လမ်းဘေးဝင်းခြံ သံဆူးကြိုးပေါ်၌ နားနေသော ငှက်မည်းတစ်ကောင်ကို ချိန်၍ ပေါက်လိုက်၏။ ငှက် ထပျံသွားပြီး ချက်ချင်းပင် သံဆူးကြိုးပေါ်၌ ပြန်နားကာ အတောင်များကို နှုတ်သီးဖြင့် ထိုးလိုက် ဆိတ်လိုက် ပွတ်သပ်လိုက် လုပ်လျက် ရှိလေသည်။

တွမ်က သားဖနှစ်ယောက်ကို တစ်ချက်မျှ လှည့်ကြည့်ပြီး မေးသည်။ "ခင်ဗျားတို့မှာ ကားပိုင် မရှိဘူးလား"

သားဖနှစ်ယောက်စလုံး ငြိမ်နေကြသည်။ တွမ်က သူတို့မျက်နှာများကို ကြည့်သည်။ နှစ်ဦးစလုံး ရှက်နေကြပုံရ၏။

"ကျုပ်တို့ အလုပ် သွားလုပ်နေရတဲ့ နေရာ က တစ်မိုင်ပဲ ဝေးတာ၊ ကားမလိုပါဘူး" ဟု ဝစ်လ်ကီက ပြောသည်။

တီမိုသီက ဒေါသတကြီး ဝင်ဖြေသည်။ "မရှိဘူး၊ ငါတို့မှာ ကားလုံးဝမရှိဘူး၊ တို့ကားကို ရောင်းပစ်လိုက်ပြီ၊ မရောင်းမဖြစ်လို့ ရောင်းရတာ၊ စားစရာလည်း မရှိ၊ ဝတ်စရာလည်း မရှိ၊ ဘာဆို ဘာမှ မရှိတော့ဘူး၊ အလုပ်ကလည်း မရှိဘူး၊ ဟိုက ဒီက လူတွေကလည်း အပတ်တိုင်း ရောက်ရောက်လာပြီး ကားဝယ်ကြတယ်၊ မင်း ဝမ်းမှ မဝရင် ကားလည်း ရောင်းရမှာပဲ၊ ဝယ်တဲ့ ကောင်တွေကလည်း ဒါမျိုး လိုက်ရှာနေတာ၊ မင်း ငတ်နေမှန်း သိလေလေ တန်ရာတန်ကြေး မပေးလေလေပဲ၊ တန်ဈေးရဲ့ တစ်ဝက်တောင်

မပေးဘူး၊ တို့ကလည်း အဲဒီတုန်းက စားစရာ ဘာမှမရှိဘူး၊ သူတို့ပေးတဲ့ ဆယ်ဒေါ်လာနဲ့ပဲ ရောင်းလိုက်ရတာ" သူသည် စကားကို အဆုံးသတ်လိုက်ပြီး လမ်းမပေါ်သို့ တံတွေးတစ်ချက် ထွီခနဲ ထွေးလိုက်လေသည်။

ဝစ်လ်ကီက လေအေးကလေးနှင့် ဝင်ပြောသည်။ "ပြီးခဲ့တဲ့အပတ်က ကျုပ် ဘေးကားစ်ဖီးလ်မြို့ကို ရောက်ခဲ့တယ်၊ ကျုပ်တို့ကားကို ကားအဟောင်းများ အရောင်းဌာန တစ်ခုမှာ ထိုးထားတာ တွေ့ခဲ့ရတယ်၊ ရောင်းဈေး ခုနစ်ဆယ့်ငါးဒေါ်လာလို့ ရေးထားတဲ့ ဆိုင်းဘုတ် ကပ်ထားတယ်"

"မရောင်းလို့မှ မဖြစ်တာ၊ ရောင်းခဲ့ရတာပေါ့၊ ဘယ်တတ်နိုင်မလဲ" ဟု တီမိုသီက ပြောသည်။ "အခြေအနေက ငါတို့ကားကို သူတို့က ခိုးသွားတဲ့ သဘောပဲ၊ ငါတို့ကတော့ အခုအချိန်အထိ ဘယ်သူ့ဆီကမှ ဘာမှ မခိုးသေးဘူး၊ ဒါပေမဲ့ကွာ ငါတို့လည်း ခိုးစားရတော့မလို ဖြစ်ခဲ့ဖူးတာပဲ"

"ခင်ဗျားလည်း သိကြမှာပေါ့" ဟု တွမ်က ပြောသည်။ "ကျုပ်တို့အရပ်က ထွက်မလာခင်က ဒီအရပ်မှာ အလုပ်အကိုင် သိပ်ပေါတယ်လို့ ကြားခဲ့ရတာ၊ လူတွေ အများကြီး လိုနေလို့ လာကြဖို့ ခေါ်တဲ့ လက်ကမ်း ကြော်ငြာတွေဆိုတာ ပလူပျံနေတာပဲ"

"ဟုတ်တယ်" ဟု တီမိုသီက ပြန်ပြောသည်။ "ငါတို့လည်း ဖတ်ခဲ့ရတယ်၊ တကယ် လက်တွေ့ကျတော့ အလုပ်လည်း များများစားစား ရှိတာ မဟုတ်ဘူး၊ ပေးတဲ့ လုပ်ခကျတော့လည်း နည်းနည်းလေးရယ်၊ အချိန်ရှိသမျှ ရတဲ့ လုပ်ခနဲ့ မသေအောင် ဘယ်လို စားရမလဲဆိုတာ တွက်နေရတာနဲ့ပဲ ခေါင်းကို မူးနောက်နေတာပဲ"

"အခုတော့ ခင်ဗျားတို့မှာ အလုပ်ရနေပြီပဲ"

"ဟုတ်တော့ ဟုတ်တယ်၊ ဒါပေမဲ့ ကြာမယ်တော့ မထင်ဘူး၊ အလုပ်ကလေးလည်းရှိ၊ နေစရာ ထိုင်စရာလည်းရှိ ဆိုရင် လူတစ်ယောက်ရဲ့ ဘဝဟာ အဆင်ပြေတာပဲ၊ ဒါပေမဲ့ ဘယ်တော့မှ ကြာကြာမခံတာက ခက်တယ်"

"ဒါနဲ့များဗျာ၊ ကျုပ်ကို ဘာပြုလို့ အလုပ်သွင်းပေးဖို့ ပြောနေရတာလဲ၊ တကယ်လို့ ကျုပ် ဝင်လုပ်ရင် ခင်ဗျားတို့ရဲ့ အလုပ်ချိန်ဟာ နည်းသွားမယ်၊ အလုပ်ချိန် နာရီ

နည်းသွားရင် ခင်ဗျားတို့မှာ လုပ်ခအရ နည်းသွားမှာပေါ့၊ ဘာကြောင့်များ ကိုယ့်လည်ပင်းကိုယ် ဓားနဲ့ လှီးသလို အလုပ်မျိုး လုပ်ချင်နေကြရတာလဲ ”

တီမိုသီက ခေါင်းကို ဖြည်းညင်းစွာ ယမ်းသည်။ “မပြောတတ်ပါဘူးကွာ၊ အသိဉာဏ် မရှိတော့လို့နဲ့ တူပါတယ်၊ တို့က တို့သုံးယောက်စလုံး ဦးထုပ် တစ်ယောက် တစ်လုံး ရဖို့ပဲ စဉ်းစားနေကြတာကိုး၊ တကယ်တော့ လုပ်လို့ မဖြစ်နိုင်တဲ့ ကိစ္စလို့ပဲ ငါ ထင်တယ်၊ တို့အလုပ် လုပ်နေတဲ့ နေရာရဲ့ ညာဘက်မှာ နေရာတစ်နေရာ ရှိသေးတယ်၊ အလုပ်ကလည်း ကောင်းတယ်၊ တစ်နာရီကို ဆင့်သုံးဆယ် ရတယ်”

သူတို့သည် အဝေးပြေး ကားလမ်းမကြီးပေါ်မှ ဆင်းကာ ကျောက်စရစ်ခင်း လမ်းမတစ်ခုအတိုင်း လျှောက်သွားပြီး ဥယျာဉ်ခြံမြေတစ်ခု အတွင်းသို့ ဝင်ရောက်လာခဲ့ကြသည်။ သစ်ပင်များ၏ နောက်ကွယ်ရှိ အဖြူရောင် လယ်သမား အိမ်တစ်အိမ်ရှေ့သို့ ရောက်လာကြသည်။ အိမ်ဘေးပတ်လည်တွင် အိမ်ကို အကာအကွယ်သဖွယ် ဖြစ်နေသော သစ်ပင်ကြီးတချို့နှင့် ဂိုဒေါင် တစ်လုံး။ ဂိုဒေါင် နောက်တွင်မူ စပျစ်ခြံ တစ်ခြံနှင့် ဝါခင်း တစ်ခင်း။ လူသုံးယောက် အိမ်ရှေ့မှ ဖြတ်အသွားတွင် အိမ်တံခါးသည် ဝုန်းခနဲ ပွင့်သွားပြီး တုတ်တုတ်ခိုင်ခိုင်နှင့် နေလောင်ဒဏ် ခံထားရသော လူတစ်ယောက်သည် နောက်ဖေး လှေကားမှ ဆင်းလာသည်။ သူသည် ဂျပ်စက္ကူ အထူစားဖြင့် လုပ်သော နေကာခမောက် ဦးထုပ်ဆောင်းထားသည်။ ခြံထဲမှ ဖြတ်လျှောက်လာနေခိုက်တွင် သူသည် အင်္ကျီလက်မောင်း နစ်ဖက်ကို ခေါက်တင်လျက် ရှိသည်။ နေလောင်ဒဏ် ခံရဖန်များသဖြင့် သူ့မျက်လုံးများသည် ခပ်မှေးမှေးဖြစ်ကာ မျက်ခုံးနစ်ဖက်သည် ကုတ်ကျလျက် ရှိသည်။ သူ့ပါးစပ်နစ်ဖက်မှာလည်း နေလောင်ဒဏ်ကြောင့် အမဲသား တစ်တုံးသဖွယ် ရဲတွတ်လျက် ရှိလေသည်။

“မင်္ဂလာ နံနက်ပါ မစ္စတာ သောမတ်စ် ” ဟု တီမိုသီက နှုတ်ဆက်သည်။

“မင်္ဂလာ နံနက်ပဲ” ထိုလူက စိတ်မရှည်သဖြင့် ဆောင့်ကြီး အောင့်ကြီး ပြန်နှုတ်ဆက် လေသည်။

“ဟောဒီဟာ တွမ်ဂျုတ်ပါ၊ သူ့ကို အလုပ်ကလေး တစ်ခုလောက်များ မပေးနိုင်ဘူးလား” ဟု တီမိုသီက မေးသည်။

သောမတ်စ်က တွမ်အား မျက်မှောင်တစ်ချက် ကုတ်၍ ကြည့်သည်။ ထို့နောက် ဟက်ခနဲ တစ်ချက် ရယ်လိုက်သည်။ မျက်မှောင်ကတော့ ကုတ်ထားဆဲ။ "အို ရမယ်၊ သိပ်ရတာပေါ့။ ငါက သူ့ကို အလုပ်ပေးမယ်၊ လူတိုင်းကို အလုပ်ပေးမယ်၊ ဒီလိုနဲ့ပဲ ငါ့မှာ အလုပ်သမား တစ်ရာလောက် ဖြစ်ချင် ဖြစ်လာလိမ့်မယ် "

"ကျုပ်တို့ကတော့ ရများ ရနိုင်မလားလို့ စုံစမ်းကြည့်တဲ့ သဘောလောက်.." တီမိုသီက တောင်းပန်သံဖြင့် ဆိုသည်။

တီမိုသီ စကားဆက်မပြောမီ သောမတ်စ်က ကြားဖြတ် ပြောသည်။ "ငါကလည်း ပေးများ ပေးနိုင်မလားလို့ စဉ်းစားကြည့်တဲ့သဘောပဲဟေ့ " သူသည် နောက်သို့ ပြန်လှည့်ရပ်ကာ လူသုံးဦးနှင့် မျက်နှာချင်းဆိုင်လိုက်သည်။ "အေး ငါ့အနေနဲ့ မင်းတို့ကို ပြောစရာ တစ်ခုတော့ ရှိတယ်၊ ငါ အခု မင်းတို့ကို ပေးထားတာ တစ်နာရီ ဆင့်သုံးဆယ်နော်၊ ဟုတ်ရဲ့ မဟုတ်လား "

"ဟုတ်ပါတယ်ဗျ၊ ဘာဖြစ်လို့လဲ၊ ဒါက ဒီလိုလေ၊ ဒါပေမဲ့ မစ္စတာသောမတ်စ်ရယ် "

"အဲဒီတော့ကော ငါက ဆင့်သုံးဆယ်တန် လုပ်အားတော့ ရနေတာပေါ့ကွာ၊ ဟုတ်ဖူးလား " သူသည် ကြီးမား တုတ်ခိုင်သော သူ့လက်မောင်းများကို ပိုက်၍ ဝမ်းဗိုက်တွင် ကပ်ထားလိုက်သည်။

"ကျုပ်တို့ကလည်း တစ်နေ့တစ်နေ့ အလုပ်ကို ကောင်းကောင်း လုပ်ပေး နေတာပါပဲဗျာ "

"သောက်သုံးမကျတဲ့ စကားတွေကို အသာထားလိုက်စမ်းပါ၊ ကနေ့ မနက်ကစပြီး မင်းတို့ တစ်နာရီကို နှစ်ဆယ့်ငါးဆင့်နှုန်းပဲ ရတော့မယ်၊ သိလား၊ အဲဒါ ငါ ပြောမလို့၊ ကြိုက်ရင်လည်း လုပ်၊ မကြိုက်ရင်လည်း ကွကြပေတော့ " ရဲတွတ်နေသော သူ့မျက်နှာသည် ဒေါသအရှိန်ဖြင့် တိုး၍ နီရဲလာသည်။

"ကျုပ်တို့ကလည်း ပေးထားတာနဲ့ တန်အောင် လုပ်ပေးနေတာပါပဲဗျာ၊ ခင်ဗျား ကိုယ်တိုင်ပဲ စောစောက ဝန်ခံထားတာပဲ"

"ငါ သိတယ်လေ၊ ဒါပေမဲ့ အခြေအနေက ငါ့အလုပ်သမားကိုတောင် ငါ့ဟာငါ ပေးချင်သလောက်ပေးပြီး မငှားနိုင်တော့သလို ဖြစ်နေပြီကွ" သူသည် တံတွေးတစ်ချက် မျိုလိုက်သည်။ "ကဲ နားထောင်ကွာ၊ ငါ ပြောပြမယ်" ဟု စကားကို ဆက်သည်။ "ငါက မြေကေပေါင်း ခြောက်ဆယ့်နဲ့ ငါးဧက ပိုင်တယ်၊ မင်းတို့ တောင်သူလယ်သမားများ အသင်းချုပ်ကြီး ဆိုတာ ကြားဖူးကြတယ် မဟုတ်လား"

"ကြားဖူးတယ်၊ အဲဒါ ဘာဖြစ်သလဲ"

"အေး ဟုတ်ပြီ၊ ကြားဖူးရင် မှတ်ထားကြ၊ ငါ့ကို အဲဒီအသင်းချုပ်ကြီးက ပိုင်တယ်၊ မနေ့ညက ငါတို့ အစည်းအဝေး လုပ်ကြတယ်ကွ၊ ကဲပါလေ အခုတစ်ခါတည်း မင်းတို့ နားလည်သွားအောင် ငါ ရှင်းပြလိုက်မယ်၊ အဲဒီ တောင်သူလယ်သမား အသင်းချုပ်ကြီးကို ဘယ်သူက ဦးစီးဦးဆောင် လုပ်နေတယ်ဆိုတာ မင်းတို့ သိကြရဲ့လား၊ ဒီမှာ ငါပြောပြမယ်၊ အနောက်ပိုင်းဒေသမှာ ရှိနေတဲ့ ဘဏ်က လုပ်နေတာကွ၊ ဒီတောင်ကြား လွင်ပြင်မှာ ရှိနေသမျှ မြေယာအားလုံးနီးပါးကို အဲဒီ ဘဏ်က ပိုင်တယ်၊ သူက သူကိုယ်တိုင် မပိုင်တဲ့ ပစ္စည်းမှန်သမျှကိုလည်း စက္ကူတွေပေါ်မှာ စာရင်းတို့ပြီး မှတ်သားထားတာ၊ မနေ့ညက ဘဏ်ကိုယ်စားလှယ်က ငါ့ကို ပြောသွားတယ်၊ ခင်ဗျားက တစ်နာရီကို ဆင့်သုံးဆယ်နှုန်း လုပ်ခ ပေးနေတယ်၊ အဲဒါ များတယ်၊ နှစ်ဆယ့်ငါးဆင့်ပဲ ပေးပါတဲ့၊ ငါက ပြန်ပြောတယ်၊ ကျုပ် ရထားတဲ့ လူတွေက လူကောင်းတွေ၊ ဆင့်သုံးဆယ်တန်လို့ ပေးတာလို့၊ အဲဒီတော့ သူက ပြန်ပြောတယ်၊ တန်တာ မတန်တာကို ပြောနေတာ မဟုတ်ဘူးတဲ့၊ အခု လောလောဆယ် တည်နေတဲ့ လုပ်ခနှုန်းဟာ နှစ်ဆယ့်ငါးဆင့်နှုန်းတဲ့၊ တကယ်လို့ ခင်ဗျားက ဆင့်သုံးဆယ် ဆက်ပေးနေရင် နှစ်ဆယ့်ငါးဆင့်နှုန်း ရနေတဲ့ အလုပ်သမားတွေကို မငြိမ်မသက် ဖြစ်အောင် လှုံ့ဆော်ပေးနေသလို ဖြစ်နေလိမ့်မယ်၊ ပြီးတော့လည်း ရှေ့နှစ်ကျရင် ခင်ဗျား ဈေးရမယ့် စိုက်ပျိုးစရိတ် ချေးငွေဟာ တခြားလူတွေထက် ပိုပြီး များများ လိုလာလိမ့်မယ်တဲ့" သောမတ်စ်က စကားကို ဖြတ်ထားလိုက်သည်။ စကားများများ ပြောလိုက်ရသဖြင့် အသက်ရှူပင် မှားနေလိုက်သေးသည်။ "အဲ.. အဲဒီတော့ မင်းတို့ သိကြတဲ့အတိုင်းပဲ၊ လုပ်ခနှုန်းက နှစ်ဆယ့်ငါးဆင့်နှုန်း ဖြစ်နေပြီ"

"ကျုပ်တို့က ကောင်းကောင်း လုပ်ပေးနေတာပဲဗျာ" တီမိုသီက ကြံရာမရ ဖြစ်သွားသည့်နှယ် မျက်နှာငယ်ငယ်ဖြင့် ပြောသည်။

"တယ်ခက်ပါလား၊ မင်းတို့ ငါပြောတာ အခုထက်ထိ သဘောမပေါက်ကြသေးဘူးလား၊ မစ္စတာဘဏ်က အလုပ်သမား နှစ်ထောင် ငှားထားတယ်၊ ငါက သုံးယောက်ပဲ ငှားထားတာ၊ ပြီးတော့ ငါ့မှာက သူတို့နဲ့ ရှင်းရလင်းရမယ့် စက္ကူလုပ်ငန်းတွေက အများကြီး၊ ကဲပါလေ တကယ်လို့ ငါ့အနေနဲ့ ထွက်ပေါက်ရနိုင်မယ့် နည်းလမ်းရှိရင် မင်းတို့က ရှာပေး၊ မင်းတို့ ပြောတဲ့အတိုင်း ငါ လုပ်မယ်၊ သူတို့ကတော့ ငါ့ကို အကျပ်ကိုင်ထားကြပြီ "

တီမိုသီက ခေါင်းခါသည်။ "ကျုပ်ကတော့ ဘာပြောရမှန်းတောင် မသိပါဘူးဗျာ"

"မင်းတို့ ခဏ စောင့်နေကြဦး" သောမတ်စ်က အိမ်ဘက်သို့ ကပျာကယာ ပြန်လျှောက်သွားသည်။ အိမ်တံခါးသည် သူ့နောက်မှ ဂျောင်းခနဲ ပိတ်ကျန်ခဲ့လေသည်။ တစ်ခဏအတွင်းမှာပင် သူ ပြန်ရောက်လာသည်။ သတင်းစာတစ်စောင် လက်ထဲတွင် ကိုင်လျက်..။ "ဒီမှာ မြင်လား၊ ဟောဒီမှာ ငါ ဖတ်ပြမယ်၊ နားထောင်၊ မြို့သူမြို့တော်သားများ ခင်ဗျား၊ ဆူဆူပူပူ ဖြစ်အောင် လှုံ့ဆော်နေကြသော အနီများကို သုတ်သင်ကြပါ၊ ကျူးကျော်နေသော စခန်းများကို မီးနှင့်တိုက်၍ မြေလှန်ပစ်ကြပါ၊ လွန်ခဲ့သော ညက မြို့သူ မြို့သားတစ်စုသည် နယ်မြေအတွင်းရှိ ကျူးကျော်သူများ၏ စခန်းတစ်ခု အတွင်း၌ ပေါ်ပေါက်လာသော ဆူပူ လှုပ်ရှားမှု တစ်ခုကို အကြီးအကျယ် စိတ်ဆိုးပြီး တဲများကို မီးရှို့၍ မြေလှန်ပစ်ကြပြီ ဖြစ်သည်။ ဆူပူအောင် လှုံ့ဆော်သူအားလုံးကိုလည်း ဤခရိုင်မြေအတွင်းမှ အပြီးအပိုင် ထွက်သွားရန် သတိပေးထားလိုက်ပြီ ဖြစ်သည်တဲ့"

တွမ်က စကားဝင်ပြောရန် စသည်။ "ဘယ်လိုလဲ၊ မဟုတ်တာဘဲ၊ ကျုပ်.. "သူသည် စကားကို ဆက်မပြောတော့ဘဲ ပါးစပ်ကို ပိတ်ထားလိုက်ကာ ငြိမ်နေသည်။

သောမတ်စ်သည် သတင်းစာကို ကျကျနန ပြန်ခေါက်ကာ သူ့အင်္ကျီအိတ်ကပ်ထဲသို့ ထည့်လိုက်သည်။ သူသည် စောစောကလို စိတ်လှုပ်ရှားခြင်း မဖြစ်တော့။ တည်တည်ငြိမ်ငြိမ် ပြန်ဖြစ်သွားသည်။ ပြီးတော့ ခပ်အေးအေးပင် ပြောပြသည်။ "အဲဒီလို လုပ်တဲ့ကောင်တွေ အားလုံးဟာ အသင်းချုပ်ကြီးက လွှတ်တဲ့ကောင်တွေကွ၊ အခုတော့ ငါလည်း မတတ်နိုင်တော့ဘူး၊ လက်မြှောက် အရှုံးပေးလိုက်ပြီ၊ အခု ငါ မင်းတို့ကို ပြောပြနေတာတွေများ သူတို့သိသွားရင် သွားပြီ၊ လာမယ့်နှစ်မှာ ငါ လယ်လုပ်စားရတော့မှာ မဟုတ်တော့ဘူး "

"အင်း.. ကျုပ်လည်း ဘာမှ မပြောတတ်ပါဘူးဗျာ" ဟု တီမိုသီက ညည်းသည်။ "တကယ်လို့ပေါ့လေ၊ ဆူဆူပူပူလုပ်သူတွေ ရှိမယ် ဆိုရင်လည်း သူတို့ ဘာကြောင့် အဲသလို လုပ်ကြတယ်ဆိုတာ ကျုပ် သိပါတယ်"

သောမတ်စ်က ပြန်ပြောသည်။ "ငါလည်း အခြေအနေကို စောင့်ကြည့်နေခဲ့တာ ကြာပြီကွ၊ လုပ်ခနှုန်း လျှော့ချလိုက်တဲ့ အခါတိုင်း ဆူပူလှုပ်ရှားတဲ့ လူတွေ ပေါ်လာတာပဲ၊ အခုဆို အမြဲတမ်းလို ဖြစ်နေပါပြီ၊ သောက်သုံးမကျတော့ဘူး ဟေ့၊ သူတို့ကလည်း ငါ့ကို ထောင်ချောက်နဲ့ ပိတ်ဖမ်းသလို ဖမ်းထားတာဆိုတော့ ခက်တယ်၊ ကဲလေ အခု မင်းတို့ ဘယ်လို လုပ်ကြမလဲ၊ နစ်ဆယ့်ငါးဆင့်ပဲ ရမယ်"

တီမိုသီက ခေါင်းငုံ့ထားသည်။ "ကျုပ် လုပ်မယ်" ဟု ပြောသည်။

"ကျုပ်လည်း လုပ်ပါ့မယ်" ဟု ဝစ်လ်ကီက ဆိုသည်။

"ကျုပ် စိတ်ထဲမှာ တစ်ခုခုနဲ့ ထိပ်တိုက်တိုးနေသလို ဖြစ်နေတယ်၊ ဘာပဲဖြစ်ဖြစ်လေ ကျုပ်လည်း လုပ်မယ်၊ အလုပ်က မလုပ်လို့မှ မဖြစ်တာ" ဟု တွမ်ကလည်း ပြောလေသည်။

သောမတ်စ်က ဘောင်းဘီအိတ်ထဲတွင် ထည့်ထားသည့် လည်စည်းပဝါကို ဆွဲထုတ်လိုက်ပြီး သူ့ပါးစပ်နှင့် မေးစေ့ကို သုတ်လိုက်သည်။ "အခုလို ဘယ်လောက် ကြာကြာ နေနိုင်မလဲ ဆုတာ ငါလည်း မသိဘူး၊ မင်းတို့ လူစုတွေလည်း အခု ရနေတဲ့ လုပ်ခကလေးနဲ့ မိသားစုကို ဘယ်လိုလုပ်ပြီး အစာဝအောင် ကျွေးနိုင်ကြမလဲ ဆိုတာလည်း ငါဖြင့် မပြောတတ်တော့ပါဘူးကွာ "

"အလုပ်မှန်မှန် ရှိရင်တော့ ဖြစ်သလို ကျွေးနေလို့ ရပါတယ်" ဟု ဝစ်လ်ကီက ပြောသည်။ "အလုပ် မရှိတော့တဲ့ အချိန်ကျမှသာ ဒုက္ခ ဖြစ်မှာ"

သောမတ်စ်က သူ့လက်ပတ်နာရီကို ကြည့်သည်။ "ကဲဟေ့ အပြင်သွားကြစို့ရဲ့၊ မြောင်း ဆက်တူးကြရလိမ့်ဦးမယ်၊ ဘုရားရေ.. မင်းတို့ကို ငါတစ်ခု ပြောရဦးမယ်၊ မင်းတို့ အခုနေကြတာဟာ အစိုးရစခန်း မဟုတ်လား"

"ဟုတ်ပါတယ်ဗျာ" ဟု တီမိုသီက ဖြေသည်။

"စနေနေ့ညတိုင်း မင်းတို့ စခန်းမှာ ကပွဲ ရှိတယ်ဆို၊ ဟုတ်လား"

ဝစ်လ်က ပြုံးသည် "ရှိတာပေါ့ဗျာ"

"အေး ဒီလိုဆိုရင် အခုလာမယ့် စနေနေ့ညမှာ မင်းတို့ သတိထားကြ"

ရုတ်တရက် တီမိုသီ၏ တစ်ကိုယ်လုံး တောင့်တင်းသွားသည်။ သူသည် သောမတ်စ်၏ အနီးသို့ ကပ်သွားသည်။ "ခင်ဗျား ပြောတဲ့ အဓိပ္ပာယ်က ဘာလဲ၊ ကျုပ်ဟာ စခန်း ဗဟို ကော်မတီ တစ်ယောက်ဗျ၊ ထူးခြားတာ ရှိရင် ကျုပ် သိရမှာပေါ့"

သောမတ်စ်၏ မျက်နှာထားသည် စိုးရိမ်ခြင်း မကင်းသည့် အရိပ်အငွေ့ကို ဖော်ပြလျက် ရှိ၏။ "ငါက ပြောလိုက်တယ်လို့ မင်း ဘယ်သူ့ကိုမှ လျှောက်မပြောရဘူးနော် "

"ဘာလဲဗျ၊ ပြောပါ" တီမိုသီက သူ သိလိုသော အရာကိုသာ ဖွတ်ကပ်မေးသည်။

"ဒီလိုကွ၊ ဟိုအသင်းချုပ်ကြီးက အစိုးရ ကယ်ဆယ်ရေး စခန်းတွေကို သိပ်သဘောမကျဘူး၊ အဲဒီ စခန်းတွေမှာ ပုလိပ်ဝင်မရလို့ မကြိုက်တာ၊ စခန်းမှာနေတဲ့ လူတွေက သူတို့ လိုက်နာရမယ့် စည်းကမ်း ဥပဒေတွေကို သူတို့ဘာသာ သူတို့ စိတ်ကြိုက် အများသဘောတူ လုပ်တယ်လို့ ငါ ကြားရတယ်၊ လူတစ်ယောက်ကို ဖမ်းရင်လည်း ဖမ်းဝရမ်း မပါဘဲ မဖမ်းနိုင်ဘူးတဲ့၊ တကယ်လို့ပေါ့ကွာ၊ စခန်းထဲမှာ အကြီးအကျယ် ဆော်ကြ ချကြရင်.. အိုကွာ.. အချင်းချင်း သေနတ်နဲ့ ပစ်တာ ခတ်တာတွေလည်း ရှိချင် ရှိမှာပေါ့၊ အေး အဲသလို ဖြစ်ရင်တော့ ပုလိပ်တွေ တစ်အုပ်တစ်မကြီး ဝင်လာပြီး စခန်းကို ဖျက်ပစ်လိမ့်မယ်"

တီမိုသီ၏ အပြုအမူသည် ချက်ချင်းပင် ပြောင်းလဲသွားသည်။ သူ့ပခုံးနှစ်ဖက်သည် တည့်တည့်မတ်မတ် ဖြစ်လာသည်။ သူ့မျက်လုံးများသည် အေးစက် တင်းမာလာသည်။ "ခင်ဗျား ဘာကို ဆိုလိုတာလဲ"

"ဒီစကား ဘယ်နေရာ ဘယ်သူ့ဆီက ကြားခဲ့ပါတယ်လို့ ဘယ်သူ့ကိုမှ လျှောက်မပြောနဲ့နော်" သောမတ်စ်က ထပ်၍ သတိပေးပြန်သည်။ "အခု စနေနေ့ညမှာ မင်းတို့ စခန်းထဲမှာ ရန်ပွဲတစ်ခု ဖြစ်လိမ့်မယ်၊ ဖြစ်တာနဲ့ တစ်ပြိုင်နက် ဝင်ရှင်းမယ့် ပုလိပ်တစ်စုက အသင့် စောင့်နေလိမ့်မယ်"

တွမ်က ကြားဖြတ်၍ မေးသည်။ "ဘာကြောင့် သူတို့က ဝင်မှာလဲ၊ စခန်းထဲက လူတွေက ဘယ်သူ့ကိုမှ သွားပြီး စော်ကားမော်ကား လုပ်နေတာမှ မဟုတ်တာ"

"ဘာကြောင့်လဲ ဆိုတာ ငါ ပြောပြမယ်" ဟု သောမတ်စ်က ပြောသည်။ အစိုးရ စခန်းမှာ နေကြတဲ့ လူတွေကျတော့ လူလိုသူလို အဆက်ဆံခံကြရတယ်၊ ကျူးကျော်တဲစခန်းတွေ ရောက်သွားတဲ့ လူတွေကတော့ အလွန် ကိုင်ရတွယ်ရ ခက်တယ်၊ ဒီတော့.. " သူသည် သူ့မျက်နှာကို အဝတ်နှင့် ထပ်သုတ်လိုက်သည်။ "ဟာ ကွာ သွားကြတော့၊ အလုပ် သွားလုပ်ကြတော့၊ ငါ့အနေနဲ့ ဒီစကားတွေ မပြောသင့်ဘူး၊ ဒါပေမဲ့ ငါက မင်းတို့ လူစုကို ခင်တယ်ကွ"

တီမိုသီက သောမတ်စ်၏ ရှေ့သို့ ကပ်သွားပြီး သူ့လက်တစ်ဖက်ကို လှမ်းပေးသည်။ "ဒီကိစ္စ ဘယ်သူက ပြောတယ်ဆိုတာ ဘယ်သူမှ မသိစေရပါဘူး၊ စိတ်ချပါ၊ ခင်ဗျားကို သိပ်ပြီး ကျေးဇူးတင်ပါတယ်ဗျာ၊ စနေနေ့ညမှာလည်း ရန်ပွဲ မဖြစ်စေရပါဘူး"

"အေး အေး ကဲ သွားကြတော့၊ အလုပ် လုပ်ကြတော့" သောမတ်စ်က ပြန်ပြောသည်။ "လုပ်ခတော့ တစ်နာရီ နှစ်ဆယ့်ငါးဆင့်ပဲ ရမှာနော့"

"ကျုပ်တို့ လက်ခံပါတယ်" ဟု ဝစ်လ်ကီက ပြန်ပြောသည်။ "ခင်ဗျားနဲ့ ဆိုရင်ပေ့ါလေ"

သောမတ်စ်က အိမ်ဘက်သို့ ပြန်လျှောက်သွားသည်။ "ငါ အခုပဲ ပြန်လာခဲ့မယ်ပေ့ါ၊ မင်းတို့ လုပ်စရာရှိတာ ဆက်လုပ်ကြ" ဟု အော်ပြောသွားသည်။ အိမ်ရှေ့တံခါးသည် ကျယ်လောင်သော အသံကိုပြုကာ ပြန်ပိတ်သွားလေသည်။

သုံးယောက်သား လယ်ကွက်တစ်ကွက်၏ ဘေးအတိုင်း လျှောက်လာခဲ့ကြသည်။ ဂိုဒေါင်တစ်ခုကို ကျော်ဖြတ်ပြီး ရှည်မျောမျော တူးလက်စ မြောင်းတစ်ခုဆီသို့ ရောက်လာကြ၏။ မြောင်းဘေးတွင်မူ အသင့်ချထားသည့် ကွန်ကရီ ပိုက်လုံးများ။

"ကျုပ်တို့ လုပ်နေတာ ဒီနေရာပဲ" ဟု ဝစ်လ်ကီက ပြောသည်။

ဝစ်လ်ကီ၏ အဖေသည် ဂိုဒေါင်တံခါးကို ဖွင့်၍ အထဲမှ ပေါက်ချွန်း နှစ်ခုနှင့် ဂေါ်ပြားသုံးချောင်းကို ထုတ်ယူလိုက်သည်။ ပြီးတော့ တွမ်ကို လှမ်းပြောသည်။ "ရော့ ဟောဒီမှာ၊ မင်းရဲ့ အလှ ရတနာ ပစ္စည်း"

တွမ်က ပေါက်ချွန်းကို လှမ်းယူသည်။ "တကယ်လို့ ပေါက်ချွန်း မကောင်းရင်တော့ အခက်ပဲ"

"ဆယ့်တစ်နာရီအထိ လုပ်ကြည့်ဦးလေ" ဟု ဝစ်လ်ကီက ပြောသည်။ "ဒီကောင် ဘယ်လောက် ကောင်းတယ်ဆိုတာ အဲဒီကျတော့ သိလာမှာပေါ့"

သူတို့သည် မြောင်းအစွန်း ရောက်သည်အထိ လျှောက်သွားကြသည်။ တွမ်က ခါးမှ ကုတ်အင်္ကျီကို ချွတ်၍ အနီးရှိ မြေကြီးပုံပေါ်သို့ ပစ်ချလိုက်၏။ သူသည် ခေါင်းပေါ်မှ ကက်ဦးထုပ်ကို လှန်တင်လိုက်ပြီး မြောင်းထဲသို့ ဆင်းလိုက်သည်။ ထို့နောက် သူ့လက်ဖဝါး နှစ်ဖက်စလုံးကို တံတွေးဖြင့် ထွေး၍ ဆွတ်လိုက်သည်။ သူ့လက်တွင်းမှ ပေါက်ချွန်းသည် လေထဲသို့ မြောက်တက်သွားသည်။ ပြီးတော့ မြေကြီးပေါ်သို့ ပြန်ကျလာသည်။ သူသည် အသက်ကို မှန်မှန်ရှူလျက် ရှိ၏။ ပေါက်ချွန်းသည် အပေါ်သို့ မြောက်သွားလိုက် ပြန်ကျလာလိုက်။ ပေါက်ချွန်း မြေကြီးထဲသို့ စိုက်ဝင်သွားချိန်တွင် တွမ်၏ အသက်ရှူသံသည် ပြင်းထန်လာတတ်လေသည်။

"အဖေရေ ကျုပ်တို့ကတော့ ပထမတန်းစား မြေတူးသမားတစ်ယောက် ရနေပြီဗျို့" ဟု ဝစ်လ်ကီက ဆိုသည်။

"ကျုပ် ရောက်လာတာ အချိန်ကောင်းပဲ (ဟင်း)၊ ဟုတ်တယ်၊ ကျုပ်က မြေတူးသမားကောင်း တစ်ယောက်ဗျ (ဟင်း)၊ ပေါက်ချွန်းက မဆိုးဘူးဗျို့ (ဟင်း)" သူ့ရှေ့မှ မြေကြီးသည် အစိတ်စိတ် အမြွှာမြွှာ ကွဲလျက် ရှိ၏။ နေရောင်ခြည်သည် ရွှေရောင်တောက်လျက် ရှိကြ၏။ မြောင်းအရှည်သည် ခြောက်ပေရှိလာပြီ။ တွမ်သည် မြောင်းပေါင်ပေါ်တက်၍ နားသည်။ သူသည် နဖူးမှ ချွေးသီးချွေးပေါက်များကို လက်နှင့် သပ်ချလိုက်သည်။ သူ့နောက်၌ ရပ်နေသော ဝစ်လ်ကီက မြောင်းထဲသို့ ဆင်းသည်။ သူ့လက်ထဲမှ ဂေါ်ပြားသည် အပေါ်သို့ တက်လာလိုက် ပြန်ကျသွားလိုက်။ မြောင်းထဲမှ မြေကြီးများသည် အပြင်သို့ ပြန်ထွက်လာပြီး မြောင်းဘေးတစ်နေရာ၌ အစုလိုက် အပုံလိုက် ကျလာလေသည်။

"ဒီစခန်းက ဗဟိုကော်မတီအကြောင်း ကျုပ် ကြားခဲ့ရတယ်" ဟု တွမ်က ပြောသည်။ "ခင်ဗျားက ကော်မတီဝင် တစ်ယောက်ကိုး"

"ဟုတ်တယ်" ဟု တီမိုသီက ပြန်ပြောသည်။ "တာဝန်အရ လုပ်ရတဲ့ အလုပ်ပေါ့လေ၊ အားလုံး လုပ်နေကြတာဟာ ဒီသဘောပါပဲ၊ စခန်းမှာ နေကြတဲ့ လူအားလုံး အကောင်းဆုံးဖြစ်အောင် ကြိုးစားနေကြတာပဲ၊ အကြီးစား လယ်သမားကြီးတွေအနေနဲ့ ငါတို့ကို ဒုက္ခ မပေးကြပါစေနဲ့လို့ ငါကတော့ ဆုတောင်းနေတာပဲ၊ သူတို့ကလည်း လုပ်မယ်တော့ မထင်ပါဘူး"

တွမ်က မြောင်းထဲသို့ ပြန်ဆင်းသည်။ ဝစ်လ်ကီက ဘေးသို့ဖယ်၍ ရပ်လိုက်၏။ တွမ်က စကား ဆက်ပြောပြန်သည်။ "ကပွဲမှာ (ဟင်း) ဖြစ်မယ်ဆိုတဲ့ ရန်ပွဲက ဘယ်လိုလဲ၊ စောစောက (ဟင်း) ဟိုဆရာ ပြောသွားတဲ့ကိစ္စလေ၊ သူတို့က ဘာရည်ရွယ်ချက်နဲ့ လုပ်ကြတာလဲ"

တီမိုသီက ဝစ်လ်ကီနောက်မှ ဝင်ရပ်ကာ လက်ထဲမှ ဂေါ်ပြားကို မှောက်ခုံလှန်၍ မြောင်းထဲမှ မြေကို လိုက်၍ ညှိပေးနေသည်။ "ကြည့်ရတာကတော့ ငါတို့ကို မောင်းထုတ်ချင်လို့ တူတာပဲ" ဟု တီမိုသီက ပြန်ပြောသည်။ "ငါတို့ စည်းစည်းလုံးလုံး ဖြစ်သွားမှာကို သူတို့ ကြောက်တယ်လို့ ငါ ထင်တယ်၊ သူတို့ဘက်ကနေ ကြည့်တော့လည်း မှန်ချင် မှန်မှာပေါ့ကွာ၊ တို့ အခုနေကြတဲ့ စခန်းဟာ အမှန်တော့ အဖွဲ့အစည်း တစ်ရပ်ပဲ၊ လူတွေက သူတို့ကိစ္စ သူတို့ အရေးအခင်းကို သူတို့ဘာသာ ဖြေရှင်းကြတယ်၊ ဒီနယ်မြေထဲက အကောင်းဆုံး ဆိုတဲ့ တေးဂီတအဖွဲ့ကို ရအောင် ငှားတယ်၊ ဖွင့်ထားတဲ့ စတိုးဆိုင်မှာ ဘာပစ္စည်းမဆို ဈေးသက်သက်သာသာနဲ့ ရတယ်၊ တစ်နေ့ ငါးဒေါ်လာလောက်သာ ရနေရင် ဘာမှ ပူစရာ မလိုတော့ဘူး၊ စခန်းမှာ ကောင်းကောင်းစားပြီး ကောင်းကောင်းနေလို့ ရတယ်၊ တရားဥပဒေနဲ့ ပတ်သက်လို့လည်း အရှုပ်အရှင်း ဖြစ်စရာ မရှိဘူး၊ အခြေအနေက အဲဒီလောက် ကောင်းနေတော့ လယ်သမား အကြီးစားတွေက ကြောက်ကြတယ် ထင်ပါရဲ့၊ ငါတို့ကို ထောင်ထဲ ထည့်လို့ကလည်း မရဘူးလေကွာ၊ အဲဒီတော့ ကြောက်ကြတာပေါ့၊ သူတို့ စိတ်ထဲမှာ တကယ်လို့ ငါတို့ဘာသာ ငါတို့ စီမံခန့်ခွဲတတ်နေရင် တစ်နေ့ကျ တခြား အလုပ်တွေကိုပါ ဝင်လုလာလိမ့်မယ်လို့ ထင်နေပုံရတယ်"

တွမ်က သူ ပေါက်ထားသည့် မြေများကို ကော်ပစ်နိုင်ရင် ဘေးသို့ ဖယ်၍ ရပ်လိုက်သည်။ သူ့မျက်လုံးများသည် အတွင်းသို့ စီးဝင်နေသည့် ချွေးများကို လက်ခုံဖြင့် ပွတ်လိုက်၏။ "ဟို မြောက်ဘက် ဘေးကားစ်ဖီးလ်မြို့နားက စခန်းတစ်ခုမှာ ဆူပူမှု ဖြစ်တယ်လို့ဆိုတဲ့ ကိစ္စနဲ့ ပတ်သက်ပြီး သတင်းစာက ဘာတွေ ရေးထားတယ်ဆိုတာ ခင်ဗျားတို့ ကြားလိုက်တယ် မဟုတ်လား"

"ကြားပေါ့ဗျာ" ဟု ဝစ်လ်ကီက ဝင်ပြောသည်။ "သူတို့ကတော့ အချိန်ရှိသမျှ ဒီလိုပဲ ရေးနေတာပဲ"

"ဖြစ်တုန်းက ကျုပ် အဲဒီမှာ ရှိတယ်၊ သူတို့ပြောတဲ့ ဆူပူသူတွေ ဆိုတာ လုံးဝ မရှိဘူး၊ ပြီးတော့ ဘာတဲ့၊ ဟိုဗျာ..၊ သူတို့ ပြောပြောနေတဲ့ အနီကောင်တွေ ဆိုတာလေ၊ အဲဒါတွေက ဘာလဲဗျာ"

တီမိုသီသည် မြောင်းထဲမှ ခပ်မို့မို့ ဖြစ်နေသော မြေများကို လိုက်၍ ညှိနေသည်။ သူ၏ ဖြူဖွေးသော မုတ်ဆိတ်မွေးများသည် နေရောင်အောက်တွင် ပြောင်လက်နေကြလေသည်။ "မင်းလိုပဲ အနီကောင်တွေဆိုတာ ဘာတွေများပါလိမ့်လို့ သိချင်နေတဲ့ လူတွေ အများကြီး ရှိတယ်ကွ" တီမိုသီက သူ့အတွေးနှင့်သူ ရယ်သည်။ "ငါတို့ထဲက လူငယ် တစ်ယောက်ကတော့ သိသွားပြီ" သူသည် ဖို့ထားသည့် မြေများကို ညီသွားအောင် ဂေါ်ပြားနှင့် ရိုက်၍ ညှိပေးနေသည်။ "ဟိုင်းစ် ဆိုတဲ့ လူတစ်ယောက် ရှိတယ်ကွ သိလား၊ သူက မြေဧက သုံးသောင်းလောက် ပိုင်တယ်၊ မက်မွန်ခြံတွေနဲ့ စပျစ်ခြံတွေလည်း ပိုင်တယ်၊ သစ်သီးဘူး စည်သွတ်ရုံနဲ့ ဝိုင်အရက် စည်သွတ်ရုံတွေလည်း ရှိတယ်၊ သူက အချိန်ရှိသမျှ ချွေးမသား အနီကောင်တွေ ဆိုတဲ့စကားကို အမြဲ ပြောလေ့ရှိတယ်၊ ဒီချွေးမသား အနီကောင်တွေဟာ ငါတို့ပြည်နယ်ကို ပျက်စီးအောင် ဖျက်ဆီးနေကြတယ်လို့ သူက ပြောတယ်၊ ပြီးတော့ ငါတို့ပြည်နယ်ထဲ ရောက်နေကြတဲ့ ဒီချွေးမသားတွေကို တစ်ယောက်မကျန် မောင်းထုတ်ပစ်ရမယ်တဲ့၊ တစ်နေ့တော့ ငါတို့ထဲက လူငယ်တစ်ယောက် သူ ပြောတာကို နားထောင်နေရာက သူ့ခေါင်း သူကုတ်ပြီး မစ္စတာဟိုင်းစ် ကျုပ်က ဒီနယ်ကို ရောက်တာ မကြာသေးဘူး၊ အခု ခင်ဗျား ပြောနေတဲ့ ချွေးမသား အနီတွေ ဆိုတာ ဘာကောင်တွေလဲလို့ လှမ်းမေးသတဲ့၊ အဲဒီတော့ မစ္စတာဟိုင်းစ်က အနီကောင် ဆိုတာ ငါတို့ လုပ်ခ နှစ်ဆယ့်ငါးဆင့် ပေးတာ လက်မခံဘဲ တစ်နာရီ ဆင့်သုံးဆယ် ရချင်နေတဲ့ ချွေးမသားမှန်သမျှကို ခေါ်တာပေါ့ကွလို့ ဖြေတယ်။

သူ့စကားကြားတော့ ဟိုကောင်က တွေးတာပေါ့ကွာ၊ တွေးရင်းတွေးရင်းနဲ့ ခေါင်းရှုပ်လာတော့ သူ့ခေါင်းသူ ဖျစ်ဖျစ်မြည်အောင် ကုတ်ပြီး ခင်ဗျား ပြောသလို ဆိုရင်တော့ ဘုရားသခင်ကို တိုင်တည်ရတော့မလို ဖြစ်နေပြီ မစ္စတာဟိုင်းစ်၊ ကျုပ်ဟာ ခွေးမသား တစ်ကောင်တော့ မဟုတ်ဘူး၊ ဒါပေမဲ့ ခင်ဗျား အခု ပြောတဲ့အတိုင်းသာ ဆိုရင်တော့ ကျုပ်လည်း အနီကောင် ဖြစ်သွားပြီ၊ ဘာကြောင့်လည်း ဆိုတော့ ကျုပ်လည်းပဲ တစ်နာရီ ဆင့်သုံးဆယ် လိုချင်တဲ့ကောင် ဖြစ်နေတယ်၊ ဟာ ကျုပ်တို့အားလုံး ဆင့်သုံးဆယ်နှုန်းပဲ လိုချင်နေကြတာ၊ ဒီလိုဆိုတော့လည်း ခွကျကုန်ပြီ မစ္စတာဟိုင်းစ်၊ ကျုပ်တို့အားလုံး အနီကောင်တွေ ဖြစ်ကုန်ပြီလို့ ထပ်ပြောသတဲ့ ”

တွမ်က ဟက်ဟက်ပက်ပက် ရယ်လိုက်ပြီး “ဒီပုံအတိုင်းဆိုရင်တော့ ကျုပ်လည်းပဲ အနီကောင် ဖြစ်သွားပြီ” ဟု ရေရွတ်လိုက်၏။ တွမ်၏ ပေါက်ချွန်းသည် အပေါ်သို့ မြောက်တက်သွားပြီး ပြန်ကျလာသည်။ ပေါက်ချွန်းအောက်မှ မြေသည် အစိတ်စိတ် အမြွာမြွာ ကွဲအက်သွားသည်။ ချွေးသီး ချွေးပေါက်ကြီးများသည် သူ၏ နဖူးပြင်မှတစ်ဆင့် နှာခေါင်း တစ်ဖက် တစ်ချက်အတိုင်း စီးကျလာကာ လည်ပင်းအထိ လျှောဆင်းလျက် ရှိ၏။ သူ့လည်ပင်းသည် ချွေးများဖြင့် ပြောင်လျက် ရှိလေသည်။ “ပေါက်ချွန်းတစ်လက်ဟာ လက်နက်ကောင်း တစ်ခုပဲဗျ (ဟင်း)၊ တကယ်လို့ ရန်ဖြစ်ကြပြီ ဆိုရင်ပေါ့ဗျာ (ဟင်း)၊ ခင်ဗျားနဲ့ ပေါက်ချွန်း (ဟင်း) အတူတူ တွဲပြီး လုပ်ရတာ ကောင်းတယ်ဗျ (ဟင်း)

လူသုံးယောက်သည် တွဲ၍ အလုပ်လုပ်လျက် ရှိ၏။ မြောင်းအရှည်သည် တစ်လက်မပြီး တစ်လက်မ တိုးတိုးလာသည်။ ဖြည်းဖြည်းချင်း မြင့်တက်လာနေသော နံနက်ခင်း နေရောင်ခြည်သည် သူတို့သုံးဦး၏ အပေါ်သို့ ပူပြင်းစွာ ကျရောက်လျက် ရှိလေသည်။

တွမ် ထွက်သွားသောအခါ ရှုသီသည် သန့်ရှင်းရေးအဖွဲ့ အဆောက်အအုံရှေ့၌ ရပ်ကာ တံခါးဆီသို့ ငေးကြည့်နေသည်။ သူ ကြွားနေကျ ဝင်းဗီးတစ်ယောက် အနီးတွင် မရှိသဖြင့် သူ့မှာ သတ္တိကင်းမဲ့လျက် ရှိနေ၏။ သူသည် ဖိနပ်မပါသော ခြေတစ်ဖက်ကို အတွင်းဘက် ကွန်ကရီ ကြမ်းခင်းပေါ်သို့ လှမ်းချပြီး အထဲသို့ ဝင်ရန် ဟန်ပြင်လိုက်သည်။ ထို့နောက် ချက်ချင်းပင် ပြန်၍ ရပ်လိုက်၏။ တဲတန်း၏ အစွန်းတစ်ဖက်တွင် မိန်းမကြီးတစ်ယောက်သည် ရွက်ထည်တဲ တစ်လုံးအတွင်းမှ ထွက်လာပြီး ရေနံဆီ မီးဖိုတစ်လုံးနှင့် မီးမွေးလျက် ရှိလေသည်။ ရှုသီသည် မိန်းမကြီး ရှိရာသို့ သွားမည် ဟူသော

စိတ်ကူးဖြင့် လျှောက်သွားသည်။ သို့သော်လည်း ခြေလှမ်း အနည်းငယ်မျှ လှမ်းမိပြီးကာမှ စိတ်ကူးတစ်မျိုး ပြောင်းသွားသည်။ သူသည် ရှေ့ဆက် မလျှောက်တော့ဘဲ သူတို့ မိသားစု တဲဘက်သို့ ခြေဖျားထောက်၍ ပြန်လျှောက်ကာ တဲအတွင်းသို့ ချောင်းကြည့်သည်။ ဦးလေးဂျွန်သည် တဲ၏ တစ်ဖက် မြေကြီးပေါ်တွင် ခြေပစ်လက်ပစ် အိပ်မောကျလျက် ရှိ၏။ သူ့ပါးစပ်သည် ဟောင်းလောင်းပွင့်လျက် ရှိလေသည်။ သူ့ဟောက်သံသည် သူ့လည်ချောင်း အတွင်း၌ ဂလိုက်သံ ပေါက်လျက် ရှိ၏။ အမေနှင့် အဖေကတော့ စောင်တစ်ထည်ကို နှစ်ယောက်ပူး၍ ခြုံကာ တစ်ဖက်သို့ စောင်းလျက် အိပ်ပျော်နေကြသည်။ ဦးလေးဂျွန်နှင့် မျက်နှာချင်းဆိုင် တဲ၏ တစ်ဖက်နံရံတွင် ကပ်၍ အိပ်နေသူမှာ အယ်လ်။ အယ်လ်သည် သူ၏ လက်မောင်းတစ်ဖက်ကို မျက်စိများပေါ်သို့ တင်ကာ နှစ်နှစ်ခြိုက်ခြိုက် အိပ်ပျော်လျက် ရှိသည်။ တဲ၏ မျက်နှာစာ ဝင်ပေါက်အနီး အိပ်မောကျနေကြသော ရိုစာဟန်နှင့် ဝင်းဖီးတို့ မောင်နှမမှာလည်း ယခု အချိန်အထိ မနိုးကြသေး။ ဝင်းဖီးဘေးမှ နေရာလွတ်သည် စောစောက ရှုသီအိပ်ခဲ့သည့် နေရာ။ ရှုသီသည် ရပ်နေရာမှ အသာ ထိုင်ချလိုက်ပြီး တဲထဲသို့ ချောင်းကြည့်ပြန်သည်။ သူ့မျက်လုံးများသည် ဝင်းဖီးမျက်နှာကိုသာ စူးစိုက်၍ ကြည့်နေသည်။ သူ ကြည့်နေခိုက်မှာပင် ဝင်းဖီး၏ မျက်လုံးအစုံသည် ဖျတ်ခနဲ ပွင့်လာပြီး ရှုသီအား ပြူးပြူးကြီး စိုက်ကြည့်လျက် ရှိသည်။ ရှုသီက သူ့နှုတ်ခမ်းကို လက်ညိုးနှင့် ကပ်လိုက်ပြီး ငြိမ်ငြိမ်နေဖို့ အချက်ပြလိုက်သည်။ ထို့နောက် ကျန်လက်တစ်ဖက်ဖြင့် လက်ယပ် ခေါ်သည်။ ဝင်းဖီးက သူ့ဘေးမှ ရိုစာဟန်ကို တစ်ချက် ငဲ့ကြည့်သည်။ ပန်းရောင်ပြေးနေသော ရိုစာဟန်၏ မျက်နှာသည် သူ့မျက်နှာနှင့် ကပ်နေသည်။ ရိုစာဟန်၏ ပါးစပ်သည် အနည်းငယ်မျှ ဟလျက် ရှိ၏။ ဝင်းဖီးသည် သူ့ကိုယ်ပေါ်မှ စောင်ကို အသာကလေး မလိုက်ပြီး စောင်ခြုံအောက်မှ လျှောထွက်သည်။ ထို့နောက် တဲအပြင်သို့ အသာကလေး ထွက်ကာ ရှုသီ အနီးသို့ ရောက်လာသည်။ "နင် နိုးနေတာ ဘယ်လောက် ကြာပြီလဲ" ဟု မေးသည်။

ရှုသီက စကားပြန်မပေး။ ဝင်းဖီးလက်ကို ဆွဲကာ တဲနှင့် ဝေးရာသို့ ခေါ်လာသည်။ သူတို့နှစ်ယောက် ပြောကြမည့် စကားများကို မည်သူမျှ မကြားနိုင်သည့် နေရာ ရောက်မှ ဝင်းဖီး၏ အမေးကို ဖြေသည်။ "ငါ လုံးဝ မအိပ်ဘူး သိလား၊ တစ်ညလုံး နိုးနေတာ"

"ဘယ်ကလာ ဟုတ်ရမှာလဲ" ဟု ဝင်းဖီးက ပြန်ပြောသည်။ "နင် အိပ်တယ်၊ နင်ဟာ အလွန် ညစ်ပတ် စုတ်ပဲ့တဲ့ ကောင်ညာမ တစ်ယောက်ပဲ"

"အေး ကောင်းပြီ၊ နင်က ငါ့ကို ညာတယ်လို့ စွပ်စွဲတယ်နော် မှတ်ထားလိုက်၊ ငါက နင့်ကို ဘာမှ မပြောပြတော့ဘူး၊ ငါက နင့်ကို လူကြီးတစ်ယောက် ဘယ်လို ဓားထိုးခံရပြီး သေတယ် ဆိုတာရယ်၊ ဝက်ဝံကြီးတစ်ကောင် လာပြီး ငရုတ်သီး သေးသေးလေး တစ်တောင့် ခူးသွားတာရယ် ပြောပြမလို့"

"ဘာ ဝက်ဝံမှ မရှိဘူး၊ အလကား" ဟု ဝင်းဖီးက မယုံတစ်ဝက် ယုံတစ်ဝက် လေသံဖြင့် ပြောသည်။ "ဝက်ဝံတွေက ကတ်တလောက် စာအုပ်ထဲက လို အဖြူရောင်တော့ မဟုတ်ဘူး"

ဝင်းဖီးက ရှုသီကို ခပ်တည်တည် ကြည့်နေသည်။ ထို့နောက် အဆောက်အအုံ ဘက်သို့ လက်ညှိုးထိုးပြပြီး "ဟိုထဲမှာ ရှိသလား" ဟု မေးသည်။

"ငါဟာ အလွန် ညစ်ပတ် စုတ်ပဲ့တဲ့ ကောင်ညာမလေးတစ်ယောက်လို့ နင် ပြောတယ် မဟုတ်လား ဟင်" ဟု ပြန်ပြောသည်။ "အဲဒီတော့ နင့်ကို ဒီအကြောင်းတွေ ပြောပြနေလို့ အပိုပဲ"

"လာလေ၊ တို့နှစ်ယောက် အတူတူ သွားကြည့်မယ်" ဟု ဝင်းဖီးက ခေါ်သည်။

"ငါ ရောက်ပြီးပြီ"

"နင် ညာတာ"

နှစ်ယောက်သား အဆောက်အအုံဆီသို့ ကပ်သွားကြသည်။ အခု တစ်ကြိမ်ကျ တော့လည်း ရှုသီသည် အကြောက်အလန့် ကင်းမဲ့လျက် ရှိ၏။ သူကပင် ရှေ့မှ ဦးဆောင်၍ အဆောက်အအုံထဲသို့ ဝင်သည်။ ရှည်လျား ကျယ်ဝန်းသော အခန်းမကြီး၏ တစ်ဖက်တွင် တန်းစီလျက် ရှိသော အိမ်သာခန်းများ။ အခန်းတိုင်း၌ တံခါး တစ်ပေါက်စီ ရှိသည်။ အခန်းထဲတွင် တပ်ဆင်ထားသမျှသော ကြွေထည် ပစ္စည်းများသည် ဖွေးဖွေးလှုပ်လျက် ရှိလေသည်။ လက်ဆေး ကြွေခွက်ကြီးများသည် တစ်ဖက်နံရံတွင် အစီအရီ တန်းလျက် ရှိ၏။ တတိယ နံရံတွင်မူ ရေပန်းများ တပ်ဆင်ထားသည့် ရေချိုးခန်းများ။

"မြင်လား ဟိုမှာ" ဟု ရှုသီက ပြောသည်။ "အဲဒါတွေဟာ အိမ်သာတွေပေါ့ ဟဲ့၊ ကတ်တလောက် စာအုပ်ကြီးထဲမှာ ငါ မြင်ဖူးခဲ့တယ်" ကလေးနှစ်ယောက်သည်

အိမ်သာခန်းတစ်ခန်း အတွင်းသို့ ဝင်သည်။ အဖော်ပါလာသဖြင့် သတ္တိကောင်းနေသော ရှုသီသည် သူ့စကပ်ကို မပြီး ကမုတ်ခွက်ပေါ်သို့ ခွထိုင်လိုက်သည်။ "တွေ့ဥား၊ ငါ ထိုင်တတ်တယ်၊ ငါစောစောက တစ်ခေါက် ရောက်ပြီးပြီဆိုတာ နင်က မယုံဘူး" ဟု ဝင်းဖီးအား လှမ်းပြောသည်။ ကမုတ်ခွက်အတွင်းမှ ရေကျသံများ ကြားနေရလေသည်။

ဝင်းဖီး၏ လက်တစ်ဖက်သည် ကမုတ်ခွက်ဘေးမှ ရေဆွဲခလုတ်ကို သွား၍ လှည့်သည်။ ကမုတ်ခွက်အတွင်းသို့ ဝေါခနဲ ကျလာသည့် ရေသံများ။ ကမုတ်ခွက်ပေါ်၌ ခွထိုင်နေသော ရှုသီသည် အလန့်တကြားဖြစ်ကာ ခုန်၍ ထလိုက်ပြီး ထွက်ပြေးသည်။ နှစ်ယောက်သား အခန်း၏ အလယ်တွင် ရပ်ကာ အိမ်သာ ကမုတ်ခွက်ကို ငုံ့ကြည့်နေကြသည်။ ရေစီးဆင်းနေသံသည် ဆက်လက်၍ ထွက်ပေါ်လာနေဆဲ။

"နင် လုပ်တာ" ရှုသီက အပြစ်တင်သည်။ "နင် သွားပြီး ဆွဲတာ၊ ပျက်သွားပြီ၊ ငါက သေသေချာချာ မြင်လိုက်တယ်"

"ငါ မလုပ်ဘူး၊ လုံးဝ မလုပ်ဘူး"

"ငါ မြင်တယ်၊ နင် လုပ်တာ၊ ပျက်သွားပြီ"

ဝင်းဖီးသည် မျက်နှာငယ်ကလေးနှင့် ဖြစ်လာသည်။ ရှုသီအား မော့ကြည့်သည့် သူ့မျက်လုံးများသည် မျက်ရည်များဖြင့် ပြည့်လာသည်။ ရှုသီက သူ့မောင်၏ အဖြစ်ကို ကြည့်ကာ ချက်ချင်းပင် စိတ်မကောင်း ဖြစ်သွားလေသည်။

"ကိစ္စ မရှိပါဘူးဟယ်၊ မကြောက်ပါနဲ့" ဟု အားပေးသည်။ "နင် လုပ်တာကို ငါ ဘယ်သူ့မှ မပြောပါဘူး၊ တို့ကြောင့် ကျိုးတာ မဟုတ်ဘူး၊ သူ့ဘာသာသူ ကျိုးတာလို့ ထင်အောင် အသာကလေး မသိချင်ယောင် ဆောင်နေကြမယ် ဟုတ်လား၊ ဒီအခန်းထဲကို ငါတို့နှစ်ယောက် ရောက်တောင်မှ မရောက်ဘူးလို့ ထင်အောင် နေရင် ရပါတယ်ဟယ်" ရှုသီက ဝင်းဖီးကို အဆောက်အအုံ ပြင်ဘက်သို့ ဆွဲထုတ်လာသည်။

နေသည် တောင်စဉ်တောင်တန်းများ အထက်သို့ ရောက်လာခဲ့လေပြီ။ သန့်ရှင်းရေးအဖွဲ့ ငါးဖွဲ့ပိုင် အဆောက်အအုံ ငါးခု၏ ခေါင်မိုးများ၊ ညိုမှိုင်းမှိုင်း ရွက်ထည်တဲများနှင့် ထိုတဲများ ကြားရှိ လမ်းများသည် နေရောင်အောက်တွင် ပြောင်လက်

နေကြသည်။ စခန်းတစ်ခုလုံး နိုးကြွလာသည်။ အသက်ဝင် လှုပ်ရှားလာသည်။ ရေနံဆီမီးဖိုများ ဆီမှ မီးတောက်မီးညွန့်များသည် တဲတိုင်း၏ ရှေ့တွင် ယိမ်းကလျက် ရှိကြသည်။ မီးခိုးနံ့များသည် လေထဲတွင် ပျံ့လွင့် လိုက်ပါလျက် ရှိကြ၏။ ရွက်ထည်စ တံခါးများသည် ပွင့်လာကြပြီး တဲအတွင်းမှ လူများသည် လမ်းများပေါ်သို့ ရောက်လာကြလေသည်။ ဂျုတ်မိသားစု တဲရှေ့တွင် အမေသည် မတ်တတ်ရပ်ကာ လမ်း၏ ဟိုဘက်ထိပ် သည်ဘက်ထိပ်ကို မျှော်ကြည့်လျက် ရှိသည်။ အမေသည် သူ့သမီးငယ်နှင့် သားငယ် တဲဘက် ပြန်လျှောက်လာနေသည်ကို လှမ်း၍ မြင်သည်။

"ငါ နင်တို့ပျောက်လို့ စိတ်ပူနေတာ" အမေက ဆီး၍ အပြစ်တင်နေသံဖြင့် ပြောသည်။ "နင်တို့ ဘယ်ရောက်ခဲ့ကြသလဲ"

"ကျွန်မတို့ လျှောက်ကြည့်နေကြတာ" ဟု ရူသီက ဖြေသည်။

"တွမ် ဘယ်ရောက်နေလဲဟင်၊ နင်တို့ သူ့ကို မတွေ့ကြဘူးလား"

ရူသီ၏ အမူအရာသည် ချက်ချင်း လူရာဝင်လာသည်။ "သိတယ် အမေ၊ တွမ်က သမီးကို အိပ်ရာက နှိုးပြီး ပြောသွားတယ်၊ အမေ နိုးလာရင် ပြောလိုက်တဲ့" ရူသီက စကားကို မဆက်သေးဘဲ ရပ်ထားလိုက်လေသည်။

"ပြောစမ်း၊ ဘာမှာသွားသလဲ"

"သူက မှာတယ်၊ အမေ့ကို ပြောလိုက်တဲ့" ရူသီက နောက်တစ်ကြိမ် စကားကို ဖြတ်၍ ရပ်ထားပြန်၏။ သူ လူရာဝင်နေသည့် အဖြစ်ကို ဝင်းဖီးက အသိအမှတ် ပြုမပြု လှည့်၍ အကဲခတ်သည်။

စိတ်မရှည်နိုင်တော့သည့် အမေက ရူသီကို ရိုက်ရန် လက်မြှောက်လိုက်သည်။ "ဘာပြောသွားသလဲ၊ ပြောစမ်း မြန်မြန်"

"သူ အလုပ်ရပြီတဲ့" ရူသီက ကသောကမျော ပြောချလိုက်သည်။ "သူ အလုပ်သွားလုပ်တာတဲ့" ရူသီက မြှောက်ထားသည့် အမေ့လက်ကို မော့ကြည့်သည်။ အမေ့လက်သည် အောက်သို့ ပြန်ကျသွားသည်။ သို့သော်လည်း အမေ့လက်များသည်

ရှုသီ၏ ပခုံးနှစ်ဖက်ပေါ်သို့ ရောက်လာသည်။ ထို့နောက် တစ်ချက်နှစ်ချက်မျှ ခပ်ကြမ်းကြမ်း ကိုင်လှုပ်လိုက်ပြီး ပြန်လွှတ်လိုက်လေသည်။

ရှုသီက ခေါင်းကို ငုံ့ထားသည်။ အတန်ကြာမှ "ဟိုဘက်မှာ အိမ်သာတွေ ရှိတယ်၊ အဖြူရောင်တွေ" ဟု မပွင့်တပွင့် ပြောသည်။

"နင် ရောက်ခဲ့လို့လား" ဟု အမေက မေးသည်။

"သမီးနဲ့ ဝင်းဖီးတို့ သွားတယ်" ဟု ပြောသည်။ ထို့နောက် သူ ပေးထားသည့် ကတိကို ဖျက်သည်။ "ဝင်းဖီးလေ၊ အိမ်သာထဲက ခွက်တစ်ခွက်ကို ပျက်အောင် လုပ်ပစ်ခဲ့တယ်" ဟု တိုင်သည်။

ဝင်းဖီး၏ မျက်နှာသည် ရဲခနဲ ဖြစ်သွားသည်။ ရှုသီ၏ မျက်နှာကို ဒေါသတကြီးဖြင့် ကြည့်သည်။ "သူက တက်ထိုင်တယ်"

"နင်တို့ ဘာတွေ လုပ်ခဲ့ကြသလဲ၊ ငါ့ကို လိုက်ပြစမ်း" အမေက နှစ်ယောက်စလုံးကို အိမ်သာခန်းထဲ ရောက်သည်အထိ ဆွဲခေါ်လာသည်။ "ကဲ ပြောစမ်း၊ ဘာတွေ လုပ်ခဲ့ကြသလဲ"

ရှုသီက လက်ညှိုးထိုးပြသည်။ "ဟိုခွက်ထဲက ရှူးရှူးရှူးနဲ့ မြည်ပြီး ရေတွေ တအားကျလာတယ်၊ အခုတော့ ဘာသံမှ မကြားရတော့ဘူး၊ ရေလည်း မကျတော့ဘူး"

"ဟဲ့ကောင် နင် ဘာလုပ်ခဲ့သလဲ၊ ငါ့ကို ပြစမ်း" ဟု အမေက မေးသည်။

ဝင်းဖီးက မဝံ့မရဲ ဖြစ်နေသော ခြေလှမ်းများဖြင့် ကမုတ်ခွက်ဆီသို့ လျှောက်သွားသည်။ "ကျုပ်က တအား တွန်းတာ မဟုတ်ဘူး အမေရ၊ ဒီဟာလေးကို ကိုင်ပြီး ဟောဒီလို အသာကလေး လှည့်လိုက်တာ" ကမုတ်ခွက်အတွင်းမှ တရှူးရှူးမြည်သံနှင့် အတူ ဝေါခနဲ ရေများ ကျလာသည်။ ဝင်းဖီးသည် နောက်သို့ လှည့်ပြီး ထွက်ပြေးလေ၏။

အမေက ဟက်ဟက်ပက်ပက် ရယ်သည်။ ရှုသီနှင့် ဝင်းဖီးတို့ကတော့ အမေ့ကို မကျေနပ်သည့် မျက်နှာထားဖြင့် ကြည့်နေကြသည်။ "ဒီခွက်တွေက ဒီလိုပဲ" ဟု အမေက

ရှင်းပြသည်။ "အမေက အရင်က တွေ့ဖူးတယ်၊ အိမ်သာ တက်ပြီးရင် အဲဒီ ခလုတ်လေးကို နှိပ်လိုက်ရတယ်"

ကလေးနှစ်ယောက်အဖို့တော့ အကြီးအကျယ် အရှက်ရသွားကြသည်။ သူတို့သည် အဆောက်အအုံထဲမှ အလျင်ဆုံး ထွက်ကာ လမ်းမအတိုင်း လျှောက်သွားရင်း နံနက်စာ စားသောက်နေကြသည့် မိသားစုများကို ကြည့်သွားကြလေသည်။

အမေသည် ကလေးနှစ်ယောက် ထွက်သွားသည်အထိ လိုက်ကြည့်သည်။ ထို့နောက် အခန်းထဲသို့ လျှောက်ကြည့်သည်။ သူသည် ရေချိုးခန်း အဝမှ နေ၍ အတွင်းသို့ ချောင်းကြည့်သည်။ ပြီးတော့ လက်ဆေး ကြွေဇလုံကြီး တစ်ခွက်ဆီသို့ သွားကာ ရေဖွင့်ကြည့်သည်။ သူ့လက်ညှိုး တစ်ချောင်းကို ကျလာနေသည့် ရေအောက်မှ ထိုးခံကြည့်ပြီး ဆတ်ခနဲ ပြန်ရုပ်လိုက်၏။ ကျလာသည့် ရေက ရေပူ။ တစ်ခဏမျှ ကြွေခွက်ကြီးကို ငေးကြည့်နေသည်။ ထို့နောက် ဘုံဘိုင်ခေါင်းများကို ဖွင့်ပြီး ရေပူနှင့် ရေအေး မျှအောင် စပ်သည်။ ပြီးတော့ လက်နှစ်ဖက်ကို ဆေးသည်။ မျက်နှာသစ်သည်။ ရေစိုနေသည့် လက်များဖြင့် ခေါင်းမှ ဆံစများကို သပ်သည်။ သူ့နောက်မှ လျှောက်လာနေသည့် ခြေသံတစ်သံ။ အမေက ချာခနဲ လှည့်ကြည့်သည်။ သူ့အား အလန့်တကြား ကြည့်နေသော အသက်ခပ်ကြီးကြီး လူတစ်ယောက်။

"ဒီအထဲ ဘယ်လိုလုပ်ပြီး ရောက်နေတာလဲ" ဟု မေးသည်။ အသံက ခပ်မာမာ။

အမေက ပါးစပ်ထဲ၌ ငုံထားသည့် ရေကို မျိုချလိုက်သည်။ ပါးစပ်ထဲမှ လျှံကျလာသည့် ရေသည် မေးစေ့မှ တစ်ဆင့် စီးဆင်းကာ ဂါဝန်ပေါ်သို့ ကျလာသည်။ "ကျွန်မလည်း မသိဘူး အမှတ်တမဲ့ ဝင်လာမိတာပါ" ဟု အမေက တောင်းပန်သံဖြင့် ပြောသည်။ "ကျွန်မ ထင်တာက အများသုံးဖို့ ထားတယ် ထင်လို့"

လူကြီးက မျက်နှာကို ရှုံ့လိုက်သည်။ ဒီနေရာက ယောကျ်ားတွေ အတွက်ဗျ" ဟု ပြောသည်။ သူသည် တံခါးဘက်သို့ လျှောက်သွားပြီး အပြင်၌ ကပ်ထားသည့် အမျိုးသား ဟူသော ဆိုင်းဘုတ်ကို လက်ညှိုးထိုးပြသည်။ "ဒီမှာ တွေ့လား ရေးထားတာ၊ ခင်ဗျား ဒီဆိုင်းဘုတ်ကို မမြင်ဘူးလား"

"မမြင်ဘူး" အမေသည် ရက်စိတ်ဖြင့် ပူထူလျက် ရှိ၏။ "ကျွန်မ လုံးဝကို မမြင်မိဘူးရှင်၊ ကျွန်မတို့အတွက် နေရာကော ရှိရဲ့လား"

ထိုလူ၏ ဒေါ်သသည် ပြေပျောက်သွားလေသည်။ "ခင်ဗျား အခုမှ ရောက်လာတာ ထင်တယ်၊ ဟုတ်လား" ဟု ကြင်နာသော လေသံဖြင့် မေးသည်။

"ည သန်းခေါင်လောက်မှ ရောက်တာ" ဟု အမေက ပြန်ဖြေသည်။

"ဒီလိုဆို ခင်ဗျား ကော်မတီနဲ့ စကား မပြောရသေးဘူးပေါ့"

"ဘာ ကော်မတီလဲ"

"အမျိုးသမီး ကော်မတီ"

"ဟင့်အင်း မတွေ့ရသေးဘူး"

"ကော်မတီက မကြာခင် ခေါ်တွေ့ပြီး အစီအစဉ် လုပ်ပေးပါလိမ့်မယ်၊ စခန်းကို ရောက်စ လူသစ်တွေအတွက် ဆိုရင် ကျုပ်တို့က ဂရုတစိုက် စောင့်ရှောက်ကြပါတယ်၊ အမျိုးသမီး ရေချိုးခန်းနဲ့ အိမ်သာကတော့ ဒီအဆောက်အအုံရဲ့ ဟိုဘက်မှာ ရှိတယ်"

အမေက ပြန်မေးသည်။ "ရှင် ပြောတဲ့ အမျိုးသမီး ကော်မတီ ဆိုတာက ကျွန်မရဲ့ တဲကို လာပြီး ခေါ်မှာလား"

ထိုလူက ခေါင်းညိတ်သည်။ "အမြန်ဆုံး ခေါ်ပါလိမ့်မယ်လို့ ကျုပ် ထင်တယ်"

"ကျေးဇူးတင်ပါတယ် ရှင်" ဟု အမေက ပြန်ပြောသည်။ သူသည် အဆောက်အအုံ ထဲမှ ခပ်သုတ်သုတ် ပြန်ပြေးလာခဲ့လေ၏။

"အဖေရျုတ်ရေ" ဟု အမေက လှမ်းခေါ်သည်။ "ဂျွန် ထတော့၊ ဟဲ့ အယ်လ် မြန်မြန်ထစမ်း၊ မျက်နှာ သွားသစ်စမ်း" အိပ်ချင်မူးတူး ဖြစ်နေသော မျက်လုံးများသည် အမေ့ကို ဝိုင်း၍ ကြည့်နေသည်။ "အားလုံး ထကြပါတော့တဲ့" အမေက စိတ်ဆိုး မာန်ဆိုးဖြင့် အော်ပြောသည်။ "ထကြ ထကြတော့၊ ကဲသွား၊ မျက်နှာသစ်ချေကြ၊ ဆံပင်တွေ သပ်သပ်ရပ်ရပ် ဖြစ်အောင် ဖြီးထားကြ"

ဦးလေးဂျွန်၏ မျက်နှာသည် ဖြူဖပ်ဖြူရော်၊ သိပ်ပြီး နေကောင်းပုံ မရ။ သူ့မေးစေ့ တစ်နေရာတွင် ဖူးရောင်လျက် ရှိသော ဒဏ်ရာတစ်ခု။

“ဘာဖြစ်တာလဲ ဟ” ဟု အဖေဂျုတ်က မေးသည်။

“ကော်မတီလေ ” ဟု အမေက အော်ပြောသည်။ “အမျိုးသမီး ကော်မတီဆိုတာ ရှိတယ်၊ သူတို့ ဒီကို လာလိမ့်မယ်၊ ကဲ လျှာရှည်မနေနဲ့၊ ထ သွား၊ မျက်နှာသစ်ချေ၊ ကျွန်မတို့အားလုံး အိပ်ပျော်နေကြတုန်းမှာ တွမ် ထွက်သွားတယ်၊ အလုပ်လည်း ရသွားပြီ၊ ကဲ ထကြပါတော့”

သူတို့အားလုံး အိပ်ချင်မူးတူးဖြင့် တဲအပြင်သို့ ထွက်လာကြသည်။ ဦးလေးဂျွန်မှာ သူ့ကိုယ်သူ ကောင်းစွာ မဟန်နိုင်ပေ။ ဒယီးဒယိုင် ဖြစ်လျက် ရှိ၏။ မျက်နှာကလည်း ရှုံ့မဲ့လျက် ရှိလေသည်။

“ဟို အဆောက်အအုံကိုသွား၊ အဲဒီမှာ မျက်နှာ သစ်ကြ” ဟု အမေက ခိုင်းသည်။ “ပြီးရင် ကျွန်မတို့ မနက်စာ စားမယ်၊ ကော်မတီလာရင် အဆင်သင့် ဖြစ်အောင် လုပ်ထားကြမယ် ” အမေသည် ထင်းခြမ်းများကို သယ်၍ မီးမွေးသည်။ အိုးများကို ယူ၍ တည်သည်။ ပြီးတော့ သူ့စိတ်ကူးနှင့်သူ တစ်ယောက်တည်း စကားပြောသည်။ “ဟင်းရည်တစ်ခွက် ချက်မယ်၊ ပေါင်မုန့်နဲ့ တို့စားမယ်၊ ဒါဆိုရင် မြန်မယ်” အနားတွင် ရပ်နေကြသည့် ရှသီနှင့် ဝင်းဖီးတို့ကမူ အမေ့ကို ကြည့်ကာ တအံ့တသြဖြစ်လျက် ရှိကြလေ၏။

မီးဖိုများမှ တလူလူ ထွက်လျက်ရှိသော မီးခိုးများသည် စခန်းတစ်ခုလုံး လွှမ်းခြုံလျက် ရှိသည်။ အရပ်လေးမျက်နှာမှ စကားပြောနေသံများသည် အဆက်မပြတ် ထွက်လာနေသည်။

ရိုစာဟန်သည် တဲထဲမှ ထွက်လာသည်။ သူ့တစ်ကိုယ်လုံး ဖရိုဖရဲ။ မျက်လုံးများကလည်း အိပ်ချင်ပြေသေးဟန် မတူ။ ပြောင်းဆန်များကို ခွက်တစ်ခွက်နှင့် ခြင်တွယ်၍ ထည့်နေသော အမေက လှည့်ကြည့်သည်။ အမေ့မျက်လုံးများသည် ရိုစာဟန်၏ ညစ်ပတ်ပေရေနေသော အဝတ်အစားများနှင့် ပွရောင်းရောင်း ဖြစ်နေသော ဆံပင်များပေါ်သို့ ရောက်သွားသည်။ “မျက်နှာသစ်ချေ၊ သန့်သန့်ပြန့်ပြန့် ဖြစ်အောင်

လုပ်ထားဖို့ လိုတယ်” ဟု အမေက ပြောသည်။ “ဟိုဘက်က အဆောက်အအုံထဲမှာ အားလုံး ရှိတယ်၊ ပြီးတော့ အဝတ်အစားလဲ၊ အမေ လျှော်ထားတာ ရှိတယ်၊ ဆံပင်တွေလည်း ဖြီး၊ မျက်လုံးထဲက မျက်ချေးတွေကိုလည်း စင်အောင်လုပ်ခဲ့” အမေသည် စိတ်လှုပ်ရှားလျက် ရှိ၏။

ရိုစာဟန်က စိတ်လက်မကြည်မသာဖြင့် ပြန်ပြောသည်။ “သမီး နေမကောင်းဘူး အမေ၊ ကွန်နီကိုလည်း သတိရနေတယ်၊ သမီး ဘာမှ လုပ်ချင်ကိုင်ချင်စိတ် မရှိဘူး”

အမေ့တစ်ကိုယ်လုံးသည် ရိုစာဟန်ဘက်သို့ လှည့်လာသည်။ အဝါရောင် ပြောင်းဆန်မှုန့်များသည် အမေ့လက်များနှင့် လက်ကောက်ဝတ်များတွင် ကပ်နေကြသည်။ “ဒီမယ် ရိုစာဟန်” အမေ့အသံတွင် ဩဇာသံ အပြည့်ပါသည်။ “ညည်း အခု နီးလာပြီ၊ လုပ်စရာရှိတာကို လုပ်၊ ဧေးတာ မှိုင်တာတွေ တော်လောက်ပြီ၊ ဒီစခန်းမှာ အမျိုးသမီး ကော်မတီတစ်ခု ရှိတယ်၊ သူတို့ ဒီကို လာလိမ့်မယ်၊ တို့မိသားစု သန့်သန့်ပြန့်ပြန့် ရှိနေရမယ်”

“ဒါပေမဲ့ သမီးက နေလို့မှ သိပ်မကောင်းတာ”

အမေက ရိုစာဟန် အနီးသို့ တိုးသွားသည်။ “တော်လောက်ပြီ၊ ကိုယ် နေမကောင်းတာ ကိုယ့်ဝမ်းထဲမှာတင် ထားရမယ့် အချိန်အခါနဲ့ အခြေအနေတွေ ရှိသေးတယ်”

“ကျွန်မ အန်ချင်တယ်”

“အန်ချင်ရင် သွားအန်ပစ်လိုက်၊ အန်ဖို့ လိုတဲ့အခါ အန်မှာပဲ၊ လူတိုင်း ဖြစ်တတ်တဲ့ဟာမျိုးပဲ၊ အန်ပြီးရင် မျက်နှာသစ်၊ ခြေတွေ လက်တွေ ပြောင်စင်သွားအောင် ဆေး၊ ဖိနပ်စီး” အမေသည် မီးဖိုနားသို့ ပြန်လျှောက်သွားပြီး ထိုင်ချလိုက်သည်။ “ဆံပင်တွေကိုလည်း ကျစ်ဆံမြီး ကျစ်ထား”

မီးဖိုပေါ်ရှိ ဒယ်အိုးထဲမှ အမဲဆီသည် တဖျစ်ဖျစ် မြည်လာသည်။ အမေက ပြောင်းဆန်များကို ဇွန်းနှင့် ခပ်၍ ထည့်သည်။ ထို့နောက် ဂျုံမှုန့်နှင့် အမဲဆီ ရောမွှေထားသော အိုးတစ်လုံးထဲသို့ ရောစွက်ပြီး ဒယ်အိုးထဲသို့ လောင်းထည့်လိုက်

လေသည်။ မီးဖိုထဲမှ ကော်ဖီအိုး ဆူသံသည် တပွက်ပွက်။ အိုးထဲမှ ထွက်လာနေသည့် ကော်ဖီနံ့သည် တသင်းသင်း။

အဖေဂျုတ် ပြန်ရောက်လာသည်။ "တွမ် အလုပ်ရသွားပြီဆို"

"ဟုတ်ပ့ါရှင် ရသွားပြီတဲ့၊ ကျွန်မတို့ မနိုးခင်က ထွက်သွားတာပါ၊ ကဲ ဟိုသေတ္တာထဲက ရှပ်အင်္ကျီလေး ဘာလေး ယူဝတ်ပါဦး၊ ကျွန်မ ဒီမှာ အလုပ်သိပ်ရှုပ်နေတယ်၊ ရှင် ရူသီနဲ့ ဝင်းဖီးတို့ကို ရေချိုးခန်း ခေါ်သွားစမ်းပါ၊ ဟိုမှာ ရေနွေး ရှိတယ်၊ နှစ်ယောက်စလုံး သန့်စင်သွားအောင် လုပ်ပေးစမ်းပါဦး၊ လုပ်ပေးမယ် ဟုတ်လား ဟင်၊ ပြီးတော့ အဝတ်ကလေး ဘာလေးပါ လဲထားပေးစမ်းပါ"

"မြူးလှ ကြွလှချည်လား၊ မင်း ဘာဖြစ်နေတာလဲ" ဟု အဖေဂျုတ်က မေးသည်။

"ကျွန်မတို့ မိသားစု အဆင့်အတန်း မနိမ့်ကြောင်း ပြရမယ့်အချိန် ရောက်လာပြီရှင့်၊ ကျွန်မတို့မှာ ဟိုအရပ်က ထွက်လာကတည်းက ဒီလို အခွင့်အရေးမျိုး လုံးဝ မရခဲ့ကြဘူး၊ အခုမှ ရတာ၊ ရှင့်ခါးက ပေရေနေတဲ့ အဝတ်တွေကို ချွတ်ပြီး တဲထဲမှာ ပုံထားခဲ့၊ ကျွန်မ လျှော်လိုက်မယ်"

အဖေဂျုတ်က တဲထဲသို့ ဝင်သွားသည်။ အတန်ကြာမှ အဝတ်အသားသစ်များ လဲလှယ်၍ ပြန်ထွက်လာသည်။ သူသည် ရူသီနှင့် ဝင်းဖီးတို့ မောင်နှမအား ရေချိုးခန်းဆီသို့ ခေါ်သွားလေသည်။

အမေက နောက်မှ လှမ်းအော်၍ မှာသည်။ "နှစ်ယောက်စလုံးကို နားရွက်နောက်က ချေးတွေ ပြောင်အောင်တော့ တိုက်ပေးလိုက်နော်"

ဦးလေးဂျွန်သည် ယောကျ်ား ရေချိုးခန်း တံခါးဝမှနေ၍ အပြင်သို့ တစ်ချက် ချောင်းကြည့်သည်။ ထို့နောက် အထဲသို့ ပြန်ဝင်ကာ အိမ်သာတစ်လုံး အတွင်း၌ အချိန်အတော်ကြီးကြာမျှ ထိုင်နေသည်။ နာကျင် ကိုက်ခဲလျက်ရှိသော သူ့ဦးခေါင်းကို လက်နှစ်ဖက်နှင့် တင်းကျပ်စွာ ဆုပ်ကိုင်ထားလေသည်။

အမေသည် နံနက်စာအတွက် အိုးခွက် ပန်းကန်များဖြင့် အလုပ်ရှုပ်ဆဲ။ လူရိပ် တစ်ရိပ်သည် အမေ့ဘေးမှ မြေကြီးပေါ်သို့ ကျလာသည်။ အမေက လှည့်ပြန်

လှည့်ကြည့်သည်။ အပေါ်အောက် အဖြူရောင် ဝတ်စုံ ဝတ်ထားသည့် ပိန်ပိန်ပါးပါး လူတစ်ယောက်။ မျက်နှာက ပိန်ခွက်ခွက်။ အသားအရောင်က ခပ်ညိုညို။ ပျော်ပျော်နေခြင်းကို ဖော်ပြနေသည့် မျက်လုံးများ။ သူ ပိန်ပုံမှာ ခြစ်ည်းရိုးတိုင် တစ်ချောင်း ထောင်ထားသည့်နှယ် တူနေ၏။ သူ၏ အဖြူရောင် ဝတ်စုံ ချုပ်ရိုးအနားများသည် ဖွာရရာကျဲလျက် ရှိသည်။ သူသည် အမေ့ကို ပြုံး၍ ကြည့်ကာ "မင်္ဂလာ နံနက်ပါ" ဟု နှုတ်ဆက်လေသည်။

အမေသည် သင်္ကာယန မကင်း ဖြစ်လာသဖြင့် မျက်နှာထား မာကျောကျော ဖြစ်လာသည်။ နှုတ်ကတော့ "မင်္ဂလာ နံနက်ပါ" ဟု ရေရွတ်သည်။

"မစ္စက်ဂျုတ် ဆိုတာ ခင်ဗျားလား"

"ဟုတ်တယ်"

"ကျွန်တော့် နာမည်က ဂျင်ရောလေးပါ၊ ခင်ဗျားတို့ မိသားစု အဆင်ပြေမှု ရှိကြရဲ့လားလို့ ဝင်ကြည့်တာပါ၊ ခင်ဗျားတို့ လိုတာကော ရကြရဲ့လား"

အမေက မသင်္ကာစိတ်ဖြင့် ထိုလူအား ခြေဆုံးခေါင်းဆုံး ကြည့်နေပြန်သည်။ "ရတယ်" ဟု ဖြေသည်။

"မနေ့ညက ခင်ဗျားတို့ ရောက်လာတဲ့အချိန်မှာ ကျွန်တော် အိပ်ပျော်နေပြီ၊ ခင်ဗျားတို့ အတွက် နေရာလွတ် ရှိနေလို့ တော်ပါသေးရဲ့၊ ခင်ဗျားတို့ ကံကောင်းတယ်" သူ့အသံမှာ တရင်းတနှီး ရှိလှပေသည်။

"နေရာက ကောင်းပါတယ်၊ အထူးသဖြင့် အဝတ်လျှော်တဲ့ ကြွေခွက်ကြီးတွေက သိပ်ကောင်းတာပဲ"

"အမျိုးသမီးတွေ အဝတ်လျှော်တာကို ခင်ဗျား စောင့်ပြီး လေ့လာကြည့်သင့်တယ်၊ အခု မနက်ဆို မကြာခင် လျှော်ကြတော့မှာ၊ စုစုဝေးဝေးနဲ့ ပျော်စရာကြီး၊ ဆွေးနွေးပွဲတစ်ခု လုပ်နေသလိုပဲ၊ မနေ့ကဆိုရင် သူတို့လူစု ဘာလုပ်ကြတယ် ထင်သလဲ မစ္စက်ဂျုတ်၊ သီချင်းဆိုနေကြတယ်၊ သီချင်းဆိုပြီး အဝတ်လျှော်နေကြတာ၊ နားထောင်စရာတစ်ခု ရတာပေါ့ ဟုတ်ဖူးလား"

သံသယ ဖြစ်မှုသည် အမေ့မျက်နှာပေါ်မှ ပျောက်သွားသည်။ "ပျော်စရာကြီးပေါ့၊ ရှင်က ဒီစခန်းက အကြီးအကဲလား"

"မဟုတ်ပါဘူး" ဟု ထိုလူက ဖြေသည်။ "ဒီစခန်းမှာ နေတဲ့လူတွေက ကျွန်တော့်ကို အလုပ် လုပ်စရာ မရှိအောင် ဝိုင်းလုပ်ထားကြတယ်ဗျို့၊ သိလား၊ သူတို့က စခန်းတစ်ခုလုံးကို သန့်ရှင်းနေအောင် လုပ်ထားကြတယ်၊ စည်းနဲ့ကမ်းနဲ့လည်း နေကြထိုင်ကြတယ်၊ လုပ်စရာ ရှိသမျှကိုလည်း ဝိုင်းလုပ်ကြတယ်၊ ဒီလို လူစားမျိုးတွေကို ကျွန်တော် အရင်က တစ်ခါမှ မတွေ့ခဲ့ဘူး၊ သူတို့လူစု အစည်းအဝေး ခန်းမကြီးထဲမှာ အဝတ်အထည်တွေ ချုပ်ကြတယ်၊ အရုပ်တွေ လုပ်ကြတယ်၊ ဒီလို လူစားမျိုးတွေကို မမြင်ခဲ့ဖူးဘူး၊ တကယ်ပြောတာပါ"

အမေက ညစ်ပတ် ပေရေလျက်ရှိသော သူ့အဝတ်အစားများကို ငုံ့ကြည့်သည်။ "ကျွန်မို့ အခုထိ သန့်သန့်ပြန့်ပြန့် ဖြစ်အောင် မလုပ်ကြရသေးဘူး" ဟု ပြောသည်။ "ခရီးသွားနေရင် သန့်ရှင်းနေလို့ မရဘူးရှင့်"

"ကျွန်တော် နားလည်ပါတယ်ဗျာ" ဟု သူက အလိုက်သင့် ပြန်ပြောသည်။ "ကော်ဖီနံ့ကဖြင့် သင်းနေတာပဲ၊ ခင်ဗျား ကော်ဖီအိုးက ထင်တယ်၊ ဟုတ်လား"

အမေက ပြုံးသည်။ "အနံ့က မွှေးလို့လား၊ ဟုတ်တယ်၊ ဒီ ကော်ဖီက အနံ့ တော်တော် မွှေးတယ်" အမေက ဂုဏ်ယူ ဝင့်ကြွားသော လေသံဖြင့် ဖိတ်မန္တက ပြုသည်။ "ရှင် ကျွန်မတို့ဆီမှာ မနက်စာ စားမယ်ဆိုရင် ကျွန်မတို့ ဂုဏ်ယူရပါလိမ့်မယ်"

ထိုလူက မီးဖိုဘေး မြေကြီးပေါ်၌ ဖင်ချ ထိုင်လိုက်သည်။ အမေ့ရင်ထဲ၌ အနည်းငယ်မျှ ကျန်ရှိနေသေးသည့် သံသယ စိတ်သည် လုံးဝ ပျောက်ကွယ်သွားလေပြီ။ "ကျွန်မတို့ ရှင့်ကို ဧည့်ဝတ်ပြုရတာ ဂုဏ်ယူပါတယ်ရှင်" ဟု ဆိုသည်။ "အစားအသောက် ဖွယ်ဖွယ်ရာရာတော့ မရှိဘူးပေါ့လေ၊ ဒါပေမဲ့ ကျွန်မတို့က ရှင့်ကို ဝမ်းသာစွာ ကြိုဆိုပါတယ်"

ကိုလူပိန်က အမေ့မျက်နှာကို ရယ်ကျဲကျဲဖြင့် လုပ်၍ ကြည့်သည်။ "ကျွန်တော် မနက်စာ စားခဲ့ပြီးပါပြီ၊ ဒါပေမဲ့ ကော်ဖီတစ်ခွက်လောက်တော့ သောက်သွားချင်တယ်၊ အနံ့က မွှေးလွန်းလို့"

"ရပါတယ် ရှင်၊ ရပါတယ်"

အမေက ဂါလန်ဝင် ဘူးထဲမှ အသင့်နှပ်ထားသည့် ကော်ဖီကို သံခွက်တစ်ခွက်ထဲသို့ ငှဲ့ထည့်သည်။ "ကျွန်မို့မှာ သကြားက မရှိသေးဘူး၊ တစ်နေ့တော့ ဝယ်နိုင်ပါလိမ့်မယ်၊ တကယ်လို့ ရှင် သကြားကြိုက်တတ်တယ် ဆိုရင်တော့ ကော်ဖီက အရသာ ရှိမှာ မဟုတ်ဘူး"

"ကျွန်တော် သကြား ဘယ်တော့မှ ထည့်မသောက်တတ်ဘူး" ဟု သူက ပြောသည်။ "သကြား ထည့်လိုက်ရင် ကော်ဖီ အရသာ ပျက်တယ်"

"ကျွန်မကတော့ သကြားနည်းနည်း ထည့်သောက်ရမှ" ဟု အမေက ပြန်ပြောသည်။ အမေသည် ထိုလူ၏ အရိပ်အကဲကို အနီးကပ်၍ စေ့စေ့စပ်စပ် လေ့လာသည်။ အထူးသဖြင့် သူ့မျက်နှာထားကို အကဲခတ်သည်။ ထိုလူ၏ မျက်နှာပေါ်တွင် ဖော်ရွေခြင်းမှ တစ်ပါး အခြား ဘာမှ မရှိ။ ထို့နောက် အမေသည် ထိုလူ၏ ပွန်းပဲ့ စုတ်ပြတ်နေသည့် အင်္ကျီအနားများကို စူးစူးစိုက်စိုက် ကြည့်နေပြန်သည်။ ထိုလူ၏ အပေါ်၌ ယုံကြည် စိတ်ချခြင်းသည် အမေ့ရင်ထဲ၌ အခိုင်အမာ တည်ရှိလာသည်။

ထိုလူသည် ကော်ဖီကို တစ်ငုံ သောက်လိုက်သည်။ "အခု မနက် ခင်ဗျားနဲ့ တွေ့ဖို့ အမျိုးသမီးတစ်စု ဒီကို လာကြလိမ့်မယ်"

"ကျွန်မတို့ကလည်း အခုထက်ထိ သန့်သန့်စင်စင် ဖြစ်အောင် မလုပ်ရသေးဘူး" ဟု အမေက ပြောသည်။ "ကျွန်မတို့ လုပ်စရာ ရှိတာကလေးတွေ လုပ်ပြီးမှ သူတို့ လာကြမယ်ဆိုရင် ကောင်းမှာ"

"ဒါပေမဲ့ ကိစ္စ မရှိပါဘူး၊ သူတို့ နားလည်ကြပါတယ်" ဟု စခန်း မန်နေဂျာက ပြောသည်။ "သူတို့ ဒီစခန်းကို ရောက်လာတုန်းကလည်း အခု ခင်ဗျားတို့ ဖြစ်နေသလိုပါပဲ၊ မပူပါနဲ့ဗျာ၊ ဒီစခန်းရဲ့ ကော်မတီဟာ အင်မတန် ကောင်းပါတယ်၊ ဘာကြောင့်လဲဆိုတော့ စခန်းအကြောင်းကို အောက်ခြေသိမ်းက အစ သိနေတာကိုး" သူသည် ခွက်ထဲမှ ကော်ဖီကို ကုန်အောင် သောက်လိုက်ပြီး မတ်တတ် ရပ်လိုက်၏။ "ကဲ ကျွန်တော် သွားဦးမှ၊ ခင်ဗျား လိုတာရှိရင် ရုံးခန်းကို လာခဲ့ပါ၊ ရုံးခန်းမှာ ကျွန်တော် အမြဲ ရှိပါတယ်၊ သိပ်အရသာရှိတဲ့ ကော်ဖီပါပဲ၊ ကျေးဇူးတင်ပါတယ်ဗျာ" ဟု သူသည် လက်ထဲမှ ကော်ဖီခွက်ကို

သေတ္တာပေါ်သို့ ချလိုက်၏။ ပြီးတော့ အမေ့ကို လက်မြှောက်၍ နှုတ်ဆက်ကာ တဲတန်းနှစ်တန်းကြားရှိ လမ်းအတိုင်း လျှောက်သွားသည်။ လျှောက်သွားနေရင်းက တွေ့သမျှ မြင်သမျှ လူများနှင့် စကားပြောသွားနေလျက်ရှိသည့် ထိုလူ၏ အသံကို အမေ ကြားနေရလေသည်။

အမေသည် ခေါင်းကို ငုံ့ထားလိုက်၏။ ငိုချလိုက်ချင်သော စိတ်သည် အပြင်းအထန် ဖြစ်ပေါ်လျက် ရှိသည်။ အမေသည် သူ့စိတ်ကို ငြိမ်သွားအောင် ကြိုးစား၍ ထိန်းချုပ်နေရလေ၏။

အဖေဂျုတ်သည် ကလေးနှစ်ယောက်နှင့်အတူ ပြန်ရောက်လာသည်။ ကလေးများ၏ မျက်လုံးများတွင် မျက်ရည်စများ မခြောက်သေး။ သူတို့၏ နားနောက်မှ ချေးများကို အတင်းအဓမ္မ အချွတ်ခံထားရသဖြင့် ခံစားခဲ့ရသည့် နာကျင်မှု ဝေဒနာမှာ အခု အချိန်ထိ ပျောက်သေးဟန် မတူ။ မည်သို့ပင်ဖြစ်စေ နှစ်ယောက်စလုံးကတော့ သန့်ပြန့်နေကြပြီ ဖြစ်၏။ "မြင်တယ် မဟုတ်လား" ဟု အဖေဂျုတ်က အမေ့အား လှမ်းပြောသည်။ "ချေးထူနေပုံများကတော့ မပြောနဲ့၊ သူတို့ အရေပြားပေါ်မှာ ချေးက နှစ်ထပ်လောက်ကို တက်နေတာ"

အမေက သူ့ကလေး နှစ်ယောက်၏ ပြောင်းလဲမှုကို ကြည့်ကာ သဘောကျလျက် ရှိသည်။ "ကြည့်လို့ ကောင်းသွားပြီ" ဟု ဆိုသည်။ "ပေါင်မုန့်နဲ့ ဟင်း ရှိတယ်၊ ကိုယ့်ဘာသာ ကိုယ်ပဲ ထည့်စားပေတော့၊ ကျွန်မတို့ တဲထဲက ပစ္စည်းတွေကို သူ့နေရာနဲ့ သူ စနစ်တကျ ဖြစ်အောင် ရှင်းလင်းထားရလိမ့်ဦးမယ်"

အဖေဂျုတ်က ပန်းကန်များကို ယူ၍ ကလေးများအား အရင်ထည့်ပေးသည်။ ပြီးမှ သူ့အတွက် ထည့်၍ စားသည်။ "တွမ် အလုပ် သွားလုပ်တာ ဘယ်နေရာမှာလဲ"

"ကျွန်မလည်း မပြောတတ်ဘူး"

"သူ အလုပ်ရသွားရင် တို့လည်း ရနိုင်မှာပေါ့"

ထိုအခိုက်မှာပင် အယ်လ် ပြန်ရောက်လာသည်။ "အတော်ကောင်းတဲ့ နေရာ တစ်နေရာပဲဗျို့" ဟု စိတ်လှုပ်ရှားလျက် ရှိသော အသံဖြင့် ရေရွတ်သည်။ ပန်းကန်

တစ်ချပ်ကို ဆွဲယူပြီး နံနက်စာကို သူ့ဘာသာသူ ထည့်စားသည်။ "ဟိုဘက်နားမှာ လူတစ်ယောက် ဘာလုပ်နေတယ် ထင်လဲ၊ အိမ်လေးတစ်လုံး ဆောက်နေတယ်ဗျ၊ အံ့ရော၊ ဟောဟို ညာဘက်ဘေးမှာ၊ တဲတွေရဲ့ နောက်မှာ၊ အိမ်ရာတွေ မီးဖိုတွေနဲ့ အကျအနပဲ၊ လူဆိုတာ အဲသလိုနေရမှ ကောင်းတာ"

"အမေလည်း အိမ်ငယ်ငယ်တစ်လုံးလောက် ရှိချင်တယ်၊ မြန်မြန်ဆန်ဆန်သာ ရမယ်ဆိုရင် သိပ်ကောင်းမှာပဲ" ဟု အမေက တောင့်တောင့်တတ ပြောသည်။

"ဟေ့ အယ်လ်၊ တို့ မနက်စာ စားပြီးရင် မင်းရယ် ငါရယ် ဦးလေးဂျွန်ရယ် သုံးယောက် ထရပ်ကားနဲ့ ထွက်ပြီး အလုပ်ရှာကြမယ်"

"သွားကြတာပေါ့" ဟု အယ်လ်က ပြန်ပြောသည်။ "မော်တော်ကား အလုပ်ရုံတစ်ခုမှာ အလုပ်ရရင် သိပ်ကောင်းမယ်ဗျာ၊ ကျုပ်က ဟောဒီမှာပဲ လုပ်ချင်တယ်၊ အလုပ်ကို အဲဒီမှာလုပ်၊ ဖို့ဒ် ကားဟောင်းတစ်စီးဝယ်၊ ပြန်ပြင်၊ ဆေးရောင်ကို အဝါရောင်ကလေးသုတ်၊ လျှောက်မောင်း၊ လမ်းပေါ်က ကောင်မ လှလှလေးတွေကို ငမ်း၊ တစ်ယောက်ပြီး တစ်ယောက် တွဲ၊ ဟား ဘယ်လောက် ဇိမ်ကျလိုက်မလဲ၊ ဟီး ဟီး ငရဲပြည် ရောက်နေသလို ဖြစ်သွားမယ်"

အဖေဂျုတ်က အယ်လ်အား မျက်စောင်းတစ်ချက် ထိုးကြည့်လိုက်ပြီး ပြောသည်။ "ကြောင် - ပူတဲ့ အလုပ်မျိုး မလုပ်ခင် ထမင်းစားရမဲ့ အလုပ်ကလေး ဘာလေး ရအောင် ရှာထားရင် ကောင်းမယ်"

အိမ်သာထဲမှ ထွက်လာသော ဦးလေးဂျွန်သည် သူတို့ အနီးသို့ ရောက်လာသည်။ အမေက သူ့ကို လှမ်းကြည့်ပြီး မျက်နှာရှုံ့သည်။

"အခုထိ မျက်နှာ မသစ်ရ.." အမေက အပြစ်တင်ရန် စကားစပြီးခါမှ ဆက်မပြောတော့ဘဲ ရပ်သွားသည်။ ဦးလေးဂျွန်၏ ပုံပန်းမှာ နေကောင်းသည့် ပုံမျိုး မဟုတ်၊ အလွန် အားနည်းနေသည့် လက္ခဏာ ရှိသည်။ စိတ်ထိခိုက် ကြေကွဲနေဟန်လည်း ပေါက်လျက် ရှိသည်။ "တဲထဲဝင်ပြီး လှဲနေလိုက်ပါလား" ဟု အမေက ပြောသည်။ "ရှင့် ကြည့်ရတာ နေမကောင်းသလိုပဲ"

ဦးလေးဂျွန်က ခေါင်းယမ်းသည်။ "မလုပ်တော့ဘူး၊ ငါဟာ ဒုစရိုက်မှု လုပ်ထားတဲ့ကောင်၊ ကျလာတဲ့ အပြစ်ဒဏ်ကို ငါ ခံရမယ်" သူသည် တုန်ရီချည့်နဲ့စွာဖြင့် မီးဖိုအနီး၌ ထိုင်ချလိုက်ကာ ကော်ဖီတစ်ခွက် ငှဲ့သောက်သည်။

အမေက ပြောင်းဆန် ရောချက်ထားသည့် ဟင်း အကျန်ကို အိုးထဲမှ ခြစ်ခြုတ် ခပ်ယူပြီး ပန်းကန်တစ်ချပ်နှင့် ထည့်၍ ဦးလေးဂျွန်ကို လှမ်းပေးသည်။ "စခန်း မန်နေဂျာ စောစောက ရောက်လာတယ်၊ ကျွန်မတို့ဆီမှာ ခဏထိုင်ပြီး ကော်ဖီ သောက်သွားသေးတယ် "

အဖေဂျုတ်က မျက်လုံးများကို ဖြည်းဖြည်းချင်း လှန်၍ ကြည့်သည်။ "ဟုတ်လား၊ သူ ဘာလိုချင်လို့တဲ့လဲ "

"သွားရင်းလာရင်းနဲ့ လမ်းကြုံလို့ ဝင်ကြည့်တာပါ" ဟု အမေက အေးအေးသာသာပင် ပြန်ဖြေသည်။ "ဒီမှာ ခဏထိုင်ပြီး ကော်ဖီတစ်ခွက် သောက်သွားတယ်၊ ကော်ဖီ ကောင်းကောင်း မသောက်ရဘူးလို့ ပြောတယ်၊ ကျွန်မတို့ ကော်ဖီအနံ့က သိပ်မွှေးတာပဲတဲ့ "

"သူက ဘာလိုချင်သတဲ့လဲ " အဖေဂျုတ်က ထပ်မေးပြန်သည်။

"ဘာမှ မလိုချင်ပါဘူး၊ ကျွန်မတို့ နေရ ထိုင်ရတာ အဆင်ပြေ မပြေ ဝင်ကြည့်တာပါ "

"ငါ လုံးဝ မယုံကြည်ဘူး" ဟု အဖေဂျုတ်က ဆိုသည်။ "ဒီကောင် အာဏာပါဝါ ပြတာ ဖြစ်မှာပါ၊ အပြစ်လည်း ရှာချင်တယ် ထင်ပါတယ် "

"မဟုတ်ဘူး ရှင့်" အမေက ဒေါသတကြီး အော်ပြောသည်။ "အာဏာပြချင်တဲ့ လူစားမျိုးကို ကျွန်မ ခွဲခြားချင်တယ်၊ သိလား၊ အာဏာပြချင်တာက တခြားလူ မဟုတ်ဘူး၊ ရှင်"

အဖေဂျုတ်က ကော်ဖီခွက်ထဲမှ ကော်ဖီများကို မြေကြီးပေါ် သွန်ချလိုက်သည်။

“တခြားမှာ သွားသွန်” ဟု အမေက အော်ပြောပြန်သည်။ “ဒီနေရာက အင်မတန် သန့်တဲ့နေရာ”

“ကြားတယ် မဟုတ်လား၊ ဒီကောင်မက မသန့်ရှင်းတဲ့ လူနဲ့ဆိုရင် အတူ မနေနိုင်ဘူး ဆိုတဲ့ သဘောကွ” အဖေဂျူတ်က မနာလို ဝန်တိုသံဖြင့် ရေရွတ်သည်။ “ဟေ့ကောင် အယ်လ်၊ မြန်မြန် လုပ်ကွာ၊ အလုပ် ထွက်ရှာကြရအောင်”

အယ်လ်က သူ့ပါးစပ်ကို လက်ဖြင့် သုတ်လိုက်သည်။ “ကျုပ်က အဆင်သင့်ပါဗျ”

အဖေဂျူတ်က ဦးလေးဂျွန်ဘက်သို့ လှည့်မေးသည်။ “မင်း လိုက်မှာလား”

“အေး လိုက်မယ်”

“မင်း ကြည့်ရတာ နေမကောင်းဘူးနဲ့ တူတယ်”

“နေလို့တော့ သိပ်မကောင်းဘူး၊ ဒါပေမဲ့ ငါ လိုက်မယ်”

အယ်လ်က ကားပေါ်သို့ တက်ထိုင်သည်။ “ဆီတော့ ထပ်ဖြည့်ရလိမ့်မယ်” ဟု လှမ်းပြောသည်။ ပြီးတော့ စက်ကို နှိုးသည်။ အဖေဂျူတ်နှင့် ဦးလေးဂျွန်တို့က ကားပေါ်တက်ပြီး အယ်လ်၏ ဘေးမှ ထိုင်ခုံများတွင် ဝင်ထိုင်သည်။ ထရပ်ကားသည် တဲတန်းလျားကြားမှ လမ်းမအတိုင်း မောင်းထွက်သွားလေ၏။

အမေသည် သူတို့ ထွက်သွားရာ နောက်မှ မျက်စိတဆုံး ကြည့်၍ ကျန်ရစ်ခဲ့သည်။ ထို့နောက် သံပုံးတစ်ပုံးကို ဆွဲကာ အဆောက်အအုံ တစ်ဖက်ရှိ သုံးရေ ဘုံဘိုင်သို့ သွားသည်။ ရေဘုံဘိုင်မှ ရေနွေး တစ်ပုံး ခံကာ ပြန်၍ သယ်လာသည်။ ရိုစာဟန် ပြန်ရောက်လာသည့် အချိန်တွင် အမေသည် အိုးခွက် ပန်းကန်များကို ဆေးကြောလျက် ရှိနေလေပြီ။

“ညည်းအတွက် မနက်စာ ဟိုပန်းကန်ထဲမှာ ထည့်ထားတယ်” ဟု အမေက ဆီးပြောသည်။ ထို့နောက် သူ့သမီးကို စေ့စေ့စပ်စပ် ကြည့်သည်။ ရိုစာဟန်၏ ဆံပင်မှာ သပ်သပ်ရပ်ရပ် ဖြီးထားပြီး ဖြစ်သဖြင့် ကြည့်ကောင်းနေသည်။ ပန်းရောင်ပြေးနေသော အသားသည် ဝင်းလက်နေသည်။ ဝတ်ထားသည့် ဂါဝန်မှာ အပြာရောင် အောက်ခံပေါ်တွင်

ပန်းပွင့် အဖြူသေးသေး ကလေးများ ရိုက်ထားသည့် ဂါဝန် ဖြစ်၏။ ခြေထောက်၌ စီးထားသည့် ညှပ်ဖိနပ်သည် သူ လက်ထပ်စဉ်က စီးခဲ့သည့် ဖိနပ်။ အမေ၏ စူးစူးရဲရဲ အကြည့်ကြောင့် ရှိစာဟန်၏ မျက်နှာတွင် ရှက်သွေးဝင်လျက် ရှိလေသည်။ "ညည်း ရေချိုးခဲ့သလား" ဟု အမေက မေးသည်။

"သမီး ဟိုထဲမှာ ရှိနေတုန်း အမျိုးသမီးကြီး တစ်ယောက် လာပြီး ရေချိုးတယ်၊ သူ လုပ်တာကိုင်တာ ကြည့်ပြီး သမီး လုပ်တတ်သွားတယ်၊ ရေချိုးခန်းထဲဝင်ပြီး ခလုတ်လှည့်လိုက်ရင် ရေတွေက မိုးရွာသလို ကျလာတာပဲ၊ ရေနွေး ကြိုက်ရင် ရေနွေး ခလုတ်၊ ရေအေး ကြိုက်ရင် ရေအေး ခလုတ်၊ အမေ ကြိုက်ရာ ခလုတ်ကို လှည့်လိုက်ရုံပဲ၊ ဒါနဲ့ပဲ သမီးလည်း ရေချိုးလိုက်တယ်"

"ဒီလိုဆို ငါလည်းသွားချိုးမယ်" ဟု အမေက အော်ကြီးဟစ်ကျယ် ပြောသည်။ "ဒီပန်းကန်တွေ ဆေးကြောပြီးတာနဲ့ တစ်ပြိုင်နက် အမေ သွားမယ်၊ ဘယ်လို ချိုးရတယ် ဆိုတာ ညည်းက အမေ့ကို ပြပေး"

"သမီးလည်း နေ့တိုင်း သွားချိုးမယ်" ဟု ရှိစာဟန်က ဖြေသည်။ "ဟို အမျိုးသမီးကြီးက သမီးကို မြင်တယ်၊ သမီးရဲ့ ဗိုက်ကိုလည်း မြင်သွားတယ်၊ သူက သမီးကို ဘာပြောသလဲ သလား၊ တစ်ပတ်ကို တစ်ကြိမ် သူနာပြု ဆရာမ တစ်ယောက် လာတယ်တဲ့၊ အဲဒီဆရာမနဲ့ မှန်မှန် တွေ့ပေးတဲ့၊ ဗိုက်ထဲက ကလေး ကျန်းမာသန်စွမ်းအောင် ဘယ်လို လုပ်ရကိုင်ရမယ် ဆိုတာ ဆရာမက ပြောပြလိမ့်မယ်တဲ့၊ ဒီစခန်းမှာနေတဲ့ အမျိုးသမီး အားလုံး အဲသလို လုပ်ကြတယ်တဲ့၊ သမီးလည်း သူတို့လိုပဲ လုပ်မယ်နော်" ရှိစာဟန်၏ နှုတ်မှ နောက်ထပ် စကားများ ထွက်လာပြန်သည်။ "သူ ပြောပြသွားတာတွေ ပြောပြရဦးမယ်၊ ပြီးခဲ့တဲ့ အပတ်က ကလေးတစ်ယောက် မီးဖွားလို့ စခန်းတစ်ခုလုံးက စုပြီး ပါတီပွဲ လုပ်တယ်တဲ့၊ ပါတီပွဲမှာ လူတိုင်းက ကလေးအတွက် အင်္ကျီလေးတွေ ဘောင်းဘီလေးတွေ အရုပ်ကလေးတွေနဲ့ ပေါင်ဒါဘူးတွေပါ လက်ဆောင်ပေးကြတယ်တဲ့၊ အသစ်ကျပ်ချွတ်တော့ မဟုတ်ဘူးပေါ့ အမေရယ်၊ ဒါပေမဲ့ ပြင်ချုပ်ထားတော့ အသစ်လိုပဲပေါ့၊ ပြီးတော့ သူတို့က ကလေးကို နာမည်ပေးကြတယ်တဲ့၊ ကိတ်မုန့်ကြီးတစ်လုံးနဲ့ တခမ်းတနား လုပ်တာတဲ့၊ သမီး သိပ်ဝမ်းသာတာပဲ" စကားကို အဆက်မပြတ် ပြောလာခဲ့ရသော ရှိစာဟန်သည် အသက်ကို မှန်မှန် မရှူနိုင်လောက်အောင် ဖြစ်လျက် ရှိလေသည်။

"ကိုယ့်ရပ်ကိုယ့်ရွာ ပြန်ရောက်ပြီး ကိုယ့်မိတ်သင်္ဂဟတွေနဲ့ ပြန်ဆုံရသလိုပါပဲဟယ်၊ အမေတော့ ရေချိုးချင်လှပြီ"

"အို ရေချိုးလို့ကတော့ သိပ်ကောင်းတယ် အမေ" ဟု ရိုစာဟန်က ပြောသည်။

အမေသည် ပန်းကန် ခွက်ယောက်များကို ဆေးကြောပြီး တစ်ခုပေါ် တစ်ခု ထပ်၍ တင်သွားနေရာမှ စကားကို အမျှင်မပြတ်အောင် ပြောလျက် ရှိ၏။ "ငါတို့ မိသားစုဟာ ဂျူတ်မျိုးတွေ၊ ဘယ်သူ့ကိုမှ မော့ကြည့်တဲ့ မျိုးရိုး မဟုတ်ဘူး၊ တို့အဘိုးရဲ့ အဘိုးဟာ တော်လှန်ရေးကြီးတုန်းက ပါခဲ့တာပေါ့၊ ငါတို့ တစ်မျိုးလုံးဟာ ကြွေးတင် ကျွန်ဖြစ်ရတဲ့ အချိန်ထိ လယ်သမားဘဝနဲ့ နေလာခဲ့ကြတာ၊ နောက်တော့ ဒီလူတွေနဲ့ တွေ့ရတယ်၊ သူတို့ဟာ အချိန်ရှိသမျှ ငါတို့ကိုလာပြီး ဒုက္ခပေးနေကြတယ်၊ တို့အားလုံးကို ကြိမ်တုတ်နဲ့ လာရိုက်နေသလိုပဲ၊ နီဒယ်လ်တုန်းက ပုလိပ်နဲ့ အမေနဲ့ ဖြစ်ရတဲ့ ကိစ္စကို မှတ်မိသေးသလား၊ သူက အမေ့ကို သိက္ခာကျအောင် အရှက်ရအောင် လုပ်ခဲ့တယ်၊ ရှက်လည်း ရှက်ခဲ့တယ်၊ အခုတော့ ငါ မရှက်တော့ဘူး၊ ဒီစခန်းမှာ နေတဲ့လူတွေက ငါတို့လူတွေပဲ၊ ပြီးတော့ ဒီကို ရောက်လာတဲ့ စခန်း မန်နေဂျာကို ကြည့်၊ သူဆိုရင် ငါတို့ဆီကိုလာပြီး ငါတို့နဲ့ တွဲထိုင်တယ်၊ တို့ ကော်ဖီကို သောက်တယ်၊ တို့နဲ့ တရင်းတနှီး စကားပြောတယ်၊ မစ္စက်ဂျုတ် ဒါကတော့ ဒီလိုဗျ၊ မစ္စက်ဂျုတ်ရေ ဟိုကိစ္စကတော့ ဒီလို ဖြစ်နေတယ်၊ ခင်ဗျားတို့ ဘယ်လို နေကြလဲ၊ အဆင်ပြေကြရဲ့လား မစ္စက်ဂျုတ်လို့ မေးတယ်" အမေသည် စကားကို ဖြတ်၍ ရပ်ကာ သက်ပြင်း တစ်ချက် ချသည်။ "အမေ ဘာကြောင့် ဒီစကားတွေ ပြောနေရတာလဲ သိလား တခြားကြောင့် မဟုတ်ဘူး၊ အမေ့ စိတ်ထဲမှာ ငါဟာ လူတစ်ယောက်ပါလား ဆိုတဲ့ လူစိတ် ပြန်ဝင်လာလို့" အမေသည် သူ့လက်ထဲမှ နောက်ဆုံး ပန်းကန်ကို လှမ်းတင်လိုက်ပြီး တဲထဲသို့ ဝင်သည်။ အဝတ်အစား ထည့်သည့် သေတ္တာကို ဖွင့်၍ မွှေသည်။ သူ့ဖိနပ်နှင့် အဝတ်အစားသစ်များကို ရှာခြင်း ဖြစ်သည်။ မွှေရင်းနောက်ရင်းနှင့်ပင် သူ့နားကပ်တစ်စုံ ထည့်ထားသည့် စက္ကူဘူးကလေးကို ပြန်တွေ့သဘည်။ သူ့တဲထဲမှ ပြန်ထွက်လာသောအခါ ရိုစာဟန်ကို လှမ်းမှာသည်။ "တကယ်လို့များ အမျိုးသမီးတွေ ရောက်လာရင် အမေ အခုပဲ ပြန်လာလိမ့်မယ်လို့ ပြောထားနော်" အမေသည် ရေချိုးခန်းများ ရှိရာ အဆောက်အအုံ ဘေးသို့ ဝင်ရောက် ပျောက်ကွယ်သွားလေ၏။

ရိုစာဟန်သည် သေတ္တာတစ်လုံးပေါ်သို့ နေးကွေးလေးလံစွာဖြင့် ထိုင်ချလိုက်ပြီး ခြေထောက်မှ ဖိနပ်ကို စူးစူးစိုက်စိုက် ကြည့်နေမိသည်။ သူနှင့် ကွန်နီတို့

လက်ထပ်သည့်နေ့က စီးခဲ့သော ဖိနပ်။ အနက်ရောင် သားရေ အကောင်းစားနှင့် ချုပ်ထားသော ဖိနပ် ဖြစ်၏။ ဦးပိုင်း ထိပ်ဘက်တွင် ဖဲပွင့် လှလှကလေးများပင် တပ်ထားသည်။ သူသည် ဖိနပ်ဦးထိပ်တွင် ကပ်နေသည့် ဖုန်မှုန့်များကို လက်ချောင်းများဖြင့် ပွတ်ပစ်လိုက်ပြီး တစ်ဆက်တည်း သူ့လက်ချောင်းများကို စကတ် အနားစဖြင့် သုတ်ပစ်လိုက်လေသည်။ အမှတ်တမဲ့ ရှေ့သို့ ကုန်းလိုက်မိသဖြင့် သူ့ကိုယ်ဝန်ဗိုက်မှာ အနည်းငယ်မျှ ကသိကအောက် ဖြစ်သွားရ၏။ သူသည် ချက်ချင်းပင် ကိုယ်ကို တောင့်တောင့်မတ်မတ် ဖြစ်သွားအောင် ပြင်ထိုင်လိုက်ပြီး သူ့ဗိုက်ကို အသာအယာ စမ်းကြည့်သည်။ စမ်းနေရင်းမှလည်း မသိမသာကလေး ကျိတ်၍ ပြုံးသည်။

ခပ်တုတ်တုတ်ခိုင်ခိုင် မိန်းမကြီးတစ်ယောက်သည် လမ်းမအတိုင်း လျှောက်လာလျက် ရှိ၏။ သူ့လက်ထဲတွင် ပန်းသီးထည့်သည့် စက္ကူဘူးခွံတစ်လုံး။ ထိုဘူးခွံထဲတွင် အဝတ်ဟောင်းများ ထည့်ထားသည်။ အဝတ်လျှော်ရန် ရေချိုးခန်းများဆီသို့ လာနေခြင်း ဖြစ်လေသည်။ မိန်းမကြီး၏ မျက်နှာသည် နေလောင်ထားသဖြင့် အညိုရောင် သန်းနေသည်။ မျက်လုံးများကတော့ နက်မှောင်မှောင်။ အသေးအဖွဲမှအစ အလေးအနက် ထားမည့် မျက်လုံးမျိုး ဖြစ်၏။ သူ့ခါးတွင် အညစ်အကြေးကာ ခါးစည်းကြိုးတစ်ထည် စည်းထားသည်။ ခါးစည်းမှာ ချည်ကြမ်း အိတ်ဟောင်း တစ်လုံးကို ဖျက်၍ ချုပ်ထားခြင်း ဖြစ်၏။ ဝတ်ထားသည့် ဂါဝန်မှာ ချည်ထည် အကွက်ဆန်း။ မိန်းမကြီးသည် သူ့ဗိုက်သူ တယုတယ ပွတ်နေသော ရိုစာဟန်ကို မြင်သည်။ ရိုစာဟန်၏ မျက်နှာတွင် ထင်လာသည့် အပြုံးရိပ်ကိုလည်း မြင်သည်။

"ဘယ်လိုလဲ ဟေ့" ဟု မိန်းမကြီးက အော်ပြောပြီး ဟက်ဟက်ပက်ပက် ရယ်သည်။ "ညည်းဗိုက်က ဘာလေးမွေးမယ် ထင်သလဲ"

ရိုစာဟန်၏ မျက်နှာသည် ရဲခနဲ ဖြစ်သွားပြီး ခေါင်းကို ငုံ့ထားလိုက်သည်။ ထို့နောက် မျက်လွှာကို ပင့်၍ ခိုးကြည့်သည်။ ဝင်းလက်တောက်ပနေသည့် မိန်းမကြီး၏ မျက်လုံးအစုံဖြင့် ဆိုင်မိသည်။ "ကျွန်မ ဘယ်သိမလဲ" ဟု မပွင့်တပွင့် ပြောသည်။

မိန်းမကြီးသည် ခါးစောင်းတင်ထားသည့် ပန်းသီးဘူးခွံကို မြေပေါ်သို့ ချလိုက်၏။ "နင့်ဟာ သက်ရှိ သတ္တဝါ တစ်ကောင်ပေါက်မယ့် ရောဂါဟဲ့" မိန်းမကြီးက ဥကျင်းမှ

ဆင်းလာစ ကြက်မတစ်ကောင် ကတော်သည့်နှယ် ရှင်လန်းမြူးကြွသော အသံဖြင့် ပြောသည်။ "ညည်းက ဘာလေး လိုချင်သလဲ၊ အထီးလေးလား၊ အမလေးလား"

"ကျွန်မ... ကျွန်မ.. မပြောတတ်ဘူး၊ ယောကျ်ားလေး ဆိုရင်..၊ ဟုတ်တယ်၊ ယောကျ်ားလေးပဲ လိုချင်တယ်"

"ညည်းတို့ အခုမှ ရောက်ကြတာ ထင်တယ်၊ ဟုတ်လား"

"မနေ့ညက သန်းခေါင်ကျော်မှ ရောက်တာ"

"ဒီမှာ နေကြမှာလား"

"ကျွန်မ မပြောတတ်ဘူး၊ တကယ်လို့ ကျွန်မတို့ အလုပ်ရကြရင်တော့ နေလိမ့်မယ် ထင်တာပဲ"

မိန်းမကြီး၏ မျက်နှာသည် ညိုသွားသည်။ အနက်ရောင် မျက်လုံးများသည် တည်ငြိမ် အေးစက်သွားသည်။ "တကယ်လို့ အလုပ်ရမယ် ဆိုရင်..၊ အင်းပေါ့ ဒီစကားဟာ တို့အားလုံး ပြောခဲ့ကြတဲ့ စကားပဲ"

"ကျွန်မ အစ်ကိုတော့ ကနေ့မနက်ပဲ အလုပ် ရသွားပြီ"

"ဟုတ်လား၊ ဒါဆိုရင် မင်းတို့ ကံကောင်းတာ ဖြစ်ချင် ဖြစ်မယ်၊ ဒါပေမဲ့ ဟော့ ကံကိုတော့ သတိထား၊ ကံဆိုတာ ယုံလို့ မရဘူး" မိန်းမကြီးသည် ရိုစာဟန် အနားရောက်အောင် ကပ်လာသည်။ "ကံဆိုတာမျိုးဟာ တစ်ကြိမ်ပဲ ကောင်းတယ်၊ အများကြီး မကောင်းတတ်ဘူး၊ အဲဒီတော့ ကောင်းအောင်နေပါ မိန်းကလေးရယ်" မိန်းမကြီးက သူ့စကားကို အလေးအနက်ပြု၍ ပြောသည်။ "ကောင်းအောင်တော့ နေနော်၊ တကယ်လို့များ ညည်းအနေနဲ့ မကောင်းတာ လုပ်မိရင် ညည်း ဗိုက်ထဲက မွေးလာမယ့် ကလေးအတွက် အစစအရာရာ သတိထားမှ ဖြစ်မယ်" မိန်းမကြီးသည် ပြောပြောဆိုဆိုနှင့်ပင် ရိုစာဟန်၏ ရှေ့၌ ဆောင့်ကြောင့် ထိုင်ချလိုက်လေသည်။ "ဒီစခန်းမှာလည်း ကျက်သရေ ကျက်သရာ မရှိတဲ့ ဟာမျိုး ရှိတယ်အေရဲ့" ဟု မိန်းမကြီးက မလိုတမာ အသံဖြင့် ပြောသည်။ "စနေနေ့ညတိုင်း ကပွဲ ရှိတယ် သိလား၊ ကပွဲကလည်း လေးယောက်တစ်တွဲ မျက်နှာချင်းဆိုင်ပြီး ကရတဲ့ စကွဲရားဒန့်စ်ကပွဲမျိုးတင် မဟုတ်ဘူး၊

တစ်ယောက်နဲ့ တစ်ယောက် ဖက်ပြီး ရင်ချင်းအပ် ကရတဲ့ ပွတ်အကမျိုးလည်း ပါလိုက်သေးတယ်၊ ငါကိုယ်တိုင် မြင်ရတာအေ့ ”

ရိစာဟန်က စကားကို သတိထား၍ ပြန်ပြောသည်။ “ကျွန်မတော့ အကကို ကြိုက်တယ်၊ စကွဲရားဒန့်စ်ကို ပြောတာပါ၊ ဟို အကမျိုးတော့ တစ်ခါမှ မကဖူးသေးဘူး”

မိန်းမကြီးက ခေါင်းညိတ်သည်။ “အင်း တချို့ကတော့ ကြိုက်ကြတယ်အေ့၊ ဘုရားသခင်ကတော့ သဘောကျမယ် မထင်ပေါင်အေ၊ ညည်းကော ဘယ်လိုထင်လဲ၊ ဘုရားသခင်က ကြိုက်လိမ့်မယ် ထင်သလားဟင် ”

“မထင်ပါဘူးရှင် ” ရိစာဟန်က တလေးတစား ပြန်ပြောသည်။

မိန်းမကြီးက အကြောပြိုင်းပြိုင်း ထနေသော သူ့လက်တစ်ဖက်ဖြင့် ရိစာဟန်၏ ဒူးခေါင်းကို လှမ်းကိုင်သည်။ ရိစာဟန်က တွန့်ခနဲ ဖြစ်သွားကာ နောက်သို့ ဆုတ်ရန် ဟန်ပြင်သည်။ “ညည်းကိုတော့ ငါက ကြိုကြိုတင်တင် သတိပေးထားစမ်းပါရစေဦး အေ၊ အခုဆိုရင် ဘုရားသခင်ကို ချစ်တဲ့လူ အရေအတွက်က နည်းနည်းလေးပဲ ရှိတော့တယ် သိလား၊ စနေနေ့ညတိုင်း တီးဝိုင်းအဖွဲ့ ရောက်လာတယ်၊ တီးတယ်၊ အို ရင်ချင်းအပ်ပြီး ကလိုက်ကြတဲ့ အတွဲတွေ တစ်ပုံတစ်ပင်ကြီးပါပဲတော်၊ ငါ့မျက်စိနဲ့ မြင်ရတာ၊ ငါကိုယ်တိုင်ကတော့ သူတို့အနား မသွားပေါင်၊ ငါ့ဆွေမျိုးတွေကိုလည်း ပေးမလွှတ်ဘူး၊ ရင်ဘတ်ချင်းအပ်ပြီး ကတာတွေ အေ့ သိလား၊ တကယ့်ကို ရင်ချင်းအပ်ပြီး ကကြတာ ” သူသည် စကားကို ရုတ်တရက် မဆက်သေးဘဲ ခဏမျှ ရပ်နေသည်။ ထို့နောက် တီးတိုးလေသံဖြင့် ဆက်ပြောသည်။ “သူတို့ လုပ်ပုံက ငါ ပြောတာထက် ပိုသေးတယ်၊ အောင်မယ် သူတို့က စင်ပေါ်တောင် တက်ပြီး ကလိုက်သေးတယ်၊ အံ့ပါ့” မိန်းမကြီးက ကိုယ်ကို နောက်သို့ အနည်းငယ်မျှ ယို့လိုက်ပြီး ရိစာဟန်၏ မျက်နှာကို ကြည့်သည်။ သူ့စကားကို ယုံမယုံ အကဲခတ်သည့် အကြည့်။

“မင်းသားတွေလား ဟင်” ဟု မိန်းကလေးက ထိတ်လန့် အံ့ဩဟန်ဖြင့် မေးသည်။

“ဘယ်ကလာ မင်းသား ဟုတ်ရမှာလဲ” မိန်းမကြီးက ကျယ်လောင် စူးရှသော အသံဖြင့် ပြန်ပြောသည်။ “မင်းသား မင်းသမီး လုံးဝ မဟုတ်ပေါင်၊ အလကား အသုံးမကျတဲ့ သူလို ငါလို ကောင်တွေ ကောင်မတွေပါ၊ ငါတို့နဲ့ ဘဝတူတွေထဲကပါ၊ ငါတို့ လူတွေပါ၊

သူတို့က သားသမီးလည်း များများ မရှိကြတော့ လွတ်ချင်တိုင်း လွတ်နေကြတာ၊ ငါကတော့ သူတို့အနား မသွားဘူး၊ ဒါပေမဲ့ သူတို့ ဘာတွေ လုပ်နေကြတယ်ဆိုတာ ငါ အကုန်ပြန်ပြီး ကြားတယ်၊ ဒီစခန်းကို မကောင်းဆိုးဝါးတွေ ဝင်နေပြီ အေ့"

ရှိစာဟန်သည် မျက်လုံး အပြူးသား ပါးစပ်အဟောင်းသားဖြင့် ငေး၍ နားထောင်နေသည်။ "ကျွန်မ ကျောင်းနေတုန်းကတော့ ခရစ္စမတ်ပွဲ ဆိုတာ တွေ့ဖူးတယ်၊ အဲဒီမှာ ကပွဲ လုပ်တာပဲ"

"အေးလေကွယ်၊ ငါ့အနေနဲ့ကတော့ ကောင်းတယ် ဆိုးတယ် မဝေဖန်ချင်ပါဘူး၊ ခရစ္စမတ်ကပွဲ ဆိုတာကတော့ ဘာပြောစရာရှိလဲ၊ ကောင်းတဲ့ပွဲမျိုးပါ၊ ဒါပေမဲ့ အခု သူတို့ ဒီမှာ လုပ်နေတာက ခရစ္စမတ်ပွဲ မဟုတ်ဘူး အေ့၊ မိစ္ဆာ အလုပ်တွေ၊ အသိတရား ကင်းမဲ့တဲ့ အလုပ်မျိုးတွေ လုပ်နေကြတာ၊ တစ်ယောက်နဲ့ တစ်ယောက် ရင်ချင်းပူးပြီး ဗလုံးဗထွေး လုပ်နေကြတာ"

ရှိစာဟန်က သက်ပြင်းချသည်။

"ဒါကို သဘောကျပြီး လုပ်နေကြတဲ့ လူ အရေအတွက်ကတော့ မနည်းလှဘူး" ဟု မိန်းမကြီးက ဆက်ပြောပြန်သည်။ "ဘုရားသခင် မကြိုက်တဲ့ မိစ္ဆာအလုပ် လုပ်နေတဲ့ လူတွေကို ဘုရားသခင်က ခွင့်လွှတ်မယ် ထင်သလား၊ ဟင်း ဝေးသေး၊ ဒုစရိုက်မှုတွေ တစ်ခုပြီး တစ်ခု စုပုံလာတာကို ဘုရားသခင်က စောင့်ကြည့်နေတာ၊ ဘုရားသခင်တင် မဟုတ်ပါဘူးလေ၊ ငါကလည်း မျက်ခြည်အပြတ် မခံပါဘူး၊ အခုဆိုရင် ဘုရားသခင်က ဒဏ်ခတ်လိုက်တာ နှစ်ယောက်တောင် ရှိသွားပြီ"

စိတ်မော လူမော ဖြစ်သွားသော ရှိစာဟန်က "ဟုတ်လား" ဟု ရေရွတ်သည်။

မိန်းမကြီး အသံသည် ကျယ်လာသည်။ "ငါကိုယ်တိုင် တွေ့တာ၊ ညည်းက မယုံမရှိနဲ့၊ ညည်းလိုပဲ ဗိုက်နဲ့ ကောင်မလေး တစ်ယောက်၊ သူက အမြဲတမ်း ရင်ချင်းကပ်ပြီး ကနေတာပေါ့၊ အဲဒီအကကို သိပ်ကြိုက်တာ၊ နောက်ဆုံး အရေစွာ ခံရတာပဲ၊ ဘာဖြစ်သွားသလဲ ဆိုတာ ငါ ပြောပြမယ်၊ ကလေး ပျက်ကျတယ်၊ ကလေးက အသေကလေးပေါ့ဟယ်"

"ဘုရား.. ဘုရား" ဟု ရိုစာဟန်က ရေရွတ်သည်။ သူ့မျက်နှာမှာ ဖြူရော်ဖျော့တော့နေသည်။

"အသေလေး မွေးတာ သွေးတွေကို ရဲနေတာပဲ၊ သူ့ကို ဘယ်သူကမှ စကားမပြောကြတော့ဘူး၊ သူ ဒီမှာနေလို့ ဘယ်ဖြစ်တော့မလဲ၊ လစ်ရတာပေါ့၊ နောက်တစ်ယောက်ရှိသေးတယ်၊ အဖြစ်က ဒီအဖြစ်မျိုးပဲ၊ သူလည်း အန္တရာခံရတာပဲ၊ သူ ဘာဖြစ်သွားတယ်ထင်လဲ၊ တစ်ညမှာ သူ ပျောက်သွားတယ်၊ နှစ်ရက်လောက်နေတော့ သူပြန်ရောက်လာတယ်၊ သူက ပြောတော့ အလည်သွားတာတဲ့၊ ဒါပေမဲ့ ငါ သိပါတယ်၊ သူလည်း ဗိုက်ကြီးတာပဲ၊ ငါ ထင်တာ ပြောပြမယ်၊ စခန်း မန်နေဂျာက သူ့ကို ခေါ်ထုတ်သွားပြီး ကလေး ဖျက်ချပေးတာ၊ ဒီလူက မကောင်းတာ လုပ်ရင် မကောင်းတာ ဖြစ်တယ် ဆိုတာကို ယုံကြည်တဲ့ လူ မဟုတ်ဘူး အေ့၊ သူကိုယ်တိုင် ပြောပြလို့ ငါ သိတာ၊ ဒုစရိုက်မှု ပြုတာဟာ ငတ်လို့တဲ့၊ ဒုစရိုက်မှု ဖြစ်လာတာဟာ အေးလို့တဲ့၊ ကဲ အဲဒါ သူ့ပါးစပ်က ပြောတာ၊ ပြီးတော့ ပြောလိုက်သေးတယ်၊ ဘုရားသခင်က ဒုစရိုက်မှုကိုတော့ မြင်တယ်၊ ငတ်နေတာကျတော့ မမြင်ဘူးတဲ့၊ မိန်းကလေးတွေ ပျက်စီးကြရတာဟာ အစားအစာ ဝအောင် မစားရလို့တဲ့"

မိန်းမကြီးသည် မတ်တတ် ထလိုက်ကာ နောက်သို့ ဆုတ်လိုက်သည်။ ပြီးတော့ ရိုစာဟန်ဘက် လက်ညှိုး ငေါက်ငေါက်ထိုး၍ စကားကို ဆက်ပြောပြန်သည်။

"ငါက ပြောတယ်၊ ဒီစခန်းထဲမှာ မကောင်းဆိုးဝါးကောင် မွေနေပြီ၊ အဲဒီအကောင်ကို ငါ သိတယ်၊ တခြား အကောင် မဟုတ်ဘူး၊ ဆေတန်ဆိုတဲ့ နတ်ဆိုးလို့၊ ပြီးတော့ ဒီစခန်းက အခု ချက်ချင်း ထွက်သွားစမ်းလို့ ငါက မောင်းထုတ်တယ်၊ အောင်မယ် အဲဒီကျတော့ သူက ဘာပြန်ပြောတယ် မှတ်လဲ၊ တစ်ကိုယ်လုံး တုန်တုန်ယင်ယင်နဲ့ စခန်းထဲက လူတွေ ပျော်ရွှင်မှု ကင်းမဲ့သွားအောင် ခင်ဗျားက မလုပ်ချင်ပါနဲ့တဲ့၊ ငါကလည်း ဘယ်ရမလဲ၊ ပျော်ရွှင်မှု ကင်းမဲ့အောင် ကျုပ်က လုပ်တယ် ဟုတ်လား၊ နေစမ်းပါဦး၊ သူတို့ရဲ့ စိတ်ချမ်းမြေ့ သာယာဖို့ကျတော့ တော်က မစဉ်းစားဘူးလား၊ ကလေးတွေ ဖျက်ချနေတာကိုရော တော် ဘယ်လိုလုပ်ပေးမလဲလို့ ပြန်မေးလိုက်တယ်၊ သူ ငါ့စကားကို မချေနိုင်ဘူး၊ ပြူးပြူးကြီး စိုက်ကြည့်နေပြီး ထွက်သွားရော" မိန်းမကြီးသည် အဝတ်ဟောင်းများ ထိုးထည့်လာသည့် စက္ကူဘူးကြီးကို ကောက်ယူလိုက်သည်။ "အေး ညည်းလည်း သတိထားနေ၊ ငါ ကြိုကြိုတင်တင် သတိပေးလိုက်မယ်၊ ညည်းဗိုက်ထဲက အပြစ်မရှိတဲ့ ကလေးကို ထောက်ထားပြီး ဒုစရိုက်မှုတွေ မပြုမိအောင် ရှောင်" ထို့နောက်

မိန်းမကြီးသည် ရင်ကို ခပ်ကော့ကော့ လုပ်၍ ရှိစာဟန်အနီးမှ ထွက်ခွာသွားသည်။ သူ့မျက်လုံးများသည် သူ ပြောချင်သမျှကို ပြောလိုက်ရသဖြင့် ပီတိလှိုင်း ထကာ တောက်ပနေကြလေသည်။

ရှိစာဟန်သည် မိန်းမကြီး ထွက်သွားရာဘက်သို့ မျှော်ကြည့် ကျန်ရစ်ခဲ့သည်။ ထို့နောက် သူ့ခေါင်းကို လက်နှစ်ဖက်ဖြင့် အပ်ကာ ခပ်တိုးတိုး ညည်းညူလျက် ရှိသည်။ သူ့ဘေးမှ အသံတစ်သံ ထွက်လာသည်။ ရှိစာဟန် ဖျတ်ခနဲ မော့ကြည့်သည်။ အဖြူရောင် ဝတ်စုံဖြင့် စခန်း မန်နေဂျာ။ ရှက်စိတ်ကြောင့် သူ့မျက်နှာကို ရဲရဲ မကြည့်ဝံ့။ "စိတ်မရှိပါနဲ့ကွယ်" ဟု မန်နေဂျာက ဖျောင်းဖျသည်။ "ဘာမှ ပူစရာ မရှိပါဘူး"

ရှိစာဟန်၏ မျက်လုံးများတွင် မျက်ရည်များဖြင့် ပြည့်လျက် ရှိသည်။ "ဒါပေမဲ့ ကျွန်မ လုပ်ခဲ့မိတယ်" ဟု ပြောသည်။ "ကျွန်မ ဟို မိန်းမကြီး ပြောသွားတဲ့ ရင်ချင်းအပ် အကကို ကခဲ့မိတယ်၊ သူ့ကိုတော့ ဖွင့်မပြောလိုက်ဘူး၊ ဆယ်လီဆောမှာ နေတုန်းက ကခဲ့မိတာ၊ ကျွန်မနဲ့ ကွန်နီပေါ့"

"မပူပါနဲ့ကွယ်" ဟု မန်နေဂျာက ထပ်၍ ဖျောင်းဖျသည်။

"ဟို မိန်းမကြီးက ပြောသွားတယ်၊ ကလေး ပျက်ကျလိမ့်မယ်တဲ့"

"သူ ဒီလို ပြောလိမ့်မယ် ဆိုတာ ငါ သိပါတယ်၊ ငါ သူ့ကို မျက်ခြည်မပြတ် ကြည့်နေတာပါ၊ သူက သဘောတော့ ကောင်းပါတယ်၊ ဒါပေမဲ့ လူတွေကို စိတ်ညစ်အောင် လုပ်တတ်တဲ့ အကျင့်ရှိတယ်"

ရှိစာဟန်က နပ်ကို ရှုံ့သွင်းလိုက်သည်။ "ဒီစခန်းက ကလေး ပျက်ကျသွားတဲ့ ကောင်မလေး နှစ်ယောက်ကို သူ သိတယ်လို့ ပြောသွားတယ်"

မန်နေဂျာက ရှိစာဟန်၏ရှေ့ မြေကြီးပေါ်၌ ထိုင်လိုက်သည်။ "ဒီမှာ ငါ ပြောတာ နားထောင်၊ အဲဒီ မိန်းကလေး နှစ်ယောက်ကို ငါလည်း သိတာပဲ၊ သူတို့ခမျာ အစာလည်း ဝဝလင်လင် မစားကြရဘူး၊ အလုပ်ကလည်း တအား ပင်ပန်းနေတယ်၊ ထရပ်ကားကြီးကို အမြဲစီးပြီး သွားရတာ၊ ကားဆောင့်တဲ့ ဒဏ်ကို အမြဲ ခံနေရတာ၊ အဲဒီတော့ ဖြစ်တာပေါ့၊ သူတို့အပြစ် မဟုတ်ဘူး"

"ဒါပေမဲ့ သူက ပြောတော့ .."

"အိုကွယ်၊ သူ ပြောတာကို မစဉ်းစားနဲ့၊ ဒီမိန်းမကြီးက သူများကို ဒုက္ခပေးနေရမှ ကျေနပ်တဲ့ ဟာကြီးကွယ့်"

"သူက ပြောသွားတယ်၊ ရှင်ဟာ မကောင်းဆိုးဝါးကောင်ပဲတဲ့"

"ပြောသွားမယ် ဆိုတာ ငါ သိတယ်၊ လူတွေကို စိတ်ဆင်းရဲ ကိုယ်ဆင်းရဲဖြစ်အောင် မလုပ်ဖို့ သူ့ကို ငါက တားတာကိုး၊ ဒါကို သူက မကျေနပ်ဘူး" မန်နေဂျာက ရိုစာဟန်၏ ပခုံးကို ပုတ်သည်။ "မင်း ဘာမှ မပူနဲ့၊ ဒီမိန်းမကြီးဟာ အလကား၊ ဘာမှ နားလည်တာကြီး မဟုတ်ဘူး" မန်နေဂျာသည် ထိုင်ရာမှ ထကာ ရိုစာဟန်၏ အနီးမှ ထွက်သွားသည်။

ရိုစာဟန်က သူ့ကို မျက်စိတစ်ဆုံး လိုက်၍ ကြည့်သည်။ လမ်းလျှောက်သည့် အခါတွင် မန်နေဂျာ၏ သေးသွယ်သွယ် လက်မောင်းနှစ်ဖက်သည် အကြောဆွဲနေသည့်နှယ် တွန့်ခနဲ တွန့်ခနဲ ဖြစ်သွားတတ်သည်ကို သတိထားမိသည်။ အမေ ပြန်ရောက်လာသော အချိန်အထိ ရိုစာဟန်၏ မျက်လုံးများသည် မန်နေဂျာ သွားရာနောက်သို့ လိုက်၍ ကြည့်နေဆဲ။ ရေချိုးပြီးပြီ ဖြစ်၍ အမေ့တစ်ကိုယ်လုံး သန့်စင်လျက် ရှိ၏။ အမေ့အသားသည် ပန်းနုရောင်ပြေးလျက် ရှိသည်။ ဆံပင်ကို ဖြီးထားပြီး ဖြစ်သော်လည်း မခြောက်သေး။ အမေသည် သူ့ဆံပင်ကို သပ်သပ်ရပ်ရပ် ဖြစ်နေအောင် နောက်တွဲ ထုံးထားလေသည်။ ပုံလုလု ဂါဝန်သည် အမေ့ ကိုယ်ပေါ်၌ ရောက်နေပြီ ဖြစ်၏။ နားကပ်ကလေးမှာလည်း အမေ့နားတွင် ပန်ထားပြီ။

"ရေချိုးလို့ ပြီးပြီ" ဟု အမေက ပြောသည်။ "ရေနွေးနဲ့ တဝကြီး ချိုးပစ်လိုက်တယ်၊ ဟိုထဲမှာ အမျိုးသမီးတစ်ယောက်နဲ့ တွေ့ခဲ့သေးတယ်၊ နေ့စဉ် ချိုးချင်ရင်လည်း ချိုးလို့ ရတယ်လို့ သူက ပြောလိုက်သေးတယ်၊ ဩော် ဒါနဲ့ ဟို အမေပြောခဲ့တဲ့ ကော်မတီဝင် အမျိုးသမီးတွေ မလာကြသေးဘူးလား ဟင်"

"ဟင့်အင်း၊ မလာကြသေးဘူး"

"ညည်းမလည်းပဲ ထိုင်နေတာကိုးအေ့၊ ဘာမှ လုပ်ဖော် မရတော့ဘူး" အမေက မြည်တွန် တောက်တီးရင်း ပန်းကန်ခွက်ယောက်များကို သိမ်းသည်။ "ပစ္စည်းတွေ သူ့နေရာနဲ့သူ စနစ်တကျ ထားမှ ဖြစ်မှာ၊ ကဲ လာ၊ အရင်ဆုံး မြေပေါ်က အမှိုက်သရိုက်တွေကို ရှင်းသွားအောင် တံမြက်စည်း ယူပြီး လှည်း" အမေသည် အိုးများကို သေတ္တာထဲ ထည့်ပြီး သေတ္တာကို တဲထဲသို့ ပြန်ပို့သည်။ "ပြီးတော့ အိပ်ရာတွေကို သိမ်း" ဟု လှမ်း၍ ခိုင်းပြန်သည်။ "စောစောက ချိုးခဲ့တဲ့ ရေချွေးလောက် အရသာရှိတာမျိုး တစ်ခါမှ မကြုံဖူးသေးဘူး"

ရှိစာဟန်ကတော့ အမေ ခိုင်းသမျှကို စိတ်မပါ့တပါဖြင့် လုပ်နေသည်။ "အမေ၊ ကွန်နီ ကနေ့ ပြန်လာလိမ့်မယ်လို့ ထင်သလား ဟင်"

"လာချင်လည်း လာမယ်၊ မလာချင်လည်း မလာဘူး၊ ငါ အတပ် မပြောနိုင်ဘူး"

"တကယ်လို့ လာမယ် ဆိုကြပါစို့၊ သူ ဘယ်ကို လိုက်လာရမယ် ဆိုတာ သိမှာပေါ့နော်"

"သိမှာပေါ့"

"အမေ၊ သူတို့ ဟိုစခန်းကို မီးရှို့တုန်းကများ သူ့ကို သတ်ပစ်ကြမလား၊ အဲသလိုတော့ အမေ မထင်ဘူး မဟုတ်လား ဟင်"

"မထင်ဘူး" အမေက ယုံကြည်မှု အပြည့်ရှိသော လေသံဖြင့် ပြောသည်။ "ဒီကောင်က တောယုန် တစ်ကောင်လို အပြေးသန်တယ်၊ မြေခွေး တစ်ကောင်လို ရှောင်တတ် တိမ်းတတ်တယ်၊ နင် ထင်သလိုမျိုးတော့ ဖြစ်မှာ မဟုတ်ဘူး"

"သမီး သူ့ကို ရောက်လာစေချင်တယ် "

"သူ ရောက်တဲ့အချိန် ရောက်လာမှာပေါ့ "

"အမေ"

"ညည်း အလုပ်တစ်ခုခု လုပ်နေစမ်းကွယ်"

"ကတာရယ်၊ ပြီးတော့ ယောကျ်ားလေးနဲ့ တွဲတာရယ်၊ အဲဒါတွေဟာ ဒုစရိုက်မှုတွေလို့ ပြောတယ်၊ ဟုတ်သလား အမေ၊ အဲဒါမျိုးတွေ လုပ်ရင် ကလေး ပျက်ကျတယ်ဆို"

အမေသည် လုပ်လက်စ အလုပ်ကို ရပ်ကာ သူ့သမီးကို ခါးထောက် ကြည့်သည်။ "ညည်း ဘာတွေ လျှောက်ပြောနေတာလဲ၊ ညည်း ဘယ်ယောကျ်ားနဲ့များ တိတ်တိတ်ပုန်း ကမြင်းတာ ရှိခဲ့လို့လဲ"

"ဒီစခန်းက တချို့ လူတွေ လုပ်ခဲ့ကြတယ်တဲ့၊ ကောင်မလေး တစ်ယောက်ဆိုရင် ကလေး ပျက်ကျတာ အသေလေးတဲ့၊ တရားရုံးက အပြစ်ဒဏ် စီရင်သလို ခံရတာတဲ့"

အမေက မျက်လုံးပြူး၍ ကြည့်သည်။ "ညည်းကို ဘယ်သူ ပြောသွားသလဲ"

"ဒီနားက ဖြတ်သွားတဲ့ မိန်းမကြီးတစ်ယောက် ပြောသွားတယ်၊ နောက်ပြီးတော့ ဟို အရပ်ပုပု ပိန်ပိန်ပါးပါး အဖြူရောင် ဝတ်စုံနဲ့လူ ရောက်လာသေးတယ်၊ သူကတော့ ပြောတယ်၊ ဒီလိုလုပ်လို့ ဒါဖြစ်တာ မဟုတ်ပါဘူးတဲ့"

အမေက မျက်မှောင် ကုတ်လိုက်လေသည်။ "ရိုစာဟန်၊ အချိန်ရှိသမျှ ကိုယ့်အကြောင်းကိုပဲ ကိုယ်တွေးနေတတ်တဲ့ အကျင့်ကို ညည်းမလုပ်နဲ့တော့၊ ညည်းဟာက ညည်းအကြောင်း မကောင်းတာ တွေးပြီး ငိုဖို့လောက် အားထုတ်နေတာပဲ၊ ညည်း ဘယ်လိုဖြစ်နေတယ်ဆိုတာ ငါဖြင့် မပြောတတ်အောင်ကို ဖြစ်နေပြီ၊ ငါတို့ အမျိုးတွေမှာ ဒီအကျင့်မျိုး မရှိကြဘူး၊ ငါတို့ အမျိုးတွေဟာ ကျလာသမျှ ဒုက္ခကို ငိုလား ယိုလား မလုပ်ဘဲ ခါးစည်းခံကြတယ်၊ မဟုတ်ခါမှ လွဲရော ဒီအကျင့်ဆိုးဟာ ကွန်နီဆီက ရခဲ့တာပဲ ဖြစ်မယ်၊ ဒီအကောင်က ကျပ်ပြည့်တဲ့ ကောင်မှ မဟုတ်တာ" အမေ့ လေသံသည် တင်းမာလာသည်။ "ဒီမယ်.. ရိုစာဟန်၊ လောကကြီးမှာ ညည်းတစ်ယောက်တည်း မဟုတ်ဘူး၊ လူတွေ အများကြီး ရှိသေးတယ်၊ အခု ညည်းဟာ ညည်းနဲ့တော်တဲ့ သင့်တဲ့နေရာကို ရနေပြီ၊ လူဆိုတာ ကိုယ်နဲ့ သင့်ရာနေရာ ရထားရင် ကိုယ့်ဘဝကို ကိုယ့်ဘာသာ ကိုယ် ကြိုးစားပြီး တည်ဆောက်ရမယ်၊ ဒါပဲ"

"ဒါပေမဲ့လို့ အမေရယ်.."

"တော်ပြီ ထပ်မပြောနဲ့တော့၊ ညည်းပါးစပ်ကို ပိတ်ပြီး လုပ်စရာရှိတာလုပ်၊ ညည်း အသက်အရွယ်ဟာ ဘုရားသခင်ကို သောကများများရအောင် လုပ်ရမယ့်အရွယ် မဟုတ်သေးဘူး၊ ညည်းအနေနဲ့ ငါ့စကား နားမထောင်ဘဲ အခုလို သေးသိမ် ညံ့ဖျင်းတဲ့ စိတ်တွေ မွေးပြီး မဟုတ်တာတွေဘက် တွေးနေမယ်ဆိုရင် ငါ့လက်ဝါးစာပဲ ကျွေးရလိမ့်မယ်" အမေသည် ဖိုခနောက် လုပ်ထားသည့် ကျောက်ခဲများပေါ်မှ ပြာများကို မီးဖိုအပေါက်ထဲ လှည်းချနေသည်။ တဲတန်းများ ကြားရှိ လမ်းအတိုင်း လျှောက်လာနေကြသည့် ကော်မတီဝင် အမျိုးသမီးများကို သူ လှမ်းမြင်သည်။ "ကဲ လုပ်စရာရှိတာ လုပ်" ဟု ရှီစာဟန်အား လှမ်းနိုင်းသည်။ "အမျိုးသမီးတွေ လာနေပြီ၊ မြင်တယ် မဟုတ်လား၊ ညည်း အလုပ်လုပ်နေရင် အမေ ဂုဏ်တက်တယ်" အမေသည် ဘယ်ကိုမှ မကြည့်တော့ဘဲ မျက်လွှာကိုချကာ ခေါင်းငုံ့ထားသော်လည်း ကော်မတီဝင်များ သူ့ဆီသို့ ချဉ်းကပ်လာနေသည်ကိုမူ စိတ်ထဲက သိနေ၏။

သူတို့ လူစုသည် ကော်မတီဝင်များ ဖြစ်ရမည်။ သံသယ ဖြစ်စရာ မလို။ အားလုံး အမျိုးသမီး သုံးယောက်။ သုံးဦးစလုံး သန့်သန့်ပြန့်ပြန့် သပ်သပ်ရပ်ရပ် ရှိသည်။ အကောင်းဆုံးဟု ဆိုရမည့် အဝတ်အစားများကို ဝတ်ထားကြ၏။ ပိန်ပိန်ပါးပါး ဆံပင်ထူထူနှင့် စတီးကိုင်းမျက်မှန် တပ်ထားသည့် အမျိုးသမီးကြီး တစ်ဦး။ အရပ်ပုပု၊ ကိုယ်ထည် တုတ်တုတ်ခိုင်ခိုင် ဆံပင်ကောက်ကောက်နှင့် အမျိုးသမီးကြီး တစ်ဦး။ တင်ကြီးကြီး၊ ရင်သွားထွားထွား၊ ကုန်တင်လှည်းဆွဲသည့် မြင်းတစ်ကောင်၏ အဆက် အပေါက်မျိုးနှင့် လူလုံး လူဖန် ထွားကျိုင်းလှသော အမျိုးသမီးကြီး တစ်ဦး။ ထိုသုံးဦးသည် လမ်းမအတိုင်း ဟန်ပါပါ လျှောက်လာလျက် ရှိလေသည်။

တဲရှေ့သို့ သူတို့ ဆိုက်ရောက်လာသည့် အချိန်တွင် အမေသည် သူ ကြိုတင်ပြင်ဆင်ထားသည့် အတိုင်း ကျောပေးလျက်သား ဖြစ်နေသည်။ သူတို့သည် အမေ့ နောက်ကျောကို မျက်နှာပြု၍ သုံးယောက်တန်းစီပြီး ရပ်သည်။ မိန်းမထွားထွားကြီး၏ နှုတ်ခမ်းမှ ကျယ်လောင်သော အသံသည် ဟိန်း၍ ထွက်လာလေသည်။

"မင်္ဂလာ နံနက်ခင်းပါ မစ္စက်ဂျုတ်၊ မစ္စက်ဂျုတ် ဟုတ်ပါတယ်နော်"

အမေက အခုမှ သိလိုက်သည့်နယ် နောက်သို့ ချာခနဲ လှည့်၍ မျက်နှာချင်း ဆိုင်လိုက်၏။ "ဩ ဟုတ်ပါတယ်၊ ရှင် ကျွန်မ နာမည်ကို ဘယ်လိုလုပ်ပြီး သိလဲ"

"ကျွန်မတို့ ကော်မတီဝင်တွေပါ" ဟု မိန်းမ ထွားထွားကြီး ပြန်ပြောသည်။ "အမှတ်လေး သန့်ရှင်းရေးအဖွဲ့ အမျိုးသမီး ကော်မတီကပါ၊ ကျွန်မတို့ ရှင့်နာမည်ကို ရုံးက ရခဲ့ပါတယ်"

အမေသည် ဝမ်းသာမှု အရှိန်ဖြင့် အကြီးအကျယ် စိတ်လှုပ်ရှားလျက် ရှိသည်။ "ကျွန်မတို့မှာ ဘာမှ မပြင်ရ မဆင်ရ မလှည်းမကျင်းရသေးဘူး၊ အားလုံး ရှင်းလင်းပြီးတဲ့ အချိန်မျိုးမှသာ ရှင်တို့ကို ဧည့်ခံရမယ်ဆိုရင် ကျွန်မ သိပ် စိတ်ချမ်းသာမှာပဲ"

ကော်မတီဝင် မိန်းမ ဝဝကြီးက သူ့အဖော် တစ်ယောက်အား လှမ်းပြောသည်။ "ကျွန်မတို့ နာမည်တွေ ပေးလိုက်ပါ ဂျက်စီ၊ ကျွန်မတို့ နာမည်တွေ မစ္စက်ဂျုတ်ကို ပြောလိုက်ပါ၊ ဂျက်စီက ဥက္ကဋ္ဌပေါ့"

ဂျက်စီက ထုံးစံအတိုင်း နာမည်များကို ပြောပြပြီး မိတ်ဆက်သည်။ "ဟောဒီဟာက အင်နီလစ်တစ်ဖီးလ်၊ ဒါကတော့ အယ်လာဆန်းမား၊ ကျွန်မကတော့ ဂျက်စီဘူးလစ်"

"ရှင်တို့နဲ့ သိရတာ ကျွန်မ ဂုဏ်ယူပါတယ်ရှင်" ဟု အမေက ဆိုသည်။ "မထိုင်ကြတော့ဘူးလား၊ ထိုင်စရာကလည်း ခုထက်ထိ မခင်းရသေးဘူး" ဟု အမေက ရေရွတ်သည်။

"ဒါပေမဲ့ ကော်ဖီတော့ တိုက်ပါရစေ"

"အို ကိစ္စမရှိပါဘူး၊ မလုပ်ပါနဲ့ ရပါတယ်" ဟု အင်နီက ဝတ်ကျေတမ်းကျေ ပြန်ပြောသည်။ "အလုပ်ရှုပ်အောင် လုပ်မနေပါနဲ့၊ ရှင်တို့ကို နှုတ်ဆက်ရင်း နေမှု ထိုင်မှု အဆင်ပြေမပြေ ဝင်ကြည့်ကြတာပါ"

ဂျက်စီဘူးလစ်က လေသံ ခပ်မာမာဖြင့် လှမ်းပြောသည်။ "ဒီမှာ အင်နီ၊ ကျွန်မ ဥက္ကဋ္ဌဆိုတာ ရှင် သတိရနေမယ်ဆိုရင် ရှင့်ကို ကျွန်မက ကျေးဇူးတင်ရပါလိမ့်မယ်"

"အို ကျွန်မက သတိရပါတယ်၊ ဒါပေမဲ့ ရှေ့အပတ်ကျတော့ ကျွန်မက ဥက္ကဋ္ဌ ဖြစ်ဦးမှာပါ"

"ဟုတ်ပါတယ်လေ၊ ဒါပေမဲ့ ရှေ့အပတ်ထိအောင်တော့ ရှင် စောင့်ရမှာပေါ့၊ ဟုတ်ဖူးလား" ဂျက်စီသည် တစ်ဆက်တည်းပင် အမေ့ဘက် လှည့်၍ ရှင်းပြသည်။ "ကျွန်မတို့ ကော်မတီမှာ ဥက္ကဋ္ဌလည်း ပါတယ်"

"ဒီလိုဆိုရင် ကော်ဖီလေး တစ်ခွက်လောက်မှ သောက်မသွားကြတော့ဘူးလား" ဘာဝင်ပြောရမှန်း မသိသဖြင့် ယောင်ချာချာ ဖြစ်နေသော အမေက မေးသည်။

"မသောက်တော့ပါဘူး" ဟု ဂျက်စီက ဖြေသည်။ "ကျွန်မတို့က ရှင်တို့ သန့်ရှင်းရေးအဖွဲ့ အကြောင်း ပထမ ရှင်းပြဖို့ပါ၊ ပြီးတော့မှ ရှင်တို့ ဆန္ဒရှိတယ် ဆိုရင်လည်း အမျိုးသမီးများ အဖွဲ့မှာ အသင်းဝင်အဖြစ် စာရင်းသွင်းပြီး တာဝန် ပေးရလိမ့်မယ်၊ ဘာပဲဖြစ်ဖြစ် အဖွဲ့က မဝင် မနေရတော့ မဟုတ်ပါဘူး"

"ဟုတ်လား၊ စရိတ်တွေ ဘာတွေများ သိပ်ကုန်သလား"

"ငွေတစ်ပြားမှ မကုန်ပါဘူး၊ အလုပ်တော့ လုပ်ရပါလိမ့်မယ်၊ ရှင့်ကို လူသိများလာတဲ့အခါမှာ ကော်မတီဝင် တစ်ယောက်အဖြစ် အရွေးခံချင် ခံရပါလိမ့်မယ်" ဟု အင်နီက ကြားဖြတ် ပြောသည်။ "ဂျက်စီဆိုရင် စခန်းတစ်ခုလုံးက ရွေးထားတဲ့ ကိုယ်စားလှယ်ပါ၊ သူဟာ အကြီးဆုံး ကော်မတီဝင် တစ်ဦးပါ"

ဂျက်စီက ဂုဏ်ယူဝင့်ကြွားသည့် မျက်နှာထားဖြင့် ပြုံးသည်။ "အများ သဘောတူ ရွေးကောက် တင်မြှောက်ထားတာ" ဟု ပြောသည်။ "ကဲ မစ္စက်ဂျုတ်၊ ဒီစခန်းမှာ ဘယ်လို လုပ်ကိုင် ဆောင်ရွက်နေကြတယ်ဆိုတာ ရှင် နားလည်သွားအောင် ပြောပြဖို့ သင့်ပြီ ထင်ပါတယ်"

"ဟောဒါက ကျွန်မ သမီး ရိုစာဟန်ပါ" အမေက မိတ်ဆက်ပေးသည်။

"နေကောင်းရဲ့လား" ဟု သူတို့က နှုတ်ဆက်သည်။

"သူလည်းပါရင် ကောင်းပါတယ်"

လူကောင်ထွားထွား ဂျက်စီက စခန်း၏ လုပ်နည်းလုပ်ဟန်များကို စိတ်ရှည်လက်ရှည်ဖြင့် ရှင်းပြသည်။ သူ ပြောနေသည့် စကားများမှာ စနစ်တကျနှင့် ကြက်တူရွေးစာကျက်သလို ကြိုတင်လေ့ကျင့် ကျက်မှတ်ထားသော စကားများ ဖြစ်လေသည်။

"ကျွန်မတို့က ရှင်တို့ ကိစ္စမှာ ဝင်ရှုပ်နေတယ်လို့ မထင်စေချင်ဘူး မစ္စက်ဂျုတ်၊ ဒီစခန်းဟာ လူအများ ပိုင်ဆိုင်တဲ့ စခန်းပါ၊ လူတိုင်း အသုံးပြုနေတဲ့ စခန်းပါ၊ စခန်းနဲ့ဆိုင်တဲ့ စည်းကမ်းတွေကို ကျွန်မတို့ အားလုံးကပဲ အများ သဘောတူ လုပ်ထားကြပါတယ်၊ ကဲ သန့်ရှင်းရေး အဖွဲ့အကြောင်း ပြောပြပါမယ်၊ အဖွဲ့ တစ်ဖွဲ့ချင်းစီမှာ သန့်ရှင်းမှုဆိုင်ရာ ပစ္စည်းတွေထားတဲ့ အဆောက်အအုံ တစ်ခုစီ ရှိပါတယ်၊ ဒီပစ္စည်းတွေကို လူတိုင်းကလည်း စနစ်တကျ ထိန်းသိမ်း စောင့်ရှောက်ရပါမယ်"

သူတို့သည် ခေါင်မိုး မိုးမထားသည့်အပိုင်းမှ အဝတ်လျှော်ကန်များ ရှိရာ နေရာသို့ လျှောက်သွားသည်။ ကန်များမှာ အားလုံးပေါင်း အလုံးနှစ်ဆယ် ရှိသည်။ သူတို့ရောက်သွားချိန်တွင် ရှစ်လုံးကို အသုံးပြုလျက် ရှိလေသည်။ မိန်းမများသည် ကန်များပေါ် ခေါင်းများငုံ့၍ အဝတ်များကို ဆပ်ပြာတိုက်နေကြသည်။ လျှော်ပြီး ညှစ်ပြီးသား အဝတ်များမှာ ကွန်ကရိ သမံတလင်း ပေါ်၌ အစုလိုက် အပုံလိုက်။

"ရှင်တို့အနေနဲ့ ဒီကန်တွေကို အချိန်မရွေး သုံးနိုင်ပါတယ်" ဟု ဂျက်စီက ပြောသည်။ "တစ်ခုပဲ သတိထားဖို့ လိုပါတယ်၊ ဒီကန်တွေကို ညစ်ပတ်သွားအောင်တော့ မလုပ်ပါနဲ့၊ အမြဲတစေ သန့်ရှင်းနေအောင် ဂရုစိုက်ရပါမယ်"

အဝတ်လျှော်နေကြသော မိန်းမများက သူတို့ကို စိတ်ဝင်တစား ကြည့်နေကြသည်။ ဂျက်စီက သူတို့အား အော်ပြောလိုက်သည်။ "ဒီဟာ မစ္စက်ဂျုတ်နဲ့ ရိုစာဟန်၊ သူတို့က ဒီစခန်းမှာ နေကြမှာ" မိန်းမ အားလုံးက အမေ့အား ပြိုင်တူ ဝိုင်း၍ နှုတ်ဆက်ကြသည်။ အမေက သူ့ခေါင်းကို သူတို့ဘက်သို့ မသိမသာကလေး ညိတ်ပြပြီး ပြန်၍ နှုတ်ဆက်သည်။ "ရှင်တို့နဲ့ တွေ့ရတာ ဂုဏ်ယူပါတယ်ရှင်"

ဂျက်စီက ရှေ့မှ ဦးဆောင်၍ အိမ်သာနှင့် ရေချိုးခန်းများဆီသို့ သွားသည်။

"ကျွန်မ ဒီနေရာတွေကို ရောက်ပြီးပြီ" ဟု အမေက ပြောသည်။ "ကျွန်မ ရေတောင်ချိုးခဲ့သေးတယ်"

“သုံးဖို့ထားတာပဲ၊ သုံးရမှာပေါ့” ဟု ဂျက်စီက ဆိုသည်။ “ဒီဟာတွေကို သုံးတဲ့အခါမှာလည်း စောစောက ပြောခဲ့တဲ့ စည်းကမ်းအတိုင်းပဲ၊ သန့်ရှင်းအောင် သုံးပါ၊ အပတ်တိုင်း ကော်မတီသစ် တစ်ခုဖွဲ့ပြီး ဒီစခန်းတွေကို တစ်နေ့တစ်ကြိမ် မှန်မှန် ဆေးပေးကြတယ်၊ ရှင်လည်း ဒီကော်မတီမှာ ပါချင် ပါလာပါလိမ့်မယ်၊ ပါလို့ သန့်ရှင်းရေး လုပ်ကြပြီဆိုရင် ကိုယ့်ဆပ်ပြာနဲ့ ကိုယ် လုပ်ရမှာပါ”

“ကျွန်မတို့ ဆပ်ပြာ ဝယ်ရမှာပေါ့၊ အခုတော့ဖြင့် ဘာဆိုဘာမှ မရှိသေးဘူး”

ဂျက်စီ၏ လေသံသည် တည်ငြိမ် ခန့်ညားလာပြန်သည်။ “ရှင်တို့ ဒီအိမ်သာမျိုးကို အမြဲ သုံးခဲ့ဖူးသလား” ဟု မေးပြီး အိမ်သာများဘက်သို့ လက်ညှိုး ထိုးပြလေသည်။

“ဒီကနေ့မနက်မှ စသုံးဖူးတာပါ”

ဂျက်စီက သက်ပြင်းချသည်။ “ကောင်းတာပေါ့” ဟု ရေရွတ်သည်။

အယ်လာဆန်းမားက ဝင်ပြောသည်။ “ဒီမယ် ဂျက်စီ၊ ပြီးခဲ့တဲ့ အပတ်တုန်းက..”

ဂျက်စီက စကားမဆုံးမီ ခပ်မာမာ လေသံဖြင့် ကြားဖြတ်၍ ပြောသည်။ “မစ္စက် ဆန်းမား၊ ကျွန်မ ပြောမယ် ”

အယ်လာက ခေါင်းကို ငိုက်စိုက် ချထားလိုက်သည်။ “ကောင်းပါပြီ၊ ရပါတယ်”

ဂျက်စီက သူ့စကားကို ပြန်ဆက်သည်။ “ပြီးခဲ့တဲ့ အပတ်က မစ္စက်ဆန်းမား ဥက္ကဋ္ဌ လုပ်နေတုန်းက လုပ်စရာရှိသမျှ သန့်ရှင်းရေး အလုပ်တွေကို ထိထိရောက်ရောက် လုပ်သွားခဲ့ပါတယ်၊ ဒီတစ်ပတ် လူတွေ ကြီးကြီးမားမား လုပ်စရာ မရှိတဲ့အတွက် ကျွန်မက ရှင့်ကို ကျေးဇူးတင်ပါတယ် ”

“ဟို အမျိုးသမီးကြီး ဘာလုပ်သွားတယ် ဆိုတာလည်း ထည့်ပြောလိုက်ပါဦး” ဟု အယ်လာက လှမ်းပြောပြန်သည်။

“ဒါကတော့ ဒီလို ရှိတယ်လေ” ဟု ဂျက်စီက နိဒါန်းပျိုးလိုက်၏။ “ဒါမျိုးကျတော့ အခုလက်ရှိ ကော်မတီက လက်လွှတ်စပယ် လျှောက်ပြောနေလို့ မဖြစ်ဘူး၊ ဒါပေမဲ့ ပြောတော့ ပြောပြမယ်၊ ဘယ်သူ ဘယ်ဝါလို့ နာမည်တော့ ထုတ်မပြောနိုင်ဘူး၊

ပြီးခဲ့တဲ့အပတ်က အမျိုးသမီးကြီး တစ်ယောက် စခန်းကို ရောက်လာတယ်၊ ကော်မတီနဲ့ မတွေ့ခင်မှာ သူက အိမ်သာဝင်တော့ ကမုတ်ခွက်ထဲမှာ ယောက်ျား အတွင်းခံ ဘောင်းဘီစုတ်တွေ သုံးထားတာ တွေ့တယ်၊ အဲဒီတော့ သူက ပြောတယ်၊ အဆင့်အတန်း သိပ်နိမ့်မယ်၊ ဒီအိမ်သာမျိုးတွေကို ဘာကြောင့် အဆင့်တန်း မြင့်မြင့် မသုံးတတ်ကြတာလဲတဲ့ ”

“လိုနေတဲ့ အသုံးအဆောင်တွေကို တစ်ပြိုင်နက် လဲထားမပေးနိုင်ဘူး မဟုတ်လား” ဟု အယ်လာက ဝင်ပြောသည်။

“ကျွန်မတို့က အိမ်သာသုံး စက္ကူနဲ့ ပတ်သက်ပြီး ပြဿနာကလည်း ရှိနေတယ်” ဟု ဂျက်စီက ပြောသည်။ “စည်းကမ်းအရဆိုရင် ရှင့်အနေနဲ့ အိမ်သာထဲကပစ္စည်း ဘာပစ္စည်းမှ ယူပိုင်ခွင့် မရှိဘူး၊ ဒါပေမဲ့ စခန်းတစ်ခုလုံးက အိမ်သာသုံး စက္ကူကို ဆွဲဖြတ် ပစ်နေကြတယ်” သူသည် စကားကို ဆက်မပြောဘဲ တစ်ခဏမျှ ငြိမ်နေသည်။ ပြီးမှ အမှန်အတိုင်း ဝန်ခံသည်။ “အဖွဲ့လေးက အိမ်သာစက္ကူ သုံးတာဟာ တခြားအဖွဲ့တွေထက် အများကြီး ပိုနေတယ်၊ တစ်ယောက်ယောက်က ခိုးနေတာပဲ၊ ဒီပြဿနာဟာ ကော်မတီ အစည်းအဝေးပွဲမှာ ဆွေးနွေးရတဲ့အထိ ဖြစ်လာတယ်၊ အထူးသဖြင့် အဖွဲ့လေးရဲ့ အမျိုးသမီး အိမ်သာတွေဟာ အိမ်သာစက္ကူသုံး အများဆုံးပဲလို့ ပြောကြတယ် ”

အမေက ဂျက်စီ ပြောပြနေသမျှကို အသက်ပင် မှန်မှန် မရှူနိုင်ဘဲ နားထောင်လျက် ရှိ၏။ “ခိုးတယ် ဟုတ်လား၊ ဘာလုပ်ဖို့ပါလိမ့်”

“ဒီပြဿနာက အရင်ကတည်းက ရှိခဲ့တာ” ဟု ဂျက်စီက ဝန်ခံသည်။ “တစ်ခါတုန်းက ကလေးမလေး သုံးယောက်က စက္ကူတွေ ခိုးပြီး အရုပ်ညှပ်ကြတယ်၊ ကျွန်မတို့ ဖမ်းမိခဲ့တယ်၊ ဒါပေမဲ့ အခုတစ်ကြိမ်မှာ လက်ပူးလက်ကြပ် မမိဘူး၊ စက္ကူတစ်လိပ် ထည့်လိုက်ရင် ခဏနဲ့ ကုန်သွားတာပဲ၊ ဒီကိစ္စ ကော်မတီ အစည်းအဝေးအထိ ရောက်လာတယ်၊ အမျိုးသမီးကြီး တစ်ယောက်က အကြံပေးတယ်၊ ကျွန်မတို့ အနေနဲ့ အိမ်သာထဲမှာ ဘဲလ် တပ်ထားပြီး လူတစ်ယောက် ဝင်တိုင်း ဘဲလ်ကို နှိပ်ခိုင်းပါတဲ့၊ ဘဲလ်သံ အားလုံးကို မှတ်ထားပြီး အားလုံးပေါင် လူ ဘယ်နှစ်ယောက် အိမ်သာ ဝင်တယ်၊ လူ အရေအတွက်ကို ကြည့်ပြီး စက္ကူအကုန်အကျကို ချင့်ချိန်ကြည့်ပါတဲ့” ဂျက်စီက စကားကို ဖြတ်၍ ခေါင်းယမ်းသည်။ “ကျွန်မကတော့ ဘာလုပ်ရမှန်း မသိတော့ဘူး” ဟု ညည်းသည်။

"တစ်ပတ်လုံး ခေါင်းကို ခြောက်နေတာပဲ၊ အဖွဲ့လေး မိန်းမ အိမ်သာက စက္ကူကို တစ်ယောက်ယောက်က ဒိုင်ခံပြီး ခိုးနေတာတော့ အမှန်ပဲ"

အဆောက်အအုံ တံခါးဝမှ ထွက်လာသော ခေါ်သံနှင့် စကားပြောသံ တစ်သံ။ "မစ္စက် ဘူးလစ်" ကော်မတီဝင် အမျိုးသမီးက လှည့်ကြည့်သည်။ "မစ္စက်ဘူးလစ်၊ ရှင် ပြောသမျှ ကျွန်မ ကြားတယ်" တစ်မျက်နှာလုံး နီရဲကာ ချွေးသီးချွေးပေါက်များ ထွက်နေသော မိန်းမ တစ်ယောက်သည် တံခါးဝ၌ ရပ်နေသည်။ "ကျွန်မ အစည်းအဝေးနေ့က မထရဲလို့ပါ၊ မစ္စက် ဘူးလစ်ရယ်၊ တကယ်ပါ၊ ကျွန်မ ထပြောရင် ဝိုင်းရယ်ကြမလား၊ ဒါမှမဟုတ် အပြစ် တစ်ခုခုများ ပြောမလားလို့ ထင်တာနဲ့ ထမပြော ဖြစ်ခဲ့တာပါ"

"ရှင် ဘာတွေ လာပြောနေတာလဲဟင် " ဂျက်စီက ရှေ့သို့ တိုးသွားသည်။

"ဒီလိုပါ၊ ကျွန်မ ပြောချင်တာက ဒီလိုပါ အဲဒါဟို.. ဟိုဟာ.. ကျွန်မတို့ပါ၊ ဒါပေမဲ့ ကျွန်မတို့ ခိုးတာတော့ မဟုတ်ရပါဘူးရှင်၊ မစ္စက် ဘူးလစ်ရယ်"

ဂျက်စီကပါ ရှေ့သို့ တိုးလာသည်။ ဖြောင့်ချက်ပေးနေသော မိန်းမ၏ နဖူးဝယ် ချွေးသီးကြီးများ စို့နေကြလေသည်။ "ကျွန်မတို့ မတတ်သာလို့ပါ မစ္စက် ဘူးလစ်ရယ်"

"ကဲပါ ရှင် အခု ပြောနေတဲ့ စကားကို ရှင်းအောင် ထပ်ပြောစမ်းပါဦး၊ ဒီအဖွဲ့ တစ်ဖွဲ့လုံးကတော့ အီးကုန်း စက္ကူအတွက် အရှက်ရနေကြပြီ "

"တစ်ပတ်လုံးလုံးပါပဲ မစ္စက် ဘူးလစ်ရယ်၊ ကျွန်မတို့ မတတ်သာလို့ လုပ်ရတာပါ၊ ရှင်သိတဲ့အတိုင်းပဲ၊ ကျွန်မမှာ သမီးမိန်းကလေးချည်း ငါးယောက် မွေးထားတာ မဟုတ်လား"

"အဲဒါနဲ့ ဘာဆိုင်လို့လဲ " ဂျက်စီက စိတ်မရှည်သံဖြင့် မေးသည်။

"ကျွန်မတို့ သုံးတာပါ၊ တကယ်ပြောတာပါ၊ ယုံပါရှင်"

"မတရား သုံးပစ်လို့ကတော့ ဘယ်ဖြစ်ပါ့မလဲ၊ တစ်ကြိမ် သုံးလေး ငါးရွက်ဆို လုံလောက်ပါတယ်၊ သူတို့က ဘာဖြစ်လို့ အများကြီး သုံးပစ်ရတာလဲ "

ဖြောင့်ချက် ပေးနေသူက ညည်းညည်းညူညူဖြင့် ပြန်ပြောသည်။ "ဈေးပန်းနေကြတာ၊ ငါးယောက်စလုံး၊ ကျွန်မတို့မှာ ငွေကြေးက မပြည့်စုံဘူး၊ စပျစ်သီး အစိမ်းတွေပဲ စားကြရတာ၊ အဲဒီတော့ ဗိုက်နာ ဝမ်းလျှော ဖြစ်လာတာပေါ့၊ ဆယ်မိနစ် တစ်ကြိမ် အိမ်သာ ဝင်နေကြရတာ၊ စက္ကူကို ခိုးတာတော့ မဟုတ်ပါဘူး၊ လိုလို့ သုံးတာပါ"

ဂျက်စီက သက်ပြင်းချသည်။ "ရှင် ပြောဖို့ ကောင်းတယ်" ဟု ပြောသည်။ "ရှင့် အသိပေးရမယ်၊ ရှင်က အခုလို ဖွင့်မပြောဘဲ မြို့ထားတော့ အဖွဲ့လေးအုပ်စု တစ်ခုလုံး အရှက်ကွဲတာပေါ့"

"စပျစ်သီး အစိမ်းတွေ မစားနဲ့လို့လည်း ကျွန်မ မတားနိုင်ဘူး၊ ကိုယ်ကမှ မကျွေးနိုင်တော့လည်း ခက်တယ်"

အယ်လာဆန်းမားက ဝင်၍ ထင်မြင်ချက် ပေးသည်။ "ထောက်ပံ့ကြေးလေ၊ သူ့အနေနဲ့ ထောက်ပံ့ကြေး ရသင့်တယ်"

"အယ်လာဆန်းမား" ဟု ဂျက်စီက အသံလှမ်းပေးသည်။ "ဒီတစ်ခါ ကျွန်မ ရှင့်ကို နောက်ဆုံးအကြိမ်အဖြစ် သတိပေးလိုက်မယ်၊ ရှင်ဟာ အခု ဥက္ကဋ္ဌ မဟုတ်ဘူး" သူသည် ဖြောင့်ချက်ပေးနေသော မိန်းမဘက် လှည့်လိုက်သည်။ "ရှင့်မှာ ဗိုက်ဆံ လုံးဝ မရှိဘူးလား မစ္စက်ဂျိုက်စ်"

မစ္စက်ဂျိုက်စ်သည် ရှက်စိတ်ကြောင့် ခေါင်းမဖော်။ "မရှိဘူး၊ ဒါပေမဲ့ အလုပ်ရရင် ဖြစ်ပါတယ်"

"ခေါင်းကို မော့ထားစမ်းပါ" ဟု ဂျက်စီက ပြောသည်။ "အခုဟာ ရာဇဝတ်မှု မဟုတ်ပါဘူး၊ ရှင့်အနေနဲ့ ဝိဒ်ပက်ချ်စတိုးကို သွားပြီး အစားအသောက် အကြွေးဝယ်ခွင့် ပြုထားတာပဲဟာ၊ ရှင်ကိုယ်တိုင် သွားယူပေါ့၊ ရှင့် အလုပ်ရတော့ ဗဟိုကော်မတီကို ပြန်ဆပ်လိုက်ပေါ့၊ ရှင် ဒါကို သိရက်သားနဲ့ ရှင့်သမီးလေးတွေကို အငတ်ထားရသလား"

"ကျွန်မတို့ သူများက ထောက်ပံ့တဲ့ အလှူငွေ မယူချင်ဘူး" ဟု မစ္စက်ဂျိုက်စ်က ဆိုသည်။

"ဒါ အလှူငွေမှ မဟုတ်တာ၊ ရှင်လည်း သိသားနဲ့" ဟု ဂျက်စီက ဒေါသဖြင့် ပြန်ပြောသည်။ "ဒီအနီးမှာ ရှင် ပြောတဲ့ အလှူမျိုး မရှိပါဘူးရှင့်၊ ကဲပါလေ ရှင် အခု စတိုးဆိုင်ကို သွားပြီး လိုတဲ့ အစားအသောက် အကြွေးဝယ်လိုက်ပါ၊ ဆိုင်ကပေးတဲ့ စာရင်း စာရွက်ကို ကျွန်မဆီ လာပေးလှည့်"

မစ္စက်ဂျိုက်စ်က နောက်တွန့်သော အသံဖြင့် ပြန်မေးသည်။ "ဆိုကြပါစို့ရဲ့၊ ကျွန်မတို့ လုံးဝ ပြန်မဆပ်နိုင်ဘူးဆိုရင် ဘယ်လို လုပ်မလဲ၊ ကျွန်မတို့မှာ အလုပ် မရှိတာ ကြာပြီ"

"ရှင် ဆပ်နိုင်တဲ့ အချိန်ကျမှ ဆပ်ရမှာပါ၊ တကယ်လို့ ရှင် မဆပ်နိုင်သေးရင် ကျွန်မတို့က ဘာမှ မလုပ်ပါဘူး၊ မဆပ်နိုင်သေးတဲ့ ကိစ္စက ရှင့်ကိစ္စပါ၊ ဘယ်သူကမှ ဝင်မရှုပ်ပါဘူး၊ ဟိုလူတစ်ယောက် ဒီစခန်းက အပြီးအပိုင် ထွက်သွားတယ် မဟုတ်လား၊ အဲဒါ သူ ထွက်သွားပြီးလို့ နှစ်လလောက်ကြာမှ သူ့ပေးစရာရှိတဲ့ ငွေကို ပြန်ပို့တာပဲ၊ ဒီစခန်းမှာ နေပါရက်နဲ့ သမီးလေးတွေ အငတ်ထားတာကတော့ ကျော်မကောင်း ကြားမကောင်း ဖြစ်နေပြီ"

မစ္စက်ဂျိုက်စ်သည် စိတ်ပျက်လက်ပျက် ဖြစ်လျက် ရှိ၏။ "ကောင်းပါပြီရှင်" ဟုသာ ပြန်ပြောသည်။

"ကလေးတွေကို ဒိန်ခဲတော့ ဝယ်ကျွေးလိုက်ပါဦး" ဟု ဂျက်စီက ခိုင်းသည်။ "ဝမ်းလျှောတဲ့ လူနဲ့ တည့်တဲ့ အစာ တစ်ခုပဲ"

"ဟုတ်ကဲ့" မစ္စက်ဂျိုက်စ်သည် တုန်ချည့် တုန်ချည့်ဖြင့် အပြင်သို့ ပြန်ထွက်သွားလေသည်။

ဂျက်စီက သူ့အဖော် နှစ်ဦးဖက်သို့ ဒေါသတကြီးနှင့် လှည့်ကြည့်လိုက်လေသည်။ "သူ အခုလို လုပ်တာကတော့ လုံးဝ မကောင်းဘူး၊ မလုပ်သင့်ဘူး၊ သူ့မှာ လုပ်ပိုင်ခွင့်လည်း မရှိဘူး၊ ကျွန်မတို့ တစ်တွေနဲ့ နေတုန်းမှာ ဒါမျိုး မလုပ်သင့်ဘူး"

အင်နီလစ်တစ်ဖီးလ်က ဝင်၍ နှစ်သိမ့်စကား ပြောသည်။ "သူ ရောက်တာလည်း မကြာသေးလို့နဲ့ တူပါတယ်၊ မသိလို့ နားမလည်လို့လည်း ဖြစ်ချင် ဖြစ်မှာပေါ့၊ ဒါမှ

မဟုတ်လည်း ထောက်ပံ့ငွေကို မကြာမကြာ မယူချင်လို့ ဖြစ်ချင်လည်း ဖြစ်မှာပဲ၊ ဟင်း ဟင်း" အင်နီက ဂျက်စီအား တစ်ချက်လှမ်းကြည့်သည်။ "ဒီတစ်ခါကတော့ ကျွန်မပါးစပ်ကို ပိတ်ထားဖို့ မကြိုးစားနဲ့တော့ ဂျက်စီ၊ ကျွန်မမှာလည်း ပြောချင်တဲ့ စကားကို ပြောပိုင်ခွင့် ရှိတယ်" အင်နီက အမေဂျူတ်ဘက်သို့ တစ်ချက် ဝေ့ကြည့်သည်။ "လူတစ်ယောက်အနေနဲ့ သူများက ပေးကမ်း စွန့်ကြဲတဲ့ အလှူဒါနကို လက်ဖြန့်ခံပြီး စားရတာဟာ သိမ်ငယ်တယ်၊ ဒါမျိုးက ရင်ထဲမှာ လောင်တဲ့ မီးတစ်မျိုးပဲ၊ အပြင်ကို ထွက်တာ မဟုတ်ဘူး၊ အခု ဒီမှာ ပေးနေတာက အလှူဒါန မဟုတ်ဘူး၊ ဒါပေမဲ့လည်း တစ်ကြိမ်ယူမိရင် ရှင့်စိတ်ထဲမှာ ဖျောက်လို့ မရတော့ဘူး၊ ကျွန်မ လောင်းရဲပါတယ်၊ ဂျက်စီမှာ ဒီပြဿနာမျိုး မကြုံခဲ့ဖူးပါဘူး"

"မကြုံဖူးပါဘူး" ဟု ဂျက်စီက ပြောသည်။

"ကျွန်မက ကိုယ်တိုင် ကြုံခဲ့ဖူးတာ" ဟု အင်နီက ဆိုသည်။ "မနှစ်က ဆောင်းတွင်းမှာ ကျွန်မတို့ မိသားစု ဝတ်ခဲ့ ပြတ်ခဲ့ကြဖူးတယ်၊ ကျွန်မရယ် ကလေးတွေရဲ့ အဖေရယ်၊ ကလေးတွေရယ်၊ အားလုံး သိပ်ဒုက္ခရောက်ခဲ့ကြတယ်၊ ဒီကြားထဲ မိုးကလည်း အဆက်မပြတ် ရွာလိုက်သေးတယ်၊ မိတ်ဆွေတွေက ကယ်တင်ရေးတပ်ကို သွားပြီး အကူအညီတောင်းဖို့ ဝိုင်းပြောကြတယ်" အင်နီ၏ မျက်လုံးများတွင် နာကြည်းသော အရိပ်အငွေ့များ ထင်လာသည်။ "ကျွန်မတို့က ဝတ်နေတဲ့ လူတွေဆိုတော့ သူတို့က ကျွန်မတို့ကို အစားတစ်လုပ်အတွက် လေးဖက်ထောက်အောင် လုပ်ခဲ့ကြတယ်၊ သူတို့က ကျွန်မတို့ရဲ့ သိက္ခာ၊ ကျွန်မတို့ရဲ့ ဂုဏ်ကို လုံးဝ ပျက်သွားအောင် လုပ်ခဲ့ကြတယ်၊ သူတို့ဟာ.. အို ကျွန်မ သူတို့ကို သိပ်မုန်းတယ်၊ ရွံတယ်၊ စက်ဆုပ်တယ်၊ စဉ်းစားကြည့်ပေါ့၊ မစ္စက်ဂျိုက်စ်အနေနဲ့ ဒီလို သူတစ်ပါးက ပြုတဲ့ အလှူဒါနမျိုး လက်ခံဖူးချင်လည်း လက်ခံဖူးလိမ့်မယ်၊ ဒါမှ မဟုတ်လည်း ဒီက ပေးနေတဲ့ အကူအညီ အထောက်အပံ့ဟာ အလှူဒါန မဟုတ်ဘူးဆိုတာ သူ မသိလို့ရင်လည်း ဖြစ်ချင် ဖြစ်လိမ့်မယ်၊ ဒီမယ် မစ္စက်ဂျုတ် ကျွန်မတို့ စခန်းမှာနေတဲ့ လူတွေကို ကျွန်မတို့မိသားစု ခံခဲ့ရတဲ့ အဖြစ်မျိုး ရောက်သွားအောင် ကျွန်မတို့ ဘယ်တော့မှ မလုပ်ဘူး သိလား၊ လူတစ်ယောက်က တစ်ယောက်ကို ပေးကမ်း စွန့်ကြဲစားရတဲ့ အဖြစ်မျိုးလည်း ကျွန်မတို့စခန်းမှာ ခွင့်မပြုနိုင်ဘူး၊ သူတို့ ပေးချင်ရင် စခန်းကို ပေး၊ စခန်းက တာဝန်ယူပြီး ဖြန့်ဖြူးကူညီသွားမယ်၊ လူတယ် စွန့်ကြဲတယ် ဆိုတာမျိုးက ကျွန်မတို့ စခန်းမှာ လုံးဝ လက်မခံဘူး" ပြောရင်း ပြောရင်းနှင့် အင်နီ၏ အသံသည် တင်းမာလာသည်။ ပြင်းထန်လာသည်။ "ဒီလူတွေကို ကျွန်မ မုန်းတယ်၊ ကျွန်မ ယောက်ျား ဒီလောက် အောက်ကျ နောက်ကျ ဖြစ်သွားတာ ကျွန်မ

တစ်သက်မှာ တစ်ခါမှ မမြင်ခဲ့ဖူးဘူး၊ ဒီလူတွေကြောင့် ဒီကယ်တင်ခြင်းတပ်က လူတွေ လုပ်လိုက်တဲ့အတွက် သူ ခံရတာ”

ဂျက်စီက ခေါင်းညိတ်သည်။ “ကျွန်မ ကြားပါတယ်” ဟု တိုးတိုးသာသာ ပြောသည်။ “ကျွန်မ ကြားပါတယ်၊ ကဲလေ ကျွန်မတို့ မစွက်ဂျတ်ကို လှည့်ပြလိုက်ကြဦးစို့လား”

“သိပ်ကောင်းတာပေါ့” ဟု အမေက အလိုက်သင့် ပြန်ပြောသည်။

“စက်ချုပ်ခန်းကို ပထမ သွားကြတာပေါ့” ဟု အင်နီက အဆိုပြုသည်။ “ကျွန်မတို့မှာ အပ်ချုပ်စက် နှစ်လုံး ရှိတယ်၊ စောင်တွေလည်း ချုပ်တယ်၊ အဝတ်အထည်တွေလည်း ချုပ်တယ်၊ ရှင် စက်ချုပ်ခန်းမှာ အလုပ် လုပ်ချင်တဲ့စိတ် ပေါ်ချင် ပေါ်လာမှာ”

ကော်မတီဝင် အမျိုးသမီးများက အမေ့ကို လာရောက် တွေ့ဆုံနေချိန်တွင် ရှုသီနှင့် ဝင်းဖီးတို့ မောင်နှမသည် သူ့အမေ လက်လှမ်းမမှီသည့် နေရာ၌ ရောက်နေကြလေပြီ။

“နင်က သူတို့နဲ့ လိုက်သွားပြီး သူတို့ ပြောတာတွေကို ဘာပြုလို့ နားမထောင်ချင် ရတာလဲ” ဟု ဝင်းဖီးက မေးသည်။

ရှုသီက ဝင်းဖီး၏ လက်မောင်းကို လှမ်း၍ ဆုပ်ကိုင်လိုက်သည်။ “မလိုက်ဘူး နားလည်း မထောင်ဘူး” ဟု ပြောသည်။ “ဒီခွေးသမီးတွေကြောင့် ငါတို့ ချေး အတွန်းခံရတာ၊ ငါတို့နဲ့ ဘယ်တော့မှ မလိုက်ဘူး သိလား”

“ဟို အိမ်သာထဲက ခွက်ကို ငါ ပျက်အောင် ဖျက်ပစ်ခဲ့တယ်လို့ နင်က အမေနဲ့ တိုင်ပြောတယ်၊ ငါကလည်း တိုင်မယ်၊ ဟို မိန်းမကြီးတွေကို နင်က ခွေးသမီးကြီးတွေလို့ ခေါ်တယ်”

ကြောက်စိတ် အရိပ်သည် ရှုသီ၏ မျက်နှာတွင် ဖျတ်ခနဲ ဝင်လာသည်။

"မတိုင်ပါနဲ့ဟယ်၊ နင်ကလည်း၊ နင် လုပ်ခဲ့တာ တကယ် မပျက်ဘူးဆိုတာ ငါက သိနေလို့ ပြောမိတာပါ "

"မဟုတ်ပါဘူး၊ နင် ညာတာပါ" ဟု ဝင်းဖီးက ဆိုသည်။

"ကဲပါဟယ်၊ ငါတို့ လျှောက်ကြည့်ကြမယ် " ဟု ရှုသီက လေသံပျော့ပျော့ဖြင့် ချော့မော့၍ ခေါ်သည်။ သူတို့သည် တဲများကြားရှိ လမ်းများအပေါ်တွင် တစ်လမ်းဝင် တစ်လမ်းထွက် လျှောက်သွားကြသည်။ တဲတစ်လုံးချင်းစီကို ငုံ့၍ ငုံ့၍ ကြည့်သွားကြသည်။ တဲတန်း တစ်တန်း၏ အစွန်းတစ်ဘက်တွင် ပြန့်ပြူးသော မြေနေရာတစ်ခု ရှိသည်။ ထိုမြေပေါ်တွင် ကရိုးကွက်ကုတ် ကစားကွင်း တစ်ကွင်း၊ ကလေး ခြောက်ယောက်သည် ထိုကွင်းထဲ၌ သဲကြီး မဲကြီး ကစားလျက် ရှိကြ၏။ အသက်ခပ်ကြီးကြီး မိန်းမကြီး တစ်ယောက်သည် တဲတစ်လုံး ရှေ့ရှိ ခုံတန်းလျား တစ်လုံးပေါ်မှ ထိုင်ကာ ကစားပွဲကို ကြည့်နေသည်။ ရှုသီနှင့် ဝင်းဖီးတို့က ပြေးသွားကြသည်။ "တို့လည်း ပါမယ် ဟေ့" ဟု ရှုသီက အော်သည်။ "တို့လည်း ပါမယ်"

ကလေးများက မော့ကြည့်သည်။ ကျစ်ဆံမြီး တွဲလောင်းနှင့် ကောင်မလေးက လှမ်းပြောသည်။ "နောက်တစ်ပွဲကျရင် ပါပေါ့"

"ငါ အခုပဲ ကစားချင်တယ်ဟေ့ " ဟု ရှုသီက ပြန်အော်ပြောသည်။

"အခု ကစားလို့ မရတော့ဘူး၊ နောက်တစ်ပွဲကျမှ ကစား"

ရှုသီက ကွင်းထဲသို့ ဆောင့်ကြီးအောင့်ကြီး လုပ်၍ ဝင်သွားသည်။ "ငါ အခု ကစားမယ်" ဟု ပြောသည်။ ကျစ်ဆံမြီးမကလေးသည် သူ ကိုင်ထားသည့် လက်ရိုက်တံကို တင်းကျပ်စွာ ဆုပ်ကိုင်ထားသည်။ ရှုသီက သူ့အပေါ် ခုန်အုပ်လိုက်ပြီး ပါးကို တစ်ချက် ပိတ်ရိုက်လိုက်သည်။ ကိုယ်လုံးနှင့် တအား ပစ်တိုက်သည်။ ပြီးတော့ လက်ရိုက်တံကို အတင်း လုသည်။ "ငါ ပြောတယ် မဟုတ်လား၊ ငါ အခု ကစားချင်တယ်လို့" ရှုသီက အောင်နိုင်သော အသံဖြင့် ပြောလေသည်။

ခုံတန်းလျားပေါ်မှ မိန်းမကြီးသည် ကစားကွင်းဆီသို့ လျှောက်လာသည်။ ရှုသီက သူ့လက်ထဲ ရောက်နေသည့် လက်ရိုက်တံကို တအား ဆုပ်ကိုင်ကာ မိန်းမကြီးအား

မျက်မှောင်ကုတ်၍ ကြည့်သည်။ မိန်းမကြီးက လှမ်းပြောသည်။ "သူ့ကိုပဲ ကစားပစေ၊ ပြီးခဲ့တဲ့ အပတ်က ရပ်ဖ်ကို နင်တို့ လုပ်ခဲ့သလိုပေါ့"

ကလေးများသည် လက်ရိုက်တံများကို မြေပေါ် ပစ်ချကာ ကွင်းထဲမှ ငြိမ်သက်စွာ ထွက်ခွာသွားကြသည်။ ခပ်လှမ်းလှမ်း ရောက်သည့်အခါ အားလုံး တန်းစီရပ်ပြီး ကစားကွင်းဘက်သို့ စောင့်ကြည့်နေသည်။ ရှုသီကလည်း ကလေးအားလုံး ကွင်းပြင် ရောက်သွားသည်အထိ စောင့်ကြည့်နေသည်။ ထို့နောက် လက်ထဲမှ လက်ရိုက်တံဖြင့် ဘောလုံးတစ်လုံးကို တအားကျုံး၍ ရိုက်လိုက်ပြီး ဘောလုံးနောက်မှ ပြေးလိုက်သွားသည်။ "လာဟေ့ ဝင်းဖီး၊ ရိုက်တံ တစ်ချောင်း ကောက်ခဲ့၊ တို့ ကစားကြမယ်" ဟုလည်း အော်ခေါ်သည်။ သူသည် သူ့မောင်၏ အပြုအမူကို နားမလည်သည့်နှယ် ပါးစပ် အဟောင်းသားဖြင့် တအံ့တသြ ငေးကြည့်နေသည်။ ဝင်းဖီးသည် ရပ်ကြည့်နေသော ကလေးများထံ လျှောက်သွားပြီး အတူတူ တွဲ၍ ရပ်လျက် ရှိ၏။ ပြီးတော့ သူကိုယ်တိုင်ကပင် ရှုသီ လုပ်ပုံကို မနှစ်မြို့သည့်နှယ် စိုက်ကြည့်လျက် ရှိ၏။ ရှုသီက သူတို့ အပြုအမူကို အရေးမစိုက်ဟန် ပြုကာ ဘောလုံးကို နောက်တစ်ချက် ထပ်ရိုက်ပြန်သည်။ အနီးမှ သဲပုံတစ်ပုံကိုလည်း ခြေထောက်နှင့် တအားကျုံး၍ ကန်လိုက်သည်။ ကလေးများကတော့ ရပ်နေသည့်နေရာမှ ရွေ့လျားခြင်း မရှိ။ ရပ်မြဲရပ်ကာ ကြည့်မြဲတိုင်း ကြည့်နေကြသည်။ ရှုသီက ဘောလုံးနှစ်လုံးကို တန်းစီ၍ တည်ကာ နှစ်လုံးစလုံးကို ရိုက်တံဖြင့် ရိုက်ထည့်လိုက်ပြန်သည်။ ထို့နောက် ရပ်ကြည့်နေသူများဘက်သို့ နောက်ပြန် တစ်ချက် လှည့်ကြည့်ပြီး လုံးဝ ဂရုမစိုက်သည့်ဟန်ဖြင့် မျက်နှာကို ပြန်လွှဲလိုက်သည်။ ထို့နောက်တွင် ရိုက်တံကို ကိုင်ကာ ရပ်နေသူများဆီသို့ လျှောက်လာသည်။ "နင်တို့ကော ပါလေ၊ လာကြ၊ အတူတူ ကစားကြမယ်" ဟု ခေါ်သည်။ ကလေးများက ရှုသီကို အနားကပ် မခံ။ ကပ်လာသည်နှင့် တစ်ပြိုင်နက် နေရာရွေ့၍ ရပ်ကြသည်။ ရှုသီသည် ဘာဆက်လုပ်ရမှန်း မသိ။ ခဏမျှ ကြောင်၍ ကြည့်နေသည်။ ပြီးတော့ လက်ထဲမှ ရိုက်တံကြီးကို မြေကြီးပေါ် ပစ်ချကာ အော်ကြီးဟစ်ကျယ် ငို၍ သူ့တဲဘက်သို့ ပြန်ပြေးသည်။ ကလေးအားလုံးသည် ကစားကွင်းထဲသို့ ပြန်ဝင်သွားကြ လေ၏။

ကျစ်ဆံမြီးမလေးက ဝင်းဖီးအား လှမ်းပြောသည်။ "နောက်တစ်ပွဲကျမှ နင် ပါနော်"

အနီးမှ ရပ်ကြည့်နေသော မိန်းမကြီးက သူတို့အား လှမ်းပြောသည်။ "ဟိုကောင်မလေး ပြန်လာပြီး ယဉ်ယဉ်ကျေးကျေးနဲ့ ဆက်ဆံမယ်ဆိုရင် နင်တို့က ဆီးပြီး

မပါရဘူးလို့ မလုပ်ကြနဲ့၊ သူ့ကိုပါ ကစားပစေပေါ့ အေမီရယ်" ဂျူတ် မိသားစု တဲအတွင်း၌ ရှုသီတစ်ယောက် ချုံးပွဲချ၍ ငိုကြွေးနေသည့် အချိန်တွင် ကလေးများ၏ ကစားပွဲသည် အရှိန်မပျက် ဆက်လက် ကစားမြဲ ကစားလျက် ရှိလေသည်။

ထရပ်ကားသည် လုပသော လမ်းမကြီးများတစ်လျှောက် ရွေ့လျားလျက် ရှိလေသည်။ မှည့်ရောင်သန်းစ ပြုနေပြီ ဖြစ်သော အသီးများဖြင့် ပြည့်နေသည့် မက်မွန်ခြံကြီးများကိုလည်း ဖြတ်သည်။ အဖြူရောင် ဖျော့ဖျော့နှင့် အစိမ်းရောင် ရောစွက်နေသည့် စပျစ်ခိုင်များ အပြွတ်လိုက် အခဲလိုက် ဖြစ်နေသော စပျစ်ခြံကြီးများကိုလည်း ဖြတ်သည်။ လမ်းမပေါ်သို့ ဖြန့်မိုးလျက် ရှိသော သစ်ကိုင်းများ အောက်မှ ဖြတ်သည့်အခါလည်း ဖြတ်သည်။ ခြံတစ်ခြံ၏ အဝင်ဂိတ်တစ်ခု အနီးသို့ ကပ်မိသည့်အခါတိုင်းတော့ အယ်လ်သည် သူ့ကား အရှိန်ကို လျှော့၍ နေးနေး မောင်းသည်။ ခြံတစ်ခြံ၏ ဂိတ်တစ်ခု ရှေ့သို့ ရောက်တိုင်း လည်း ဆိုင်းဘုတ်တစ်ခုကိုတော့ တွေ့ရစမြဲ။ အလုပ်မရှိ။ ဖြတ်သန်းခြင်း မပြုရ။

အယ်လ်သည် သူ့အဖေအား လှမ်း၍ ပြောသည်။ "အသီးတွေအားလုံး မှည့်ကုန်မှ အလုပ်ရှိမယ့် လက္ခဏာပဲ အဖေရ၊ ရယ်စရာ အတော်ကောင်းတဲ့ အရပ်ပါကလားဗျာ၊ ကျုပ်ဖြင့် အံ့ရော၊ သူတို့ဆီသွားပြီး မမေးခင် မစုံစမ်းခင်ကတည်းက ကြိုပြီး မလုပ်မရှိဘူးလို့ ပြောနေတယ်" သူသည် ကားကို ဖြည်းဖြည်းမှန်မှန်ပင် မောင်းလျက် ရှိသည်။

"ဘာပဲ ဖြစ်ဖြစ်ကွာ၊ သူတို့ဆီသွားပြီး အလုပ်အကိုင်ရှိတဲ့ နေရာများ သိရင် ပြောစမ်းပါလို့ မေးကြည့်ကြတာပေါ့၊ ဒါလောက်တော့ လုပ်လို့ ဖြစ်တန် ကောင်းပါရဲ့"

အပြာရောင်ရှပ်နှင့် အပြာရောင် အပေါ်ဝတ်အကျႌ ဝတ်ထားသော လူတစ်ယောက်သည် လမ်းမကြီး ဘေးအတိုင်း လျှောက်သွားလျက် ရှိ၏။ အယ်လ်က ကားကို ထိုလူဘေး၌ ကပ်၍ ရပ်လိုက်သည်။ "ဟေး မစ္စတာ" အယ်လ်က ကားပေါ်မှနေ၍ အသံပေးသည်။ အလုပ်ရနိုင်တဲ့ နေရာများ မသိဘူးလား"

ထိုလူသည် လျှောက်သွားနေရာမှ ရပ်လိုက်ပြီး အယ်လ်အား ပြုံးဖြဲဖြဲနှင့် ကြည့်သည်။ သူ့ပါးစပ်ထဲမှ ရှေ့သွားတစ်ချောင်းသည် ဟောင်းလောင်း။ "မသိဘူး" ဟု ပြန်ပြောသည်။ "မင်းကော သိသလား၊ ငါတော့ဖြင့် ခြေကျင်တစ်လှည့် ကုန်းကြောင်း

တစ်လှည့် လျှောက်သွားပြီး အလုပ်ရှာနေတာ တစ်ပတ်တိတိ ရှိသွားပြီ၊ ဘာအလုပ်မှ မရသေးဘူး"

"ခင်ဗျားက အစိုးရ ကယ်ဆယ်ရေးစခန်းမှာ နေသလား" ဟု အယ်လ်က ထပ်မေးပြန်သည်။

"အေး"

"ဒီလိုဆို လာလေဗျာ၊ ကားပေါ်တက်၊ ကျုပ်တို့နဲ့အတူတူ ရှာကြတာပေါ့" ထိုလူသည် ကားပေါ်သို့ ဘေးမှ တွယ်၍ တက်ကာ ကြမ်းပေါ်သို့ ခြေပစ်လက်ပစ် ထိုင်ချလိုက်လေသည်။

"အလုပ်ကတော့ ရှာလို့ရမယ် မထင်တော့ဘူးဗျာ၊ အင်း ဘယ်လိုပဲဖြစ်ဖြစ်၊ မရ ရအောင်တော့ ရှာရမှာပေါ့လေ၊ ဒါပေမဲ့ ငါတို့အနေနဲ့ အလုပ်အကိုင် ရှိတဲ့ နေရာကိုတောင် မသိသေးတာက ခက်တယ်" ဟု အဖေဂျုတ်က ညည်းသည်။

"ကျုပ်တို့ စခန်းက လူတွေကို မေးကြည့်သင့်တယ်ဗျ" ဟု အယ်လ်က ပြောသည်။ "ခင်ဗျားကကော ဘယ်လိုထင်လဲ ဦးလေးဂျွန်"

"ငါကတော့ ကိုက်ခဲနေတာပဲကွာ" ဟု ဦးလေးဂျွန်က ပြန်ပြောသည်။ "တစ်ကိုယ်လုံးပဲကွ၊ ကိုယ့်ဆွေမျိုးတွေကို ဒုက္ခပေးရာ မရောက်အောင် မင်းတို့နဲ့ ဝေးရာကို ငါ ပြေးသင့်ပြီ"

အဖေဂျုတ်က ဦးလေးဂျွန်၏ ဒူးခေါင်းကို လှမ်းကိုင်သည်။ "ဒီမှာ ငါပြောမယ်၊ မင်း ဘယ်ကိုမှ ထွက်မသွားနဲ့၊ ငါတို့ တစ်မိသားစုလုံးဟာ ကလေကချေ ဘဝ ရောက်နေတာ ကြာလှပြီ၊ အဘိုးဂျုတ်နဲ့ အဘွားဂျုတ်ဆိုရင် လမ်းပေါ်မှာ သေခဲ့ရတာ၊ နိုအာနဲ့ ကွန်နီဆိုရင် ထွက်ပြေးကုန်ပြီ၊ တရားဟောဆရာကတော့ အခု ထောင်ထဲမှာ"

"တရားဟောဆရာကိုတော့ ငါတို့ ထပ်ပြီး တွေ့ရလိမ့်ဦးမယ်လို့ စိတ်ထဲက သိနေသလိုပဲ" ဟု ဦးလေးဂျွန်က ဆိုသည်။

"စိတ်ထဲ ထင်တာတွေ လျှောက်ပြောနေလို့ကတော့ အပိုပါပဲဗျာ" ဟု အယ်လ်က ပြောသည်။ "ဒါမျိုးတွေက အဓိပ္ပါယ် မရှိဘူး၊ ကျုပ် စခန်းပြန်ပြီး အလုပ်အကိုင် ဘယ်နေရာမှာ ရနိုင်တယ်ဆိုတာ မေးကြမယ်၊ အခု လုပ်နေရတာက ရေအောက်ဆင်းပြီး ဖျံပုပ်ကောင် လိုက်ရှာနေသလို ဖြစ်နေတယ်" သူသည် ကားပြတင်းမှ ခေါင်းထုတ်ကာ နောက်သို့ လှမ်းအော်သည်။ "ဟေး ဒီမှာ ကျုပ်တို့ စခန်းကို ပြန်မယ်၊ ဘယ်မှာ အလုပ်ရနိုင်မလဲဆိုတာ မေးမယ်၊ နေရာ အတိအကျ မသိဘဲ အခုလို လျှောက်မောင်းနေရင် ဓာတ်ဆီဖြုန်းသလို ဖြစ်နေမှာ"

ကားနောက်ထဲမှ လူ၏ ဦးခေါင်းသည် ထရပ်ကား ဘေးသို့ ထွက်လာသည်။ "အေး ကောင်းတယ်" ပြန်အော်သည်။ "လျှောက်ရလွန်းလို့ ငါ့မှာလည်း ခြေတိုခမန်း ဖြစ်နေပြီ၊ ဘာမှလည်း ရတာ မဟုတ်ဘူး"

အယ်လ်သည် ကားကို လမ်းအလယ်ကောင်မှာပင် ပြန်ကွေ့ပြီး လာလမ်းအတိုင်း ပြန်လေသည်။

"မင်း အမေကတော့ စိတ်မကောင်း ဖြစ်လိမ့်ဦးမယ်၊ တွမ်က အလုပ်ရပြီး တို့က မရတော့ သူ့စိတ်ထဲမှာ တစ်မျိုး ဖြစ်မှာပေါ့"

"ဟာ ဗျာ၊ တွမ်လည်း အလုပ်ရချင်မှ ရဦးမှာပါ" ဟု အယ်လ်က ပြန်ပြောသည်။ "သူကလည်း ကျုပ်တို့လိုပဲ အလုပ်ထွက်ရှာတာ ဖြစ်ချင် ဖြစ်မှာပေါ့ဗျ၊ ကျုပ်ကတော့ မော်တော်ကား အလုပ်ရုံတစ်ခုထဲမှာပဲ လုပ်ချင်တယ်၊ ကားပြင်တဲ့ အလုပ်ဆိုရင် ကျုပ် ချက်ချင်းတတ်မှာ သေချာတယ်၊ ကျုပ် ဝါသနာ ပါတယ်ဗျ"

အဖေဂျုတ်သည် စိတ်ပျက်လက်ပျက်ဖြင့် တစ်ချက်မျှ ညည်းလိုက်သည်။ သူတို့သည် တိတ်ဆိတ် ငြိမ်သက်စွာဖြင့် ကားကို စခန်းဘက်သို့ ပြန်မောင်းလာခဲ့လေ၏။

ကော်မတီဝင်မျာဖား ပြန်သွားသောအခါ အမေသည် တဲရှေ့၌ ချထားသည့် သေတ္တာပေါ်၌ ထိုင်၍ သူ့သမီး ရိုစာဟန်ကို ငေးကြည့်နေသည်။ "အင်း အမေလည်း အခုလို စိတ်အား ထက်ထက်သန်သန်နဲ့ တက်တက်ကြွကြွ မဖြစ်ခဲ့တာ နှစ်အတော် ကြာခဲ့ပါပကော လား" ဟု ညည်းညည်းညူညူ ပြောသည်။ "အခုလာသွားတဲ့ အမျိုးသမီး တွေဟာ အတော်လေး သဘောကောင်းကြသားပဲနော် "

"သမီးတော့ နို့စို့ကလေး ပြုစုရေး လုပ်ငန်းမှာ ဝင်လုပ်မယ် အမေ" ဟု ရှိစာဟန်က ပြောသည်။ "သူတို့က ပြောသွားတယ်၊ နို့စို့ကလေးတွေကို ဘယ်လို ပြုစုရမယ်ဆိုတာ သမီး လက်တွေ့ နားလည်သွားနိုင်တယ်တဲ့"

အမေက ခေါင်းညိတ်သည်။ "ယောကျ်ား အားလုံး အလုပ်ရသွားကြရင် ကောင်းမှာပဲကွယ်" ဟု ရေရွတ်သည်။ "သူတို့ အားလုံးသာ အလုပ်ရသွားကြမယ်ဆိုရင် ဝင်ငွေ ရှိလာမှာ" အမေ့ မျက်လုံးများသည် မိုးကောင်းကင်ဆီသို့ တွေဝေ ငေးမောလျက် ရှိသည်။ "သူတို့ယောကျ်ား အားလုံး အလုပ်ရ၊ အမေတို့လည်း အလုပ်ရ၊ ပြီးတော့ ဒီမှာပဲ နေကြ၊ အဲဒါဆိုရင် အမေတို့ အဆင်သိပ်ပြေသွားမယ်၊ ဒီက လူတွေကလည်း လူကောင်းတွေ မဟုတ်လား၊ ဝင်ငွေလေး ရလာရင် အမေတို့ ပထမဆုံး လုပ်ရမှာက မီးဖိုကောင်းကောင်းလေး တစ်လုံး ဝယ်ဖို့ပဲ၊ ဈေး သိပ်မကြီးပါဘူး၊ ပြီးတော့ တဲအသစ် ခပ်ကြီးကြီးတစ်လုံး ဆောက်ရမယ်၊ ဒါမှ နေလောက်မှာ၊ အိပ်ရာတွေတော့ တစ်ပတ်နွမ်း ဝယ်ရင် ဖြစ်ပါတယ်၊ အခုတော့ အမေတို့နေတဲ့ တဲကိုတော့ ထမင်းစားခန်း လုပ်လို့ရတယ်၊ စနေနေ့ညကျတော့ အမေတို့ အားလုံး ကပွဲ သွားကြမယ်၊ သူတို့က ပြောတယ်၊ ကိုယ့်ဆွေမျိုးသားချင်း မိတ်ဆွေတွေကိုလည်း ဖိတ်နိုင်တယ်တဲ့၊ အမေတို့မှာ ဖိတ်နိုင်မယ့် မိတ်ဆွေ ရှိစေချင်တယ်၊ ယောကျ်ားတွေ အနေနဲ့တော့ ဖိတ်ရမယ့်လူ ရှိချင် ရှိမှာပေါ့"

ရှိစာဟန်က လမ်းဘက်သို့ တစ်ချက် စိုးကြည့်သည်။ "သမီးကို ကလေး ပျက်ကျလိမ့်မယ်လို့ ပြောတဲ့ မိန်းမကြီးဟာ.. " ဟု စကားစသည်။

"တော်၊ ဒီဟာကို မပြောနဲ့တော့" ဟု အမေက "နို့သည်။

ရှိစာဟန်က တိုးတိုးကလေး ထပ်ပြောပြန်၏။ "သမီး သူ့ကို တွေ့လိုက်ရတာ၊ သူ ဒီကို လာနေတာဟာ ထင်တယ်၊ ဟုတ်တယ်၊ ဒီကို ပြန်လာနေတာ၊ ဒီမယ် အမေ သူ့ကို လက်ခံပြီး စကား မပြော.."

အမေက နောက်သို့ လှည့်၍ သူတို့ဘက်သို့ တရွေ့ရွေ့ လျှောက်လာနေသည့် လူကို လှမ်းကြည့်နေသည်။

"နေကောင်းရဲ့လား" ဟု မိန်းမကြီးက နှုတ်ဆက်သည်။ "ကျွန်မက မစ္စက် ဆန်ဒရီပါ၊ လစ်ဇဘက်ဆန်ဒရီ၊ ကျွန်မ ရှင့်သမီးနဲ့ မနက်က တွေ့တယ်"

"နေကောင်းရဲ့လား " ဟု အမေက ပြန်၍ နှုတ်ဆက်လေသည်။

ဟဘုရားသခင်ရဲ့ အရိပ်အာဝါသအောက်မှာ နေရတာ ပျော်ရဲ့လား "

"ပျော်ပါတယ် "

"ရှင့်ဘဝ လုံခြုံမှုကော ရှိရဲ့လား"

"ရှိသားပဲ" အမေ့မျက်နှာသည် တည်တည်ငြိမ်ငြိမ် ရှိသည်။ သူ ဘာတွေ ဆက်ပြောဦးမလဲ ဟူသော သဘောဖြင့် ငံ့လင့်လျက် ရှိ၏။

"အခုလို ကြားရတာ ဝမ်းသာတယ်" ဟု လစ်ဇဘက်က ပြောသည်။ "ဒီစခန်းမှာ ဒုစရိုက်သမားတွေက ကြောက်စရာ ကောင်းလောက်အောင်ကို ကြီးစိုးနေတယ်၊ အင်မတန် ရှုံ့ရှာ စက်ဆုပ်ဖို့ကောင်းတဲ့ နေရာတစ်နေရာကို ရှင်တို့ ရောက်လာကြတာ၊ ဒီပတ်ဝန်းကျင် မှာ ဆိုးရွား ယုတ်မာမှုတွေပဲ လွှမ်းမိုးနေတယ်၊ လူဆိုးတွေ ဒုစရိုက်သမား တွေနဲ့ ပြည့်နေတဲ့အတွက် ဘုရားသခင်ကို ကြည်ညိုကိုးစားတဲ့ သိုးကလေးတွေလို လူစားတွေ နေလို့ မရဘူး၊ ကျွန်မတို့ရဲ့ ပတ်ပတ်လည်မှာ ဒုစရိုက်သမားတွေနဲ့ ပြည့်နေတာ "

အမေဂျုတ်၏ မျက်နှာသည် မသိမသာ နီမြန်းလာသည်။ သူ့ပါးစပ်ကိုလည်း တင်းကျပ်စွာ စေ့ထားသည်။ "ကျွန်မ အမြင်ကတော့ ဒီမှာ ရှိနေကြတဲ့ လူတွေ အားလုံးဟာ လူကောင်းတွေချည်းပဲလို့ မြင်တယ် " အမေ့အသံသည် တင်းတင်းပြတ်ပြတ် နိုင်လှလေ သည်။

မစ္စဆန်ဒရီ၏ မျက်လုံးအစုံသည် ကျယ်လာသည်။ "လူကောင်းတွေ ဟုတ်လား " ဟု အော်ကြီးဟစ်ကျယ် ရေရွတ်သည်။ "ကလိုက် ခုန်လိုက် ရင်ချင်းအပ်လိုက် လုပ်နေတဲ့ လူစားတွေကို ရှင်က လူကောင်းတွေလို့ ထင်တယ် ဟုတ်စ၊ ဖြစ်မှ ဖြစ်ရလေတော်၊ အံ့ဩပါ့၊ ဒီမှာ ကျွန်မ ရှင့်ကို ပြောပြလိုက်မယ်၊ မနေ့ညက ဝိဒ်ပက်ချ်မှာ လုပ်တဲ့ တရားပွဲ တစ်ပွဲကို ရောက်ခဲ့တယ်၊ ဓမ္မဆရာက ဘာပြောတယ် ထင်သလဲ၊ သူက ပြောတယ်၊ အဲဒီစခန်းက လူတွေဟာ အားလုံးလိုလို ဒုစရိုက်သမားတွေချည်းပဲတဲ့၊ ဆင်းရဲသားတွေက လူချမ်းသာဖြစ်အောင် ကြိုးစားနေကြတယ်တဲ့၊ သူတို့ အနေနဲ့ သူတို့ ပြုထားတဲ့ ဒုစရိုက်မှုတွေအတွက် ဘုရားသခင်ကို အာရုံပြုပြီး ငိုကြွေးတမ်းတနေရမယ့် အချိန်မှာ

ကလိုက် ခုန်လိုက် သီချင်းဆိုလိုက် မိန်းမနဲ့ ယောကျာ်း ရင်ချင်းအပ်လိုက် ဖက်လိုက် လုပ်နေကြတယ်တဲ့၊ အဲဒီ စကားတွေဟာ ဓမ္မဆရာက ပြောလိုက်တဲ့ စကားတွေပဲ၊ ဒီစခန်းမှာ မနေတဲ့ လူမှန်သမျှဟာ အပြစ်ကင်းစင်တဲ့ သူ ချည်းပဲလို့လည်း ပြောလိုက်တယ်၊ သူ့တရား နာရတဲ့ လူတစ်ယောက်ဟာ စိတ်သက်သာရာ ရတာတော့ အမှန်ပဲ၊ ကျွန်မတို့ကတော့ ဒုစရိုက်သမား မဟုတ်ဘူး ဆိုတာ ကိုယ့်ဘာသာကိုယ် သိနေတာပဲ၊ ဘာကြောင့်လည်း ဆိုတော့ ကျွန်မတို့က ကမှ မကတာ"

အမေဂျုတ်၏ မျက်နှာသည် နီရဲလာသည်။ သူသည် ထိုင်ရာမှ ထရပ်ကာ မစ္စက်ဆန်ဒရီနှင့် မျက်နှာချင်း ဆိုင်လိုက်၏။ "ထွက်သွား" ဟု အမေက နင်သည်။ "အခု ချက်ချင်း ထွက်သွားစမ်း၊ နင့်ဘာသာနင် သွားချင်တဲ့ နေရာသွားပြီး တမ်းတပေါ့၊ ဒီမှာ လာမပြောနဲ့"

မစ္စက် ဆန်ဒရီ၏ ပါးစပ်သည် ဟောင်းလောင်း ဖြစ်ချက် ရှိ၏။ သူသည် နောက်သို့ တစ်လှမ်း နှစ်လှမ်း ဆုတ်သွားသည်။ ထို့နောက် ဒေါသူပုန် ထလာသည်။ "ငါက နင့်ကို ခရစ်ယာန် တစ်ယောက်လို့ ထင်ထားတာ"

"ဟုတ်တယ်၊ ငါတို့ ခရစ်ယာန်တွေပဲ၊ အဲဒါ ဘာဖြစ်လဲ" ဟု အမေက ပြန်ပြောသည်။

"မဟုတ်ဘူး၊ နင်ဟာ ခရစ်ယာန်တစ်ယောက် မဟုတ်ဘူး၊ နင်ဟာ ငရဲပြည်မှာ လောင်မီးကျမယ့် ကောင်မ၊ နင်တို့အားလုံး ငရဲကျမယ့် ဒုစရိုက်ကောင်တွေ၊ နင်တို့ရဲ့ အကြောင်းကို တရားပွဲကျရင် ပြောပြမယ်၊ နင်တို့ရဲ့ စိတ်ပုပ် စိတ်ယုတ်တွေ လောင်မီးကျနေတာကို ငါ မြင်တယ်ဟဲ့၊ ဟိုမှာ ထိုင်နေတဲ့ ကောင်မလေးရဲ့ ဗိုက်ထဲက အပြစ်ကင်းစင်တဲ့ ကလေး မီးလောင်တိုက် အသွင်းခံရသလို ဖြစ်နေတာလည်း ငါ မြင်တယ် သိလား"

ရိုစာဟန်၏ နှုတ်ဖျားမှ ထိတ်လန့်တကြား အော်လိုက်သည့် အသံတစ်သံ ထွက်လာသည်။ အမေက ခါးကို ကုန်းလိုက်ပြီး ထင်းချောင်းတစ်ချောင်းကို ကောက်သည်။

"သွား၊ အခု ထွက်သွား" ဟု အမေက အေးစက်စက်မာကျောကျော အသံဖြင့် အံကြိတ်၍ ပြောသည်။ "နင် ဒီကို ဘယ်တော့မှ မလာနဲ့၊ နင့်လို အစားမျိုးတွေကို ငါ

အများကြီး တွေ့ဖူးခဲ့တယ်၊ စိတ်ချမ်းသာစရာ ဆိုလို့ နည်းနည်းပါးပါးပဲ တွေးတတ်တဲ့ အစားတွေ" အမေက မစ္စက်ဆန်ဒရီဆီသို့ တိုးသွားသည်။

မစ္စ်ဆန်ဒရီ နောက်သို့ ဆုတ်သွားသည်။ ထို့နောက် ရုတ်တရက် သူ့ခေါင်းကို မော့လိုက်ပြီး အသံသေး အသံကြောင်ဖြင့် စူးစူးဝါးဝါး အော်သည်။ သူ့မျက်လုံးများသည် ပြူးတိပြူးကြောင် ဖြစ်ကာ ချာချာလည်လျက် ရှိ၏။ သူ့ပခုံးနှင့် လက်မောင်းများသည် အသက် မရှိတော့သည့်နယ် ဘေးတစ်ဖက်တစ်ချက်၌ တွဲလောင်းကျလျက် ရှိသည်။ နှုတ်ခမ်းထောင့် များမှ သွားရည်များ စီးကျလာသည်။ ပြီးတော့ သူ့ပါးစပ်မှ အဆက်မပြတ် ထွက်လာနေသည့် အော်သံများ။ အော်သံမှာ တိရစ္ဆာန်တစ်ကောင်၏ အူသံနှင့် တူသည်။ အနီးအနားရှိ တဲများအတွင်းမှ ယောကျ်ားများနှင့် မိန်းမများသည် အပြေးအလွှား ထွက်လာကြသည်။ မစ္စက်ဆန်ဒရီနှင့် မနီးမဝေးမှ ရပ်ကာ အလန့်တကြား ကြည့်နေကြသည်။ တဖြည်းဖြည်းနှင့် မစ္စက်ဆန်ဒရီ၏ ဒူးနှစ်ဖက်သည် ကွေးညွတ်ကာ မြေကြီးပေါ်သို့ ထောက်လျက်သား ကျသွားသည်။ အော်သံသည် ညည်းညူသံအဖြစ်သို့ ပြောင်းသွားသည်။ ထို့နောက် မြေပေါ်သို့ တစောင်း လဲကျသွားသည်။ သူ့လက်များနှင့် ခြေထောက်များသည် ကွေးကောက် တွန့်လိမ်နေရုံမျှမက တစ်ကိုယ်လုံး အကြောဆွဲကာ မျက်ဖြူလန်လျက် ရှိလေ၏။

ရပ်ကြည့်နေကြသူများ အထဲမှ ယောကျ်ား တစ်ယောက်က တိုးတိုး ပြောသည်။ "သရဲ သရဲပူးတာ" အမေဂျုတ်ကတော့ မြေကြီးပေါ်မှ တွန့်လိမ် ကောက်ကွေးနေသော ခန္ဓာကိုယ်အား ငုံ့ကြည့်နေသည်။

စခန်း မန်နေဂျာသည် သုတ်သီးသုတ်ပျာနှင့် ရောက်လာသည်။ "ဘာဖြစ်တာလဲ" ဟု မေးသည်။ ဝိုင်းအုံ ရပ်နေကြသူများက သူ့အား လမ်းဖယ်ပေးကြသည်။ သူသည် မစ္စက်ဆန်ဒရီအား ငုံ့ကြည့်ပြီး "တော်တော် ဆိုးတာပဲ" ရေရွတ်သည်။ "ခင်ဗျားတို့ထဲက ကူကြဦးမှပေါ့၊ သူ့ကို သူ့တဲ ပြန်ပို့ပေးလိုက်ကြပါ" တိတ်တိတ်ဆိတ်ဆိတ် ရပ်၍ ကြည့်နေသူများ၏ ခြေထောက်များသည် လှုပ်ရှားလာကြသည်။ လူအုပ်ထဲမှ ယောကျ်ား နှစ်ဦး ထွက်လာသည်။ တစ်ယောက်က မစ္စက်ဆန်ဒရီ၏ လက်များမှ မ၍ ကျန်တစ်ယောက်က ခြေထောက် နှစ်ဖက်မှ မပြီး သယ်ယူသွားကြသည်။ ကျန်လူစုသည် နောက်မှ လိုက်သွားကြလေ၏။ ရိုစာဟန်ကတော့ တဲထဲသို့ ပြန်ဝင်ပြီး မွေ့ရာပေါ် လှဲကာ မျက်နှာကို စောင်တစ်ထည်ဖြင့် အုပ်ထားလေသည်။

မန်နေဂျာက အမေ့မျက်နှာကို ကြည့်သည်။ ပြီးတော့ လက်ထဲမှ တုတ်ကို လှမ်းကြည့်ပြီး ပြုံးသည်။ သူ့အပြုံးမှာ ပင်ပန်းနွမ်းနယ်နေသော အပြုံး။ "ခင်ဗျား သူ့ကို ရိုက်လိုက်သေးသလား" ဟု မေးသည်။

အမေက သူ့အနီးမှ ခွာသွားကြသော လူများ သွားရာဘက်သို့ ကြည့်နေရာမှ ခေါင်းကို ဖြည်းညင်းစွာ ယမ်းသည်။ "မရိုက်ပါဘူး၊ ဒါပေမဲ့ ရိုက်မိတော့မလို့ နည်းနည်းပဲ လိုတယ်၊ ကနေ့ သူ ကျွန်မ သမီးကို စိတ်ဆင်းရဲအောင် လာလုပ်တာ နှစ်ခါ ရှိသွားပြီ"

မန်နေဂျာက ပြန်ပြောသည်။ "သူ့ကို ရိုက်ဖို့ မကြိုးစားပါနဲ့၊ သူက သိပ်ကျန်းမာတာ မဟုတ်ဘူး" ထို့နောက် အသံကို တိုးလိုက်ပြီး ဆက်ပြောသည်။ "ကျွန်တော်ကတော့ သူ့ကို ဒီစခန်းက ပြောင်းသွားစေချင်တယ်၊ သူနဲ့ မိသားစု တစ်စုလုံးပေ့ါဗျာ၊ သူက စခန်းက လူတွေကို တော်တော် ဒုက္ခပေးတယ်"

"တကယ်လို့ သူ ပြန်လာဦးမယ် ဆိုရင်တော့ ရိုက်မိချင် ရိုက်မိမှာ၊ ကျွန်မ တာဝန်မခံနိုင်ဘူး၊ ကျွန်မ သမီးကို နောက်ထပ် သောက ရောက်အောင် လုပ်ရင်တော့ ခံနိုင်မယ် မထင်ဘူး"

"ဒါကို စိတ်မပူပါနဲ့ မစ္စက်ဂျုတ်" ဟု မန်နေဂျာက ပြောသည်။ "သူ့အကျင့်က လူသစ်တွေ ရောက်လာရင် ဒီလိုပဲ ဆီးလုပ်တတ်တယ်၊ မခံမှန်း သိရင် မလာတော့ဘူး၊ သူ့စိတ်က ခင်ဗျားကို ဒုစရိုက်သမား တစ်ယောက်လို မြင်နေတာကိုးဗျ"

"ဟုတ်တယ်လေ၊ ကျွန်မဟာ ဒုစရိုက်သမား တစ်ယောက်ပဲ" ဟု အမေက ပြန်ပြောသည်။

"ဒါပေ့ါဗျာ၊ လူတိုင်းဟာ ဒုစရိုက်သမားချည်းပဲပေ့ါ၊ ဒါပေမဲ့ သူ ဆိုလိုလိုက်တဲ့ ဒုစရိုက်သမားမျိုးတော့ မဟုတ်ကြပါဘူး၊ သူက သိပ်မာတာ မဟုတ်ဘူး မစ္စက်ဂျုတ်ရဲ့"

အမေက မန်နေဂျာအား ကျေးဇူးတင်သော မျက်နှာထားဖြင့် ကြည့်နေသည်။ ထို့နောက် တဲထဲသို့ လှမ်းအော်ပြောသည်။ "နင် ကြားရဲ့ မဟုတ်လား ရိုစာဟန်၊ မိန်းမကြီးက သိပ်မမာဘူးတဲ့၊ သူ ရူးနေတာ" သို့သော်လည်း ရိုစာဟန်က

ခေါင်းထောင်၍ပင် ကြည့်ဖော်မရ။ အမေက မန်နေဂျာဘက် လှည့်၍ ပြောသည်။ "သူ ဒီကို နောက်ထပ်လာရင်တော့ ကျွန်မကိုယ် ကျွန်မ တာဝန် မယူရဲတော့ဘူး၊ သူ့ကို ရိုက်မိမှာ"

မန်နေဂျာက မဲ့ပြုံး ပြုံးလိုက်သည်။ "ခင်ဗျားရဲ့ စိတ်ထဲမှာ ဘယ်လို ခံစားနေရတယ် ဆိုတာ ကျွန်တော် သိပါတယ်" ဟု ဆိုသည်။ "ဒါပေမဲ့ ထိန်းပါ၊ သူ့ကို ရိုက်ဖို့ ပုတ်ဖို့ မကြိုးစားပါနဲ့၊ ကျွန်တော် ပြောချင်တာက ဒါပါပဲ" သူသည် မစွက်ဆန်ဒရီအား သယ်သွားသည့် တဲဘက်သို့ ခပ်ဖြည်းဖြည်း လျှောက်သွားလေသည်။

အမေသည် တဲထဲသို့ ပြန်ဝင်ပြီး ရိုစာဟန် ဘေး၌ ထိုင်သည်။ "ဒီမှာ ကြည့်စမ်း" ဟု ပြောသည်။ ရိုစာဟန်ကတော့ မလှုပ်။

အမေက သူ့သမီး မျက်နှာပေါ်၌ အုပ်ထားသည့် စောင်ကို ဆွဲခွာသည်။ "ဟို မိန်းမကြီးက ရူးနေတာတဲ့" ဟု ပြောသည်။ "သူ ပြောတာတွေဟာ တစ်ခုမှ မမှန်ဘူး"

ရိုစာဟန်က ကြောက်ရွံ့စိတ်ဖြင့် တိုးတိုး ပြန်ပြောသည်။ "မီးလောင်တိုက် သွင်းခံရမယ် ဆိုတဲ့ စကားကြားတော့ သမီးတစ်ကိုယ်လုံး ပူလောင်လာသလို ခံစားရတယ်"

"အဲဒါ အလကား စကား၊ မမှန်ဘူး" ဟု အမေက ပြောသည်။

"သမီး သိပ်မောတယ်" ဟု ရိုစာဟန်က တိုးတိုးကလေး ပြန်ပြောသည်။ "စောစောက ဖြစ်တာတွေကို ကြည့်ပြီး သမီး မောလာတယ်၊ သမီး သိပ် အိပ်ချင်တာပဲ၊ အိပ်ချင်တယ် အမေရယ်"

"ကဲ အိပ်ချင်ရင်လည်း အိပ်၊ တို့ အခု ရောက်လာတဲ့ နေရာဟာ ဘယ်လောက် ကောင်းသလဲ၊ သိပ်ကိုကောင်းတာ၊ ညည်းအိပ်ချင်ရင် အိပ်နိုင်တာပဲ"

"ဒါပေမဲ့ ဟို.. ဟို မိန်းမကြီး ပြန်ရောက်လာချင် လာမှာ"

"မလာတော့ပါဘူးဟယ်" ဟု အမေက ဆိုသည်။ "ငါ အပြင်က ထိုင်စောင့်နေမယ်၊ သူ့ကို အလာမခံဘူး၊ ကဲ စိတ်ချလက်ချ အိပ်၊ ညည်းက နို့စို့ကလေး ပြုစုရေးဌာနမှာ အလုပ် ဝင်လုပ်ရဦးမှာ"

အမေက ထိုင်နေရာမှ အားယူ၍ ထကာ အပြင်သို့ ပြန်ထွက်လာသည်။ တဲပေါက်ဝရှိ သေတ္တာ တစ်လုံးပေါ်၌ ထိုင်၍ ဒူးနှစ်လုံးပေါ် တံတောင်နှစ်ဖက်တင်ပြီး မေးထောက်ထိုင်ကာ ငေးမိငေးရာ ငေးလျက် ရှိသည်။ အမေ့ မျက်စိများသည် စခန်းအတွင်းမှ လှုပ်ရှားမှုများကို မြင်နေရ၏။ ကလေးများ၏ ငိုသံ၊ အော်သံ၊ ဟစ်သံများကို ကြားနေရ၏။ ပြီးတော့ သံပြားတစ်ချပ်ကို တူနှင့် ထုနေသည့် အသံများ။ သို့သော်လည်း အမေ့မျက်လုံးများသည် သူ့ရှေ့တည့်တည့်၌သာ ငေးလျက် ရှိလေသည်။

အပြင်မှ ပြန်ရောက်လာသော အဖေဂျုတ်သည် ငြိမ်ငြိမ်ဆိတ်ဆိတ် ထိုင်နေသည့် အမေနှင့် ဆုံမိသည်။ သူသည် အမေ့ရှေ့ မြေကြီးပေါ်၌ ဆောင့်ကြောင့် ထိုင်ချလိုက်သည်။ အမေက သူ့ခေါင်းကို အသာအယာလှည့်၍ အဖေဂျုတ်အား ငုံ့ကြည့်သည်။ "အလုပ်ရခဲ့လား" ဟု မေးသည်။

"မရခဲ့ဘူး" အဖေဂျုတ်၏ မျက်နှာသည် ရှက်စိတ်ဖြင့် မလုံမလဲ ဖြစ်လျက် ရှိသည်။ "ငါတို့လည်း ရှာတာပဲ"

"အယ်လ်နှင့် ဂျွန်ရော ဘယ်မှာလဲ၊ ထရပ်ကားရော ဘယ်မှာ ထားခဲ့လဲ"

"အယ်လ်က ကားပြင်နေတယ်၊ ပစ္စည်းငှားပြီး လုပ်ရမှာ၊ ဟိုလူက ပြောတယ်၊ ဟိုမှာပဲ ပြင်မှ ဖြစ်မယ်တဲ့"

အမေက ဝမ်းနည်းပက်လက် ပြောသည်။ "ဒီနေရာလေးက နေရာကောင်းလေးပဲ၊ ဒီမှာသာ နေရရင်တော့ ကျွန်မတို့ စိတ်ချမ်းသာလိမ့်မယ် ထင်တယ်"

"အင်း၊ တကယ်လို့ ငါတို့အားလုံး အလုပ်ရကြမယ် ဆိုရင်ပေါ့လေ"

အမေ စိတ်ထိခိုက်နေသည်။ အဖေဂျုတ်က ရိပ်မိသည်။ အမေ့မျက်နှာကို ဂရုတစိုက် အကဲခတ်နေသည်။ "ဘာများ မျက်ရည်ကျစရာ ရှိနေလို့လဲ၊ နေရာကောင်း ရောက်နေရက်နဲ့ ဘာကြောင့် မျက်ရည်ထွက်ချင်နေရတာတုံး"

အမေက အဖေဂျုတ်၏ မျက်နှာကို စိုက်ကြည့်သည်။ ထို့နောက် သူ့မျက်လုံးများကို အသာအယာ မှိတ်ထားလိုက်သည်။ "ရယ်စရာတော့ အကောင်းသား၊ တစ်ချိန်လုံး

ကျွန်မတို့ မိသားစုဟာ ကားတစ်စီးနဲ့ လမ်းပေါ်လျှောက်သွားနေရတာ၊ အဲဒီအချိန်တုန်း ကတော့လည်း ဘာဆိုဘာမှ မတွေးမိခဲ့ဘူး၊ အခု ဒီရောက်လာတော့ စခန်းထဲက လူတွေက သဘောကောင်းကြတယ်၊ သဘောကောင်းတာမှ သိပ်ကို ကောင်းတာ၊ ဒီလို သဘောကောင်းတဲ့ လူတွေနဲ့ ဆုံမိတော့ ကျွန်မ ပထမဆုံး ဘာကို စဉ်းစားမိတယ် ထင်သလဲဟင်၊ ကျွန်မအနေနဲ့ ဝမ်းနည်းစရာတွေကိုချည်း ပြန်ပြီး တွေးမိတယ်”

“ဟို ညတစ်ညကလေ၊ အဘိုးဂျုတ် ဆုံးတဲ့ ညပေါ့၊ အဘိုးဂျုတ်ကို မြေကြီးထဲ မြှုပ်ခဲ့ကြရတယ် မဟုတ်လား၊ ပြီးတော့ ထရပ်ကားကြီးနဲ့ သွားနေလိုက်ရတာ နားရတယ်လို့ကို မရှိဘူး၊ တဝုန်းဝုန်း တပြုန်းပြုန်းနဲ့ ဆောင့်လိုက်တဲ့ကား၊ ပူလိုက်တဲ့ နေ၊ ဒါပေမဲ့ ကျွန်မ စိတ်ထဲမှာ ဆိုးရွားတယ်လို့ နည်းနည်းကလေးမှ မတွေးမိခဲ့ဘူး၊ ဒါပေမဲ့ အခု ဒီရောက်လာလို့ စိတ်အေး နားအေး နေရတော့မယ် ဆိုတာလည်း သိရော ဟိုတုန်းက ကြုံခဲ့ရတာတွေဟာ အလွန် ဆိုးရွားပါကလားလို့ တွေးမိလာတယ်၊ အားလုံးဟာ အဆိုးရွားဆုံး ဒုက္ခဆင်းရဲတွေ ဖြစ်နေတယ်၊ အဘွားဂျုတ်ရဲ့ အဖြစ်နဲ့ နိုအာ ထွက်သွားတဲ့ အဖြစ်တွေဟာ ဘယ်လောက် ဆိုးသလဲ၊ အဘွားဂျုတ်ဆိုရင် ကလေးကချေ တစ်ယောက်လို သေရတယ်၊ သင်္ဂြိုဟ်တာတောင် ကလေးကချေ တစ်ယောက်လို သင်္ဂြိုဟ်ခဲ့ရတာ၊ ဘယ်လောက်များ ရင်နာဖို့ ကောင်းသလဲ၊ နိုအာဆိုရင် မြစ်ဘေးအတိုင်း လျှောက်သွား နေမှာ၊ ဘယ်ကို သွားရမယ် ဆိုတာလည်း သူသိတာ မဟုတ်ဘူး၊ ခြေဦးတည့်ရာ ထွက်သွားတဲ့ သဘောပဲ၊ ရှင်တို့ ကျွန်မတို့ အနေနဲ့ နိုအာ သေမလား ရှင်မလား ဆိုတာတောင်မှ မသိနိုင်တော့တဲ့ အဖြစ်၊ အခုလည်း မသိဘူး၊ နောက်လည်း ဘယ်တော့မှ သိနိုင်မှာ မဟုတ်တော့ဘူး။

“ပြီးတော့ ကွန်နီ၊ သူကလည်း တမှောင့်ပဲ၊ ဘာမပြော ညာမပြော ထွက်သွားပြန်တယ်၊ လမ်းပေါ်မှာ တလည်လည် သွားနေရတုန်းကတော့ ကျွန်မ ဦးနှောက်ထဲမှာ ဒီအဖြစ်တွေကို နေရာပေးစရာ မရှိခဲ့ဘူး၊ အခုကျတော့ အားလုံး ကျွန်မ ခေါင်းထဲမှာ စုပြုံပြီး ဝင်လာကြတယ်၊ အမှန်က အခုလို နေရာ ကောင်းကောင်း ရောက်လာရင် ကျွန်မ ဝမ်းသာသင့်တယ်၊ စိတ်ချမ်းသာသင့်တယ်”

အဖေဂျုတ်သည် စကား တတွတ်တွတ် ပြောနေသော အမေ့ပါးစပ်ကို ငေးကြည့်နေသည်။ အမေ့ မျက်လုံးများကတော့ မိုတ်လျက်။ “ကျွန်မလေ တောင်စဉ် တောင်တန်းကြီးတွေကိုလည်း အခုထိ မှတ်မိနေသေးတယ်၊ နိုအာ ထွက်သွားတဲ့ မြစ်ရဲ့

နံဘေးက တောင်တန်းကြီးတွေဟာ မျက်စိထဲက မထွက်ဘူး၊ အဘိုးဂျူတ် ခေါင်းချသွားတဲ့ မြေကြီးပေါ်က ဂျုံရိုးပြတ်တွေကိုလည်း ပြန်မြင်နေတုန်းပဲ၊ ပြီးတော့ ဟို ကျွန်မတို့ အိမ်မှာ နေကြတုန်းက စဉ့်တီတုံးပေါ်က ကြက်တောင်ပံတွေ ကပ်နေတာ ကြက်သွေးတွေ ရဲနေတာ၊ အိုး အားလုံးပါပဲလေ"

အဖေဂျူတ်က ကြားဖြတ်ပြောသည်။ "ကနေ့ ငါ ရေဝမ်းဘဲတွေ မြင်ခဲ့တယ်ကွ သိလား၊ တောင်ဘက်စူးစူးကို ပျံသွားကြတယ်၊ အမြင့်ကြီးပဲဟေ့၊ ဒီကောင်တွေ ရေထဲမှာသာဆိုရင် ပွက်လောရိုက်နေမှာပဲ၊ ဝင်းထရံ သံဆူးကြိုးတွေပေါ်မှာ နားနေတဲ့ မြေလူးငှက်တွေကိုလည်း မြင်ခဲ့ရသေးတယ်၊ ပြီးတော့ ချိုးတွေကွာ ဝင်းထရံတွေပေါ်မှာ နားနေလိုက်ကြတာ" အမေ့ မျက်လုံးများသည် မှိတ်ထားရာမှ ပြန်ပွင့်လာပြီး အဖေဂျူတ်အား ကြည့်နေသည်။ "လေပွေတစ်ခုကိုလည်း ငါ မြင်ခဲ့ရသေးတယ်၊ လယ်ကွက်ထဲမှာ လူတစ်ယောက် ချာလပတ် လှည့်ပြေးနေတဲ့ အတိုင်းပဲ၊ ရေဝမ်းဘဲအုပ်က လေပွေ ရှိရာကို စိုက်ဆင်းလာကြသေးတယ်၊ ပြီးတော့မှ တောင်ဘက်ကို ဦးတည်ပြီး ပျံသွားကြတာကွ"

အမေက ပြုံးသည် "မှတ်မိသေးလား" ဟု ရေရွတ်သည်။ "ကျွန်မတို့ အိမ်မှာ နေတုန်းက အမြဲတမ်းလိုလို ပြောပြောနေကြတဲ့ စကားတွေလေ၊ ရေဝမ်းဘဲတွေ အုပ်လိုက် သင်းလိုက် ပျံလာပြီ ဆိုရင် ဟာ ဒီနှစ်တော့ ဆောင်း စောစော ဝင်လိမ့်မယ်လို့ ပြောကြတယ် မဟုတ်လား၊ ဆောင်းရာသီကတော့ သူ့အချိန်ကျရင် ဝင်လာတာပဲပေါ့၊ ဒါပေမဲ့ ကျွန်မတို့က အမြဲ ပြောလေ့ရှိတယ်လေ၊ ဒီနှစ် ဆောင်း စောစော ဝင်တယ်လို့၊ ကျွန်မတို့ ဘာကြောင့် အဲဒီ စကားတွေ ပြောမိတာလဲ၊ ဘာအဓိပ္ပာယ်လဲ၊ ကျွန်မဖြင့် နားမလည်ဘူး"

"သံဆူးကြိုးပေါ်မှာလည်း မြေလူးငှက်တွေ နားနေတာ မြင်ခဲ့ရတယ်" ဟု အဖေဂျူတ်က စပြန်သည်။ "နားနေကြတာများ တစ်ကောင်နဲ့တစ်ကောင် ကပ်လို့၊ ချိုးတွေကျတော့လည်း အဲသလိုပဲ၊ ငြိမ်နေတာပဲ၊ နှစ်ကောင်စီ တွဲတွဲပြီး နားနေကြတာ၊ လေပွေကျတော့လည်း သိပ်မကြီးဘူး၊ လူတစ်ကိုယ်စာလောက်ပဲ ရှိမယ်"

"အိမ်အကြောင်းကို ကျွန်မ မတွေးချင်တော့ပါဘူးလေ" ဟု အမေက ညည်းညည်းညူညူ ပြောသည်။ "ကျွန်မတို့ ဘဝမှာ ကိုယ်ပိုင်အိမ် ဆိုတာ မရှိတော့ပါဘူး၊

ကျွန်မ အိမ်ကို သတိမရချင်တော့ဘူး၊ ဖြစ်နိုင်ရင် လုံးဝ မေ့ထားချင်တယ်၊ ပြီးတော့ နိအာကိုလည်း မေ့လိုက်ချင်တယ် ”

“သူ လုပ်တာ မှားတယ်ကွာ၊ ငါ ပြောချင်တာက ဒီလိုပါ၊ အိုကွာ ဒါဟာလည်း ငါ့အပြစ်ပါပဲ”

“ဒီအပြောမျိုး မပြောပါနဲ့လို့ ကျွန်မ ရှင့်ကို ပြောပြီးသား မဟုတ်လား”

“ဒါပေမဲ့ကွာ၊ ငါ စောစောကတည်းက သိသင့်တယ် ”

“ကဲ တော်ပါတော့ ” ဟု အမေက ဟန့်သည်။ “နိအာဟာ အင်မတန် ဆန်းတဲ့ကောင်၊ အခုလောက်ဆို မြစ်ကမ်းပါးမှာ နေရထိုင်ရတာ အဆင်ပြေချင်လည်း ပြေမှာပါ၊ သူ့အဖို့ ဟန်ကျချင် ကျနေမှာ၊ ကျွန်မတို့က ပူနေတော့ကော ဘာတတ်နိုင်မှာလဲ၊ ဒီနေရာက သိပ်ကောင်းတဲ့ နေရာလေး၊ ရှင်လည်း မကြာခင် အလုပ်ရချင် ရလာမှာပေါ့ ”

အဖေဂျုတ်က ကောင်းကင်ဆီသို့ လက်ညှိုး ထိုးပြသည်။ “ကြည့်စမ်း၊ ဟိုမှာ ရေဝမ်းဘဲတွေ နည်းနည်းနောနောအုပ် မဟုတ်ဘူး၊ အားပါး များလိုက်တဲ့ ကောင်တွေ၊ အမေကြီးရေ ဒီနှစ်လည်း ဆောင်း စောစောစီး ဝင်လိမ့်မဗျ”

အမေက လှိုက်လှိုက်လှဲလှဲ ရယ်သည်။ “အဲ လာပြန်ပြီ ဒီစကား၊ တကယ်တော့ ရှင်လည်း တိတိကျကျ သိတာ မဟုတ်ဘဲနဲ့”

“ဟော ဝွန်တောင် ရောက်လာပြီ ” ဟု အဖေဂျုတ်က ရေရွတ်သည်။ “ဟေ့ လာ၊ ဒီမှာ ထိုင်လှည့် ”

ဦးလေးဝွန် သူတို့ထံ ရောက်လာသည်။ အမေ့ ရှေ့မှာပင် လာ၍ ထိုင်သည်။ “ငါတို့မှာ ပြေးစရာ မြေလည်း မရှိတော့ဘူး” ဟု ပြောသည်။ “ဒီအနားတင်ပဲ လှည့်ပတ်ပြေးနေရတဲ့ ဘဝ ရောက်နေပြီ၊ အယ်လ်က မင့်ကို မှာလိုက်တယ်၊ လာခဲ့ပါဦးတဲ့၊ သူ တာယာတစ်လုံး ထပ်ဝယ်ရမယ်တဲ့၊ တာယာက ပါးပါးကလေး တစ်ထပ်ပဲ ကျန်တော့တယ်တဲ့၊ သုံးလို့ မရတော့ဘူးတဲ့ ”

အဖေဂျုတ်က ထရပ်သည်။ "ဈေးပေါပေါနဲ့တော့ ရကောင်းပါရဲ့၊ တို့လက်ထဲမှာ ငွေလည်း သိပ်မကျန်တော့ဘူး၊ အခု အယ်လ် ဘယ်မှာလဲ"

"ဟိုဘက်နားမှာ၊ ဒီက သွားရင် လမ်းဖြတ်တစ်ခု တွေ့လိမ့်မယ်၊ အဲဒီကျရင် ညာဘက်ချိုးလိုက်၊ အသစ်မဝယ်ရင်တော့ တာယာ အထဲက ကွဲထွက်သွားလိမ့်မယ် ပြောတာပဲ" အဖေဂျုတ်သည် သူတို့အပါးမှ ထွက်သွားသည်။ သူ့မျက်လုံးများသည် ကောင်းကင်မှ ရေဘဲဝမ်းအုပ်ဆီသို့ တမော့မော့ ကြည့်လျက် ရှိလေသည်။

ဦးလေးဂျွန်သည် မြေပေါ်မှ ကျောက်ခဲတစ်လုံး ကောက်ယူကာ ပြန်၍ ပစ်ချလိုက်သည်။ ပြီးတော့ ပြန်၍ ကောက်ယူလိုက်သည်။ သူသည် ကျောက်ခဲကို ကောက်လိုက် ပြန်ချလိုက်။ သူ့မျက်လုံးများသည် အမေ့ကို မကြည့်။ "အလုပ်ကလည်း မရှိပါဘူးဟာ" ဟု ပြောသည်။

"ရှင်တို့ အနံ့ လျှောက်မရှာဘူးလား"

"အနံ့တော့ မရောက်ဘူး၊ သူတို့က ဆိုင်းဘုတ်တွေရေးပြီး ထောင်ထားတယ်လေဟာ"

"အင်း၊ တွမ်တစ်ယောက်ကတော့ အလုပ်ရမယ် ထင်တာပဲ၊ အခုထက်ထိတော့ ပြန်ရောက် မလာသေးဘူး"

ဦးလေးဂျွန်က ထင်မြင်ချက်ပေးသည်။ "သူလည်း ဝေးရာကို လစ်တာ ဖြစ်မယ်၊ ကွန်နီတို့ နိုအာတို့ လုပ်သလိုလေ"

အမေက ဖျတ်ခနဲ မော့ကြည့်သည်။ သူ့မျက်လုံးမှ ဒေါသ အခိုးအငွေ့များသည် တဖြည်းဖြည်းနှင့် ပြန်ပြယ်သွားသည်။ "တွမ်ဟာ အလုပ်မရဘဲ မနေဘူး၊ ရမှာ သေချာတယ်၊ ညနေကျရင် ပြန်ရောက်လာမှာပဲ၊ စိတ်ချ" အမေက သူ့စကား သူ သဘောကျကာ ပြုံးသည်။ အလွန်ပီတိ ဖြစ်နေသော အပြုံး။ "တွမ်ဟာ အင်မတန်တော်တဲ့ ကလေးတစ်ယောက်ပါ၊ သူဟာ လူကောင်းလေး တစ်ယောက်ပဲ၊ စိတ်ချရပါတယ်"

မော်တော်ကားများနှင့် ထရပ်ကားများသည် စခန်းအတွင်းသို့ အလျို အလျို ဝင်လာနေကြသည်။ ယောကျ်ားများသည် အစုလိုက် အပြုံလိုက် ရေချိုးခန်းများ ရှိရာ

အဆောက်အအုံဘက်သို့ သွားလျက် ရှိကြ၏။ တစ်ယောက်စီ၏ လက်ထဲတွင် အင်္ကျီတစ်ထည်စီ ပါလာကြလေသည်။

အမေ့တွင် သတိပြန်ဝင်လာသည်။ "ဂျွန် ရှင် အဖေဂျူတ် နောက်ကို လိုက်သွား စတိုးဆိုင်ကို ဝင်ပြီး ပဲနဲ့သကြား ဝယ်ခဲ့ဖို့ပြော၊ ပြီးတော့ အသားခြောက် နည်းနည်းနဲ့ မုန်လာဥ နည်းနည်းလည်း ဝယ်ခဲ့ပါလို့၊ ကနေ့ညတော့ ဖွယ်ဖွယ်ရာရာနဲ့ ကောင်းကောင်းလေး စားချင်တယ်၊ ဘာပဲဖြစ်ဖြစ် ကနေ့ညတော့ ကျွန်မတို့ ကောင်းကောင်းလေး တစ်ခွက် စားကြမယ်"

* * *

## အခန်း (၂၃)

တစ်နေရာမှ တစ်နေရာသို့ ရွှေ့ပြောင်းသွားလာ နေထိုင်လျက် ရှိကြကုန်သော လူများသည် အလုပ်အကိုင် ရရှိရေးနှင့် မိမိတို့ဘဝ တည်တံ့ခိုင်မြဲရေးအတွက် ခက်ခဲပင်ပန်းစွာ ရုန်းကန် လှုပ်ရှားရင်းဖြင့်ပင် သာယာမှုကို ရှာဖွေကြ၏။ သာယာမှုကို ကုတ်ကုတ်ကတ်ကတ်ဖြင့်ပင် ဖော်ထုတ် ရယူကြ၏။ ကိုယ့်နည်း ကိုယ့်ဟန်ဖြင့် မိမိတို့ဘာသာ မိမိတို့ ဖန်တီး ထုတ်လုပ်ကြ၏။ သူတို့သည် ပျော်ရွှင်မှုကို ငတ်မွတ် နေကြသူများ ဖြစ်သည့်အားလျော်စွာ ပျော်ရွှင်မှုကို အမြဲတစေ တောင့်တလျက် ရှိကြ၏။ တစ်ခါတစ်ရံတွင် ပျော်ရွှင်မှုသည် အချင်းချင်း အာလာပ သလ္လာပ ပြောကြ ဆိုကြသည့် စကားဝိုင်းထဲတွင် ကိန်းအောင်းနေသည်။ တစ်ဦးနှင့်တစ်ဦး ပြောင်ရင်း နောက်ရင်း ကျီစယ်ရင်း အဖျင်းအပြက်ပြောရင်းနှင့်ပင် သူတို့၏ ကျနေသော ဘဝကို ပြန်လည် မြှင့်တင်ကြသည်။ သူတို့၏ စကားဝိုင်းသည် လမ်းမကြီး ဘေးတစ်လျှောက်ရှိ စခန်းများအတွင်း၌သော်လည်းကောင်း၊ ချောင်းကမ်းပါး မြစ်ကမ်းများပေါ်၌ လည်းကောင်း၊ ရေသဖန်းပင်များအောက်၌သော် လည်းကောင်း ပေါ်ပေါက်လာတတ်၏။ ထိုအချိန်များတွင် စကားပြော ကောင်းသူသည် အသက်ဝင်လာသည်။ လူအများသည် အလွန် စိတ်ဝင်စားဖွယ် ကောင်းသည့် အကြောင်းအရာများကို ကြားနိုင်ရန်အတွက် အရိန်လျှော့နေပြီ ဖြစ်သော ထင်းမီးဖို ဘေး၌ စုဝိုင်း၍ ထိုင်ကြသည်။ ဇာတ်လမ်းများ၊ ပုံပြင်များ ပြောပြနေသည့်အခါ စိတ်ဝင်တစား နားထောင်ကြသည်။ သူတို့၏ စိတ်ပါလက်ပါ နားထောင်မှုသည် ပြောပြနေသမျှသော ဇာတ်လမ်းများ ပုံပြင်များကို တိုး၍ ခမ်းနား ကြီးကျယ်လာစေသည်။

အဲဒီတုန်းက ငါက ဂျာရိုနီးမိုး ရက်အင်ဒီယန်း လူရိုင်းတွေကို တိုက်ဖို့ အင်အားဖြည့်ထားတဲ့ တပ်သားတစ်ယောက်ကွ သိလား။

လူအများကတော့ နားစွင့်လျက် ရှိကြ၏။ သူတို့၏ မျက်လုံးများသည် အရှိန်သေစပြနေပြီဖြစ်သော မီးရောင်အောက်တွင် တဖျပ်ဖျပ် တောက်လျက် ရှိကြလေသည်။

ဒီ ရက်အင်ဒီယန်း ကောင်တွေဟာ သိပ်ကို ပါးနပ်တဲ့ ကောင်တွေကွ။ သွားပုံလာပုံ လှုပ်ရှားပုံတွေက တကယ့် မြွေတွေအတိုင်းပဲ။ သူတို့အသံကို မကြားစေချင်ရင် မကြားအောင် ငြိမ်နေလို့ ရတယ်။ ဘယ်လောက် ပါးတယ်ဆိုတာ ငါ ပြောပြမယ်။

သစ်ရွက်ခြောက်တွေ ပေါ်မှာတောင် ခြေသံမကြားအောင် နင်းသွားနိုင်တယ်။ မင်းတို့ အသံမထွက်အောင် သွားကြည့်စမ်း၊ ရမလား။

လူအများသည် စိတ်ဝင်စားစွာဖြင့် နားစိုက်လျက် ရှိကြသည်။ သူတို့ ခြေဖဝါးများအောက်မှ တချိုးချိုး တချွတ်ချွတ် မြည်နေတတ်သော သစ်ရွက်ခြောက်များ အသံကို ပြန်၍ ကြားယောင်နေကြလေသည်။

နောက်တော့ ရာသီဥတု ပြောင်းလာတယ်။ တိမ်တွေဟာ အပေါ်ကို မြင့်တက်လာတယ်။ အချိန်ကောင်း မဟုတ်တော့ဘူး။ စစ်တိုက်နေတဲ့ အချိန်အခါမှာ တရားသဖြင့် လုပ်တယ်။ မျှမျှတတနဲ့ မှန်မှန်ကန်ကန် လုပ်တယ်ဆိုတာများ မင်းတို့ ငါတို့ ကြားဖူးကြသလား။ စစ်တပ်ကို လုပ်ပိုင်ခွင့် ဆယ်ခုသာ ပေးလိုက်။ အားလုံးကို ဖောက်ထိုးမိုးမျှော် ဖြစ်သွားအောင် လုပ်မှာပဲ။ သတ္တိကောင်းတဲ့ လူတစ်ရာလောက်ကို သတ်ဖို့ ဖြတ်ဖို့အတွက် တပ်ရင်းသုံးရင်းလောက်ကို သုံးချင် သုံးမယ်ကွာ။

လူအများသည် နားစိုက်ထောင်လျက် ရှိကြ၏။ စိတ်ဝင်တစား နားထောင်နေကြသဖြင့် သူတို့ မျက်နှာများသည် အေးချမ်းတည်ငြိမ်လျက် ရှိကြ၏။ ဇာတ်ကြောင်း ပြန်နေသူများကလည်း သူတို့နှုတ်မှ ပြောပြနေသည့် ဇာတ်များအပေါ်တွင် များစွာ အာရုံစူးစိုက်လျက် ရှိကြသည်။ ပြောရာ၌လည်း လေယူလေသိမ်း အတက်အကျ မှန်အောင် စည်းဝါးကျကျ ပြောသည်။ စကားကြီး စကားကျယ်များကို သုံး၍ ပြောသည်။ အဘယ့်ကြောင့် ဟူမူ ဖြစ်ပျက်ခဲ့သည့် ဇာတ်လမ်းများကိုက ကြီးကျယ် ခမ်းနားခြင်းကြောင့် ဖြစ်၏။ နားထောင်နေသူများကလည်း ဇာတ်လမ်းကို အကြောင်းပြု၍ ကြီးကျယ် ထည်ဝါလာခြင်းကြောင့် ဖြစ်လေသည်။

လူရိုင်းတစ်ယောက်ဟာ တောင်စွယ်တစ်ခုပေါ်မှာ ရပ်နေတယ်။ နေကို ကျောပေးလို့။ အကာအကွယ် မရှိတဲ့ ဟာလာဟင်းလင်းကြီးထဲမှာ ရပ်နေတယ် ဆိုတာလည်း သူ မသိဘဲ ဘယ်နေမလဲ၊ သိပ် သိတာပေါ့။ သူ့လက်တွေကို ဆန့်တန်းပြီး ရပ်နေတာ။ ရူးနေတာ ဖြစ်ချင်လည်း ဖြစ်မယ်။ ဒါတော့ ငါလည်း အတိအကျ မသိဘူး။ အဲဒီနေရာမှာ လက်နှစ်ဖက် ကောင်းကင်ကို ဆန့်တန်းပြီး ရပ်နေတာ အမှန်ပဲ။ လက်ဝါးကပ်တိုင်မှာ ကပ်ပြီး ရပ်နေတဲ့ ပုံစံမျိုးကွ သိလား။ ကိုက် လေးဆယ်လောက်ပဲ ကွာမယ်။ ဟိုလူတွေက သူတို့လက်ထဲက သေနတ်တွေကို မြှောက်လိုက်ကြတယ်။ လေက

သူတို့ လက်ချောင်းတွေကို တိုးဖေ့ တိုက်ခိုက်သွားတာတောင် သူတို့ သိလိုက်တယ်။ ဒါပေမဲ့ သူတို့ သေနတ်မောင်းခလုတ်ကို မဖြုတ်နိုင်ကြဘူး။ ဒီအတိုင်း အလျား မှောက်ပြီး ငြိမ်နေမိကြတယ်။ အဲဒီ ရပ်နေတဲ့ ရက်အင်ဒီးယန်း လူရိုင်းဟာ ပညာတစ်ခုခုများ တတ်နေသလား မသိဘူး။ တတ်ချင်လည်း တတ်မှာပေါ့လေ။ ငါတို့က သေနတ်နဲ့ မပစ်နိုင်တာတော့ သေသေချာချာ ငါသိတယ်။ မောင်းတင်ထားတဲ့ ရိုင်ဖယ် သေနတ်ကြီးတွေကို ကိုင်ပြီး ဒီအတိုင်း အလျား မှောက်လျက်ကြီးတွေ ငိုင်နေကြတာ။ သေနတ်တွေကို မြှောက်ထားတဲ့ လက်မောင်းတွေကိုတောင်မှ အောက်ပြန် မချနိုင်ဘူး။ သူ့ကိုပဲ ငေးကြည့်နေမိကြတယ်။ ခေါင်းမှာလည်း အဝတ်စ တစ်စ စည်းထားတယ်။ ငှက်တောင် တစ်ခုလည်း ထိုးထားတယ်။ တို့ ကောင်းကောင်း မြင်ရတာပေါ့ကွာ။ ကိုယ်လုံးတီးကွ။ နေကို ကျောပေးပြီး ရပ်နေတာ။ ငါတို့ လူစု ငေးပြီး ကြည့်နေမိတာ အကြာကြီးပဲ။ သူက နည်းနည်းကလေးမှ မလှုပ်ဘူးဟေ့။ အံ့ရော။ အဲဒီလို ဖြစ်နေတာကို ကြည့်ပြီး ငါတို့ဗိုလ်ကြီးက ဒေါပွတာပေါ့။ 'ပစ်ကြလကွာ၊ ဘာကြောင်နေကြတာလဲ ခွေးမသား သောက်ရူးတွေ၊ ပစ်' လို့ သူက တအား ကျိုးအော်တယ်။ ဒါပေမဲ့ ငါတို့ကလည်း မလှုပ်ဘူး။ 'ငါ တစ်ကနေ ငါးထိ ရေမယ်၊ အားလုံး ပစ်၊ မပစ်တဲ့ ကောင်ကို ငါ မှတ်ထားမယ်' လို့ ဗိုလ်ကြီးက ပြောတယ်။ မင်းတို့ စဉ်းစားကြည့်ပေါ့ကွာ။ ငါတို့အနေနဲ့ ဘာတတ်နိုင်တော့မှာလဲ။ သေနတ်တွေကို မြှောက်ပြီး လူရိုင်းကို ချိန်လိုက်တယ်။ ငါ ဒီတစ်ကြိမ်လောက် စိတ်မချမ်းမသာ ဖြစ်တာမျိုး တစ်ခါမှ မကြုံခဲ့ဖူးဘူး။ ငါကတော့ ရက်အင်ဒီးယန်းရဲ့ ဗိုက်ကိုပဲ တည့်တည့် ချိန်ထားလိုက်တယ်။ ဒီကောင်တွေက တခြားနေရာကို ပစ်လို့ အလကားပဲကွ။ တခြားနေရာ မှန်လို့ကတော့ ဘယ်တော့မှ ရပ်သွားတဲ့ ကောင်မျိုး မဟုတ်ဘူး။ အင်း အဲဒီနောက်တော့ ရက်အင်ဒီးယန်းဟာ ငှက်ပျောပင်ကို ဓားနဲ့ ပိုင်းချလိုက်သလိုပဲ။ တုံးခနဲ လဲကျပြီး လိမ့်ဆင်းသွားတာပဲ။ ငါတို့ တောင်စွန်းပေါ် တက်သွားပြီး ကြည့်ကြတယ်။ အသက် သိပ်မကြီးသေးဘူးကွ။ ငယ်ငယ်ပဲ ရှိသေးတယ်။ ဒါပေမဲ့ကွာ သိပ်ကို ကျက်သရေ ရှိတဲ့ကောင်ပဲကွ။ တစ်ကိုယ်လုံး ဆန်ကာပေါက်တွေ ဖြစ်ပြီး တစ်စစီ တစ်ပိုင်းစီ ဖြစ်နေပြီ။ သွေးတွေကလည်း ရဲလို့။ သူ့ကို အခုလို ပစ်သတ်လိုက်ရတာ ငါတို့အားလုံး စိတ်မကောင်း ဖြစ်ကြရတယ်။ မင်းထက် အဘက်ဘက်က သာနေတဲ့ အရာတစ်ခုကို ဖျက်ဆီးပစ်လိုက်မိသလို စိတ်ထဲက ခံစားနေရတယ်။ သူ့ကို သတ်လိုက်ရတဲ့အတွက် ဝမ်းမသာတဲ့အပြင် စိတ်ထဲမှာ ဖြေလို့တောင် မရဘဲ ဖြစ်နေမိကြတယ်။

နားထောင်နေသူများက ခေါင်းညိတ်ကြသည်။ တဖျပ်ဖျပ် တောက်နေသော မီးရောင်၏ ဝိုးတဝါး အလင်းရောင်ဖြင့် မီးဖိုဆီသို့ ငေးစိုက် ကြည့်နေကြသော သူတို့ မျက်လုံးများကို မြင်ကြရလေသည်။

နေကို ကျောပေး၍ လက်နှစ်ဖက်ကို ဆန့်တန်းပြီး ရပ်နေသော လူတစ်ယောက်။ ထည်ဝါ ခန့်ညားသော အသွင်အပြင်နှင့် ကောင်းကင်ဘုံမှ ဆင်းသက်လာသည့် ဘုရားသခင်၏ တမန်တော် သဖွယ်။

ထို့ပြင်လည်း လူတစ်ယောက်သည် သူ ရနေသည့် ဆင့်နှစ်ဆယ်ကို အစားအစာနှင့် သာယာမှုကြားတွင် ဟိုဘက် သည်ဘက် မျှအောင် ချိန်ဆပြီး သုံးစွဲဇကာင်း သုံးစွဲပေလိမ့်မည်။ ဤသို့ဖြင့် သူသည် မေးရီးစ်ဗီးလ် သို့မဟုတ် ဘူလဲရားသို့ ဖြစ်စေ၊ သီးရီးစ် သို့မဟုတ် မောင်းတိန်းပြူးသို့ ဖြစ်စေ သွား၍ ရုပ်ရှင်တစ်ပွဲတလေ ကြည့်သည်။ သူ နေထိုင်ရာ မြောင်းဘေး စခန်းသို့ ပြန်ရောက်လာသည့်အခါ သူ ကြည့်ခဲ့ရသော ဇာတ်လမ်း ဇာတ်ထုပ်သည် သူ့ခေါင်းထဲမှ မထွက်။ ထိုအခါ သူ မြင်ခဲ့ရသော ဇာတ်လမ်းအကြောင်းကို ပြောပြသည်။

ဇာတ်လိုက်မင်းသားက သူဌေးပဲ။ သူကလည်း သူ့ကိုယ်သူ ဆင်းရဲသားယောင် ဆောင်နေတယ်။ သူတို့နှစ်ယောက် ဟမ်ဘာဂါ အသားညှပ် ပေါင်မုန့်ဆိုင်လေး တစ်ဆိုင်မှာ ဆုံမိကြတယ်ကွာ။

ဘာကြောင့် ဆုံမိတာလဲ။

ဘာကြောင့် ဆိုတာတော့ ငါလည်း မသိဘူး။ ဇာတ်လမ်းက အဲဒီ အတိုင်းပဲ။

ဘာပြုလို့ သူတို့က ဆင်းရဲသား ယောင်ဆောင်ကြရလဲ။

ဒါကတော့ ချမ်းသာနေတာကို စိတ်ကုန်လို့ကွ။

ချီးမှပဲ။

မင်း ငါပြောတာကို နားထောင်မှာလား။ မထောင်ဘူးလား။

ထောင်မယ်ကွာ ဆက်ပြော။ ငါက နားတော့ ထောင်ချင်ပါတယ်။ ဒါပေမဲ့ကွာ တကယ်လို့ ငါသာ သူဌေးဆိုရင် ဝက်သားကြော်တွေ ဝယ်ပြီး တစ်လမ်းလုံး လျှောက်စားသွားနေမှာ။ ကဲ မင်း ဇာတ်လမ်း ဆက်ပါဦး။

ဒီလိုကွ။ သူတို့က တစ်ယောက်ကို တစ်ယောက် ဆင်းရဲတယ်လို့ ထင်နေကြတယ်။ နောက်တော့ အဖမ်းခံရပြီး ထောင်ထဲ ရောက်သွားရော။ သူတို့က ထောင်ထဲက မထွက်ဘူး။ ဘာပြုလို့လဲဆိုတော့ တစ်ယောက်ချမ်းသာတာ တစ်ယောက်က သိသွားမှာစိုးလို့။ ထောင်မှူးကလည်း သူတို့ကို ဆင်းရဲတဲ့ ကောင်တွေပဲဆိုပြီး ကောင်းကောင်း မဆက်ဆံဘူး။ သူတို့ချမ်းသာမှန်း သိသွားတဲ့အချိန်မှာ ထောင်မှူးလုပ်တဲ့ အကောင် ဖြစ်သွားပုံကို မင်း မြင်စေချင်တယ်။ တစ်ခါတည်း သတိမေ့လဲတော့မလို ဖြစ်သွားတာကွ သိလား။

သူတို့က ဘာလို့ ထောင်ထဲ ရောက်သွားကြတာလဲ။

ပြုပြင် ပြောင်းလဲရေးသမားတွေရဲ့ စည်းဝေးပွဲတစ်ခုမှာ ဖမ်းမိလို့ကွ။ အမှန်တော့ သူတို့နှစ်ယောက်က ပြုပြင် ပြောင်းလဲရေးသမားတွေ မဟုတ်ဘူး။ မတော်တဆ ရောက်သွားတာ။ ပြီးတော့ နှစ်ယောက်စလုံးက ငွေမက်လို့ လက်ထပ်တာမျိုးကို လုံးဝ မလိုလားဘူး သိလား။

ဒါဆိုရင် ခွေးမသားတွေ ဇာတ်လမ်း စကတည်းက တစ်ယောက်ကို တစ်ယောက် လိမ်လာတာပေါ့ဟ။

ရုပ်ရှင်ထဲမှာတော့ ဒီလိုပဲပေါ့။ တစ်ယောက်ပေါ် တစ်ယောက် ကောင်းနေကြတာပဲ။ အံ့မယ် သူတို့က တခြားလူတွေ အပေါ်မှာလည်း သဘောကောင်းတယ် ဆရာ သိလား။

အေး ဟုတ်တယ် ငါလည်း တစ်ခါ သွားကြည့်ဖူးတယ်။ ရုပ်ရှင်ထဲက ကောင်က ငှါ့ထက်တော့ ကောင်းတယ်။ ငှါ့ဘဝထက်လည်း သာတယ်။ အားလုံး ကောင်းနေတာပဲ။

အေးပေါ့။ ငှါ့မှာလည်း စိတ်ညစ်စရာ ဝမ်းနည်းစရာတွေက သိပ်များနေပြီ။ ဒါတွေနဲ့ ဝေးရာကို ငါထွက်ပြေးချင်နေလို့ သွားကြည့်တာ။

မုန်တာပေါ့ကွာ။ တကယ်လို့ သူတို့ ပြတာ မင်းက ယုံမယ်ဆိုရင် ပိုကောင်းတာပေါ့။ ဟုတ်ဖူးလား။

ငါ ပြောနေတာ မဆုံးသေးဘူး။ နားထောင်ဦး။ သူတို့နှစ်ယောက် လက်ထပ်ကြတယ်။ တစ်ယောက်အကြောင်း တစ်ယောက် သိသွားတယ်။ သူတို့အပေါ် ကောင်းကောင်း မဆက်ဆံတဲ့ လူတွေကလည်း နှစ်ယောက်စလုံး သူဌေးတွေမှန်း သိသွားကြတယ်။ အဲဒီအထဲမှာ ကောင်တစ်ကောင်က ဘဝင် သိပ်မြင့်တယ်။ အမှန်ကို သိသွားတဲ့ အချိန်မှာ ဒီကောင်က မေ့လဲတော့မလို ဖြစ်သွားတယ်။ ပြီးတော့ သတင်းကား တစ်ကားလည်း ပြသေးတယ်၊ ဂျာမန် စစ်သားတွေကွ။ သူတို့ ခြေထောက်ကို ဆောင့်ဆောင့်ပြီး နင်းသွားနေလိုက်ကြတာကွာ။ တကယ်ရယ်ရတယ်ဟေ့၊ သိလား။

အကယ်၍ သူ့လက်ထဲတွင် ငွေအနည်းငယ် ပုံမှန် ရှိနေပြီ ဆိုပါမူ လူတစ်ယောက်သည် အရက်မှန်မှန် မူးနိုင်၏။ အရက်မူးနေသည့် အချိန်၌ သူ့အဖို့ အခက်အခဲ ဟူသမျှ လုံးဝ ကွ ယ်ပျောက်သွားသည်။ ထိုအချိန်တွင် သူ့ဘဝသည် သာတောင့်သာယာ ရှိလာသည်။ အထီးကျန်နိုင်ခြင်း ဟူသော အရာသည် သူ့ဘဝတွင် ပျောက်သွားသည်။ သူ့ဦးနှောက်ထဲတွင် မိတ်ဆွေ သူငယ်ချင်း အပေါင်းအသင်းများဖြင့် ပြည့်လာသည်။ သူ့ဦးနှောက်သည် ရန်သူများကို ရှာဖွေ တွေ့ရှိလာသည်။ ရှာ၍ တွေ့သမျှ ရန်သူ အားလုံးကို သူ့ဦးနှောက်ထဲမှာပင် ချေမှုန်း သုတ်သင်ပစ်သည်။ လမ်းဘေး မြောင်းထဲ၌ ထိုင်နေသည့် အခိုက်မှာပင် သူ့ဖင်အောက်မှ မြေကြီးသည် ပက္ကာကမ္ဗလာ မြကျောက်ဖျာသဖွယ် နူးညံ့ပျော့ပျောင်းလာလေ၏။ ထိုအခါ သူသည် အတိတ်ကာလက ဆုံးရှုံးခဲ့သမျှ အရာအားလုံးကို မေ့သွားသည်။ အနာဂတ်သည် သူ့ကို ခြိမ်းခြောက်နေသည့် အရာ မဟုတ်တော့။ ဝတ်မွတ်ခြင်း ဟူသော အရာသည် သူ့အပါးမှ တိမ်းရှောင် ထွက်ပြေးခြင်း မပြုသေးသော်လည်း သူ့အတွက် ကြောက်စရာကောင်းသည့်အရာ မဟုတ်တော့။ သို့သော်လည်း ကမ္ဘာလောကကြီးသည် သာတောင့်သာယာ ဖြစ်လျက် ရှိ၏။ နူးညံ့သိမ်မွေ့လျက် ရှိ၏။ အဆင်ပြေလျက် ရှိ၏။ သူ သွားရန် ရည်မှန်းထားခဲ့သော နေရာကိုလည်း သူရောက်လျက် ရှိ၏။ ကောင်းကင်ထက်မှ ကြယ်များသည် သူ့ထံသို့ ပြေးဆင်းလာကြသည်။ သူ့အပါးသို့ ချဉ်းကပ်လာကြသည်။ အံ့သြဖွယ်ကောင်းလောက် အောင်ပင် သူနှင့် နီးကပ်လာသည်။ မိုးကောင်းကင်သည် ပျော့ပျောင်းလာသည်။ သေခြင်းတရားသည် မိတ်ဆွေ တစ်ဦး ဖြစ်၏။ အိပ်မောကျခြင်းသည် ထိုသေခြင်းတရားနှင့် ညီအစ်ကို တော်စပ်လျက် ရှိချေသည်။ အတိတ်ဆီက အချိန်များသည် ပြန်ရောက်

လာကြသည်။ ခြေထောက်လှလှနှင့် မိန်းကလေး တစ်ယောက်။ တစ်ချိန်သော အခါက အိမ်မှာ ကခဲ့ဖူး၏။ ပြီးတော့ မြင်းတစ်ကောင်။ အချိန်တွေတော့ ကြာညောင်းခဲ့ပြီ။ မြင်းတစ်ကောင်နှင့် မြင်းကုန်းနှီး တစ်ခု။ ဘယ်အချိန်ကပဲ့ါလိမ့်။ စကားစမြည် ပြောစရာ အဖော် မိန်းကလေး တစ်ယောက်တော့ ရှာသင့်၏။ ဒါမှ နေရထိုင်ရတာ ဖိမ်ကျမည်။ ထိုမိန်းကလေးနှင့် အတူတွဲ၍ အိပ်ချင် အိပ်နိုင်ပေလိမ့်မည်။ အခု လှဲနေရသည့် နေရာကတော့ နွေးနွေးထွေးထွေး အရှိသားပဲ။

ကြယ်များသည် နိမ့်ဆင်းလာနေကြ၏။ သူနှင့် နီး၍ နီး၍ လာသည်။ ဝမ်းနည်းခြင်းနှင့် သာယာချမ်းမြေ့ခြင်း ဟူသော အရာနှစ်ခုသည် တစ်ခုနှင့်တစ်ခု နီးကပ်လွန်းလှပါကလား။ တကယ်တော့ ထိုအရာ နှစ်ခုသည် တစ်ခုတည်းပါပဲကလား။ အချိန်ရှိသမျှ မူးနေရတာ အကောင်းဆုံးပါပဲ။ အရက်မူးတာ မကောင်းဘူးလို့ ဘယ်အကောင်က ပြောလဲ။ မကောင်းဘူးလို့ ပြောဝံ့တဲ့ကောင် ဘယ်ကောင်လဲ။ တရားဟော ဆရာတွေလား။ ဒါပေမဲ့ သူတို့ကော ဘာထူးလဲ။ သူတို့လည်း သူတို့နည်း သူတို့ဟန်နဲ့ မူးနေကြတာပါပဲ။ အင်း ကိုယ်လုံးကိုယ်ထည်က ပိန်ကပ်ကပ်၊ အသားအရေက ခြောက်တောက်တောက်။ သားသမီး မရနိုင်တဲ့ အမြုံမတွေနဲ့ဆိုတော့။ ဟာကွာ ဒီဟာမျိုးတွေနဲ့ကတော့ မနိပ်ပါဘူး။ သိပ် ယုတ်ညံ့ပါတယ်။ ဘာလဲ။ ဟိုလူတွေက ပြောတာလား။ အကျင့်စာရိတ္တ ပြုပြင်ပြောင်းလဲရေး သမားတွေလေ။ ဒါပေမဲ့ သူတို့က ဘဝ အကြောင်း ဘယ်လောက် နားလည်လို့လဲကွ။ ဘဝ ဆိုတဲ့ လောကထဲကို နက်နက်ရှိုင်းရှိုင်း ဆင်းပြီး လေ့လာဖူးတဲ့ လူတွေမှ မဟုတ်တာ။ ဒါလည်းပဲ ဟုတ်သေးပါဘူး။ ဟော တဖြည်းဖြည်းနဲ့ ကြယ်တွေ နီးလာပါပကောလား။ ကြည့်စမ်းပါဦး။ ဘယ်လောက် ချစ်စရာကောင်းသလဲ။ အင်း ငါလည်းပဲ မေတ္တာကို ရှေ့တန်းတင်တဲ့ လောကကြီးတွေနဲ့ ဆက်မိပြီ။ ဒီလိုဆိုတော့လည်း အရာရာတိုင်းဟာ မြင့်မြတ်နေတာပါပဲ ကလား။ အရာရာတိုင်းလေ။ အရာရာတိုင်းပေ့ါ။ အဲဒီ အရာရာတိုင်းထဲမှာ ငါတောင်မှ ပါနေပြီ။

ဘာဂျာ တစ်ခုကို သယ်ရ ဆောင်ရသည်မှာ လွယ်သည်။ ဘာဂျာကို ဘောင်းဘီ တင်ပါးအိတ်ကပ်ထဲမှ ထုတ်၊ ကပ်ညိနေသည့် ဖုန်များ အမှုန့်များ လွင့်စင်သွားစေရန် လက်ဖဝါးပေါ်မှာ ခေါက်၍ ခါ။ ထိုအခါတွင် မှုတ်လို့ ရပြီ။ မင်း လက်ထဲမှာ ဘာဂျာတစ်ခု ရှိနေလို့ကတော့ါ မင်း ဘာမဆို လုပ်လို့ရတယ်။ ဘယ်လို တေးသွားမျိုးကို မှုတ်မလဲ။ မှုတ်၊ ရတယ်။ ဘယ်သီချင်းကို မင်း မှုတ်မလဲ။ ကြိုက်တဲ့ သီချင်းကို မှုတ်။ ရတယ်။ သံစဉ်မှန်မှန်နဲ့ စည်းဝါးကျကျ မှုတ်လို့ရတယ်။ တိုးတိုးကလေး မှုတ်ချင်သလား။ ကျယ်ကျယ်လောင်လောင်

စူးစူးရှရှ မှတ်ချင်သလား။ မှတ်သာ မှတ်။ ဖြစ်တယ်။ သိပ် အလုပ်ဖြစ်တယ်။ မှတ်ပြီးတဲ့အခါမှာလည်း မင်း ဘောင်းဘီ အိတ်ကပ်ထဲ ပြန်ထည့်ထားလိုက်ရုံပဲ ။ ဘာပြဿနာမှ မရှိဘူး။ မင်းနဲ့ အမြဲ တွဲနေမှာပဲ။ မင်း သွားလေရာကို လိုက်နေမှာပဲ။ သူ မင်း အိတ်ကပ်ထဲကနေပြီး ဘယ်ကိုမှ ထွက်မပြေးဘူး။ မင်း အိတ်ကပ်ထဲမှာပဲ အမြဲ ရှိနေမှာ။ မင်း သူ့ကို မှတ်ရင်း မှတ်ရင်းနဲ့ မှတ်ပုံ မှတ်နည်း အသစ် အသစ်တွေ တွေ့လာလိမ့်မယ်။ မင်း လိုချင်တဲ့ အသံကို ရအောင် မင်း လက်တွေက ထိန်းတတ်လာမယ်။ ကစားတတ်လာမယ်။ မင်းရဲ့ နှုတ်ခမ်းတွေနဲ့ ကိုယ် ထွက်စေချင်တဲ့ အသံတွေ ထွက်လာအောင် ဖန်တီးတတ်လာမယ်။ မင်းကို ဘယ်သူမှ မသင်ဘဲနဲ့ တတ်လာမှာ။ မင်းစိတ်ဟာ အထီးကျန် မနိုင်တော့ဘူး။ မင်းကို လူအများက ပတ်လည် ဝန်းရံထားသလို ခံစားရလိမ့်မယ်။ တစ်ခါတစ်လေကျရင်တော့ မွန်းတည့်ချိန် အရိပ်တစ်ခုအောက်မှာ မင်းတစ်ယောက်တည်း ဖြစ်ချင်ဖြစ်မယ်။ တစ်ခါတစ်လေကျတော့လည်း ညစာစားအပြီး အမျိုးသမီးတွေက အိုးခွက် ပန်းကန်တွေကို ဆေးကြောတဲ့ အလုပ်နဲ့ အလုပ်ရှုပ်နေတုန်း မင်းတစ်ယောက်တည်း တဲထဲမှာ ထိုင်ပြီး ဘာဂျာကို မှုတ်နေမိလိမ့်မယ်။ မင်းရဲ့ ခြေထောက်တစ်ဖက်ကလည်း မြေကြီးပေါ်မှာ အသာအယာကလေး ချလိုက် မြှောက်လိုက်နဲ့ စည်းလိုက်နေလိမ့်မယ်။ မင်းရဲ့ မျက်လုံးတွေဟာလည်း တက်လိုက် ကျလိုက်နဲ့ စည်းဝါးကျကျ လှုပ်ရှားနေလိမ့်မယ်။ တကယ်လို့များ မင်းရဲ့ ဘာဂျာဟာ ကျိုးပျက်သွားမယ် ဒါမှမဟုတ် ပျောက်သွားမယ် ဆိုပါတော့။ မင်းအတွက် အကြီးအကျယ် ဆုံးရှုံးမှု မဟုတ်ပါဘူး။ ချက်ချင်း နောက်တစ်ခု ထပ်ဝယ်နိုင်တယ်။ နှစ်ဆယ့်ငါးဆင့်ပဲ ပေးရမယ်။

ဂီတာ တစ်လက်ဟာ ဘာဂျာ တစ်လက်ထက် ပိုပြီး အဖိုးတန်တယ်။ ပြီးတော့ ဟောဒီလို ဖြစ်လာတဲ့အထိ ဂီတာ အတီးသင်ရမယ်။ ခင်ဗျားရဲ့ ဘယ်ဘက်လက်က လက်ချောင်းထိပ်တွေမှာ အသားမာတွေ တက်လာတဲ့အထိ တီးရမှာ။ ညာဘက်လက်က လက်မမှာ အသားမာ တက်လာတဲ့အထိ တီးရမှာ။ ဘယ်ဘက်လက်က လက်ချောင်းတွေကိုလည်း ဖြန့်ရမယ်။ ဖြန့်အခါမှာလည်း ပင့်ကူတစ်ကောင် ခြေချောင်းတွေ ဖြန့်သလို ဖြန့်ရမှာ။

ဒီဟာ ကျုပ်အဖေရဲ့ ပစ္စည်းပေါ့။ ကျုပ်က သူ့လောက်နီးနီးလည်း တီးတတ်လာရော၊ သူက လုံးဝ မတီးတော့ဘူး။ ကျုပ် တီးနေရင် အိမ်ထဲက ထိုင်ပီး နားထောင်နေလေ့ ရှိတယ်။ သူ့ခြေတစ်ဖက်ကလည်း စည်းလိုက်နေလေ့ ရှိတယ်။

တစ်ခါတလေ ကျုပ်က ဆက်မတီးဘဲ ခဏတဖြုတ် နားနေလိုက်ရင် သူက ထဆူတော့တာပဲ။ ဂီတာကို ကောက်မကိုင်မချင်း ပူညံပူညံ လုပ်တော့တာပဲ။ ကျုပ် ဂီတာကို ကောက်ကိုင်လိုက်ပြီ ဆိုရင်တော့ အဆူရပ်သွားရော။ အဲ ချက်ချင်းပဲ ခေါင်းတစ်ချက် ညိတ်လိုက်ပြီး 'ကဲ တီးတော့' လို့ ပြောတယ်။ 'ကောင်းကောင်းလေး တီးစမ်း' တဲ့။ အဲဒါ အဖေ ပြောလေ့ရှိတဲ့ စကားပဲ။ တကယ်ကောင်းတဲ့ ဂီတာဗျ။ သေသေချာချာ ကြည့်။ ဒီဂီတာနဲ့ သီချင်းပေါင်း ထောင်ပေါင်းမက တီးခဲ့ပြီးပြီ။ ညပိုင်းများ တီးရင် သိပ်ကောင်း တာပေါ့။ ဟိုဘက်တဲထဲမှာ ဘာဂျာ မှုတ်တတ်တဲ့ကောင် ရှိတယ်။ ကျုပ် ဂီတာနဲ့သာ တွဲတီးရရင် သိပ်ကို အဆင်ပြေတာပေါ့ဗျာ။

တယောကျတော့ ရှားတယ်။ ဈေးကြီးတယ်။ သင်ရတာလည်း ခက်တယ်။

ဟု အဘိုးကြီး ထိုးနေတဲ့ တယောသံကို နားထောင်ကြည့်ပါလား။ ကျုပ်ကတော့ သေသေချာချာ နားထောင်တာ။

အသံက စူးစူးရှရှ။

ဘာဂျာသမား၊ တယောသမားနှင့် ဂီတာသမား။ ဤသုံးဦးသည် ညပိုင်းတွင် တီးကြ မှုတ်ကြသည်။ လူတွေ သူတို့အနားသို့ ရောက်လာကြသည်။ မည်သူမျှ မလာဘဲ မနေနိုင်။ တီးသံ မှုတ်သံများကို နားမထောင်ဘဲ မနေနိုင်။ သူတို့ ခြေထောက်များ စည်းမလိုက်ဘဲ မနေနိုင်။ လူငယ်တစ်ယောက်။ သူ့ခြေထောက်များသည် သွက်လက် လျင်မြန်စွာ လှုပ်ရှားလာသည်။ သူ့လက်နှစ်ဖက်သည် ဘေးတစ်ဖက် တစ်ချက်တွင် တွဲလောင်းကျလျက် ရှိသည်။ သူ့တစ်ကိုယ်လုံးသည် တေးဂီတနှင့် စည်းချက်ကျကျ လှုပ်ရှားလာသည်။ ထိုအခါ အစုန်အကသည် အစပြုလာသည်။ မြေကြီးပေါ် ခြေဆောင့်သံများ၊ လှုပ်ရှားနေသည့် လက်များ၊ မျက်နှာပေါ်သို့ ဝဲပုံကျနေသည့် ဆံပင်များ၊ အသက်ရှူသံများ။

တက္ကဆက် ပြည်နယ်က ကောင်လေးရဲ့ ခြေထောက်တွေကို ကြည့်စမ်း။ ဘယ်လောက် လှသလဲ။ ဒီလောက် အက ကောင်းတာမျိုး ဘယ်တုန်းကမှ မမြင်ခဲ့ဖူးဘူး။ ဟိုမှာ မြင်လား။ ချရော့ကီမကလေး။ သူလည်း မဆိုးဘူး။ က တတ်တယ်။ သူ မောနေပြီလို့ ထင်သလား။ မထင်နဲ့။ မမောဘူး။ တက္ကဆက်ကောင်လေးရဲ့ ဆံပင်တွေကတော့

သူ့မျက်စိထဲ ဝင်နေပြီ။ အသက်တောင် ကောင်းကောင်း မရှူနိုင်တော့ဘူး။ ပါးစပ်ကို ပြဲနေတာပဲ။ ချာရော့ကီမကလေးနဲ့ သူနဲ့ကတော့ တကယ် အတွဲညီတယ်လေ။

တယောသံနှင့် ဂီတာသံ။ ပါးစပ်သမားကတော့ တစ်မျက်နှာလုံး နီရဲလျက် ရှိသည်။ တက္ကဆတ်လူငယ်နှင့် ချာရော့ကီမကလေးတို့ကလည်း ခပ်ကြမ်းကြမ်း ခပ်ရမ်းရမ်း ကနေဆဲ။ ဘေးပတ်ပတ်လည်မှ လူအများက လက်ခုပ်တီး၍ စည်းလိုက်လျက် ရှိသည်။ ကနေသည့် စုံတွဲကတော့ လက်ချင်း ချိတ်လိုက်။ ခြေများကို ဆောင့်လိုက်။ သူတို့ မျက်နှာတွင် အပြုံးပန်း မပွင့်တစ်ပွင့်။

အားလုံး ကိုယ့်အရပ် ကိုယ့်ဒေသမှ ကိုယ့်အိမ်ကိုယ့်ယာတွင် ပြန်ရောက် နေကြသည်။ ကိုယ့်အရပ်ဒေသရှိ စာသင်ကျောင်း ခန်းမတွင်း၌ ကျင်းပနေသည့် ကပွဲ။ လမင်းသည် အနောက်ဘက်သို့ တရွေ့ရွေ့ ရွက်လွှင့်သွားလျက် ရှိ၏။ သူနဲ့ ငါ နှစ်ယောက်တည်း လက်တွဲ၍ လျှောက်ခဲ့ကြသည်။ တစ်ယောက်နှင့် တစ်ယောက် စကား မပြောနိုင်။ မြက်ခြောက်ပုံ တစ်ပုံ။ နှစ်ယောက်သား မြက်ခြောက်ပုံ ရှိရာသို့ သွား၍ လဲလျောင်းကြသည်။ တက္ကဆတ် ကောင်လေးနဲ့ ချာရော့ကီမကလေး။ သူတို့ နှစ်ယောက်။ တစ်ယောက်လက် တစ်ယောက်တွဲ၍ အမှောင်တွင်းသို့ တိုးဝင်ကြသည်။ သူတို့ကို မည်သူမျှ မမြင်ဟု အထင်ရှိကြဟန် တူ၏။ အို ဘုရားသခင်ရယ် တက္ကဆတ် ကောင်လေးနဲ့ တပည့်တော်မ တွဲသွားချင်လိုက်တာ။ သူနဲ့သာဆိုရင် ဘယ်လောက် ပျော်စရာ ကောင်းလိုက်မလဲ။ ကျွန်မ မြင်လိုက်ပါတယ်။ ကောင်မလေးအဖေက တားမလို့ လုပ်ပြီးခါမှ မတားတော့ဘူး။ သူလည်း သိမှာပဲ။ လမင်းကြီးကတော့ သာနေဦးမှာပါ။

အတီးကို ဆက်တီးကြပါ။ ရပ်မပစ်ကြပါနဲ့။ 'လာရီးဒိုးက လမ်းတွေပေါ်မှာ လျှောက်သွားနေခဲ့စဉ်က ' ဆိုတဲ့ သီချင်းကို တီးပါလား။

မီးဖိုမှ မီးများသည် သေသွားကြလေပြီ။ မီး ထပ်မွေးခဲ့ပါမူ ရှက်စရာ ဖြစ်ချေတော့မည်။ လရောင်ကတော့ ရှိနေဦးမည် ဖြစ်၏။

ရေနုတ်မြောင်း တစ်ခု၏ ဘေးတွင် တရားဟောဆရာ တစ်ဦးသည် ဗျာများလျက် ရှိ၏။ သူ့ရှေ့မှ လူများကတော့ ငိုကြွေး မြည်တမ်းလျက် ရှိကြလေသည်။ တရားဟောဆရာသည် လူများ၏ ရှေ့တွင် ကျားတစ်ကောင် လမ်းလျှောက်သည့်နှယ် ခေါက်တုံ့ခေါက်ပြန် လမ်းသလားလျက် ရှိသည်။ ပါးစပ်မှလည်း အဆက်မပြတ် မြည်တွန်

တောက်တီးလျက် ရှိ၏။ သူ၏ ကြိမ်းသံ မောင်းသံ ဆူပူသံများသည် လူများအား ကြိမ်နှင့် ရိုက်နေသကဲ့သို့ ရှိသည်။ လူများသည် တရားဟောဆရာ၏ ရှေ့မှောက်၌ ဝပ်တွားကာ ညည်းညူလျက် ရှိ၏။ တရားဟောဆရာကတော့ လူများကို ကြည့်၍ အကဲခတ်သည်။ ခန့်မှန်းသည်။ မြေကြီးပေါ်၌ လေးဖက်ထောက်နေသူများကို ငုံ့ကြည့်သည်။ ပြီးတော့ ဒေါသတကြီးနှင့် ဆွဲထူပြီး အော်ဟစ် ကြိမ်းမောင်းလေသည်။ ထို့နောက် တစ်ဦးချင်းစီကို ရေထဲသို့ တွန်းချသည်။ လူအားလုံး ရေထဲသို့ ရောက်ကုန်ကြသည်။ ရေက သူတို့ ခါးအထိ ရောက်နေသည်။ အားလုံးသည် ရေထဲ၌ မတ်တတ်ရပ်ကာ သူတို့သခင် တရားဟော ဆရာ၏ မျက်နှာကို ကြောက်လန့်တကြားဖြင့် ကြည့်နေကြသည်။

တရားဟောဆရာသည် ကမ်းနဖူးပေါ်တွင် ဒူးထောက် ထိုင်ကာ ရေထဲမှ လူများအတွက် ဘုရားသခင်အား အာရုံပြု၍ ဆုတောင်းခြင်း ပြုသည်။ ယခု ရေထဲ၌ ရောက်နေကြကုန်သော ယောကျာ်း မိန်းမ အားလုံးသည် မြေပေါ်၌ ဝပ်တွားကာ သူတို့ အပြစ်များကို ဝန်ခံပြီးကြပြီ ဖြစ်ပါ၍ သူတို့အား ခွင့်လွှတ်တော်မူပါဟု တောင်းပန်သည်။ တစ်ကိုယ်လုံး ရေများဖြင့် ရွှဲရွှဲစိုလျက် ရှိကြသော ယောကျာ်းများနှင့် မိန်းမများသည် တရားဟောဆရာ လုပ်ကိုင် ပြောဆိုနေသမျှကို မျက်တောင်ပင် မခတ်ဘဲ စောင့်ကြည့်လျက် ရှိကြ၏။ ထို့နောက် ရေဝင်လျက်ရှိသော ဖိနပ်များဆီမှ တစွိစွိ မြည်သံများနှင့်အတူ သူတို့တဲများရှိရာ စခန်းဘက်သို့ ပြန်ကြသည်။ တီးတိုးလေသံဖြင့် တစ်ယောက် တစ်ပေါက် စကားပြောကြသည်။

ငါတို့ကို ကယ်တင်လိုက်ပြီ။ ငါတို့ နင်းပွင့်နင်းခဲတွေလို ဖြူဖွေးပြီး သန့်ရှင်း စင်ကြယ်အောင် ရေနဲ့ ဆေးပေးလိုက်ပြီ။ ငါတို့ ပြုထားတဲ့ မကောင်းမှု ဒုစရိုက်က အားလုံး လွတ်မြောက်ပြီ။

ထိတ်လန့် ကြောက်ရွံ့နေကြသော ရေစိုရွှဲလျက် ရှိနေကြသော ကလေး သူငယ်များ ကလည်း သူတို့ချင်း တီးတိုးစကား ဆိုကြသည်။

ငါတို့ကို ကယ်တင်လိုက်ပြီ။ အပြစ် မဖြစ်နိုင်တော့ဘူး။

မကောင်းမှုဆိုတာ ဘယ်လိုဟာပါလိမ့်။ ငါ သိချင်လိုက်တာ။ သိသာ သိထားမယ် ဆိုရင် ငါလည်းပဲ အဲဒီ မကောင်းမှုတွေကို လုပ်နိုင်တာပေါ့။

တစ်နေရာမှ တစ်နေရာသို့ ရွှေ့ပြောင်းသွားလာ နေထိုင်လျက် ရှိကြကုန်သော လူများသည် လမ်းမကြီးပေါ်၌ သွားရင်း လာရင်း နားရင်း နေရင်းမှပင် သာယာမှုကို မရ ရသည့်နည်းဖြင့် ရှာဖွေလျက် ရှိကြလေ၏။

* * *

## အခန်း (၂၄)

စနေနေ့ နံနက်တွင် အဝတ်လျှော်သည့် နေရာများ၌ လူစည်ကားလျက်ရှိလေသည်။ မိန်းမများသည် ရှိသမျှ အဝတ်ဟောင်းများကို ယူလာပြီး စိမ်ပြေနပြေ လျှော်ကြ ဖွပ်ကြသည်။ လျှော်ပြီးသမျှ အဝတ်များကို ချက်ချင်း ညှစ်၍ နေလှန်းကြသည်။ မွန်းတည့်ချိန် ရောက်သည့်အခါ စခန်းတစ်ခုလုံး လှုပ်လှုပ်ရွရွ ဖြစ်လာသည်။ ရှိနေသမျှ လူအားလုံး စိတ်ရောကိုယ်ပါ ဂနာမငြိမ် ဖြစ်လာကြသည်။ လူကြီးများထံမှ ရောဂါသည် ကလေးများအား ကူးစက်သွားလေရာ ရှိသမျှ ကလေးသူငယ် အားလုံးသည် ခါတိုင်းထက် တိုး၍ ဆူဆူညံညံ လှုပ်လှုပ်ရွရွ ဖြစ်နေကြလေ၏။ မွန်းလွဲသည့်အခါတွင်မူ ကလေးသူငယ်များအား ရေချိုးပေးသော လုပ်ငန်း အစပြုသည်။ ရှေးဦးစွာ ကလေးတစ်ယောက်ချင်းစီ အဖမ်းခံကြရသည်။ ပြီးတော့ အတင်းအဓမ္မ ချုပ်နှောင်ပြီး ရေချိုးပေးသည်။

ဤသို့ဖြင့် ကစားကွင်းထဲမှ ကလေးသူငယ်များ၏ ဆူဆူညံညံ အသံများသည် ဖြည်းဖြည်းချင်း ချုပ်ငြိမ်းသွားသည်။ ငါးနာရီ ထိုးခါနီးသောအခါ ကလေးများအား ထပ်မံ၍ ဆေးကြော သုတ်သင်ပေးကြရပြန်၏။ ဤတစ်ကြိမ်တွင်မူ နောက်ထပ် ပေပေရေရေ ညစ်ညစ်ပတ်ပတ် ဖြစ်အောင် မကစားရဟု သတိပေးသည်။ ထို့နောက်တွင်မူ ကလေးသူငယ် များသည် ဝတ်ကောင်း စားလှများနှင့် လမ်းသလားကြသည်။ သို့သော်လည်း သူတို့ ကိုယ်ပေါ်မှ အဝတ်အစားများကို မပေအောင် သတိကြီးစွာ ထားနေရသဖြင့် စိတ်လွတ်ကိုယ်လွတ် မရှိ။

ကော်မတီဝင်များသည် လဟာပြင် ကပွဲရုံ၌ အလုပ်များလျက် ရှိကြ၏။ အခမ်းအနား ပြင်ဆင်မွမ်းမံရာ၌ အများဆုံး လိုအပ်သည့် ပစ္စည်းမှာ ဝါယာကြိုး ဖြစ်သည်။ ဝါယာကြိုး အလုံအလောက် ရရှိရေးအတွက် သူတို့သည် မြို့ထဲမှ အမှိုက်ပုံဆီသို့ အလည်အပတ် ထွက်ခဲ့ကြသည်။ အမှိုက်ပုံမှ ကောက်၍ ရလာသော ဝါယာကြိုးများကို ဆက်သည့်အခါ တိပ်လိုလာပြန်၏။ ထိုအခါ ပစ္စည်းကိရိယာ ထည့်သည့် သေတ္တာများကို မွှေရပြန်သည်။ ဤသို့ဖြင့် ဖာရာ ဆက်ရာ ဗရပွ ဖြစ်နေသော ဝါယာကြိုးများသည် ကပွဲရုံ၏ သမံတလင်း ကြမ်းပြင်ထက်ဝယ် သွယ်တန်းလျက် ရှိလေသည်။ ယနေ့ညတော့ဖြင့် ဤသမံတလင်း ကြမ်းပြင်တွင် ပထမဆုံး အကြိမ် မီးထိန်ထိန် လင်းရပေတော့မည်။

ခြောက်နာရီ ထိုးသောအခါ အလုပ်သွားသော ယောကျ်ားများနှင့် အလုပ်ရှာထွက်သော ယောကျ်ားများ ပြန်ရောက်လာကြသည်။ ထိုအခါ ရေချိုးခန်းများ၌ အသစ်တဖန် ပြန်၍ လူစည်ကားလာပြန်သည်။ ခုနစ်နာရီ ထိုးချိန်တွင် ညစာ စားပြီးကြလေပြီ။ ယောကျ်ားများသည် သူတို့တွင် ရှိသမျှ အဝတ်အစားများထဲမှ အကောင်းဆုံးဟု ဆိုနိုင်သည့် အဝတ်အစားများကို ဝတ်ဆင်ကာ ဟန်တစ်လုံး ပန်တစ်လုံး ဖြစ်နေကြလေပြီ။ မိန်းကလေးများကလည်း လှပေ့ ညွန့်ပေ့ဟု ဆိုနိုင်သည့် အဝတ်အစားများကို ဝတ်၍ ဆံပင်များကို ကျစ်ဆံမြီး ကျစ်သူ ကျစ်၍ ပိုးကြိုးဖြင့် စည်းကာ ရိုးရိုးကလေး ပြင်သူ ပြင်၍ ကျော့ကျော့မော့မော့ ဖြစ်နေကြလေပြီ။ မိန်းမကြီးများကတော့ အိုးခွက် ပန်းကန်များကို ဆေးကြောနေရာမှ သောက မကင်းသည့် စိတ်ဖြင့် လှုပ်လှုပ်ရွရွ ဖြစ်နေသော သူ့မိသားစု၏ အရိပ်အခြည်ကို ကြည့်နေကြသည်။

ကပွဲရုံ ကြမ်းပြင်ပေါ်တွင်မူ တေးဂီတ အဖွဲ့သားများသည် သီချင်း တစ်ပုဒ်၏စနစ်ပုဒ်စကို စမ်းသပ်၍ တီးနေကြလေပြီ။ သူတို့အား ဝန်းရံထားသည့် ကလေးတံတိုင်းသည် နှစ်ထပ်မျှ ရှိလေသည်။ စခန်းအတွင်းရှိ လူအားလုံးသည် ကပွဲမှ တစ်ပါး အခြား ဘာကိုမှ စိတ်ဝင်စားခြင်း မရှိ။ ကပွဲပေါ်၌သာ အာရုံစူးစိုက်လျက် ရှိ၏။ ကပွဲကြောင့်ပင် စိတ်လှုပ်ရှားလျက် ရှိကြ၏။

ဇပဟိုကော်တီ ဥက္ကဋ္ဌ အီဇရာ ဟူစတန်၏ တဲအတွင်းတွင် လူ ငါးယောက် အစည်းအဝေး လုပ်လျက် ရှိသည်။ ဟူစတန်သည် အရပ်ရှည်ရှည် ပိန်ပိန်ပါးပါး။ မျက်လုံးအကြည့်က စူးစူးရှရှ။ သူသည် ကော်မတီဝင်များနှင့် စကားပြောလျက် ရှိသည်။ သူ့ကော်မတီဝင်များမှာ စခန်းအတွင်းရှိ အဖွဲ့လေးဖွဲ့မှ ပေးထားသည့် ကိုယ်စားလှယ်လေးဦး ဖြစ်သည်။

"ကပွဲကို ဖျက်ဖို့ အားထုတ်ကြလိမ့်မယ် ဆိုတဲ့ သတင်း ကြိုပြီး ရလိုက်တာဟာ ကျုပ်တို့အတွက် ကံကောင်းတာပဲဗျ"

အဖွဲ့သုံးမှ အရပ်ပုပု ကိုယ်လုံးကိုယ်ထည် ဝဝဖိုင့်ဖိုင့် စည်ပိုင်းနှင့်တူသော ကိုယ်စားလှယ်က ပြန်ပြောသည်။ "ကျုပ်တို့ အကြောင်းပြတဲ့အနေနဲ့ ဒီကောင်တွေကို ဆီးပြီး ဆော်သင့်တယ်လို့ ကျုပ်ကတော့ ထင်တာပဲ"

"မလုပ်နဲ့" ဟု ဟူစတန်က ပြောသည်။ "အဲသလို လုပ်လိုက်ရင် သူတို့ လိုချင်တဲ့အကွက် ဝင်သွားမှာပေါ့၊ မလုပ်နဲ့ ဆရာရေ့၊ လုံးဝ မလုပ်နဲ့၊ တကယ်လို့ တစ်ယောက်နဲ့ တစ်ယောက် ဆော်ကြလို့ ရုန်းရင်းဆန်ခတ် ဖြစ်မယ်ဆိုရင် သူတို့က ပုလိပ်ဆီကို အရင်ဦးအောင် ပြေးပြီး ကျုပ်တို့ လူစုဟာ စည်းကမ်း မရှိဘူး၊ ဗရုတ် သိပ်ကျတယ်လို့ တိုင်လိမ့်မယ်၊ ဒီလိုအပေါက်မျိုး တခြား နေရာတွေမှာ လုပ်ခဲ့ပြီးပြီ" သူသည် ဆွေးရိပ် သန်းနေသော မျက်နှာထားပိုင်ရှင် အသားမည်းမည်း အဖွဲ့နှစ်မှ ကိုယ်စားလှယ် လူငယ်ဘက်သို့ လှည့်လိုက်သည်။ "စခန်းပတ်ပတ်လည်ကို ကင်းလှည့်ပြီး ခြံစည်းရိုး ဖြဲမဝင်အောင် တားရမယ့် လူတွေကော ရပြီလား"

လူငယ်က ခေါင်းညိတ်သည်။ "ရပြီ၊ ဆယ့်နှစ်ယောက်၊ တကယ်လို့ ခြံစည်းရိုး ဖြဲဝင်တာတွေ့ရင် ထိုးလား ကြိတ်လား ရိုက်လား နက်လား မလုပ်ဖို့လည်း ပြောထားပြီးရင်၊ တွေ့ရင် အဝင်တော့ မခံနဲ့၊ အသာတကြည်နဲ့ ပြန်တွန်းထုတ်ဖို့ မှာထားတယ်"

ဟူစတန်က ထပ်ပြောသည်။ "မင်း ဝီလီအီတွန်ကို သွားရှာပေးနိုင်မလား၊ သူက ကပွဲကော်မတီ ဥက္ကဋ္ဌ မဟုတ်လား"

"ဟုတ်တယ်"

"ဒီလိုဆိုရင် တို့က ခဏလောက် တွေ့ချင်တယ်လို့ ပြောချေကွာ"

လူငယ် ထွက်သွားသည်။ ချက်ချင်းလိုလိုပင် တက္ကဆတ်နယ်သား အမွေးအမှင် ခပ်ထူထူ လူတစ်ယောက်နှင့် ပြန်ရောက်လာသည်။ ဝီလီအီတွန်၏ မေးရိုးသည် ခပ်ရှည်ရှည် ဖြစ်၍ ဆံပင်မှာ ဖုန်ရောင် ထနေသည်။ ခြေတံလက်တံက ရှည်၍ မျက်လုံးများ၏ အရောင်က မွဲခြောက်ခြောက် ဖြစ်သည်။ သူသည် တဲထဲ၌ ရပ်ကာ ရယ်ကျဲကျဲလုပ်ပြီး ကြည့်နေသည်။

"ကနေ့ည အကြောင်း ကြားပြီးပြီလား" ဟု ဟူစတန်က မေးသည်။

ဝီလီက သွားများပေါ်အောင် ပြုံးသည်။ "အင်း"

"ကြိုကြိုတင်တင် လုပ်သင့်တာ လုပ်ထားသေးလား"

"အင်း"

"မင်း လုပ်ထားတာ ပြောပြပါဦး"

ဝီလီက ရှင်လန်း အားရသော မျက်နှာပေးဖြင့် ပြုံးသည်။ "ဒီလို လုပ်ထားတယ် ခင်ဗျ၊ သာမန်အားဖြင့် ကပွဲ ကော်မတီ အဖွဲ့ဝင်ဟာ ငါးဦးပဲ ရှိပါတယ်၊ အခု နောက်ထပ် လူနှစ်ဆယ် တိုးထားတယ်၊ အားလုံး ဖျတ်ဖျတ်လတ်လတ်နဲ့ အားကောင်း မောင်းသန်တွေချည်းပဲ၊ သူတို့က ကပွဲထဲမှာ ဝင်ပြီး ကရင်းနဲ့ မျက်လုံးတွေ ဖွင့်ထားမယ်၊ နားတွေ စွင့်ထားမယ်၊ တကယ်လို့ ပထမဆုံး စကားများမယ် အငြင်းအခုံ ဖြစ်မယ်ဆိုရင် ချက်ချင်း ဝိုင်းထားလိုက်မယ်၊ ဘယ်သူမှ မမြင်အောင် အသာကလေး ဆွဲထုတ်သွားမယ်၊ ကျုပ်တို့လူတွေနဲ့ ဒီအကောင် ပါသွားမယ်"

"ဆွဲထုတ်သွားမယ့် ကောင်တွေကို အနာတရ ဖြစ်အောင် မလုပ်ဖို့တော့ မှာထားမှ ဖြစ်မယ်"

ဝီလီက အသံထွက်အောင် ရယ်သည်။ "ကျုပ် မှာထားပြီးပါပြီ"

"မှာတာကို သူတို့ကကော နားလည်ကြရဲ့လား"

"သူတို့ နားလည်ပါတယ်၊ ပြီးတော့ အဝင်ဂိတ်ဝမှာ လူ ငါးယောက် ချထားမယ်၊ သူတို့က အပြင်က ဝင်လာသမျှ လူတွေကို စောင့်ကြည့်နေမယ်၊ ရန်ပွဲဖြစ်အောင် အတို့အထောင် လုပ်မယ့်ကောင်တွေကို ရှာပြီး မှတ်ထားမယ်"

ဟူစတန်က မတ်တတ်ရပ်လိုက်သည်။ သံမဏိရောင် တောက်နေသော သူ့မျက်လုံးများသည် တင်းမာလျက် ရှိလေသည်။ "ဒီမယ် ငါ ပြောတာ သေသေချာချာ နားထောင်စမ်း ဝီလီ၊ ငါတို့အနေနဲ့ ထုတ်သွားတဲ့ ကောင်တွေကို ဒဏ်ရာ အနာတရ မဖြစ်စေချင်ဘူး၊ ငါတို့ရဲ့ အဝင်ဂိတ် အပြင်ဘက်မှာ ပုလိပ်တွေ ရှိနေမှာ၊ တကယ်လို့ မင်းတို့က ဟိုကောင်တွေကို သွေးထွက်သံယို ဖြစ်သွားအောင် လုပ်လိုက်ရင် ဘာဖြစ်မလဲ၊ သိလား၊ ပုလိပ်က မင်းတို့ကို အရင်ဆုံး ဆွဲမှာ"

"ကျုပ်တို့လည်း တွေးမိပါတယ်" ဟု ဝီလီက ပြောသည်။ "သူတို့ကို ဆွဲထုတ်ရင် စခန်း နောက်ဘက်က လယ်ကွင်းတွေထဲကို ဆွဲထုတ်သွားမှာပါ၊ ကျုပ်ကောင်တွေက သူတို့ကို လမ်းပြပေးသွားမှာပါ၊ စိတ်ချပါ"

"ကြားရတာကတော့ အဆင်ပြေသလိုပဲ" ဟူစတန်က စိတ်မအေးသည့် အသံဖြင့် ရေရွတ်သည်။ "ဒါပေမဲ့ ဘာမှ မဖြစ်အောင်တော့ မင်း လုပ်ရလိမ့်မယ် ဝီလီ၊ မင်းမှာ တာဝန်ရှိတယ်၊ ထုတ်သွားတဲ့ ကောင်တွေကို ဒဏ်ရာ အနာတရ ဖြစ်အောင် လုံးဝ မလုပ်နဲ့နော်၊ ကြားလား၊ တုတ် ဓား သေနတ် မသုံးရဘူး၊ အိုကွာ လက်နက်ဆိုလို့ ဘာတစ်ခုမှ မသုံးရဘူး"

"မသုံးပါဘူးဗျာ၊ စိတ်ချပါ၊ သူတို့ကိုယ်ပေါ်မှာ ဘာအမှတ်အသားမှ မထင်စေရဘူး"

ဟူစတန် အနေဖြင့် သံသယ ဖြစ်ဆဲ။ "ငါ မင်းကို ယုံကြည် စိတ်ချရလိမ့်မယ်လို့ မျှော်လင့်ရတာပဲကွာ၊ တကယ်လို့ မင်းအနေနဲ့ မလွှဲမရှောင်သာလို့ လက်သီးနဲ့ ထိုးရမယ် ဆိုရင်လည်း သွေးမထွက်မယ့်နေရာကို ရွေးပြီး ထိုးပေါ့ကွာ"

"စိတ်ချပါ" ဟု ဝီလီက ပြောသည်။

"မင်း ရွေးထားတဲ့ လူတွေကကော စိတ်ချရပ့ါမလား"

"စိတ်ချရပါတယ်"

"ကောင်းပြီလေ၊ တကယ်လို့ မင်း မထိန်းနိုင်တော့ဘူး ဆိုရင်တော့ ငါ ကပွဲရဲ့ ညာဘက်ထောင့်မှာ ရှိမယ်၊ ငါ့ဆီသာ လာခဲ့"

ဝီလီက ပြောင်စပ်စပ် မျက်နှာပေးဖြင့် တစ်ချက် အလေးပြုလိုက်ပြီး တဲအတွင်းမှ ထွက်သွားလေသည်။

ဟူစတန်က ပြောသည်။ "ငါလည်း အတိအကျတော့ မသိဘူး၊ ဝီလီ တာဝန်ပေးထားတဲ့ ကောင်တွေအနေနဲ့ လူတော့ မသတ်တန်ရာဘူးလို့ မျှော်လင့် ရတော့မှာပဲ၊ ပုလိပ်ဆိုတဲ့ ကောင်တွေကလည်း ဘာကြောင့်များ စခန်းကို

ရန်ရှာချင်ရတာပါလိမ့်၊ ငါတို့ဘာသာ ငါတို့ အေးအေးနေတာကို ဘာကြောင့် မနာလို မရှုဆိတ် ဖြစ်နေရတာပါလိမ့် ”

အဖွဲ့နှစ်မှ လူငယ်က လှမ်းပြောသည်။ “ကျုပ် ဆန်းလင်း မြေယာနဲ့ ကျွဲ နွား မွေးမြူရေး ကုမ္ပဏီ မြေပေါ်မှာ အလုပ် လုပ်ခဲ့ဖူးတယ်၊ ဘုရားသခင်ရဲ့ ရှေ့မှာ ကျိန်စာရေသောက်ပြီး ပြောဝံ့တယ်၊ လူဆယ်ယောက်မှာ ပုလိပ်တစ်ယောက် အစောင့်ချ ထားတာ၊ လူနှစ်ရာအတွက် ရေဘုံပိုင် တစ်ခုပဲ ထားပေးတာ”

စည်ပိုင်းနှင့် တူသူက ဝင်ပြောပြန်သည်။ “ဒီမှာ ဂျာရမီ၊ ဒီအကြောင်းတွေကို မင်း ငါ့ကို ပြောပြနေဖို့ မလိုဘူး၊ ငါလည်း အဲဒီမှာ နေခဲ့ဖူးတယ်၊ အဲဒီစခန်းမှာ တဲတန်းကြီးတွေ ရှိတယ်၊ တစ်တန်း တစ်တန်းမှာ တဲအလုံးပေါင်း သုံးဆယ့်ငါးလုံး ရှိတယ်၊ တဲတန်းတွေက အားလုံး ဆယ့်ငါးတန်း၊ စခန်း တစ်ခုလုံးအတွက် အိမ်သာက ဆယ့်ငါးလုံးပဲ ရှိတယ်၊ စခန်းထဲက ဈေးနဲ့ သေးနံ့ကို စခန်းနဲ့ တစ်မိုင်ကွာလောက်ကတည်းက ရတယ်၊ အဲဒီမှာ စောင့်နေကြတဲ့ ပုလိပ်တွေထဲက တစ်ယောက်က ငါ့ကို ပြောတယ်၊ အစိုးရက ဖွင့်ထားတဲ့ ကယ်ဆယ်ရေး စခန်းတွေက အလကားဟာတွေကွ၊ ပိုက်ဆံဖြုန်းထားတဲ့ နေရာတွေ၊ သောက်သုံးကျတာ မဟုတ်ဘူးတဲ့၊ ဒီလောက် အောက်တန်းကျတဲ့ အကောင်တွေကို ရေချွေးသွားပေးရင် ရေချွေးပဲ လိုချင်နေတော့မှာပေါ့၊ ရေဆွဲအိမ်သာ ပေးထားပြန် တော့လည်း ရေဆွဲအိမ်သာပဲ သုံးချင်နေတော့မှာပေါ့တဲ့၊ ပြီးတော့ ထပ်ပြောလိုက် သေးတယ်၊ ဒီအုတ်ကီးကောင်တွေကို ဒါမျိုးတွေ သွားလုပ်ပေးလို့ ဘာများ အကျိုးထူးမှာတဲ့လဲ၊ ဒီကောင်တွေက ရလေလိုလေ အိုတစ္ဆေ ဖြစ်ပြီး ဒါမျိုးတွေပဲ လိုချင်နေတော့မှာပေါ့ကွ၊ ဒီကောင်တွေက အစိုးရ ကယ်ဆယ်ရေး စခန်းမှာ ကပ်နေပြီး အနီ အစည်းအဝေးပွဲတွေ အမြဲ လုပ်နေတာ၊ သူတို့က ထောက်ပံ့ကြေးအပေါ်မှာ ဘယ်လို မှီကပ် စားသွားရင် ကောင်းမလဲ ဆိုတာ အမြဲ နည်းလမ်းရှာနေတဲ့ ကောင်တွေတဲ့ ”

ဟူစတန်က ကြားဖြတ်၍ မေးသည်။ “အဲဒီပုလိပ်ကောင်ကို ဘယ်သူကမှ လက်သီးစာ မကျွေးဘူးလား”

“မကျွေးဘူးဗျ၊ ဒါပေမဲ့ ကျုပ်တို့ထဲမှာ အသက် ခပ်ငယ်ငယ်ကောင် တစ်ယောက် ရှိတယ်၊ သူက ငြိမ်မခံဘူး၊ ထောက်ပံ့ကြေးဆိုတာ ဘာလဲဗျလို့ ဝင်မေးတယ်၊ ထောက်ပံ့ကြေး ဆိုတာ ငါတို့ အခွန်ဝန်ထမ်းတွေက ပေးဆောင်ထားတဲ့ ငွေထဲက မင်းတို့လို

အုတ်ကီးကောင်တွေ အချောင် ဝင်အုပ်နေတဲ့ အစား အဝတ်နဲ့ ငွေ ထောက်ပံ့ကြေးတွေကို ပြောတာကွလို့ ပြန်ဖြေတယ်။

"အဲဒီတော့ ဟိုကောင်က ကျုပ်တို့လည်း ရောင်းခွန်တို့ ဓာတ်ဆီခွန်တို့ ဆေးရွက်ကြီးအခွန်တို့ ပေးနေရတာပါပဲဗျာလို့ ပြန်ပြောတယ်၊ ပြီးတော့ ထပ်ပြောတယ်၊ လယ်သမားတွေအနေနဲ့ အစိုးရဆီက ဝါဂွမ်း တစ်ပေါင်ကို လေးဆင့်နှုန်း ရတယ်၊ အဲဒါကော ထောက်ပံ့ကြေး မဟုတ်ဘူးလားတဲ့၊ ပြီးတော့ တစ်ခါ ထပ်မေးပြန်တယ်၊ မီးရထားနဲ့ သင်္ဘော ကုမ္ပဏီကြီးတွေက အကူအညီလိုလို့ ဆိုပြီး အစိုးရဆီက ငွေ အကူအညီ ယူနေကြတယ်၊ အဲဒါကော ထောက်ပံ့ကြေးငွေပဲ မဟုတ်လားတဲ့။

"အဲဒီတော့ ပုလိပ်က ပြန်ဖြေတယ်၊ ဒါတွေကတော့ သူတို့အနေနဲ့ မလုပ်ပေးရင် ဖြစ်ကို မဖြစ်နိုင်လို့ လုပ်ပေးနေတာကွတဲ့။

"ဟိုကောင်ကလည်း ပြန်ပြောတယ်၊ သိလား၊ ကျုပ်တို့အတွက် ဘာမှ လုပ်မပေးနိုင်ဘူး ဆိုရင် ခင်ဗျားတို့ရဲ့ သီးနံ့တွေကို ဘယ်လို သိမ်းကြမလဲတဲ့" စည်ပိုင်းနှင့် တူသော လူက သူ့ပတ်ဝန်းကျင်ကို ခိုးကြောင်ခိုးဝှက်ဖြင့် လှည့်ကြည့်သည်။

"ပုလိပ်က ဘာပြန်ပြောလဲ" ဟု ဟူစတန်က စိတ်ဝင်တစား မေးသည်။

"အင်း ပုလိပ်က ဒေါသကြီးလာတာပေါ့ဗျာ၊ ပြီးတော့ သူက ပြောတယ်၊ မင်းတို့ အနီကောင်တွေဟာ ပြဿနာ မပေါ် ပေါ်အောင် လိုက်ပြီး ထောင်ပေးနေတဲ့ ကောင်တွေပဲတဲ့ဗျား၊ ကောင်းကြလေရော၊ နောက်ပြီးတော့ သူက ပြောတယ်၊ မင်း ငါနဲ့ လိုက်ခဲ့ရမယ်တဲ့၊ ချက်ချင်းပါပဲဗျာ၊ ဟိုကောင်ကို ခေါ်သွားပြီး လေလွင့်မှုနဲ့ ဖမ်းချုပ်ထား လိုက်တာ ခြောက်ရက်တောင် ကြာပါရောလား"

"တကယ်လို့ သူ့မှာ အလုပ်အကိုင် ရှိနေရင် ဘယ်လို လုပ်ကြမလဲ" ဟု တီမိုသီဝေါလေ့စ်က မေးသည်။

ကိုစည်ပိုင်းက ရယ်သည်။ "ဒါမျိုးတွေကို ခင်ဗျားလည်း သိနေသားပဲဗျာ၊ အဆန်းလုပ်ပြီး မေးမနေပါနဲ့တော့" ဟု ဆိုသည်။ "လူလေလူလွင့်ဆိုတာဟာ ပုလိပ် တစ်ယောက်ရဲ့ မျက်မုန်းအကျိုး ခံရတဲ့လူကို ခေါ်တာဗျ၊ ဒါကို ခင်ဗျား နားလည်နေသားနဲ့၊

ဒါကြောင့် သူတို့က ကျုပ်တို့ စခန်းမျိုးကို မုန်းတာပေါ့၊ ဒီစခန်းထဲ ဘယ် ပုလိပ်မှ မဝင်နိုင်ဘူး မဟုတ်လား၊ တကယ်တော့ အခု ခင်ဗျားတို့ ကျုပ်တို့ နေတဲ့ နေရာကမှ အမေရိကန် ပြည်ထောင်စုဗျ၊ ကယ်လီဖိုးနီးယားပြည်နယ် မဟုတ်ဘူး”

ဟူစတန်က သက်ပြင်းချလေသည်။ “ငါတို့ ဒီမှာပဲ ဆက်နေရရင် ကောင်းမယ်၊ ဒါပေမဲ့ မကြာခင် ဒီနေရာက ထွက်ရတော့မလို ဖြစ်နေပြီ၊ ငါကတော့ ဒီနေရာကိုပဲ ကြိုက်တယ်၊ အားလုံး အဆင်ပြေတယ်၊ လူတွေကလည်း သဘောကောင်းကြတယ်၊ သူတို့အနေနဲ့ ငါတို့ကို ဒုက္ခရောက်အောင် စိတ်ဆင်းရဲ ကိုယ်ဆင်းရဲ ဖြစ်အောင် ထောင်ထဲရောက်အောင် ဝိုင်းလုပ်နေကြမယ့်အစား အခုလို အေးအေးဆေးဆေး နေနိုင်သွားအောင် ဘာပြုလို့ လုပ်မပေးချင်ကြတာပါလိမ့်၊ ငါတို့ကို သောကရောက် နေအောင် မလုပ်နိုင်ပြန်တော့လည်း အချင်းချင်း ချကုန်အောင် လုပ်ချင်ကြတယ်၊ မကောင်းပါဘူးကွာ” သူသည် အတန်ကြာမျှ ငြိမ်နေသည်။ ထို့နောက် အသံကို အေးဆေး တည်ငြိမ်သွားအောင် ကြိုးစားသည်။ “ငါတို့ ငြိမ်းငြိမ်းချမ်းချမ်း နေကြမှ ဖြစ်မယ်” ဟု သူ့ကိုယ်သူ သတိပြန်ပေးသည့်နှယ် ပြောသည်။ “ကော်မတီက ရန်ပွဲ ဖြစ်မသွားအောင် ထိန်းပေးဖို့ လိုတယ်”

အဖွဲ့သုံးမှ ကိုစည်ပိုင်းက ပြောပြန်သည်။ “လူတွေက ကျုပ်တို့ ကော်မတီကို ဘာမဆို လုပ်ပေးရမယ့် အဖွဲ့လို့ ထင်နေကြတယ်ဗျ၊ ကနေ့ ကျုပ်အဖွဲ့မှာ ရန်ပွဲတစ်ပွဲ ဖြစ်တယ်၊ မိန်းမတွေပါ၊ ဒါမျိုးကျတော့ အမျိုးသမီး ကော်မတီက ရှင်းပေးနိုင်တဲ့ ပြဿနာမျိုးပဲ၊ အဲဒါ ကျုပ်ဆီ လာတိုင်နေတယ်၊ သူတို့က ကျုပ်ကို ဒီကော်မတီ ရှေ့မှာ တင်ပြပေးစေချင်ကြတယ်၊ ကျုပ်က ခင်ဗျားတို့ ပြဿနာကို ခင်ဗျားတို့ဘာသာ ခင်ဗျားတို့ ရှင်းပါလို့ ပြောတယ်၊ ကျုပ်တို့ ကော်မတီအနေနဲ့ မီးဖိုချောင်ထဲက ပြဿနာအထိ လိုက်မရှင်းပေးနိုင်ဘူးလို့ ပြောလိုက်တယ်”

ဟူစတန်က ခေါင်းညိတ်သည်။ “ခင်ဗျား လုပ်တာ မှန်ပါတယ်” ဟု ပြောသည်။

အမှောင်ရိပ်များသည် ကျဆင်းလာလျက် ရှိ၏။ တဖြည်းဖြည်းနှင့် အမှောင်ထုသည် နက်ရှိုင်းလာသည်။ အမှောင်ထု နက်ရှိုင်းလာသောအခါ တေးဂီတအဖွဲ့မှ ဂီတသံသည် ပို၍ ကျယ်လောင်လာသည်ဟု ထင်ရ၏။ မီးရောင်များသည် လင်းလက်လာသည်။ လူနှစ်ယောက်သည် ဝါယာကြိုးများကို လိုက်၍ စစ်ဆေးကြည့်နေသည်။

ကလေးများသည် ဂီတသမားများ၏ အနီးတွင် စုပြုံ၍ တိုးလျက် ရှိကြလေသည်။ ဂီတာသမား လူငယ် တစ်ယောက်သည် ဂီတာကို တီးရင်း သီချင်းတစ်ပုဒ်ကို ဆိုသည်။ သီချင်း ဒုတိယအပိုဒ်သို့ ရောက်သောအခါ ဘာဂျာသမား သုံးယောက်နှင့် တယောသမား တစ်ယောက် ဝင်လာသည်။ တဲများအတွင်းမှ လူများသည် အစုလိုက် အပြုံလိုက် ထွက်လာကြ သည်။ ပြီးတော့ ရေစီးကြောင်းတစ်ခု စီးဆင်းလာသည့်နှယ် အားလုံး စုပေါင်းပြီး ကပွဲရုံဘက်သို့ လျှောက်လာကြသည်။ သူတို့သည် ကရမည့် သမံတလင်း ကြမ်းပြင်ထက်သို့ မတက်ကြသေး။ ဘေးပတ်ပတ်လည်မှ ရပ်ကာ စောင့်နေကြသည်။ သူတို့ မျက်နှာများသည် လျှပ်စစ်မီးရောင်အောက်တွင် ကြည်လင် တောက်ပလျက် ရှိကြလေသည်။

စခန်း၏ ပတ်လည်တွင် သံဆူးကြိုးများ ကာထားသည်။ ထိုသံဆူးကြိုး ဝင်းထရံနှင့် ပေ ငါးဆယ် အကွာရှိ မြက်ပင်များကြားတွင် အစောင့်များသည် ထိုင်လျက် ရှိကြ၏။ သူတို့သည် ပုန်းလျှိုး ကွယ်လျှိုးထိုင်ကာ ပတ်ဝန်းကျင်ကို သတိထား၍ ကြည့်နေကြ လေသည်။

ဧည့်သည်များ၏ မော်တော် ကားများသည် တဖွဲဖွဲ ဆိုက်ရောက်လာကြသည်။ ဧည့်သည် အများစုမှာ လယ်သမားများနှင့် သူတို့၏ မိသားစုများ။ ပြီးတော့ တခြား စခန်းများမှ ဘဝတူ အပေါင်းအသင်းများ။ ဧည့်သည်တိုင်းသည် ဂိတ်အဝင်ဝတွင် သူ့ကို ဖိတ်သည့် စခန်းထဲမှ လူ" နာမည်ကို ပေးရသည်။

တေးဂီတအဖွဲ့မှ တီးသံ မှုတ်သံများသည် ကျယ်လောင်စွာ ထွက်ပေါ်လာသည်။ ယေရှုသခင်ကို ချစ်မြတ်နိုးကြသော လူများကတော့ ကပွဲရှိရာသို့ မကပ်။ သူတို့ တဲများ၏ ရှေ့မှ ထိုင်ကာ တလှုပ်လှုပ် တရွရွ ဖြစ်နေသော လူများကို ကြည့်နေကြလေသည်။ သူတို့ မျက်နှာများသည် ရှုံ့ရှာခြင်း၊ စက်ဆုပ်ခြင်း၊ မနှစ်မြို့ခြင်းများကို ဖော်ပြလျက် ရှိကြ၏။ သူတို့ချင်းလည်း တစ်ယောက်နှင့် တစ်ယောက် စကားမပြော။ မကြာမီ ပြုကြတော့မည့် ဒုစရိုက်မှု တစ်ခုကို ကြည့်ရန် စောင့်မျှော်လျက် ရှိကြသည်။ သူတို့ မျက်နှာထားများကတော့ ကပွဲ တစ်ခုလုံးကို လုံးဝ အသုံးမျကသည့် အရာတစ်ခုဟု ယူဆထားကြောင်းကို သိသိသာသာ ဖော်ပြလျက် ရှိလေသည်။

ဂျူတ်မိသားစု တဲတွင် ရှုသီနှင့် ဝင်းဖီးတို့သည် ညစာကို ကသောကမျော စားကာ ကပွဲဘက်သို့ သွားရန် ခြေလှမ်းကြသည်။ အမေဂျူတ်က ပြန်ခေါ်ပြီး သူတို့ မျက်နှာများကို လက်နှင့်ကိုင်၍ စေ့စေ့စပ်စပ် စစ်ဆေးသည်။ ပါးနှင့် နားခေါင်းများကို ကြည့်သည်။ နားရွက်များကို ဆွဲ၍ အတွင်းအပြင် ကြည့်သည်။ ထို့နောက် သူတို့ လက်များကို နောက်တစ်ကြိမ် ရေထပ်ဆေးခိုင်းသည်။ ရှုသီနှင့် ဝင်းဖီးတို့သည် ရေချိုးခန်းများ ရှိရာသို့ အပြေးအလွှား သွားကြရပြန်သည်။ ထို့နောက် ကပွဲလုပ်မည့် နေရာသို့ ကဆုန်ချ၍ ပြေးကာ တီးဝိုင်းအဖွဲ့ အနီး၌ ရပ်နေကြသော ကလေးအုပ်စုထဲသို့ ဝင်ရောက်ကြလေ၏။

အယ်လ်သည် ညစာ စားပြီးလျှင်ပြီးချင်း တွမ်၏ ဘလိတ်ဓားကို ယူ၍ မုတ်ဆိတ်မွေးနှင့် နှုတ်ခမ်းမွေးများကို ရိတ်သည်။ စိတ်ရှည်လက်ရှည်နှင့် စိမ်ပြေနပြေ ရိတ်ခြင်းဖြစ်၍ နာရီဝက်ခန့်မျှ အချိန်ဖြုန်းရလေသည်။ ပြီးတော့မှ သိုးမွေးဘောင်းဘီနှင့် ရှပ်အင်္ကျီအစင်းကို ဝတ်လိုက်ကာ ရေချိုးခန်းဘက် ထွက်လာသည်။ ရေချိုးခန်းတွင် လူသူ အဝင်အထွက် မရှိ။ တိတ်ဆိတ်လျက် ရှိသည်။ သူသည် ရေချိုးခန်းမှန်ကို ကြည့်ကာ ဆံပင်ကို သပ်သပ်ရပ်ရပ် ဖြစ်သွားအောင် ကျကျနန ဖြီးသည်။ မှန်ထဲ၌ ထင်ဟပ်နေသည့် သူ့တစ်ကိုယ်လုံးကို စိတ်တိုင်းကျ ကြည့်ကာ အားရပါးရ ပြုံးသည်။ ထို့နောက် သိုးမွေး ကုတ်အင်္ကျီကို အပေါ်မှ ထပ်၍ ဝတ်လိုက်လေသည်။ သူ့ ရှူးဖိနပ်အဝါကို အိမ်သာသုံး စက္ကူဖြင့် ပွတ်သည်။ ထိုအခိုက်တွင် ရေချိုး နောက်ကျနေသူ တစ်ဦးသည် ရေချိုးခန်းထဲသို့ ကမူးရှူးထိုး ဝင်လာသည်။ အယ်လ်သည် အပြင်သို့ သုတ်သီးသုတ်ပျာ ထွက်လာပြီး ကပွဲဘက်သို့ လျှောက်လာခဲ့လေ၏။ သူ့မျက်လုံးများကတော့ ဂနာမငြိမ်။ မိန်းကလေးများကိုသာ လိုက်လံ ရှာဖွေလျက် ရှိသည်။ ကပွဲ ပြုလုပ်မည့်နေရာနှင့် မနီးမဝေးမှ ရွက်ထည်တဲတစ်လုံး ရှေ့တွင် အသားဖြူဖြူ မိန်းမချောလေး တစ်ယောက် ထိုင်နေသည်။ သူသည် မိန်းကလေးအနီးသို့ သွားရပ်သည်။ အတွင်းမှ ရှပ်အင်္ကျီကို မြင်စေချင်သဖြင့် သူ့ အပေါ် အင်္ကျီရင်ဘတ်ကို ဟသွားအောင် တံတောင်နှစ်ဖက်ဖြင့် တွန်းဖယ်လိုက်သည်။

"ကနေ့ည ကကြမှာလား " ဟု သူက စကားမရှိ စကားရှာ၍ မေးသည်။

မိန်းကလေးက အဖြေမပေး။ မျက်နှာကို တစ်ဖက်သို့ လွှဲထားသည်။

"ဘယ်သူမှ မင့်ကို စကားပြောခွင့် မရှိဘူး ဆိုပါတော့၊ ဟုတ်လား၊ မေးရဦးမယ် မင်း ငါနဲ့ တွဲကမလား" အယ်လ်က မိန်းကလေး၏ အပြုအမူကို အမှုမထားဟန်ဖြင့် မေးသည်။ "စုံတွဲအကကို ငါ ကောင်းကောင်း ကတတ်တယ်"

မိန်းကလေးက ရှက်ကိုးရှက်ကန်း အမူအရာဖြင့် မျက်လွှာများကို ပင့်ကြည့်သည်။ "ဒါများ အဆန်းလုပ်လို့၊ လူတိုင်း ကတတ်တယ်"

"ငါ့လောက်တော့ မတော်ပါဘူးဟာ" အယ်လ်က ပြန်ပြောသည်။ အတီးသည် နိမ့်ချည်တစ်ခါ မြင့်ချည်တစ်လှည့် ဖြစ်လာသည်။ အယ်လ်က ခြေကို တစ်ချက် စည်းချက်ကျအောင် ချပြီး အသံပေးသည်။ "ကဲ လာ" ဟု ခေါ်သည်။

တဲအတွင်းမှ မိန်းမဝဝကြီး တစ်ယောက်၏ ဦးခေါင်းသည် အပြင်သို့ ထွက်လာပြီး အယ်လ်အား လှမ်းဟောက်သည်။ "မင်း ဘာသာမင်း ကိုယ့်လမ်း ကိုယ်သွားစမ်း" ဟု ဒေါသတကြီး ပြောသည်။ "သူ့မှာ အတွဲရှိပြီးသား၊ သူ မကြာခင် လက်ထပ်တော့မှာ၊ သူ့လူ လာခေါ်လိမ့်မယ်"

အယ်လ်က မိန်းကလေးအား ကလိဆွသော အကြည့်မျိုးဖြင့် ကြည့်ကာ မျက်စိမှိတ်ပြသည်။ သူ့ခြေထောက်များသည် အတီးနှင့် စည်းချက်ကျကျ တဆတ်ဆတ် လှုပ်လျက် ရှိသည်။ သူ့ပခုံးများကတော့ နိမ့်လိုက် မြင့်လိုက်။ လက်များကလည်း တလှုပ်လှုပ်။ မိန်းကလေးကမူ သူ့အား စိတ်ဝင်တစား ကြည့်လျက် ရှိလေသည်။

အဖေဂျုတ်သည် လက်ထဲမှ ပန်းကန်ကို ချကာ မတ်တတ်ရပ်လိုက်သည်။ "ကဲ လာ ဂျွန်၊ တို့ သွားကြစို့" ဟု လှမ်းခေါ်ပြီး အမေ့ဘက် လှည့်၍ ရှင်းပြသည်။ "အလုပ်ရဖို့ ကိစ္စအတွက် ချိန်းထားတဲ့ လူတွေနဲ့ စကား သွားပြောမလို့" အဖေဂျုတ်နှင့် ဦးလေးဂျွန် တို့သည် စခန်း မန်နေဂျာ၏ အိမ်ဘက်သို့ လျှောက်သွားကြလေသည်။

တွမ်သည် ဟင်းရည် ထည့်ထားသော ပန်းကန်ထဲသို့ ပေါင်မုန့်ကို နှစ်၍ စားသည်။ စားပြီးသောအခါ ပန်းကန်ကို အမေ့အား လှမ်းပေးသည်။ အမေက ပန်းကန်ကို ရေနွေးပုံးထဲသို့ ထည့်၍ ဆေးကာ အဝတ်တစ်ထည်ဖြင့် ဆေးပြီး ပန်းကန်များကို သုတ်နေသော ရိုစာဟန်လက်သို့ လှမ်းပေးသည်။ "မင်း ကပွဲ မသွားဘူးလား" ဟု အမေက မေးသည်။

"သွားမှာပေါ့၊ မသွားလို့ ဘယ်ဖြစ်မလဲ" ဟု တွမ်က ပြန်ပြောသည်။ "ကျုပ်က ကော်မတီထဲ ပါနေပြီ၊ တချို့ ညှော်သည်တွေကို ကျုပ်တို့က ညှော်ခံဖို့ တာဝန်ကျတယ်"

"မင်းက ချက်ချင်းပဲ ကော်မတီဝင် ဖြစ်သွားပြီလား" ဟု အမေက ပြောသည်။ "မင်း အလုပ်ရလို့ ဖြစ်သွားတာနဲ့ တူတယ်နော်"

ရိုစာဟန်က လက်ထဲမှ ပန်းကန်ကို တင်ရန် နောက်သို့ လှည့်လိုက်သည်။ တွမ်က သူ့ကို တစ်ချက် ကြည့်လိုက်ပြီး လှမ်းပြောသည်။ "ဘုရားရေ ဒီကောင်မလေးလည်း ဝလာလိုက်တာ"

ရိုစာဟန်၏ မျက်နှာသည် ရဲခနဲဖြစ်သွားသည်။ အမေ့ လက်ထဲမှ ဆေးပြီးစ ပန်းကန်တစ်ချပ်ကို လှမ်းယူသည်။ "ဟုတ်တယ်၊ ဝလာတယ်" ဟု အမေက ဆိုသည်။

"အရင်ကထက် ပိုပြီးလည်း လှလာတယ် အမေရဲ့" ဟု တွမ်က ပြောသည်။

မိန်းကလေး၏ မျက်နှာသည် တိုး၍ နီမြန်းလာသည်။ သူသည် ခေါင်းကို ငုံ့ထားလိုက်၏။ "တော်ပါတော့၊ ဘာတွေ လျှောက်ပြောနေတာလဲ" ဟု ရိုစာဟန်က တိုးတိုးပြောသည်။

"လှလာတာပေါ့" ဟု အမေက ပြောသည်။ "မိန်းကလေး တစ်ယောက်ဟာ ကလေးရှိလာရင် အလှတိုးလာစမြဲပဲ ငါ့သားရဲ့"

တွမ်က ရယ်သည်။ "သူ ဒီပုံအတိုင်းသာ ဆက်ပြီး ဝနေရင် သူ့ကိုတင်ပြီး တွန်းသွားဖို့ လက်တွန်းလှည်းကလေး တစ်စီး လိုလာလိမ့်မယ်"

"တော်ပါတော့ဆို" ရိုစာဟန်က နောက် တစ်ခွန်း ထပ်ပြောကာ တဲထဲသို့ ဝင်သွားသည်။

အမေက အသံမထွက်အောင် ကျိတ်၍ ရယ်သည်။ "သူ့ကို စိတ်ရှုပ်အောင် မလုပ်ပါနဲ့ကွယ်"

"သူ သဘောကျပါတယ် အမေရဲ့"

"သူ သဘောကျတယ် ဆိုတာ အမေလည်း သိပါတယ်၊ ဒါပေမဲ့ သူ စိတ်လည်း ရှုပ်နေတယ်ကွယ့်၊ သူ ကွန်နီအတွက် စိတ်ထိခိုက်နေရှာတယ် "

"သူ ဒီကောင်ကို မေ့လိုက်ဖို့ ကောင်းပြီ အမေ၊ ဒီကောင်ကတော့ ခုလောက်ဆို အမေရိကန် ပြည်ထောင်စုကြီးရဲ့ သမ္မတ ဖြစ်ဖို့အတွက် စာတွေ ကျက်နေရောပေါ့"

"ကွယ်.. သူ့ကို စိတ်ညစ်အောင် မလုပ်ပါနဲ့" ဟု အမေက ပြောသည်။ "ချက်ချင်း မေ့ပစ်ဖို့က မလွယ်ဘူး မဟုတ်လားကွယ် "

ဝီလီအီတွန် တစ်ယောက် သူတို့ အနီးသို့ ရောက်လာသည်။ ထုံးစံအတိုင်း သူ့မျက်နှာက စပ်ဖြဲဖြဲ။ "ခင်ဗျား တွမ်ဂျုတ် မဟုတ်လား"

"ဟုတ်တယ် "

"ကျုပ်က ကပွဲကော်မတီ ဥက္ကဋ္ဌပါ၊ ကျုပ်တို့ ခင်ဗျားဆီက အကူအညီ လိုချင်လို့၊ လူတွေက ကျုပ်ကို ခင်ဗျား အကြောင်း ပြောပြတယ် "

"ရပါတယ်၊ ကျုပ် ခင်ဗျားနဲ့ တွဲလုပ်မှာပါ" ဟု တွမ်က ပြောသည်။ "ဒါ ကျုပ် အမေ"

"နေကောင်းပါရဲ့လား " ဟု ဝီလီက နှုတ်ဆက်သည်။

"မင်းကို တွေ့ရတာ ဝမ်းသာပါတယ်ကွယ် "

ဝီလီက တွမ်ဘက်သို့ လှည့်၍ ပြောသည်။ "ခင်ဗျားကို ဂိတ်ဝမှာ တာဝန် ပေးချင်တယ်၊ ပြီးတော့မှ ကပွဲဘက်မှာ တာဝန် ဆက်ယူပေးပါ၊ လူတွေ ဝင်လာတဲ့အခါမှာ ခင်ဗျားက ဂိတ်ကနေပြီး ရုတ်ရုတ်ရုတ်ရုတ် လုပ်မယ်လို့ ထင်ရတဲ့ ကောင်တွေကို ရွေးမှတ်ထားပါ၊ ခင်ဗျားနဲ့အတူ အဖော်တစ်ယောက် ရှိမှာပါ၊ ဂိတ်ဝက တာဝန်ပြီးတော့ ကပွဲဘက်လာပြီး စောင့်ကြည့်ပေးစေချင်တယ် "

"ရပါတယ်၊ ကျုပ် ကောင်းကောင်း လုပ်နိုင်ပါတယ် "

အမေက စိတ်မအေးသံဖြင့် ဝင်မေးသည်။ "ပြဿနာတော့ မရှိနိုင်ပါဘူးနော်"

"မရှိပါဘူး" ဟု ဝီလီက ဖြေသည်။ "ဘာမှ ဖြစ်စရာ အကြောင်း မရှိပါဘူး"

"လုံးဝ ဘာမှမဖြစ်ပါဘူး အမေရယ်" ဟု တွမ်က ထပ်ပြောသည်။ "ကျုပ် အခုပဲ လိုက်ခဲ့မယ်၊ ကဲ အမေ၊ ကျုပ်နဲ့ ကပွဲထဲကျမှ ဆုံကြရအောင်" လူငယ် နှစ်ယောက်သည် စခန်းအဝင် ဂိတ်ပေါက်ဘက်သို့ လျင်မြန်စွာ လျှောက်သွားကြလေ၏။

အမေသည် ဆေးပြီးသား ပန်းကန်များကို သေတ္တာတစ်လုံးပေါ် စုတင်သည်။ "အပြင်ကို ထွက်ခဲ့တော့ ရိုစာဟန်" ဟု လှမ်းခေါ်သည်။ အထဲမှ ပြန်ထူးသံ မကြား။ "ရိုစာဟန် အပြင်ထွက်ခဲ့တော့ ဆို"

ရိုစာဟန်သည် တဲထဲမှ ထွက်လာပြီး ပန်းကန်များကို အဝတ်ဖြင့် ဆက်သုတ်နေသည်။

"တွမ်က နင့်ကို ပြောင်နောက်နေတာပါဟယ် "

"သိပါတယ် အမေရဲ့၊ သမီး စိတ်မဆိုးပါဘူး၊ တခြား လူတွေက ဝိုင်းကြည့်နေတာကို သမီး ရှက်လို့ပါ"

"ဒါကလည်း ညည်းတို့ ငါတို့ မတတ်နိုင်တဲ့ ကိစ္စပဲ၊ လူတွေကတော့ မကြည့်ဘဲ မနေဘူး၊ ကြည့်ကြမှာပဲ၊ ဒါပေမဲ့ ကိုယ်ဝန်နဲ့ မိန်းကလေးကို ကြည့်ရတာ စိတ်ချမ်းသာတယ် အေ့၊ ပျော်စရာကောင်းတဲ့ အလုပ်တစ်ခုပဲ၊ သမီးကော ကပွဲ မသွားချင်ဘူးလား"

"သမီးက..၊ အမေရယ် သမီး မပြောတတ်တော့ဘူး၊ ကွန်နီ အနားမှာ ရှိစေချင်တယ်" ရိုစာဟန်၏ အသံသည် ကျယ်လာသည်။ "အမေ သမီး သူ့ကို အနားမှာ ရှိစေချင်လိုက်တာ၊ ကျွန်မ မနေတတ်ဘူး"

အမေက သူ့သမီး မျက်နှာကို အနီးသို့ ကပ်၍ ကြည့်သည်။ "အမေ နားလည်ပါတယ်" ဟု ပြောသည်။ "ဒါပေမဲ့ ရိုစာဟန်၊ ကိုယ့်မိဘနဲ့ ညီအစ်ကို မောင်နှမတွေ အရှက်ကွဲအောင်တော့ မလုပ်ပါနဲ့"

"သမီး မရည်ရွယ်ပါဘူး အမေရယ်"

"အေး အမေတို့ကို အရှက်ရအောင်တော့ မလုပ်ပါနဲ့၊ အခုဆိုရင် အမေတို့ မိသားစုမှာ သိက္ခာကျခဲ့ပေါင်း များပြီ"

မိန်းကလေး၏ နှုတ်ခမ်းများသည် တဆတ်ဆတ် တုန်လျက် ရှိလေသည်။ "သမီး ကပွဲကို မသွားတော့ဘူး အမေ၊ သမီး မသွားနိုင်တော့ဘူး၊ အမေရယ် သမီးကို ကယ်ပါဦး" ရိုစာဟန်သည် ပြောပြောဆိုဆို ထိုင်ချလိုက်ပြီး သူ့ခေါင်းကို လက်နှစ်ဖက်ကြား၌ မြှုပ်ထားလိုက်သည်။

အမေသည် သူ့လက်နှစ်ဖက်ကို ပန်းကန်တိုက်သည့် အဝတ်ဖြင့် သုတ်လိုက်ပြီး သူ့သမီးရှေ့၌ ထိုင်သည်။ ပြီးတော့ သမီးဖြစ်သူ၏ ဆံစကလေးများကို သူ့လက်ဖြင့် တယုတယ ပွတ်သပ်ပေးသည်။ "သမီးက လိမ္မာပါတယ်ကွယ်" ဟု ချော့ချော့မော့မော့ ပြောသည်။ "သမီးဟာ အမြဲတမ်း လိမ္မာခဲ့တဲ့ မိန်းကလေး တစ်ယောက်ပါ၊ အမေ သမီးကို ပစ်မထားပါဘူး၊ အမေ စောင့်ရှောက်မှာပေါ့၊ စိတ်မညစ်စမ်းပါနဲ့ အေရယ်" အမေသည် သူ့လေသံကို ပြောင်းပစ်လိုက်သည်။ ချက်ချင်းပင် အမေ့ အသံသည် တက်ကြွလာသည်။ "သမီးနဲ့ အမေတို့ အခု ဘာလုပ်ကြမလဲ သိလား၊ အမေတို့ နှစ်ယောက် ကပွဲကို သွားမယ်၊ ဘေးက ထိုင်ကြည့်မယ်၊ တကယ်လို့ ကောင်လေး တစ်ယောက်ယောက်က သမီးကို သူနဲ့ တွဲကဖို့ လာခေါ်ရင် အမေက ဆီးပြောမယ်၊ သူ သိပ်နေမကောင်းလို့ မကနိုင်ဘူးလို့၊ အမေတို့ သားအမိ အတီး နားထောင်ကြတာပေါ့နော် သမီး ဟုတ်ဖူးလား"

ရိုစာဟန်သည် အမေ့ကို မော့ကြည့်သည်။ "အမေက သမီးကို ကခွင့်မပေးဘူးပေါ့ ဟုတ်လား"

"အေးပေါ့ အမေက ခွင့်မပြုဘူး"

"ဒီလိုဆို သမီးကို ဘယ်သူကမှ လက်ဖျားနဲ့ မတို့စေနဲ့ပေါ့"

"အင်း မတို့စေရဘူး"

မိန်းကလေးက သက်ပြင်းချသည်။ "သမီးလည်း ဘာလုပ်ရမှန်း မသိတော့ပါဘူး အမေရယ်၊ တကယ်ပါ၊ ဘာ ဆက်လုပ်ရမှန်းကို မသိတော့ဘူး"

အမေက ရှိစာဟန်၏ ဒူးကို လက်ဖြင့် ပုတ်လိုက်သည်။ "ဒီမယ် သမီး၊ အမေ ပြောမယ်" ဟု စကားစသည်။ "အမေ့ကို ကြည့်စမ်း၊ အမေ သမီးကို တစ်ခု ပြောပြမယ်၊ နားထောင်၊ အခု လောလောဆယ်မှာ အခြေအနေက အဆိုးကြီး မဟုတ်သေးဘူး၊ ဒါတွေ မစဉ်းစားနဲ့ဦး၊ ကဲ ထ၊ အမေတို့ မျက်နှာသစ်မယ်၊ ခြေတွေ လက်တွေ ဆေးမယ်၊ အဝတ်အစား လဲမယ်၊ ပြီးရင် ကပွဲ သွားကြည့်မယ်" အမေက ရှိစာဟန်၏ လက်ကို ဆွဲ၍ ရေချိုးခန်းဘက်သို့ ခေါ်သွားလေသည်။

အဖေဂျုတ်နှင့် ဦးလေးဂျွန်တို့သည် စခန်းရုံးရှေ့ ဆင်ဝင်အောက်တွင် လူတစ်စုနှင့် ထိုင်၍ စကားပြောနေကြသည်။ "ကျုပ်တို့ ကနေ့ အလုပ်ရတော့မလို့ နည်းနည်းလေးပဲ လိုတယ်ဗျ သိလား" ဟု အဖေဂျုတ်က ပြောသည်။ "မိနစ်ပိုင်းလောက်ပဲ နောက်ကျသွားတာ၊ ကျုပ်တို့ ရောက်သွားတော့ ငနဲ နှစ်ကောင်ကို ခန့်ပြီးနေပြီ၊ အဖြစ်က ရယ်စရာတော့ အကောင်းသား၊ ကျုပ်တို့နဲ့ တွေ့တဲ့ အလုပ်ရှင်က ပြောတယ်၊ ငါတို့မှာ အခုပဲ လူနှစ်ယောက် ရတယ်၊ ဆင့်နှစ်ဆယ်တန် အလုပ်သမားဆိုရင် ငါတို့က ငှားနိုင်ပါတယ်၊ ဆင့်နှစ်ဆယ်တန် လူသာ ရရင်တော့ ဘယ်နှစ်ယောက် ရရ ငါတို့က ငှားနိုင်တယ်၊ အဲဒီတော့ မင်းတို့ စခန်းပြန်ပြီး ဆင့်နှစ်ဆယ်တန် အလုပ်သမား အများကြီး လိုနေတယ်လို့ ပြောပြပေါ့ကွာတဲ့"

ထိုင်နေသူ အားလုံး စိတ်လှုပ်ရှားလာကြသည်။ မျက်နှာတစ်ခုလုံးကို ဦးထုပ်အနက် ကွယ်နေသော ပခုံးကျယ်ကျယ်နှင့် လူက သူ့လက်ဖဝါးဖြင့် သူ့ဒူးကို ရိုက်လိုက်သည်။ "ကျုပ် သိတယ်၊ ကောင်းကောင်းကြီး သိပါတယ်ဗျာ" ဟု ရေရွတ်သည်။ "သူတို့ အနေနဲ့ လူများများ ရမှာပါ၊ ငတ်ပြတ်နေတဲ့ လူတွေကို ရမှာပါ၊ တစ်နာရီ ဆင့်နှစ်ဆယ် လုပ်ခကတော့ ခင်ဗျား မိသားစုကို ခင်ဗျား ဝအောင် ကျွေးနိုင်မလား၊ ဒါပေမဲ့ ခင်ဗျားအနေနဲ့ ရရာ ယူရမှာပဲပေါ့၊ သူတို့ကတော့ အလုပ်တစ်ခု ရှိလာရင် လေလံတင်တော့တာပဲ၊ ခင်ဗျားတို့ ကျုပ်တို့ကို ပေးသလောက်နဲ့ လုပ်အောင် ဖန်တီးနေတာဗျ၊ ကြည့်နေပါ၊ မကြာပါဘူး၊ ခင်ဗျားတို့ ကျုပ်တို့ အားလုံး အလုပ်တစ်ခု ရဖို့အတွက် အလုပ်ရှင်ကို ပိုက်ဆံပေးပြီး လုပ်ရမယ့်ဘဝ ရောက်တော့မယ်"

"ကျုပ် တွေးမိတာ တစ်ခုက.. " အဖေဂျုတ်က စကားကို ဆက်မပြောဘဲ ရပ်ထားသည်။ ဝိုင်းထိုင်နေကြသူများသည် ငြိမ်ဆိတ်နေကြသည်။ သူ ဘာဆက်ပြောမလဲ ဟု နားစွင့်နေကြသည်။ "ဒီလိုဗျာ၊ ကျုပ် တွေးမိတာက ဒီလို၊ တကယ်လို့

လူတစ်ယောက်မှာ မြေတစ်ကေလောက် ရှိရင် အဆင်ပြေနိုင်တယ်ဗျ သိလား၊ ကျုပ်ပဲ ဆိုပါတော့၊ ကျုပ် မိန်းမက ဝက်နှစ်ကောင်လောက် မွေး၊ ကြက်နည်းနည်းပါးပါး မွေး၊ ကျုပ်တို့ ယောကျ်ား အားလုံးက အပြင်ထွက် အလုပ်လုပ်၊ အလုပ်ချိန်ပြီးတော့ အိမ်ပြန်၊ ကလေးတွေက ကျောင်းတက်၊ ဒီအရပ်မှာ ရှိတဲ့ ကျောင်းမျိုးတွေ အရင်က မတွေ့ဖူးဘူး"

"သူတို့ ကျောင်းတွေမှာ ကျုပ်တို့ ကလေးတွေ ပျော်မှာ မဟုတ်ပါဘူး" ဦးထုပ်အနက်နှင့်လူက မလိုတမာသံဖြင့် ပြောသည်။

"ဘာပြုလို့ မပျော်ရမှာလဲဗျ၊ ခင်ဗျားဟာ မဟုတ်သေးပါဘူး၊ ကျောင်းတွေက ကောင်းပါတယ်"

"အဝတ်အစားက စုတ်စုတ်ပြတ်ပြတ် ခြေထောက်မှာလည်း ဖိနပ်မပါတဲ့ ကလေးတစ်ယောက်ဟာ ခြေအိတ်တွေ ဘာတွေနဲ့ ဘောင်းဘီ အကောင်းစားတွေ ဝတ်ပြီး ဟော့ အုတ်ကီးလို့ ဝိုင်းအော်နေကြတဲ့ ကလေးတွေကြားမှာ ဘယ်လိုလုပ်ပြီး ပျော်မှာလဲ၊ ကျုပ်သားဆို သူတို့ကျောင်းမှာ ထားတာပဲ၊ နေ့စဉ် ရန်ဖြစ်တယ်ဗျာ၊ ကျုပ်ကောင်က စာလည်း တော်ပါတယ်၊ တကယ် ခံနိုင်ရည်ရှိတဲ့ ကောင်ပဲ၊ သတ္တိခဲပါပဲ၊ နေ့တိုင်း တစ်ယောက်ယောက်နဲ့တော့ ချရတာချည်းပဲ၊ အိမ်ပြန်လာရင် သူ့အဝတ်အစားတွေဟာ စုတ်ပြတ်လာတာချည်းပဲ၊ နှာခေါင်းမှာလည်း သွေးစသွေးနနဲ့၊ ဘယ်လို လုပ်မလဲ၊ ဝတ်ကောင်းစားလှ ဝတ်နိုင်တဲ့ ခွေးမသားတွေကြောင့် ခက်တယ်၊ ကျုပ် ဘယ်လို လုပ်ရမလဲ မပြောတတ်ဘူး"

အဖေဂျုတ်က ပြန်ပြောသည်။ "ဒီလို ဆိုရင်တော့ ကျုပ်လည်း ဘာလုပ်ရမှန်း မသိတော့ပါဘူး၊ ကျုပ်တို့မှာလည်း ငွေကြေးက ချူးတစ်ပြားတောင် မကျန်တော့ဘူး၊ ကျုပ်သား အကြီးကောင်တော့ ယာယီ အလုပ်တစ်ခု ရထားပြီ၊ ဒါပေမဲ့ သူ ရတဲ့ ငွေက ကျုပ်တို့ မိသားစုကို ထမင်းဝအောင် ကျွေးနိုင်မှာ မဟုတ်ဘူး၊ ကျုပ်အနေနဲ့ ဆင့်နှစ်ဆယ်တန် အလုပ်ကိုပဲ လုပ်ရတော့မှာပဲ၊ မလုပ်လို့ မဖြစ်တော့ဘူး"

ဦးထုပ်နက်က ခေါင်းထောင်ကြည့်သည်။ အမွေးကြမ်းကြီးများဖြင့် ပြည့်နေသော သူ့မုတ်ဆိတ်သည် မီးရောင်အောက်တွင် ထင်းခနဲ ပေါ်လာသည်။ "ကောင်းတာပေ့ါ၊ သိပ်ကောင်း" ဟု နာကြည်းသော လေသံဖြင့် ပြောသည်။ "ခင်ဗျားက လုပ်မယ် ဆိုတော့ ကျုပ် လုပ်မယ့် အလုပ်ကို ခင်ဗျားက ဆင့်နှစ်ဆယ် ယူပြီး လုပ်တဲ့သဘောပဲ၊ ခင်ဗျားလည်း

အလုပ်ရသွားရော ကျုပ်လည်း ထမင်းငတ်ရော၊ ကျုပ် အလုပ်ကို ပြန်ရချင်ရင် ဆယ့်ငါးဆင့်ယူပြီး လုပ်ရတော့မှာပေါ့၊ ဟုတ်ဖူးလား၊ ကောင်းတယ်၊ သိပ်ကောင်း၊ ဆက်လုပ်၊ ခင်ဗျား လုပ်စရာရှိတာကိုသာ ဆက်လုပ်ပေတော့ ”

“ဒီလိုဆိုရင်တော့ ကျုပ် ဘာလုပ်ရမလဲ ” ဟု အဖေဂျုတ်က ရေရွတ်သည်။ “ခင်ဗျား အဆင်ပြေဖို့အတွက် ကျုပ်ကလည်း အငတ်မခံနိုင်ဘူး ”

ဦးထုပ်နက်၏ ခေါင်းသည် ပြန်၍ ငုံ့သွားသည်။ သူ့မေးစေ့သည် မှောင်ရိပ်ထဲသို့ ပြန်ရောက်သွားလေ၏။ “ကျုပ်လည်း မပြောတတ်တော့ဘူး ” ဟု ဆိုသည်။ “တကယ်ပါဆိုဗျာ၊ ကျုပ်လည်း မပြောတတ်ဘူး၊ တစ်နေ့ ဆယ်နာရီတိတိ အလုပ်လုပ်ရပြီး အဆာမပြေတဲ့ ဘဝက မလွတ်တာကတော့ ဆိုးတာ အမှန်ပဲ၊ ကျုပ် ကလေးတွေလည်း ဝဝလင်လင် မစားရဘူး၊ အချိန်ရှိသမျှ ဒီအကြောင်းကိုချည်းလည်း ကျုပ် ထိုင်ပြီး တွေးမနေနိုင်ဘူး လဗျာ၊ အဲသလို တွေးနေရင်လည်း ကျုပ် ရူးမှာ” ဝိုင်းထိုင်နေကြသူများ၏ ခြေထောက်များသည် လှုပ်ရှားလာကြသည်။

တွမ်သည် ဂိတ်ဝမှ ရပ်ကာ ဝင်လာသူများကို စောင့်၍ ကြည့်နေသည်။ အပေါ်ဘက်မှ ဖြန့်၍ ထိုးထားသည့် လျှပ်စစ်မီးရောင်ဖြင့် ဝင်လာသူများ၏ မျက်နှာများကို ပြတ်ပြတ်သားသား မြင်နေရ၏။ ဝီလီအီတွန်က တွမ်အား တိုးတိုးကပ်၍ မှာသည်။ “မျက်လုံးတော့ ဖွင့်ထားဗျို့၊ ကျုပ် ဂျူလီဗီတာလာကို လွှတ်လိုက်မယ်၊ သူက ချရော့ကီး ကပြားဗျ၊ သဘော ကောင်းပါတယ်၊ မျက်လုံးတွေတော့ ပိတ်ထားလို့ မဖြစ်ဘူး၊ မသင်္ကာစရာလူ ပါမပါတော့ သတိထားကြည့်မှ ”

“ရပါတယ်၊ စိတ်ချ” ဟု တွမ်က ပြန်ပြောသည်။ သူသည် ဂိတ်ပေါက်မှ ဝင်လာနေသော လယ်သမား မိသားစုကို ဂရုတစိုက် ကြည့်နေသည်။ မိန်းကလေးများသည် ဆံပင် ကျစ်ဆံမြီးနှင့် ဖြစ်သည်။ ကောင်လေးများကတော့ ကပွဲတွင် ဆင်နွှဲဖို့အတွက် ကိုယ်ရောင်ကိုယ်ဝါ တောက်ပအောင် အစွမ်းကုန် သထားကြသည်။ သူ့အနီးသို့ ရောက်လာသော ဂျူလီက သူ့ဘေးတွင် ဝင်ရပ်လေသည်။

“ကျုပ် ရောက်ပြီ ” ဟု ဂျူလီက သတင်းပို့သည်။

တွမ်က လင်းယုန်နှုတ်သီးကဲ့သို့ ကောက်နေသော နှာခေါင်း၊ ငေါထွက်နေသော ပါးရိုးနှင့် သေးသွယ်သော မေးရိုးပိုင်ရှင် ဂျူလီ၏ မျက်နှာကို သေသေချာချာ ကြည့်သည်။ "သူတို့က ပြောတယ်၊ ခင်ဗျားဟာ ရက်အင်ဒီးယန်း ကပြားတဲ့၊ ခင်ဗျား ကြည့်ရတာဖြင့် ရက်အင်ဒီးယန်း အစစ်အတိုင်းပဲ"

"အစစ် မဟုတ်ဘူး" ဟု ဂျူလီက ပြောသည်။ "သွေးတစ်ဝက်ပဲ ပါတယ်၊ ကျုပ်ကတော့ အစစ်ပဲ ဖြစ်လိုက်ချင်တယ်၊ အစစ်ဆိုရင် အစိုးရ သတ်မှတ်ထားတဲ့ သီးသန့် နယ်မြေထဲမှာပဲ ကိုယ်ပိုင် လယ်ယာနဲ့ စတိုင်ကျကျ နေနိုင်မှာ၊ အစစ်တွေကမှ အဆင်ပြေပြေ နေရသေးတယ်"

"ဝင်လာနေတဲ့ လူတွေကို ကြည့်ဦးနော်" ဟု တွမ်က သတိပေးသည်။

ဧည့်သည်များသည် ဂိတ်ပေါက်မှ ဝင်လာနေဆဲ ဖြစ်၏။ လယ်သမား မိသားစုများနှင့် အနီးအနားရှိ ပျံကျ စခန်းများမှ နီးစပ်ရာ ခင်မင်ရာ လူများ ဖြစ်သည်။ မိသားစုနှင့် အတူပါလာသည့် ကလေးများကိုမူ မိဘများက လက်လွှတ်မခံ။ လူချင်း ကွဲမသွားအောင် လက်များကို မိမိရရ ဆွဲကိုင်ထားကြလေသည်။

တစ်သုတ်ပြီး တစ်သုတ် ဝင်လာနေသော လူများကို လှမ်းမျှော်ကြည့်နေရာမှ ဂျူလီက ပြောသည်။ "ဒီကပွဲတွေ လုပ်ရတာ ရယ်စရာတော့ အကောင်းသားဗျ၊ သိလား၊ ကျုပ်တို့ စခန်းက လူတွေအတွက်တော့ ဘာမှ မည်မည်ရရ အကျိုး မရှိပါဘူး၊ တစ်ခုတော့ ရှိတယ်၊ မိတ်ဆွေတွေကို ဖိတ်နိုင်တယ်၊ အဲဒီ မိတ်ဆွေတွေက ကပွဲလာပြီး ကရတဲ့အတွက် ဂုဏ်ရှိကြတာပေါ့ဗျာ၊ ကျုပ် အလုပ် လုပ်နေတဲ့ နေရာမှာ လုပ်ဖော်ကိုင်ဖက် တစ်ယောက် ရှိတယ်၊ သူ့ကိုလည်း ကျုပ်က ဖိတ်တယ်၊ သူက ပြောတယ်၊ သူ့မိန်းမနဲ့ သူ့သမီးကို ခေါ်လာပြီး ဣန္ဒြေရရ ကနိုင်တဲ့ နေရာဆိုလို့ ဒီခရိုင်နယ်မြေထဲမှာ ဒီတစ်နေရာပဲ ရှိတယ်တဲ့၊ ဟေး ကြည့်စမ်း ဟိုမှာ"

ဂိတ်ပေါက်မှ ဝင်လာနေကြသော လူငယ် သုံးဦး၊ ဂျင်းဝတ်စုံနှင့်၊ အားလုံး အလုပ်သမား။ တစ်ယောက်နှင့် တစ်ယောက် ပူးကပ်ပြီး လျှောက်လာကြသည်။ ဂိတ်စောင့်က သူတို့အား ဆီး၍ မေးသည်။ သူတို့က ပြန်ဖြေသည်။ ထို့နောက် လွှတ်ပေးလိုက် လေသည်။

"သူတို့ကိုတော့ သတိထား ကြည့်မှ" ဟု ဂျူလီက ပြောသည်။ သူသည် ပြောပြောဆိုဆိုပင် ဂိတ်စောင့်ဆီ လျှောက်သွားသည်။ "သူတို့ကို ဘယ်သူ ဖိတ်တယ်လို့ ပြောလဲ" ဟု မေးသည်။

"အဖွဲ့လေးက ဂျက္ကဆန် ဆိုတဲ့ လူ"

ဂျူလီက ချက်ချင်း တွမ်ထံသို့ ပြန်လှည့်လာသည်။ "ကျုပ်ကတော့ ဒီငနဲတွေဟာ ကျုပ် လိုချင်တဲ့လူတွေ ဖြစ်မယ် ထင်တာပဲ"

"ဘယ်လိုလုပ်ပြီး သိသလဲ"

"ဘယ်လိုလုပ်ပြီး သိသလဲ ဆိုတာကျတော့ ကျုပ်လည်း ရှင်းမပြတတ်ဘူး၊ စိတ်ထဲက အလိုလို ဖြစ်လာတာ၊ သူတို့ မြင်တာနဲ့ စိတ်ထဲက စိုးရိမ်သလို ဖြစ်လာတယ်၊ ခင်ဗျား သူတို့နောက်က လိုက်သွားပြီး ဝီလီကို ပြထား၊ အဖွဲ့လေးက ဂျက္ကဆန်ကို ခေါ်ပြီး တစ်ခါတည်း စစ်ကြည့်ဖို့ ပြော၊ သူတို့ ပြောတဲ့အတိုင်း မှန် မမှန် ချက်ချင်း သိဖို့ လိုမယ်၊ ကျုပ် ဒီက စောင့်မယ်"

တွမ်သည် လူငယ် သုံးဦး၏ နောက်မှ လိုက်သွားသည်။ သူတို့သည် ပွဲခင်း၏ အစွန်နားတွင် ရှိသည့် ပရိသတ်ကြား၌ ဝင်၍ ရပ်ကာ နေရာယူထားကြသည်။ တွမ်က တေးဂီတ အဖွဲ့ အနီး၌ ရပ်နေသော ဝီလီအား မျက်နှာရိပ် မျက်နှာကဲ ပြသည်။

"ဘာပြောချင်လို့လဲ" ဟု ဝီလီက မေးသည်။

"လူသုံးယောက် မသင်္ကာဘူး၊ ဟိုမှာ ရပ်နေတယ်၊ မြင်လား"

"အင်း"

"သူတို့ကို အဖွဲ့လေးက ဂျက္ကဆန် ဆိုတဲ့လူက ဖိတ်လို့ လာတာလို့ ပြောတယ်"

ဝီလီက လည်ပင်းကို ဆန့်၍ မျက်စိရှာသည်။ ဟူစတန်ကို မြင်သောအခါ လှမ်းခေါ်သည်။

"ဟိုကောင် သုံးကောင်ကို မြင်လား" ဟု ပြောသည်။ "တို့အနေနဲ့ ဂျက္ကဆန်ကို သွားခေါ်ပြီး မေးမှ ဖြစ်မယ်၊ အဖွဲ့လေးက ဂျက္ကဆန် ဒီသုံးကောင်ကို သူ ဖိတ်သလား ဆိုတာ သေချာအောင် မေးရမယ်"

"ဟူစတန်က ဝီလီ အပါးမှ ခပ်သုတ်သုတ် ပြန်ထွက်သွားသည်။ မကြာမီ အတွင်းမှာပင် ပိန်ပိန် ညှောင်ညှောင်၊ ရိုးကြီးဂေါင်ဂင် လူတစ်ယောက်နှင့် တွဲ၍ ပြန်ရောက်လာသည်။ "ဂျက္ကဆန် ဆိုတာ သူပဲ" ဟု ဟူစတန်က ပြောသည်။ "ဒီမယ် ဂျက္ကဆန်၊ ဟိုမှာ ရပ်နေတဲ့ လူသုံးယောက်ကို တွေ့လား၊ လူငယ် သုံးယောက်ကွာ"

"အင်း"

"သူတို့ကို မင်း ဖိတ်ခဲ့သလား"

"ဟင့်အင်း"

"အရင်ကကော တွေ့ဖူးသလား"

ဂျက္ကဆန်က စေ့စေ့စပ်စပ် ကြည့်သည်။ "အင်း၊ တွေ့ဖူးတယ်၊ ဂရိဂေါ်ရီယို အလုပ်ရုံမှာ ကျုပ်နဲ့ အတူတူ အလုပ်လုပ်နေတဲ့ ကောင်တွေပဲ"

"ဒီလိုဆိုရင် မင်း နာမည်ကို သူတို့ သိမှာပေါ့"

"သိတာပေါ့၊ ကျုပ်က သူတို့ဘေးနားမှာ ကပ်ရက် လုပ်နေတာပဲ"

"ကောင်းပြီ" ဟူစတန်က ခေါင်းတစ်ချက် ဆတ်သည်။ "မင်း သူတို့နား မသွားနဲ့၊ တကယ်လို့ သူတို့ ကောင်းကောင်းနေရင် တို့က ဆွဲထုတ်ဖို့ စိတ်မကူးဘူး၊ ကျေးဇူးပဲ မစ္စတာ ဂျက္ကဆန်"

"လုပ်ပုံက သိပ်ကောင်းတယ်" ဟု ဟူစတန်က လှမ်းပြောသည်။ "ဒီကောင်တွေပဲ ဖြစ်မယ်လို့ ထင်တယ်"

"သူတို့ကို ဂျူလီ ရွေးထုတ်တာ" ဟု တွမ်က ပြန်ပြောသည်။

"ဒါပေါ့၊ မဆန်းပါဘူး" ဟု ဝီလီက မှတ်ချက်ချသည်။ "သူ့မှာ ရှိနေတဲ့ ရက်အင်ဒီးယန်း သွေးက ဒီကောင်တွေကို အနံ့ခံလို့ ရတာ ဖြစ်မယ်၊ သူတို့ကို မှတ်မိအောင် တို့ချာတိတ်တွေကို ပြထားမှ ဖြစ်မယ်"

အသက် ဆယ့်ခြောက်နှစ်အရွယ် လူငယ် တစ်ယောက်သည် လူအများကြားမှ ဖြတ်၍ အမောတကောနှင့် ပြေးလာသည်။ သူသည် ဟူစတန်ရှေ့၌ လာ၍ ရပ်သည်။ သူ့မျက်နှာသည် ကြောက်ရွံ့ ထိတ်လန့်ခြင်းကို ဖော်ပြလျက် ရှိ၏။ "မစ္စတာ ဟူစတန် ကျုပ်တွေ့ခဲ့တယ်၊ ဟိုဘက်က ယူကရစ်ပင်တွေ ဘေးမှာ လူ ခြောက်ယောက်ပါတဲ့ ကား တစ်စီး ရပ်ထားတယ်၊ ပြီးတော့ လမ်းမြောက်ဘက်နားမှာလည်း လူ လေးယောက်နဲ့ ကားတစ်စီး ရှိတယ်၊ ကျုပ်က ဆေးလိပ်မီး တစ်တို့ တောင်းတယ်၊ သူတို့မှာ သေနတ်တွေနဲ့၊ ကျုပ်မြင်ခဲ့တယ်"

ဟူစတန်၏ မျက်လုံးများသည် အေးစက် မာကျောလာသည်။ ရက်စက်သော အရိပ်အငွေ့များ ယှက်သန်းလာသည်။ "ဝီလီ" ဟု လှမ်းခေါ်သည်။ "မင်း အစီအစဉ်တွေ အားလုံး အဆင်သင့် ဖြစ်ပြီလား"

ဝီလီက ဟက်ဟက်ပက်ပက် ပြုံးသည်။ "အသင့်ပါပဲ မစ္စတာ ဟူစတန်၊ ပြဿနာက စတော့မယ် ထင်လို့လား"

"အင်း သူတို့ကို ဒဏ်ရာပေါ်အောင်တော့ မလုပ်နဲ့၊ အဲဒီတစ်ချက်ကိုတော့ သတိထား၊ ဖြစ်နိုင်ရင် ငြိမ်ငြိမ်ဆိမ်ဆိမ်နဲ့ သိမ်သိမ်မွေ့မွေ့ကိုင်၊ ငါ သူတို့နဲ့တော့ တွေ့ချင်တယ်၊ ငါ့တဲထဲမှာပဲ တွေ့မယ်"

"ကျုပ် တတ်နိုင်သမျှ အကောင်းဆုံး ဖြစ်အောင် လုပ်ပါမယ်" ဟု ဝီလီက ကတိပေးသည်။

ကပွဲမှာ စနစ်တကျ မစသေး။ ဝီလီသည် ကပွဲ ပြုလုပ်မည့် ပလက်ဖောင်းပေါ်သို့ လှမ်းတက်လိုက်သည်။ "ကပွဲ စတော့မယ်၊ နေရာယူကြ" ဟု ဝီလီက အော်ပြောသည်။ အတီးသံ ရပ်သွားလေသည်။ ယောကျ်ားကလေးများနှင့် မိန်းကလေးများ၊ လူငယ် လူကြီး အမျိုးသားနှင့် အမျိုးသမီးများသည် သူ့ထက်ငါ တိုးဝှေ့ပြီး နေရာယူကြသည်။ နောက်ဆုံးတွင် အဖွဲ့ရှစ်ဖွဲ့ နေရာယူပြီး အသင့် ဖြစ်သွားသည်။ သူတို့သည် အသင့်ပြင်ကာ

တေးဂီတသံ ထွက်အလာကို စောင့်မျှော်လျက် ရှိကြလေ၏။ မိန်းကလေးများသည် သူတို့ရှေ့တည့်တည့်တွင် လက်များကို ဆန့်ထုတ်ကာ လက်ချောင်းများကို ကွေးထား ကြသည်။ ယောကျ်ားကလေး များကမူ သူတို့ ခြေထောက်များကို စည်းချက်ကျကျ လှုပ်ရှားလျက် ရှိ၏။ ပလက်ဖောင်း၏ ဘေးပတ်ပတ်လည်တွင် ထိုင်နေကြသော အဘိုးကြီး အဘွားကြီးများသည် ကလေးများကို ရင်ခွင်၌ တင်ကာ ပြုံးရယ်လျက် ရှိကြသည်။ ကပွဲနေရာနှင့် မလှမ်းမကမ်းတွင်မူ ယေရှုသခင်ကို ချစ်မြတ်နိုးသော အုပ်စုဝင်များသည် မကြာမီ ကျင်းပတော့မည့် ဒုစရိုက်ပွဲကြီးကို အလွန် မလိုလားသော ရွံရှာ စက်ဆုပ်သော မျက်နှာထားများဖြင့် စောင့်မျှော်လျက် ရှိကြကုန်၏။

အမေဂျုတ်နှင့် ရိုစာဟန်တို့သည် ခုံတန်းရှည် တစ်လုံးပေါ်၌ ထိုင်ကာ ပွဲခင်းဘက်သို့ မျှော်ကြည့်နေကြသည်။ ရိုစာဟန်အား တွဲကဖို့ ခေါ်သူ ပေါ်လာတိုင်း အမေဂျုတ်က "မဖြစ်ဘူးကွယ့်၊ သူ သိပ်နေမကောင်းလို့" ဟူသော စကားကို ဒိုင်ခံ၍ ပြောသည်။ တွဲကဖို့ ခေါ်သံကြားတိုင်း ရိုစာဟန်၏ မျက်နှာသည် ရှက်သွေး ဖြာနေတတ်သော်လည်း မျက်လုံးများကတော့ ဝင်းလဲ့ တောက်ပနေကြလေသည်။

ကပွဲ ခေါင်းဆောင်သည် ကပွဲ ပလက်ဖောင်း အလယ်တည့်တည့်တွင် ဝင်၍ ရပ်လိုက်ပြီး လက်နှစ်ဖက်ကို မြှောက်လိုက်သည်။ "အားလုံး အသင့်၊ စ"

ဂီတသံ ထွက်ပေါ်လာသည်။ သံစဉ်သာသာနှင့် မြူးမြူးကြွကြွ။ တယော၊ ဘာဂျာနှင့် ဂီတာ ပေါင်းစပ်ထိတွေ့ ထွက်ပေါ်လာသည့် အသံ။ မျက်နှာချင်းဆိုင်၍ ကနေသူများသည် ရှေ့တက်လာလိုက် နောက်ပြန်ဆုတ်သွားလိုက်။ ဤသို့ဖြင့် လေးဖက် လေးတန် မျက်နှာချင်း ဆိုင်၍ ရပ်နေကြသော အမျိုးသား အမျိုးသမီးများသည် စည်းချက်ကျကျ ရွေ့လျားလျက် ရှိကြသည်။

အတီးသည် နိမ့်ချည်တစ်ခါ မြင့်ချည်တစ်လှည့်။ တက်လိုက် ကျလိုက်။ ကပွဲ ပလက်ဖောင်းပေါ်တွင် ရွေ့လျားလျက် ရှိကြသော ဖိနပ်သံများက စည်းချက်ကျကျ။ ကြော့နေအောင် ဖြီးလာခဲ့သော မိန်းကလေးများ၏ ဆံစများသည် ဖွာရရာကျဲစ ပြုလာသည်။ ယောကျ်ားကလေးများ၏ နဖူးများတွင် ချွေးသီးများ စို့စ ပြုလာသည်။ ဘေးပတ်ပတ်လည်မှ ထိုင်နေကြသော လူကြီးများသည် လက်ဖဝါးများဖြင့် ပေါင်များ

ဒူးများကို ပုတ်၍ ခြေထောက်များကို စည်းချက်နှင့်အညီ လှုပ်၍ အတီးနှင့်အက ရေစီးကြောင်းတွင် မျောပါလျက် ရှိ၏။

အမေ့ ခေါင်းသည် ရိစာဟန်၏ နားရွက်တစ်ဖက်ဆီသို့ ရွေ့လျားသွားသည်။ "ညည်းကတော့ သိချင်မှ သိမယ်၊ ညည်းအဖေ ငယ်ငယ်တုန်းကများလေ သိပ် အက ကောင်းတာ၊ သူ့လောက် အကကောင်းတာ အမေ့တစ်သက်မှာ တစ်ခါမှ မတွေ့ဖူးဘူး" အမေ့ မျက်နှာတွင် ပြုံးပန်း ပွင့်လာသည်။ "ကပွဲကို မြင်တော့ ရှေးဟောင်း နှောင်းဖြစ်တွေကို အမေ သတိရမိတယ်ကွယ်" ဟု ဆိုသည်။ အမှန်တော့ အမေ တစ်ဦးတည်းသာ ရှေးဟောင်းနှောင်းဖြစ်များကို သတိရနေသည် မဟုတ်။ ဘေးမှ ရပ်၍ ထိုင်ကြည့်နေသူ အားလုံး၏ မျက်နှာများတွင် ရှေးဟောင်းနှောင်းဖြစ်များကို တသနေသည့် အပြုံးများသည် ထင်ဟပ်လျက် ရှိလေသည်။

"လွန်ခဲ့တဲ့ အနှစ် နှစ်ဆယ်လောက်က မက်စကိုဂျီမှာ တယောတစ်လက်နဲ့ မျက်မမြင် တစ်ယောက်ကို တွေ့ခဲ့ဖူးတယ်"

"ကတဲ့အခါမှာ တစ်ချက် ခုန်လိုက်တိုင်း သူ့ခြေဖဝါးကို လက်ဝါးနဲ့ လေးချက်တိတိ ပုတ်နိုင်တဲ့ လူတစ်ယောက် ငါ တွေ့ဖူးတယ်ကွ"

ခပ်လှမ်းလှမ်းမှ ယေရှုသခင်အား ချစ်မြတ်နိုးသူများသည် ကပွဲကို ကြည့်၍ ရှုစိရှုစိ ဖြစ်နေသော သူတို့ကလေးများအား ကြည့်နေကြသည်။ "သတိထားကြ၊ အဲဒါ ဒုစရိုက်မှုတွေပဲ၊ နင်တို့ သိကြရဲ့လား၊ ကနေတဲ့ လူတွေဟာ ငရဲပြည်ကို သွားကြဖို့ လုပ်နေကြတာ၊ ဘုရားသခင်ကို ကြည်ညို ကိုးကွယ်တဲ့ လူတွေ မမြင်အပ် မကြည့်အပ်တဲ့ ဟာတွေ၊ သိပ်ရှက်စရာ ကောင်းတာ"

"တစ်ကျော့ ထပ်ကမယ်၊ ပြီးရင် နားမယ်" ဟု ကပွဲခေါင်းဆောင်က ကြေညာသည်။ မိန်းကလေးများမှာ ချွေးများဖြင့် စိုရွှဲလျက် ရှိသည်။ မောပန်းထားသည့် အရှိန်ဖြင့် မျက်နှာများသည် နီရဲလျက် ရှိကြ၏။

ထို့နောက် အကသည် ဖြုန်းခနဲ ရပ်သွားသည်။ ထိုအခါ အပြင်မှ ကလေးများသည် ပလက်ဖောင်းပေါ်သို့ အလုအယက် အပြေးအလွှား တက်လာကြသည်။ တစ်ယောက်ကို တစ်ယောက် လိုက်၍ ဖမ်းကြသည်။ တစ်ယောက် ဦးထုပ်ကို တစ်ယောက်က ချွတ်၍

လှုပ်ပစ်ကြသည်။ တစ်ယောက်ဆံပင် တစ်ယောက်က ဆွဲကြသည်။ ဂီတအဖွဲ့ဝင်များသည် ခဏတစ်ဖြုတ် ရပ်၍ ခြေညောင်း လက်ဆန့် ပြုကြပြီး ပြန်ထိုင်ကြသည်။ ဂီတာသမားများ၏ ကြိုးညှိသံသည် ပတ်ဝန်းကျင်တွင် ပျံ့လွင့်လျက် ရှိလေသည်။

ဝီလီက အစီအစဉ်ကို ကြေညာသည်။ "နောက် တစ်ပွဲ ကမယ်" စောစောက ဝိုင်းတွင် မကခဲ့ရသော လူသစ်များ ဝင်လာကြသည်။ သူတို့အတွဲများနှင့် မျက်နှာချင်းဆိုင်၍ နေရာယူကြသည်။ တွမ်သည် သူတို့ မသက်ာခဲ့သော လူငယ် သုံးဦး၏ အနီးတွင် ရပ်လျက် ရှိ၏။ လူငယ် သုံးဦးသည် ပွဲခင်းအတွင်းသို့ ဝင်ကာ အသစ် စီပြီး ဖြစ်နေသော အဖွဲ့တစ်ဖွဲ့ကြားသို့ အတင်း ဝင်ရပ်သည်။ တွမ်က ဝီလီဘက်သို့ လက်တစ်ဖက် ဝှေ့ယမ်းပြသည်။ ဝီလီက တယောသမားကို စကားတစ်ခွန်း လှမ်းပြောသည်။ တယောသမားက သူ့ဘိုးတံဖြင့် ကြိုးများပေါ်မှ ဖြတ်၍ သံရှည် တစ်ချက်ဆွဲ၍ ထိုးလိုက်၏။ လူငယ် နှစ်ဆယ်သည် ကပွဲထဲသို့ ခပ်ဖြည်းဖြည်း လျှောက်၍ ဝင်လာကြလေ၏။ ထိုအချိန်တွင် လူငယ် သုံးယောက်သည် အဖွဲ့တစ်ဖွဲ့၏ ကြား၌ ရောက်နေကြလေပြီ။ သုံးယောက်ထဲမှ တစ်ယောက်က ပြောသည်။ "ငါ သူနဲ့ ကမယ်"

အသားဖြူဖြူ လူငယ်က အံ့အားသင့်ကာ မော့ကြည့်သည်။ "သူက ကျုပ်အတွဲဗျ"

"ဟေ့ ခွေးမသားလေး ငါ ပြောတာ နားထောင်"

အပြင်ဘက် အမှောင်ထုအတွင်းမှ လေချွန်သံတစ်ချက် ကြားရ၏။ လူငယ် သုံးယောက်သည် ညှပ်ပူးညှပ်ပိတ် ဝိုင်းထားခြင်းကို ခံနေကြရလေပြီ။ ထို့နောက် သန်မာသော လက်များကြားတွင် မရုန်းနိုင် မလှုပ်နိုင် ဖြစ်သွားကြသည်။ ထို့နောက်တွင် မူကား သူတို့ သုံးဦးအား ဝိုင်းထားသူများသည် ပွဲခင်းထဲမှ ဖြည်းဖြည်းမှန်မှန်ပင် ပြန်ထွက်သွားကြ လေ၏။

ဝီလီက အသံတစ်ချက် ပေးလိုက်သည်။

"စ"

တေးဂီတသံ၊ လူအများ၏ လှုပ်ရှားမှု၊ စည်းချက်နှင့်အညီ ချနေသည့် ခြေဆောင့်သံများ။

ကားတစ်စီး ဂိတ်ဝသို့ ရောက်လာသည်။ ဒရိုင်ဘာက လှမ်းအော်သည်။ "တံခါးဖွင့်စမ်းဟေ့၊ အထဲမှာ ရန်ပွဲတစ်ခု ဖြစ်နေပြီလို့ တို့ ကြားတယ်"

အစောင့်က တံခါးမဖွင့်။ "ကျုပ်တို့ထဲမှာ ဘာရန်ပွဲမှ မဖြစ်ဘူး၊ တီးနေသံကို မကြားဘူးလား၊ ခင်ဗျားတို့ ဘယ်သူတွေလဲ"

"လက်ထောက် ပုလိပ်အရာရှိတွေကွ"

"ဝင်ခွင့် ဝရမ်း ပါသလား"

"ရန်ပွဲတစ်ခု ရှိနေရင် ဝရမ်းပါဖို့ မလိုဘူးကွ"

"ဒီလိုဆိုလည်း ကျုပ်တို့မှာ ရန်ပွဲ မရှိဘူး" ဂိတ်စောင့်က ပြန်ပြောသည်။

ကားထဲမှ လူစုသည် အဆက်မပြတ် ထွက်လာနေသော တီးသံကို နားစွင့်သည်။ ထို့နောက် ကားကို ခပ်ဖြည်းဖြည်း မောင်းထွက်သွားပြီး လမ်းဆုံတွင် သွားရပ်ကာ ဆက်၍ စောင့်မြဲ စောင့်နေသည်။

ခပ်သုတ်သုတ် ရွေ့လျားလျက် ရှိသော လူအုပ် တစ်အုပ်သည် လူငယ် သုံးယောက်အား တင်းကျပ်စွာ ချုပ်နှောင်၍ ဆွဲလာသည်။ တစ်ဦးစီ၏ ပါးစပ်ကို လက်တစ်ဖက်စီက အုပ်၍ ပိတ်ထားသည်။ အမှောင်ထုထဲသို့ ရောက်သောအခါ လူအုပ်သည် လူစုခွဲသွားသည်။

"လုပ်ပုံကဖြင့် တကယ့်ကို သေသပ်တာပဲဗျာ" ဟု တွမ်က ချီးကျူးသည်။ သူသည် သူ တာဝန် ယူထားရသည့် လူ၏ လက်နှစ်ဖက်ကို နောက်မှနေ၍ တအား ချုပ်ကိုင်ထားလေသည်။

ဝီလီက နောက်မှ ပြေးလိုက်လာသည်။ "ကောင်းတယ်" ဟု ရေရွတ်သည်။ "အခုဆို လူ အများကြီး မလိုတော့ဘူး၊ ခြောက်ယောက်ဆိုရင် တော်ပြီ၊ ဒီကောင်တွေကို ဟူစတန်က တွေ့ချင်တယ်လို့ ပြောထားတယ်"

ဟူစတန်သည် မှောင်ရိပ်ထဲမှ ထွက်လာသည်။ "ဒီကောင်တွေလား"

"ဟုတ်ပါတယ်" ဟု ဂျူလီက ပြောသည်။ "ဒီကောင်တွေ ဝင်လာပြီး ရန်ဖြစ်ဖို့ စတာ၊ ဒါပေမဲ့ လက်တစ်ဖက်တောင် မမြှောက်လိုက်နိုင်ပါဘူး"

"ကဲ ဒီကောင်တွေကို ကြည့်ရအောင်" အကျဉ်းသားများ၏ မျက်နှာကို ဟူစတန် ဘက်သို့ လှည့်ပေးသည်။ သူတို့ ခေါင်းများကတော့ ငိုက်စိုက်။ ဟူစတန်က တစ်ယောက်ချင်းစီ၏ မျက်နှာကို လက်နှိပ်ဓာတ်မီးဖြင့် ထိုးကြည့်သည်။ "မင်းတို့ ဘာရလို့ ဒီလို လုပ်ရတာလဲ" ဟု မေးသည်။ အဖြေ မရ။ "ဘယ် ငရဲသားက မင်းတို့ကို ခိုင်းတာလဲ"

"ကျုပ်တို့ ဘာမှ မလုပ်ဘူး၊ ကချင်လို့ လာတာ"

"မဟုတ်ဘူး၊ မင်းတို့ ဖြီးတာ" ဟု ဂျူလီက ဝင်ပြောသည်။ "မင်း ဟို ချာတိတ်ကို ရန်စတာ"

တွမ်က လှမ်းပြောသည်။ "ဒီမယ် မစ္စတာ ဟူစတန်၊ ဒီကောင်တွေ ကပွဲအလယ်ကိုလည်း ရောက်ရော တစ်ယောက်ယောက်က လေချွန်ပြီး အချက်ပေးတယ်"

"ငါ သိတယ်၊ လေချွန်သံလည်း ကြားရော ပုလိပ်တွေလည်း ဂိတ်ပေါက် ရောက်လာတာပဲ" သူသည် နောက်ပြန် လှည့်သွားသည်။ "မင်းတို့ကို တို့က ဘာမှ မလုပ်ဘူး၊ စိတ်ချ၊ တို့ ကပွဲကို ဖျက်ဖို့ မင်းတို့ကို ဘယ်သူ ခိုင်းသလဲ" သူက စကား ပြန်အပေးကို စောင့်သည်။ "မင်းတို့ဟာ ငါတို့နဲ့ တစ်လှေတည်းစီး တစ်ခရီးတည်း သွားတွေပါ၊ ဘာကြောင့် ဒီလို လုပ်ကြရတာလဲ"

"လူဆိုတာ စားစရာ ရှိအောင်တော့ လုပ်ရမှာပဲဗျ"

"ကဲ ဒါတွေ ထားလိုက်ပါတော့၊ မင်းတို့ကို ဘယ်သူက ခိုင်းတာလဲ၊ ဒီလို လုပ်ပေးဖို့ ဘယ်သူက ငွေပေးသလဲ"

"ဘယ်သူကမှ မပေးဘူး"

"ဟုတ်တာပေါ့၊ အခုလိုဆိုတော့ ဘယ်သူကမှ မပေးတော့ဘူးပေါ့၊ ရန်ပွဲ ဖြစ်အောင် လုပ်ပေးနိုင်ရင် ငွေရမယ်၊ မဖြစ်ရင် ငွေ မရဘူး၊ ရှင်းပါတယ်၊ ငါ ပြောတာ မဟုတ်ဘူးလား"

"ခင်ဗျားတို့ ကြိုက်သလိုလုပ်၊ ကျုပ်တို့ကတော့ မပြောဘူး" တစ်ဦးက လေသံတင်းတင်းဖြင့် ပြောသည်။

ဟူစတန်သည် ခေါင်းကို ငိုက်စိုက်ချကာ စဉ်းစား ချိန်ဆလျက် ရှိ၏။ အတန်ကြာမှ လူငယ် သုံးဦးအား မော့ကြည့်ပြီး လေသံအေးအေးဖြင့် ပြောသည်။ "ကောင်းပြီ၊ မင်းတို့ သဘောပဲ၊ မပြောချင် မပြောနဲ့၊ ရတယ်၊ ဒါပေမဲ့ ငါ ပြောလိုက်မယ်၊ ကိုယ့်ဘဝတူတွေရဲ့ နောက်ကျောကို ဓားနဲ့ မထိုးပါနဲ့ကွာ၊ ငါတို့ဟာ ငါတို့ဘဝကို ပြန်ပြီး ထူထောင်နေကြတာပါ၊ စည်းနဲ့ကမ်းနဲ့ နေတယ်၊ ပျော်စရာ ရွှင်စရာတွေကို နည်းလမ်းကျကျ ရှာတယ်၊ ဒါတွေကို တစ်ပိုင်းစီ တစ်စစီ ဖြစ်သွားအောင် မလုပ်ချင်ကြပါနဲ့၊ သင့် မသင့် စဉ်းစားကြပေါ့ကွာ၊ မင်းတို့ဟာ ကိုယ့်ကိုယ်ကို ရန်ပြုနေကြတဲ့ လူတွေပလား၊ ကဲ ငါ့လူတို့ သူတို့ကို နောက်ဘက် ခြံစည်းရိုးကနေ အပြင်ကို ထုတ်လိုက်ကြ၊ သူတို့ကို ထိုးလား ကြိတ်လား မလုပ်ကြနဲ့၊ သူတို့အနေနဲ့ သူတို့ ဘာတွေ လုပ်နေတယ် ဆိုတာတောင် သိတဲ့ကောင်တွေ မဟုတ်ဘူး"

အဖွဲ့သားများက လူငယ် သုံးဦးကို စခန်း နောက်ဘက်သို့ ဆွဲခေါ်သွားသည်။ ဟူစတန်သည် သူတို့လူစု သွားရာဘက်သို့ မျက်ခြည်မပြတ် လိုက်ကြည့်နေသည်။

ဂျူလီက ပြောသည်။ "တစ်ချက်စီလောက်တော့ ဖနောင့်နဲ့ ပေါက်လွှတ်လိုက်ကြရအောင်ကွာ"

"မလုပ်နဲ့" ဝီလီက လှမ်းအော်သည်။ "သူတို့ကို ဘာမှ မလုပ်ဘူးလို့ ပြောထားပြီးပြီကွ"

"တစ်ချက်တည်းပါဗျာ၊ တစ်ချက်စီဆို တော်ပါပြီ" ဟု ဂျူလီက တောင်းပန်သည်။ "ခြံစည်းရိုးပေါ် ရောက်မှ ကန်ချလိုက်မှာပါ"

"မလုပ်နဲ့ဆိုကွာ" ဝီလီက ဖွတ်တားသည်။

"ဟေ့ကောင်တွေ နားထောင်စမ်း" ဟု ဂျူလီက အော်သည်။ "ဒီတစ်ကြိမ်တော့ မင်းတို့ကို ဘာမှ မလုပ်ဘဲ လွှတ်လိုက်မယ်၊ ဒါပေမဲ့ အခု ငါ ပြောတဲ့စကားကို မြဲမြဲမှတ်သွား၊ ဟိုကျရင် ပြန်ပြော၊ နားလည်လား၊ နောက်တစ်ခါ ဒါမျိုး လာလုပ်ရင် ဘယ်ကောင်တွေပဲ

ဖြစ်ဖြစ် ဖနောင့်စာ ကျွေးမယ်၊ ပြီးတော့မှ တစ်ကိုယ်လုံးရှိတဲ့ အရိုးတွေကို ချိုးပစ်မယ်၊ မင်းတို့ လူတွေကို ပြောမပြဘဲ မနေနဲ့ ကြားလား၊ ဟူစတန်က ပြောတယ်၊ မင်းတို့ဟာ ငါတို့နဲ့ ဘဝတူတွေပါတဲ့၊ ဟုတ်ချင်လည်း ဟုတ်မှာပေါ့လကွာ၊ ငါကတော့ မင်းတို့လို ကောင်စားတွေကို တို့နဲ့ ဘဝတူလို့ တွေးရမှာတောင် မတွေးချင်ဘူး၊ ရွံရှာ စက်ဆုပ်တယ် သိလား"

သူတို့သည် ခြံစည်းရိုးနားသို့ ရောက်လာကြသည်။ မှောင်ရိပ်ခို၍ ထိုင်နေသော အစောင့် နှစ်ယောက်သည် မတ်တတ်ရပ်ကာ ဆီးကြိုလျက် ရှိကြ၏။ "ဒီဆရာတွေက ကပွဲပြီးအောင် မနေတော့ဘူး၊ စောစော ပြန်ချင်တယ် ပြောနေလို့ကွ" ဝီလီက လေသံ ပျော့ပျော့ဖြင့် လှမ်းပြောသည်။ လူ သုံးယောက်သည် ခြံစည်းရိုးကို ကျော်၍ တစ်ဖက်သို့ ဆင်းကာ အမှောင်ထု အတွင်းသို့ တိုးဝင် ပျောက်ကွယ်သွားကြလေ၏။

တွမ်တို့ လူစုသည် ကပွဲဘက်သို့ ကပျာကယာ ပြန်လျှောက်လာကြသည်။ တီးဝိုင်းဆီမှ "အဘိုးကြီး ဒန်တပ်ကား" ဟူသော တေးသွားသည် ထွက်ပေါ်လာလျက် ရှိလေသည်။

စခန်းရုံး ဆင်ဝင်အောက်ရှိ လူစုသည် ယခုအချိန်ထိ ထိုင်၍ စကား ပြောနေကြဆဲ။ ဂီတသံသည် သူတို့ထံ ရောက်လာလျက် ရှိ၏။

"အပြောင်းအလဲ တစ်ခုကတော့ လာနေတာ အမှန်ပဲကွ၊ ဘာလဲ ဆိုတာတော့ ကျုပ်လည်း မသိဘူး၊ ဒီအပြောင်းအလဲကို ကျုပ်တို့တောင် မြင်ချင်မှ မြင်ရမယ်၊ အပြောင်းအလဲ ဖြစ်လာတဲ့ အထိတော့ ကျုပ်တို့ အသက်ရှင်ချင်မှ ရှင်မယ်၊ ဒါပေမဲ့ သူ လာနေတာကတော့ သေချာတယ်၊ လူတိုင်းမှာ စိတ်လှုပ်ရှားမှုကတော့ ရှိနေပြီ၊ တစ်ခုတော့ ရှိတယ်၊ လူတွေအနေနဲ့ စိတ်တွေက သိပ်လှုပ်ရှားလွန်းအား ကြီးနေတော့ ဘယ်လို အပြောင်းအလဲမျိုး ဖြစ်လာလိမ့်မယ် ဆိုတာ မမှန်းဆနိုင်ကြဘူး"

ဦးထုပ်နက်၏ ဦးခေါင်းသည် ပြန်ထောင်လာသည်။ မီးရောင်သည် သူ့မုတ်ဆိတ်မွေး ပေါ်သို့ လက်ခနဲ ကျလာသည်။ သူသည် ကျောက်စရစ်ခဲများကို ကုန်း၍ ကောက်ကာ လက်မနှင့် တောက်၍ တောက်၍ ပစ်နေသည်။ "ကျုပ်လည်း မသိနိုင်ဘူး၊ ခင်ဗျား ပြောသလိုပဲ၊ သူ လာနေတာတော့ အမှန်ပဲ၊ ကျုပ် သူငယ်ချင်းတွေက အက်ကရွန်နဲ့ အိုဟိုင်းယိုးဘက်မှာ ဘာတွေ ဖြစ်နေတယ်ဆိုတာ ပြောပြကြတယ်၊ ရာဘာ ကုမ္ပဏီတွေမှာ

ဖြစ်တာတဲ့၊ သူတို့ လုပ်ခ ဈေးပေါပေါနဲ့ ရတဲ့ တောင်ပေါ်သားတွေကို ငှားကြတယ်၊ အဲဒီ တောင်ပေါ်သားတွေက အလုပ်သမား အစည်းအရုံး ဝင်ကြတယ်တဲ့၊ စတာကတော့ အဲဒါပဲ၊ ဖြစ်တာက ငရဲပွက်သလို ဖြုန်းခနဲ ထဖြစ်တာမျိုး၊ စတိုးဆိုင်ရှင်တွေနဲ့ လုပ်ငန်းရှင်တွေက လူစုပြီး စစ်တပ်ဖွဲ့သလို ဖွဲ့ကြတယ်၊ စစ်ရေးတွေ ဘာတွေ ပြကြတယ်၊ အနီတွေကို ချမယ် ဘာမယ်နဲ့ လုပ်ကြတယ်၊ သူတို့က အက်ကရွန်မှာ ဖွဲ့ထားတဲ့ အလုပ်သမား အစည်းအရုံး မှန်သမျှကို ဖြိုခွဲပစ်ဖို့ ကြံကြတာ၊ တရားဟောဆရာတွေကိုလည်း ငှားပြီး တရားဟောခိုင်းတယ်၊ သတင်းစာတွေ ကလည်း ရေးတယ်"

ဦးထုပ်နက်သည် စကားကို ဆက်မပြောဘဲ ကျောက်စရစ်ခဲ လက်တစ်ဆုပ်စာကို ထပ်ကောက်လိုက်ပြန်သည်။ ပြီးတော့ တစ်လုံးချင်း လက်နှင့် တောက်၍ ပစ်နေပြန် လေသည်။ "လွန်ခဲ့တဲ့ မတ်လထဲကပေါ့၊ တနင်္ဂနွေနေ့ တစ်နေ့မှာ တောင်ပေါ်သား ငါးထောင်ဟာ မြို့ပြင်ကို ကြက်ဆင်ပစ် ထွက်ကြသတဲ့၊ နည်းတာ မဟုတ်ဘူး၊ လူ ငါးထောင်၊ ရိုင်ဖယ် သေနတ်တွေ ကိုင်ပြီး မြို့ထဲက ဖြတ်သွားကြတာ၊ အပြန်ကျတော့လည်း မြို့ထဲကပဲ ဖြတ်ပြန်တာ၊ သူတို့ လုပ်သွားတာကတော့ ပြောင်ပြောင်ပဲ ဆရာကြီးရေ့၊ အဲဒီနောက်တော့ ဘာပြဿနာမှ ထပ်မဖြစ်တော့ဘူး၊ သူတို့ အစည်းအရုံးတွေကိုလည်း ဘာမှ မလုပ်ရဲတော့ဘူး၊ လူတစ်ယောက် မှလည်း အသတ် မခံရဘူး၊ အရိုက်အနက်လည်း မခံရဘူး၊ သွေးတစ်စက်မှလည်း မကျဘူး၊ အားလုံး အေးအေးဆေးဆေးနဲ့ ပြီးသွားတယ်၊ စတိုးဆိုင်ရှင်တွေ အလုပ်ရှင်တွေကလည်း ဘာမှ မလုပ်ရဲတော့ဘူး" အချိန်အတော်ကြီး ကြာမျှ ငြိမ်ဆိတ်နေသည်။ ထို့နောက် ဦးထုပ်နက်က သူ့စကားကို ဆက်သည်။ "ဒီမှာတော့ဖြင့် ရက်ရက်စက်စက် လုပ်တာ ခံနေရတယ်၊ ကျုပ်တို့ စခန်းတွေကို မီးရှို့တယ်၊ ကျုပ်တို့ လူတွေကို ရိုက်ကြ နက်ကြတယ်၊ အဖြစ်က ဘယ်လောက် ဆိုးလဲ၊ ကျုပ် တွေးကြည့်တယ်၊ ကျုပ်တို့ အားလုံး သေနတ် ကိုင်ကြရင် ကောင်းမလား၊ ပြီးတော့ အပျော်တမ်း ကြက်ဆင်ပစ် ကလပ်ဖွဲ့ရင် ကောင်းမလား၊ ပြီးတော့ တနင်္ဂနွေနေ့တိုင်း သေနတ်တွေကိုင်ပြီး အစည်းအဝေးလုပ်ရင် ကောင်းမလား"

နားထောင်နေသူများက ဦးထုပ်နက်ကို ဖျတ်ခနဲ မော့ကြည့်သည်။ ထို့နောက် ခေါင်းများကို ပြန်ငုံ့ကာ မြေပြင်ကို စူးစိုက်၍ ကြည့်နေကြသည်။ သူတို့ ခြေထောက်များ သည် လှုပ်ရှားလာကြ၏။ ပြီးတော့ နေရာပြင်၍ ထိုင်လိုက်ကြလေသည်။

* * *

## အခန်း (၂၅)

ကယ်လီဖိုးနီးယား ပြည်နယ်၏ ဆောင်းအကုန် နွေအကူး ကြားကာလ ရာသီသည် အလွန် လှပသည်။ သာတောင့် သာယာလည်း ရှိ၏။ ဤရာသီတွင် တောင်ကြားလွင်ပြင်များ အတွင်းရှိ သီးပင်များသည် ပွင့်ဖူးကြလေပြီ။ ထို အဖူးအပွင့်များမှ မွှေးကြိုင်သော ရနံ့များသည် တောင်ကြားတစ်လျှောက်တွင် တသင်းသင်း ပျံ့လျက် ရှိနေပြီ ဖြစ်၏။ ရေတိမ်ရာ ပင်လယ်ကမ်းစပ်များတွင်လည်း လှိုင်းခေါင်းဖြူများကို မြင်ရတွေ့ရပြီ ဖြစ်၏။ ထို့နောက် စပျစ်ပင်များ၏ အဆစ်ပေါင်းများမှ ပထမဆုံး ဦးဦးဖျားဖျား ထွက်လာသည့် အနွယ်များသည် ရေတံခွန်ငယ်များ သွယ်တန်း စီးဆင်းကျနေသည့်နှယ် အောက်ဘက်သို့ တွဲလောင်း ဖြာကျကာ ပင်စည်ကို ဖုံးအုပ်စ ပြုလေပြီ။ အသစ်တစ်ဖန် ပြန်လည် ထွက်ပေါ်လာသော မြက်ပင် ပေါင်းပင်တို့ဖြင့် စိုပြည် စိမ်းလန်းလျက် ရှိပြီ ဖြစ်သော တောင်ကုန်းများမှာလည်း ရှုမျှော်၍ မဆုံး။ မုန်လာ ဂေါ်ဖီ စသော ဟင်းသီးဟင်းပင်များဖြင့် ပြည့်လျက်ရှိသော အခင်းများသည် ပြန့်ပြူးသော မြေပြင် တစ်လျှောက်တွင် အတန်းလိုက် အတန်းလိုက် အစီအရီ။

ထို့နောက်တွင်မူ အပင်များတွင် အရွက်များ ထွက်လာကြလေသည်။ သီးပင်များ ထက်ဆီမှ ပွင့်ချပ် ပွင့်ဖတ်များမှာလည်း တဖွဲဖွဲ ကျဆင်းကာ မြေပြင်ကို ပန်းရောင်နှင့် အဖြူရောင် ကော်ဇောများ ခင်းပေးလျက် ရှိ၏။ အပွင့်များ၏ အလယ်ဗဟိုများသည် ဖူးလာပြီး တဖြည်းဖြည်းနှင့် ကြီးကြီးလာသည်။ ပြီးတော့ အသွေးအရောင်များ ပြောင်းလာကြလေ၏။ ဤသို့ဖြင့် ချယ်ရီသီးများနှင့် ပန်းသီးများ၊ မက်မွန်များနှင့် သစ်တော်သီးများ သီးလာကြသည်။ ထိုအခါ ကယ်လီဖိုးနီးယား ပြည်နယ် တစ်နယ်လုံးသည် သီးနံ့ထွက်ကုန်များဖြင့် အသစ်တစ်ဖန် ပြန်လည် လှုပ်ရှားလာသည်။ ရှင်သန်နိုးကြွလာသည့် အသီးများသည် တစ်နေ့တခြား ကြီးသည်ထက် ကြီးလာကြ၏။ အသီးများ၏ အလေးချိန်ကြောင့် သစ်ကိုင်းများသည် တဖြည်းဖြည်းချင်း ကွေးညွတ်၍ ကျလာကြသည်။ သစ်သီးများ၏ အလေးချိန်ဒဏ်ကို ခံနိုင်ရန် အလို့ငှာ သစ်ကိုင်းများ အောက်မှ သစ်သားဒေါက်ကလေးများ ခံပေးကြရသည်။

အခိုင်လိုက် အတွဲလိုက် ဖြစ်နေသော ထိုသီးပင်များ၏ နောက်တွင် သစ်ပင်များ အကြောင်းကို နားလည်သော သစ်သီး သစ်ပင်များဆိုင်ရာ ဗဟုသုတနှင့် ပြည့်စုံသော၊ အပင်များ ပြုစုပျိုးထောင်မှု လုပ်ငန်းကို ကျွမ်းကျင်သော အမျိုးသားများသည်

မားမားမတ်မတ် ရပ်လျက် ရှိကြ၏။ သူတို့သည် မျိုးစေ့များကို လက်တွေ့စိုက်ပျိုးနေကြသူများ ဖြစ်၏။ သူတို့သည် မြေပေါ်နှင့် မြေအောက်၌ တည်ရှိနေကြသော အင်းဆက်ပိုးများ၊ မှိုတက်ခြင်း၊ ပုပ်ခြင်း စသော အပင်ရောဂါများ၏ ဒဏ်ကို ကြံ့ကြံ့ခိုင်သည့် အမြစ်များ၊ ပင်စည်ထွန်းကားသည့် သီးပင်များ ဖြစ်လာအောင် စိုက်ပျိုးသော နည်းလမ်းများနှင့် အတတ်ပညာများကို ဖွံ့ဖြိုး တိုးတက်လာအောင် ကြိုးပမ်း အားထုတ်နေကြသူများ ဖြစ်၏။ ဤ အမျိုးသားများသည် မျိုးစေ့များကို မျိုးကောင်း မျိုးသန့်များ ဖြစ်လာအောင်၊ အမြစ်များကို ကြံ့ကြံ့ခံနိုင်သော အမြစ်များ ဖြစ်လာအောင် သတိကြီးစွာထား၍ မနားမနေ ကြိုးပမ်း လုပ်ကိုင်နေကြသူများ ဖြစ်လေသည်။

ရောဂါများ မကျရောက်အောင် အပင်များကို ဆေးဖျန်းပေးနေကြသော၊ စပျစ်သီးများကို ဆာလ်ဖာမှုန့် ဖြူးပေးနေကြသော၊ ရောဂါ ကျရောက်၍ မှိုတက်၍ နာနေ ရိနေ ဆွေးနေသည့် အခက်အလက် အနွယ်များကို ဖြတ်တောက် ပေးနေကြသော ဓာတုဗေဒ ပညာရှင် အမျိုးသားများလည်း ရှိ၏။ သစ်ပင်များတွင် ရောဂါများ မကျရောက်အောင် ကြိုတင် ကာကွယ်ပေးနေကြသည့် ဆရာဝန်များ၊ နယ်စပ်မှနေ၍ သစ်သီးများကို ကိုက်သည့် ပိုးကောင်များ မဝင်လာအောင် စောင့်ကြပ် တားဆီးနေကြသည့် လူများ၊ အနာရောဂါ ကျရောက်စွဲကပ်နေသည့် သစ်ပင်များမှ တစ်ဆင့် တခြား သစ်ပင်များသို့ မကူးအောင် အမြစ်မှ နုတ်၍ မီးရှို့၍ ဖယ်ရှား ပစ်နေကြသည့် လူများ။

ဤလူအားလုံးသည် ဗဟုသုတနှင့် ပြည့်စုံသော ပညာရှင်များ ဖြစ်လေသည်။ အပင်ငယ်များကို ကိုင်းဆက်၍ မျိုးကူးနေကြသူများ၊ စပျစ်ပင်များကို ပျိုးထောင်နေကြသူများသည် ရှိရှိသမျှ ပညာရှင်အားလုံးထဲတွင် အတော်ဆုံးသော ပညာရှင်များ ဖြစ်၏။ အဘယ်ကြောင့်ဆိုသော် သူတို့ လူစု၏ အလုပ်သည် အလွန်နူးညံ့ သိမ်မွေ့လွန်းသော ခွဲစိတ်ကု ဆရာဝန်တစ်ဦး၏ အလုပ်မျိုး ဖြစ်နေသောကြောင့်ပေတည်း။ ဤလူစုတွင် ခွဲစိတ်ကု ဆရာဝန်များ၏ လက်မျိုး ရှိရမည် ဖြစ်၏။ အပင်ငယ်၏ အခွံအခေါက်ကို လှီးထုတ်ပစ်ခြင်း၊ ကိုင်းဆက်ခြင်းနှင့် အနာများကို ကျပ်စည်းခြင်း စသော လုပ်ငန်းများအတွက် ခွဲစိတ်ကု ဆရာဝန်များ၏ နလုံးသားမျိုး ပိုင်ဆိုင်ကြရမည် ဖြစ်၏။ ဤလူများသည် ကြီးကျယ် မြင့်မြတ်သောသူများ ဖြစ်ချေသည်။

စိုက်ပျိုးရေး သမားများသည် လူပ်ရှားစ ပြုလေပြီ။ မြက်များကို ရိတ်ကာ အောက်ဘက်မှ အဆီအနှစ်ရှိသော မြေများကို ဖော်ကြသည်။ အနီးအနားတစ်ဝိုက်တွင်

ရေတွင်းငယ်များ တူးကြသည်။ သူတို့ စိုက်ထားသည့် သစ်ပင်များမှ ရေများကို သောက်ပစ်မည့် ပေါင်းပင် မြက်ပင်များ၏ ရေသောက်မြစ်များကို ဖျက်ဆီး သုတ်သင်ကြသည်။

အသီးများသည် တဖြည်းဖြည်း ရင့်သည်ထက် ရင့်လာကြသည်။ အနွယ်များပေါ်၌ အပွင့်များ ပွင့်လာကြသည်။ အနွေးဓာတ် တိုးလာသည်နှင့်အမျှ အရွက်များသည် အစိမ်းရောင်သို့ ကူးပြောင်းလာကြ၏။ ဆီးသီးများသည် ငှက်ဥများသဖွယ် ရှည်မျောမျော ဖြစ်လာသည်။ ထိုအခါ ဆီးကိုင်းများသည် အသီးများ၏ အလေးချိန်ကြောင့် အောက်သို့ ကိုင်းညွတ်၍ ကျလာကြလေ၏။ သစ်တော်သီးများသည်လည်း အရွယ်အစား ငယ်ငယ်မှ အလုံးကြီးကြီး ဘဝသို့ ရောက်လာသည်။ မက်မွန်သီးများပေါ်တွင်လည်း အမွေးန ကလေးများ ထွက်စပြုလေပြီ။ စပျစ်ပွင့်များသည် အလွန် သေးငယ်သော သူတို့၏ ပွင့်ဖတ်ကလေးများကို ခွာချလိုက်ကြလေသည်။ ထိုအခါ ပုတီးစေ့နှင့် တူသော ခပ်မာမာ အလုံးကလေးများသည် အဖုးကလေးများ ဘဝသို့ ရောက်လာကြလေ၏။

လယ်ကွင်းများအတွင်း၌ အလုပ် လုပ်နေကြသူများနှင့် ခပ်သေးသေး ခြံများ၏ ပိုင်ရှင်များသည် သူတို့၏ သီးနှံများကို စောင့်ကြည့်ကာ ခန့်မှန်းချင့်တွက်ခြင်းကို ပြုကြလေသည်။ ဤနှစ်သည် သီးနှံ အထွက်တိုးသောနှစ် ဖြစ်၏။ သူတို့၏ အတွေ့အကြုံ တတ်ထားသည့် ပညာနှင့် ရှိထားသည့် ဗဟုသုတများကြောင့် အထွက်ကောင်းသောနှစ် ဖြစ်ရမည် ဟူသော အသိဖြင့် ဂုဏ်ယူကြသည်။ သူတို့တွင် ရှိနေသည့် ဗဟုသုတဖြင့် သူတို့၏ လောကကို ပြုပြင် ပြောင်းလဲ နိုင်ခဲ့ကြပြီ။ အပင်တိုတိုနှင့် သေးကွေး ကြုံလှီခဲ့သော ဂျုံပင်များကို ကြီးထွားလာအောင်သာမက အထွက်ကောင်းအောင်ပါ လုပ်နိုင်ခဲ့ကြပြီး အလုံးသေး၍ ချဉ်သော ပန်းသီးများသည် အရွယ်ပမာဏ ကြီးလာရုံမျှမက ချိုမြ၍ အရသာထူးသော အသီးများ ဖြစ်လာကြလေပြီ။

သစ်ပင်ကြို သစ်ပင်ကြားတွင် စိုက်ခဲ့ရပြီး ငှက်စာမျှသာ ဖြစ်ခဲ့သော စပျစ်ပင်များမှ တစ်ဆင့် စပျစ်ပင် အမျိုးပေါင်း အများအပြားကိုလည်း မွေးထုတ်နိုင်ခဲ့ကြပြီ ဖြစ်၏။ အနီရောင်နှင့် အနက်ရောင်၊ အစိမ်းရောင်နှင့် ပန်းနုရောင်၊ ခရမ်းရောင်နှင့် အဝါရောင် စသည် စသည်ဖြင့် အရောင်အမျိုးမျိုးရှိ၍ သူ့ကိုယ်ပိုင် အရသာနှင့် သူ ရှိနေသော စပျစ်သီး အမျိုးမျိုးပေါင်း များစွာကို ရအောင် စိုက်ပျိုးနိုင်ခဲ့ကြပြီ ဖြစ်၏။ စံပြ လက်တွေ့ စိုက်ပျိုးရေး စခန်းများမှ လူများသည် သီးနှံ အသစ်အဆန်းများကို တီထွင် ဖန်တီးနိုင်ခဲ့ကြသည်။ ဆီးသီး

အမျိုးပေါင်း လေးဆယ်၊ အခွံ ပါးပါးနှင့် သစ်ချသီး စသည်များ။ သူတို့သည် မနားမနေ ကြိုးစား အားထုတ်၍ အလုပ် လုပ်ကြသည်။ ရွေးခြယ်ခြင်း၊ မျိုးစပ်ခြင်း၊ ပြုပြင် ပြောင်းလဲပေးခြင်း စသော နည်းများကို သုံးကြသည်။ ထို့ပြင်လည်း သီးနှံ အထွက်ကောင်းရေး အတွက် မြေကြီးကိုပါ စေခိုင်းခဲ့ကြလေသည်။

ချယ်ရီသီးများ မှည့်လာသည်။ ပေါင်ဝက်မှ တစ်ဆင့်သာ တန်သည်။ ဒီဈေးလောက်နဲ့တော့ ဘာလို့ ခူးနေရတော့မှာလဲ၊ ကျုပ်တို့ ခူးလို့ မဖြစ်နိုင်တော့ဘူး။ ချယ်ရီသီး အနက်နှင့် အနီ ဟူ၍ နှစ်မျိုး နှစ်စား ပေါ်လာသည်။ အလုံးလည်း လှ၊ အရသာကလည်း ချို၊ ငှက်များက ထိုးကြ ဆိတ်ကြ စားကြသဖြင့် တစ်ခြမ်းပဲ့ကုန်သည်။ ထိုတစ်ခြမ်းပဲ့များ အပေါ်တွင် ပျားများ လာနားကြသည်။ မြေပေါ်တွင်မူ ချယ်ရီစေ့များ။

ခရမ်းရောင် ဆီးသီးများသည် နူးညံ့သည်။ ချိုသည်။ ကျုပ်တို့အနေနဲ့ကတော့ မကောက်နိုင်ကြတော့ဘူး။ အခြောက်လည်း မလှန်းနိုင်ကြတော့ဘူး။ ဆာလ်ဖာမှုန့်လည်း မဖြူးနိုင်ကြတော့ဘူး။ လုပ်ခငွေလည်း မပေးနိုင်တော့ဘူး။ လုပ်ခ ဘယ်လောက်ပဲ သက်သာ သက်သာ လုပ်လို့ မဖြစ်တော့ဘူးဗျ။ ဤသို့ဖြင့် ခရမ်းရောင် ဆီးသီးများသည် မြေပြင်ပေါ်တွင် ကော်ဇောခင်းထားသလို ဖြစ်လာသည်။ အခွံများသည် တဖြည်းဖြည်းနှင့် ရှုံ့တွလာသည်။ ယင်များ တစ်အုပ်ပြီး တစ်အုပ် ရောက်လာကာ နားကြ အုံကြ စားကြ သောက်ကြသည်။ ထိုအခါ တောင်ကြားတစ်လျှောက်လုံးတွင် ဆီးသီးပုပ် အနံ့များဖြင့် လှိုင်လျက် ရှိလေသည်။

သစ်တော်သီးများတွင် အဝါရောင် သန်းလာသည်။ နူးညံ့ ပျော့ပျောင်းလာသည်။ တစ်တန်ကို ငါးဒေါ်လာ။ ပေါင် လေးထောင့်ငါးဆယ်ဝင် သေတ္တာများ အတွက် ငါးဒေါ်လာမျှသာ ဈေးရှိသည်။ အပင်များကို ဆေးဖျန်းသည်။ ပြန်လည် ပြုပြင်သည်။ အသီးများကို ခူး၍ သေတ္တာများထဲ ထည့်သည်။ ထရပ်ကားကြီးများပေါ် တင်၍ စည်သွတ်ဘူး အလုပ်ရုံသို့ ပို့သည်။ ဈေးကတော့ ပိုမပေး။ ပန်းသီး သေတ္တာ အလုံးလေးဆယ်အတွက် ငါးဒေါ်လာမျှသာ ရသည်။ ဒီဈေးနဲ့ ဆိုရင်တော့ အလုပ် မဖြစ်ဘူး။ ကျုပ်တို့ မပို့နိုင်ဘူး။ ထိုအခါ အဝါရောင် သန်းနေကြပြီ ဖြစ်သော သစ်တော်သီးများသည် မြေကြီးပေါ်သို့ ကျကာ ကွဲအက်ကုန်လေ၏။ ဤသို့ဖြင့် သစ်တော်သီး ပုပ်နံ့များသည် တောင်ကြားတစ်လျှောက်တွင် လှိုင်လာလေသည်။

ထို့နောက်တော့ စပျစ်သီးများ။ စပျစ်ဝိုင် အကောင်းစားတော့ ကျုပ်တို့ မလုပ်နိုင်ဘူး။ လူတွေကလည်း အကောင်းစား စပျစ်သီးဝိုင်တော့ မဝယ်နိုင်ကြပါဘူးဗျာ။ ဟုတ်ဖူးလား။ ကဲ စပျစ်သီးတွေ ခူးကြတော့။ အကောင်းရော၊ အပုပ်ရော၊ အစိမ်းရော၊ အမှည့်ရော။ နကျီအုံတွေ ကပ်နေတယ်၊ ဟုတ်လား၊ ဖယ်မနေစမ်းပါနဲ့။ ထည့်လိုက်စမ်းပါ။ ရိုးတံတွေ အနွယ်တွေ ပါတော့ကော ဘာတတ်နိုင်မှာလဲ။ တစ်လုံးချင်းစီ ခူးပြီး ထည့်နေဖို့ အချိန်မှ မရှိတာ။ ကြိတ်သာကြိတ်၊ အားလုံးသာ ထည့်ကြိတ်ကွာ။

သို့သော်လည်း အရက်စည်များအတွင်း၌ မှိုတက်နေသည်။ ထိုစည်များအတွင်းသို့ စပျစ်ဝိုင်များကို ထည့်လိုက်သောအခါ ဝိုင်နံ့မထွက်။ ချဉ်စုတ်စုတ် ပုပ်အဲ့အဲ့ အနံ့။

အိုကွာ၊ ကိစ္စ မရှိပါဘူး။ ဘာပဲဖြစ်ဖြစ် ဒီအထဲမှာ အယ်လ်ကိုဟောတော့ ပါပါတယ်။ သောက်ရင်တော့ မူးနိုင်တာပဲ။

ဤသို့ဖြင့် အသေးစား လယ်သမားများ၏ အပေါ်သို့ အကြွေးများသည် ဒီရေ တက်သည့်အလား တက်၍ တက်၍လာသည်။ သူတို့အနေဖြင့် သီးပင်များကို ပြုစုကြသည်။ ဆေးဖျန်းကြသည်။ သို့သော်လည်း သီးလာသည့် အသီးများကျတော့ မရောင်းရ။ သူတို့အနေဖြင့် သီးပင်များကို သီးနှံထွက်ကောင်းအောင် နည်းအမျိုးမျိုးဖြင့် ကြိုးစား၍ ပြုပြင်ကြသည်။ ဖန်တီးကြသည်။ သို့သော်လည်း သီးလာသည့် အသီးများကို မခူးနိုင်၊ မဆွတ်နိုင်။ အတတ်ပညာရှင်များသည် မနားမနေ အလုပ် လုပ်ကြသည်။ ကြံဆကြသည်။ တီထွင်ကြသည်။ စဉ်းစား စိတ်ကူးကြသည်။ သို့သော်လည်း အသီးများက မြေပေါ်၌ လဲလျောင်းလျက် ရှိကြလေသည်။ ကွဲအက် ကြေမွကာ ပုပ်နေကြလေသည်။ အရက်စည်များ အတွင်း၌ ထုထောင်း ကြိတ်ခြေ၍ ထည့်ထားသော စပျစ်သီး အပုပ်နံ့များသည် တထောင်းထောင်းထကာ ပတ်ဝန်းကျင် လေထုကို ဆိုးရွားသော အနံ့များဖြင့် ညစ်ညမ်းအောင် ပြုလျက် ရှိသည်။ ဝိုင်အရက်ကို မြည်းကြည့်ပြန်တော့လည်း စပျစ်သီးအနံ့၊ စပျစ်သီး အရသာ လုံးဝ မရ။ ဆာလ်ဖာနံ့နှင့် ချဉ်စုတ်စုတ် အရသာများသာ ရှိ၏။ ပြီးတော့ အယ်လ်ကိုဟော အရသာ။

နောက်နှစ်တော့ ခြံလုပ်ငန်းကို အခြား လုပ်ငန်းကြီးတစ်ခု၏ အစိတ်အပိုင်း တစ်ပိုင်းအဖြစ် ထား၍ လုပ်တော့မည်။ အဘယ်ကြောင့်ဆိုသော် ခြံလုပ်ငန်းကြောင့် နှစ်စဉ် တင်လာသော ကြွေးက လည်ပင်းထိနေပြီ ဖြစ်သောကြောင့်တည်း။

ဒီ စပျစ်ခြံကိုတော့ ဘာကကပဲ သိမ်းတော့မှာပါ၊ ဒီပုံအတိုင်း ဆိုရင်တော့ ငွေကြေး အရင်းအနှီးများတဲ့ မဟာ ပိုင်ရှင်ကြီးတွေသာ အသက်ရှင်တော့မှာပါ။ ဘာကြောင့်လည်း ဆိုတော့ သူတို့မှာ စည်သွတ် စက်ရုံတွေ ရှိတယ်။ သစ်တော်သီးဆိုရင် ခွဲစိတ်ပြီး စည်သွတ်လို့ ရတယ်။ တစ်ဘူးကို ဆယ့်ငါးဆင့်။ ဘယ်လောက် တွက်ခြေကိုက်သလဲ။ ပြီးတော့ စည်သွတ်ဘူးထဲက သစ်တော်သီးဟာ မပျက်ဘူး။ နှစ် အများကြီး ခံတယ်။

ဤ ပျက်စီး ယိုယွင်းမှုကြီးသည် ပြည်နယ်တစ်နယ်လုံးသို့ ကူးစက် ပျံ့နှံ့သွားသည်။ ထိုမြေကြီးပေါ်ရှိ သင်းပျံ့ ချိုမြသော ရနံ့သည် အလွန်ကြီးမားသော ဝမ်းနည်း ကြေကွဲဖွယ်ရာ တစ်ခု ဖြစ်လာသည်။ သီးပင်များကို ရှင်သန် ကြီးထွားအောင်၊ မျိုးစေ့များကို အောင်မြင်အောင်၊ အသီး အထွက်ကောင်းအောင် ကြိုးပမ်း အားထုတ်ခဲ့ကြသော လူများအနေဖြင့် သူတို့ ခြံထွက် သီးနှံများကို ငတ်ပြတ် ဆာလောင်နေကြသည့် သူများအား အခမဲ့ လွတ်လပ်စွာ စားသောက် ခွင့်ပြုရန်မှ တစ်ပါး အသုံးချစရာ နည်းလမ်း ရှာ၍ မရတော့။ ဤကမ္ဘာလောကကြီး အတွင်း၌ သီးပင်သစ်များ တိုးပွားလာအောင် တီထွင် ဖန်တီးပေးခဲ့ကြသော ပညာရှင်များသည် ထွက်သမျှ သူတို့ သီးနှံများအား ထိုက်သင့်သော အခကြေးငွေ ပေး၍ စားသုံးသွားနိုင်မည့် စနစ်တစ်ခုကို ဖန်တီး တည်ဆောက်နိုင်စွမ်း မရှိတော့ပေ။ ဤသို့ဖြင့် ဆုံးရှုံးနစ်နာမှုကြီးသည် အလွန် ကြီးမားသော ဝမ်းနည်း ကြေကွဲစရာကြီး တစ်ခု အဖြစ်ဖြင့် ပြည်နယ် တစ်နယ်လုံးအား တွယ်ကပ်လျက် ရှိလေ၏။

ဈေးကောင်း ရလိုပါမူ စပျစ်ပင်များနှင့် သီးပင်များ၏ အမြစ်များကို ဖျက်ဆီး သုတ်သင်ပစ်ရမည် ဖြစ်သည်။ တကယ်တော့ ထိုအလုပ်မှာ ဝမ်းနည်းစရာ အကောင်းဆုံးနှင့် ခါးသီး ရွံရှာ စက်ဆုပ်ဖွယ် အကောင်းဆုံး လုပ်ငန်းတစ်ခု ဖြစ်ချေသည်။ မည်သို့ပင် ဖြစ်စေ ကားအစီးပေါင်း အမြောက်အမြားသည် လိမ္မော်သီးများကို အပြည့်အသိပ် တင်ကာ မြို့စွန် မြို့ပြင်သို့ ထွက်၍ သွန်ကြသည်။ ဤသို့ဖြင့် စွန့်ပစ်ခံ လိမ္မော်သီးများသည် တောင်ပုံ ရာပုံ ဖြစ်လျက် ရှိလေ၏။ ထိုအခါ မိုင်ပေါင်းများစွာ အလှမ်းကွာဝေးသည့် အရပ်ဒေသမှ လူအများသည်ပင်လျှင် လိမ္မော်သီးပုံကြီးများ ဆီသို့ လာ၍ လိမ္မော်သီးများကို ကောက်ယူကြကုန်၏။ ယင်းကဲ့သို့ ထွက်၍ အလကား ကောက်ယူ ရရှိနိုင်သော ကာလမျိုးတွင် လိမ္မော်သီး တစ်ဒါဇင်ကို ဆင့်နစ်ဆယ် ပေး၍ မည်သူက ဝယ်ယူပါဦးမည်နည်း။ ထိုအခါ လိမ္မော်သီးများကို ရေနံဆီ ဖန်းနေကြသော လူများသည် ငွေတစ်ပြား တစ်ချပ်မှ မရဘဲ ယခုကဲ့သို့ လွှင့်ပစ်ရသည့်အတွက်၊ ယခုကဲ့သို့

ဖျက်ဆီးပစ်ရသည့်အတွက် ကြိတ်မနိုင်ခဲမရ ဖြစ်ကြသည်။ မည်သူ့ကို စိတ်ဆိုးရမှန်း မသိ၊ စိတ်ဆိုးကြသည်။ ယင်းကဲ့သို့ ဖြစ်နေချိန်တွင် လူအများက ထိုအသီးများကို လာ၍ ကောက်ယူကြသည့်အခါ ကောက်ယူနေသည့် လူအများအပေါ် ဒေါသဖြစ်ကြသည်။ အမှန်တော့ ငတ်နေပြီ ဖြစ်သော လူတစ်သန်းအနေဖြင့် စွန့်ပစ်ထားသော သစ်သီးပုံကြီးများ ထဲမှ သစ်သီးများကို အစားအစာအဖြစ် ရဖို့ လိုအပ်နေ၏။ သို့တစေလည်း ရွှေရောင်ကဲ့သို့ ဝါဝင်းနေသော လိမ္မော်သီးပုံကြီးများနှင့် သစ်သီးပုံကြီးများပေါ်သို့ ရေနံဆီများ ဖျန်းသည့် အလုပ်ကိုမူ ဆက်၍ လုပ်မြဲတိုင်း လုပ်လျက် ရှိကြလေ၏။

အပုပ်နံ့ကြီးသည် ပြည်နယ်တစ်နယ်လုံးတွင် တောမီးကြီး လောင်နေသည့်အလား ပျံ့နှံ့သွားလျက် ရှိ၏။

ကော်ဖီစေ့များသည် သင်္ဘော မီးထိုးသည့် လောင်စာများ ဖြစ်လာသည်။ စပါးနှံများသည် မီးလှုံစရာ မီးမွေးစရာ လောင်စာများ ဖြစ်လာသည်။ တောင်ပုံရာပုံမျှ ရှိသော အာလူးများကို မြစ်ထဲသို့ လာ၍ သွန်ကြ၏။ မြစ်ကမ်းပါး တစ်လျှောက်၌ ဖိတ်စင်၍ ကျကျန်သော အာလူးများသည် ငတ်နေသော လူများအတွက် စားကျက်ကြီး ဖြစ်လာလေသည်။ ဝက်များကို သတ်၍ မြှုပ်ကြ၏။ ဝက်သေကောင်များမှ ထွက်လာသော အပုပ်နံ့များကိုတော့ မြေကြီးထဲသို့သာ စိမ့်၍ ဝင်ပါစေတော့။

လူအများ နားလည် သဘောပေါက်အောင် ပြောပြဖို့ ခက်ခဲသည့် ရာဇဝတ်မှုကြီး တစ်မှု ပေတည်း။ ငိုပြရုံမျှဖြင့် သရုပ်သကန် မပေါ်နိုင်သည့် ကြေကွဲ ဝမ်းနည်းစရာကြီး တစ်ခု ပေတည်း။ လူသားတို့ အောင်မြင်မှု အားလုံးကို ကျွမ်းထိုးမှောက်ခုံ ဖြစ်သွားစေသည့် ကျဆုံးမှုကြီး တစ်ရပ်ပေတည်း။ အဆီအနှစ် ပြည့်နေသော မြေ။ အတန်းလိုက် အတန်းလိုက် စိုက်ထားသည့် သစ်ပင်များ။ မာကျောသည့် ပင်စည်များ။ မှည့်ဝင်းနေကြသည့် သစ်များ။ အားလုံးသည် ဖရိုဖရဲ။ ပယ်လားဂရားခေါ် အာဟာရဓာတ် ချို့တဲ့သည့် ရောဂါဖြင့် သေလုမျောပါး ဖြစ်နေသော ကလေးများသည် သေကြရမည်သာ ဖြစ်၏။ အဘယ်ကြောင့်ဆိုသော် လိမ္မော်သီး တစ်လုံးအပေါ်မှ အမြတ်အစွန်း မရခြင်းကြောင့် ပေတည်း။ သေမှုသေခင်း စစ်ဆေးသော အရာရှိများကလည်း ပုံစံများတွင် အာဟာရဓာတ် ချို့တဲ့မှု ရောဂါကြောင့် သေဆုံးသည်ဟု ထည့်သွင်းကြသည်။ အဘယ်ကြောင့်ဆိုသော် အစားအစာ မှန်သမျှကို ဖျက်ဆီးပစ်ရမည့် အခြေအနေ ရှိနေခြင်း ပေတည်း။

လူအများသည် မြစ်ထဲမှ အားလူးများကို ဆယ်ယူရန် ပိုက်ကွန်များဖြင့် ရောက်လာကြသည်။ အစောင့်များက ဆီး၍ မောင်းထုတ်ကြလေ၏။ လူအများသည် လိမ္မော်သီးများကို သယ်ယူရန် သူတို့၏ ကားစုတ် ကားဟောင်းများဖြင့် ရောက်လာကြသည်။ သို့သော်လည်း ရေနံဆီများ ဖျန်းပြီးနေလေပြီ။ သူတို့သည် မြစ်ကမ်းပါး၌ ရပ်ကာ မြစ်ထဲ၌ မျောပါ သွားနေသော အာလူးများကို ငေးကြည့်နေကြသည်။ အသတ်ခံနေကြရသော ဝက်များ၏ အော်သံကို နားစွင့်ကြသည်။ လူအများအဖို့တော့ ပျက်စီးခြင်းနှင့် မအောင်မြင်ခြင်းကိုသာ မြင်တွေ့နေရ၏။ ငတ်ပြတ် ဆာလောင်နေကြသော လူအများ၏ မျက်စိများထဲတွင် အမျက်ဒေါသ အခိုးအငွေ့များသည် တလက်လက် တောက်နေကြသည်။ လူအများ၏ စိတ်ထဲတွင် ဒေါသမာန်သည် ဖွဲမီးသဖွယ် တငွေ့ငွေ့ တောက်လောင်လျက် ရှိလေသည်။ ဒေါသမာန် အစိုင်အခဲသည် တစ်နေ့တခြား ကြီးထွား၍ လာသည်။ ရောက်လာမည့် အချိန်အခါ ကာလကို မျှော်လင့် စောင့်စားရင်း ထို ဒေါသမာန် အစိုင်အခဲသည် ကြီးထွားသည်ထက် ကြီးထွား၍၊ ကြီးထွားသည်ထက် ကြီးထွား၍ လာလျက် ရှိလေသည်။

* * *

## အခန်း (၂၆)

တစ်ညနေခင်းတွင် ဖြစ်သည်။ ဝင်လုဆဲ နေမင်း ပတ်လည်တွင် တိမ်များသည် တွဲလဲခိုလျက် ရှိ၏။ နေရောင်ဖြင့် တိမ်များသည် တောက်လျက် ရှိကြလေသည်။ ဝိဒ်ပက်ချ် စခန်းအတွင်းရှိ ဂျုတ်မိသားစုသည် ညနေစာ စားပြီးပြီ ဖြစ်သော်လည်း ထိုင်ရာမှ မထကြသေး။ အမေဂျုတ်သည် သူ ဆေးရမည့် ပန်းကန်များကို မဆေးသေးဘဲ တွေဝေငေးမောလျက် ရှိသည်။

"တို့များ တစ်ခုခုတော့ လုပ်ကြမှ ဖြစ်မယ်" ဟု ပြောသည်။ သူသည် ဝင်းဖီးအား လက်ညှိုးထိုးပြပြီး "သူ့ကို ကြည့်စမ်း" ဟု ဆိုသည်။ အားလုံးက ဝင်းဖီးအား ဝိုင်း၍ ကြည့်နေကြသည်။ "ဒီကောင်လေး ညည ဆိုရင် ကောင်းကောင်း မအိပ်နိုင်ဘူး၊ တစ်ညလုံး တလူးလူး တလွန့်လွန့်နဲ့ ငြိမ်တယ်ကို မရှိဘူး၊ သူ့ အသွေးအရောင်ကိုရော မြင်ကြတယ် မဟုတ်လား" မိသားစုသည် ရက်စိတ်ကြောင့် ခေါင်းမဖော်ဝံ့အောင် ဖြစ်လျက် ရှိလေသည်။ "သူ စားနေရတာက တစ်ခါလာလည်း ဆီကြော်မုန့်၊ တစ်ခါလာလည်း ဆီကြော်မုန့်၊ တို့ ဒီစခန်းကို ရောက်လာတာ တစ်လ ရှိသွားပြီ၊ တွမ်က အလုပ် ငါးရက် လုပ်ခဲ့ရတယ်၊ ကျန်တဲ့ လူစုကတော့ နေ့စဉ် လေးဖက်ထောက်ပြီး သွားနေကြတာပဲ၊ အလုပ်က အခုထိ မရကြသေးဘူး၊ အလုပ်အကြောင်း ပြောရမှာ ကြောက်ပြီးတော့ စပ်ပြီးတော့တောင်မှ မပြောကြတော့ဘူး၊ ဒါပေမဲ့ ငွေကတော့ ထွက်နေတာပဲ၊ ညတိုင်း အစားတော့ မှန်မှန် စားတယ်၊ စားပြီးရင် အလျှိုလျှို ထွက်သွားကြရော၊ အလုပ်အကြောင်း မေးမှာ ပြောမှာကျတော့လည်း အတော် ကြောက်ကြတယ်၊ ကြောက်နေလို့တော့ ဘယ်ဖြစ်မလဲ၊ ပြောရမှာပေါ့၊ ရှိစာဟန် ဆိုရင် မကြာခင် မွေးတော့မယ်၊ မဝေးတော့ဘူး၊ သူ့ အသားအရေကိုလည်း ကြည့်ကြဦး၊ ဒီကိစ္စဟာ အခု လက်ငင်းရှင်းမှ ဖြစ်မှာ၊ တစ်ခုခုကို ဆုံးဖြတ်လို့ ရတဲ့အထိ စဉ်းစားဖို့ကျတော့ ဘယ်သူမှ မလုပ်ကြဘူး၊ ဆန်က တစ်ရက်စာပဲ ကျန်တော့တယ်၊ ဂျုံကလည်း နှစ်ရက်စာပဲ ရှိတော့တယ်၊ အာလူးဆို ဆယ်လုံးပဲ ရှိတော့တယ်"

အားလုံး ခေါင်းငုံ့မြဲ ငုံ့နေသည်။ အဖေဂျုတ်သည် သူ့အိတ်ဆောင် မောင်းချဓားဖြင့် လက်သည်းများကို လှီးလျက် ရှိ၏။ ဦးလေးဂျွန်ကတော့ သူထိုင်နေသည့် သေတ္တာပေါ်မှ သစ်သားစ တစ်စကို ကောက်ကိုင်ထားသည်။ တွမ်ကမူ သူ့အောက်နှုတ်ခမ်းကို ကိုက်ထားလေသည်။

"ကျုပ်တို့လည်း ရှာနေကြတာပဲ အမေရာ" ဟု တွမ်က လေသံအေးအေးဖြင့် ပြောသည်။ "ဓာတ်ဆီ မဝယ်နိုင်တော့တဲ့ အချိန်က စပြီး ကျုပ်တို့ ခြေကျင်ထွက်ပြီး ရှာနေကြတာ အမေလည်း သိသားနဲ့၊ ကျုပ်တို့ ခြံပေါက်စေ့ အိမ်ပေါက်စေ့ကို ရောက်ကြတာဗျ၊ အလုပ် မရှိဘူးလို့ သေချာပေါက် သိထားတဲ့ နေရာမျိုးကိုတောင် မချန်ဘူး၊ ရောက်အောင်သွားပြီး စုံစမ်းတာပဲ၊ ကြာတော့ စိတ်တောင်ကုန်လာပြီ"

"စိတ်ကုန်လို့တော့ ဘယ်ဖြစ်မလဲ" ဟု အမေက ဒေါသတကြီးဖြင့် ပြောသည်။ "မိသားစု အခြေအနေက အောက်ကျ နောက်ကျ ဖြစ်နေပြီ၊ ဒါကို ကြည့်ရမယ်"

အဖေဂျုတ်က လှီးထားသော သူ့လက်သည်းကို ထောင်၍ ကြည့်နေရာမှ "ငါတို့ ဒီစခန်းက ထွက်သွားမှ ဖြစ်တော့မယ်" ဟု ပြောသည်။ "တို့က သွားလည်း မသွားချင်ဘူး၊ ဒီစခန်းမှာ နေရတာ ကောင်းတယ်၊ လူတွေကလည်း သဘောကောင်းတယ်၊ ငါတို့အနေနဲ့ ဟူးဗားဗီးလ် စခန်းတစ်ခုကို ရောက်သွားမှာ ကြောက်နေကြတယ်၊ အဖြစ်က ဒါပဲ"

"ဒါကတော့ တကယ်လို့ ဒီက ထွက်သွားမှ ဖြစ်မယ်ဆိုရင် သွားရမှာပေါ့၊ ပထမဆုံး အရေးကြီးတဲ့ အချက်က ကျွန်မတို့ မစားဘဲ နေလို့ မရဘူး၊ အစားတော့ စားရမှ ဖြစ်မယ်၊ ဒါကိုသာ အဓိက ထားပြီး စဉ်းစားရမယ်"

အယ်လ်က ကြားဖြတ် ပြောသည်။ ဟကျုပ် ထရပ်ကားကြီးထဲမှာတော့ ဓာတ်ဆီ တိုင်ကီနဲ့ တစ်လုံး အပြည့်ရှိတယ်၊ ဒါကိုတော့ ဘယ်သူကမှ လာပြီး မထိစေချင်ဘူးဗျာ"

တွမ်က ပြုံးသည်။ "ငါတို့ အယ်လ်ကတော့ သူ့ကားကို ထိမယ် ထင်ရင် ပူညံပူညံ ပါလားဟေ့"

"ကဲ ရှင်စဉ်းစားလေ" ဟု အမေက ပြောသည်။ "ကျွန်မအနေနဲ့ မိသားစု ထမင်းငတ်နေတာကိုတော့ ထိုင်ပြီး ကြည့်မနေနိုင်ဘူး၊ ဆီကလည်း တစ်ရက်စာပဲ ရှိတော့တယ်၊ ရိုစာဟန် မွေးမယ့်အချိန်ကလည်း နီးလာပြီ၊ သူ့ကို အာဟာရ ပြည့်အောင် မကျွေးလို့ မဖြစ်ဘူး၊ စဉ်းစားပေါ့"

"ဒီမှာက ရေနွေးရတယ်၊ ရေချိုးခန်းတွေကလည်း.." ဟု အဖေဂျုတ်က စကား စသည်။

"ကျွန်မတို့ ရေငန်းတို့ ရေချိုးခန်းတို့ကို စားလို့ မရဘူး"

"မေရီစ်ဗီးလ်ကို သွားမယ် အဖော် လိုက်ရှာနေတဲ့ လူတစ်ယောက်နဲ့ ကနေ့ ကျုပ် တွေ့ခဲ့တယ်၊ ဟိုမှာ သစ်သီးဆွတ်တဲ့ အလုပ်ရှိတယ်တဲ့" ဟု တွမ်က ပြောသည်။

"ဒီလိုဆို ငါတို့ ဘာကြောင့် မေရီစ်ဗီးလ်ကို မသွားကြတာလဲ" ဟု အမေက မေးသည်။

"ကျုပ်လည်း ရှင်းမပြတတ်ဘူး" ဟု တွမ်က အဖြေပေးသည်။ "စိတ်ထဲက မကောင်းဘူးလို့ ထင်နေမိတယ်၊ ဟိုလူကလည်း ဘာမှ တိတိကျကျ သိတာ မဟုတ်ဘူး၊ လုပ်ခ ဘယ်လောက် ဆိုတာလည်း မပြောဘူး၊ သူလည်း မည်မည်ရရ သိဟန် မတူပါဘူးလေ"

"ဘာပဲဖြစ်ဖြစ် ငါတို့ မေရီစ်ဗီးလ်ကို သွားကြမယ်၊ လုပ်ခ ဘယ်လောက်ပဲ ရရ ကိစ္စမရှိဘူး၊ အဲဒီကိုပဲ သွားမယ်"

"သိပ်ဝေးတယ်၊ အမေရ" ဟု တွမ်က ဆိုသည်။ "ဓာတ်ဆီဖိုး ပိုက်ဆံက မရှိတော့ဘူး၊ အဲဒီကို မရောက်နိုင်ဘူး၊ ဒီမှာ အမေ၊ အမေက ပြောတယ်၊ ကျုပ်တို့ စဉ်းစားရမယ်တဲ့၊ ဒီလိုဆို ကျုပ် ဘာမှမလုပ်ဘဲ အချိန်ရှိသမျှ တစ်ချိန်လုံး ထိုင်ပြီး စဉ်းစားနေမယ်လေ"

ဦးလေးဂျွန်က လှမ်းပြောသည်။ "တချို့က ပြောတယ်၊ မြောက်ပိုင်းက တူလဲရားလို့ ခေါ်တဲ့ အရပ်အနားမှာ ဝါကောက်တဲ့ အလုပ်တွေ ပေါ်တော့မယ်တဲ့၊ အဲဒီနေရာက သိပ်မဝေးဘူးလို့ ပြောတာပဲ"

"ငါတို့ သွားမှ ဖြစ်မယ်ဆိုရင်တော့ မြန်မြန်သွားတာ အကောင်းဆုံးပဲ၊ ဒီနေရာက ဘယ်လောက်ပဲ ကောင်းကောင်း အခုလို တငုတ်တုတ်တုတ်တော့ ထိုင်မနေချင်တော့ဘူး" အမေသည် ရေပုံးကို ဆွဲကာ ရေချိုးသယ်ရန် ထွက်သွားသည်။

"အမေ တစ်ယောက်လည်း မိန်းမကြမ်းကြီး ဖြစ်နေပြီ" ဟု တွမ်က ပြောသည်။ "အမေ အခုလို ထထပြီး ပေါက်ကွဲတာ အတော်များလာပြီ၊ ကြာလာတော့ သူလည်း သည်းမခံနိုင်တော့ဘူး ထင်ပါရဲ့"

"ဘာပဲဖြစ်ဖြစ်ပေါ့ သူက ရင်ထဲ ရှိတာကို ပွင့်ပွင့်လင်းလင်း ဖွင့်ချတတ်တယ်၊ ငါဖြင့် ညတိုင်း ဒီပြဿနာကို စဉ်းစားပြီး ဦးနှောက်တစ်ခုလုံး မီးလောင်တိုင် အသွင်းခံထားရသလို ဖြစ်နေတာ ကြာပြီ၊ အခုတော့ ကိုယ်က စပြီး မပြောရဲတဲ့ ကိစ္စက သူက စပြောလိုက်တော့ တစ်မျိုး ကောင်းသွားတာပေါ့လကွာ " ဟု အဖေဂျုတ်က စိတ်လက် ပေါ့ပါးသွားသည့် ဟန်ဖြင့် ရှင်းပြလေသည်။

အမေသည် ရေနွေးပုံး ဆွဲ၍ ပြန်ရောက်လာသည်။ "ကဲ ဘယ်လိုလဲ စဉ်းစားပြီးကြပြီလား" ဟု မေးသည်။

"အခု ကျုပ်တို့ စဉ်းစားနေတယ် အမေ" ဟု တွမ်က ပြောသည်။ "ကဲ အခု ဝါကောက် အလုပ်ရှိမယ့်နေရာကို ကျုပ်တို့ သွားကြမယ် ဆိုကြပါစို့၊ ကျုပ်တို့အနေနဲ့ ဒီပြည်နယ်ထဲ ရောက်နေတာလည်း အတော်ကြာသွားပြီ ဆိုတော့ အခြေအနေတွေကို သိတန်သရွေ့ သိနေကြပြီ၊ ဒီတစ်ဝိုက်မှာ ဘာအလုပ်မှ မရှိတာတော့ သေချာသွားပြီ၊ တကယ်လို့ မြောက်ဘက်ကို သွားကြမယ် ဆိုရင်တော့ ကျုပ်တို့ ရောက်တဲ့ အချိန်နဲ့ ဝါကောက်လုပ်ငန်း စမယ့်အချိန်ဟာ ကိုက်လိမ့်မယ်လို့ ထင်တယ်၊ ပေါ့ အယ်လ် မင်း ဓာတ်ဆီက တိုင်ကီ အပြည့်ပဲလား "

"ပြည့်လု ပြည့်ခင်ပဲဗျ၊ နှစ်လက်မလောက်ပဲ လျော့မယ် "

"ဒါဆိုရင် ဟိုကိုတော့ ရောက်မှာပဲ "

အမေက ပန်းကန်တစ်ချပ်ကို ရေပုံးထဲ နှစ်နေရာမှ "ကဲ ဘယ်လိုလဲ " ဟု အသံပြုသည်။

တွမ်က ပြန်ဖြေသည်။ "အမေပဲ အနိုင်ရတယ်၊ ကျုပ်တို့ သွားကြမယ်၊ ကဲ အဖေကကော ဘယ်လို သဘောရသလဲ "

"သွားမှပဲ ဖြစ်မှာပေါ့ကွာ " ဟု အဖေဂျုတ်က ပြန်ဖြေသည်။

အမေက အဖေဂျုတ်အား ဖျတ်ခနဲ မော့ကြည့်သည်။ "ဘယ်တော့ သွားမလဲ"

"အင်း ရက်ဆိုင်းနေဖို့တော့ လိုမယ် မထင်ဘူးလေ၊ မနက်ဖြန် မနက်လောက် ထွက်ရင် ကောင်းမလား "

"မနက်ဖြန် မနက်ပဲ ထွက်မယ်၊ ကျွန်မတို့မှာ စားစရာ ဘယ်လောက်ပဲ ကျန်တော့တယ် ဆိုတာ ရှင့်ကို ပြောထားပြီးပြီ မဟုတ်လား "

"ကျုပ် မသွားချင်တာနဲ့ ဒီစကား ပြောတယ်လို့တော့ မထင်နဲ့နော် အမေ၊ ကျုပ်တို့မှာ တနင်္ဂနွေ နှစ်ပတ်စာလောက်တော့ အစားအစာ ပါသွားမှ ကောင်းမယ် ထင်တယ်၊ ကျုပ် တာဝန်ယူပြီး လုပ်ပါ့မယ်၊ ဖြည်းဖြည်းမှ ထွက်ရင် မကောင်းဘူးလား "

အမေသည် လက်ထဲမှ ပန်းကန်ကို ရေနွေးပုံးထဲသို့ နှစ်လိုက်ပြီး "တို့ မနက်ဖြန် မနက်ပဲ ထွက်မယ် " ဟု ပြောသည်။

အဖေဂျုတ်က နှာခေါင်းရှုံ့သည်။ "အင်း ခေတ်ပြောင်းသွားပုံ ရတယ် " ဟု သရော်သံဖြင့် ရေရွတ်သည်။ "တစ်ချိန်ကတော့ ငါတို့ ဘာလုပ်ကြမယ်ဆိုတဲ့ စကားကို ယောကျ်ားက ပြောတဲ့ခေတ်၊ အခုတော့ ဒီစကားကို မိန်းမတွေက ပြောတဲ့ခေတ် ရောက်နေပြီနဲ့ တူတယ်၊ ဒီလိုဆိုရင် တုတ်တစ်ချောင်း ဆွဲပြီး အသုံးပြုမယ့် ခေတ်ကိုလည်း ရောက်ဖို့ နီးလာပြီ ထင်တယ် "

အမေသည် ဆေးပြီးသား သံပန်းကန်ပြားကို သေတ္တာတစ်လုံးပေါ်သို့ လှမ်းတင်လိုက်သည်။ ပြီးတော့ ခေါင်းကို ငုံ့၍ ပြုံးသည်။ "တော့်တုတ်ကို ဆွဲချင်လည်း ဆွဲ အဖေဂျုတ်ရေ " ဟု အမေက ပြောသည်။ "တစ်ချိန်ကတော့ စားစရာ အတွက်လည်း မပူရဘူး၊ နေစရာကလည်း ရှိနေတယ်၊ အဲဒီအချိန်မျိုးမှာတော့ တော့်တုတ်ကို တော် သုံးနိုင်ပါတယ်၊ ဒါပေမဲ့ အခုကျတော့ တော့်ဘက်က တာဝန်မကျေဘူး၊ တော်လုပ်ရမယ့် အလုပ်ကို မလုပ်တော့ဘူး၊ တွေးရမယ်၊ ပူရမယ်၊ အလုပ် လုပ်ရမယ်၊ ဒါတွေကို တော် လုပ်တော့လို့လား၊ တော့်ဘက်က တာဝန်ကျေလို့ကတော့ တော့် တုတ်ကို သုံးနိုင်ပါတယ်၊ မိန်းမတွေကလည်း နှပ်တရှုံ့ရှုံ့နဲ့ ကြွက်ကလေးတွေလို ကုပ်ကုပ်ရုပ်ရုပ် နေရမှာပေ့ါ၊ အခုတော့ ဒီလို မရတော့ဘူး၊ တော် တုတ်ကိုင်လည်း အပိုပဲ၊ တော် တုတ်ကိုင်ရင် ကျုပ်ကလည်း တုတ်ဆွဲရမှာပဲ "

အဖေဂျုတ်က ပြုံးဖြဲဖြဲ လုပ်နေသည်။ "ကလေးတွေ ရှေ့မှာ မင်း ပါးစပ်က ဒီလို စကားမျိုးတွေ ပြောတာတော့ ကြားလို့ မကောင်းပါဘူးကွာ" ဟု ပြောသည်။

"သူတို့ ကြားလို့ ကောင်းမယ့် စကားမျိုး ပြောချင်ရင်တော့ မပြောခင် သူတို့ ပါးစပ်ထဲကို ဝက်ပေါင်ခြောက်ကလေး တစ်ဖတ် နှစ်ဖတ်လောက် ထည့်ပေးဖို့ လိုလိမ့်မယ်"

အဖေဂျုတ်က စက်ဆုပ် ရွံရှာသော မျက်နှာထားဖြင့် ထိုင်ရာမှ ထ၍ ထွက်သွားလေသည်။ ဦးလေးဂျွန်ကလည်း အဖေဂျုတ် နောက်သို့ လိုက်သွားလေ၏။

အမေ့လက်များသည် ရေနွေးပုံးထဲသို့ နှစ်လိုက် ထုတ်လိုက်နှင့် အလုပ်များလျက် ရှိ၏။ သူသည် အဖေဂျုတ်တို့ ထွက်သွားရာသို့ တစ်ချက်မျှ လှမ်းကြည့်သည်။ "သူ ဘာမှမဖြစ်ဘူး၊ စိတ်မပူပါနဲ့၊ သူ့စိတ် မကျပါဘူး"

တွမ်က ရယ်သည်။ "အမေက သူ့ကို ချနင်းလိုက်တာပဲ မဟုတ်လား"

"ဟုတ်တယ်လေ" ဟု အမေက ဝန်ခံသည်။ "ယောက်ျား တစ်ယောက်ဆိုတာ သောကရောက်အောင် သွားလုပ်ရင် သောကရောက်မှာပဲ၊ စိတ်တွေ တပူတည်း ပူပြီး နောက်ဆုံး အသည်းကွဲမယ်၊ အိပ်ရာပေါ် လဲမယ်၊ နလုံးပါ ထိခိုက်ပြီး သေမယ်၊ တကယ်လို့ သူ့ကို ဒေါသ ဖြစ်အောင် မခံချင်လာအောင် ဆွပေးလိုက်မယ် ဆိုရင်တော့ ဘာမှ မဖြစ်တော့ဘူး၊ မင်းအဖေ အခု ဘာတစ်ခွန်းမှ ပြောမသွားဘူး၊ ဒါပေမဲ့ သူ့စိတ်ကတော့ မခံချင် ဖြစ်သွားပြီ၊ သူ ဘယ်လို လူစားမျိုးဆိုတာ ပြလိမ့်မယ်၊ ဒါကြောင့် သူ ဘာမှမဖြစ်ဘူးလို့ အမေက ပြောတာ"

အယ်လ်က ထိုင်ရာမှ ထသည်။ "ကျုပ် ဟိုဘက် လျှောက်လိုက်ဦးမယ်"

"ကားကိုတော့ စစ်ဆေးထားဦးကွ" ဟု တွမ်က သတိပေးသည်။

"ရတယ်၊ သူကတော့ အဆင့်သင့်ပဲ"

"တကယ်လို့ ကားမကောင်းရင်တော့ မင်းကို အမေ့လက် အပ်ရမှာပဲ"

"စိတ်ချပါ" အယ်လ်သည် တဲတန်းများကြားရှိ လမ်းအတိုင်း ထွက်သွားလေသည်။

တွမ်က သက်ပြင်းချသည်။ "ကျုပ်လည်း စိတ်မောလှပြီ အမေ၊ ကျုပ်ကိုတော့ အမေက မခံချင်စိတ် ဖြစ်လာအောင် လုပ်ဦးမှာလား"

"မင်းက တခြားလူတွေထက် အသိဉာဏ်လည်း ပိုတယ်၊ နားလည်မှုလည်း ရှိတယ် တွမ်၊ မင်းကို မခံချင်စိတ် ဖြစ်လာအောင် လုပ်ဖို့ မလိုဘူး၊ အမေ့အနေနဲ့ကတော့ မင်းကိုပဲ မှီရမှာ၊ တခြား လူတွေကတော့ အမေနဲ့ စိမ်းနေသလိုပဲ၊ မင်းကလွဲပြီး အမေ့မှာ အားကိုးစရာ မရှိဘူး၊ မင်း အားလျော့လို့ကတော့ မဖြစ်ဘူး တွမ်"

တာဝန်က သူ့အပေါ် ကျလာလေပြီ။ "ကျုပ်တော့ ဒီတာဝန်ကြီးကို မကြိုက်ဘူး အမေ" ဟု တွမ်က ဆိုသည်။ "ကျုပ်အနေနဲ့ အယ်လ် အခု ထွက်သွားသလိုပဲ ထွက်သွားချင်တယ်၊ အဖေနေသလို မသိလိုက်ဘာသာပဲ နေချင်တယ်၊ ပြီးတော့ ဦးလေးဂျွန်လိုပဲ မူးနေချင်တယ်"

အမေက ခေါင်းခါသည်။ "မင်း အဲသလို မနေနိုင်ပါဘူး တွမ်ရယ်၊ အမေ သိပါတယ်၊ မင်း ငယ်ငယ်ကတည်းက မင်းရဲ့ သဘောကို အမေ နားလည်ခဲ့ပါတယ်၊ မင်း အဲသလို မလုပ်နိုင်ပါဘူး၊ တချို့ ရှိတယ်၊ သူတို့ကိုယ်က လွဲပြီး တခြား ဘာကိုမှ စိတ်မဝင်စားဘူး၊ တခြားလူ မကြည့်နဲ့၊ မင်းညီ အယ်လ်ကိုပဲ ကြည့်၊ သူ ငယ်ငယ်ပဲ ရှိသေးတယ်၊ မိန်းကလေးတွေနောက် တကောက်ကောက် လိုက်နေဖို့က လွဲပြီး တခြား ဘာကိုမှ စိတ်မဝင်စားဘူး၊ မင်း သူ့အရွယ်တုန်းက သူ့လို မဟုတ်ဘူး တွမ်"

"သူ့လိုပါပဲ အမေရာ" ဟု တွမ်က ပြောသည်။ "အခုထိလည်း သူ့လိုပါပဲ"

"မဟုတ်ပါဘူး၊ မင်း သူနဲ့ မတူပါဘူး၊ မင်း လုပ်သမျှဟာ မင်းအတွက်က နည်းပါတယ်၊ မင်း ထောင်ထဲ ရောက်သွားတဲ့ အခါကျမှ မင်းအကြောင်းကို အမေ ပိုပြီး နားလည်ခဲ့ရတာ"

"ကဲပါ အမေရာ၊ တော်ပါတော့၊ အခု အမေ ပြောတာတွေလည်း မမှန်ပါဘူး၊ အားလုံး အမေ့ ခေါင်းထဲက ဟာတွေပါ"

အမေသည် ဓားများနှင့် ခက်ရင်းများကို ပန်းကန်ပြားပုံ ထိပ်ပေါ် လှမ်းတင်လိုက်သည်။ "အေး မင်းပြောသလို ဖြစ်ချင်လည်း ဖြစ်မှာပေါ့လေ၊ ကဲ ရိုစာဟန် ပန်းကန်တွေကို သုတ်ပြီး သိမ်းလိုက်တော့"

ရိုစာဟန်သည် ထိုင်နေရာမှ ထရပ်သည်။ စူထွက်နေသော ဗိုက်ကြောင့် အသက်ကို မှန်မှန် မရှူနိုင်။ သူသည် သူ့ဗိုက်ကို မနိုင် တနိုင်သယ်၍ သေတ္တာဆီသို့ လျှောက်လာပြီး ဆေးပြီးသား ပန်းကန် တစ်ချပ်ကို လှမ်းယူလိုက်လေသည်။

"ဗိုက်ကြီးက ရှေ့ကို စူပြီး ထွက်လာလေလေ သူ့မျက်လုံးတွေ ပြူးထွက်လာလေလေ ဖြစ်နေပြီ" ဟု တွမ်က ပြောသည်။

"မစနဲ့ကွယ်" ဟု အမေက ဟန့်သည်။ "မင်း အပေါင်းအသင်းတွေကို နှုတ်ဆက်ချင် သွား နှုတ်ဆက်ချေတော့"

"သွားမယ် အမေ၊ ဒီစခန်းနဲ့ ကျုပ်တို့ သွားမယ့်နေရာ ဘယ်လောက် ဝေးသလဲ ဆိုတာလည်း စုံစမ်းခဲ့မယ်"

"သူက သမီးကို စိတ်ညစ်အောင် လုပ်တာ မဟုတ်ပါဘူး၊ ချစ်လို့ စတာပါ၊ ရှသီနဲ့ ဝင်းဖီးတို့ ဘယ်ရောက်နေကြသလဲ ဟင်"

"အဖေ့နောက်က လိုက်သွားတာ မြင်လိုက်တယ်"

"အေး သွားကြပစေ"

ရိုစာဟန်သည် သူ့အလုပ်ကို တလှုပ်လှုပ် လုပ်လျက် ရှိသည်။ အမေက ရိုစာဟန် လှုပ်ရှားပုံကို စေ့စေ့စပ်စပ် ကြည့်နေသည်။ "နေရ ထိုင်ရတာတော့ ပေါ့ပေါ့ပါးပါး ရှိတယ် မဟုတ်လား ဟင်၊ ပါးနှစ်ဖက်တော့ ဖျော့တော့တော့ ဖြစ်နေတယ်"

"သူတို့က နွားနို့ မှန်မှန် သောက်ဖို့ ပြောကြပေမဲ့ သမီးက သောက်မှ မသောက်နိုင်တာ"

"အမေလည်း သိတာပေါ့၊ ဒါပေမဲ့ အမေတို့မှာ နွားနို့မှ မရှိဘဲကိုးအေ့"

"ကွန်နီသာ ထွက်မသွားရင် သမီးတို့ ခုလောက်ဆို အိမ်ငယ်ငယ် တစ်လုံးတော့ ရလောက်ပြီ၊ သူလည်း စာကျက်နေမှာ၊ နွားနို့လည်း မှန်မှန် သောက်နိုင်မှာ၊ ဒါဆိုရင် ကလေး မွေးတဲ့အခါ သန်သန်မာမာလေး မွေးမှာပဲ၊ အခု မွေးမယ့် ကလေးကတော့ ကောင်းမှ ကောင်းပါ့မလား မပြောတတ်ဘူး၊ သမီး နွားနို့ မှန်မှန် သောက်သင့်တယ်" ရှိစာဟန်သည် ခါးစည်း အဝတ် အိတ်ကပ်ထဲသို့ လက်နှိုက်လိုက်သည်။ ထို့နောက် ပါးစပ်ထဲသို့ တစ်စုံတစ်ခု ထည့်လိုက်လေသည်။

"ညည်း ပါးစပ်ထဲကို ဘာထည့်လိုက်တာလဲ၊ ဝါးနေတာ ဘာလဲ"

"ဘာမှ မဟုတ်ပါဘူး အမေ"

"မလိမ်နဲ့၊ ပြောစမ်း၊ ဘာ ဝါးနေတာလဲ"

"ထုံးကျောက် အစလေး တစ်စပါ အမေရယ်၊ အတုံးကြီးတစ်လုံး တွေ့လို့ ဖဲ့ယူလာခဲ့တာပါ"

"ဘာလို့ စားတာလဲ၊ နင်ဟာ ရွှံ့ခဲတွေ စားနေတာပဲ၊ ညစ်ပတ်တာပေါ့"

"စားချင်လို့ အမေရဲ့၊ သမီး မနေနိုင်လို့ စားတာပါ"

အမေ ငြိမ်နေသည်။ သူသည် ဒူးနှစ်လုံးကို ကားလိုက်ပြီး စကပ်ကို ဆွဲချလိုက်သည်။ "အမေလည်း သိတော့ သိပါတယ်" ဟု ပြောသည်။ "အမေလည်း ကျောက်မီးသွေးတုံးကို စားခဲ့ဖူးတယ်၊ တော်တော်ကြီးကြီးကို စားခဲ့ဖူးတာ၊ အဘွားက ပြောတယ်၊ မစားနဲ့တဲ့ ဗိုက်ထဲက ကလေးကိုတော့ ပေါက်ကရ မပြောနဲ့အေ၊ ဒါမျိုးဟာ ပါးစပ်က ပြောဖို့ မဆိုထားနဲ့၊ စိတ်ထဲကတောင် မဟုတ်က ဟုတ်က မတွေးသင့်ဘူး"

"လင်လည်း မရှိ၊ နွားနို့လည်း မသောက်ရ ဆိုတော့"

"ညည်းနယ်အေ၊ တကယ်လို့ ညည်းမှာသာ ပေါ့ပေါ့ပါးပါး ရှိရင် ငါ ညည်းကို ရိုက်မိမှာ၊ ပါးကို ရိုက်မိမှာ သိလား" အမေသည် ထိုင်ရာမှ ထ၍ တဲထဲသို့ ဝင်သွားသည်။ ပြန်ထွက်လာတော့ ရှိစာဟန် ရှေ့တည့်တည့်၌ ရပ်သည်။ ပြီးတော့ လက်ဝါးတစ်ဖက်ကို

ဖြန့်ပြသည်။ "ကြည့်စမ်း၊ ဒီမှာ" အမေ့ လက်ဖဝါးပေါ်တွင် ရွှေနားကပ် သေးသေးလေး တစ်ရန်။ "ဒီပစ္စည်းဟာ နင့်အတွက် ထားတာ"

ရိစာဟန်၏ မျက်လုံးများသည် တဖျပ်ဖျပ် တောက်လာသည်။ သို့သော်လည်း ခဏမျှသာ ဖြစ်၏။ သူသည် မျက်နှာကို တစ်ဖက်သို့ လွှဲလိုက်သည်။ "နားမှ မဖောက်ရသေးတာ"

"ကိစ္စ မရှိဘူး၊ အမေ ဖောက်ပေးမယ်" အမေသည် တဲအတွင်းသို့ ကတိုက်ကရိုက် ပြန်ဝင်သွားပြီး စက္ကူကတ်ဘူးလေး တစ်ဘူး ကိုင်၍ ပြန်ထွက်လာသည်။ ဘူးထဲမှ အပ်ချည်ကြိုး တစ်စကို အပ်နဖူးပေါက်ထဲသို့ ထိုးသွင်းပြီး ကြိုးကို နှစ်ချောင်း ပူးလိုက်၏။ ပြီးတော့ အထုံးလေး တစ်ခု ဖြစ်သွားအောင် ထုံးလိုက်သည်။ ထို့နောက် အပ်တစ်ချောင်း ထပ်ထုတ်ကာ အပ်ချည်ကြိုးတစ်စကို ထိုးသွင်းပြီး စောစောက အပ်လိုပင် အသင့် ဖြစ်အောင် လုပ်ထားလိုက်သည်။ အမေသည် ကတ်ဘူးထဲ၌ မွှေနှောက်၍ ရှာပြန်သည်။ ဘူးထဲတွင် ဖော့ဆို့လေး တစ်ခု။

"နာလိမ့်မယ် အမေရဲ့၊ နာမှာ"

အမေသည် ရိစာဟန် အနီးသို့ လျှောက်သွားပြီး ဖော့ဆို့ကလေးကို ရိစာဟန်ဒ နားအဖျား နောက်ဘက်မှ နေ၍ ကပ်ထားလိုက်သည်။ ထို့နောက် အပ်ကို နားအဖျား ရှေ့တည့်တည့်မှ နေ၍ ထိုးသွင်းလိုက်သည်။ အပ်သည် နားအဖျားကို ဖောက်၍ ဖော့ဆို့လေးပေါ်သို့ စိုက်ဝင်သွားလေ၏။

ရိစာဟန်သည် တစ်ချက်မျှ တွန့်ခနဲ ဖြစ်သွားသည်။ "နာလိမ့်မယ် အမေရဲ့"

"ဒါလောက်ပါပဲအေ၊ ဒီထက် ပိုမနာပါဘူး"

"နာမှာပါ အမေရယ်"

"ကိစ္စမရှိပါဘူး အေရယ်၊ နောက်တစ်ဖက် ပြစမ်း၊ ကြည့်ရအောင်" အမေသည် ဖော့ဆို့ကို နားနောက်မှာ ကပ်ထားလိုက်ပြီး နားအဖျားကို ဒုတိယ အပ်ဖြင့် ထိုးဖောက်လိုက်လေသည်။

"နာမှာ အမေရဲ့"

"ဟင်း" အမေက ဟန့်သည်။ "ပြီးသွားပြီ"

ရိုစာဟန်သည် အံ့အားသင့်လျက် ရှိသည်။ အမေကတော့ အပ်များကို ဆွဲထုတ်လိုက်ပြီး အပ်ချည်ကြိုး ထုံးကလေးကို ထပ်၍ ထုံးလိုက်သည်။

"ကဲ ပြီးသွားပြီ" ဟု ပြောသည်။ "နေ့တိုင်း အပ်ချည်ကြိုး တစ်ချောင်း တစ်ချောင်း ဆွဲထုတ်သွားရမယ်၊ နှစ်ပတ်လောက် ဆိုရင် နားကပ် ဝတ်လို့ရပြီ၊ ရော့ ဒီမှာ နားကပ်၊ ဒါ ညည်းပစ္စည်း၊ ညည်းပဲ သိမ်းထားတော့"

ရိုစာဟန်သည် သူ့နားရွက်ဖျားများကို အသာအယာ ကိုင်ကြည့်သည်။ ပြီးတော့ လက်ချောင်း ထိပ်များပေါ်၌ ကပ်ပါလာသော သေးသေးမှုန်မှုန် သွေးစက်ကလေးများကို ငုံ့ကြည့်သည်။ "လုံးလုံး မနာဘူးနော်၊ နည်းနည်းကလေးပဲ"

"ညည်း နားဖောက်သင့်တာ ကြာပြီ" ဟု အမေက ပြောသည်။ သူသည် သမီး၏ မျက်နှာကို ကြည့်၍ ပြုံးသည်။ အမေ့ အပြုံးသည် အောင်မြင်မှု ရသွားသည့် အပြုံး။ "ကဲ သုတ်ပြီးသား ပန်းကန်တွေကို သိမ်းလိုက်တော့၊ ညည်းကလေးဟာ ကောင်းမှာပါ၊ နားမဖောက်ရသေးဘဲနဲ့ ကလေး မွေးတော့မလို့၊ နည်းနည်းပဲ လိုတော့တယ်၊ အခုတော့ ညည်း လုံခြုံသွားပါပြီ"

"နားဖောက်လိုက်ရင် သမီးအတွက် ကောင်းသွားမှာပေါ့နော်၊ ဟုတ်လား"

"အေးပေါ့၊ ကောင်းသွားမှာပေါ့"

အယ်လ်သည် ကပွဲစင်ဘက်သို့ လျှောက်သွားသည်။ ကပွဲစင်နှင့် မလှမ်းမကမ်းရှိ ရွက်ထည်တဲ တစ်လုံးရှေ့ အရောက်တွင် ခပ်တိုးတိုး လေချွန်၍ အချက်ပေးသည်။ ထို့နောက် ကပွဲစင်ဘက်သို့ သွားသည့် လမ်းအတိုင်း ဆက်လျှောက်သွားသည်။ လမ်းဆုံးထိပ်ရှိ မြေကွက်ထဲသို့ ရောက်သောအခါ မြက်ပင်များကြားသို့ ဝင်၍ ထိုင်ချလိုက်လေသည်။

အနောက်ဘက် မိုးကောင်းကင်ရှိ တိမ်များ၏ အောက်ခြေမှ အနီရောင်များသည် ကွယ်ပျောက်သွားခဲ့လေပြီ။ ထိုနေရာ တစ်ဝိုက်တွင် မည်းမှောင်လျက် ရှိနေလေပြီ။ အယ်လ်သည် သူ့ခြေသလုံးများကို အားရပါးရ ကုတ်နေရင်းမှ အမှောင်ရိပ်သန်းစ ပြုနေသော ကောင်းကင်ဆီသို့ လှမ်းမျှော်၍ ကြည့်လျက် ရှိသည်။

ခဏမျှ အကြာတွင် အသားဖြူဖြူ မိန်းကလေး တစ်ယောက် သူ့အနီးသို့ ရောက်လာသည်။ မိန်းကလေးမှာ ကိုယ်လုံးကိုယ်ပေါက် အချိုးအဆစ်ကျကျနှင့် မိန်းမချောလေး တစ်ယောက် ဖြစ်၏။ မိန်းကလေးသည် အယ်လ်၏ဘေး မြက်ပင်များ ကြားတွင် ဝင်ထိုင်သည်။ အယ်လ်၏ လက်တစ်ဖက်သည် မိန်းကလေး၏ ခါးကို သိမ်း၍ ဖက်သည်။ သူ့လက်ချောင်းများသည် အငြိမ်မနေ။ မိန်းကလေး၏ ခါးပေါ်တွင် တရွရွ လျှောက်သွားလျက် ရှိလေ၏။

"မလုပ်ပါနဲ့" ဟု မိန်းကလေးက ပြောသည်။ "နင် လုပ်တာ ခါးကို ကလိထိုးသလိုပဲ၊ ယားတယ်"

"ငါတို့ မနက်ဖြန် ဒီစခန်းက သွားတော့မယ်" ဟု အယ်လ်က ပြောသည်။

မိန်းကလေးက အယ်လ်၏ မျက်နှာကို ဖျတ်ခနဲ မော့ကြည့်သည်။ "မနက်ဖြန် ဟုတ်လား၊ ဘယ်ကို သွားမှာလဲ"

"ဟိုး မြောက်ပိုင်းကို"

"တို့နှစ်ယောက် လက်ထပ်တော့မယ်ဆို"

"ထပ်မှာပေါ့၊ တစ်နေ့နေ့ကျရင် ထပ်တာပေါ့"

"နင် ပြောတော့ မကြာခင် လက်ထပ်မယ်ဆို" မိန်းကလေးက ဒေါသတကြီး အော်မေးသည်။

"ဒါက ဒီလိုလေဟာ၊ အခြေအနေအရပေါ့၊ မြန်မြန် လက်ထပ်ဖို့ ဖြစ်လာရင်လည်း မြန်မြန်ပဲ ထပ်မှာပေါ့"

"နင် ကတိပေးထားတာပဲ"

အယ်လ်၏ လက်ချောင်းများသည် မိန်းကလေး၏ ခါးထက်တွင် တလှုပ်လှုပ် ရွေ့လျားဆဲ။

"လက်ဖယ် ဟယ်" မိန်းကလေးက အော်သည်။ "နင် ပြောတော့ ငါတို့ လက်ထက်မယ်ဆို "

"ဟုတ်ပါတယ်၊ စိတ်ချပါ၊ လက်ထပ်မှာပေါ့ဟ၊ နင်ကလည်း"

"နင် အခု ပြောတော့ သွားတော့မယ်ဆို "

"နင် ဘာဖြစ်နေတာလဲ "

"ဘာမှ မဖြစ်ဘူး "

အယ်လ်က ရယ်သည်။ "ငါ သက်သက်မဲ့ အချိန်ဖြုန်းနေတာပဲ မဟုတ်ဘူးလားဟင် "

မိန်းကလေးက ထိုင်နေရာမှ ခုန်၍ ထလိုက်သည်။ "နင် ငါ့အနား မကပ်နဲ့ အယ်လ်ဂျူတ်၊ သွား၊ ငါ နင့်မျက်နှာကို မကြည့်ချင်ဘူး "

"အို လာစမ်းပါဟာ၊ နင်ကလည်း"

"နင်က ငါ့ကို အပျော်သဘောပေါ့၊ ဟုတ်လား "

"ခဏ နေပါဦးဟာ "

"နင်က ငါ့ကို ဘယ်လို အစားထင်လို့လဲ၊ နင် ခေါ်ရာ လိုက်မယ့်အစား ထင်နေသလား၊ မလိုက်ဘူး၊ ငါ့မှာ ဒါမျိုး ရနိုင်တဲ့ အခွင့်အရေးတွေ အများကြီး ရှိတယ်၊ သိလား "

"နေစမ်းပါဦးဆိုဟာ "

"မနေဘူး၊ နင် အခု ထွက်သွား "

အယ်လ်က မိန်းကလေးကို ဖျတ်ခနဲ လှမ်းဆွဲသည်။ မိန်းကလေး၏ ခြေကျင်းဝတ်ကို ဖမ်းဆုပ်မိလေသည်။ သူ ဆွဲလိုက်သည့် အရှိန်ဖြင့် မိန်းကလေးသည် လဲကျသွားသည်။ အယ်လ်၏ လက်တစ်ဖက်က မိန်းကလေးကို ဖွတ်အတင်း ဖက်တွယ်ထားသည်။ ကျန်တစ်ဖက် သည် ဒေါသတကြီး ရုန်းကန်နေသော မိန်းကလေး၏ ပါးစပ်ကို ပိတ်ထားသည်။ မိန်းကလေးက အယ်လ်၏ လက်ဖဝါးကို ကိုက်ရန် အားထုတ်သည်။ သို့သော်လည်း အယ်လ်က သူ့လက်ဖဝါးကို ပါးစပ်ဖြင့် မကိုက်မိရန် ခပ်ခုံးခုံး လုပ်ထားသည်။ အယ်လ်၏ ကျန်လက်တစ်ဖက် သည် မိန်းကလေးကို ချုပ်ကိုင်နိုင်ရန် ကြိုးစားလျက် ရှိ၏။ ခဏမျှ ကြာသောအခါ မိန်းကလေးသည် ငြိမ်ဆိတ်သွားသည်။ နောက် တစ်ခဏမျှ ကြာသော အခါတွင်မူ မြက်ခြောက်ပင်များကြားမှ နစ်ဦးသား၏ ခိုးခိုးခစ်ခစ် ရယ်သံများ ကြားရလေသည်။

"ငါတို့ မကြာပါဘူး၊ အမြန်ဆုံး ပြန်လာမှာပါ" ဟု အယ်လ်က ပြောသည်။ "ပြီးတော့ ငွေလည်း အများကြီး ပါလာမှာ၊ ငါတို့နှစ်ယောက် ဟောလီးဝုဒ်ကို သွားပြီး ရုပ်ရှင်တွေ ကြည့်မယ်"

မိန်းကလေးက မြက်ခင်းပေါ်တွင် ပက်လက်။ အယ်လ်က အပေါ်မှ ငုံ့ကြည့်လျက်။ မိန်းကလေး၏ မျက်လုံးထဲတွင ကောင်းကင်မှ ကြယ်ရောင်သည် ရောင်ပြန်ဟပ်လျက် ရှိသည်။ "တို့ ရုပ်ရှင် သွားရင် ရထားနဲ့ သွားမယ်နော်" ဟု အယ်လ်က ပြောသည်။

"နင်တို့ အခု သွားတာ ဘယ်လောက်ကြာမယ် ထင်သလဲ" ဟု မိန်းကလေးက မေးသည်။

"အို ကွာ၊ အလွန်ဆုံး တစ်လပေါ့" ဟု သူက ဖြေသည်။

ညအမှောင်သည် ကျဆင်းလာလျက် ရှိ၏။ အဖေဂျုတ်နှင့် ဦးလေးဂျွန်တို့သည် အခြားတဲများမှ မိသားစု အကြီးအကဲများနှင့်အတူ ရုံးခန်းရှေ့ ဆင်ဝင်အောက်တွင် ထိုင်နေကြလေသည်။ သူတို့သည် ထိုည၏ အကြောင်းနှင့် အနာဂတ်တွင် ရင်ဆိုင်ရမည့် အခြေအနေများကို လေ့လာ ဆန်းစစ်လျက် ရှိကြ၏။ ဝတ်စုံအဖြူ ဝတ်ထားသော စခန်း မန်နေဂျာသည် သူ့ တံတောင်နှစ်ဖက်ကို ဆင်ဝင် ဝရန်တာ လက်ရန်းတန်းပေါ်၌ ထောက်ကာ ငေးမောလျက် ရှိသည်။ သူ့ခါးမှ အဝတ်အစားများသည် ကြေမွလျက် ရှိ၏။ သူ့မျက်နှာသည် ပင်ပန်း နွမ်းနယ်ခြင်းကို ဖော်ပြလျက် ရှိလေသည်။

ဟူစတန်က မန်နေဂျာအား မော့ကြည့်သည်။ "ခင်ဗျား တစ်ရေးလောက် ဝဝ အိပ်လိုက်ဖို့ ကောင်းတယ် မစ္စတာ"

"ဟုတ်တယ်၊ အိပ်သင့်တယ်၊ မနေ့ညက အဖွဲ့သုံးမှာ မိန်းကလေး တစ်ယောက် မီးဖွားလို့၊ ကျုပ်ဖြင့် ဝမ်းဆွဲသည် တစ်ပိုင်းကို ဖြစ်သွားတာပဲ"

"အိမ်ထောင်သည် ယောကျ်ားတွေအနေနဲ့ သိထား နားလည်သင့်တဲ့ အလုပ် တစ်ခုပဲဗျ" ဟု ဟူစတန်က ဆိုသည်။

အဖေဂျုတ်က ဝင်ပြောသည်။ "ကျုပ်တို့တော့ မနက်ဖြန် မနက် ဒီက သွားကြတော့မယ်"

"ဟုတ်လား၊ ဘယ်ကို သွားကြမှာလဲ"

"မြောက်ဘက်ပိုင်း သိပ်မဝေးတဲ့ နေရာ တစ်နေရာကိုဗျ၊ ဝါကောက်လုပ်ငန်း စစချင်း အလုပ် ရအောင် ကြိုးစားကြည့်မလို့၊ ကျုပ်တို့မှာ အခုထက်ထိ အလုပ် မရှိကြသေးဘူး၊ အခုဆို အစားတောင် ပြတ်လုပြတ်ခင် ဖြစ်သွားပြီ"

"ဒီတစ်ဝိုက်မှာ အလုပ်လေး ဘာလေး ရှိလို ရှိငြား ရှာမကြည့်ကြဘူးလား" ဟု ဟူစတန်က မေးသည်။

"မရှိဘူးဗျ၊ ဒီမှာတော့ အလုပ်ရဖို့ လမ်း မမြင်တော့ဘူး"

"ရှလာဦးမှာပေါ့ဗျ၊ သိပ်မကြာခင်မှာ ပေါ်လာပါလိမ့်မယ်" ဟု ဟူစတန်က ဆိုသည်။ "စောင့်ကြည့်ပါဦးလား"

"ကျုပ်ကလည်း ဒီက မသွားချင်ဘူး" ဟု အဖေက ပြန်ပြောသည်။ "ဒီစခန်းက လူတွေက သဘောကောင်းကြတယ် မဟုတ်လား၊ ပြီးတော့ အစစအရာရာ သုံးရစွဲရ နေရ ထိုင်ရတာကလည်း သန့်ရှင်းတယ်၊ ဒါပေမဲ့ ခက်တာက ကျုပ်တို့ အစာမစားဘဲ မနေနိုင်ဘူးလေ၊ တိုင်ကီထဲက လက်ကျန် ဓာတ်ဆီကလေး သုံးပြီး သွားကြရမှာ၊ လမ်းပေါ်မှာလည်း တလည်လည် နေရဦးမှာပေါ့၊ ဒီမှာကတော့ နေ့စဉ် ရေမှန်မှန် ချိုးရတယ်၊ ကျုပ်တစ်သက်မှာ ဒီလောက် သန့်သန့်ရှင်းရှင်း နေနိုင်တာမျိုး မကြုံခဲ့ဖူးဘူး၊

တကယ် ပြောတာပါ၊ ရယ်စရာတော့ ကောင်းတယ်၊ သိလား၊ ရေကို တစ်ပတ် တစ်ကြိမ်လောက်ပဲ ချိုးနေရတုန်းကများ ကိုယ့်ကိုယ်က အနံ့အသက်ကို လုံးဝ သတိမထားမိခဲ့ဘူး၊ အခုများ တစ်ရက်လောက် ရေမချိုးရရင် နံနေပြီ၊ ရေမှန်မှန် ချိုးရတာနဲ့ပဲ စိတ်က အဲသလို ဖြစ်လာတယ်၊ အံ့သြဖို့ မကောင်းဘူးလား"

"အရင်ကတော့ ကိုယ့်ရဲ့ကိုယ်က ထွက်နေတဲ့ အနံ့အသက်ကို ခင်ဗျား မရှုမိခဲ့လို့နဲ့ တူပါတယ်ဗျာ" ဟု မန်နေရျာက ပြောသည်။

"အင်း ဟုတ်သားပဲ၊ ဖြစ်နိုင်တာပေါ့၊ ကျုပ်ကတော့ ဒီမှာပဲ နေချင်ပါတယ်ဗျာ"

မန်နေရျာသည် သူ့လက်ဖဝါးများဖြင့် သူ့နားထင်နစ်ဖက်ကို ဖိကိုင်ထားသည်။ "ကနေ့ညလည်း နောက်ထပ် ကလေးတစ်ယောက် မွေးလိမ့်မယ် ထင်တယ်ဗျာ" ဟု ပြောသည်။

"ကျုပ်တို့ မိသားစုထဲမှာလည်း မကြာခင် ကလေးတစ်ယောက် မွေးလိမ့်ဦးမယ်" ဟု အဖေရျုတ်က ပြန်ပြောသည်။ "ကျုပ်ကတော့ ကလေးကို ဒီမှာပဲ မွေးချင်တယ်၊ တကယ် ပြောတာပါဗျာ၊ ကလေးကို ဒီမှာပဲ မွေးချင်တယ်"

တွမ်၊ ဝီလီနှင့် ရက်အင်ဒီးယန်းကပြား ဂျူလီတို့သည် ကပွဲစင်၏ အစွန်း၌ ထိုင်ကာ ခြေထောက်များကို တွဲလောင်းချထားကြသည်။

"ဒါပာမ် ဆေးအိတ် တစ်အိတ် ကျုပ် ရထားတယ်" ဟု ဂျူလီက စကားစသည်။ "ခင်ဗျားတို့ ဆေးလိပ် သောက်ကြမလား"

"ကျုပ်တော့ သောက်မယ်"

"ဆေးလိပ် မသောက်ရတာ ကြာပြီဗျ" ဟု တွမ်က ပြောသည်။ သူသည် ဆေးမှုန်များကို စက္ကူတစ်ရွက်ပေါ်တင်၍ အဖိတ်အစင် မရှိအောင် သတိထား၍ လိပ်နေသည်။

"အေးဗျာ၊ ခင်ဗျားတို့ သွားကြတော့မယ် ဆိုတာ သိရတော့ စိတ်မကောင်းဘူး" ဟု ဂျူလီက ဆိုသည်။ "ခင်ဗျားတို့ မိသားစုက သဘောကောင်းတယ် မဟုတ်လား"

တွမ်က သူ့စီးကရက်ကို မီးညှိသည်။ "ကျုပ် စဉ်းစားနေတာ ကြာပြီ၊ ကျုပ်ကတော့ တစ်နေရာရာမှာ အခြေစိုက်နိုင်ပါစေလို့ ဆုတောင်းနေတာပဲဗျာ"

ဂျူလီက တွမ်၏ လက်ထဲမှ ဆေးအိတ်ကို လှမ်းယူသည်။ "အဖြစ်က မကောင်းပါဘူးဗျာ" ဟု ညည်းသည်။ "ကျုပ်မှာ သမီးလေးတစ်ယောက် ရှိတယ်၊ ကျုပ် ဒီကို ရောက်လာတော့ သမီးလေးကို ကျောင်းထားဖို့ စိတ်ကူးမိတယ်၊ ဒါပေမဲ့ဗျာ ကျုပ်တို့ အဖြစ်က ငရဲပြည် ရောက်နေတဲ့ အတိုင်းပါပဲ၊ နေရာတစ်နေရာမှာ ကြာကြာမှ မနေရဘဲ တောက်လျှောက် တစ်သွားတည်း သွားနေရတာပဲ"

"ကျုပ်တော့ ဟူးဗားဗီးလ် စခန်း တစ်ခုခုမှာ ဝင်ပြီး နေရတဲ့အဖြစ်မျိုး မရောက်ဖို့ မျှော်လင့်ရတာပဲ" ဟု တွမ်က ပြောသည်။ "အဲဒီမှာ နေရမှာကို ကျုပ် သိပ်ကြောက်တယ်"

"ပုလိပ်တွေက ခင်ဗျားကို ဒုက္ခပေးလို့ မဟုတ်လား"

"ဒါပေါ့၊ ကျုပ်အနေနဲ့ သူတို့ထဲက တစ်ယောက်ယောက်ကို သတ်မိမှာ ကြောက်နေတယ်၊ ဟူးဗားဗီးလ်စခန်းတစ်ခုမှာ ကျုပ် ခဏနေဖူးတယ်၊ ပုလိပ်တစ်ယောက် လာပြီး ကျုပ်မိတ်ဆွေတစ်ယောက်ကို ဖမ်းတယ်၊ ဖမ်းတာကလည်း စကားပြောတာ အဆင်မပြေလို့ဗျ"

"ခင်ဗျား သပိတ်မှောက်တဲ့ထဲ ပါခဲ့ဖူးသလား" ဂီလီက မေးသည်။

"ဟင့်အင်း"

"ကျုပ် အများကြီး စဉ်းစားတယ်၊ ဒီပုလိပ်တွေဟာ ဒီစခန်းကို တစ်ခြားစခန်းတွေလို ဖြစ်အောင် တိုက်ခံမကောင်းကြံတဲ့အခါမှာ ဘာပြုလို့ မအောင်မြင်ရတာလဲ၊ ဟိုရုံးခန်းထဲမှာ ထိုင်နေတဲ့ မန်နေဂျာဆိုတဲ့လူက သူတို့ကို တားမြစ်ထားလို့လား၊ မဟုတ်ဘူးခင်ဗျ၊ မဟုတ်ဘူး"

"ဒီလိုဆို ဘယ်သူ့ကြောင့်လဲ "ဟု ဂျူလီက မေးသည်။

"ကျုပ်ပြောပြမယ်၊ ဘာကြောင့်လည်းဆိုတော့ ကျုပ်တို့အားလုံး ညီညီညွတ်ညွတ် စည်းစည်းလုံးလုံးနဲ့ စုပေါင်းပြီး အလုပ်လုပ်နေကြလို့ဗျ၊ ပုလိပ်က ဒီစခန်း ဝင်လာပြီး

သူလုပ်ချင်တိုင်း လုပ်လို့မရဘူး၊ လုပ်လည်း မလုပ်ရဲဘူးလေ၊ ဒီမှာဆိုရင် လူတစ်ယောက်က တစ်ခွန်းအော်လိုက်တာနဲ့ တစ်ပြိုင်နက် တစ်ခါတည်း လူနှစ်ရာ ထွက်လာမှာ၊ ဘဂဝတူစုပေါင်းပြီး ဖွဲ့ထားတဲ့ အသင်းအကြောင်း ပြောပြောနေကြတာ ခင်ဗျားတို့ ကျုပ်တို့ ကြားဖူးနေကြတာပဲ၊ ဘယ်နေရာရောက်ရောက် အဲဒီအသင်းမျိုး ဖွဲ့နိုင်တယ်ဆိုတာလည်း သူတို့ ပြောနေကြတာပဲ၊ အရေးကြီးတာက အချင်းချင်း စည်းလုံးမိဖို့ပဲ၊ သဘောကတော့ လူနှစ်ရာစလုံး ညီညွတ်နေရင် မတော်မတရား မလုပ်ရဲဘူးပေါ့ဗျာ၊ အဲ တစ်ယောက်ချင်း ဆိုရင်တော့ သူတို့လုပ်ချင်သလို လုပ်မှာပဲ"

"ဟုတ်တယ်" ဟု ဂျူလီက ထောက်ခံသည်။ "ကဲဗျာ၊ ခင်ဗျားမှာ အသင်းတစ်သင်းရှိပြီ ဆိုပါစို့၊ ခင်ဗျားတို့မှာ ခေါင်းဆောင်ရှိရမယ်၊ အဲ ခေါင်းဆောင်ရှိလို့ သူတို့က အဲဒီခေါင်းဆောင်ကို လာပြီးဆွဲသွားရင် ခင်ဗျားတို့အသင်းက ဘယ်ရောက်သွားမလဲ၊ ရှိပါဦးတော့မလား"

"ကျုပ်တို့အနေနဲ့ တစ်ခါတစ်ရံ စဉ်းစားရမယ့်ဟာတွေ ရှိတယ်ဗျ" ဟု ဂီလီက ဆိုသည်။ "ကျုပ် ဒီကိုရောက်တာ တစ်နှစ်ရှိသွားပြီ၊ လုပ်ခတွေလည်း အတိုး မရှိဘူး၊ အကျပဲ ရှိတယ်၊ လူတစ်ယောက်အနေနဲ့ သူရတဲ့ လုပ်ခနဲ့ သူ့မိသားစုကို ဂအောင် မကျွေးနိုင်ဘူး၊ အခြေအနေကလည်း တစ်နေ့တစ်ခြား ဆိုးသထက်ဆိုးလာတယ်၊ ဒီလိုချည်း ငုတ်တုတ်ထိုင်ပြီး ငတ်နေဖို့ဆိုတာကလည်း ကောင်းတာမဟုတ်ဘူး၊ ကျုပ်အနေနဲ့ကတော့ ဘာလုပ်ရမှန်းကို မသိတော့ဘူး၊ ခင်ဗျားတို့ တစ်ခု စဉ်းစားကြည့်လေ၊ လူတစ်ယောက်က မြင်းတွေ မွေးထားတယ်၊ အဲဒီ သူ့မြင်းတွေ အလုပ်မလုပ်တဲ့အချိန်မှာလည်း ကျွေးမွေးထားတာပဲ၊ မြင်းတွေကို ကျွေးနေရလို့ စိတ်ဆိုးတယ်၊ ဒေါသဖြစ်တယ်လို့ ရှိသလား၊ မသဒ္ဒါဘူးလို့ကော ရှိသလား၊ မရှိဘူးဗျ၊ဒါပေမယ့် လူတစ်ယောက်မှာ သူ့အတွက် အလုပ်လုပ်ပေးနေတဲ့ လူတစ်စု ရှိတယ်ဆိုပါတော့၊ အဲဒါကျတော့ အလုပ် လုပ်ပေးရက်သားနဲ့ကို သူက မသဒ္ဒါချင်ဘူး၊ ဂအောင်တောင် ကျွေးလား ပေးလား မလုပ်ချင်ဘူး၊ မြင်းတွေက လူတွေထက် တန်ဖိုးရှိနေတာပေါ့ဗျ၊ ကျုပ်ဖြင့် အဲသလို ဖြစ်ရတာကို လုံးဂ နားမလည်ဘူး"

"ကျုပ်ကတော့ ဒီကိစ္စကို မစဉ်းစားချင်ဘူး" ဟု ဂျူလီက ပြောသည်။ "ဒါပေမယ့် မစဉ်းစားလို့လည်း မဖြစ်ဘူး၊ ကျုပ်မှာက သမီးလေး ရှိနေတယ်၊ ခင်ဗျားတို့ သိကြတဲ့အတိုင်းပဲ၊ အလွန်ချောတဲ့ ကလေးမလေးဗျ၊ ဟိုတစ်ပတ်ကတောင် သူ့ကို

သိပ်လှတယ်ဆိုပြီး ဒီစခန်းမှာ ဆုပေးသေးတယ်လေ၊ ဒီသမီးလေး ဘာဖြစ်မလဲဆိုတာ ကျုပ် မစဉ်းစားဘဲ နေလို့ရမတဲ့လား၊ သူ့မှာ ဘာဖြစ်မလဲဆိုတာ အမြဲ တွေးပူနေရတာ၊ ကျုပ် မစဉ်းစားပွဲဘူး၊ သူ့မှာသာ တစ်ခုခုဖြစ်သွားရင် ကျုပ် ရင်ကွဲရလိမ့်မယ်၊ ကျုပ် တစ်ခုခုတော့ မလုပ်လို့မဖြစ်ဘူး၊ လုပ်မှ ဖြစ်မှာ"

"ဘယ်လိုလုပ်မလဲ" ဟု ဂီလီက မေးသည်။ "သူများပစ္စည်းခိုးပြီး ထောင်ကျခံမလား၊ တစ်ယောက်ယောက်ကို သတ်ပြီး ကြိုးပေးခံမှာလား"

"ကျုပ်မပြောတတ်ဘူး" ဟု ဂျူလီက ရေရွတ်သည်။ "တွေးလိုက်တိုင်း ခေါင်းခြောက်တယ်ဗျာ"

"ကျုပ်ကတော့ ကပွဲကို လွမ်းနေမိတော့မှာပဲ" ဟု တွမ်းက ပြောသည်။ "တစ်ချို့အကတွေက သိပ်ကောင်းတာပဲ၊ ကျုပ်မမြင်ဖူးတဲ့ အကတွေပါတယ်၊ ကဲ ကျုပ်သွားတော့မယ်၊ ခင်ဗျားတို့ကို နှုတ်ဆက်ပါတယ်ဗျာ၊ ခင်ဗျားတို့နဲ့ တစ်နေရာရာမှာ ပြန်ဆုံကြလိမ့်ဦးမယ်လို့ ကျုပ် မျှော်လင့်ပါတယ်"ဟု တွမ်က ဂီလီနှင့် ဂျူလီတို့၏ လက်များကို ဆွဲ၍ နှုတ်ဆက်သည်။

"ဆုံမိမှာပါဗျာ" ဟု ဂျူလီက ရေရွတ်လေသည်။

"အေးဗျာ၊ သွားပေဦးတော့"

တွမ်သည် အမှောင်ထုအတွင်းသို့ ဂင်ရောက် ပျောက်ကွယ်သွားလေ၏။

ဂျတ်မိသားစုတဲအတွင်းရှိ အမှောင်ထုအောက် ဂယ် ရှုသီနှင့် ဂင်းဖီတို့ မောင်နှမသည် မွေ့ယာပေါ်၌လှဲလျက် ရှိကြ၏။ သူတို့ဘေး၌ လှဲနေသူမှာ အမေဂျုတ်။ ရှုသီက ကပ်၍ တိုးတိုးလေးခေါ်သည်။ "အမေ"

"ဘာလဲ ရှုသီ၊ နင် အခုထက်ထိ မအိပ်သေးဘူးလား"

"အမေ၊ အခု သမီးတို့သွားမယ့်နေရာမှာ ကရိုးကွက် ကစားတဲ့လူတွေ ရှိမှာပေါ့နော်"

"မသိဘူး၊ အိပ်တော့၊ မနက်ကို အစောကြီးထရမှာ"

"သမီးကတော့ ဒီမှာပဲ ချေင်တယ်၊ ဒီမှာက ကရိုးကွက် ကစားတဲ့သူတွေ ရှိတယ်"

"ရှူး"

"အမေ၊ ကနေ့ည ဂင်းဖီးလေ ကောင်လေးတစ်ယောက် ကို လက်သီးနဲ့ ထိုးခဲ့တယ်"

"သူ မလုပ်သင့်ဘူး"

"သမီးသိတယ်၊ သမီး သူ့ကိုပြောတာပဲ၊ မရဘူး၊ ဟိုကောင်လေး နှာခေါင်းကို လက်သီးနဲ့ ထိုးတာ သွေးတွေကို ရဲနေတာပဲ"

"အဲသလိုပြောပုံမျိုး မပြောနဲ့၊ မကောင်းဘူး"

ဂင်းဖီးက အမေ့ဘက်ကို စောင်းလိုက်သည်။ "ဟိုကောင်လေးက ကျုပ်တို့ကို အုတ်ကီးတွေလို့ ခေါ်တယ် အမေရ" ဟု မခံချင်သဖြင့် ပြောသည်။ "သူက ပြောတယ်၊ သူလာတာ အိုရီးဂွန်းပြည်နယ်က လာတာတဲ့၊ ဒါကြောင့် သူတို့က အုတ်ကီး မဟုတ်ဘူးတဲ့၊ ကျုပ်တို့ဟာ အလကား အသုံးမကျတဲ့ အုတ်ကီးတွေတဲ့၊ ဒီတော့ ကျုပ်က ချပစ်လိုက်တာပေါ့"

"ရှူး၊ အဲသလို မလုပ်ရဘူး၊ နာမည်ခေါ်တာပဲ၊ နင့်အသားနာအောင် လုပ်တာမှ မဟုတ်တာ"

"အခေါ်မခံနိုင်ဘူးဗျာ" ဂင်းဖီးက ဒေါသသံဖြင့် ပြောသည်။

"ရှူး၊ တော်ပြီ၊ အိပ်တော့"

ရှုသီက ပြန်ပြောသည်။ "သွေးတွေထွက်တာ အများကြီးပဲ၊ သူ့အဝတ်အစား တွေလည်း ရွှဲကုန်တာပဲ၊ အမေမြင်ဖို့ ကောင်းတယ်"

အမေ့လက်တစ်ဖက်သည် စောင်ခြုံအောက်မှ ထွက်လာပြီး ရှုသီ၏ ပါးတစ်ဖက်ကို လက်ညှိုးဖြင့် ခပ်ဆတ်ဆတ်ထိုးသည်။ ရှုသီ ငြိမ်ကျသွားသည်။ ထို့နောက် နှာခေါင်းရှုံ့သံ ကြိုးကြားကြိုးကြား ထွက်လာသည်။ တိတ်တိတ်ကလေး ကျိတ်၍ငိုနေခြင်းပင်။

အဖေဂျတ်နှင့် ဦးလေးဂျွန်တို့သည် အခန်းချင်းတွဲလျက်ရှိသော အိမ်သာထဲ၌ နောက်ဖေးသွားနေကြသည်။ "ဇိမ်ရှိရှိနဲ့ အီးယိုရတာ ဒီတစ်ခါ နောက်ဆုံးအကြိမ် ဖြစ်မှာပဲ" ဟု အဖေဂျတ်က ပြောသည်။ "တကယ်ဇိမ်ရှိတာကွ၊ သိလား၊ ပထမဆုံးအကြိမ် ဂင်ပါတဲ့ ချာတိတ်တွေများ ရေဆွဲချလိုက်လို့ ရေတွေ ဖေါခနဲ ကျလာရင် သိပ်ကြောက်တာ"

"ငါတော့ဖြင့် ထိုင်ရတာ သိပ်မသက်သာလှပါဘူးကွာ" တစ်ဖက်ခန်းထဲ၌ ထိုင်နေသော ဦးလေးဂျွန်က ပြန်ပြောသည်။ သူသည် သူ့အပေါ်အင်္ကျီအောက်စများကို ဒူးခေါင်းနှစ်ဖက်စလုံးတွင် ပတ်ထားလေသည်။ "ငါတော့ ဇိမ်မရှိဘူး၊ အပြစ်တစ်ခုခု ကျူးလွန်နေသလိုလို စိတ်ထဲက ဖြစ်နေတယ်"

"ဘာအပြစ်မှ မကျူးလွန်ဘူး၊ အလကား" ဟု အဖေဂျတ်က ပြောသည်။ "ပိုက်ဆံပေးရတာမှ မဟုတ်တာ၊ ခပ်တင်းတင်း ထိုင်ထား၊ မင်းပြောတဲ့ အပြစ်တစ်ခု ကျူးလွန်ဖို့က အနည်းဆုံး နှစ်ဒေါ်လာတော့ ပေးရမယ်၊ တို့မှာ နှစ်ဒေါ်လာမပြောနဲ့ ခြူးတစ်ပြားတောင်မှ မရှိတာ၊ စဉ်းစားမနေနဲ့"

"အင်း ဟုတ်တယ်၊ ဒါပေမယ့် ငါက တွေးနေမိတယ်ကွ"

"ကောင်းပြီ၊ မရရင်လည်း တွေး၊ ပိုက်ဆံမပေးဘဲ တွေးနိုင်တဲ့ကိစ္စပဲဟာ၊ ကြိုက်သလိုသာ တွေးတော့"

"ငါလုပ်ခဲ့ဘူးတဲ့ မကောင်းမှုတွေထဲက တစ်ဂက်လောက်ကို ဘယ်သူ့မှ အသိမပေးဘူး"

"အေး ကောင်းတယ်၊ မင်း ဂမ်းထဲမှာပဲထား"

"ဒီ ကမုတ်ခွက် အိမ်သာတွေကလည်း ငါ့ကို မကောင်းမှုပြချင်လာအောင် လုပ်နေတာပဲကွ"

"ဒီလိုဆိုတော့လည်း ချုံတွေထဲသွားပြီး ယိုပေါ့ကွ၊ ကဲ ပြီးပလား၊ သွားမယ်၊ တစ်ရေးလောက်တော့ အိပ်ဦးမှ၊ မင်း ဘောင်းဘီကို အပေါ်ထိ ဆွဲတင်" အဖေဂျတ်သည် သူ့ဘောင်းဘီကို ကျကျနန ဆွဲတင်ပြီး ကြယ်သီးများကို တပ်သည်။ ပြီးတော့

ရေဆွဲချလိုက်၏။ ထို့နောက် ကြွေခွက်အတွင်းသို့ တစ်ငေါ်ငေါ်စီးကျနေသော ရေများကို တွေတွေငေးငေး စိုက်ကြည့်လျက်ရှိလေသည်။

အဖေဂျုတ် အိပ်ယာမှထပြီး သူ့မိသားစုအား နှိုးသည့်အချိန်တွင် အမှောင်ထု မပြယ်သေး။ ရေချိုးခန်းများအတွင်းမှ ညလုံးပေါက် ခပ်မှိန်မှိန်ထွန်းထားသည့် မီးရောင်များသည် တံခါးပေါက် များမှ တစ်ဆင့် အပြင်သို့ ထိုးကျလျက်ရှိ၏။ လမ်းတစ်လျှောက်ရှိ တဲများအတွင်းမှ ဟောက်သံ မျိုးစုံတို့သည်လည်း အပြင်သို့ ထွက်လာလျက် ရှိလေသည်။

"ထကြတော့၊ တို့သွားဖို့အချိန်တော်ပြီ၊ မိုးလင်းတော့မယ်" ဟု အမေက ပြောသည်။ သူသည် မှန်အိမ်မီးစာကို မီးညှိနေရာမှ "ကဲကွယ်၊ ထကြတော့" ဟု ထပ်ဆော်သြပြန်သည်။

တဲအတွင်း၌ လှုပ်လှုပ်ရှားရှား ဖြစ်လာသည်။ တဲကြမ်းပြင်ပေါ်မှ ခြေနင်းသံများ ကြားလာရသည်။ စောင်များကိုဖယ်၍ ထလာကြသည့်လူများ။ အိပ်ချင်မူးတူးဖြစ်နေသော မျက်လုံးများသည် မီးရောင်ကို ရဲရဲရင်မဆိုင်ဝံ့။ အတွင်းခံအင်္ကျီနှင့် အိပ်ယာဝင်ခဲ့သော အမေသည် အပေါ်အင်္ကျီများကို ဝတ်ပြီးနေလေပြီ။ "တို့မှာ သောက်စရာကော်ဖီ မရှိတော့ဘူး" ဟု အမေက ပြောသည်။ "ဘီစကွတ်မုန့်နည်းနည်း ရှိတယ်၊ လမ်းသွားရင်း စားသွားမယ်၊ အခု လောလောဆယ်တော့ ပစ္စည်းတွေ ကားပေါ်တင်ကြ၊ ကဲ လုပ်ကြ၊ သိပ်ပြီး ဆူဆူညံညံလည်း မလုပ်ကြနဲ့၊ တဲနီးနားချင်းတွေ အိပ်ရေးပျက်ကုန်မယ်"

"နင်တို့နှစ်ကောင် ဘယ်ကိုမှ လစ်ထွက်မသွားနဲ့ဦး" အမေက ကလေး နှစ်ယောက်ကို လှမ်း၍ဟန့်သည်။ မိသားစုတစ်စုလုံး အဝတ်အစား ဝတ်ပြီးကြလေပြီ။ ယောကျ်ားများသည် တာပေါ်လင်အမိုးကို ဖြုတ်သူကဖြုတ်၍ ပစ္စည်းများကို ကားပေါ် တင်သူက တင်သည်။

"အားလုံးပြီးသွားပြီ အမေ၊ ကားကတော့ ထွက်ဖို့အသင့်ပဲ" ဟု တွမ်က ပြောသည်။

အမေ့လက်ထဲတွင် ဘီစကွတ်မုန့်များ ထည့်ထားသည့် ပန်းကန်ပြားတစ်ချပ်။ "ကဲ လာကြ၊ တစ်ယောက်တစ်ခု ယူ၊ တို့မှာရှိတာ ဒါ အကုန်ပဲ"

ရှုသီနှင့် ဂင်းဖီးတို့သည် မုန့် တစ်ယောက် တစ်ချပ်ကောက်ယူပြီး ထရပ်ကား ပေါ်သို့ တက်သည်။ အပေါ်ရောက်သည်နှင့် တစ်ပြိုင်နက် စောင်တစ်ထည် ယူ၍ ခြုံသည်။ ပြန်၍အိပ်ရန် ပြင်ဆင်ကြခြင်းပေတည်း။ တွမ်က ကားရှေ့ခန်း ဒရိုင်ဘာထိုင်ခုံတွင် ဂင်ထိုင်ကာ ကားစတတ်တာကို နှိုးသည်။ စက်နှိုးသံတစ်ချက် ထွက်လာပြီး ချက်ချင်း ပြန်ရပ်သွားလေ၏။

"မင်း တော်တော်အသုံးမကျတဲ့ကောင်ပါလား အယ်လ်" ဟု တွမ်က လှမ်းအော်သည်။ "ဘက်ထရီ အားကုန်နေပြီကွ"

"ဓာတ်ဆီအလုံအလောက် မရှိတာ၊ ကျုပ် ဘယ်လိုလုပ်ပြီး အားပြန်သွင်းနိုင်မှာ လဲဗျ" ဟု အယ်လ်က ပြန်အော်သည်။

"ဘယ်လို လုပ်ရမှန်းတောင် မသိတော့ဘူး၊ ဘာပဲဖြစ်ဖြစ်၊ မင်းအပြစ်ပဲ၊ အခုပုံဆိုရင် ဂေါက်နဲ့လှည့်နှိုးမှပဲ ရတော့မယ်"

"ကျုပ်အပြစ် မဟုတ်ပါဘူးလို့ ပြောပြီးပါပကောလားဗျ"

တွမ်က ကားပေါ်မှ ပြန်ဆင်းပြီး ဖင်ထိုင်ခုံအောက်မှ ဂေါက်တံကို ဆွဲထုတ်ကာ "ငါ့အပြစ်ပဲ" ဟု ရေရွတ်သည်။

"ဂေါက်တံ ကျုပ်ကိုပေး" ဟုတ် အယ်လ်က တွမ်၏လက်ထဲမှ ဂေါက်တံကို ဆွဲယူပြီး ကားစက်ကို တစ်ပတ်ပြီးတစ်ပတ် လှည့်သည်။ ကားအင်္ဂျင်ဆီမှ နှိုးလာသည့် စက်သံ။ တွမ်က ကားစက်အရှိန်ကို မြှင့်လိုက် နိမ့်လိုက် လုပ်နေကြသည်။

အမေက တွမ်၏ ဘေးတွင် ဂင်ထိုင်သည်။ "တို့လပ်ပုံက စခန်းထဲကလူတွေကို နှိုးသလို ဖြစ်နေပြီကွယ့်" ဟု ရေရွတ်သည်။

"နိုးလည်း ပြန်အိပ်ကြမှာပေါ့ အမေရာ"

အယ်လ်က အမေ့ဘေးမှ ဂင်ထိုင်သည်။ "အဖေနှင့် ဦးလေးဂျွန်တို့ နောက်ခန်းထဲ တက်သွားကြပြီ၊ သူတို့က ပြန်အိပ်ကြဦးမှာ"

တွမ်သည် ထရပ်ကားကို စခန်း၏ အဝင်အထွက်ဂိတ်ဆီသို့ မောင်းသည်။ ဂိတ်တဲအတွင်းမှ ထွက်လာသော အစောင့်သည် လက်ထဲမှ လက်နှိပ်ဓာတ်မီးဖြင့် အချက်ပြ၍ ကားကိုရပ်ခိုင်းလေသည်။

"ဘာလုပ်ဦးမလို့လဲဗျ"

"အထွက်ပြပြီးခဲ့ပြီလား"

"ပြီးပြီပေါ့ဗျ"

"ခင်ဗျားတို့က ဘယ်ဘက်သွားကြမှာလဲ"

"မြောက်ပိုင်းဘက်ကို သွားကြမလို့"

"ကံကောင်းကြပါစေဗျာ" ဟု ဂိတ်စောင့်က ဆုတောင်းသည်။

"ခင်ဗျားလည်း ကံကောင်းပါစေဗျာ"

ထရပ်ကားသည် ဂိတ်ဂက ကမူကို ခပ်ဖြည်းဖြည်း ကျော်ခွတက်ကာ လမ်းမပေါ်သို့ ရောက်သွားသည်။ တွမ်သည် သူ လာခဲ့ဖူးသည့်လမ်းကို ပြန်စဉ်းစားပြီး ထိုလမ်းခရီးစဉ်အတိုင်း မလဲအောင် လိုက်သည်။ ထရပ်ကားသည် ဂိဒ်ပက်ချ်ကို ဖြတ်ကာ ၉၉ အဝေးပြေး ကားလမ်းမကြီးနှင့် ဆုံမိသော နေရာရောက်သည်အထိ အနောက်စူးစူးသို့ ဦးတည်၍ မောင်းလာခဲ့သည်။ ၉၉ ကွန်ကရိလမ်းမကြီးပေါ် ရောက်သည့်အခါ ဘေးကားစ်ဖီးလ်မြို့ဘက် ရှေးရှု၍ မြောက်တည့်တည့်သို့ ထွက်သည်။ မြို့ဆင်ခြေဖုံး ရပ်ကွက်များအတွင်းသို့ ထရပ်ကား ဝင်မိသည့်အချိန်တွင်မှ အလင်းရောင် ပိုးတဂါး ထိုးဖောက်ဝင်ရောက်စ ပြုလေပြီ။

"ဘယ်နေရာ ကြည့်လိုက် ကြည့်လိုက် စားသောက်ဆိုင်တွေချည်းပဲ၊ ဒီဆိုင်တွေ အားလုံး ကော်ဖီရတယ်၊ ကော်ဖီပူပူလေးပေါ့ကွာ" ဟု တွမ်က ပြောသည်။

"မပြောစမ်းပါနဲ့ဗျာ" ဟု အယ်လ်က ဟန့်သည်။

တွမ်က အယ်လ်၏မျက်နှာကို ပြုံးဖြဲဖြဲနှင့် ကြည့်သည်။ "မင်း ကောင်မလေး တစ်ယောက်နဲ့ ငြိနေပြီမဟုတ်လားကွ"

အယ်လ်က စိတ်မရှည်တော့သည့် လေသံဖြင့် ပြန်ပြောသည်။ "ကျုပ်ကလည်း ကျုပ်ဘာသာ တစ်ယောက်တည်း နေနိုင်အောင် လုပ်တော့မှာပါဗျ၊ မိသားစုနဲ့ အတူတူမနေရတဲ့ လူတစ်ယောက်က သူ့ဘဝသူ ထူထောင်ဖို့ သိပ်လွယ်ပါတယ်"

"မင်းဟာ နောက်ကိုးလလောက်အတွင်းမှာ မိန်းမရမယ့်အကောင်ပါ အယ်လ်ရာ၊ မင်း တစ်ကောက်ကောက်လိုက်နေတာ ငါ မြင်ပါတယ်"

"ခင်ဗျား အရူးပဲ၊ ကျုပ် မိန်းမ မယူဘူး၊ သိလား၊ ဂပ်ရှော့တစ်ခုမှာ ဂင်ပြီး အလုပ်လုပ်မယ်၊ စားတော့သောက်တော့ ဆိုင်မှာစား...."

"တော်စမ်းပါ၊ နောက်ကိုးလအတွင်းမှာ မင်းဟာ မိန်းမနဲ့ ကလေးနဲ့ ဖြစ်မှာပါ"

"ကျုပ်ပြောပြီးပါပကောလား၊ ကျုပ် မိန်းမ မယူဘူးလို့"

"မင်းဟာ လူလည်တစ်ယောက်ပါကွာ၊ သူများပုံချသမျှကို ဘာကြောင့် မင်းက ခေါင်းခံချင်ရတာလဲ"

"ဘယ်သူတွေက ပုံချမှာလဲ"

"ဒီလို ကိုယ့်ကိစ္စကို တစ်ခြားလူအပေါ် ပုံချချင်တဲ့အကောင်တွေ ဒီလောကမှာ အများကြီး ရှိတယ်ကွ"

"ခင်ဗျားက ဘာပြုလို့ ဒီလို ထင်နေရတာလဲ၊ ဟိုကောင်မလေးနဲ့..."

"ကဲပါကွယ်၊ အငြင်းအခုံ လုပ်မနေကြစမ်းပါနဲ့၊ တော်ကြပါတော့" ဟု အမေက တားသည်။

"ကျုပ်က သိထားလို့ပါ" ဟု တွမ်က ပြောသည်။ "ကျုပ် သူ့ကို အမြဲ စောင့်ကြည့်နေတာ၊ သူ့ကို အပြစ်ရှာဖို့ မဟုတ်ပါဘူး၊ ဟိုကောင်မလေးကို မင်း သိပ်စွဲလန်းနေတယ်လို့တော့ ငါ မထင်ပါဘူး"

"ဘယ်ကောင်မလေးကိုမှ ကျုပ် တန်းတန်းစွဲမဖြစ်ဘူး၊ မှတ်ထား"

"ဒါဆိုရင် ကောင်းပါတယ်"

ထရပ်ကားသည် မြို့လယ်နယ်နမိတ်အတွင်းသို့ ဝင်လာသည်။ "ဟော့ဒေ့ါမုန့် အရောင်းဆိုင်တေါကို ကြည့်ပါဦး၊ အများကြီးပဲ" ဟု တွမ်က ပြောသည်။

"တွမ်၊ အမေ့မှာ တစ်ဒေါ်လာ ရှိတယ်၊ မင်း ကော်ဖီ သိပ်သောက်ချင်နေသလား၊ ဝယ်သောက်လေ"

"မသောက်ပါဘူး အမေ၊ ကျုပ် သက်သက် ပါးစပ်အားလို့ လျှောက်ပြောနေတာ"

"မင်း သိပ်သောက်ချင်နေရင်တော့ သောက်၊ ရတယ်"

"မသောက်ပါဘူး အမေရ"

"ဒီလိုဆိုရင် ဘာပြုလို့ ကော်ဖီအကြောင်း လျှောက်ပြောနေရတာလဲဗျ၊ ပါးစပ်ပိတ်ထား ပါလား" ဟု အယ်လ်က ဝင်ပြောသည်။

"မြင်လား အမေ၊ ဟိုတစ်ညက ကျုပ်တို့ လျှောက်ခဲ့တဲ့လမ်း" ဟု အတန်ကြာ နှုတ်ဆိတ်နေပြီးမှ တွမ်က ပြောသည်။

"ဒီလိုအဖြစ်မျိုးနဲ့ နောက်ထပ် မကြုံရတော့ဘူးလို့ အမေကတော့ မျှော်လင့်ထားတာပဲ" ဟု အမေက ဆိုသည်။ "အဲဒီညက အတော်ဆိုးတဲ့ ညတစ်ညပဲ"

"ကျုပ်လည်း ထပ်ပြီး မကြုံချင်ဘူး"

နေသည် သူတို့၏ညာဘက်မှ ဖြည်းဖြည်းချင်း မြင့်တက်လာလျက် ရှိသည်။ ထရပ်ကား အရိပ်မည်းမည်းသည် သူတို့ ဘယ်ဘက်မှနေ၍ လမ်းလေး ဓာတ်တိုင်များကို ဖြတ်ကာ သူတို့နောက်မှ အပြေးအလွှား လိုက်လာလျက်ရှိ၏။ သူတို့သည် မီးလောင်ပြီး သည့်နောက်မှ အသစ်ပြန်ဆောက်ထားသော ဟူးဗားဗီးလ်စခန်းကို ကျော်ဖြတ်၍ လာခဲ့ကြ လေသည်။

"ကြည့်စမ်း အမေ" ဟု တွမ်က ပြောသည်။ "စခန်းမှာ လူသစ်တွေ ရောက်နေတယ်၊ ပုံစံကတော့ မပြောင်းဘူး၊ အရင်ကလိုပဲ"

စိတ်ကောက်ပြီး မှုန်တေတေဖြစ်နေသော အယ်လ်သည် တဖြည်းဖြည်း စိတ်ပြေစ ပြုလာသည်။ "ကျုပ်ကို လူတစ်ယောက် ပြောတယ်၊ ဒီစခန်းကို မီးရှို့ခံရတာ ဆယ့်ငါးကြိမ် အကြိမ်နှစ်ဆယ်လောက် ရှိသွားပြီတဲ့၊ မီးလာရှို့တဲ့အခါမှာ လူတွေက မိုးမခတောထဲ သွားပုန်းနေကြတယ်၊ ကိစ္စပြီးလို့ ဟိုင်နဲတွေ ပြန်သွားရင် ပုန်းနေရာက ထွက်လာကြရော၊ တဲစုတ်တဲပုတ်တွေ ပြန်ဆောက်ပြီး နေကြပြန်ရောတဲ့၊ ဒီလို ခဏခဏဖြစ်ပါများတော့လည်း ရိုးလာတာပေါ့၊ အရေထူလာတဲ့သဘော ဖြစ်လာတယ်လို့ ဟိုလူက ပြောတယ်၊ သူတို့အနေနဲ့ ရာသီဥတုဆိုးတဲ့နေ့ တစ်နေ့လောက်ပဲ သဘောထားလာကြတယ်တဲ့"

"ဟုတ်တာပေါ့ကွ၊ ဟိုညကအဖြစ်ဟာ ငါ့အတွက် ရာသီဥတုပျက်တာနဲ့ ကြုံရသလိုပဲ" ဟု တွမ်က ဆိုသည်။ သူတို့သည် ကျယ်ဝန်းပြန့်ပြူးသော လမ်းမကြီးပေါ် အတိုင်း ပြေးသွားလျက် ရှိကြလေသည်။ နေ့၏အအေးဓာတ်ကြောင့် သူတို့အားလုံး ခိုက်ခိုက်တုန် လာသည်။ "မနက်ခင်းက တော်တော်အသက်ဝင်သားပဲ" ဟု တွမ်က ရေရွတ်သည်။ "ဆောင်းဝင်တော့မယ်၊ ကျုပ်တို့မိသားစု ဆောင်းမဝင်ခင် ငွေနည်းနည်းပါးပါး စုနိုင်ဖို့တော့ မျှော်လင့်မိတယ် အမေရာ၊ ရွက်ထည်တဲဆိုတာက အအေးဒဏ် ခံနိုင်တာ မဟုတ်ဘူး"

အမေက သက်ပြင်းချသည်။ ထို့နောက် အမေသည် သူ့ခေါင်းကို မတ်မတ် ထောင်လိုက်သည်။ "တွမ်၊ ဆောင်းဝင်ရင်တော့ အမေတို့မှာ အိမ်မရှိလို့ မဖြစ်ဘူး၊ ရှိကိုရှိမှ ဖြစ်မှာ၊ ရူသီက အကြောင်းမဟုတ်ဘူး၊ ဝင်းဖီးက ခပ်ပျော့ပျော့ရယ်၊ မိုးကျလာရင်လည်း အိမ်ရှိမှ ဖြစ်မှာ"

"ရမှာပေါ့ အမေရယ်၊ အေးအေးသာနေပါ၊ အချိန်တန်ရင်တော့ အိမ်တစ်လုံးတော့ အမေရမှာပေါ့"

"အမိုးလုံလုံ ကြမ်းခင်းကောင်းကောင်းတော့ ရှိမှ၊ ကလေးတွေ မြေကြီးပေါ် မအိပ်ရရင် ပြီးတာပဲ"

"ကျုပ်တို့ ရအောင်ကြိုးစားကြတာပေါ့ဗျာ"

"မင်းကို စိတ်ပူရအောင် အမေမလုပ်ချင်ပါဘူးကွယ်"

"ကျုပ်တို့ ကြိုးစားကြမယ် အမေ"

"တစ်ခါတစ်လေ အမေ သိပ်ပြီး စိတ်ဓာတ်ကျတယ်ကွယ်" ဟု အမေက ပြောသည်။ "အမေက သတ္တိမရှိဘဲ ဖြစ်ဖြစ်သွားတယ်"

"အမေ သတ္တိမရှိဘဲ ဖြစ်သွားတာကို ကျုပ်ဖြင့် မတွေ့ဖူးပေါင်ဗျာ"

"တစ်ချို့ညတွေမှာ ဖြစ်တယ်ကွယ်"

ထရပ်ကား၏ ရှေ့မှ တစ်ရှူးရှူးမြည်သံ ထွက်လာသည်။ တွမ်က ကားစတီယာရင်ကို ခပ်တင်းတင်းဆုပ်ကာ ဘရိတ်ကို နင်းသည်။ ကားသည် တစ်ချက် နှစ်ချက်မျှ ဆောင့်အောင့်ပြီး ရပ်သွားသည် တွမ်က သက်ပြင်းချသည်။ "သွားပြန်ပြီ" ဟု စိတ်ပျက်လက်ပျက် ညည်းသည်။ သူသည် ထိုင်ခုံကို ကျောနှင့် မှီလိုက်လေသည်။ အယ်လ်က ကားပေါ်မှ ခုန်ဆင်းပြီး ညာဘက် ရှေ့ဘီးကို သွား၍ကြည့်သည်။

"နည်းတဲ့သံကြီး မဟုတ်ဘူးဗျို့" ဟု အော်ပြောသည်။

"တို့မှာ တာယာအပို ရှိသေးလား"

"မရှိတော့ဘူး၊ အားလုံး သုံးပြီးနေပြီ၊ ကျွတ်အပို ရှိရင်လည်း ကောင်းမှာ၊ ကော်မှ မရှိတာ ဘာလုပ်မလဲ"

တွမ်က အမေဘက်သို့ လှည့်၍ မချိပြုံး ပြုံးသည်။ "အမေ့မှာ တစ်ဒေါ်လာ ရှိနေတာကို မပြောသင့်ဘူး" ဟု ပြောသည်။ "တစ်နည်းနည်းနဲ့တော့ ရအောင် ဖာရတော့မှာပဲ" သူသည် ကားထဲမှ ဆင်းကာ ပြားချပ်နေသော တာယာကို ငုံ့ကြည့်နေသည်။

အယ်လ်က တာယာထဲသို့ စူးဝင်နေသော သံချောင်းကြီးကို လက်ညှိုးထိုးပြသည်။ "တွေ့လား ဒီမှာ"

"ဒီပြည်နယ် တစ်နယ်လုံးမှာ သံချောင်းတစ်ချောင်းတည်း ရှိနေတယ်ဆိုရင်လည်း ငါတို့ကားပဲ တက်နင်းမိမှာပေါ့ကွာ"

"သိပ်ဆိုးသလား" ဟု အမေက လှမ်းမေးသည်။

"သိပ်မဆိုးပါဘူး၊ ဒါပေမယ့် ဖာတော့ ဖာရမှာပေါ့"

ကားနောက်ခန်းထဲမှ လူစုသည် အောက်သို့ ဆင်းလာကြသည်။ "ဘီးပေါက်တာလား" အဖေဂျုတ်က လှမ်းမေးပြီး တာယာကိုမြင်သောအခါ ငြိမ်သွားသည်။

တွမ်က အမေ့အား ဖယ်ခိုင်းပြီး ထိုင်ခုံအောက်မှ ကော်ဘူးကို ဖြည်းဖြည်းလိပ်ကာ ညှစ်ထုတ်ကြည့်နေသည်။ "ခြောက်လုခမန်း ဖြစ်နေပြီပဲ" ဟု ရေရွတ်သည်။ "ဒါပေမယ့် လောက်တော့ လောက်ကောင်းပါရဲ့ကွာ၊ ကဲဟေ့ အယ်လ် နောက်ဘီးနစ်ဘီးကို ခဲခု၊ ပြီးရင် ဂျိုက်ထောက်ကြမယ်"

တွမ်နှင့် အယ်လ်တို့သည် အတူတွဲ၍ လုပ်ကြသည်။ နောက်ဘီး နစ်ဘီး၏ နောက်မှနေ၍ ခဲများ ခုကြ၏။ ကားဘီးထဲမှ ကျွတ်ကို ဆွဲထုတ်ပြီး အပေါက်ကိုရှာ၍ ရေဆေးသည်။ အပေါက်ပတ်ပတ်လည်ကို သန့်စင်သွားအောင် ဘရပ်နှင့် တိုက်သည်။ ကော်ဘူးထဲမှ လက်ကျန်ကော်ကို ကတ်သီးကတ်သတ် ညှစ်ထုတ်ကာ အပေါက်၏ ပတ်လည်တွင် သုတ်သည်။ ပြီးတော့ ကတ်ကြေးဖြင့် ကျွတ်စတစ်စကို ညှပ်၍ အပေါက်ပေါ်မှ ကပ်လိုက်သည်။ တွမ်က ကျွတ်စကို ကပ်နေစဉ်အတွင်း အယ်လ်က ကျွတ်ကို တင်းနေအောင် ဆွဲဆန့်ပေးထားလေသည်။ "ကဲ ရလောက်ပြီ ယူသွားတော့၊ ကား ခြေနင်းခုံအောက်မှာ တင်ပြီး မင်းက ဆွဲဆန့်ထား၊ ငါက တူနဲ့ထုပေးမယ်" တွမ်က ကော်နှင့်ကပ်ထားသည့် ကျွတ်စကို တူနှင့် ခပ်ဆဆ ထုပေးသည်။ ထို့နောက် ကျွတ်ကို တင်းသွားအောင် ဆွဲဆန့်လိုက်ပြီး စောင့်ကြည့်နေသည်။ "တွေ့လား၊ အလုပ်ဖြစ်သွားပြီ၊ ပြန်ထည့်တော့၊ လေထိုးမယ်၊ အမေ ကပ်ထားတဲ့ တစ်ဒေါ်လာကို သုံးဖို့ မလိုတော့ဘူး အမေ"

"ကျုပ်တို့မှာ ပစ္စည်းအပိုတွေ ဝယ်ထားနိုင်ရင် သိပ်ကောင်းမယ်ဗျာ" ဟု အယ်လ်က ပြောသည်။

"လောလောဆယ် အပိုပစ္စည်းဝယ်ဖို့ ငွေရရင် ငါတော့ ဝယ်ဖြစ်မယ် မထင်ဘူး၊ သူ့ဝယ်မယ့်အစား ကော်ဖီနဲ့ အမဲသားကြော်ပဲ ဝယ်စားချင်တယ်" ဟု တွမ်က ပြန်ပြောသည်။

လမ်းပေါ်ဝယ် ကား အသွားအလာ ရှိသည်။ နေသည် ပို၍ တောက်ပကာ ပို၍ နွေးနွေးထွေးထွေး ရှိလာသည်။ အနောက်တောင်ဘက်မှ လေနအေးလေးသည် တိုက်ခတ်စ ပြုလာပြီ။ တောင်ကြားလွင်ပြင်၏ ဘေးတစ်ဖက်တစ်ချက်ရှိ တောင်တန်းများကို ပြက်ပြက် ထင်ထင် မမြင်ရ။ ပုလဲရောင် သန်းလျက်ရှိသော မြူများ၏ နောက်ကွယ်တွင် မှုန်ဝါးဝါး ဖြစ်လျက်ရှိလေသည်။

တွမ် ကားဘီးလေထိုးနေခိုက်တွင် မြောက်ဘက်မှ လာနေသော ကားတစ်စီးသည် လမ်းမ၏ တစ်ဖက်လေးတွင် လာရပ်သည်။ ကားမှာ နှစ်ယောက်စီး အမိုးဖွင့်ကား ကားထဲမှ အသားညိုညို၊ လုပ်ငန်းပိုင်ရှင်များ ဝတ်လေ့ရှိသည့် ဝတ်စုံနှင့် လူတစ်ယောက် ဆင်းလာသည်။ သူသည် ကားလမ်းကိုဖြတ်၍ ထရပ်ကားဆီသို့ လျှောက်လာလေသည်။ သူ့ခေါင်းတွင် ဦးထုပ်မပါ။ သူသည် တွမ်တို့မိသားစုအား လှမ်းကြည့်ပြီး ပြုံးသည်။ ဖြူဖွေးသော သွားများသည် အညိုရောင် သူ့အသားနှင့် ဇီလာဖြစ်လျက် ရှိသည်။ သူ၏ ဘယ်ဘက်လက်သူကြွယ်တွင် လက်ထပ်လက်စွပ်တစ်ကွင်း ဝတ်ထားသည်။

"မင်္ဂလာနံနက်ခင်းပါ" ဟု ထိုလူက နှုတ်ဆက်သည်။ သူ့အသံမှာ ချေချေငံငံ ရှိသည်။

တွမ်က လေထိုးနေရာမှ ရပ်ပြီး မော့ကြည့်သည်။ "မင်္ဂလာနံနက်ခင်းပါ" ဟု ပြန်၍ နှုတ်ဆက်သည်။

ထိုလူသည် အရောင်ခပ်မွဲမွဲဖြစ်နေသော သူ့ဆံပင်များကြားသို့ လက်ချောင်း ထိုးသွင်းပြီး ကုတ်နေရာမှ "မင်းတို့ အလုပ်ရှာနေကြတာလား" ဟု မေးသည်။

"ဟုတ်ပါတယ် မစ္စတာ"

"မက်မွန်သီး ဆွတ်တတ်သလား"

"တစ်ခါမှ မလုပ်ဘူးဘူး" ဟု အဖေဂျုတ်က ဖြေသည်။

"ကျုပ်တို့ ဘယ်အလုပ်မျိုးမဆို လုပ်နိုင်ပါတယ်" ဟု တွမ်က ကသောကမျော ဝင်ပြောသည်။ "ဘာသီးမဆို ကျုပ်တို့ ခူးတတ်ဆွတ်တတ်ပါတယ်"

"မိုင်လေးဆယ်လောက် ဝေးတဲ့ နေရာမှာ မင်းတို့အတွက် အလုပ်တွေ အများကြီး ရှိနေတယ်ကွ"

"ကျုပ်တို့ အလုပ် သိပ်လုပ်ချင်ပါတယ်ဗျာ" ဟု တွမ်က ပြောသည်။ "အဲဒီနေရာကို ဘယ်လို သွားရမလဲဆိုတာသာ ပြောပါ၊ ကျုပ်တို့ အမြန်ဆုံး သွားပါ့မယ်"

"ဒီလိုဆိုရင် မင်းတို့ ပစ်ကက်လေးမြို့ ရောက်တဲ့အထိ မြောက်ဘက်ကို တည့်တည့်သွား၊ သုံးဆယ့်ငါးမိုင် ခြောက်မိုင်လောက် ဝေးမယ်၊ ပစ်ကက်လေး ရောက်တော့ အရှေ့ဘက်ကို ချိုး၊ ခြောက်မိုင်လောက် ဆက်သွား၊ တွေ့တဲ့ လူတွေကို ဟူးပါးခြံ ဘယ်နားမှာလဲလို့ မေး၊ အဲဒီမှာ အလုပ်တွေ အများကြီး ရှိနေတယ်"

"စိတ်ချပါ၊ ကျုပ်တို့ ရောက်အောင် သွားပါမယ်"

"မင်းတို့လို အလုပ် လိုက်ရှာတဲ့လူတွေ ရှိသေးသလား၊ ဘယ်မှာ ရှိလဲ၊ သူတို့ နေတဲ့နေရာကို မင်း သိသလား"

"သိတယ်" ဟု တွမ်က ပြောသည်။ "ဒီလမ်းအတိုင်း သွားရင် ရှေ့နားမှာ ဝိဒ်ပက်ချ်စခန်း ရှိတယ်၊ အဲဒီမှာ အလုပ် ရှာနေတဲ့ လူတွေ အများကြီးပဲ"

"အေးဒ ငါ အဲဒီကို ဆက်သွားမယ်၊ ငါတို့ လူ အတော်များများ လိုနေတယ်၊ မင်းလည်း မေ့မသွားနဲ့ဦး၊ ပစ်ကက်လေး ရောက်ရင် အရှေ့ဘက်ကို ချိုး၊ ပြီးတော့ တည့်တည့်သွား၊ ဟူးပါးခြံကို ရောက်မယ်"

"စိတ်ချပါ၊ ကျုပ် မှတ်မိပါတယ်၊ ကျေးဇူးတင်ပါတယ် မစ္စတာ၊ ကျုပ်တို့ အလုပ် သိပ်လုပ်ချင်နေကြတာပါ"

"အေး ကောင်းတယ်၊ မြန်မြန်သာ သွားကြ" ထိုလူသည် လမ်းကို ဖြတ်ကားကာ သူ့ကားဆီသို့ ပြန်သည်။ ထို့နောက် ကားပေါ် ပြန်တက်ပြီး တောင်ဘက်သို့ မောင်းထွက်သွားလေ၏။

တွမ်၏ အာရုံသည် လေထိုးတံပေါ် ပြန်ရောက်သွားသည်။ "တစ်ယောက် တစ်လှည့် အချက် နှစ်ဆယ်စီ ထိုးမယ်" ဟု ပြောသည်။ "တစ် နှစ် သုံး လေး" တွမ်၏ နှုတ်မှ အသံထွက်၍ ရေတွက်နေသည်။ နှစ်ဆယ် ပြည့်သွားသည့်အခါ အယ်လ်က လေထိုးတံကို တစ်လှည့် ကိုင်သည်။ ထို့နောက် အဖေဂျုတ် ပြီးတော့ ဦးလေးဂျွန်။ ဤပုံစံဖြင့် သုံးပတ်လှည့်သွားသည်။ တာယာသည် မြေကြီးပေါ်မှ ကြွ၍ ကြွ၍ တက်လာသည်။ "ဂျိုက်ကို ဖြုတ်ပြီး အခြေအနေ ကြည့်ကြဦးစို့" ဟု တွမ်က ပြောသည်။

အယ်လ်က ဂျိုက်ကို လှည့်ဖြုတ်ပြီး ကားကို ပြန်ချသည်။ "လေကတော့ အများကြီးပဲ၊ နည်းနည်းတောင် များသွားပြီ ထင်တယ်"

သူတို့သည် ပစ္စည်းများကို သိမ်း၍ ကားပေါ်သို့ ပြန်တင်သည်။ "ကဲ လာ၊ သွားကြစို့" ဟု တွမ်က ပြောသည်။ စောစောကလိုပင် အမေက အလယ်မှ ထိုင်သည်။ ဤတစ်ကြိမ်တွင် ကားမောင်းသူမှာ အယ်လ်။

ထရပ်ကားသည် နံနက်ခင်း နေရောင်ခြည်အောက်တွင် လယ်ကွင်းများကို ဖြတ်သန်း၍ ပြေးသွားလျက် ရှိ၏။ တောင်ထိပ်များကို ဖုံးအုပ်လျက်ရှိသော နှင်းမြူများသည် လွင့်ပြယ် သွားကြလေပြီ။ ညို့မှိုင်းနေသော တောင်ထိပ်များကို ထင်ထင်ရှားရှား မြင်လာကြရပြီ ဖြစ်၏။ ထရပ်ကားသံကြောင့် လမ်းဘေး ခြံစည်းရိုးများပေါ်၌ နားနေကြသော ချိုးများ သည်လည်း အလန့်တကြား ထပျံပြေးကြသည်။ အယ်လ်သည် အမှုမဲ့ အမှတ်မဲ့ဖြင့် သူ့ကားကို အရှိန် ခပ်ပြင်းပြင်း တင်၍ မောင်းလျက် ရှိလေ၏။

"ဖြည်းဖြည်း လုပ်ကွာ" ဟု တွမ်က သတိပေးသည်။ "တအား မောင်းလိုက်ရင် ပြုတ်ပျက် ကျကုန်လိမ့်မယ်၊ ငါတို့ ဟိုကို မရောက်လို့ မဖြစ်ဘူး၊ ကနေ့ရောက်ရင် ကနေ့ အလုပ်ရချင် ရမှာ"

အမေသည် ဝမ်းသာလုံး ဆို့ကာ စိတ်လှုပ်ရှားလျက် ရှိ၏။ "ယောကျ်ား လေးယောက် အလုပ်ရမယ် ဆိုရင်တော့ အမေ့အနေနဲ့ စားစရာ သောက်စရာ ပစ္စည်းကို ရောက်ရောက်ချင်း အကြွေး ဝယ်လို့ ရချင်ရမှာ၊ ရရင်တော့ အရင်ဆုံး ကော်ဖီ ဝယ်ရမယ်၊ ဘာပြုလို့လည်း ဆိုတော့ အင်း ကော်ဖီ သိပ်သောက်ချင်နေတယ် မဟုတ်လား၊ ပြီးတော့ ဂျုံနဲ့ ဘေကင်ပေါင်ဒါ ဝယ်မယ်၊ အသားလည်း နည်းနည်းလောက် ဝယ်မှ၊ ဒါပေမဲ့ကွယ် အသားကို မဝယ်ဘဲ နေသေးရင် ကောင်းမယ်၊ နောက်မှ စားပေါ့၊ စနေနေ့ကျမှ

ဝယ်ချက်ချင် ချက်တာပေါ့၊ ဟင်းချို တစ်ခွက်စာတော့ ဝယ်မှ ဖြစ်မယ်၊ အင်း အမေတို့ ဘယ်မှာများ နေရမှာပါလိမ့်" အမေသည် တစ်ခဏမျှ ရပ်နေလိုက်ပြီးမှ စကားကို ဆက်ပြောပြန်သည်။ "နွားနို့လည်း မဝယ်လို့ မဖြစ်ဘူး၊ ရိုစာဟန်က နွားနို့ မသောက်လို့ မဖြစ်ဘူး၊ သောက်ရမှာ၊ ဟို သူနာပြု ဆရာမက သောက်ရမယ်လို့ ပြောလိုက်တယ် "

မြွေတစ်ကောင်သည် ပူနွေးသော လမ်းမပေါ်တွင် တွန့်လိမ် တွန့်လိမ်နှင့် ဖြတ်ကူးလျက် ရှိ၏။ အယ်လ်က ကားဖြင့် လိုက်ကြိတ်သည်။

"သူ့လမ်း သူသွားတာပဲကွာ၊ ဘာလို့ လိုက်ကြိတ်ရတာလဲ၊ မလုပ်ကောင်းပါဘူး " ဟု တွမ်က ပြောသည်။

"မြွေဆိုရင် ကျုပ် သိပ်မုန်းတယ်၊ ဘာမြွေပဲ ဖြစ်ဖြစ် မုန်းတာ၊ သူတို့ကို မြင်ရင် အန်ချင်လာတာပဲ "

နေမြင့်လာသည်နှင့်အမျှ လမ်းမကြီးပေါ်တွင် ကားအသွားအလာ များသည်။ တံခါးရွက်များပေါ်တွင် ကုမ္ပဏီအမည်များ ရေးထိုးထားသည့် နယ်လှည့် ပစ္စည်း အရောင်းကားများ။ နောက်ဘက်မှ သံဆူးကြိုးများ တရွတ်တိုက် လိုက်ပါလာနေသော ဆေးအနီ အဖြူ သုတ်ထားသည့် ဓာတ်ဆီတင် ကားကြီးများနှင့် လက်ကား ကုန်စုံဆိုင်ကြီးများမှ ကုန်ပစ္စည်းများ လိုက်ပို့ပေးနေသည့် ကုန်တင်ယာဉ်များ စသည် စသည်ဖြင့် ကားအမျိုးပေါင်း အမြောက်အမြားသည် အဆက်မပြတ် သွားလာလျက် ရှိကြ၏။ ဤမော်တော်ကားများ လမ်းမကြီး တစ်လျှောက်၌ ဥဒဟို သွားလာ လှုပ်ရှားနေကြခြင်းသည် ပြည်နယ်တစ်ခုလုံး၏ စည်ပင် သာယာမှုနှင့် ချမ်းသာကြွယ်ဝမှု၏ ပြယုဂ် တစ်ခုပေတည်း။ လမ်းဘေး ဝဲယာတွင် သစ်သီးခြံများနှင့် စပျစ်ခြံများ၊ ဖရဲခင်းများနှင့် စပါးခင်းများသည် ရှုမျှော်၍ မဆုံးနိုင်အောင် အစီအရီတန်းလျက် ရှိကြ၏။ မြစိမ်းရောင် တောက်နေသော ထိုမြေပေါ်တွင် တိုက်ဖြူဖြူကလေးများသည် မားမားမတ်မတ် ရပ်လျက် ရှိကြသည်။ ထိုတိုက်ဖြူကလေးများ၏ ပတ်ပတ်လည်တွင်မူ တောဖြစ်ခမန်း ပေါက်ရောက် လွှမ်းခြုံနေကြသော နှင်းဆီများ။ နေရောင်ခြည်သည် ရွှေရောင် တောက်ကာ နွေးထွေးသော အငွေ့ဖြင့် လွှမ်းခြုံပေးထားလေသည်။

ထရပ်ကား ရှေ့ခန်းထဲမှ အမေ၊ တွမ်နှင့် အယ်လ်တို့သည် ပျော်ရွှင်မှုဖြင့် ယစ်မူးလျက် ရှိနေကြ၏။ "အခုလို စိတ်ချမ်းသာမှုမျိုးနဲ့ မကြုံရတာများ ကြာပါပြီကွယ် " ဟု

အမေက ဆိုသည်။ "တကယ်လို့ မက်မွန်သီးတွေကိုသာ မနားတမ်း ဆွတ်နေကြမယ်ဆိုရင် အမေတို့ အိမ်ပိုင်တောင် ရနိုင်တယ်၊ ပထမ နှစ်လလောက်တော့ အိမ်လခ ပေးချင် ပေးရမှာပေါ့၊ဘာပဲဖြစ်ဖြစ် အမေတို့မှာ အိမ်တစ်လုံးတော့ အပိုင် ရှိမှ"

အယ်လ်က သူ့စိတ်ကူးနှင့်သူ အားတက်သရော ပြန်ပြောသည်။ "ကျုပ်ကတော့ ငွေစုမယ်၊ ငွေစုပြီး မြို့ထဲသွားမယ်၊ ကားအလုပ်ရုံ တစ်ရုံမှာ အလုပ်ရအောင် ရှာမယ်၊ ပြီးတော့ အခန်းတစ်ခန်း ငှားနေမယ်၊ စားသောက်ဆိုင်တွေမှာ ဝယ်စားမယ်၊ ညတိုင်း ရုပ်ရှင်ကြည့်မယ်ဗျာ၊ သိပ်မကုန်ပါဘူး၊ ကြည့်ရင်လည်း ကောင်းဘွိုင် ဇာတ်ကားတွေချည်း ကြည့်မှာ" ပြောရင်းနှင့် စတီယာခွေကို တအား ဆုပ်ကိုင်ထားသည်။

ရေတိုင်ကီထဲမှ ရေဆူသံ ကြားရသည်။ "ဟော့ကောင် အယ်လ်၊ မင်း ရေထပ်ဖြည့်ခဲ့ရဲ့လား " ဟု တွမ်က မေးသည်။

"ဖြည့်ထားပါတယ်ဗျ "

"အတော်ကို သာယာတဲ့ နေ့တစ်နေ့ပဲကွာ " ဟု တွမ်က ရေရွတ်သည်။ "မက်အေလက်စတား ထောင်မှာ လုပ်ကိုင်ခဲ့ရတာတွေကို ငါ ပြန်သတိရမိတယ်၊ တခြား ထောင်သားတွေနဲ့ တန်းစီပြီး သွားရတာ၊ ရုပ်လည်း မရုပ်ရဘူး၊ ဒါတွေ ဖြစ်ခဲ့တာ ကြာပြီလို့ စိတ်ထဲက ထင်မိတယ်၊ ငါ ထောင်ကျခဲ့တာကိုပဲ ဟိုး လွန်ခဲ့တဲ့ နှစ်ပေါင်းများစွာက ကျခဲ့သလိုပဲ၊ အမှန်က ဆိုးအောင် လုပ်တာ အစောင့်ကွ၊ ငါ ပုလိပ်တွေကို မုန်းသွားတာ ဒီအစောင့်တွေရဲ့ လုပ်ပုံကိုင်ပုံ မဟုတ်လို့လို့ ထင်ပါတယ်ကွာ၊ ပုလိပ်တိုင်းဟာ မျက်နှာပေါက် ဆင်တူသလိုပဲနော်၊ အများအားဖြင့် သူတို့ မျက်နှာတွေက နီရဲရဲ များတယ်၊ ဝက်နဲ့ သိပ်တူတာပဲ၊ ထောင်သား တစ်ယောက်က ပြောဖူးတယ်၊ သူတို့ အနောက်ဘက်ဒေသမှာ သူ့ညီတစ်ယောက် ရှိတယ်တဲ့၊ အဲဒီညီဟာ မကြာခဏ ခံဝန်ချုပ်နဲ့ ထောင်က လွတ်လွတ် သွားတတ်တယ်တဲ့၊ ပုလိပ်တွေက ခံဝန်ချုပ်နဲ့ လွတ်လာတဲ့ လူကို အမြဲ အပြစ်ရှာတတ်တယ်တဲ့၊ တကယ် ခံဝန်ချုပ်နဲ့ လွတ်တဲ့လူမှာ မကောင်းသတင်းနံ့လေးသာ ထွက်လာရင် တစ်ခါတည်း ခံဝန်ချုပ် ဖောက်တယ်ဆိုပြီး ထောင်ပြန်ပို့တော့တာပဲတဲ့ "

ဒါတွေကို တွေးလည်း မတွေးနဲ့၊ ပြောလည်း မပြောနဲ့ကွယ်” ဟု အမေက တားသည်။ “အမေကတော့ စားဖို့ သောက်ဖို့ ပစ္စည်းပစ္စယ များများ ဝယ်ထားဖို့ပဲ စဉ်းစားတယ်”

“တစ်ခါတစ်လေ ပြန်တွေးရတာ ကောင်းသလိုပဲဗျ” ဟု တွမ်က ပြောသည်။ “မတွေးဘဲ ထားပြန်တော့လည်း တစ်ခါတစ်ရံ သတိရလိုက်တဲ့အခါမှာ ကျုပ် တစ်ကိုယ်လုံးကို ဆောင့်ထိုးလိုက်သလို ခံရတယ်၊ ကျုပ် သတိရသေးတယ်၊ ဦးနှောက် ခပ်ချောင်ချောင်ကောင် တစ်ကောင်ကို ကျုပ်တွေ့ခဲ့ရသေးတယ်၊ သူ့အကြောင်းကို ကျုပ် တစ်ခါမှ မပြောဖူးသေးဘူး၊ လူက ခပ်ပေါကြောင်ကြောင်ပါ၊ အန္တရာယ်တော့ မပေးဘူး၊ သူ့ပုံပန်းက လမ်းပေါ်က လေလွင့်နေတဲ့ ခပ်ပျော့ပျော့ တေလေကြမ်းပိုးနဲ့ သိပ်တူတယ်၊ ဒီကောင်က အမြဲတမ်း ထောင်ဖောက်ဖောက်ပြေးတယ်၊ ကျုပ်တို့ အားလုံးက သူ့ကို လမ်းသရဲလို့ ခေါ်ကြတယ်” တွမ်သည် ထောင်ထဲက အဖြစ်ကို သတိတရ ပြောရင်း နှစ်နှစ်ခြိုက်ခြိုက် ရယ်လေသည်။

“ဒီအကြောင်းတွေကို မပြောပါနဲ့ တွမ်ရယ်” ဟု အမေက တောင်းပန်သည်။

အယ်လ်ကတော့ “ဆက်ပြောဗျာ” ဟု တိုက်တွန်းသည်။ “အဲဒီလူ အကြောင်းပဲ ပြောပါ”

“ဒီအကြောင်းတွေ ပြောတာ ဘယ်သူ့ကိုမှ မထိခိုက်ပါဘူး အမေရာ” ဟု တွမ်က ဆိုသည်။ “အဲဒီကောင်က ထောင်ဖောက်ပြီး ထွက်ပြေးဖို့ အမြဲတမ်း ကြံစည်နေတာပဲ၊ သူ့အကျင့်က ထွက်ပြေးဖို့ အစီအစဉ်ကို ပထမ ဆွဲတယ်၊ ဒါပေမဲ့ သူ့အစီအစဉ်ကို လျှို့ဝှက် မထားနိုင်ဘူး၊ မကြာခင် ထောင်သားတွေရော၊ ထောင်ကြပ်တွေရော အားလုံး သိကုန်တာပဲ၊ သူ့အစီအစဉ်အတိုင်း ထောင်ကိုတော့ ဖောက်လို့ ရပါရဲ့၊ ထွက်လည်း ထွက်ရော မိတာပဲ၊ အစောင့်တွေက သူ့ကို ပြန်ခေါ်လာကြတာချည်းပဲ၊ တစ်ခါတော့ သူ ထွက်ပြေးဖို့ အစီအစဉ်တစ်ခု ဆွဲတယ်၊ ထုံးစံအတိုင်းပေါ့၊ သူ့အစီအစဉ်ကို လူတိုင်း လိုက်ပြတယ်၊ ကျန်တဲ့လူတွေကလည်း ဘာထင်မြင်ချက်မှ မပေးကြပါဘူး၊ ငြိမ်နေကြတယ်၊ ငနဲက သူ့ဘာသာသူ ကြိုးတစ်ချောင်းရှာပြီး နံရံကို ကျော်တက်တာပေါ့၊ သူ ဆင်းလာမယ့် အောက်တည့်တည့်ကနေပြီး အစောင့် ခြောက်ယောက်က ဂုန်နီအိတ်ကြီး တစ်လုံး အသင့်ဖွင့်ပြီး စောင့်နေတာ သူ မသိဘူး၊ သူ ကြိုးနဲ့ လျှောဆင်းသွားတော့ ဂုန်နီအိတ်ကြီးထဲ

တန်းဝင်သွားတာပေါ့၊ သူလည်း ဂုန်နီအိတ်ကြီးထဲ ရောက်ရော အစောင့်တွေက ဂုန်နီအိတ်ကို အပေါ်က စုစည်းပြီး ပြန်သယ်လာကြတယ်၊ ထောင်သားတွေအဖို့ ပွဲကြီးပွဲကောင်းပေါ့၊ ရယ်လိုက်ကြတာ၊ အသက်တောင် ထွက်ကုန်ကြမလား ထင်ရတယ်၊ ဒါပေမဲ့ ဒီအဖြစ်က လမ်းသရဲရဲ့ စိတ်ဓာတ်ကို နင်းခြေပစ်သလို ဖြစ်သွားရတယ်၊ သူ့အနေနဲ့ ငိုပြီးရင်း ငိုရင်းပဲ၊ ဘယ်သူနဲ့မှ စကားမပြောတော့ဘူး၊ တမှိုင်မှိုင် တတွေတွေနဲ့၊ သူ အတော်ကို စိတ်ထိခိုက်သွားတာ၊ တစ်နေ့တော့ သူ့လက်ကောက်ဝတ် ကို သံပြားစ တစ်စနဲ့ လှီးပြီး သေကြောင်းကြံတယ်၊ သွေးလွန်ပြီး သေပါရော၊ အမှန်တော့ စိတ်ထိခိုက်တာ၊ သူ့အနေနဲ့ကတော့ ဘယ်သူ့ကိုမှ အန္တရာယ် မပြုတတ်ဘူး၊ ထောင်ထဲမှာကတော့ လူစုံပဲဗျ၊ ဒီလို ခပ်ပေါက်ပေါက် အကောင်တွေ အများကြီး ရှိတယ်"

"ဒီအကြောင်းကို မပြောပါနဲ့တော့ကွယ်" ဟု အမေက ကပ်၍ တားပြန်သည်။ "လူချောကလေး ဖလွိုက်ရဲ့ အမေအကြောင်း မင်းကို အမေ ပြောပြခဲ့ဖူးတာ မှတ်မိသေးလား၊ အဲဒီကလေးဟာ လူရိုး လူကောင်းလေး တစ်ယောက်ပဲ၊ အခြေအနေက တွန်းပို့လို့ ဖြစ်သွားရတာ"

နေသည် မွန်းတည့်လာသည်။ ဘေးမှ ပြေးလိုက်နေသော ထရပ်ကား အရိပ်သည် ဘီးများအောက်တွင် တလှုပ်လှုပ်။

"ဟိုရှေ့က ပစ်က်လေးမြို့ပဲ ဖြစ်ရမယ်" ဟု အယ်လ်က ရေရွတ်သည်။ သူတို့ကားသည် မြို့တွင်းမှ ဖြတ်ထွက်ကာ အရှေ့ဘက်သို့ ချီးသည့် လမ်းသည် ကျဉ်းမြောင်းလာသည်။ လမ်း၏ တစ်ဖက်တစ်ချက်တွင် အတန်းလိုက် တည်ရှိနေသော ခြံများ။

"လွယ်လွယ်ကူကူတော့ ရှာလို့ တွေ့ကောင်းပါရဲ့ဗျာ" ဟု တွမ်က ရေရွတ်သည်။

"ဟိုလူ ပြောသွားတာတော့ ဟူးပါး မွေးမြူရေးခြံတဲ့၊ လူတိုင်း သိတယ်တဲ့၊ ခြံအနီး အနားမှာ စတိုးဆိုင်လေး တစ်ဆိုင်တလေတော့ ရှိမှာပါ၊ လူလေးယောက် အလုပ်ရမယ်ဆိုရင် အကြွေးတော့ ပေးမှာပါပဲ၊ အေးကွယ်၊ အကြွေးယူလို့ ရရင်တော့ ဒီကနေ့ည ညစာကို အမေ ကောင်းကောင်း ချက်ကျွေးပါ့မယ်"

"ကော်ဖီလည်း လုပ်ပါ အမေရာ" ဟု တွမ်က ပြောသည်။ "ကျုပ်အတွက် ဒါဟမ်ဆေးမှုန့် အိတ်ကလေး တစ်လုံးလည်း ဆွဲပေးပါ၊ ကျုပ်ကိုယ်ပိုင် ဆေးအိတ်နဲ့ ဆေးလိပ် လိပ်မသောက်ရတာ ကြာပြီ အမေရ"

သူတို့ ရှေ့ခပ်လှမ်းလှမ်းတွင် လမ်းသည် ကားများဖြင့် ပိတ်လျက် ရှိ၏။ လမ်းဘေး တစ်လျှောက်တွင်မူ တန်း၍ ရပ်ထားသည့် အဖြူရောင် မော်တော်ဆိုင်ကယ်များ။ "ကားတိုက်ပြီ ထင်တယ်" ဟု တွမ်က ရေရွတ်သည်။

ရှေ့နောက် တန်းစီ၍ ရပ့်ထားသော ကားများ အနီးသို့ ကပ်သွားသည့်အခါ ပြည်နယ် ပုလိပ်တစ်ယောက်က သူတို့ကားကို လက်ပြ၍ တားသည်။ ပုလိပ်က ကားဘေးတွင် လာရပ်ပြီး ရှေ့ခန်းထဲသို့ ငုံ့ကြည့်သည်။ "မင်းတို့က ဘယ်သွားကြမှာလဲ"

"လူတစ်ယောက်က ဒီဘက်မှာ မက်မွန်သီး ဆွတ်တဲ့ အလုပ်ရှိတယ်လို့ ပြောလိုက်လို့လာတာ" ဟု အယ်လ်က ဖြေသည်။

"အလုပ် လိုချင်လို့ပေါ့ ဟုတ်လား"

"ဟုတ်တယ်" တွမ်က တိုတိုတောင်းတောင်း ဖြေသည်။

"အိုကေ တစ်မိနစ်လောက် စောင့်ဦး" ပုလိပ်သည် လမ်းဘေးသို့ သွားရပ်ပြီး ရှေ့သို့ လှမ်းအော်သည်။ "နောက်တစ်စီးဟေ့၊ အားလုံး ကားခြောက်စီး ရှိသွားပြီ၊ ဒီအုပ်စုကိုတော့ ခေါ်သွားရင် ကောင်းမယ်"

"ဟေး ဘာဖြစ်လို့လဲ" တွမ်က ကားပေါ်မှ ခေါင်းပြူထွက်ပြီး အော်မေးသည်။

ပုလိပ်က နောက်သို့ ပြန်လှည့်ကြည့်သည်။ "ရှေ့မှာ ပြဿနာ နည်းနည်း ရှိနေလို့၊ မင်း ပူစရာ မလိုပါဘူး၊ မင်းတို့ ကားကို လွှတ်ပေးမှာပါ၊ ရှေ့ကား နောက်ကသာ ကပ်လိုက်"

မော်တော်ဆိုင်ကယ် စက်နှိုးသံများ ထွက်ပေါ်လာသည်။ ကားတန်းသည် ရွေ့လျားသွားသည်။ ဂျုတ်မိသားစု ထရပ်ကားသည် နောက်ဆုံးမှ။ ကားတန်းကြီးရှေ့မှ ပုလိပ် မော်တော်ဆိုင်ကယ် နှစ်စီး။ နောက်ဆုံးမှ နှစ်စီး။

"ဘာများဖြစ်လို့လည်း မသိဘူး" တွမ်က စိတ်လှုပ်ရှားသံဖြင့် ရေရွတ်သည်။

"လမ်းပျက်နေလို့မှန်းမှ မသိတာ" အယ်လ်က သူ့အထင်ကို ပြောသည်။

"ငါတို့ကို ပုလိပ် မော်တော်ဆိုင်ကယ် လေးစီးက လမ်းပြတာ ဘာအဓိပ္ပာယ်လဲကွ၊ ငါတော့ မကြိုက်ပါဘူး"

ရှေ့မှ မော်တော်ဆိုင်ကယ်များသည် အရှိန်မြှင့်၍ သွားနေသည်။ နောက်မှ လိုက်နေသော ကားအိုကားဟောင်းများကလည်း အရှိန်မြှင့်၍ လိုက်ကြသည်။ အယ်လ်သည် သူ့ရှေ့မှ သွားနေသော နောက်ဆုံးကားကို အမီလိုက်နေရလေသည်။

"မြင်နေရတာကတော့ ငါတို့နဲ့ ဘဝတူတွေပဲကွ၊ ဒါမျိုး ငါ တွေ့ဖူးတယ်"

ရုတ်တရက် ရှေ့မှ ဦးဆောင်၍ သွားနေသော ပုလိပ်မော်တော်ဆိုင်ကယ်များသည် ကျောက်ပြားများ စီခင်းထားသည့် ခြံဝင်းအတွင်း ဝင်ရာလမ်းထဲသို့ ချိုးဝင်သွားသည်။ မော်တော်ဆိုင်ကယ် စက်သံများသည် ကျယ်လောင်စွာ မြည်ဟည်းလာသည်။ တွမ်သည် လမ်းဘေး၌ တန်းစီ၍ ရပ်နေကြသော လူများကို လှမ်းမြင်နေရ၏။ ဟစ်အော် ကြွေးကြော်မည့်ဟန် ပြင်နေကြသော သူတို့၏ပါးစပ်များ။ ဆုပ်၍ မြှောက်ထားသည့် လက်သီးများ။ စိတ်ဆိုးမာန်ဆိုး ဖြစ်နေသည့် မျက်နှာများ။ တုတ်တုတ်ခိုင်ခိုင် မိန်းမကြီး တစ်ယောက်သည် မော်တော်ကားများ ဆီသို့ ပြေးလာသည်။ သို့သော်လည်း မော်တော်ဆိုင်ကယ် တစ်စီးက ရှေ့မှ ပိတ်၍ ရပ်ထားလိုက်သဖြင့် ရှေ့သို့ တိုးမလာနိုင်။ သံဆူးကြိုးများဖြင့် ပြုလုပ်ထားသော ဂိတ်တံခါးကြီးသည် ပွင့်သွားသည်။ ကားခြောက်စီးသည် အတွင်းသို့ မောင်းဝင်သည်။ ဂိတ်တံခါးသည် သူတို့နောက်တွင် ချက်ချင်း ပြန်ပိတ်သွားသည်။ ပုလိပ် မော်တော်ဆိုင်ကယ်လေးစီးသည် နောက်သို့ ပြန်ကွေ့ကာ လာလမ်းအတိုင်း ပြန်ထွက်သွားကြလေ၏။ ဆိုင်ကယ်များ ပြန်ထွက်သွားသည်နှင့် တစ်ပြိုင်နက် လမ်းပေါ်မှ ဟစ်အော် ကြွေးကြော်သံများကို ကြားလာရသည်။ ကျောက်ပြားခင်းလမ်း၏ တစ်ဖက်တွင် ရပ်နေသည့် လူနှစ်ယောက်။ သူတို့လက်ထဲတွင် ပြောင်းတိုသေနတ်ကိုယ်စီနှင့်။

တစ်ယောက်က လှမ်းအော်သည်။ "မောင်း မောင်း၊ ဆက်မောင်း၊ ဘာပြုလို့ ရပ်နေကြတာလဲ" ကားခြောက်စီးသည် ဆက်လက်ရွေ့လျားသွားသည်။ လမ်းကွေ့ တစ်ခုသို့ ချိုးဝင်လိုက်သည့်အခါ ချက်ချင်းပင် မက်မွန်သီးစခန်းမြေပေါ်သို့ ရောက်သွားကြလေသည်။

စခန်းတွင် လေးထောင့်စပ်စပ်၊ ခေါင်မိုးနိမ့်နိမ့် တိုက်အိမ်ငယ်ကလေးပေါင်း ငါးဆယ် ရှိသည်။ အိမ်တိုင်းတွင် တံခါးတစ်ပေါက်နှင့် ပြတင်းပေါက် တစ်ပေါက်စီ ရှိသည်။ ဆောက်ထားသည့် ပုံစံက တစ်ညီတည်း။ စခန်း၏ တစ်ဖက်အစွန်းတွင် ရေတိုင်ကီစင် တစ်လုံး ရှိ၏။ တစ်ဖက်တွင်မူ ကုန်စုံဆိုင် တစ်ဆိုင်။ အိမ်တန်း တစ်တန်းစီ၏ ဟိုဘက် သည်ဘက် အစွန်းထိပ်များတွင် ပြောင်းတိုသေနတ်ကိုယ်စီနှင့် လူနှစ်ယောက်သည် ရပ်လျက် ရှိကြ၏။ သူတို့ရင်ဘတ်တွင် ငွေကြယ်များ တပ်ဆင်ထားကြလေသည်။

ကားခြောက်စီးသည် စခန်းအတွင်း၌ ရပ်နေကြသည်။ စာရင်းကိုင် နှစ်ဦးသည် ကားတစ်စီးမှ တစ်စီးဆီသို့ သွားကာ စစ်ဆေးမေးမြန်းလျက် ရှိသည်။

"အလုပ်လုပ်မှာလား "

"လုပ်မှာပေါ့၊ ဒါပေမယ့် ဒါက ဘယ်လိုဖြစ်ရတာတုံး" ဟု တွမ်က မေးသည်။

"ဒါ မင်းအလုပ် မဟုတ်ဘူး၊ အလုပ် လုပ်မှာလား၊ မေးတာကို ဖြေ"

"လုပ်မှာပေါ့"

"နာမည်"

"ဂျုတ်"

"ယောကျ်ား ဘယ်နှယောက်ပါသလဲ "

"လေးယောက် "

"မိန်းမကော"

"နှစ်ယောက် "

"ဒီလူအားလုံး အလုပ် လုပ်နိုင်မလား"

"ဘာ… ဘာပြုလို့…၊ လုပ်နိုင်မယ်လို့ ထင်တယ် "

"အိမ်နံပါတ် ခြောက်ဆယ့်သုံးကို သွား၊ အဲဒီမှာ နေရမယ်၊ မက်မွန်သီး တစ်သေတ္တာကို ငါးဆင့်နှုန်း ပေးမယ်၊ ကဲ သွားကြတော့၊ အလုပ်ခွင်ကိုတော့ ချက်ချင်း ဝင်ရမယ်"

ကားများသည် ရှေ့ဆက်၍ ရွေ့လျားသွားကြ၏။ တိုက်ခန်း နီနီရဲရဲကလေးများ၏ တံခါးရွက်များပေါ်တွင် နံပါတ်များ ရေးထိုးထားကြသည်။ "ခြောက်ဆယ်" တွမ်၏ နှုတ်မှ အသံထွက်လာသည်။ "နံပါတ်ခြောက်ဆယ်တော့ တွေ့ပြီ၊ ဟိုဘက်မှာ ရှိရမယ်၊ ဟောဟိုမှာ ခြောက်ဆယ့်တစ်၊ ခြောက်ဆယ့်နှစ်၊ ဟော တွေ့ပြီ၊ ဒီမှာ"

အယ်လ်က ထရပ်ကားကို အိမ်ရှေ့တံခါးအနီးတွင် ကပ်၍ ထိုးသည်။ မိသားစု တစ်စုလုံး ဆင်းလာကြပြီး ပတ်ဝန်းကျင်ကို တအံ့တသြဖြင့် ကြည့်နေကြလေ၏။ လက်ထောက် ပုလိပ်နှစ်ဦး သူတို့အနီးသို့ ရောက်လာကြပြီး တစ်ဦးချင်းစီ၏ မျက်နှာကို စေ့စေ့စပ်စပ် လိုက်ကြည့်သည်။

"နာမည်"

"ဂျုတ်" တွမ်က စိတ်မရှည်တော့သည့်အသံဖြင့် ဖြေသည်။ "ပြောစမ်းပါဦးဗျ၊ ဒီမှာ ဘာတွေဖြစ်နေတာလဲ"

ပုလိပ်တစ်ယောက်က လက်ထဲမှ စာရင်းစာရွက် တစ်ရွက်ကို ထုတ်၍ ကြည့်နေသည်။ "ဒီစာရင်းထဲမှာတော့ မပါဘူး၊ လိုင်စင်ကို စစ်ကြည့်စမ်း၊ မပါဘူး၊ သူတို့ကို ကြည့်ရတာ အိုကေပုံ ပေါ်ပါတယ်"

"ဒီမှာ ကိုယ့်လူ၊ တို့က မင်းတို့နဲ့ ဘာပြဿနာမှ မဖြစ်ချင်ဘူး၊ မင်းတို့ အလုပ် မင်းတို့ လုပ်နေ၊ ဟိုရှုပ် ဒီရှုပ် မလုပ်ရင် ဘာမှမဖြစ်ဘူး၊ စိတ်သာချ" ပုလိပ်နှစ်ယောက်သည် သူတို့အနီးမှ ပြန်ထွက်သွားကြသည်။ ဖုန်ထူထူလမ်းမ၏ တစ်ဖက်အစွန်းသို့ ရောက်သော အခါ အသင့်ချထားသည့် သေတ္တာအဟောင်းနှစ်လုံးပေါ်၌ ထိုင်သည်။ သူတို့ ယူထားသည့် နေရာသည် လမ်း တစ်လမ်းလုံးကို အပေါ်စီးမှ မြင်ရနိုင်သော နေရာဖြစ်၏။

တွမ်က ပုလိပ်များ ထွက်သွားရာဘက်သို့ လိုက်၍ ကြည့်နေဆဲ။

အမေသည် အိမ်ရှေ့တံခါး ဖွင့်၍ အတွင်းသို့ ဝင်သည်။ အိမ်ကြမ်းပြင်ကို အမဲဆီ သုတ်ထားလေသည်။ အခန်းတစ်ခန်းထဲတွင် အုတ်ခဲလေးလုံးကို ဖိုခနောက် လုပ်၍ တင်ထားသော သံမီးဖိုတစ်ခု ရှိသည်။ ထိုသံမီးဖိုမှတစ်ပါး အခြား ဘာပစ္စည်းမှမရှိ။ သံမီးဖိုမှာလည်း သံချေးတက်နေလေပြီ။ ဘေးမှ တပ်ထားသော မီးဖိုခေါင်းတိုင်သည် အိမ်ခေါင်မိုးကို ဖောက်၍ အပြင်သို့ ထိုးထွက်လျက်ရှိ၏။ အခန်းထဲတွင် ဘယ်နေရာ သွားသွား အမဲဆီနံ့ တစ်ထောင်းထောင်း။ အမေဂျုတ်ဘေးမှ ကပ်၍ ရပ်နေသော ရိုစာဟန်သည် အခန်းကို လှည့်ပတ်ကြည့်လျက် ရှိနေရာမှ "သမီးတို့ ဒီမှာ နေကြမှာလား" ဟု မေးသည်။

အမေက ချက်ချင်း အဖြေမပေးဘဲ ခဏမျှ ငြိမ်နေသည်။ ပြီးမှ "ဒါပေါ့အေ၊ ဘာပြုလို့လဲ"ဟု ပြန်မေးသည်။ "ရေဆေးပစ်လိုက်ရင် သန့်သွားမှာပါအေ၊ တစ်အိမ်လုံးကို တိုက်ပစ်လိုက်ရင် ဆိုးမယ် မထင်ပါဘူး"

"သမီးတော့ ရွက်ထည်တဲကို ပို သဘောကျတယ်"

"ဒီမှာက ကြမ်းခင်း ရှိတယ်အေ့၊ မိုးရွာရင်လည်း ယိုမှာ မဟုတ်ဘူး" အမေသည် တံခါးပေါက်ဘက်သို့ လှည့်လိုက်လေသည်။ "ပစ္စည်းတွေမှ ချကြသေးရဲ့လား မသိဘူး" ဟု ရေရွတ်သည်။

ယောကျ်ားများသည် ထရပ်ကားပေါ်မှ ပစ္စည်းများကို တိတ်တိတ်ဆိတ်ဆိတ် သယ်ချနေကြလေသည်။ စိုးရိမ်ကြောင့်ကြမှုကြီး တစ်ခုသည် သူတို့အား ဖိစီးလျက်ရှိ၏။ တိုက်တန်းတစ်တန်းလုံးမှာ ငြိမ်ဆိတ်လျက် ရှိသည်။ မိန်းမတစ်ယောက် လမ်းထဲသို့ ဝင်လာသည်။ သို့သော်လည်း သူတို့လူစုအား လှည့်၍ပင် မကြည့်။ ခေါင်းကိုငုံ့ကာ သူ့လမ်းသူ လျှောက်သွားလျက်ရှိ၏။ သူ့ခါးတွင် ဝတ်ထားသည့် ဂါဝန် အောက်နားများမှာ ဖွာရာကြဲနေအောင် စုတ်ပြတ်လျက် ရှိသည်။

ရှုသီနှင့် ဝင်းဖီးတို့ မောင်နှမမှာလည်း တက်တက်ကြွကြွ မရှိ။ အခုမှ ရောက်လာသည့် နေရာအသစ်ပေါ်တွင် စိတ်ဝင်စားသည့် လက္ခဏာ မပြ။ ဂမ်းသာအားရနှင့် လှည့်ပတ် ပြေးလွှား၍ ကြည့်ဖော် ရှုဖော်လည်း မရ။ ထရပ်ကားအနီးတွင် မိသားစုနှင့်အတူ ရော၍ ရပ်နေကြသည်။ စိုးရိမ်ခြင်းမကင်း ဖြစ်နေသော သူတို့မျက်လုံးများသည် လမ်းမ၏ ဟိုဘက်ထိပ် သည်ဘက်ထိပ်ကိုသာ လှမ်း၍ လှမ်း၍

ကြည့်နေကြသည်။ ဂင်းဖီးသည် လမ်းပေါ်၌ ကျနေသော ဂါယာကြိုးတစ်ချောင်းကို ကောက်ယူ၍ အလယ်မှချိုးကာ တစ်စကို ကွေး၍ ကစားနေသည်။

တွမ်နှင့် အဖေဂျုတ်တို့သည် မွေ့ယာများကို မ,၍ အိမ်ထဲသို့ သွင်းနေခိုက်တွင် စာရေးတစ်ယောက် ရောက်လာသည်။ စာရေးသည် ရုပ်အကျီအပြာ၊ နက္ကတိုင်အနက်နှင့် ကာကီဘောင်းဘီ ဝတ်ထားသည်။ မျက်နှာတွင် တပ်ထားသည့် ငွေကိုင်းမျက်မှန်က ပါဂါထူထူ။ သူ့မျက်လုံးများက နီရဲရဲ။ အလွန်မွဲသည့် မျက်လုံးများ ဖြစ်၏။ သူသည် ကိုယ်ကို ရှေ့သို့ ကိုင်းလိုက်ပြီး တွမ်ကို စေစေ့ကြည့်သည်။

"ငါ မင်းတို့ကို စစ်ဖို့လာတာ" ဟု သူက ပြောသည်။ "မင်းတို့ထဲမှာ အလုပ်က လုပ်မယ့်သူ ဘယ်နှယောက်လဲ"

"ယောက်ျား လေးယောက်၊ အလုပ်က ပင်ပန်းသလား"

"မက်မွန်သီး ခူးတာပဲ" ဟု စာရေးက ပြန်ပြောသည်။ "အလုပ်က အသေးအမွှား အလုပ်မျိုးပါ၊ မက်မွန်သီး တစ်သေတ္တာကို လုပ်ခ ငါးဆင့်ပေးတယ်"

"ကလေးတွေ လုပ်တတ်လည်း ရမှာပေါ့နော်"

"သူတို့ သတိနဲ့ ခူးနိုင်ရင် လုပ်လို့ရတာပဲ"

အမေသည် တံခါးဝမှ ရပ်၍ကြည့်နေသည်။ "အိမ်ထဲမှာ နေသားတကျဖြစ်အောင် ထားသိုပြီးရင် အမေလည်း လိုက်ခူးမှာပေါ့၊ အခုလောလောဆယ် ကျွန်မတို့မှာ စားစရာဘာမှ မရှိဘူး၊ မစ္စတာ၊ လုပ်ခ ကြိုတင်ပြီး ရှင်းပေးသလား"

"အာ မပေးဘူး၊ ငွေတော့ ကြိုမပေးဘူး၊ ဒါပေမယ့် ဂယ်ချင်တဲ့ ပစ္စည်းတွေတော့ ဟိုစတိုးဆိုင်က အကြွေးရောင်းတယ်"

"ကဲ အမေ မြန်မြန်လုပ်" ဟု တွမ်က လောဆော်သည်။ "ကျုပ်တော့ ကနေ့ည ပေါင်မုန့်နဲ့အသား စားချင်တယ်၊ ကဲ မစ္စတာ၊ ကျုပ်တို့ ဘယ်နေရာမှာ သွားလုပ်ရမှာလဲ"

"ငါ အခုသွားတော့မလို့၊ ငါနဲ့ တစ်ခါတည်း လိုက်ခဲ့ကြတော့"

တွမ်နှင့် အဖေဂျက်၊ အယ်လ်နှင့် ဦးလေးဂျွန်တို့သည် စာရေးနှင့်အတူတူ ဖုန်ထူထူ လမ်းမအတိုင်း လျှောက်သွားကာ မက်မွန်ခြံအတွင်းသို့ ဝင်ခဲ့ကြလေသည်။ မက်မွန်ရွက်များသည် အဝါရောင် ဖျော့ဖျော့သို့ ကူးပြောင်းစ ပြုနေလေပြီ ဖြစ်၏။ သစ်ကိုင်းများတွင် ခိုတွယ်နေကြသည့် မက်မွန်သီးများမှာမူ အနီရောင်နှင့် ရွှေရောင် သန်းနေကြလေပြီ။ အပင်များကြားတွင် ချထားသည့် သေတ္တာလွတ်များမှာ အစုလိုက် အပုံလိုက်။ သစ်သီးခူးသမားများသည် မက်မွန်သီးများကို များများရအောင် မြန်မြန်ခူးပြီး လက်ဆွဲပုံးများထဲသို့ ထည့်ရ၏။ ထို့နောက်မှ သေတ္တာထဲသို့ ပြောင်းထည့်ရသည်။ ပြီးတော့ မိမိရထားသည့် မက်မွန်သီးသေတ္တာများကို 'စုရပ်' သို့ သယ်ပို့ပေးရ၏။ စုရပ်များတွင် ထရပ်ကားများလာ၍ အသယ်ကို စောင့်မျှော်နေကြသည့် မက်မွန်သီးသေတ္တာများမှာ တောင်ပုံရာပုံ ဖြစ်လျက်ရှိသည်။ စုရပ်များမှ တာဝန်ကျ စာရေးများသည် ခူးသူအမည်နှင့် ပေးသွင်းလာသည့် မက်မွန်သီးသေတ္တာအရေအတွက်ကို စာရင်းသွင်းကြသည်။

"ဟောဒီမှာဟေ့၊ နောက်တိုး လေးယောက်" တွမ်တို့ကို ခေါ်လာသူက ခြံဝမှ စာရေးအား လှမ်းပြောသည်။

"အရင်က ခူးဖူးသလား"

"တစ်ခါမှ မခူးဘူးဘူး" ဟု တွမ်က ပြောသည်။

"ဒါဆိုရင် သတိထားခူး၊ အသီးကို မနာစေနဲ့၊ မကွဲစေနဲ့၊ မြေကြီးပေါ် မကျစေနဲ့၊ အနာအကွဲများရင် မင်းတို့သေတ္တာကို လက်မခံဘူး၊ ကြားလား၊ ကဲ ဟောဟိုမှာ သံပုံးတွေ ရှိတယ်၊ ယူပြီး သွားကြတော့"

တွမ်က သုံးဂါလန်ဝင် တစ်ပုံးကို ယူ၍ ဖင်ပြန်ခေါင်းပြန် ကြည့်သည်။ "ကဲ ခင်ဗျားတို့ ပုံးကလည်း ဖင်မှာ အပေါက်တွေ ဗရပွပဲ"

"ဟုတ်တယ်" ဟု မျက်စိမွဲသော စာရေးက ပြန်ပြောသည်။ "အဲသလောက် အပေါက်တွေ များနေလို့ ဒီပုံးတွေ လူ အခိုးမခံရဘဲ ကျန်နေတာပေါ့ကွ၊ ကဲ သွားတော့၊ ဒီဘက်အပိုင်းကို ဝင်"

ဂျုတ် လေးယောက်သည် လက်ဆွဲပုံး ကိုယ်စီဆွဲ၍ ခြံထဲသို့ ဝင်ကြသည်။ "ဒီလူတွေ အချိန်တော့ နည်းနည်းလေးမှ မဖြုန်းဘူးဗျို့" ဟု တွမ်က ပြောသည်။

"ဘုရားသခင် ကယ်တော်မူပါ" ဟု အယ်လ်က ရေရွတ်သည်။ "ကျုပ်တော့ စိတ်ပျက်တယ်၊ ကျုပ်က မော်တော်ကား အလုပ်ရုံမှာပဲ လုပ်ချင်တာ"

စိတ်နှလုံးကို တုံးတုံးချ၍ လိုက်လာသော အဖေဂျုတ်သည် အယ်လ်၏ စကားကို ကြားသောအခါ ဖျတ်ခနဲ လှည့်ကြည့်သည်။ "မလုပ်ချင်ရင် မလုပ်နဲ့၊ သွား" ဟု ဒေါသတကြီး ပြောသည်။ "မင်းဆိုတဲ့အကောင်ဟာ အလုပ်ရတော့မယ် ဆိုရင် သောက်ကြေး ထူလာတာပဲ၊ ညည်းလိုက်ညူလိုက်နဲ့ သောက်သုံးကို မကျဘူး၊ အလုပ်ကတော့ လုပ်ရမှာပဲကွ၊ မင်းကို ဒီအသက်အရွယ်ကြီးအထိ ငါက လျှာနဲ့ လျက်ပေး မနေနိုင်တော့ဘူး"

အယ်လ်၏မျက်နှာသည် ဒေါသကြောင့် နီရဲလာသည်။ စိတ်ဆိုးမာန်ဆိုးဖြင့် ရိုင်းရိုင်းစိုင်းစိုင်း ပြန်ပြောတော့မည့်ဟန် ပြုသည်။

တွမ်က အယ်လ်၏အနီးသို့ သွား၍ "လာပါကွာ" ဟု ချော့ချော့မော့မော့ လေသံဖြင့် ခေါ်သည်။ "အခုဟာက ပေါင်မုန့်နဲ့အသား ပြဿနာကွ၊ စားစရာရအောင် မလုပ်လို့ မဖြစ်ဘူး"

သူတို့သည် မက်မွန်သီးများကို ဆွတ်၍ ပုံးများအတွင်းသို့ ထည့်ကြသည်။ တွမ်သည် သူ့အလုပ်ကို မြန်နိုင်သမျှမြန်အောင် တွန်း၍ လုပ်သည်။ မကြာမီ မက်မွန်သီးတစ်ပုံး ပြည့်သွား၏။ နောက်တစ်ခဏမျှ ကြာသောအခါ နောက်ထပ် နှစ်ပုံး ပြည့်သွား ပြန်လေသည်။ သူသည် မက်မွန်သီးများကို သေတ္တာတစ်လုံးထဲသို့ လောင်းထည့်သည်။ သုံးပုံးဆိုတော့ တစ်သေတ္တာ။ "ကျုပ်တော့ ငါးဆင့်ဖိုး ရပြီ" ဟု ဂမ်းသာအားရ ပြောသည်။ သူသည် သေတ္တာကို ထပ်ကာ စုရပ်ဆီသို့ အပြေးအလွှား သွားပို့သည်။ "ဟောဒီမှာ ငါးဆင့်ဖိုး" ဟုလည်း ပစ္စည်းလက်ခံသည့် စာရေးအား လှမ်းပြောလေသည်။

စစ်ဆေးသူက သေတ္တာထဲ ငုံ့ကြည့်သည်။ တစ်လုံး နှစ်လုံး ကောက်ယူပြီး စစ်ဆေးသည်။ "ဟိုဘက်မှာ သွားချထားလိုက်၊ မင်းဟာ ပယ်တယ်" ဟု ပြောသည်။ "ငါ မင်းကို ပြောခဲ့သားပဲ၊ အသီးကို ထိမိ ခိုက်မိအောင် မခူးနဲ့ ကြေမသွားစေနဲ့

နာမသွားစေနဲ့လို့၊ မင်းပုံးထဲက မက်မွန်သီးတွေကို သေတ္တာထဲ ပြောင်းထည့်တုန်းက ပစ်စလက်ခတ် လောင်းထည့်ခဲ့တယ် မဟုတ်လား၊ အဲသလို လုပ်လို့ကတော့ ဘယ်မှာ အကောင်းရနိုင်တော့မှာလည်းကွာ၊ ဒါမျိုးကတော့ ငါတို့က လက်ခံလို့မရဘူး၊ နောက်ကို သေတ္တာထဲ ပြောင်းထည့်တဲ့အခါ သတိထားပြီး ဖြည်းဖြည်းထည့်၊ အဲသလို မထည့်လို့ကတော့ မင်းအနေနဲ့ အကျိုးမရှိတဲ့ အလုပ်တစ်ခုကို လုပ်နေသလို ဖြစ်တော့ မပေါ့ကွ"

"ဟာဗျာ ဒီလိုဆို"

"ဒီတစ်ခါ ဖြည်းဖြည်းလုပ်ပေါ့ကွာ၊ ငါ ပြောတဲ့အတိုင်း လုပ်ပေါ့"

တွမ်သည် စိတ်ပျက်လက်ပျက်ဖြင့် ခေါင်းငိုက်စိုက်ချ၍ ရပ်နေသည်။ ထို့နောက် "ရပါတယ်" ဟု သူ့လူများထံသို့ လျှင်မြန်စွာ ပြန်လာသည်။ "အသီးတွေကို သေတ္တာထဲ ပြောင်းထည့်ရင် သတိထားထည့်မှ၊ ဟာ ခင်ဗျားတို့ အသီးတွေလည်း ကျုပ်အသီးတွေလို ဖြစ်ကုန်ပြီ၊ လက်ခံမှာ မဟုတ်ဘူး"

"ဘာ ဘယ်လို" အယ်လ်က ထိတ်လန့်တကြား ရေရွတ်သည်။

သူတို့သည် ဒုတိယတစ်ကျော့ ဆွတ်ကြပြန်သည်။ ဤတစ်ကြိမ်တွင်မူ အသီးများကို အသာအယာ ကိုင်တွယ်၍ ခူးကြသည်။ မက်မွန်သီးတစ်သေတ္တာရရန်မှာ စောစောကလောက် မြန်မြန်ဆန်ဆန် မဖြစ်တော့ပေ။ တွမ်က "ကျုပ် တစ်ခုစဉ်းစား မိတယ်ဗျ" ဟု ဆိုသည်။ ပုံးထဲက မက်မွန်သီးတွေကို သေတ္တာထဲ ပြောင်းထည့်တဲ့အလုပ်ကို ရှသီနဲ့ ဂင်းဖီး ဒါမှမဟုတ် ရိုစာဟန် တစ်ယောက်ယောက်ကို ခိုင်းလို့ရတယ်၊ သူတို့က ရွေးပြီး ထည့်ပေးသွားရင် ပိုကောင်းမယ်"

တွမ်သည် နောက်ထပ် ဆွတ်၍ရလာသော သေတ္တာကို စာရပ်သို့ သွားပို့ပြန်သည်။ "ဒီသေတ္တာရော ငါးဆင့်မှ တန်ပဲ့မလားဗျာ"

စစ်ဆေးသူသည် တွမ်၏ သေတ္တာထဲမှ မက်မွန်သီးများကို အထက်အောက်လှန်၍ ကြည့်သည်။ "ဒီသေတ္တာကျတော့ ကောင်းသားပဲ" ဟု မှတ်ချက်ပေးကာ သေတ္တာကို လက်ခံ၍ စာရင်းသွင်းသည်။ "ဖြည်းဖြည်း မှန်မှန် လုပ်သွားကွ" ဟုလည်း အကြံပေးသည်။

တွမ်က ပြန်လှည့်လာသည်။ "ကျုပ်တော့ ငါးဆင့်ရခဲ့ပြီ" ဟု အော်ကြီးဟစ်ကျယ် ပြောသည်။ "ငါးဆင့်တော့ ရပြီ၊ တစ်ဒေါ်လာရဖို့ကတော့ အခေါက်ပေါင်းနှစ်ဆယ်တိတိ သွားရဦးမှာပါလား"

သူတို့သည် အလုပ်ကို ပုံမှန်ပင် လုပ်သွားကြသည်။ အတန်ကြာသောအခါ ရူသီနှင့် ဂင်းဖီးတို့ ရောက်လာကြသည်။ "မင်းတို့လည်း အလုပ်လုပ်ရမယ်" ဟု အမေဂျုတ်က ဆီးပြောသည်။ "လက်ဆွဲပုံးထဲက မက်မွန်သီးတွေကို မပေါက်မပြဲအောင် ယူပြီး သေတ္တာထဲ ထည့်ရမယ်၊ ဟောဒီမှာကြည့်၊ ဟောဒီလို တစ်လုံးချင်းစီ ကောက်ထည့်"

ကလေးနှစ်ယောက်သည် မြေပေါ်၌ ဖင်ချ၍ထိုင်ကာ လက်ဆွဲပုံးထဲမှ မက်မွန်သီး များကို ယူ၍ သေတ္တာထဲ ပြောင်းထည့်သည်။ မက်မွန်သီးပုံးများသည် သူတို့ရှေ့တွင် တန်းစီလျက် ရှိလေ၏။ တွမ်သည် မက်မွန်သီးတစ်သေတ္တာ ပြည့်တိုင်း သယ်၍ ပို့သည်။ နှုတ်မှလည်း "ခုနစ်လုံး ရှိသွားပြီ" "ဒီတစ်လုံးနဲ့ဆိုရင် ရှစ်လုံး ရှိသွားပြီ" စသည်ဖြင့် ရေရွတ်လေ့ ရှိ၏။ "ဒါပါနဲ့ဆို ရှစ်လုံး၊ အားလုံး ဆင့်လေးဆယ် ရပြီ၊ ဆင့်လေးဆယ်ဆိုရင်တော့ အမဲသား ကောင်းကောင်း တစ်တုံးတော့ ရပြီကွ"

မွန်းလွဲပိုင်းသည် တစ်ရွေ့ရွေ့ ကုန်လွန်သွားလျက်ရှိ၏။ ရူသီသည် အလုပ်ခွင်မှ ထွက်ပြေးရန် အားထုတ်သည်။ "ကျွန်မ မောတယ်" ဟု ညည်းညည်းညူညူ လုပ်၍ ပြောသည်။ "ကျွန်မ နားချင်တယ်"

"နင် အခု ထိုင်နေရာက ဘယ်ကိုမှ မသွားရဘူး" ဟု အဖေဂျုတ်က ဆိုသည်။

ဦးလေးဂျွန် မက်မွန်သီး ခူးပုံမှာ နှေးကွေး လေးလံသည်။ တွမ် နှစ်သေတ္တာရမှ သူ တစ်သေတ္တာ ရသည်။ သူ့စံချိန်သည် တက်လာခြင်း မရှိ။

နေစွယ်ကျိုးချိန်တွင် အမေ ရောက်လာလေသည်။ "အမေ စောစောကတည်းက လာမလို့၊ ဒါပေမယ့် ရိုစာဟန် မေ့သွားလို့၊ နေရင်း ထိုင်ရင်း သတိလစ်သွားတာ" အမေက ကလေးနှစ်ယောက်အား လှည့်ကြည့်သည်။ "ဟဲ့ နင်တို့ မက်မွန်သီးတွေ စားနေကြသလား၊ အေး အဲသလို လုပ်နေရင် နင်တို့ကို မောင်းထုတ်လိမ့်မယ် သိလား" အမေ့ခန္ဓာကိုယ်သည် လျက်မြန်သွက်လက်စွာ လှုပ်ရှားလျက်ရှိသည်။ အမေကတော့ လက်ဆွဲပုံးကို မသုံး။ မက်မွန်သီးများကို ခူး၍ သူ့ခါးစည်အဝတ်ထဲသို့ ထည့်သည်။ အနောက်ဘက်

မိုးကုတ်စက်ဝိုင်း ဆီသို့ နေ ရောက်သွားချိန်တွင် သူတို့သည် မက်မွန်သီးသေတ္တာ အလုံးနှစ်ဆယ် ရခဲ့လေပြီ။

တွမ်သည် ပုခုံးပေါ်မှ အလုံးနှစ်ဆယ်မြောက် သေတ္တာကို ချလိုက်သည်။ "အားလုံး တစ်ဒေါ်လာဖိုးရှိပြီ" ဟု ပြောသည်။ "ကျုပ်တို့ ဘယ်အချိန်အထိ လုပ်ရမှာလဲ"

"မှောင်တဲ့အထိ၊ အသီးကို မမြင်ရတော့ဘူးဆိုမှ သိမ်း"

"ကျုပ်တို့ အခု ဆိုင်ကအကြွေးယူလို့ ရနိုင်ပြီလား၊ အမေ့ကို လွှတ်ပြီး ယူခိုင်းထားချင်တယ်၊ အချိန်မီ စားနိုင် သောက်နိုင်အောင်လို့"

"ရပြီ၊ တစ်ဒေါ်လာတန် စာရွက်တစ်ရွက် ပေးလိုက်မယ်" သူသည် စာရွက်တစ်ရွက် ပေါ်တွင် ရေးပြီး တွမ်အား လှမ်းပေးသည်။

တွမ်က စာရွက်ကို ယူလာပြီးအမေ့လက်ထဲသို့ ထည့်သည်။ "ရော့ အမေ၊ ဆိုင်က တစ်ဒေါ်လာဖိုး ပစ္စည်းသွားယူနိုင်ပြီ"

အမေသည် လက်ထဲမှ သံပုံးကို ချလိုက်ပြီး ခါးကို ဆန့်လိုက်၏။ "ဒါ ပထမဆုံးရတဲ့ ငွေပေါ့နော်"

"ဟုတ်တယ်အမေ၊ ချက်စရာ ပြုတ်စရာသာ ဂယ်ပေတော့"

"မင်းတို့ ဘာစားချင်ကြသလဲ"

"အမဲသားရယ်၊ ပေါင်မုန့်ရယ်၊ ပြီးတော့ သကြားနဲ့ကော်ဖီတစ်အိုး၊ အိုးကြီးကြီးနဲ့ ဖျော်ဗျာ၊ အမဲသားလည်း အတုံးကြီးကြီးနဲ့ ကောင်းကောင်းပေါ့"

"သမီးတို့ မောတယ် အမေ" ဟု ရှသီက ငိုသံပါနှင့် ပြောသည်။

"ဒီလိုဆိုလည်း ငါနဲ့ တစ်ခါတည်း လိုက်ခဲ့ကြတော့"

"စလုပ်ကတည်းက မောတယ် ပြောနေကြတာ" ဟု အဖေဂျုတ်က ပြောသည်။ "ကစားရမယ်ဆိုရင်တော့ ပြေးလိုက်လွှားလိုက်ကြတာ တောယုန်အရိုင်းတွေ ကျနေတာပဲ၊ အခုလိုမှ မနိုင်းရင် ဒီနစ်ကောင် ကောင်းမှာ မဟုတ်တော့ဘူး"

"ကျွန်မတို့ အခြေတကျ ဖြစ်သွားရင် သူတို့ ကျောင်းတက်ရမှာ" ဟု အမေက ပြန်ပြောသည်။ အမေက သူတို့လူစုအပါးမှ ထွက်ခွာသွားသည်။ ရူသီနှင့် ဂင်းဖီးတို့က မဟုံမရဲ ခြေလှမ်းများဖြင့် အမေ့နောက်မှ လိုက်သွားကြလေသည်။

"ကျုပ်တို့ အခုလို နေ့စဉ် လုပ်ရမှာလားဟင်" ဂင်းဖီးက လှမ်းမေးသည်။

အမေက ချက်ချင်း မဖြေ။ သူတို့အား ရှေ့မှနေ၍ ရပ်စောင့်နေသည်။ ပြီးတော့ ဂင်းဖီး၏လက်ကို ဆွဲကာ ဆက်လျှောက်သည်။ "အလုပ်က မပင်ပန်းပါဘူးကွယ်" ဟု ပြောသည်။ "အလုပ်လုပ်တာ မင်းအတွက် ကောင်းတာပေါ့၊ မင်း အလုပ်လုပ်တာဟာ အမေတို့ကို ကူညီတာပဲပေါ့၊ အမေတို့ မိသားစုအားလုံး အခုလို အလုပ်လုပ်သွားကြမယ် ဆိုရင် မကြာခင် အမေတို့ အိမ်ကောင်းကောင်း နေရမှာ၊ အမေတို့အားလုံး တစ်ယောက်နဲ့ တစ်ယောက် ကူညီရမယ်ကွယ့်"

"ဒါပေမယ့်ဗျာ၊ ကျုပ်ကတော့ မောတယ်ဗျ"

"အမေသိပါတယ်ကွယ်၊ အမေလည်း မောတာပေါ့၊ လူတိုင်း ပင်ပန်းကြတာပဲ ကွယ့်၊ အမေတို့မှာ တစ်ခြား စဉ်းစားစရာတွေက ရှိသေးတယ်၊ မင်းတို့ကို ကျောင်းထားဖို့ ကိစ္စမျိုးလည်း စဉ်းစားရသေးတယ်"

"ကျုပ်ကတော့ ကျောင်းမနေချင်ပါဘူးဗျာ၊ ရူသီလည်း မနေချင်ဘူးတဲ့၊ ကျောင်းတက် နေတဲ့ ကောင်တွေကို ကျုပ်တို့ မြင်ခဲ့တယ် အမေ၊ ဒီကောင်တွေက သိပ်ဗိုလ်ကျတာပဲ၊ ကျုပ်တို့ကို အုတ်ကီးလို့ ခေါ်တယ်၊ ကျုပ်ကတော့ ကျောင်းမနေချင်ဘူး"

အမေက သူ့သားငယ်ကို ဂရုဏာမကင်းသော မျက်နှာထားဖြင့် ကြည့်သည်။ "အခု လောလောဆယ် ဒါတွေ မပြောနဲ့ကွယ်၊ အမေတို့ အဆင်ပြေလာမှာပါ၊ အဲဒီကျမှ ပြော၊ အခုတော့ အမေတို့မှာ ပူစရာတွေက များနေပြီ"

"သမီးလေ မက်မွန်သီး ခြောက်လုံး စားခဲ့တယ်" ဟု ရူသီက ပြောသည်။

"အေး ကောင်းတာပေါ့၊ နင် ဈေးပန်းမယ်၊ တို့ အခုနေတဲ့ နေရာမှာ အိမ်သာ နီးနီးနားနားလည်း မရှိဘူး"

ကုမ္ပဏီမှ ဖွင့်ထားသည့် စတိုးဆိုင်မှာ သံဆူးကြိုးများ ကာရံထားသည်။ တဲကြီးတစ်လုံးသာသာမျှသာ ဖြစ်၏။ အမေသည် တံခါးကို တွန်းဖွင့်ပြီး ဆိုင်အတွင်းသို့ ဝင်ခဲ့သည်။ ကောင်တာနောက်တွင် လူပုပု ပိန်ပိန်တစ်ဦး ရပ်နေသည်။ သူ့ထိပ်မှာ ပြောင်လျက်ရှိ၏။ ထူထဲသော မျက်ခုံးမွေးများသည် သူ့မျက်လုံးများ အထက်မှ လေးကိုင်း သဏ္ဍာန် ကုပ်ကျလျက် ရှိ၏။ သူ့မျက်နှာထားသည် အံ့သြခြင်းနှင့် ထိတ်လန့်ခြင်းကို ပေါင်းစပ်ဖော်ပြနေသည့်နှယ် ရှိသည်။ သူ့နှာခေါင်းသည် နှုတ်သီးသဖွယ် ကောက်လျက် ရှိလေသည်။ သူ့နှာခေါင်းပေါက်များသည် အညိုရောင် အမွေးများဖြင့် ပိတ်ဆို့လျက် ရှိ၏။ အမေဝင်သွားချိန်တွင် သူသည် တံတောင်နှစ်ဖက်ကို ကောင်တာပေါ်၌ ထောက်ထား၍ ရပ်လျက်ရှိပေသည်။

"မင်္ဂလာ နေ့ခင်းပါ" ဟု အမေက နှုတ်ဆက်သည်။

သူသည် အမေ့အား စိတ်ဝင်တစား မော့ကြည့်သည်။ မျက်လုံးများ အထက်မှ မျက်ခုံးထူထူကြီးများသည် အထက်သို့ မြင့်တက်သွားလေသည်။ "နေကောင်းလား"

"ကျွန်မမှာ တစ်ဒေါ်လာတန် စက္ကူတစ်ရွက် ပါတယ်"

"ခင်ဗျား တစ်ဒေါ်လာဖိုး ဝယ်နိုင်တယ်" ဟု ပြောပြီး သံသေးသံကြောင်ဖြင့် ပြောင်သလို လှောင်သလို ရယ်သည်။ "ရပါတယ် ခင်ဗျာ၊ တစ်ဒေါ်လာဖိုးကတော့ ရပါတယ်၊ တစ်ဒေါ်လာဖိုး တိတိပေါ့" သူ့လက်တစ်ဖက်သည် စာရင်းစာအုပ်ကို လှမ်းယူသည်။ "ကြိုက်တဲ့ ပစ္စည်းပေါ့"

"အမဲသား နည်းနည်းလောက် ယူမလားလို့"

"လိုတာ အကုန်ရပါတယ်" ဟု ပြောသည်။ "ဝက်ပေါင်ခြောက်ကော ယူမလား၊ ယူချင်ရင် ရပါတယ်၊ တစ်ပေါင်ကို ဆင့်နှစ်ဆယ်"

"ဈေးမကြီးလွန်းဘူးလား ဟင်၊ ကျွန်မ မကြာသေးခင်က ဝယ်ခဲ့ဖူးတယ်၊ တစ်ပေါင်မှ ဆယ့်ငါးဆင့်ပဲ ပေးရတယ်"

"ဒါကတော့" သူသည် စကားကို မဆက်သေးဘဲ ခပ်တိုးတိုး ကျိတ်၍ ရယ်ပြန်သည်။ "ဒါကတော့ ဈေးကြီးလွန်းတယ်ဆိုရင်လည်း မှန်တယ်၊ မကြီးဘူးလို့ ပြောလည်း မှန်တယ်၊ ခင်ဗျား မြို့ထဲသွားပြီး ဂက်ပေါင်ခြောက် နှစ်ပေါင် ဂယ်မယ်ဆိုရင် ဓာတ်ဆီတစ်ဂါလန်လောက် ကုန်မယ်၊ အဲဒီတော့ ဒီမှာ ရှိနေတဲ့ ဂက်ပေါင်ခြောက်ဈေးဟာ မကြီးတော့ဘူး၊ ဘာပြုလို့လည်း ဆိုတော့ ခင်ဗျားမှာ ဓာတ်ဆီတစ်ဂါလန်ဖိုးလောက် သက်သာနေတာကိုးဗျ"

"ဒီနေရာမှာ ဝက်ပေါင်ခြောက်တွေ ရဖို့အတွက် ရှင်တို့မှာ ဓာတ်ဆီ တစ်ဂါလန်ဖိုး မကုန်ပါဘူး" အမေက လေသံမာမာဖြင့် ပြန်ပြောသည်။

သူက လိုက်လိုက်လှဲလှဲ ရယ်သည်။ "ခင်ဗျား မြင်ပုံက ခေတ်နောက်ကျနေတယ်" ဟု ဆိုသည်။ "အခုဟာ ကျုပ်တို့က ဝယ်နေတာ မဟုတ်ဘူး၊ ကျုပ်တို့က ရောင်းနေတာ၊ တကယ်လို့ ကျုပ်တို့က ဝယ်တာ ဆိုရင်တော့ အဓိပ္ပာယ်က တစ်မျိုး ဖြစ်မှာပေါ့"

အမေက အမှတ်တမဲ့ဖြင့် လက်ချောင်း နှစ်ချောင်းကို ပါးစပ်ဖြင့် ကိုက်ကာ တွေဝေ စဉ်းစားလျက် ရှိသည်။ ထို့နောက် ဆိုင်ထိုင် အရောင်းသမား၏ မျက်နှာကို စူးစူးရဲရဲ ကြည့်သည်။ "ဈေးပေါပေါနဲ့ ရနိုင်တဲ့ အမဲသားကော မရှိဘူးလား"

"စွပ်ပြုတ်ရိုးတော့ ရှိတယ်" ဟု သူက ဖြေသည်။ "တစ်ပေါင်မှ ဆယ်ဆင့်ပဲ ကျတယ်"

"ဒါပေမဲ့ အဲဒါကျတော့ အရိုးချည်းပဲ ဖြစ်နေမှာပေါ့"

"ဟုတ်တယ်၊ အရိုးချည်းပဲ၊ ဒါပေမဲ့ စွပ်ပြုတ် ကောင်းကောင်းတစ်ခွက်တော့ ရတယ်"

"အမဲသားပြုတ်ကော မရဘူးလား"

"အိုး ရတယ်၊ တစ်ပေါင်ကို ဆယ့်နှစ်ဆင့်ခွဲ ကျမယ်"

"ဒီလိုဆို အမဲသားတော့ ဝယ်ချင်မှ ဝယ်နိုင်မယ်" ဟု အမေက ပြောသည်။ "ဒါပေမဲ့ သူတို့က အမဲသား စားချင်နေကြတယ်"

"လူတိုင်း အမဲသား စားချင်ကြတာပေါ့၊ အမဲသားကတော့ စားဖို့ လိုတာချည်းပဲ၊ ဝက်ပေါင်ခြောက်ဆိုရင် အတော့်ကို ကောင်းတာ ဝက်ပေါင်ခြောက်က ထွက်တဲ့အဆီကို ဟင်းချက်လို့ရတယ်၊ အရသာ သိပ်ရှိတာပေါ့၊ ဘာတစ်ခုမှ ပစ်ဖို့မလိုဘူး"

"ဘေးသားတွေကျတော့ကော ဘယ်လောက်လဲ"

"ခင်ဗျားဟာက တကယ့် ကောင်းပေ့ဆိုတဲ့ အသားတွေကိုချည်း စိတ်ကူးနေတာကိုးဗျ၊ ခရစ္စမတ်ပွဲတော်သုံး ပစ္စည်းမျိုးတွေနဲ့ ကျေးဇူးတော်ဂုဏ် ချီးကျူးပွဲ အခမ်းအနားမှာ သုံးတဲ့ ပစ္စည်းမျိုးတွေကိုချည်း မှန်းနေတာကိုး၊ ဘေးသားလည်း ဈေးကတော့ တစ်ပေါင်ကို သုံးဆယ့်ငါးဆင့် ကျမယ်၊ တကယ်လို့ ကျုပ်မှာသာ ကြက်ဆင်သားရှိရင် ခင်ဗျားကို ဈေးပေါပေါနဲ့ ရောင်းပေးပါတယ်ဗျာ"

အမေက သက်ပြင်းချသည်။ "ကျွန်မကို ဝက်ပေါင်ခြောက် နှစ်ပေါင်ပေး"

"ကောင်းပြီ၊ ရမယ်" သူသည် လက်ထဲမှ စာရွက်ပေါ်၌ စာရင်းရေးမှတ်လိုက်သည်။ "နောက် ဘာယူမလဲ"

"ပေါင်မုန့်"

"ရတယ်၊ ဟောဒီမှာ၊ အကြီးကြီးပဲ၊ တစ်လုံး ဆယ့်ငါးဆင့် ကျတယ်"

"အဲဒီ ပေါင်မုန့်က တစ်လုံး ဆယ့်နှစ်ဆင့်တန် ပေါင်မုန့်ပဲ"

"မှန်ပါတယ်၊ မြို့ထဲ သွားဝယ်ရင် ဆယ့်နှစ်ဆင့်နဲ့ ရပါလိမ့်မယ်၊ ဓာတ်ဆီ တစ်ဂါလန် ကုန်ပါလိမ့်မယ်၊ ကဲ အခြား ဘာယူဦးမလဲ၊ အာလူးကော ယူဦးမလား"

"ယူမယ်"

"ငါးပေါင်ကို နှစ်ဆယ့်ငါးဆင့် ကျတယ်"

အမေက ဒေါသတကြီးနှင့် ရှေ့သို့ တိုးသွားသည်။ "ရှင် လျှာရှည်တာတွေ ကြားရတာ များလွန်းလို့ အီသွားပြီ၊ ဒီပစ္စည်းတွေကို မြို့ထဲမှာ ဘယ်လောက် ပေးရမယ်ဆိုတာ ကျွန်မ သိတယ်"

"ဒီလိုဆိုလည်း မြို့ထဲ သွားဝယ်ပေါ့"

အမေက သူ့လက်သီးဆုပ်များကို ငုံ့ကြည့်သည်။ "ဒါက ဘာသဘောလဲ" ဟု အမေက လေအေးအေးဖြင့် မေးသည်။ "ဒီဆိုင်က ရှင်အပိုင်လား"

"မဟုတ်ဘူး၊ ကျုပ်က အလုပ်သမား"

"ပြောင်စရာ လှောင်စရာအကြောင်း ရှင့်မှာ ရှိနေသလား" အမေက သူ့လက်နစ်ဖက်ကို စူးစိုက်၍ ကြည့်နေသည်။ ဆိုင်ထိုင် အရောင်းစာရေးက တစ်ခွန်း ပြန်မပြောဘဲ ငြိမ်ဆိတ်နေသည်။ "ဒီဆိုင်ပိုင်ရှင်က ဘယ်သူလဲ"

"ဟူးပါး မွေးမြူရေးခြံအဖွဲ့က ပိုင်တယ်"

"ပစ္စည်းဈေးနှုန်းကို သူတို့က သတ်မှတ်ပေးတာလား"

"မှန်ပါတယ် ခင်ဗျာ"

အမေက ပြုံးသည်။ "ဒီအပြောမျိုးနဲ့သာ ကြုံရရင်တော့ ဒီဆိုင်ထဲ ဝင်လာသမျှ လူတိုင်းဟာ ရှုံးမှာပဲ"

စာရေးက ရုတ်တရက် စကားပြန် မပေးဘဲ တစ်ခဏမျှ ငြိမ်ဆိတ်နေသည်။ ပြီးမှ "မှန်ပါတယ် ခင်ဗျာ" ဟု တလေးတစား ဖြေသည်။

"ရှင် ကျွန်မကို ဘာသဘောနဲ့ ဆီးပြီး သရော်နေတာလဲ"

"ခင်ဗျား ဘာဆိုလိုတာလဲ"

"ဒီလို စုတ်ပွဲ ညစ်ပတ်တဲ့ အချိုးမျိုး မလုပ်ပါနဲ့၊ ရှင်ပဲ ရက်စရာ ကောင်းတယ်၊ တကယ်တမ်းကျတော့ နောက်သလိုလို ပြောင်သလိုလိုနဲ့ စကားကို လီးလွဲ ပြောချင်တယ်" အမေ့အသံမှာ ညင်သာပျော့ပျောင်းသည်။ စာရေးသည် အမေ့မျက်နှာကို စူးစိုက်ကြည့်နေသည်။ အမေ့စကားကို ပြန်လှန် ချေပခြင်းတော့ မပြု။ အမေက စကားလမ်းကြောင်းကို ပြောင်းပစ်လိုက်သည်။ "အမဲသားက ဆင့်လေးဆယ်၊ ပေါင်မုန့်က ဆယ့်ငါးဆင့်၊ အာလူးက နှစ်ဆယ့်ငါးဆင့်၊ အားလုံးပေါင်း ဆင့်ရှစ်ဆယ်၊ ကော်ဖီကော"

"အပေါ်ဆုံး အမျိုးအစားတောင်မှ တစ်ပေါင်ကို ဆင့်နှစ်ဆယ် ကျမယ်"

"ဒါဆိုရင် ကျွန်မ တစ်ဒေါ်လာ ကုန်ပြီပေါ့၊ လူ ခုနစ်ယောက် အလုပ်လုပ်တာဟာ ညစာ တစ်နပ်ပဲ ရတယ်၊ ကဲ ပစ္စည်းတွေ ထုပ်လိုက်ပါတော့"

"ကောင်းပါပြီ၊ ကျေးဇူးတင်ပါတယ်" ဟု စာရေးက ပြောသည်။ သူသည် အာလူးများကို စက္ကူအိတ်တစ်လုံးထဲ ထည့်ပြီး ထိပ်ပိုင်းကို ဂရုတစိုက် ခေါက်၍ လိပ်ပေးသည်။ သူ့မျက်လုံးများသည် အမေ့မျက်နှာကို တစ်ချက် ခိုးကြည့်ပြီး မျက်လွှာများကို ပြန်ချကာ သူ့အလုပ်ထဲတွင် စိတ်ဝင်စားဟန် ဆောင်ထားသည်။ အမေက စာရေး လုပ်နေပုံကို ကြည့်၍ ပြုံးသည်။

"ရှင် ဒီအလုပ်မျိုးကို ဘယ်လိုနည်းနဲ့ ရလာတာလဲ" ဟု အမေက မေးသည်။

"လူတစ်ယောက်ဟာ အစားတော့ စားရပါလိမ့်မယ်" ဟု စာရေးက ဖြေသည်။ ထို့နောက် ပမာမခန့် အပြုအမူမျိုးနဲ့ ဆက်ပြောသည်။ "လူတစ်ယောက်မှာ အစား စားပိုင်ခွင့်လည်း ရှိနေပါတယ်"

"အဲဒီ ရှင်ပြောတဲ့ လူက ဘယ်လို လူစားမျိုးလဲ" အမေက ထပ်၍ မေးပြန်သည်။

စာရေးသည် အထုပ် လေးထုပ်ကို ကောင်တာပေါ်သို့ လှမ်းတင်ပေးသည်။ "အမဲသား၊ အာလူး၊ ပေါင်မုန့်၊ ကော်ဖီ၊ တစ်ဒေါ်လာတိတိ ကျတယ်" အမေက သူ့လက်ထဲမှ စာရွက်ကို လှမ်းပေးပြီး စာရင်းစာအုပ်ကြီးထဲ၌ နာမည်နှင့် ငွေစာရင်း ရေးသွင်းနေသည်ကို စောင့်ကြည့်နေသည်။

အမေက ကောင်တာပေါ်မှ အထုပ်များကို ယူလိုက်သည်။ "ကော်ဖီဖျော်ဖို့ သကြား မရတော့ဘူး၊ ကျွန်မသား တွမ်က သကြားနဲ့ သောက်ချင်တာ၊ သူတို့အားလုံး ခြံထဲမှာ အလုပ်လုပ်ကြတယ်၊ ဖြစ်နိုင်ရင် ရှင် ကျွန်မကို သကြားနည်းနည်း ရောင်းလိုက်ပါလား၊ ကျွန်မ လာပေးမယ်လေ"

စာရေးသည် အမေ့ကို မကြည့်။ သူ့မျက်လုံးများကို အမေနှင့် ရင်မဆိုင်မိအောင် အဝေးသို့ လွှဲထားသည်။ "ကျွန်တော် လုပ်မပေးနိုင်ဘူး" ဟု တိုးတိုးသာသာ ပြောသည်။ "စည်းကမ်းက ရှိနေတယ်၊ ကျွန်တော် မတတ်နိုင်ဘူး၊ ကျွန်တော်ပဲ ဒုက္ခရောက်မှာ"

"ခြံထဲမှာ သူတို့ အခုထက်ထိ အလုပ်လုပ်နေတုန်း ရှိပါသေးတယ်၊ နောက်ထပ် ပိုက်ဆံရဖို့ သေချာနေပါတယ်၊ ဆယ်ဆင့်မက ရဖို့ ရှိနေတာပဲ၊ ကျွန်မကို သကြား ဆယ်ဆင့်ဖိုးလောက် ပေးလိုက်ပါလား၊ ကျွန်မသားကြီး တွမ်က ကော်ဖီကို သကြားနဲ့ ဖျော်သောက်ချင်လို့ပါ"

"ကျွန်တော် လုပ်မပေးနိုင်လို့ပါ၊ သူတို့ ချထားတဲ့ စည်းကမ်းက ရှိနေလို့ပါ၊ အဲဟိုက စာရွက် မပြနိုင်ရင် ပစ္စည်း မရောင်းရဘူးလို့ သတ်မှတ်ထားပါတယ်၊ သူတို့က ဝင်စစ်ပြီး ဖမ်းတတ်တယ်"

"ဆယ်ဆင့်ဖိုးလောက်မှ မရဘူးလား"

"ဘယ်လောက်ဖိုးမှ ပေးလို့ မဖြစ်ဘူး" စာရေးက တောင်းပန်သည့် မျက်နှာထားဖြင့် အမေ့ကို ကြည့်နေသည်။ ထို့နောက် သူ့မျက်နှာမှ စိုးရိမ်မှု လက္ခဏာသည် ဖျတ်ခနဲ ပျောက်သွားသည်။ သူသည် သူ့အိတ်ကပ်ထဲမှ ဆင့်ဆယ်ပြားတစ်ပြားကို ထုတ်၍ ငွေသေတ္တာထဲသို့ ထည့်သည်။ "တွေ့လား" စိတ်လက်ပေါ့ပါးသွားသည့် လေသံဖြင့် အမေ့အား လှမ်းပြောသည်။ သူသည် ကောင်တာအောက်မှ အိတ်တစ်လုံးကို ယူ၍ သကြားအနည်းငယ် ခပ်ထည့်ပြီး ချိန်သည်။ ပြီးတော့ နည်းနည်း ခပ်၍ ထည့်သည်။ "ကဲ ရပြီ၊ ဒါဆိုရင် အဆင်ပြေသွားတာပေါ့၊ ခင်ဗျား ဟိုက စာရွက် ယူလာတဲ့အခါကျမှ ကျွန်တော့် ဆယ်ဆင့်ကို ပြန်ယူမယ်"

အမေက စာရေး၏ အပြုအမူကို အကဲခတ်သည် အမေ့လက်သည် သကြားအိတ်ကို လှမ်းယူပြီး အခြား လက်တစ်ဖက်ဖြင့် ပိုက်၍ ပွေ့ထားသော အထုပ်များပေါ်သို့ တင်လိုက်သည်။ "ရှင့်ကို ကျေးဇူးတင်ပါတယ်" ဟု ညင်သာသော လေသံဖြင့် ရေရွတ်သည်။ သူသည် တံခါးဆီသို့ ပြန်လျှောက်လာသည်။ တံခါးဝသို့ ရောက်သောအခါ နောက်သို့ ပြန်၍ လှည့်ကြည့်လေသည်။ "ကျွန်မအနေနဲ့ အင်မတန် ကောင်းတဲ့ အသိတစ်ခုကို ရခဲ့ပါတယ်" ဟု လှမ်းပြောသည်။ "ဒီအသိဟာ ကျွန်မအတွက် တစ်သက်စာပါပဲ၊ တကယ်လို့ ရှင် ဒုက္ခရောက်နေရင် ဒါမှမဟုတ် နာနေရင် ဒါမှမဟုတ် အကူအညီ လိုနေရင် ဆင်းရဲတဲ့ လူတွေဆီကိုသာ သွားပါ၊ ရှင့်ကို ကူညီမယ့်လူဟာ ဒီလူစား တစ်မျိုးပဲ ရှိပါတယ်" အမေ့နောက်မှ တံခါးရွက်သည် ပြင်းထန်သော အရှိန်ဖြင့် ပိတ်ကျန်ခဲ့လေသည်။

စာရေးသည် သူ့တံတောင်နစ်ဖက်ကို ကောင်တာပေါ်၌ ထောက်ကာ အမေ ထွက်သွားရာဆီသို့ အံ့အားသင့်ပြီး ကြည့်နေသည်။ လိပ်ခွံရောင် ကြောင်တစ်ကောင်သည် ကောင်တာ ပေါ်သို့ ခုန်တက်လာပြီး စာရေး၏ အနီးတွင် လှည့်ပတ် လျှောက်သွားလျက် ရှိ၏။ တစ်ချက် တစ်ချက်တွင် ကြောင်သည် စာရေး၏ လက်မောင်းများကို ထိတွေ့ကာ ပွတ်သီးပွတ်သပ် လုပ်သည်။ စာရေးက ကြောင်ကို လှမ်းယူလိုက်ပြီး သူ့ပါးတစ်ဖက်တွင် ကပ်ထားလိုက်၏။ ကြောင်သည် သူ့မျက်နှာကို မော့၍ မော့၍ ကြည့်ကာ ကျယ်လောင်စွာ အော်သည်။ ကြောင်၏ အမြီးထိပ်သည် ရှေ့သို့ ကွေးကျလာလိုက်၊ နောက်သို့ ပြန်ကျသွားလိုက်နှင့် ထိုးထိုးထွန့်ထွန့် တွန့်လိမ် လှုပ်ရှားလျက် ရှိလေ၏။

တွမ်နှင့်အယ်လ်၊ အဖေဂျုတ်နှင့် ဦးလေးဂျွန်တို့သည် မိုးစုပ်စုပ်ချုပ်မှပင် မက်မွန်သီး ခြံထဲမှ အိမ်သို့ ပြန်ခဲ့ကြသည်။ သူတို့ ခြေထောက်များသည် လမ်းမပေါ်၌ နေးကွေး လေးလံစွာဖြင့် လျှောက်သွားလျက် ရှိ၏။

"လက်က အပေါ်ကို လှမ်းလှမ်းပြီး ခူးရတာဆိုတော့ တယ် မသက်သာဘူးကွ၊ ကျောတွေ အောင့်နေတယ်" ဟု အဖေဂျုတ်က ပြောသည်။

"ခူးစမို့ ဖြစ်တာပါ၊ နောက်နစ်ရက်လောက် ဆက်ခူးလိုက်ရင် ဘာမှဖြစ်မှာ မဟုတ်တော့ပါဘူး" ဟု တွမ်က ပြန်ပြောသည်။ "ညစာ စားပြီးရင် ကျုပ် အပြင်ခဏ ထွက်ဦးမယ်၊ ဂိတ် အပြင်ဘက်မှာ ဘာတွေ ဖြစ်နေတယ်ဆိုတာ သွားပြီး စုံစမ်းကြည့်ချင်တယ်၊ အဲဒီကိစ္စက ကျုပ်ခေါင်းကို အလုပ်ပေးနေတယ်၊ အဖေကော လိုက်ဦးမလား"

"မလိုက်တော့ပါဘူးကွာ" ဟု အဖေဂျုတ်က ငြင်းသည်။ "အခုတလော ငါဘာမှ မတွေးချင်ဘူး၊ ငါ့ဦးနောက်တစ်ခုလုံး အထုအထောင်း အရိုက်အနှက် ခံထားရသလို ဖြစ်နေတာ အတော့်ကို ကြာပြီကွ၊ ခဏတစ်ဖြုတ် နားပြီး အိပ်တော့မယ် စိတ်ကူးတယ်"

"မင်းကော လိုက်မလား အယ်လ်"

အယ်လ်က မျက်နှာကို လွှဲ၍ အဝေးသို့ မျှော်ကြည့်နေသည်။ "ကျုပ်လည်း မလိုက်တော့ဘူး၊ ကျုပ်တို့အိမ် အနီးအနားကို လျှောက်ကြည့်ရင် ကောင်းမလားလို့ စဉ်းစားနေတယ်"

"ဦးလေးဂျွန်ကတော့ မလိုက်မှာ သေချာပါတယ်၊ အဲဒီတော့ ကျုပ် တစ်ယောက်တည်း သွားရတော့မှာပေါ့၊ ကျုပ် စိတ်ထဲမှာ အထူးအဆန်း ဖြစ်နေလို့ပါ"

"ကိုယ်တိုင် လက်တွေ့ မမြင်ရ မတွေ့ရသေးသမျှတော့ အားလုံးဟာ အထူးအဆန်းချည်းပဲ ပေါ့ကွာ၊ မဆန်းပါဘူး၊ အခုဟာက အပြင်မှာ ပုလိပ်တွေ ရှိနေတယ်" ဟု အဖေဂျုတ်က ပြောသည်။

"ညဆိုရင်တော့ ပုလိပ်တွေ ရှိချင်မှ ရှိမှာပါ" ဟု တွမ်က ထင်မြင်ချက် ပေးသည်။

"ပုလိပ် ရှိရှိ မရှိရှိ ငါကတော့ အလုပ်မရှိ အလုပ်ရှာပြီး လုပ်မနေနိုင်ပါဘူး၊ ဘာလုပ်မှာလဲ၊ အေး တစ်ခု ရှိတယ်၊ မင်း ဘယ်သွားတယ်ဆိုတာ မင်း အမေကိုတော့ အသိမပေးတာ အကောင်းဆုံးပဲ၊ သူ သိသွားလို့ကတော့ မင်းအတွက် စိတ်ပူတာနဲ့ သူ့ခေါင်း ရှုစ်စိတ်ကွဲလိမ့်မယ်"

တွမ်က အယ်လ်ဘက်သို့ လှည့်မေးသည်။ "မင်းကော စိတ်မဝင်စားဘူးလား"

"ကျုပ် စခန်းထဲ လျှောက်ကြည့်မယ် စိတ်ကူးထားလို့ပါ"

"ကောင်မလေးတွေ လိုက်ရှာမယ် ဆိုပါတော့"

"ဒါက ကျုပ်ကိစ္စပါ" အယ်လ်က အေးစက်စက် လေသံဖြင့် ပြန်ပြောသည်။

"အေးလေ၊ ငါကတော့ သွားရမှာပဲ"

သူတို့သည် ခြံထဲမှနေ၍ အပြင်ဘက် နီရဲရဲ တိုက်တန်း နှစ်တန်းကြားရှိ ဖုန်ထူထူ လမ်းမပေါ်သို့ ရောက်လာကြသည်။ ရေနံဆီမီးအိမ်မှ အလင်းရောင်များသည် အိမ်ရှေ့ တံခါးပေါက်မှ တစ်ဆင့် အပြင်သို့ ထွက်လာလျက် ရှိ၏။ အတွင်းဘက်တွင်မူ တလှုပ်လှုပ် ရွေ့လျားနေကြသည့် လူရိပ် မည်းမည်းများ။ လမ်းမ၏ တစ်ဖက်ထိပ်တွင် အစောင့် တစ်ယောက် ထိုင်နေဆဲ။ သူသည် ပြောင်းတို သေနတ်ကို ဒူးပေါ်တင်၍ ထောင်ထား လေသည်။

အစောင့်ရှေ့မှ ဖြတ်အသွားတွင် တွမ်က ခဏမျှ ရပ်လိုက်သည်။ "ရေချိုးနိုင်တဲ့ နေရာ ရှိသလား မစ္စတာ"

အစောင့်က တွမ်အား ခြေဆုံးခေါင်းဆုံး ကြည့်၍ အကဲခတ်နေသည်။ ပြီးတော့မှ ပြန်မေးသည်။ "ဟို ရေတိုင်ကီကို မြင်တယ် မဟုတ်လား"

"ဟုတ်ကဲ့၊ မြင်ပါတယ်"

"အဲဒီပေါ်မှာ ပိုက်ရှိတယ်"

"ရေနွေးကော ရသလား"

"နေစမ်းပါဦးကွ၊ မင်းကိုယ်မင်း ဘာကောင်လို့ ထင်နေသလဲ၊ ဂျေပီမော်ဂန်လို့များ မင်းကိုယ်မင်း ထင်နေသလား"

"မထင်ပါဘူးဗျာ၊ ဘာမှ မထင်ပါဘူး၊ မင်္ဂလာညပါ မစ္စတာ"

အစောင့်က ဒေါသတကြီး ရေရွတ်သည်။ "ရေနွေးတဲ့ ဟား၊ ဘုရားသခင် ကယ်တော်မူပါ" သူသည် ဂျုတ်လေးဦးကို မသာယာသော မျက်နှာထားဖြင့် ကြည့်နေသည်။

ဒုတိယ အစောင့်သည် အစွန်ဆုံး အိမ်ကို ပတ်၍ ထွက်လာသည်။ "ဘာဖြစ်တာလဲ မက်စ်"

"ဟို အုတ်ကီးကောင်တွေပေါ့ကွာ၊ ငါ့ဆီလာပြီး ရေနွေး ရသလားလို့ မေးတယ်"

ဒုတိယ အစောင့်သည် သူ့သေနတ်ဒင်ကို မြေကြီးပေါ်သို့ ချလိုက်သည်။ "ဒီကောင်တွေ အစိုးရ ကယ်ဆယ်ရေး စခန်းက လာတာ ဖြစ်မယ်" ဟု ထင်ကြေးပေးသည်။ "ဒီအကောင် အဲဒီက လာတာပဲ ဖြစ်ရမယ်ကွာ၊ ငါ လောင်းကြေးနဲ့ ပြောရဲတယ်၊ အဲဒီ စခန်းတွေကို အမြစ်ကဖြိုပြီး ရှင်းမပစ်နိုင်သရွေ့ ငါတို့ အေးအေးသက်သာ နေရမှာ မဟုတ်ဘူး"

"ဂိတ် အပြင်ဘက်က အခြေအနေကကော ဘယ်လိုလဲ၊ အသံဗလံ ကြားသေးလား"

"သူတို့ကတော့ အပြင်ကနေပြီး တစ်နေ့လုံး အော်နေတာပဲ၊ ပြည်နယ်ပုလိပ်တွေကတော့ အခြေအနေကို ထိန်းထားနိုင်ပါတယ်၊ သူတို့ထဲက ခပ်ထက်ထက် ကောင်တွေကို လိုက်နေတယ်၊ သူတို့ထဲမှာ အရပ်ရှည်ရှည်နဲ့ ပိန်ပိန်ပါးပါး ခွေးမသား တစ်ကောင်က အဓိကပဲလို့ ကြားတယ်၊ ထောင်ပေးနေတာ သူပဲတဲ့၊ ဒီကောင်ကို ကနေ့ည ဆွဲမယ်လို့ ပြောနေကြတာပဲ၊ ဒီကောင် မရှိရင် အခုပွဲဟာ ပျက်မှာပါ"

"တကယ်လို့ အခြေအနေ မဆိုးပြန်ရင်လည်း မင်းတို့ ငါတို့မှာ လုပ်စရာ အလုပ်ရှိမှာ မဟုတ်ဘူးကွ" ဟု မက်စ်က ဆိုသည်။

"အေးပေါ့၊ ငါတို့မှာ အလုပ်တစ်ခု ရနေတာ ဟန်ကျတာပေါ့၊ ဒီခွေးမသား အုတ်ကီးကောင်တွေကိုတော့ မျက်ခြည်မပြတ် ကြည့်နေမှ၊ အခုဆို နည်းနည်းကလေး ငြိမ်သွားသလိုပဲ၊ ငြိမ်မသွားအောင် ဒီကောင်တွေကို လှုန့်လှုန့်ပေးထားမှ ဖြစ်မယ်"

"သူတို့က လုပ်ခကို လျှော့ချလိုက်လို့ ပြဿနာ ပေါ်လာတာ မဟုတ်လား"

"ဒါပေါ့၊ ငါတို့မှာ အလုပ်မရှိမှာတော့ ပူစရာ မလိုတော့ဘူးလေ၊ ဟူးပါးတို့က လုပ်ခကို တိုးမပေးသမျှ ကာလပတ်လုံး ငါတို့မှာ အလုပ်ရှိနေမှာပါ"

ဂျုတ်မိသား၏ အိမ်အတွင်းဝယ် မီးဖိုမီးသည် တရှိန်ရှိန် တောက်လျက် ရှိ၏။ တစ်အိမလုံးတွင် မီးခိုးများ အူလျက် ရှိလေသည်။ မှန်အိမ်မီးရောင် မှုန်ဝါးဝါးသည် အိမ်နံရံများပေါ်၌ အရိပ် မည်းမည်းကြီးများ ထင်နေအောင် ဖန်တီးပေးလျက် ရှိ၏။ အမေသည် လျင်မြန် သွက်လက်စွာဖြင့် ချက်ပြုတ် လုပ်ကိုင်လျက် ရှိ၏။ ရှိစာဟန်ကတော့ အမေနှင့် မလှမ်းမကမ်းရှိ သေတ္တာတစ်လုံး ပေါ်၌ ထိုင်လျက် ရှိလေသည်။

"နေရတာ သက်သာလာပြီလား" ဟု အမေက မေးသည်။

"သက်သာပါတယ်၊ ဟင်းနံ့ရတော့ ဆာလည်း ဆာလာတယ်"

"တံခါးနားကို ရွှေ့ထိုင်ဦး၊ အမေ အဲဒီသေတ္တာကို ဖွင့်ရလိမ့်ဦးမယ်"

ယောက်ျား အုပ်စုသည် အိမ်ထဲသို့ ဝင်လာကြသည်။ "အမဲသားနံ့ပါလား" ဟု တွမ်က ရေရွတ်သည်။ "ကော်ဖီနံ့လည်း ရတယ်၊ ကျုပ်တော့ ဆာပြီ အမေ၊ ကျုပ်

မက်မွန်သီးတွေ စားတာ မနည်းဘူး၊ ဒါပေမဲ့ အဆာမပြေဘူးဗျ၊ ကျုပ်တို့ ဘယ်နေရာသွားပြီး ခြေလက် ဆေးရမလဲ အမေ"

"ရေတိုင်ကီအထိ သွားပြီး ဆေးရမှာ၊ အမေ အခုပဲ ရှုသီနဲ့ ဝင်းဖီးကို ခြေတွေ လက်တွေဆေးဖို့ လွှတ်လိုက်တယ် "

ယောက်ျားအုပ်စုသည် အိမ်ထဲမှ ထွက်သွားကြပြန်၏။

"ထတော့ ရိုစာဟန်၊ တံခါးနားမှာ သွားထိုင်ချင်ထိုင်၊ ဒါမှမဟုတ်လည်း အိပ်ရာပေါ် သွားလှဲနေ၊ အမေ အဲဒီသေတ္တာကို ဖွင့်ရဦးမှာ"

ရိုစာဟန်သည် သူ့လက်နှစ်ဖက်ကို အားပြု၍ ထိုင်ရာမှ ထသည်။ မနီးမဝေးတွင် ချထားသည့် မွေ့ရာတစ်ခုပေါ်သို့ သွားထိုင်သည်။ ရှုသီနှင့် ဝင်းဖီးတို့သည် အိမ်ထဲသို့ ငြိမ်ငြိမ်ကုပ်ကုပ် ပြန်ဝင်လာကြပြီး နံရံနားတွင် ကပ်၍ ရပ်နေကြလေသည်။

အမေက သူတို့နှစ်ယောက်အား လှမ်းကြည့်သည်။ "မီးရောင်ကောင်းကောင်း မရှိတာ နင်တို့ ကံကောင်းတယ် မှတ်လိုက်ပါ" ဟု အမေက ဆိုသည်။ အမေသည် ဝင်းဖီးကို ဆွဲခေါ်ပြီး ဆံပင်ကို ကိုင်ကြည့်သည်။ "တစ်ခေါင်းလုံးတော့ ရွှဲစိုနေတာပဲ၊ ဒါပေမဲ့ ဘယ်နည်းနဲ့မှ ကြေးမစင်ဘူး၊ ငါ သိတယ်"

"ဆပ်ပြာ မရှိဘူးဗျ" ဟု ဝင်းဖီးက ဆင်ခြေတက်သည်။

"ဟုတ်တယ်၊ မရှိဘူး၊ ငါ ကနေ့ ဆပ်ပြာ မဝယ်နိုင်ဘူး၊ မနက်ဖြန်ကျမှ ရမယ်" အမေသည် မီးဖိုအနီးသို့ ပြန်သွားပြီး ပန်းကန်ပြားများကို ထုတ်ချကာ ညစာ ပြင်သည်။ ပန်းကန်ပြားများထဲသို့ မုန့်နှစ်ခုစီနှင့် အာလူး တစ်လုံးစီ လျှောက်ထည့်သည်။ ထို့နောက် ပေါင်မုန့် သုံးချပ်စီ ထပ်ထည့်သည်။ ပြီးတော့ ဒယ်အိုးထဲမှ အမဲဆီကို နည်းနည်းစီမျှ၍ ထည့်လေသည်။

ယောက်ျားအုပ်စု ပြန်ရောက်လာသည်။ သူတို့မျက်နှာများပေါ်မှ ရေများသည် တစ်စက်စက် စီးကျလျက် ရှိ၏။ ရေစိုနေသော သူတို့ ဆံပင်များသည် မီးရောင်အောက်တွင် ပြောင်လက်နေကြလေသည်။

အားလုံး ကိုယ့်ပန်းကန် ကိုယ် ယူကြသည်။ ငြိမ်ဆိတ်စွာ ထိုင်၍ စားကြသည်။ အမဲဆီကို အကပ်မျှပင် မကျန်အောင် ရှင်းကြသည်။ ကလေး နှစ်ယောက်သည် အခန်းထောင့်တွင် ထိုင်၍ ပန်းကန်များကို သူတို့ရှေ့ ကြမ်းပြင်ပေါ်၌ ချ၍ အငမ်းမရ စားကြသည်။

တွမ်သည် နောက်ဆုံး ပေါင်မုန့်တစ်ချပ်ကို မျိုချလိုက်သည်။ "ရှိသေးသလား အမေ"

"မရှိတော့ဘူးကွယ့်၊ အဲဒါ အကုန်ပဲ၊ မင်းတို့ရတဲ့ လုပ်ခက တစ်ဒေါ်လာ၊ အခု မင်းတို့ စားဖို့ ဝယ်လာတာက တစ်ဒေါ်လာဖိုး"

"တစ်ဒေါ်လာ ကုန်တယ် ဟုတ်လား"

"ဟုတ်တယ်၊ ဒီဆိုင်က ဘာပစ္စည်းမဆို ဈေး ပိုယူတယ်၊ ကိုယ့်ဘာသာကိုယ် ဝယ်စားနိုင်တဲ့ အချိန်ကျရင်တော့ မြို့ပေါ် တက်ဝယ်မယ်လို့ အမေ စိတ်ကူးတယ်"

"ကျုပ်တော့ မဝဘူး အမေ" ဟု တွမ်ကပြောသည်။

"မနက်ဖြန် မင်းတို့ တစ်နေကုန် လုပ်ရတဲ့ အခါကျရင် လုပ်ခ ပိုရလာမှာပါ၊ မနက်ဖြန် ညဆိုရင်တော့ မင်းတို့ ဝဝလင်လင် စားရမှာပေါ့ကွယ်"

အယ်လ်က သူ့ပါးစပ်ကို အင်္ကျီလက်မောင်းဖြင့် သုတ်လိုက်သည်။ "ကျုပ်တော့ လျှောက်ကြည့်ဦးမယ်" ဟု ဆိုကာ ထိုင်ရာမှ ထသည်။

"နေဦး၊ ငါလည်း လိုက်မယ်" တွမ်က အယ်လ်နှင့်အတူ အပြင်သို့ လိုက်လာသည်။ အမှောင်ထုအောက် ရောက်သည့်အခါ သူ့ညီအနီးသို့ ကပ်သွားပြီး "မင်း ငါနဲ့ မလိုက်ချင်ဘူးလား" ဟု ထပ်မေးပြန်သည်။

"ဟင့်အင်း၊ ကျုပ်ဘာသာ ကျုပ် ဒီ အနီးအနားကိုပဲ လျှောက်ကြည့်ချင်တယ်"

"ဒီလိုဆိုလည်း သဘောပေါ့ကွာ" ဟု တွမ်က ပြန်ပြောသည်။ သူသည် အယ်လ်နှင့် ခွဲကာ လမ်းမအတိုင်း တစ်ယောက်တည်း လျှောက်လာသည်။ အိမ်များအတွင်းမှ မီးခိုးများသည် လမ်းမပေါ်အထိ ဆင်းလာလျက် ရှိ၏။ အထဲမှ မီးရောင်ကြောင့် အိမ်ရှေ့

တံခါးများနှင့် ပြတင်းပေါက်များမှ အရိပ်များသည် လမ်းမပေါ်သို့ ထိုးကျလျက် ရှိလေသည်။ လူများသည် အိမ်ရှေ့ လှေကားခုံများပေါ်၌ ထိုင်ကာ အမှောင်ထုဆီသို့ ငေးမောနေကြသည်။ သူတို့ မျက်လုံးများသည် လမ်းမပေါ်၌ လျှောက်သွားနေသော တွမ်၏ နောက်သို့ လိုက်လျက် ရှိ၏။ လမ်းမကြီး၏ အဆုံးတွင် မြေလမ်းတစ်လမ်း ရှိသည်။ ထိုလမ်းသည် ရိုးပြတ် ငုတ်တိုများဖြင့် ပြည့်နေသော လယ်ကွက်တစ်ကွက်ဆီသို့ ဦးတည်လျက် ရှိ၏။ လယ်ကွက်၏ တစ်ဖက်ကန်သင်းပေါ်ရှိ ရိုးပြတ်ပုံသည် ကြယ်ရောင်အောက်တွင် မားမားကြီး ရပ်လျက် ရှိလေသည်။ လတစ်ခြမ်းပဲ့သည် အနောက်ဘက် ကောင်းကင်တွင် တွဲလဲခိုလျက် ရှိသည်။ တွမ်၏ ခြေထောက်များသည် ဖုန်ထူလမ်းပေါ်ဝယ် ဖြည်းညင်းစွာ ကျသွားလျက် ရှိ၏။ အဝါရောင် ရိုးပြတ်များကို နောက်ခံထား၍ လျှောက်သွားနေသော သူ၏ မည်းမည်းအရိပ်သည် ထင်းထင်းကြီး ပေါ်လျက် ရှိသည်။ သူသည် လက်များကို အကျီအိတ်များအတွင်းသို့ ထိုးနှိုက်ကာ ဂိတ်တံခါးဘက်သို့ လျှောက်လျက် ရှိ၏။ ခပ်လှမ်းလှမ်းမှ ရေကာတာ တစ်ခုသည် သူနှင့် နီး၍ နီး၍ လာသည်။ တွမ်၏ နားထဲသို့ ဝင်လာနေသည့် ရေစီးသံ သဲ့သဲ့။ သူသည် ရေကာတာပေါ်သို့ တက်ကာ မည်းမည်း မည်းမည်းနှင့် လှုပ်ရှားနေသော ရေကို ငုံ့ကြည့်သည်။ ရေထဲတွင် မြင်နေရသည့် ကြယ်ရိပ်များ။ သူ့ရှေ့ တူရူတွင် အဝေးပြေး ကားလမ်းမကြီး။ မော်တော်ကား မီးရောင်များသည် လင်းလာလိုက် ပျောက်သွားလိုက်။ ထိုမီးရောင်ကြောင့် တွမ်သည် သူ ဘယ်နေရာ ရောက်နေ သည်ကို ကောင်းစွာ သိနေသည်။ သူ့ရှေ့တည့်တည့်တွင် သံဆူးကြိုးများ ကပ်ထားသည့် ဂိတ်တံခါး။

လမ်းဘေးမှ အရိပ်တစ်ခု လှုပ်ရှားလာသည်။ ထို့နောက် မေးလိုက်သည့် အသံ။ "ဟယ်လို ဘယ်သူလဲ"

တွမ်က ရပ်လိုက်ပြီး ငြိမ်နေသည်။ "ခင်ဗျား ဘယ်သူလဲ"

လူတစ်ယောက် မတ်တတ်ရပ်လိုက်သည်ကို မြင်ရ၏။ ထို့နောက် သူ့ဘက်သို့ လျှောက်လာသည်။ ထိုလူ၏ လက်ထဲတွင် သေနတ် တစ်လက်။ လက်နှိပ်ဓာတ်မီး အလင်းရောင်သည် တွမ်၏ မျက်နှာပေါ်သို့ ကျလာသည်။ "မင်း ဘယ်သွားနေတယ် ဆိုတာ သိရဲ့လား"

"ကျုပ် အညောင်းပြေ လမ်းလျှောက်တာပါ၊ မလျှောက်ရဘူး ဆိုတဲ့ ဥပဒေ ရှိလို့လား"

"တခြားဘက်ကို လျှောက်၊ ဒီဘက် မလျှောက်နဲ့"

"ကျုပ် အပြင်ထွက်လို့ မရဘူးလား"

"ကနေ့ည မထွက်ရဘူး၊ မင်း နောက်ကိုပြန်၊ မပြန်ရင် ငါ ခရာမှုတ်ပြီး အကူအညီ တောင်းရလိမ့်မယ်"

"ကျုပ် ဘာလုပ်လို့လဲ၊ ဘာမှလည်း လုပ်တာ မဟုတ်ဘဲနဲ့၊ ပြန်သွားဆိုလည်း ကျုပ် ပြန်မှာပေါ့"

မည်းမည်း အရိပ်သည် သက်သောင့်သက်သာ အနေအထားသို့ ပြောင်းသွား သည်။ လက်နှိပ်ဓာတ်မီး မီးရောင်သည် ဖျတ်ခနဲ ပျောက်သွားသည်။ "မင်း ကောင်းဖို့ ပြောတာပါ၊ သပိတ်သမား အရူးတွေက မင်းကို ဒုက္ခပေးမှာစိုးလို့"

"ဘာ သပိတ်သမားလဲ"

"အနီကောင်တွေပေါ့ကွာ၊ ဒီကောင်တွေ သပိတ်မှောက်နေကြတယ်"

"ဟုတ်လား" ဟု တွမ်က ရေရွတ်သည်။ "ကျုပ် သူတို့အကြောင်း မသိပါဘူး"

"မင်းတို့ ကနေ့ ဝင်လာတုန်းက မမြင်ခဲ့ဘူးလား"

"လူတစ်အုပ်တော့ တွေ့ခဲ့တယ်၊ ဒါပေမဲ့ ပုလိပ်တွေကလည်း အများကြီး ဖြစ်နေတော့ ကျုပ်က ကားတိုက်မှု ဖြစ်တယ်လို့ ထင်တာ"

"ကဲ မင်း နောက်ရင်း ပြန်လျှောက်ပေတော့"

"ရပါတယ် မစ္စတာ" တွမ်က ပြောပြောဆိုဆိုပင် နောက်သို့ ပြန်လှည့်ကာ လာလမ်းအတိုင်း လျှောက်သည်။ ထို့နောက် ကိုက်တစ်ရာခန့် လျှောက်မိသောအခါ အသာ ရပ်ပြီး နားစွင့်သည်။ ရေမြောင်းအနီးမှ အဆက်မပြတ် ထွက်ပေါ်လာနေသည့်

ပြည်သံတစ်သံ။ အလွန်ကွာဝေးသော နေရာ တစ်နေရာမှ ခွေးအူသံ။ တွမ်သည် လမ်းဘေးတွင် ထိုင်ချလိုက်ပြီး နားစွင့်ပြန်သည်။ သိမ်းငှက်တစ်ကောင်၏ အော်သံနှင့် ရိုးပြတ်များအတွင်းမှ တိရစ္ဆာန် တစ်ကောင်၏ ရွေ့လျားသံ။ သူသည် လမ်းမ၏ ဟိုဘက်သည်ဘက် နှစ်ဖက်စလုံးကို လှမ်းမျှော်ကြည့်သည်။ နှစ်ဖက်စလုံး မည်းမှောင်လျက် ရှိသည်။ သူသည် ထိုင်နေရာမှ ပြန်ထကာ လမ်းမ၏ ညာဘက်သို့ ဆင်း၍ ရိုးပြတ် လယ်ကွင်းများထဲအတိုင်း ခပ်ဖြည်းဖြည်း လျှောက်သွားသည်။ သူသည် တတ်နိုင်သမျှ ခါးကို ကုန်း၍ လျှောက်သည်။ သူသည် ဖြည်းဖြည်းမှန်မှန် လျှောက်သွားလိုက် ရပ်ပြီး နားစွင့်လိုက်။ နောက်ဆုံးတွင် သူသည် သံဆူးကြိုးများ ကာထားသည့် ခြံစည်းရိုးအနီးသို့ ရောက်လာသည်။ သူသည် ခြံစည်းရိုး အနီးတွင် ပက်လက်လှန် လှဲလိုက်သည်။ ထို့နောက် သူ့လက်နှစ်ဖက်နှင့် သံဆူးကြိုးများကို တွန်းတင်ပြီး မြေကြီးကို ဖနောင့်နှင့်တွန်းကာ အပြင်သို့ ဖြည်းဖြည်းချင်း တွား၍ ထွက်လေသည်။

သူ မြေကြီးပေါ်၌ ပက်လက် ဖြစ်နေရာမှ ထ၍ ရပ်တော့မည့်ဆဲဆဲတွင် အဝေးပြေး ကားလမ်းမကြီး ဘေးအတိုင်း လျှောက်လာနေသည့် လူစုတစ်စုကို မြင်ရသည်။ တွမ်သည် မြေကြီးပေါ်မှ မထသေးဘဲ ဆက်၍ လှဲကာ ငြိမ်နေသည်။ သူနှင့် အတော်လှမ်းလှမ်းသို့ ရောက်သွားခါမှ လှဲနေရာမှ ထကာ နောက်မှ လိုက်သည်။ လမ်းဘေးတစ်လျှောက်တွင်မူ ရွက်ထည်တဲများ။ ရံဖန်ရံခါတွင် ကားတစ်စီး နှစ်စီး ဖြတ်သွားသည်နှင့် ကြုံရ၏။ ချောင်းတစ်ချောင်းသည် လယ်ကွက်များကို ဖြတ်လျက် ရှိသည်။ အဝေးပြေး ကားလမ်းမကြီးသည် ထိုချောင်း၏ အပေါ်မှ ခွဆောက်ထားသော ကွန်ကရိ တံတားငယ် ပေါ်မှ ကျော်ဖြတ်သွားလေသည်။ တွမ်သည် တံတားပေါ်မှ ကျော်၍ တစ်ဖက်သို့ ငုံ့ကြည့်သည်။ အောက်အနိမ့်ပိုင်းရှိ ချောင်းထဲတွင် ရွက်ထည်တဲတစ်လုံး။ တဲအတွင်းမှ မှန်အိမ် မီးရောင်။ တွမ်သည် တဲဆီသို့ အတန်ကြာမျှ စောင့်ကြည့်နေသည်။ တဲအတွင်းမှ လှုပ်ရှားနေသော လူရိပ်များသည် ရွက်ထည်တဲ နံရံ ပိတ်သားပေါ်တွင် ထင်ဟပ်လျက် ရှိ၏။ တွမ်သည် တံတားကို ကျော်ခွ၍ ဆင်းကာ ချုံကြိုချုံကြားမှ တိုးဝှေ့ပြီး တဲဆီသို့ လျှောက်သွားသည်။ တဲရှေ့ရှိ သေတ္တာတစ်လုံးပေါ်တွင် လူတစ်ယောက် ထိုင်လျက် ရှိလေသည်။

"မင်္ဂလာညပါ" ဟု တွမ်က လှမ်း၍ နှုတ်ဆက်သည်။

"ဘယ်သူလဲ ဟေ့"

"ကျုပ်... အင်း... ကျုပ်... ဟိုဘက်သွားရင်း ရောက်.. ရောက်.."

"မင်းအသိ ဒီမှာ ရှိသလား"

"မရှိပါဘူး၊ ကျုပ် ပြောပါပကောလား၊ ဟိုဘက်သွားရင်း ဒီအနားက ဖြတ်မိတာပါလို့"

တဲထဲမှ ခေါင်းတစ်လုံးသည် အပြင်သို့ ထွက်လာသည်။ ပြီးတော့ လှမ်း၍ မေးလိုက်သည့် အသံ။ "ဘာဖြစ်လို့လဲဟေ့"

"ကက်ဆီ"

တွမ်က အလန့်တကြား ထအော်သည်။ "ကက်ဆီ၊ ခင်ဗျား ဒီမှာ ဘာလုပ်နေတာလဲ"

"ဟာ ဘုရားသခင် ကယ်တော်မူပါ၊ တွမ်ဂျုတ်ပါလား၊ ဟေ့ကောင် တွမ်မီ လာပါဦးဟာ၊ မင်း ဘယ်က ရောက်လာတာလဲ"

"ခင်ဗျား သူနဲ့ သိသလား" တဲရှေ့၌ ထိုင်နေသူက ကက်ဆီအား လှမ်းမေးသည်။

"သူ့ကို သိသလားတဲ့၊ သိပ်သိတာပေါ့၊ သူ့ကို သိတာ နှစ်ပေါင်းကို မနည်းကြာပြီ၊ ကျုပ် အနောက်ဘက်ဒေသကို ထွက်လာတာ သူနဲ့ အတူတူ ထွက်လာတာ၊ လာဟေ့ တွမ်" ကက်ဆီက တွမ်၏ လက်မောင်းကို ဆွဲကာ တဲအတွင်းသို့ ခေါ်သွင်းလေသည်။

လူသုံးယောက်သည် မြေကြီးပေါ်၌ ထိုင်နေကြသည်။ တဲ၏ အလယ်တွင် မှန်အိမ်တစ်လုံး။ ထိုင်နေသူများက မသင်္ကာသော မျက်လုံးများဖြင့် ဆီး၍ ကြည့်နေကြသည်။ အသားမည်းမည်း မျက်နှာပေါက် ဆိုးဆိုးနှင့်လူက သူ့လက်တစ်ဖက်ကို ကမ်းပေးပြီး "တွေ့ရတာ ဝမ်းသာပါတယ်" ဟု နှုတ်ဆက်သည်။ "ခင်ဗျား အကြောင်းတော့ ကက်ဆီက ပြောလို့ သိနေရတယ်၊ ခင်ဗျား ပြောပြောနေတာ ဒီမိတ်ဆွေပဲ မဟုတ်လား ကက်ဆီ"

"သိပ်ဟုတ်တာပေါ့၊ သူပဲပေါ့၊ ကဲ ပြောစမ်းပါဦး၊ မင်း မိသားစုတွေကော ဘယ်မှာလဲ၊ မင်းကကော ဒီမှာ ဘာလာလုပ်တာလဲ"

“ဒီလိုဗျို့” ဟု တွမ်က စကားစသည်။ “ဒီဘက်မှာ အလုပ်ရနိုင်တယ်လို့ သတင်းကြားတာနဲ့ ကျုပ်တို့ ထွက်လာကြတာ၊ ဒီကျတော့ ပုလိပ်တွေနဲ့ လာတိုးနေတယ်၊ သူတို့က လိုက်ပို့လို့ ဒီခြံထဲ ရောက်လာတာ၊ ကနေ့တစ်နေ့လုံး ကျုပ်တို့ မက်မွန်သီး ခူးနေကြတယ်လေ၊ လာတုန်းက လူတစ်အုပ် အော်ဟစ်နေတာ တွေ့ခဲ့ရသေးတယ်၊ ဒီမှာ ဘာတွေ ဖြစ်နေတယ် ဆိုတာလည်း သူတို့က ပြောမပြဘူးဗျ၊ ဒါနဲ့ပဲ ကျုပ် တိတ်တိတ်ထွက်လာပြီး ကြည့်တာ၊ နေစမ်းပါဦး၊ ခင်ဗျားကကော ဘယ်လို ဘယ်လိုဖြစ်ပြီး ဒီနေရာကို ရောက်လာရတာလဲ ကက်ဆီရယ်”

တရားဟောဆရာက သူ့ကိုယ်ကို ရှေ့သို့ ကိုင်းလိုက်သည်။ မှန်အိမ် မီးရောင်သည် သူ့နဖူးပြောင်ကြီး ပေါ်သို့ ကျလာလေ၏။ “ထောင် ဆိုတာဟာ တော်တော် ရယ်ဖို့ကောင်းတဲ့ နေရာ တစ်ခုပါလားကွာ” ဟု ကက်ဆီက အစချီသည်။ “ယေရှုသခင်ဟာ တရားရှာဖို့အတွက် တောင်ထဲ သွားသလိုပေါ့၊ ငါလည်း တစ်စုံတစ်ခုသော အရာကို ရှာဖို့ ခြေဦးတည့်ရာကို ထွက်လာတာပဲ။ တစ်ခါတစ်လေ ငါ ရှာနေတဲ့အရာကို ရလု ရလု ဖြစ်လာတယ်၊ မရခဲ့ဘူး၊ ဒါပေမဲ့ပေါ့ ငါ လိုက်ရှာနေတဲ့ဟာကို အခု ထောင်ထဲရောက်မှ တကယ် ရခဲ့တာကွ သိလား” သူ့မျက်လုံးအစုံသည် တဖျပ်ဖျပ် တောက်ပလာပြီး ရွှင်လန်းအားရသော အရိပ်အငွေ့များကို ဖော်ပြလာသည်။ “ထောင်က အကြီးကြီးပဲကွ၊ သိလား၊ လူတွေကလည်း အမြဲ ပြည့်နေတာပဲ၊ လူသစ်တွေ ဝင်လာလိုက်၊ လူဟောင်းတွေ ထွက်သွားလိုက်နဲ့၊ အချိန်ရှိသမျှ ရှုပ်ယှက်ခတ်နေတာပဲ၊ ငါတော့ကွာ ရောက်လာတဲ့ လူအားလုံးနဲ့ စကားပြောတယ်၊ မိတ်ဖွဲ့တယ်”

“ခင်ဗျား စကားပြောတယ် ဆိုတာတော့ ကျုပ်က ယုံပါတယ်” ဟု တွမ်က ပြောသည်။ “ခင်ဗျားဆိုတဲ့ လူက အမြဲ စကားပြောနေတဲ့ လူပဲ၊ တကယ်လို့ လူသတ်စင်ပေါ် ရောက်သွားလည်း တစ်နေ့လည်း လူသတ်သမားနဲ့ စကားထိုင်ပြောနေမယ့် လူစားပါ၊ ခင်ဗျားလောက် စကားပြောနိုင်တဲ့ လူကို ဘယ်တုန်းကမှ ကျုပ် မတွေ့ခဲ့ဖူးဘူး”

ဘေးမှ ထိုင်နေသူများက ခပ်အုပ်အုပ် ကျိတ်၍ ရယ်ကြသည်။ လူပုံ ပိန်ခြောက်ခြောက်နှင့် မျက်နှာ အရေပြားပေါ်တွင် အတွန့်အကြောင်းများ ထလျက် ရှိသော လူက သူ့ဒူးကို လက်ဝါးဖြင့် ဖျတ်ခနဲ ပုတ်လိုက်ပြီး “စကားတော့ တစ်ချိန်လုံး ပြောနေတာဗျ” ဟု ပြောသည်။ “ဒါပေမဲ့ ကျုပ်တို့ လူစုကလည်း သူ စကားပြောတာကို နားထောင်ချင်ကြတယ်”

"သူက တရားဟောဆရာ လုပ်ခဲ့ဖူးတယ်လေဗျာ" ဟု တွမ်က ပြန်ပြောသည်။ "ခင်ဗျားတို့ကို သူ မပြောဘူးလား"

"ပြောတယ်"

ကက်ဆီက ပြုံးဖြဲဖြဲ လုပ်နေသည်။ "ငါ ပြောပြရဦးမယ်၊ ဒီလိုကွ" ဟု သူ့စကားကို ဆက်သည်။ "ငါ လိုချင်တာကတော့ ရခဲ့တယ်ကွ၊ ငါတို့ အခန်းထဲက လူတချို့ကတော့ အရက်မူးလို့ ရောက်လာတာ၊ လူများစုကတော့ ပစ္စည်းခိုးလို့ ရောက်လာကြတာ၊ ခိုးတဲ့ ပစ္စည်းတွေကလည်း သူတို့အတွက် အမှန်တကယ် မရှိမဖြစ် လိုအပ်နေလို့ ခိုးကြတာကွ၊ သူတို့အတွက် လိုအပ်နေတဲ့ ပစ္စည်းတွေကို တခြားနည်းနဲ့ မရနိုင်တော့ ခိုးယူကြတာပေါ့လကွာ၊ ဒါမျိုး မင်း တွေ့ဖူးတယ် မဟုတ်လား"

"ဟင့်အင်း" ဟု တွမ်က ဝင်ထောက်သည်။

"အေးလေ၊ မသိလည်း ထားလိုက်ပါတော့၊ သူတို့အထဲမှာ သဘောကောင်းတဲ့ ငနဲတွေလည်း ပါတယ်ကွ၊ သူတို့မှာ မရှိ မဖြစ်တဲ့ ပစ္စည်းကို မရတဲ့ ပြဿနာက သူတို့ကို ဆိုးသွားအောင် လုပ်လွှတ်လိုက်တာ၊ အနေကြာလာတော့ အဲဒီအချက်ကို ငါ မြင်လာတယ်၊ လောကကြီးမှာကွာ ဒုက္ခ အားလုံးကို ဖန်ဆင်းလိုက်တာဟာ အဲဒီ အလိုဆန္ဒပဲကွ သိလား၊ ဒီသဘောတွေကို အရင်က ငါ လုံးဝ မသိခဲ့ မမြင်ခဲ့ဘူး၊ ဒါနဲ့ကွာ ပြောရဦးမယ်၊ တစ်နေ့ကျတော့ ငါတို့ကို ပဲဟင်းနဲ့ ကျွေးတယ်၊ ပဲတွေက အချဉ် အသိုးတွေ၊ ငနဲတစ်ကောင်ထပြီး အော်တယ်၊ ဆူတယ်၊ ဘယ်သူကမှ ဂရုမစိုက်ဘူး၊ အဲဒီကောင်လည်း မနားတမ်း အော်တယ် ဆူတယ်၊ ဒါနဲ့ပဲ အဖွဲ့က လာစစ်တယ်၊ နောက်တစ်ယောက်က ထအော်ပြန်ရောဟေ့၊ အဲ နောက်တော့ ကျန်တဲ့ကောင်တွေကပါ ဝိုင်းပြီး အော်ကြရော၊ အခန်းထဲမှာ ရှိသမျှ အားလုံးက တညီတညွတ်တည်း ထပြီး အော်ကြတာပေါ့ကွာ၊ ပွက်ပွက်ကို ညံနေတာပဲ၊ အခန်းနံရံတွေ ပွင့်ထွက်မလားတောင် ထင်ရတယ်၊ အဲ.. အဲဒီနောက်တော့ ဟေ့ အဖြစ်တစ်ခု ပေါ်လာတယ်၊ သူတို့လူစု ရောက်လာပြီး ငါတို့ကို စားစရာတွေ ပေးတယ် ဟေ့၊ မင်း ငါပြောတာ သဘောပေါက်ရဲ့လား"

"မပေါက်ဘူး" ဟု တွမ်က ပြန်ပြောသည်။

ကက်ဆီက သူ့မေးစေ့ကို လက်ပေါ်တင်၍ ထောက်လိုက်သည်။ "ငါ ပြောပုံလိုလို့ ဖြစ်ချင် ဖြစ်မယ်" ဟု တွေးတွေးဆဆ ပြောသည်။ "ဒါမှမဟုတ်လည်း ဒါမျိုး နားလည်အောင် မင်းဘာသာ မင်း လက်တွေ့ ရှာကြည့်ဖို့ လိုလိမ့်မယ်၊ ဒါနဲ့ နေပါဦး မင်း ကက်ဦးထုပ်ကော"

"ကျုပ် မဆောင်းဘဲ ထွက်လာတာကိုးဗျ၊ ကျန်ခဲ့တာပေါ့"

"မင်း ညီမလေးကော နေကောင်းရဲ့လား"

"အိုး သူ့ပုံက ဇီးရှိတဲ့ နွားမကြီး တစ်ကောင် အတိုင်းပဲ၊ အမြွှာမွေးမှာ သေချာတယ်ဗျ၊ သူ့ဗိုက် ရောမကြီး ဖြစ်နေပြီ၊ သူ့ဗိုက်အောင်က ဘီးတွေတောင် တပ်ပေးရမလို ဖြစ်နေတယ်၊ လမ်းသွားရင် သူ့လက်နှစ်ဖက်နဲ့ ဗိုက်ကို မ မ ထားရတယ်၊ ဒါနဲ့ နေပါဦး၊ ဒီမှာ ဘာတွေ ဖြစ်နေကြတာလဲ၊ ပြောပြဦးမှပေါ့"

ပိန်ခြောက်ခြောက်လူက ဝင်ပြောသည်။ "ကျုပ်တို့ ဒီမှာ သပိတ်မှောက် နေကြတာလေ"

"ဟုတ်ပါရဲ့ဗျာ၊ မက်မွန်သီး တစ်သေတ္တာ ငါးဆင့် ဆိုတာကတော့ တအား နည်းတာပဲ၊ ဒါပေမဲ့လည်း လူတစ်ယောက်မှာ စားစရာကတော့ ရနိုင်သေးတာပေါ့လေ"

"ငါးဆင့်၊ ဟုတ်လား" ကိုပိန်ခြောက်က အလန့်တကြား ရေရွတ်သည်။ "ငါးဆင့်၊ ဟုတ်လား၊ ခင်ဗျားတို့ကို သူတို့က ငါးဆင့်ပေးတယ်၊ ဟုတ်လား"

"ဟုတ်တယ်လေ၊ ကနေ့ ကျုပ်တို့ တစ်ဒေါ်လာခွဲ ရခဲ့တယ်"

တဲအတွင်း၌ အကြီးအကျယ် တိတ်ဆိတ်သွားသည်။ ကက်ဆီသည် တဲပေါက်ဝမှ တစ်ဆင့် အပြင် အမှောင်ထုဆီသို့ တွေဝေငေးမောလျက် ရှိ၏။ "မင်း စဉ်းစားကြည့် တွမ်" နောက်ဆုံးကျတော့ သူ့ပါးစပ်မှ အသံထွက်လာသည်။ "ငါတို့ ဒီမှာ အလုပ်လုပ်ဖို့ လာကြတာ၊ သူတို့က ပြောတယ်၊ မက်မွန်သီး တစ်သေတ္တာကို ငါးဆင့်ပေးမယ်တဲ့၊ ဒီကို ရောက်လာတော့ ငါတို့ လူအုပ်ကလည်း နည်းနည်းနောနော မဟုတ်ဘူး၊ အဲ လူတွေ တစ်ပုံတစ်ပင်ကြီးလည်း မြင်ရော နှစ်ဆင့်ခွဲ ပေးမယ်တဲ့၊ လူတစ်ယောက် နှစ်ဆင့်ခွဲနဲ့ ဘယ်လိုလုပ် စားမလဲကွာ၊ သူ့မှာ သားသမီးတွေ ရှိရင် ပိုဆိုးတာမပေါ့၊ ဒါနဲ့ ငါတို့က

သူတို့ပေးတဲ့ အလုပ်ကို မလုပ်ကြဘူး၊ သူတို့ကလည်း ငါတို့ကို မောင်းထုတ်တယ်၊ ရောက်လာလိုက်တဲ့ ပုလိပ်တွေကွာ၊ ကမ္ဘာမှာ ရှိရှိသမျှ ပုလိပ်တွေကို မ လာသလား အောက်မေ့ရတယ်ပော့၊ အဲဒီပုလိပ်တွေနဲ့ ငါတို့ကို ကိုင်တော့တာပဲ၊ အခု မင်းတို့နဲ့ကျတော့ သူတို့က ငါးဆင့်ပေးတယ်၊ အခု မှောက်နေတဲ့ ငါတို့ သပိတ်သာ ပြိုကွဲသွားရင် မင်းတို့ကို ငါးဆင့် ပေးဦးမလား၊ ဒါကိုတော့ မင်း စဉ်းစားပေ့ါကွာ”

“အင်း ဒါတော့ ကျုပ်လည်း မပြောတတ်ဘူး ” ဟု တွမ်က ဆိုသည်။ “အခုတော့ ငါးဆင့် ပေးနေတာပဲ”

“ငါ တစ်ခု ပြောမယ် တွမ်” ဟု ကက်ဆီက ပြောသည်။ “ငါတို့က ငါတို့ အချင်းချင်း တွဲပြီး နေဖို့ ကြိုးစားကြတယ်၊ သူတို့က တို့ကို ဝက်တွေ မောင်းထုတ်သလို မောင်းထုတ် ခဲ့တယ်၊ တကွဲတပြားစီ ဖြစ်ကုန်အောင် လုပ်တယ်၊ ငါတို့ကို ရိုက်တယ်၊ မောင်းထုတ်တယ်၊ အမှန်အတိုင်း ပြောရရင် ငါတို့ လူစုလည်း ကြာရှည် ခံမယ်တော့ မထင်ပါဘူး၊ တချို့လူတွေဆို အစားမစားရတာ နှစ်ရက် ရှိသွားပြီ၊ မင်းကော ဘယ်လိုလဲ၊ ကနေ့ည အိမ်ပြန်မှာလား ”

“ပြန်မယ်လို့ စိတ်ကူးတာပဲ”

“ဒီလိုဆိုရင်တော့ မင်းတို့ လူတွေကို ဒီမှာ ဘာတွေ ဖြစ်နေတယ်ဆိုတာ ပြောပြလိုက်ပါကွာ၊ သူတို့အနေနဲ့ သူတို့ကိုယ် သူတို့ ဝတ်အောင် လုပ်နေကြပြီ၊ သူတို့ နောက်ကျော သူတို့ပြန်ပြီး ဓားနဲ့ ထိုးသလို ဖြစ်နေပြီ ဆိုတာ ပြောပြလိုက်ပါကွာ၊ ငါတို့ လူစုကို ရှင်းလို့ရတာနဲ့ တစ်ပြိုင်နက် မင်းတို့ကိုလည်း နှစ်ဆင့်ခွဲပဲ ပေးမှာ သေချာပါတယ်ကွ ”

“ကျုပ် ပြောပြပါမယ်၊ စိတ်ချပါ” ဟု တွမ်က ကတိပေးသည်။ “ဘယ်လို ဖြစ်တာမှန်း ကျုပ်လည်း မသိဘူးဗျာ၊ သေနတ်တွေနဲ့ လူတွေ ဒီလောက်များများ သွားလာ လှုပ်ရှားနေတာမျိုး ကျုပ် တစ်ခါမှ မတွေ့ဖူးဘူး၊ တစ်ယောက်နဲ့ တစ်ယောက် စကားပြောဖို့ ဆိုတာလည်း လွယ်မယ် မထင်ပါဘူးဗျာ၊ အားလုံး အားရနားရတယ်မှ မရှိတာ၊ တစ်နေကုန် တစ်နေခန်း ခေါင်းတငိုက်ငိုက် လက်တလှုပ်လှုပ်နဲ့ ကိုယ့်အသိမိတ်ဆွေ တွေ့လို့တောင်မှ နေကောင်းရဲ့လား မေးဖို့ အချိန်မရကြဘူး ”

"ဘာပဲ ဖြစ်ဖြစ်ကွာ အချိန်ရအောင် ကြိုးစားပြီး သူတို့ နားလည်အောင် ပြောပြပါ၊ ငါတို့လူစု ဒီက ထွက်သွားတာနဲ့ တစ်ပြိုင်နက် သူတို့ကို နစ်ဆင့်ခွဲပဲ ပေးမှာ သေချာတယ်ကွ၊ အဲဒီ နစ်ဆင့်ခွဲရဲ့ အဓိပ္ပာယ်က ဘာလဲ သိလား၊ မက်မွန်သီး တစ်တန် ခူးပါမှ မင်း တစ်ဒေါ်လာပဲ ရမယ်ဆိုတဲ့ သဘောပဲ" သူသည် ခေါင်းကို ငိုက်စိုက်ချလိုက်သည်။ "မဖြစ်ပါဘူးကွာ၊ ဘယ်နည်းနဲ့မှ မဖြစ်နိုင်ဘူး၊ ဒီငွေနဲ့ မင်းတို့ ဘယ်လို စားသောက်မှာလဲ၊ ဒီငွေနဲ့ အစားတစ်လုတ် ဝအောင် စားဖို့ဆိုတာ ဖြစ်ကို မဖြစ်နိုင်ဘူး"

"ကျုပ် မဖြစ်ဖြစ်အောင် ကြိုးစားပြီး ပြောပြမယ်ဗျာ၊ စိတ်ချ"

"မင်းအမေကော နေကောင်းလား"

"ကောင်းပါ့ဗျာ၊ သူကတော့ အစိုးရစခန်းမှာ နေရတာကို သိပ်ကြိုက်တယ်၊ ရေချိုးရတာကိုလည်း သဘောကျနေတယ်၊ ရေနွေးလည်း ရတာကိုးဗျ"

"အေး ဟုတ်တယ်၊ ငါလည်း ကြားတယ်"

"အဲဒီမှာကတော့ သိပ်ကောင်းတာပဲ၊ ဒါပေမဲ့ မရပါဘူးဗျာ၊ ဒါနဲ့ပဲ ထွက်လာခဲ့ရတာ"

"ငါလည်း အဲဒီစခန်းမျိုး တစ်ခုလောက်မှာ သွားနေချင်သေးတယ်" ဟု ကက်ဆီက တောင့်တောင့်တတ ပြောသည်။ "ငါကတော့ မြင်ဖူးချင်တာပါ၊ လူတွေက ပြောကြတယ်၊ အဲဒီစခန်းမှာ ပုလိပ်တွေ အဝင်မခံဘူးတဲ့"

"သူတို့ အချင်းချင်း ပြန်ထိန်းနေတာ ဆိုတော့ ပုလိပ် မလိုဘူးပေါ့ဗျာ"

ကက်ဆီက ဖျတ်ခနဲ မော့ကြည့်သည်။ "ဒီလိုဆို ဘာပြဿနာမှ လုံးဝ မရှိတော့ဘူးလား၊ ရန်ဖြစ်တာ ခိုးတာ အရက်မူးတာ၊ ဒါတွေ လုံးဝ မရှိတော့ဘူးပေါ့၊ ဟုတ်လား"

"မရှိဘူးဗျ"

"ဒါပေမဲ့ အဲဒီစခန်းမျိုးတွေက များများ မရှိဘူးဆို"

"မရှိပါဘူးဗျ၊ ကျုပ်တို့ အဲဒီမှာ တစ်လကြာခဲ့တယ်၊ အဲဒီစခန်းတစ်ခုပဲ တွေ့သေးတယ်"

စိတ်လှုပ်ရှားမှုကြောင့် ကက်ဆီ၏ မျက်လုံးများသည် ကြည်လင် ဝင်းလက်နေကြလေသည်။ သူသည် ကျန်လူစုကို လှည့်ကြည့်ပြီး "ကြားကြရဲ့လား" ဟု မေးသည်။ "ငါ မင်းတို့ကို ပြောပြခဲ့တယ်လေ၊ ပုလိပ်တွေဆိုတာ ပြဿနာတွေ များလာအောင်သာ လုပ်တတ်တဲ့ လူစားတွေကွ၊ ကဲကွာ တွမ် မင်း အဖော်တွေကို ငါတို့လို ထွက်လာအောင် ပြောကွာ၊ နှစ်ရက်လောက်အတွင်းမှာ မက်မွန်သီးတွေ မှည့်လာမှာ မှည့်ပြီဆိုရင် သူတို့ ကြွတာပဲ၊ မင်း လူတွေကို နားလည်အောင် ပြောပါကွာ"

"ခေါ်လို့ရမယ် မထင်ဘူးဗျ" ဟု တွမ်က ဆိုသည်။ "သူတို့က အခု လောလောဆယ် ငါးဆင့် ရနေကြတယ် မဟုတ်လား၊ သူတို့မှာ တခြားက ဝင်ငွေ ရစရာလမ်းကလည်း မရှိဘူး"

"ဒါပေမဲ့ ငါတို့သပိတ် ပြိုကွဲတာနဲ့ တစ်ပြိုင်နက် သူတို့ ငါးဆင့်ရတော့မှာ မဟုတ်ဘူး"

"ကျုပ်က ဒီစကားကို ပြောပြလည်း သူတို့ လက်ခံမယ် မထင်ဘူးဗျ၊ သူတို့ လက်ငင်း ငါးဆင့်ရနေတာကိုသာ ကြည့်မှာ၊ သူတို့ အခု လောလောဆယ် သိတာ နားလည်တာ ဂရုစိုက်တာက ငါးဆင့်ပဲ"

"ဘာပဲဖြစ်ဖြစ်ကွာ၊ ပြောတော့ ပြောပြပါဦး"

"အဖေသာ ဆိုရင်တော့ လုံးဝ ပြောပေးမှာ မဟုတ်ဘူး" ဟု တွမ်က ပြောသည်။ "သူ့အကြောင်း ကျုပ် သိတယ်၊ သူ့သွားခိုင်းရင်တော့ ဒါ သူ့အလုပ် မဟုတ်ဘူးလို့ ပြောမှာ သေချာတယ်"

"အေး ဟုတ်တယ်" ဟု ကက်ဆီက ဝန်ခံသည်။ "မင်း ပြောတာ မှန်တယ်၊ ဒီကိစ္စကို သူ နားမလည်ခင် အထိနာအောင် အရိုက်ခံရဖို့က လိုသေးတာပဲ၊ ဟုတ်ဖူးလား"

"ကျုပ်တို့လည်း အစားအစာ ပြတ်သွားတယ်ဗျ" ဟု တွမ်က ပြောသည်။ "ကနေ့ညတော့ အသားစားရတယ်၊ များများစားစား မဟုတ်ပေမဲ့ စားတော့

စားရတာပေါ့ဗျာ၊ ဒီတော့ကာ ကျုပ်အဖေက တခြား လူတွေအတွက် သူ့လက်ထဲက အမဲသားကို လွှတ်ချမယ်လို့ ခင်ဗျား ထင်သလား၊ ရိုစာဟန်ကလည်း နွားနို့သောက်မှ ဖြစ်မယ်တဲ့၊ ဒီတော့ ဂိတ်အပြင်ဘက်က ကြွေးကြော် အော်ဟစ်နေတဲ့ လူတစ်စုအတွက် ကျုပ် အမေက သူ့သမီး ဗိုက်ထဲက ကလေးကို ငတ်အောင် ထားမယ်လို့ ခင်ဗျား ထင်နေသလား"

ကက်ဆီက ဆွေးမြည့် နာကြည်းသံဖြင့် ပြောသည်။ "ငါကတော့ သူတို့ကို နားလည်စေချင်တာပါပဲကွာ၊ သူတို့ အခု ရနေတဲ့ အမဲသားကို မှန်မှန်နဲ့ များများ ရအောင် လုပ်နိုင်တဲ့နည်းကို မြင်စေချင်တဲ့ စေတနာနဲ့ ပြောနေတာပါ၊ အိုကွာ စိတ်ပျက်စရာပါ၊ အသိဉာဏ် ဗဟုသုတ သိပ်နည်းကြတာပဲ၊ ငါ လူတစ်ယောက်နဲ့ ခင်ခဲ့တယ်၊ ငါ ထောင်ထဲမှာ ရှိနေတုန်းက အဲဒီလူ ရောက်လာတာ၊ သူက အသင်းတစ်သင်းဖွဲ့ဖို့ ကြိုးစားတယ်၊ ဖွဲ့လို့ ရသွားတယ်ကွ၊ အုပ်ချုပ်တဲ့ လူတွေ သိသွားတော့ အတင်းကို ဖျက်ပစ်တာပေါ့၊ အဲဒီအခါကျတော့ ဘာဖြစ်သလဲ သိလား၊ သူကူညီစောင့်ရှောက်ခဲ့တဲ့ လူတွေက သူ့ကို ဝိုင်းပယ်ကြတယ်ဟေ့၊ သူနဲ့တွဲပြီး ဘာမှ မလုပ်ရဲကြဘူး၊ စကားတောင် မပြောရဲကြဘူး၊ သူတို့အနား သွားရင်လည်း ခင်ဗျား သွားဗျာ၊ ကျုပ်တို့အနား မလာခဲ့နဲ့၊ ခင်ဗျားဟာ ကျုပ်တို့အတွက် အန္တရာယ်တစ်ခုပဲတဲ့၊ သူ့ခမျာ စိတ်ထိခိုက်တာပေါ့ကွာ၊ ဒါပေမဲ့ သူက ပြောရှာတယ်၊ တကယ်လို့ ခင်ဗျား နားလည်ရင် ဒီအဖြစ်ကို ဆိုးတယ်လိုပ ပြောမှာ မဟုတ်ဘူးတဲ့၊ သူ ပြောတာက ပြင်သစ်တော်လှန်ရေးကြီးမှာ တော်လှန်ရေးသမားတွေ နောက်ဆုံး ခေါင်းပြတ်ကုန်တာဟာ ဘဝတူချင်းတွေ မကောင်းကြလို့ပဲတဲ့၊ ဒီအဖြစ်မျိုး တွေဟာ မဆန်းပါဘူး၊ မိုးရွာချလိုက်သလို သဘာဝအတိုင်း ဖြစ်လာတာတွေပါ၊ ခင်ဗျားအနေနဲ့ ကတော့ အပျော်သဘော လုပ်တာ မဟုတ်ဘူး၊ ခင်ဗျား လုပ်တာက လုပ်ရမယ့် ကိစ္စမို့ လုပ်လိုက်တာပဲ၊ ဂျော့ချ်ဝါရှင်တန်ကို ကြည့်ပါလား၊ သူဟာ တော်လှန်ရေးကြီးကို ခေါင်းဆောင်ခဲ့တဲ့ ပုဂ္ဂိုလ်တစ်ယောက်ပဲ၊ ဒါပေမဲ့ တော်လှန်ရေးလည်း ပြီးသွားရော ခွေးမသားတွေက သူ့ကို ဝိုင်းရန်ရှာခဲ့ကြတာပဲ၊ လင်ကွန်းအဖြစ်ဟာလည်း ဒီအတိုင်းပဲ၊ ဘဝတူတွေကပဲ သတ်လိုက်ကြတာပဲ၊ ဒါတွေဟာ သဘာဝအတိုင်း ဖြစ်လာကြတာပါတဲ့"

"အခု ခင်ဗျား ပြောနေတာကျတော့ ရယ်စရာ ဟုတ်ပုံမရဘူး" ဟု တွမ်က ပြောသည်။

"ဘယ်ကလာ ရယ်စရာ ဟုတ်ရမလဲ၊ အဲဒီလူကို ငါ ထောင်ထဲမှာ တွေ့ခဲ့တာ၊ သူက ပြောတယ်၊ ဘာပဲ ဖြစ်ဖြစ်၊ ခင်ဗျား လုပ်နိုင်တာကို လုပ်လိုက်ပါတဲ့၊ ပြီးတော့ သူက ပြောတယ်၊ လုပ်တဲ့အခါတိုင်းမှာ ခင်ဗျား သတိပြုရမှာ တစ်ချက်ပဲ ရှိတယ်၊ အဲဒီအချက်က ဘာလဲ ဆိုတော့ ရှေ့ကို ခြေတစ်လှမ်း တက်လိုက်တိုင်း ခြေတစ်လှမ်းကတော့ နောက်မှာ ကျန်ခဲ့မှာပဲတဲ့"

"ပြောနေတာပဲ" ဟု တွမ်က ရေရွတ်သည်။ "စကားကတော့ တောက်လျှောက် ပြောနေတာပဲ၊ ကျုပ်ညီ အယ်လ်ကို ကြည့်ပါလား၊ ကောင်မလေးတစ်ယောက် ရှာပြီး တွဲဖို့လောက်ပဲ အားထုတ်နေတာပဲ၊ တခြား ဘာကိုမှ စိတ်မဝင်စားဘူး၊ နေ့ရောညပါ ဒီကိစ္စပဲ အာရုံစိုက်တယ်"

"ဒါပေါ့" ဟု ကက်ဆီက ပြောသည်။ "လုပ်ရမှာပေါ့၊ သူ လုပ်ရမယ့် အလုပ်ကို သူ လုပ်နေတာပဲ၊ မင်းတို့ ငါတို့ အားလုံးကော ဘာထူးလို့လဲ၊ သူ့အတိုင်းပဲ"

တဲ အပြင်ဘက်၌ ထိုင်နေသော လူသည် ထလာပြီး ရွက်ထည်တဲဝကို ဆွဲဖွင့်လိုက်သည်။ "တော်ကြပါတော့ဗျာ၊ ကျုပ် မကြားချင်တော့ဘူး" ဟု လှမ်းပြောသည်။

ကက်ဆီက သူ့အား မော့ကြည့်သည်။ "ဘာဖြစ်လို့လဲ"

"မသိဘူး၊ ကျုပ် ခေါင်းရှုပ်လာလို့"

"ဘာဖြစ်လို့ ရှုပ်တာလဲ"

"မသိဘူးလို့ ပြောထားပြီဗျာ၊ ကျုပ် နားထဲမှာ တစ်ခုခု ကြားနေသလိုပဲ၊ သေသေချာချာ ဂရုစိုက်ပြီး နားထောင်ပြန်တော့လည်း ဘာသံမှ မကြားရဘူး"

"အင်း စိတ်ချောက်ချားနေတာပါကွာ" ဟု ပိန်ပိန်ခြောက်ခြောက်လူက ပြောသည်။ သူသည် ထိုင်ရာမှ ထကာ အပြင်သို့ ထွက်သွားသည်။ ခဏမျှကြာသောအခါ တဲထဲသို့ ခေါင်းပြူ၍ ကြည့်သည်။ "မိုးသားတွေ တက်လာနေတယ်၊ မိုးရွာလိမ့်မယ် ထင်တယ်၊ ဒါကြောင့် ဟိုအကောင် စိတ်လှုပ်ရှားနေတာ ဖြစ်မယ်" သူ့ခေါင်းသည် အပြင်သို့ ပြန်ထွက်သွားသည်။ တဲထဲ၌ ထိုင်နေသူ နှစ်ဦးသည် ထိုင်ရာမှ ဖျတ်ခနဲ ထကာ အပြင်သို့ လိုက်သွားကြလေသည်။

ကက်ဆီက လေသံ ခပ်တိုးတိုးဖြင့် လှမ်းပြောသည်။ "သူတို့ အားလုံး ချောက်ချားနေကြတာပဲ၊ ပုလိပ်တွေကလည်း သူတို့ကို ဘယ်လို ရိုက်မယ် နက်မယ်၊ ဒီခရိုင်ရဲ့ အပြင်ဘက် ရောက်သွားအောင် ဘယ်လို မောင်းထုတ်မယ် ဆိုတာတွေ ကြိမ်းထားတယ်ကွ၊ ပြီးတော့လည်း သူတို့က ငါ့ကို ခေါင်းဆောင်လို့ သတ်မှတ်ထားကြတယ်၊ ဘာကြောင့်လဲဆိုတော့ ငါက စကား သိပ်များတဲ့ ကောင်ကိုးကွ"

ပိန်ခြောက်ခြောက်လူ၏ မျက်နှာသည် တဲအတွင်းသို့ ပြန်၍ ဝင်လာပြန်လေသည်။ "ဒီမယ် ကက်ဆီ၊ မှန်အိမ်ကို ငြိမ်းပြီး အပြင်ထွက်ခဲ့ဦးဗျ၊ အပြင်မှာ တစ်ခုခုတော့ တစ်ခုခုပဲ"

ကက်ဆီက မှန်အိမ် မီးစာကို ချလိုက်၏။ မီးစာသည် တိုဝင်သွားပြီး တဟုပ်ဟုပ် မြည်ကာ ငြိမ်းသွားသည်။ ကက်ဆီသည် စမ်းတဝါးဝါးဖြင့် အပြင်သို့ ထွက်သည်။ တွမ်က ကပ်၍ လိုက်သွားလေ၏။

"ဘာလဲ" ဟု ကက်ဆီက လေသံဖြင့် မေးသည်။

"ကျုပ်လည်း မပြောတတ်ဘူး၊ ဟော ကြားလား၊ နားထောင်"

ဖားအော်သံများသည် တိတ်ဆိတ်ခြင်းကို ဖြိုခွင်းလျက် ရှိ၏။ စူးစူးဝါးဝါး အော်နေသည့် ပုရစ်သံများ။ သို့သော်လည်း ထိုအသံများ၏ နောက်မှ အခြားအသံများ ထွက်လာနေသည်။ လမ်းပေါ် နင်းလာသည့် ခြေသံများနှင့် ချောင်းပေါင်ပေါ်မှ မြေကြီးခဲများပေါ် ဖိနင်းလိုက်သည့် အသံများ။ ပြီးတော့ စမ်းချောင်းဆီသို့ ခပ်ဖော့ဖော့ နင်း၍ ဆင်းလာသည့် ခြေသံများ။

"ကြားတော့ ကြားတယ်၊ ဘာသံတွေမှန်း မသိဘူး၊ အသံတွေက ခင်ဗျားတို့ကို အရှုးလုပ်နေတာ၊ ခင်ဗျားတို့ သက်သက်မဲ့ ချောက်ချားနေကြတယ်" ကက်ဆီက ကြောက်စိတ် ပြေအောင် ပြောသည်။ "ငါတို့အားလုံး စိတ်က လှုပ်ရှားနေတော့ ကြားရတဲ့ အသံတွေကို ဘာသံမှန်း ခွဲခြားလို့ မရဘဲ ဖြစ်နေတယ်၊ မင်းကော ကြားတယ် မဟုတ်လား တွမ်"

"ကြားတယ်" ဟု တွမ်က ပြန်ဖြေသည်။ "ကျုပ် ကြားနေတယ်၊ ဟိုကောင်တွေ လာနေတာလို့ ကျုပ်ကတော့ ထင်တာပဲ၊ ကျုပ်တို့ ဒီနေရာက မြန်မြန် လစ်ရင် ကောင်းလိမ့်မယ် ထင်တယ်"

ပိန်ခြောက်ခြောက်လူက တိုးတိုးပြောသည်။ "တံတားအောက်ကို ဝင်ကြ၊ ဟိုဘက်ကို ထွက်၊ ကျုပ် တဲကို ထားပြီး သွာရတာကတော့ မကောင်းဘူးဗျာ"

"ကဲ လာ၊ သွားကြမယ်" ဟု ကက်ဆီက ခေါ်သည်။

သူတို့သည် ချောင်းဘေးတစ်လျှောက် အသံမထွက်အောင် သတိထား၍ လျှောက်သွားကြသည်။ မှောင်နေသော တံတား အောက်ခြေသည် သူတို့ရှေ့တွင် ဂူကြီး တစ်ခုသဖွယ် ရပ်စောင့်လျက် ရှိသည်။ ကက်ဆီသည် တံတားအောက်သို့ ခေါင်းငုံ့၍ ဝင်ကာ ဆက်လျှောက်သွားသည်။ တွမ်က သူ့နောက်မှ လိုက်သွားသည်။ သူတို့ ခြေထောက်များသည် ရေထဲသို့ ရောက်သါးသည်။ ပေသုံးဆယ်ခန့် လျှောက်မိ လာကြသည်။ ပြင်းထန်သော အသက်ရှူသံများသည် သူတို့ ခေါင်းများ အထက်မှ အမိုးနှင့် ထိတွေ့ကာ ပဲ့တင်သံ ပေးလျက် ရှိ၏။ ထို့နောက် တံတား၏ တစ်ဖက် အပြင်သို့ ထွက်လာခဲ့ကြသည်။ အားလုံး ခါးများကို ဆန့်၍ ရပ်လိုက်ကြလေ၏။

ထိုအခိုက်မှာပင် စူးရှသော အော်သံ တစ်သံ ပေါ်လာသည်။ "ဟိုကောင်တွေ ဒီမှာဟေ့" လက်နှိပ်ဓာတ်မီး အရောင် နှစ်ရောင်သည် ကက်ဆီတို့ လူစုပေါ်သို့ ထိုးကျလာသည်။ အားလုံး ချောင်ပိတ်၍ အမိခံကြရသည်။ "မပြေးနဲ့၊ ရောက်နေတဲ့ နေရာမှာ ရပ်နေကြ" အသံများသည် အမှောင်ထုအတွင်းမှ ထပ်၍ ထွက်လာသည်။ "ဟိုအကောင်လည်း ပါတယ်ဟေ့၊ ဟိုခွေးမသားလေ၊ ဟိုမှာ တွေ့တယ် မဟုတ်လား"

လက်နှိပ်ဓာတ်မီးရောင်ကြောင့် ကက်ဆီ၏ မျက်လုံးများသည် ပြာလျက် ရှိသည်။ သူသည် အသက်ကို ခပ်ပြင်းပြင်း တစ်ချက် ရှူလိုက်၏။ "နားထောင်ကြပါဦး" ဟု လှမ်းပြောသည်။ "ခင်ဗျားတို့ဟာ ကိုယ် ဘာလုပ်နေကြတယ်ဆိုတာ မသိကြဘူး၊ အမှန်တော့ ခင်ဗျားတို့ လူစုဟာ ကလေးတွေကို ငတ်အောင် လုပ်နေကြတယ်"

"မင်း ပါးစပ်ကို ပိတ်ထားစမ်း၊ ခွေးမသား အနီကောင်"

အရပ်ပုပုနှင့် ကိုယ်လုံးကိုယ်ထည် တုတ်ခိုင်ကြီးမားသော လူတစ်ယောက်သည် မီးရောင်အောက်သို့ ထွက်လာသည်။ သူ့လက်ထဲတွင် ရဲတင်း တစ်လက် ကိုင်ထား လေသည်။

ကက်ဆီက ထပ်ပြောပြန်သည်။ "ခင်ဗျားတို့ဟာ ကိုယ် ဘာလုပ်နေတယ် ဆိုတာ လုံး၀ မသိဘဲ ဖြစ်နေတယ်"

ကိုယ်လုံးကိုယ်ထည် တုတ်ခိုင်ခိုင်လူသည် သူ့လက်ထဲမှ ရဲတင်းကို တအားလွှဲ၍ မြှောက်လိုက်၏။ ကက်ဆီက ရုတ်တရက် ရှောင်လိုက်သည်။ ရဲတင်းသည် ကက်ဆီ၏ ခေါင်းပေါ်သို့ ကျလာသည်။ ခွပ်ခနဲ မြည်သံနှင့်အတူ ကက်ဆီ၏ ခန္ဓာကိုယ်သည် ဘေးသို့ လဲကျသွားလေသည်။

"ဘုရား ဘုရား၊ ဟော့ကောင် ဂျော့ချ်၊ မင်း သူ့ကို သတ်လိုက်ပြီ"

"သူ့အပေါ်ကို လက်နှိပ်ဓာတ်မီး ထိုးစမ်း" ဟု ဂျော့ချ် ဆိုသူက ခိုင်းသည်။ "ခွေးမသား အပေါ်ကို တည့်တည့် ထိုးကွာ" လက်နှိပ်ဓာတ်မီး အရောင်သည် လက်ခနဲ ကျလာပြီး မြေကြီးပေါ်၌ လျှောက်ရှာသည်။ နောက်ဆုံးတွင် တစ်ခေါင်းလုံး ကြေမွနေသော ကက်ဆီ၏ ခေါင်းကို တွေ့သည်။

တွမ်က တရားဟောဆရာအား တစ်ချက် ငုံ့ကြည့်သည်။ လက်နှိပ်ဓာတ်မီး ရောင်သည် ကိုယ်လုံး တုတ်ခိုင်ခိုင် လူ၏ ခြေထောက်များနှင့် လက်ထဲမှ ရဲတင်းပေါ်မှ ရိပ်ခနဲ ဖြတ်သွားလေသည်။ တွမ်က တစ်ချက်မျှ ခုန်လိုက်ပြီး ထိုလူ၏ လက်ထဲမှ ရဲတင်းကို လုယူလိုက်သည်။ တစ်ဆက်တည်းပင် သူ့လက်ထဲ ရောက်လာသော ရဲတင်းကို တအားကုန် လွှဲလိုက်၏။ ပထမဆုံး ခုတ်လိုက်သော ခုတ်ချက်သည် သူမှန်းသည့် နေရာကို မထိဘဲ ပခုံးတစ်ဖက်ကို ထိသွားမှန်း သူသိလိုက်သည်။ သို့သော်လည်း ဒုတိယ အကြိမ် တအားလွှဲ၍ ခုတ်လိုက်သော ခုတ်ချက်သည် ခေါင်းပေါ်သို့ တည့်တည့်ကြီး ကျသွားသည်။ တစ်ဖက်လူ ဒူးထောက်၍ လဲကျသွားခိုက်တွင် တွမ်၏ လက်ထဲမှ ရဲတင်းသည် ထိုလူ၏ ဦးခေါင်းပေါ်သို့ နောက်ထပ် သုံးချက်တိတိ ဆက်တိုက် ကျသွားပြန်လေ၏။

လက်နှိပ်ဓာတ်မီး အရောင်များသည် ယိမ်းကသည့်နှယ် ရှုပ်ယှက်ခတ် လှုပ်ရှား သွားကြ၏။ ထို့နောက် အော်ဟစ်သံ။ ပြေးသွားနေသည့် ခြေသံများ။ ချုံပုတ်များနှင့် တိုးမိ

ဝေ့မိသည့် အသံများ။ တွမ်သည် မှောက်လျက် လဲကျနေသူအား တစ်ခဏမျှ ကြောင်၍ ကြည့်နေမိသည်။ ထိုအခိုက်တွင် သူ့ခေါင်းပေါ်သို့ ရဲတင်း တစ်လက် ကျလာသည်။ ခုတ်လျက် အရှိန်က ပြင်းသော်လည်း မိမိရရ မထိ။ ငုံ့ရှောင်လိုက်သဖြင့် ခေါင်းကို ရှပ်၍ ထိသည်။ သို့သော်လည်း ဤခုတ်ချက် အရှိန်ကြောင့် တွမ်၏ တစ်ကိုယ်လုံးမှာ ပြင်းထန်စွာ တုန်လှုပ်သွားရ၏။ လျှပ်စစ် ဓာတ်လိုက်ခြင်း ခံလိုက်ရသည့်နှယ် သွေးလန့်ခြင်း ဝေဒနာကို ပြင်းထန်စွာ ခံစားရသည်။ သူသည် လန့်သွားသည် အရှိန်ဖြင့် ချောင်းစပ်အတိုင်း ခါးကို ကုန်းနိုင်သမျှ ကုန်းကာ တအားကုန် ပြေးသည်။ ပြေးရင်းလွှားရင်းမှ သူ့နောက်သို့ တရကြမ်း လိုက်လာနေသည့် ခြေသံများကို ကြားနေရ၏။ ရုတ်တရက် သူသည် တစ်ဖက်သို့ ကွေ့လိုက်ပြီး ဝက်သစ်ချပင်များကြားသို့ တိုးဝင်ကာ ငြိမ်သက်စွာ လှဲနေလိုက်သည်။ ခြေသံများသည် နီး၍ နီး၍ လာသည်။ လက်နှိပ်ဓာတ်မီး အရောင်များသည် ချောင်းစပ် တစ်လျှောက်တွင် ဝင်းခနဲ လက်ခနဲ ကျလာလျက် ရှိသည်။ သူသည် ဝက်သစ်ချပင်များကြားသို့ အတင်းတိုး၍ ဝင်သည်။ သူသည် ခြုံတစ်ခြုံအတွင်းသို့ လွတ်လွတ်ကျွတ်ကျွတ် ဝင်ရောက်မိခဲ့လေပြီ။ အော်သံ ခေါ်သံများနှင့် ချောင်းစပ် တစ်လျှောက် ပြေးလိုက်နေကြသည့် ခြေသံများကိုမူ ကြားနေရဆဲ။

သူသည် ခါးကိုကုန်းပြီး ဆက်ပြေးသည်။ သူ့ခြေထောက်များ အောက်မှ မြေစိုင် မြေခဲများသည် လွင့်စဉ် ထွက်ပြေးလျက် ရှိကြ၏။ သူ့ရှေ့ တည့်တည့်တွင် လယ်ကွက်ကို ပတ်လည်ဝိုင်းနေသည့် ချုံပုတ်များနှင့် တူးမြောင်း တစ်လျှောက် ပေါက်နေသည့် ချုံပုတ်များ။ သူသည် ထို ချုံပုတ်များကြားမှ ဖြတ်ကာ ခြံစည်းရိုးကို ကျော်ဝင်လိုက်၏။ ထို့နောက် ချုံပုတ်များကြားတွင် အသာကလေး လှဲနေလိုက်သည်။ ထုံကျဉ်လျက်ရှိသော သူ့မျက်နှာနှင့် နာခေါင်းကို စမ်းကြည့်သည်။ နာခေါင်းမှာ ကြေလျက် ရှိ၏။ သူ့ပါးတစ်ဖက်မှ သွေးများသည် တစိမ့်စိမ့် ယိုထွက် စီးကျလျက် ရှိ၏။ သူသည် ငြိမ်သက်စွာပင် ဆက်၍ အလျားမှောက်နေသည်။ ဆောက်တည်ရာ မရနိုင်လောက်အောင် လှုပ်ရှားနေသော စိတ်သည် ပြန်၍ တည်ငြိမ်လာသည်။ သူသည် မြောင်းစပ်ကို ဖြည်းဖြည်းချင်း တွား၍ ဆင်းလာခဲ့သည်။ သူ့မျက်နှာကို အေးမြသော ရေထဲသို့ အသာ နှစ်လိုက်သည်။ သူ့ရှပ်အင်္ကျီအပြာ အောက်စကို ဆုတ်ဖြဲကာ ရေထဲသို့ နှစ်လိုက်ပြီး စုတ်ပြတ်နေသော သူ့ပါးနှင့် နာခေါင်းကို ဖိအုပ်ပေးသည်။

မည်းနက်သော တိမ်တစ်လိပ်သည် ကောင်းကင်မှ ဖြတ်သွားသည်။ ကြယ်ရောင်များ ပေါ်တွင် အမှောင်ထု ဖုံးသွားသည်။ ညသည် ပြန်လည် တိတ်ဆိတ် သွားလေ၏။

တွမ်သည် မြောင်းထဲသို့ ဆင်းလိုက်၏။ သူ့ခြေထောက်များသည် ပျော့အိအိ မြေထဲသို့ ကျွံဝင်သွားသည်။ သူသည် ခြေလှမ်းကို ခပ်ကျဲကျဲ လှမ်းကာ တစ်ဖက်ကမ်းပါးသို့ လေးကန်စွာဖြင့် တက်လာခဲ့သည်။ ရေစိုနေပြီ ဖြစ်သော သူ့အဝတ်အစားများသည် အောက်သို့ တွဲကျလျက် ရှိကြ၏။ သူ့ဖိနပ်မှ တစ္စိစ္စိ အော်သံသည် ည၏ တိတ်ဆိတ်မှုကို ဖောက်ထွင်းလျက် ရှိသည်။ သူသည် တစ်နေရာတွင် ထိုင်ချလိုက်ပြီး ဖိနပ်များကို ချွတ်၍ ဝင်နေသည့် ရေများကို သွန်ထုတ်သည်။ သူ့ဘောင်းဘီ အောက်စများကို ညှစ်ထုတ်သည်။ ကိုယ်ပေါ်မှ ကုတ်အင်္ကျီကို ချွတ်၍ ရေစင်သွားသည်အထိ ညှစ်ပစ်လိုက်သည်။

အဝေးပြေး လမ်းမကြီးဘေးရှိ မြောင်းတစ်လျှောက်တွင်မူ နေရာအနှံ့ လျှောက်ထိုးနေသော လက်နှိပ်ဓာတ်မီး အရောင်များသည် ယခု အချိန်အထိ တဝင်းဝင်း တလက်လက်။ တွမ်သည် ဖိနပ်များကို ပြန်စီးပြီး ရိုးပြတ်များဖြင့် ပြည့်နေသော လယ်ကွင်းကို ဖြတ်သည်။ သူ့ ဖိနပ်များဆီမှ ဘာသံမျှ မကြားရတော့။ သူသည် လယ်ကွက်ကို ကျော်မိသည်နှင့် တစ်ပြိုင်နက် အိမ်များဘက်သို့ သွားရာလမ်းပေါ်သို့ ရောက်လာသည်။ သတိကို ကြီးစွာထား၍ အိမ်များဆီသို့ ခပ်ဖြည်းဖြည်း ချဉ်းကပ်လာသည်။

တစ်ကြိမ်တွင် အစောင့်သည် အသံကြားဟန် တူ၏။ "ဟေ့ ဘယ်သူလဲ" ဟု လှမ်းမေးသည်။

တွမ်သည် ချက်ချင်းပင် မြေကြီးပေါ်သို့ ဝပ်ချလိုက်ပြီး အသေကောင်သဖွယ် ငြိမ်၍ နေလိုက်သည်။ လက်နှိပ်ဓာတ်မီးရောင်သည် သူ့အပေါ်မှ ကျော်၍ လက်ခနဲ ဖြစ်သွားသည်။ သူသည် ဝပ်နေရာမှ မထတော့ဘဲ အသာတွား၍ အိမ်တံခါးပေါက်သို့ ရောက်အောင် သွားသည်။ သူ့လက်နှင့် ထိလိုက်မိသဖြင့် တံခါးပတ္တာများဆီမှ ကျွီခနဲမြည်သံ ထွက်လာသည်။ တစ်ဆက်တည်းပင် အမေ့အသံ။ တည်ငြိမ်အေးဆေးမှု အပြည့်။

"အပြင်က ဘာလဲ"

"ကျုပ်ပါ တွမ်လေ"

"မင်း အိပ်ဖို့ကောင်းပြီ၊ အယ်လ်လည်း အခုထက်ထိ ပြန်မရောက်သေးဘူး"

"ကောင်မလေး တစ်ကောင်ကောင်နဲ့ တွေ့နေပြီ ထင်တယ်"

"ကဲ မင်း အိပ်တော့၊ ဟိုဘက် ပြတင်းပေါက်နားမှာ အိပ်"

တွမ်သည် သူ့နေရာသို့ ရောက်သွားသည်။ သူ့အင်္ကျီများကို ချွတ်ပစ်လိုက်သည်။ စောင်ခြုံအောက်ရှိ သူ့ခန္ဓာကိုယ်သည် ခိုက်ခိုက်တုန်လျက် ရှိ၏။ စောစောက ထုံကျဉ်နေသော သူ့မျက်နှာမှ ဒဏ်ရာသည် နာကျင်ကိုက်ခဲစ ပြုလေပြီ။ သူ့ခေါင်း တစ်ခေါင်းလုံးမှာလည်း မူးဝေ နောက်ကျိလျက် ရှိသည်။

တစ်နာရီကျော်ကျော်ခန့် ကြာသောအခါ အယ်လ် ပြန်ရောက်လာသည်။ သူသည် အိပ်ရမည့်နေရာသို့ အသံမထွက်အောင် တိတ်တိတ်ကလေး ချဉ်းကပ်လာသည်။ သူ့ခြေထောက် များသည် တွမ်၏ ရေစိုအဝတ်များကို နင်းမိသည်။

"ရှူး" တွမ်က ဆီး၍ အသံပေးသည်။

အယ်လ်က လေသံဖြင့် ပြန်ပြောသည်။ "ခင်ဗျား နိုးနေတယ်၊ ခင်ဗျား အဝတ်တွေ ဘယ်လိုဖြစ်ပြီး ရေစိုတာလဲ"

"ရှူး" တွမ်က ထပ်၍ ငြိမ်ငြိမ်နေရန် အချက်ပေးသည်။ "ငါ မင်းကို မနက်ကျမှ ပြောမယ်"

အဖေဂျုတ်သည် စောင်းလျက် အိပ်နေရာမှ ပက်လက် လန်သွားသည်။ သူ့ဟောက်သံသည် အခန်း တစ်ခန်းလုံးကို ဖုံးလွှမ်းလျက် ရှိလေ၏။

"ခင်ဗျား အေးနေပြီ" ဟု အယ်လ်က ပြောသည်။

"ရှူး မင်း အိပ်တော့ကွာ"

တွမ်က အိပ်၍ မရချေ။ ဒဏ်ရာ ရထားသည့် မျက်နှာ တစ်မျက်နှာလုံး တစစ်စစ် နာကျင်လျက် ရှိသည်။ ပါးပြင် တစ်ပြင်လုံးမှာလည်း ကိုက်ခဲလျက် ရှိ၏။ ကျိုးသွားသည့် နှာခေါင်းသည် အဆမတန် ရောင်ကိုင်းလျက် ရှိလေပြီ။ အဆမတန် နာကျင်မှုကြောင့် နှာခေါင်းပတ်ပတ်လည်တွင် သွေးခုန်နှုန်းမှာ မြန်လျက် ရှိလေသည်။ သူသည် ပြတင်းပေါက်မှ နေ၍ အပြင်သို့ မျှော်ကြည့်မိသည်။ အမှောင်ထုကို နောက်ခံထား၍

တလက်လက် လင်းနေသည့် ကြယ်များ။ တစ်ချက် တစ်ချက်တွင် အစောင့်၏ ဖိနပ်သံများကို သူ ကြားနေရလေသည်။

နောက်ဆုံးတွင် အလွန် အလှမ်းကွာဝေးသော နေရာများဆီမှ ကြက်တွန်သံများ ထွက်လာသည်။ တဖြည်းဖြည်းနှင့် အလင်းရောင် မှုန်ပျပျသည် ပြတင်းပေါက်ဆီသို့ မသိမသာ ဆင်းလာလျက် ရှိသည်။ တွမ်သည် ဖူးရောင်နေသော သူ့မျက်နှာကို သူ့လက်ချောင်းထိပ်ဖြင့် အသာ ထိကြည့်သည်။ သူ့ဘေးမှ အယ်လ်သည် ကယောင်ကတမ်း ရေရွတ်လျက် ရှိလေသည်။

နောက်ဆုံးတွင် အရုဏ်တက်လာသည်။ ဟိုဘက်သည်ဘက် အိမ်များဆီမှ လူးလွန့် လှုပ်ရှားသံများ။ ထင်းချိုးသံများနှင့် အိုးခွက်ပန်းကန်ချင်း ထိခိုက်မိသံများ။ အမေသည် ဖျတ်ခနဲ ထထိုင်သည်။ တွမ်သည် အမေ့မျက်နှာကို ကောင်းစွာ မြင်နေရ၏။ အိပ်ရေးဝသဖြင့် အမေ့ မျက်လုံးများသည် မှိုလျက် ရှိလေသည်။ အမေသည် ပြတင်းပေါက်ဘက်သို့ လှမ်းကြည့်ကာ အတန်ကြာမျှ တွေတွေငေးငေး ဖြစ်နေသည်။ ထို့နောက် ကိုယ်ပေါ်၌ တင်နေသည့် စောင်ကို ဆွဲဖယ်လိုက်ပြီး အကျႌများကို ယူ၍ ဝတ်သည်။ အမေသည် ပြတင်းပေါက် အနီးသို့ သွား၍ ရပ်ကာ အပြင်သို့ ခေါင်းထွက်ကြည့်သည်။ ကြည့်နေရင်းမှပင် အမေသည် သူ့ခေါင်းမှ ဆံပင်များကို လက်နှစ်ဖက်နှင့် သပ်ကာ ပြင်၍ ထုံးလိုက်၏။ အပြင်မှ ဝင်လာနေသော အလင်းရောင် အောက်တွင် အမေ့ မျက်နှာသည် ဖြူဖွေးလျက် ရှိသည်။ ခဏအကြာတွင် အမေသည် နောက်ပြန်လှည့်ကာ မွေ့ရာများကြားသို့ လျှောက်ဝင်သွားပြီး မန်အိမ်ကို ယူသည်။ ထို့နောက် မီးစာကို မီးညှိလိုက်သည်။

အဖေဂျုတ်သည် တစ်ဖက်သို့ စောင်းလိုက်ပြီး အမေ့ကို လှမ်းကြည့်သည်။ "အဖေကြီး၊ ရှင့်ဆီမှာ ပိုက်ဆံ လက်ကျန် ရှိသေးလား" ဟု အမေက မေးသည်။

"အေး ရှိတယ်၊ စက္ကူပေါ် ရေးထားတာကတော့ ဆင့်ခြောက်ဆယ်တဲ့"

"ဒီလိုဆို ထတော့ ၊ဂျုံမှုန် နည်းနည်းနဲ့ ဝက်ဆီနည်းနည်း သွားဝယ်ချေ၊ ကဲပါ ထ၊ မြန်မြန်လေး သွားလိုက်စမ်းပါ"

အဖေဂျုတ်က အားရပါးရ တစ်ချက် သမ်းလိုက်သည်။ "ဆိုင်က ဖွင့်ချင်မှ ဖွင့်ဦးမှာ"

"မဖွင့်သေးလည်း ဖွင့်ခိုင်းလိုက်ပေါ့တော်၊ တော့်လူတွေရဲ့ ဗိုက်ထဲ တစ်ခုခုတော့ ထည့်မပေးလိုက်လို့ မဖြစ်ဘူး၊ တော်တို့ အစောကြီး အလုပ်ဆင်းကြရမှာ"

အဖေဂျုတ်သည် အိပ်ရာမှထကာ အဝတ်အစားများကို ယူ၍ ဝတ်သည်။ ထို့နောက် တသမ်းသမ်း တဝေဝေဖြင့် ပျင်းတိပျင်းတွဲ လေးတိလေးကန်ဖြင့် အိမ်အပြင်သို့ ထွက်သွားလေ၏။

ကလေးများ နိုးလာကြသည်။ စောင်ခြုံများထဲမှ နေ၍ ကြွက်များသဖွယ် ပုန်းလျှိုးကွယ်လျှိုးလုပ်ကာ အပြင်သို့ ချောင်းကြည့်နေကြသည်။ ဖျော့ဖျော့တော့တော့ အလင်းရောင် သည် အခန်းထဲသို့ ဝင်ရောက်လျက် ရှိလေပြီ။ သို့သော်လည်း နေမထွက်သေး သဖြင့် အလင်းရောင်တွင် အရောင်အဆင်း မရှိသေး။ အမေသည် မွေ့ရာများဆီသို့ လိုက်ကြည့်သည်။ ဦးလေးဂျွန် တစ်ယောက်တော့ နိုးနေပြီ။ အယ်လ်ကတော့ နှစ်နှစ်ခြိုက်ခြိုက် အိပ်မောကျနေဆဲ။ အမေ့ မျက်လုံးများသည် တွမ်ဆီသို့ ရောက်သွားသည်။ တွမ်ကို မြင်လိုက်သည့် တစ်ခဏတွင် အမေ့ မျက်လုံးများသည် ပြူးသွားသည်။ ထို့နောက် တွမ်ရှိရာသို့ သုတ်သီးသုတ်ပျာ လျှောက်သွားသည်။ တွမ်၏ မျက်နှာတစ်ခုလုံး ဖူးရောင် ပြာနှမ်းလျက် ရှိ၏။ သူ့နှုတ်ခမ်းနှင့် ပါးပေါ်ရှိ သွေးစများသည် ခြောက်သွေ့ မည်းနက်နေကြသည်။ ပါးပေါ်မှ ဟက်တက်ကြီး ဖြစ်နေသော အကွဲကြောင်းကြီးများ၏ နှုတ်ခမ်းသားများသည် ခြောက်သွေ့ တင်းမာလျက် ရှိနေကြလေပြီ။

"တွမ်" အမေက တိုးတိုးကလေး ခေါ်သည်။ "မင်း ဘာဖြစ်တာလဲ"

"ရှူး အကျယ်ကြီး မပြောနဲ့ အမေ၊ ကျုပ် ရန်ဖြစ်လာတယ်"

"တွမ်"

"ကျုပ် ဘယ်လိုမှ ရှောင်လို့ မရလို့ပါ အမေရယ်"

အမေသည် တွမ်၏ ဘေးတွင် ဒူးထောက်၍ ထိုင်လိုက်သည်။ "မင်း ဒုက္ခ ဖြစ်ပြန်ပြီလား"

တွမ်သည် ချက်ချင်းပင် အဖြေ မပေး။ အတန်ကြာမျှ ငိုင်နေသည်။ "ဟုတ်တယ် အမေ၊ ကျုပ် ဒုက္ခနဲ့ တွေ့ရပြန်ပြီ၊ ကျုပ် အလုပ်ဆင်းလို့ မဖြစ်ဘူး၊ ပုန်းနေမှ ဖြစ်မှာ"

ကလေး နှစ်ယောက်သည် စောင်ခြုံထဲမှ ထွက်ကာ အမေရှိရာသို့ လေးဖက်ထောက်၍ လာသည်။ "သူ ဘာဖြစ်လို့လဲ အမေဧ

"ဟယ် သွားကြစမ်း" ဟု အမေက ရေရွတ်သည်။ "သွား မျက်နှာသစ်ချေကြ"

"ကျုပ်တို့မှာ ဆပ်ပြာမှ မရှိတာ"

"ရေနဲ့ပဲ သစ်ကြ၊ သွား"

"တွမ် ဘာဖြစ်တာလဲ အမေ"

"သွားကြ၊ အခု ဖြစ်တာကို ဘယ်သူ့မှ မပြောရဘူးနော်၊ ကြားလား"

သူတို့သည် နောက်သို့ ပြန်ဆုတ်သွားကြပြီး မလှမ်းမကမ်းရှိ နံရံကို မှီ၍ ငြိမ်သက်စွာ ထိုင်နေကြသည်။

အမေက တိုးတိုးမေးသည်။ "သိပ်ဆိုးသလား"

"နှာခေါင်း ကျိုးသွားတယ်"

"အမေက ရန်ပွဲကို မေးတာ"

"ဆိုးတယ် အမေ"

အယ်လ်၏ မျက်လုံးများသည် ပွင့်လာပြီး တွမ်ကို ငေးကြည့်နေသည်။ "ခင်ဗျား ဘာပြဿနာနဲ့ တွေ့လာပြန်ပြီလဲ"

"ဘာဖြစ်လို့လဲ" ဦးလေးဂျွန်ကပါ လှမ်းမေးသည်။

ထိုအခိုက်မှာပင် အဖေဂျူတ် ပြန်ရောက်လာသည်။ "ဆိုင်ဖွင့်နေလို့ တော်ပါသေးရဲ့ကွာ" သူသည် လက်ထဲမှ ဂျုံမှုန့်အထုပ်နှင့် ဝက်ဆီဘူးတို့ကို မီးဖိုဘေး၌ ချထားလိုက်ပြီး "ဘာဖြစ်နေကြတာလဲ" ဟု မေးသည်။

တွမ်သည် တံတောင်တစ်ဖက်ကို ထောက်၍ ထရန် အားယူသည်။ ထို့နောက် အသာပြန်၍ လှဲလိုက်၏။ "ကျုပ် အားအတော် နည်းနေပြီ၊ ကျုပ် ဒီကိစ္စကို တစ်ခါပဲ ပြောမယ်၊ ထပ်တလဲလဲ ပြန်မပြောချင်ဘူး၊ ဒါကြောင်း အားလုံးလာပြီး နားထောင်ပါ၊ ကလေး နှစ်ယောက်ကော ဘယ်ရောက်နေကြလဲ"

အမေက လှည့်ကြည့်သည်။ "ကဲ သွားကြ၊ မျက်နှာသစ်ချေ"

"မသွားခိုင်းပါနဲ့ အမေ" ဟု တွမ်က တားသည်။ "သူတို့လည်း ကြားမှ ဖြစ်မယ်၊ သူတို့လည်း သိထားမှ ဖြစ်မယ်၊ တကယ်လို့ သိမထားရင် တွေ့ကရာ လျှောက်ပြောကုန်မှာ"

"ဘာလဲကွ၊ မင်းတို့က ဘာဖြစ်နေကြတာလဲ" အဖေဂျူတ်က စိတ်မရှည်သံဖြင့် ဝင်မေးသည်။

"ကျုပ် အခုပဲ ပြောပြမလို့ပါ၊ မနေ့ညက အပြင်ဘက်မှာ ဘာတွေ ဖြစ်နေကြတယ်ဆိုတာ သိချင်လို့ ကျုပ်ထွက်ကြည့်တယ်၊ အပြင်ရောက်တော့ ကက်ဆီနဲ့ တွေ့တယ်"

"တရားဟောဆရာလား"

"ဟုတ်တယ် အဖေ၊ တရားဟောဆရာ ကက်ဆီပေါ့၊ သူက သပိတ်မှောက်နေတဲ့ လူတွေရဲ့ ခေါင်းဆောင် ဖြစ်နေတယ်၊ အဲဒါ သူတို့က ကက်ဆီကို ရန်ရှာဖို့ လာ့တယ်"

"သူတို့က ဘယ်သူတွေလဲ"

"ကျုပ်လည်း မသိဘူး အဖေ၊ ဟိုတစ်နေ့ညက ကျုပ်တို့ကို လမ်းပေါ်မှာ နောက်ရင်းပြန်ခိုင်းတဲ့ ကောင်စားမျိုးတွေပဲ၊ ရဲတင်းတွေနဲ့" တွမ်က ဆက်မပြောသေးဘဲ ရပ်ထားသည်။ "သူတို့က ကက်ဆီကို သတ်ပစ်ကြတယ်၊ သူ့ခေါင်းကို ရဲတင်းနဲ့ ခုတ်တာ၊ ကျုပ်က အနားမှာ ရပ်နေတယ်၊ ကျုပ်လည်း အရူးလို ဖြစ်သွားတယ်၊ သူတို့ လက်ထဲက

ရဲတင်းကို ဝင်လုတယ်” ညက အဖြစ်အပျက်များကို သူ ပြန်၍ မြင်ယောင်လာသည်။ အမှောင်။ လက်နှိပ်ဓာတ်မီးများမှ ထွက်လာသည့် မီးရောင်များ။ ပြောပြနေသည့်အခိုက်တွင် ဖြစ်စဉ်များသည် တစခုပြီးတစ်ခု ဆက်တိုက် ပေါ်လာလျက် ရှိ၏။ “ကျုပ်.. ကျုပ် အကောင်တစ်ကောင်ကို ရဲတင်းနဲ့ ခုတ်ပစ်ခဲ့တယ်”

အမေသည် အသက်ရှူ မှားသွားသည်။ အဖေဂျုတ်ကတော့ တစ်ကိုယ်လုံး တောင့်တင်းသွားသည်။ “မင်း အသေလုပ်ခဲ့တာလား” အဖေဂျုတ်က လေသံအေးအေးဖြင့် မေးသည်။

“ကျုပ်.. ကျုပ်.. ကျုပ် မသိဘူး၊ ကျုပ် အရူးလို ဖြစ်နေတာ၊ သေအောင်တော့ လုပ်တာပဲ”

အမေက ဝင်မေးသည်။ “မင်း မမြင်ခဲ့ဘူးလား”

“ဟင့်အင်း၊ ကျုပ် မသိဘူး၊ သေတယ်လို့ ထင်တာပဲ”

အမေသည် အတန်ကြာမျှ တွမ်၏ မျက်လုံးများကို စူးစူးရဲရဲ စိုက်ကြည့်နေသည်။ ထို့နောက် အဖေဂျုတ်ကို ခေါ်သည်။ “သေတ္တာ တချို့ကို ဖျက်ပြီး မီးမွေးရအောင်၊ မင်းတို့ မနက်စာတော့ စားကြဦးမှ ဖြစ်မယ်၊ ရှင်တို့က အလုပ်သွားရဦးမှာ၊ ရှုသီနဲ့ ဝင်းဖီးတို့လည်း လိုက်ရမှာ၊ တကယ်လို့ ရှင်တို့ကို မေးရင် တွမ် ဖျားနေတယ်လို့ ပြော ကြားလား၊ တကယ်လို့ ပြောလိုက်ရင်တော့ သူ ထောင်ပြန်သွားရမှာ သေချာတယ်၊ ကျွန်မ ပြောတာ ကြားရဲ့လားဟင်”

“ကြားပါတယ်ကွာ”

“ဂျွန်က သူတို့ကို သတိထားပြီး ကြည့်ပါ၊ ဒီကိစ္စ ဘယ်သူ့ကိုမှ မပြောအောင် ထိန်းထားမှ ဖြစ်မယ်” အဖေဂျုတ် ဖျက်ပေးနေသည့် သေတ္တာ အပိုင်းအစများကို ယူ၍ အမေက မီးမွေးသည်။ ထို့နောက် ဂျုံမှုန့်ကို နယ်၍ မုန့်လုပ်သည်။ ကော်ဖီအိုးကို မီးဖိုပေါ်သို့ တင်သည်။

သေတ္တာများကို ဖျက်ပေးပြီးသောအခါ အဖေဂျုတ်သည် တွမ်၏ အနီးသို့ လျှောက်လာသည်။ "ကက်ဆီဟာ သဘော အင်မတန် ကောင်းတဲ့လူပါ၊ ဘာပြုလို့ သူတို့က အခုလောက် ရက်ရက်စက်စက် လုပ်ရတာလဲ"

"သူတို့က မက်မွန်သီး တစ်သေတ္တာကို ငါးဆင့်နှုန်းနဲ့ အလုပ်လုပ်ဖို့ လာကြတာ"

"ငါးဆင့်ဆိုတာ အခု ငါတို့ရတဲ့ နှုန်းပဲ မဟုတ်လားကွ"

"ဟုတ်တယ်၊ ကျုပ်တို့ အခု လုပ်နေကြတာဟာ သူတို့ရဲ့ သပိတ်ကို ပြိုကွဲသွားအောင် လုပ်ပေးနေတာပဲ၊ ဒီလူတွေက သူတို့ကို လုပ်ခ နှစ်ဆင့်ခွဲပဲ ပေးတာ"

"အဲဒီ လုပ်ခကတော့ ထမင်းစားလို့ ဘယ်ရမလဲကွာ"

"ဒါပေါ့" ဟု တွမ်က နွမ်းလျသော လေသံဖြင့် ပြန်ပြောသည်။ "ဒါကြောင့် သူတို့က သပိတ်မှောက်တာ၊ ကျုပ် ထင်တာကတော့ မနေ့ညက သပိတ်သမားတွေကို ထွက်ပြီး ထုစခွဲတာ ဖြစ်မယ်၊ ဒါဆိုရင်တော့ ကနေ့ ကျုပ်တို့ကို နှစ်ဆင့်ခွဲပဲ ပေးချင် ပေးမှာ"

"ဘာပြုလို့လဲ၊ ခွေးမသားတွေက"

"ဟုတ်တယ် အဖေ၊ အဖေ သိတယ် မဟုတ်လား၊ ကက်ဆီဟာ အခု ကျုပ်နဲ့ ပြန်တွေ့တဲ့ အချိန်ထိ လူကောင်း တစ်ယောက်ပါပဲ၊ ဒါပေမဲ့ဗျာ သောက်သုံးမကျတော့ပါဘူး၊ ကျုပ် အခုထက်ထိ မျက်စိက မထွက်ဘူး၊ သူ လဲကျနေတာ၊ တစ်ခေါင်းလုံး ပြားချပ်သွားတာဗျ" တွမ်သည် သူ့မျက်လုံးများကို လက်နှစ်ဖက်ဖြင့် အုပ်ထားလိုက်သည်။

"ကဲ ငါတို့ အခု ဘာလုပ်ကြမလဲ" ဟု ဦးလေးဂျွန်က မေးသည်။

အိပ်ရာထဲမှ ထကာ မတ်တတ်ရပ်နေပြီဖြစ်သော အယ်လ်က "ကျုပ် အခု ဘာလုပ်ရမလဲ ဆိုတာ ကျုပ်သိတယ်၊ ကျုပ်ကတော့ ဒီနေရာက အမြန်ဆုံး ထွက်သွားတော့မယ်"

"မလုပ်နဲ့ အယ်လ်၊ မင်း သွားလို့ ဘယ်ဖြစ်မလဲ" ဟု တွမ်က လှမ်းပြောသည်။ "ငါတို့ မိသားစုမှာ အခု လောလောဆယ် မင်းမရှိရင် မဖြစ်တော့ဘူး၊ ပထမက ငါ ရှိတယ်၊

အခု ငါက အန္တရာယ် ဖြစ်နေပြီ၊ ဒီဒဏ်ရာတွေ သက်သာလို့ ထူထူထောင်ထောင် ဖြစ်တာနဲ့ တစ်ပြိုင်နက် ငါ ဒီအရပ်က ဝေးရာကို ပြေးမှ ဖြစ်တော့မှာ ”

အမေသည် မီးဖိုဘေး၌ ထိုင်၍ အလုပ်လုပ်လျက် ရှိသည်။ အမေ့ ဦးခေါင်းသည် တွမ် ပြောသမျှကို ကြားလိုဖော်ဖြင့် တလည်လည် ဖြစ်လျက် ရှိ၏။ အမေသည် ဒယ်အိုးထဲသို့ ဆီထည့်သည်။ ဆီကျက်သည်နှင့် တစ်ပြိုင်နက် လက်ထဲမှ မုန့်စိမ်းကို ထည့်လိုက်လေသည်။

“မင်း မနေလို့ မဖြစ်ဘူး အယ်လ်၊ ထရပ်ကားကို မင်းပဲ ကြည့်ရမှာ” ဟု တွမ်က ဆက်ပြောသည်။

“ကျုပ် မနေချင်ဘူးဗျာ”

“နေချင်လို့ကတော့ မဖြစ်ဘူးကွာ၊ ဒီလူစုဟာ မင်းရဲ့ မိသားစုပဲ၊ မင်း သူတို့ကို ကူညီရမယ်၊ ငါက သူတို့အတွက် အန္တရာယ်ကောင် တစ်ကောင် ဖြစ်နေပြီ”

“ငှါဘာသာငါ ကားအလုပ်ရုံ တစ်ရုံမှာ ဘာပြုလို့ အလုပ်မရှာမိတာပါလိမ့်ကွာ ” အယ်လ်က သူ့ကိုယ်သူ ဒေါသတကြီးဖြင့် အပြစ်တင်သည်။

“နောက်တော့ ရလာမှာပေါ့ကွာ ” ဟု တွမ်၏ မျက်လုံးများသည် မွေ့ရာပေါ်၌ လဲလျောင်းနေသော ရိုစာဟန်ထံ ရောက်သွားသည်။ ရိုစာဟန်၏ အကြည့်မှာ စိုးရိမ်သောက မကင်းသော အကြည့်။ “အစ်ကို့အတွက် မပူပါနဲ့” ဟု လှမ်းပြောသည်။ “ဘာမှ ပူစရာ မရှိဘူး၊ ကနေ့လည်း ညီမအတွက် နွားနို့ရမှာပါ” ရိုစာဟန်ကတော့ အဖြေမပေး။ မျက်တောင်ကိုသာ ပုတ်ခတ် ပုတ်ခတ် လုပ်လျက် ရှိလေသည်။

အဖေက ဝင်မေးသည်။ “တို့အနေနဲ့ တစ်ခုတော့ သိမှ ဖြစ်မယ် တွမ်၊ အဲဒီကောင်ကို မင်း အသေလုပ်ခဲ့တာလား ”

“ကျုပ် အတိအကျ မသိဘူး၊ မှောင်နေတယ်၊ လူတစ်ယောက်က ကျုပ်ကို ရဲတင်းနဲ့ ထုတယ်၊ ဘယ်သူ ဘယ်ဝါရယ်လို့ မမှတ်မိဘူး၊ ဟိုအကောင်ကတော့ သေတယ် ထင်တယ်၊ ကျုပ်ကတော့ သေလိမ့်မယ်လို့ မျှော်လင့်တာပဲ ”

"တွမ် အဲသလို မပြောနဲ့" ဟု အမေက ဟန့်သည်။

လမ်းမဘက်မှ ခပ်ဖြည်းဖြည်း သွားလာ လှုပ်ရှားနေသော မော်တော်ကား သံများသည် သူတို့ မိသားစုထံ ရောက်လာသည်။ အဖေဂျုတ်က ပြတင်းပေါက်အနီးသို့ သွားကာ အပြင်သို့ တစေ့တစောင်း ကြည့်သည်။ "လူသစ်တွေ လာနေတယ်ကွ" ဟု ပြောသည်။

"ဒါဆိုရင်တော့ သပိတ်သမားတွေ ကွဲသွားပြီလို့ ထင်တယ်" ဟု တွမ်က ပြောသည်။ "အဖေတို့ကို နှစ်ဆင့်ခွဲပဲ ပေးတော့မှာ"

"ဒီကောင် ဒီလောက်ပဲ ပေးလို့ကတော့ အလုပ်လုပ်ပြီး ထမင်းမစားရတဲ့အဖြစ် ရောက်မှာပဲ"

"ကျုပ် သိပါတယ်၊ မက်မွန်သီးအပျက်တွေကို စားကြတာပေ့ါ"

အမေက ဒယ်အိုးထဲမှ မုန့်ကို အထက်အောက် လှန်ပေးပြီး ကော်ဖီဖျော်သည်။ "ကျွန်မပြောမယ်၊ ကနေ့ ကျွန်မတို့ ပြောင်းဆန်မုန့် ဖုတ်မယ်၊ အားလုံး အဲဒါကိုပဲ စားကြမယ်၊ အလုပ်ကို ဓာတ်ဆီဖိုးရအောင်ပဲ လုပ်ကြ၊ ဓာတ်ဆီဖိုးပြည့်တာနဲ့ တစ်ပြိုင်နက် ကျွန်မတို့ ဒီက ထွက်မယ်၊ ဒီနေရာလည်း ကောင်းတဲ့နေရာ မဟုတ်ဘူး၊ တွမ်ကို တစ်ယောက်တည်း ခွဲပြီး မလွှတ်နိုင်ဘူး၊ ကျွန်မ လုံးဝ မခွဲနိုင်ဘူး"

"ဒါကတော့ မဖြစ်နိုင်ဘူး အမေ၊ ကျုပ်က အမေတို့အတွက် ဒုက္ခဖြစ်မှာ"

"ပြောစရာ မလိုဘူး၊ ဒါ တို့အလုပ်ပဲ၊ ကဲ လာကြ၊ စားစရာရှိတာ စားပြီး အလုပ်သွားလုပ်ကြ၊ ငွေနည်းနည်းပါးပါး ရအောင်တော့ လုပ်မှဖြစ်မှာ"

သူတို့ ဂျုံဖြင့် လုပ်ထားသည့် ဆီကြော်မုန့်ကို စားကြသည်။ ကော်ဖီကို အဂ္ဂသောက်ကြသည်။

ဦးလေးဂျွန်သည် အစားစားနေရင်းက သူ့ခေါင်းကို ယမ်းလျက် ရှိသည်။ "ငါတို့ အခြေတကျနေလို့ကို မရဘူး၊ ဒီလိုဖြစ်ရတာဟာ ငါ့ရဲ့ မကောင်းမှုတွေကြောင့်ပဲ ဖြစ်မယ်"

"အိုကွာ၊ မင်း ပါးစပ်ကို ပိတ်ထားစမ်း" အဖေဂျုတ်က ဒေါသတကြီး ထအော်သည်။ "အခုလို အချိန်မျိုးမှာ မင်း မကောင်းမှုတွေအကြောင်း နားထောင်ဖို့ အချိန်မရှိဘူးကွ၊ ကဲ လာကြ သွားမယ်၊ အလုပ်သွားလုပ်ကြမယ်၊ ဟိုကလေးနှစ်ယောက် လည်း လာကြ၊ ဒီက အမြန်ဆုံးထွက်ကြမှ ဖြစ်မှာ"

အားလုံး ထွက်သွားကြသည့်အခါ အမေသည် မုန့်ပန်းကန် တစ်ချပ်နှင့် ကော်ဖီတစ်ခွက်ကို တွမ့်ထံ ယူလာသည်။ "မင်း တစ်ခုခုတော့ စားလိုက်ဦး"

"ကျုပ် မစားနိုင်ဘူး အမေ၊ အနာတွေက သိပ်ရောင်နေတော့ ကျုပ် မဝါးနိုင်ဘူးဗျာ"

"ကြိုးစားပြီး ဝါးကြည့်ပေါ့ကွယ်"

"မဖြစ်ဘူး အမေ၊ ကျုပ် မဝါးနိုင်ဘူး"

အမေက တွမ်၏ မွေ့ယာတစ်ဖက်စွန်းတွင် ဝင်ထိုင်သည်။ "အမေ့ကိုတော့ ပြောပြပါဦး" ဟု အမေက စကားစသည်။ "ဘယ်လိုဖြစ်ရတယ်ဆိုတာ အမေ စဉ်းစား ကြည့်ချင်တယ်၊ ကက်ဆီက ဘာလုပ်နေလို့လဲ၊ သူတို့က ဘာကြောင့် ကက်ဆီကို သတ်ရတာလဲ"

"ဟိုအကောင်က ရပ်ပြီး လက်နိပ်ဓာတ်မီးနဲ့ ကက်ဆီမျက်နှာကို ထိုးထားတယ်"

"အဲဒီတော့ ကက်ဆီက ဘာပြောသလဲ၊ သူပြောတာ မင်း မမှတ်မိဘူးလား"

"သိပ်မှတ်မိတာပေါ့၊ ကက်ဆီက ပြောတယ်၊ ခင်ဗျာတို့ လူတွေကို ငတ်အောင် လုပ်ဖို့ အခွင့်အရေး မရှိဘူးတဲ့၊ အဲဒီတော့ ဟို ခပ်ထွားထွားကောင်ကြီးက ကက်ဆီကို အနီကောင် ခွေးမသားလို့ ဆဲတယ်၊ ကက်ဆီက ခင်ဗျားဘာသာ ခင်ဗျား ဘာလုပ်နေတယ်ဆိုတာ ခင်ဗျား မသိဘဲ ဖြစ်နေပြီလို့ ပြန်ပြောတယ်၊ စကားလည်းဆုံးရော ဟိုအကောင်က ရဲတင်းနဲ့ ထုတာပဲ"

အမေက မျက်လွှာချထားသည်။ "ခင်ဗျား ဘာလုပ်နေတယ်ဆိုတာ ခင်ဗျားကိုယ် ခင်ဗျား မသိဘူးဆိုတဲ့ စကားက ကက်ဆီပြောတာလား"

"ဟုတ်တယ်"

"ဒီစကားကို အသွားဂျက် ကြားစေချင်လိုက်တာ" အမေက တမ်းတမ်းတတ ပြောသည်။

"အမေ၊ ကျုပ် ဘာလုပ်နေတယ်ဆိုတာ ကျုပ်လည်း မသိဘူး၊ ကျုပ် ဘာလုပ်မယ်ဆိုတာတောင်မှ ကျုပ်မသိတော့ဘူး"

"မသိလည်း ကိစ္စမရှိပါဘူးကွယ်၊ မင်း ဒီအလုပ်ကို မလုပ်ခဲ့စေချင်တာတော့ အမှန်ပဲ၊ အဲဒီနေရာကိုတောင်မှ မင်းကို ရောက်မသွားစေချင်ဘူး၊ ဒါပေမယ့် မင်းလုပ်ရမယ့် အလုပ်ကို မင်း လုပ်ပြီးသွားပြီလို့ပဲ မှတ်ရတော့မှာပဲ၊ ဒီကစ္စနဲ့ ပတ်သက်လို့ အမေကတော့ မင်းမှာ အပြစ်ရှိတယ်လို့ မတွက်နိုင်ဘူး တွမ်" အမေသည် ထိုင်ရာမှ ထကာ မီးဖိုဆီသို့ သွားသည်။ အဂတ်စတစ်စကို ယူ၍ ရေနွေးအိုးထဲ နှစ်ကာ ပြန်ယူလာပြီး တွမ့်အား လှမ်းပေးသည်။ "ရော့ ဒီမှာ၊ မင်း မျက်နှာပေါ်တင်"

တွမ်က ရေနွေးဂတ်ဖြင့် သူ့နှာခေါင်းနှင့် ပါးမှ ဒဏ်ရာများအပေါ် အုပ်ပေးသည်။ "အမေ ကျုပ် ကနေ့ညပဲ ထွက်သွားမယ်၊ ကျုပ်အပြစ်ကို အမေတို့အားလုံးအပေါ် မကျစေချင်ဘူး"

အမေက ဒေါသတကြီးဖြင့် ပြန်ပြောသည်။ "ဒီမယ် တွမ်၊ မင်းအယူအဆကို အမေ လုံးဂ နားမလည်ဘူး၊ မင်း ထွက်သွားလို့ ငါတို့မှာ သက်သာသွားလိမ့်မယ်လို့ မင်း ထင်နေသလား၊ မထင်နဲ့၊ ငါတို့မှာ ပိုပြီး ဒုက္ခရောက်မှာ" အမေသည် လေသံကို နှိမ့်လိုက်ပြီး စကားကို ဆက်ပြောပြန်သည်။ "အမေတို့အနေနဲ့ ကိုယ့်မြေ ကိုယ့်ယာပေါ်မှာ နေခဲ့ရတဲ့အချိန် တစ်ချိန်ရှိခဲ့ဖူးတယ် မဟုတ်လား၊ အဲဒီတစ်ချိန်တုန်းကတော့ အမေတို့မှာ အကန့်အသတ် နယ်နမိတ်ဆိုတာ ရှိခဲ့တယ်၊ လူအိုတွေက သေကြတယ်၊ သူတို့နေရာမှာ လူငယ်တွေ ဝင်လာကြတယ်၊ ဒါပေမယ့် ဘာတွေပဲ ဖြစ်နေဖြစ်နေ အမေတို့ အားလုံးဟာ တစ်ခုတည်းပဲ ရှိတယ်၊ အမေတို့ဟာ မိသားစု တစ်စုတည်းပဲ၊ တစ်စုတည်းဆိုမှ တစ်စုတည်းပဲ ရှိတယ်၊ အင်မတန်မှ ပြတ်သားတယ်၊ ပီပြင်တယ်၊ အခုကျတော့ မိသားစုဆိုတဲ့ အဆောက်အအုံဟာ မပြတ်သားတော့ဘူး၊ အရင်ကလို ပီပီပြင်ပြင်လည်း မရှိတော့ဘူး၊ ဟိုတုန်းကလို ပီပြင် ပြတ်သာနေနိုင်မယ့် အခြေအနေမျိုးလည်း မရှိတော့ဘူး၊ အယ်လ်ကို မင်းကြည့်စမ်း၊ ဒီမိသားစုထဲက ခွဲထွက်ပြီး သူ့ဘာသာသူ တစ်ယောက်တည်း

နေဖို့လောက်သာ အမြဲ စဉ်းစားနေတယ်၊ ဦးလေးဂျွန်ကျတော့လည်း နောက်ကပဲ မှီကပ်ပြီး လိုက်နေတယ်၊ မင်းအဖေ အဖေဂျုတ်ကျတော့လည်း နေရာပျောက်ပြီ၊ သူဟာ အိမ်ထောင်စုရဲ့ အကြီးအကဲနေရာမှာ မရပ်တည်နိုင်တော့ဘူး၊ မိသားစုတစ်စုလုံး ဖြည်းဖြည်းခြင်း ပြိုကွဲနေတယ် တွမ်၊ အခုဆိုရင် မိသားစုဆိုတာ မရှိတော့ဘူး၊ ပြီးတော့ ရိုစာဟန်ကို ကြည့်"

အမေက နောက်သို့ လှည့်ကြည့်သည်။ အမေ့မျက်လုံးများသည် ရိုစာဟန်၏ မျက်လုံးများနှင့် ရင်ဆိုင်မိကြသည်။ "ရိုစာဟန်မှာ မကြာခင် ကလေးတစ်ယောက် မွေးတော့မယ်၊ ဒါပေမယ့် သူတို့မှာ မိသားစုဆိုတဲ့ အဆောက်အအုံဟာ ရှိမှာ မဟုတ်တော့ဘူး၊ အမေက မိသားစုဆိုတာ ရှိစေချင်တယ်၊ ရှိနေအောင်လည်း အမေ ကြိုးစားချင်တယ်၊ အမေတော့ ဘယ်လိုလုပ်ရမယ်ဆိုတာ မပြောတတ်တော့ပါဘူးကွယ်၊ ဂင်းဖီးကို မင်း လေ့လာကြည့် ပါလား၊ သူ ဘာဖြစ်လာမလဲ၊ စဉ်းစားကြည့်၊ ဘယ်လောက်များ ရိုင်းစိုင်း နေသလဲ၊ ရူသီကော ဘာထူးလဲ၊ ရိုင်းတာပဲ၊ တကယ့် တိရစ္ဆာန်တွေနဲ့ တူနေပြီ၊ ယုံကြည် အားထားစရာ ဆိုတာလည်း ဘာတစ်ခုမှ မရှိတော့ဘူး၊ မသွားပါနဲ့ တွမ်ရယ်၊ အမေတို့နဲ့ အတူနေပြီး ကူညီပါဦး"

"ကောင်းပါပြီ အမေ" တွမ်က ပင်ပန်းနွမ်းနယ်နေသော အသံဖြင့် ပြန်ပြောသည်။ "အမေပြောတာ မှန်ပါတယ်၊ ကျုပ် မသွားသင့်ဘူး၊ ကျုပ် အမေပြောတာကို သဘောပေါက် ပါတယ်"

အမေသည် မီးဖိုနာ ပြန်သွားပြီး သံပန်းကန်ပြားများကို ဆေးနေသည်။ "မင်း ညက မအိပ်ခဲ့ရဘူး မဟုတ်လား"

"မအိပ်ခဲ့ရဘူး"

"အခု တစ်ရေးအိပ်လိုက်ပါလား၊ မင်း အဝတ်အစားတွေလည်း ရေစိုနေတယ်၊ အမေ ညှစ်ပြီး မီးဖိုဘေးမှာ လှန်းထားပေးမယ်" ဟု အမေသည် အလုပ်ကို လက်စ သတ်လိုက်သည်။ "ကဲ အမေသွားပြီး မက်မွန်သီး ဆွတ်လိုက်ဦးမယ် ရိုစာဟန်၊ တစ်ယောက်ယောက်လာမေးရင် တွမ် ဖျားနေတယ် ပြော၊ အမေပြောတာ ကြားလား၊ ဘယ်သူ့ကိုမှလည်း အိမ်ထဲ မဝင်စေနဲ့၊ ကြားလား" ရိုစာဟန်က ခေါင်းညိတ်သည်။ "အမေတို့ မွန်းတည့်ချိန်လောက်မှာ ပြန်ရောက် မယ်၊ မင်းကလည်း တစ်ရေးတစ်မောတော့

အိပ်လိုက်ဦး တွမ်၊ အမေတို့ ကနေ့ည ဒီက ထွက်ချင် ထွက်ဖြစ်မှာ” အမေက တွမ့်အနီးသို့ သွားရပ်သည်။ “တွမ်၊ မင်း တိတ်တိတ်ကလေး ထွက်သွားမှာလား”

“မသွားပါဘူး အမေရယ်”

“တကယ်မသွားဘူးနော်”

“မသွားဘူး အမေ၊ စိတ်ချ၊ ကျုပ် ဒီမှာပဲ ရှိမယ်”

“အေးကွယ်၊ ဒါဆိုရင် ကောင်းပါတယ်၊ ရိုစာဟန် အမေမှာတာတွေ မမေ့နဲ့၊” အမေသည် အခန်းထဲမှ ထွက်သွားပြီး အိမ်ရှေ့တံခါးကို အပြင်မှနေ၍ ပိတ်လိုက်၏။

တွမ်သည် သူ့အိပ်ယာပေါ်မှာ လှဲလျောင်းကာ မှိန်းနေသည်။ အိပ်ချင်စိတ် လှိုင်းလုံးများသည် သူ့အား ရိုက်ပုတ်လျက် ရှိသည်။ သို့သော်လည်း နစ်နစ်မြိုက်မြိုက် အိပ်မောကျသွားခြင်း မရှိ။ အိပ်တစ်ဂက် နိုးတစ်ဂက်။

“တွမ်”

“ဟင် ဘာလဲ” တွမ်သည် ဖျတ်ခနဲ နိုးလာသည်။ ရိုစာဟန်အား အိပ်မှုန်စုံမွှားဖြင့် လှမ်းကြည့်သည်။ ရိုစာဟန်၏ မျက်လုံးများသည် ရန်လိုစိတ်ဖြင့် တစ်လက်လက် တောက်နေကြ၏။ “ဘာလဲ၊ ဘာပြောချင်လို့လဲ ရိုစာဟန်”

“အစ်ကို လူတစ်ယောက် သတ်ခဲ့တယ်နော်”

“အင်း… အသံ သိပ်မကျယ်နဲ့ဟ၊ အိမ်နီးချင်းတွေ ကြားကုန်မယ်”

“ညီမ ဂရုစိုက်စရာ မလိုဘူး” ဟု ရိုစာဟန်က အော်ကျယ်ကျယ် ပြောသည်။ “ဟို မိန်းမကြီး ပြောသွားတယ်၊ ဘယ်လို အပြစ်ဒဏ်မျိုး သင့်မယ်ဆိုတာ သူ ပြောသွားတယ်၊ ညီမမှာ ကလေး ကောင်းကောင်းလေး မွေးဖွားနိုင်မယ့် အခွင့်အရေး ရှိနိုင်ပါဦးမလား၊ ကွန်နီကလည်း ထွက်သွားတယ်၊ ညီမမှာလည်း စားချင်တာ မစားရဘူး၊ အစားကောင်း အသောက်ကောင်း လုံးဂ မရဘူး၊ နွားနို့တောင်မှ မသောက်ရတဲ့ ဘဂ” ရိုစာဟန်၏ အသံတွင် ငိုသံပါလာသည်။ “အခုတစ်ခါ အစ်ကိုက လူတစ်ယောက်ကို သတ်လာပြန်ပြီ၊ ဘယ်လိုလုပ်ပြီး ကလေး ကောင်းကောင်းလေး မွေးနိုင်တော့မှာလဲ၊ ညီမ သိတယ်၊

ကိုယ်လက်အင်္ဂါ ချို့တဲ့တဲ့ ကလေးမျိုးပဲ မွေးမှာ သိလား၊ ညီမအနေနဲ့ကလည်း မကခဲ့ဘဲနဲ့ ဒီအဖြစ်မျိုး ဖြစ်မှာ"

တွမ်သည် အိပ်နေရာမှ ဆတ်ကနဲ ထထိုင်သည်။ "ရှူး" ဟု အချက်ပေးသည်။ "နင့်အသံကြောင့် လူတွေ ရောက်လာကုန်လိမ့်မယ် "

"ရောက်၊ ရောက်၊ ဘာဖြစ်လဲ၊ ညီမ ဂရုမစိုက်ဘူး၊ ကိုယ်အင်္ဂါချို့တဲ့တဲ့ ကလေးပဲ မွေးမှာ၊ ညီမ ဘယ်သူနဲ့မှလည်း ရင်ချင်းကပ်ပြီး မကခဲ့ဘူး သိလား"

တွမ်က ရိုစာဟန်အနီးသို့ တိုးသွားသည်။ "တိတ်တိတ်နေဟာ"

"အစ်ကို ညီမအနား မလာနဲ့၊ အစ်ကို လူသတ်တာ အခုဟာ ပထမဆုံးအကြိမ် မဟုတ်တော့ဘူး" ရိုစာဟန်၏ မျက်နှာသည် သူ့ကိုယ်သူ အစိုးမရတော့သည့် စိတ်အရှိန်ဖြင့် တဖြည်းဖြည်းချင်း နီရဲလာလျက်ရှိ၏။ သူ့နှုတ်မှ ထွက်လာနေသည့် စကားလုံးများကလည်း မပီမပြင် မသဲမကွဲ။ "အစ်ကို့မျက်နှာကို မကြည့်ချင်ဘူး သွား" ရိုစာဟန်သည် ခေါင်းကို စောင်ဖြင့် အုပ်ထားလေသည်။

ကျိတ်၍ ငိုကြွေးနေသည့် အသံကို တွမ် ကြားနေရသည်။ သူသည် နှုတ်ခမ်း ကိုက်ကာ ကြမ်းပြင်ကို ငေးစိုက်ကြည့်နေသည်။ ထို့နောက် အဖေဂျုတ်၏ အိပ်ယာဆီသို့ ထသွားသည်။ မွေ့ယာ၏ အစွန်းတစ်ဖက်အောက်တွင် ဂင်ချက်စတာ ၃၈ ရိုင်ဖယ် တစ်လက်။ တွမ်သည် သေနတ်ကို ကောက်ယူလိုက်ပြီး အထဲတွင် ကျည်ဆန်ရှိမရှိ မောင်းချိုးကြည့်သည်။ ပြီးတော့ ခလုတ်ကိုပါ စစ်ဆေးကြည့်သည်။ ထို့နောက် မွေ့ယာဆီသို့ ပြန်လာပြီး ရိုင်ဖယ်သေနတ်ကို မွေ့ယာဘေးမှာ ကပ်၍ ချထားသည်။ ရိုစာဟန်၏ ငိုသံမှာ စာစာကလောက် မကျယ်တော့။ တဖြည်းဖြည်း တိုး၍ တိုး၍ လာသည်။ နောက်ဆုံးတွင် ရှိုက်သံမျှလောက်သာ ကြားရ၏။ တွမ်သည် သူ့မွေ့ယာပေါ်၌ ပြန်လှဲပြီး စောင်ကို ပါးတစ်ဖက်မှ ဒဏ်ရာလုံသည်အထိ ဆွဲ၍ ခြုံလိုက်သည်။ ထို့နောက် သူသည် သက်ပြင်းတစ်ချက် ချလိုက်၏။

အပြင်ဘက် လမ်းမပေါ်၌ သွားလာ လှုပ်ရှားနေသည့် ကားသံများနှင့် စကားပြောသံ များသည် အိမ်အတွင်းသို့ လိမ့်ဝင်လာလျက် ရှိသည်။

"အားလုံး လူ ဘယ်နယောက်လဲ"

"သုံးယောက်၊ လုပ်ခက ဘယ်လောက် ပေးမှာလဲ"

"မင်းတို့ အိမ်နံပါတ် နှစ်ဆယ့်ငါးကို သွားကြ၊ နံပါတ်က တံခါးပေါ်မှာ ရေးထားတယ်"

"သွားမယ် မစ္စတာ၊ လုပ်ခ ဘယ်လောက် ပေးမှာလဲ"

"နှစ်ဆင့်ခွဲ"

"ဘာ ဘယ်လို၊ ဘာပြုလို့လည်း၊ လူတစ်ယောက် ညစာတစ်နပ်တောင် မစားနိုင်ဘူး"

"အဲဒါ တို့ပေးတဲ့ လုပ်ခပဲ၊ တောင်ဘက်ဒေသက လူနှစ်ရာ မကြာခင် ရောက်လာတော့မှာ၊ တို့အတွက် အလုပ်သမားကတော့ အလျှံပယ်ပဲ"

"ဒါပေမယ့်... ဘုရားသခင်က...၊ ဒီမှာ မစ္စတာ"

"သွားကြကွာ၊ သွားကြ၊ အလုပ် လုပ်မလား၊ လုပ်ရင်သွား၊ ဒါပဲ၊ မင်းတို့နဲ့ အငြင်းအခုံ လုပ်နေဖို့အချိန် ငါ့မှာ မရှိဘူး"

"ဒါပေမယ့်"

"ဒီမှာ ငါပြောမယ်၊ လုပ်ခကို ငါ သတ်မှတ်တာ မဟုတ်ဘူး၊ ငါက မင်းတို့ လူအရေအတွက်ကို စစ်ဆေးရုံ သက်သက်ပဲ၊ တကယ်လို့ အလုပ်လိုချင်ရင် လက်ခံ၊ မလိုချင်ရင် ဒီက ပြန်ထွက်၊ မင်းခရီး မင်းဆက်၊ ဒါပဲ"

"ခင်ဗျား အခုနက ပြောတ နံပါတ် နှစ်ဆယ့်ငါး၊ ဟုတ်လား"

"ဟုတ်တယ်၊ နှစ်ဆယ့်ငါး"

တွမ်သည် မွေ့ယာပေါ်တွင် မှိန်းလျက် ရှိသည်။ အသာကလေး ကျိတ်၍ လှုပ်ရှားလိုက်သော အသံတစ်သံသည် သူ့ပအား နှိုးလိုက်သလို ဖြစ်သွား၏။ သူ့လက်သည်

ရှိင်ဖယ်သေနတ်ပေါ်သို့ ရောက်သွားပြီး တင်းကျပ်စွာ ဆုပ်ကိုင်ထားသည်။ ကျန်လက်တစ်ဖက် သည် သူ့မျက်နှာပေါ်မှ အုပ်ထားသည့် စောင်ကို ဆွဲခွာသည်။ ရှိစာဟန်သည် သူ့မွေ့ယာဘေး ရပ်လျက်ရှိ၏။

"ဘာလုပ်ချင်လို့လဲ " ဟု တွမ်က မေးသည်။

"အစ်ကို အိပ်နေလို့" ဟု ရှိစာဟန်က ပြောသည်။ "အစ်ကို အိပ်ပျော်သွားတာ၊ ညီမ တံခါးဂက စောင့်ပေးမယ်လေ၊ ဘယ်သူမှ မလာစေရဘူး "

တွမ်က ရှိစာဟန်၏ မျက်နှာကို အတန်ကြာမျှ စေ့စေ့ကြည့်၍ အကဲခတ်နေသည်။ "အေး ကောင်းသားပဲ " ဟု ပြန်ပြောသည်။ ထို့နောက် စောင်ကို ဆွဲ၍ သူ့မျက်နှာကို ဖုံးအုပ်လိုက်လေသည်။

နေဂင်ဖျိုးဖျ မှောင်စပျိုးချိန်တခါင် အမေ အိမ်ပြန်ရောက်လာသည်။ သူသည် အိမ်ရှေ့ လှေကားခုံမှ ရပ်ကာ တံခါးကို အသာအယာ ခေါက်သည်။ အိမ်ထဲမှ တွမ်က သောက မဖြစ်စေရန်အတွက် အပြင်မှနေ၍ "အမေပါ" ဟု အသံပြုသည်။ သူသည် တံခါးတွန်းဖွင့်ကာ လက်တွင် အိတ်တစ်လုံးကို ဆွဲ၍ အိမ်ထဲသို့ ဂင်လာသည်။ အိပ်ယာမှ နိုးလာသော တွမ်သည် မွေ့ယာပေါ် ဖျတ်ခနဲ ထထိုင်သည်။ သူ့ဒဏ်ရာမှာ ခြောက်သွေ့တင်းမာလျက် ရှိသဖြင့် အနာမဆာမရှိသည့် အသားများမှာ ပြောင်တင်းလျက် ရှိ၏။ သူ့ ဘယ်လက်မျက်လုံးများမှာ ပိတ်လုမခန်း ဖြစ်နေလေပြီ။ "တို့သွားနေတုန်း ဘယ်သူ လာသေးလဲ " ဟု အမေက မေးသည်။

"မလာဘူး" ဟု တွမ်က ဖြေသည်။ "ဘယ်သူမှ မလာဘူး၊ လုပ်ခတော့ လျှော့ချလိုက်ပြီ မဟုတ်လား "

"မင်း ဘယ်လိုလုပ်ပြီး သိတာလဲ "

"အပြင်ဘက်မှာ သူတို့ပြောနေတာကို ကျုပ် ကြားတယ် "

ရှိစာဟန်က အမေ့မျက်နှာကို မော့ကြည့်သည်။

တွမ်က ရှိစာဟန်အား လက်ညှိုးထိုးပြသည်။ "သူက ပြဿနာရှာချင်တယ် အမေ၊ ဒုက္ခအားလုံးဟာ သူ့အပေါ်မှာချည်း ပုံကျလိမ့်မယ်လို့ တွေးနေတယ်၊ ကျုပ်ရှိလို့ သူ့မှာ စိတ်ထိခိုက်နေရမယ်ဆိုရင်တော့ မကောင်းဘူး အမေ၊ ကျုပ် ထွက်သွားမှ ကောင်းမယ်"

အမေက ရှိစာဟန်အား လှည့်ကြည့်သည်။ "နင် ဘာလုပ်တာလဲ"

ရှိစာဟန်က နာကြည်းသော လေသံဖြင့် ပြန်ပြောသည်။ "အခုလို ဖြစ်နေပုံမျိုးနဲ့ သမီး ဘယ်လိုလုပ်ပြီး ကလေးကောင်း မွေးနိုင်မှာလဲ"

"တိတ်စမ်း၊ အခုချက်ချင်း ပါးစပ်ပိတ်ပြီး တိတ်တိတ်နေစမ်း၊ နင် ဘယ်လို ခံစားနေရတယ်ဆိုတာ ငါ သိတယ်၊ နားလည်လား၊ နင် ဘယ်လိုမှ မတတ်နိုင်ဘူး ဆိုတာလည်း ငါ သိတယ်၊ ဒါပေမယ့် နင့်ပါးစပ်ကို ပိတ်ထားဖို့က အရေးကြီးတယ်"

အမေသည် တွမ့်ဘက်သို့ ပြန်လှည့်လိုက်သည်။ "သူ့ကို ခေါင်းထဲ ထည့်ပြီး စဉ်းစားမနေနဲ့ တွမ်၊ ဒါမျိုးက သိပ် ပြောရခက်တယ်၊ အမေ့မှာ သားသမီးရှိတုန်းက အဖြစ်ကို အမေ ကောင်းကောင်း မှတ်မိတယ်၊ ကလေး ကိုယ်ဝန်နဲ့လူဟာ ဘယ်သူက ဘာပြောပြော ဘာလုပ်လုပ် သူ့ကိုပြောတယ် လုပ်တယ်ချည်း ထင်နေတာပဲ၊ အဲဒီတော့ အကောင်းဆုံးက သူ ဘာပြောနေနေ ဂရုမစိုက်နဲ့၊ သူ ဒီအချိန်မျိုးမှာ ဒီလိုပဲ ခံစားရတာမို့ သူလည်း ပြင်လို့ရမှာ မဟုတ်ဘူး"

"ကျုပ်က သူ့စိတ်ကို မထိခိုက်စေချင်လို့ပါ"

"တော်ပြီ၊ မပြောနဲ့တော့" အမေသည် လက်ထဲမှ အိတ်ကို သံမီးဖိုပေါ်သို့ ချလိုက်သည်။ "အမေ ပြောပြီးပါပကောလား၊ အမေတို့ ဒီက သွားတော့မယ်လို့၊ တွမ်ရေ အမေ့ကို ထင်းနည်းနည်းလောက် ခွဲပေးပါ၊ အို မင်း လုပ်နိုင်မှာ မဟုတ်သေးဘူး၊ ဩော် ဒီသေတ္တာတစ်လုံးတော့ ကျန်သေးတယ်၊ ဖျက်ပြီး ချိုးဖဲ့ပေးစမ်း၊ မီးမွှေးရအောင်၊ အိမ်က လူတွေကိုတော့ မှာခဲ့တာပဲ၊ အပြန်ကျရင် ထင်းခြောက်ကောက်ခဲ့ဖို့၊ ဒီနေ့တစ်ညတော့ ဆီကြော်မုန့်နည်းနည်း ထပ်လုပ်ပြီး သကြား ဖြူးစားကြမယ်"

တွမ်က ထသွားပြီး သေတ္တာကို ဖျက်၍ တစ်စစီ ချိုးဖွဲ့ပေးသည်။ အမေက ထင်းစများဖြင့် မီးမွှေးသည်။ ရေနွေးအိုးတွင် ရေအပြည့်ထည့်ပြီး မီးဖိုပေါ် လှမ်းတင်သည်။ ခဏမျှ အကြာတွင် ရေနွေးဆူသံကို ကြားရလေ၏။

"ကနေ့ မက်မွန်သီးခူးတာ ဘယ်လိုလဲ၊ အဆင်ပြေရဲ့လား" တွမ်က မေးသည်။

အမေသည် အိတ်ထဲမှ ပြောင်းဆန်ကို ခွက်တစ်ခွက်ဖြင့် ခပ်ယူလိုက်သည်။ "အမေ ဒီအကြောင်းကို ပြောချင်စိတ် မရှိဘူး၊ ဒီမယ် တွမ် အဝတ်တစ်ခုကို ရေအေးဆွတ်ပြီး မင်း မျက်နှာပေါ်က ဒဏ်ရာတွေကို အုပ် အုပ်ပေးဦး" ဟု အမေက ပြောသည်။

အမောင်ထုသည် နက်ရှိုင်းလာသည်။ အမေက မုန့်အိမ်ကို ထွန်းပြီး သံဇုတ် တစ်ခုတွင် ချိတ်လိုက်၏။ ပြီးတော့ မီးဖိုထဲသို့ ထင်းထပ်ထိုးကာ အသင့် လုပ်ထားသည့် ပြောင်းဆန်မုန့်များကို ရေနွေးအိုးထဲသို့ လှမ်းထည့်သည်။ "ရိုစာဟန် ညည်း မုန့်လုပ်တတ်တယ် မဟုတ်လား" ဟု မေးသည်။

အပြင်မှ ဒရောသောပါး ပြေးလာသည့် ခြေသံများ။ တံခါးသည် ပုန်းကနဲ ပွင့်သွားပြီး နံရံကို ဒိုင်းကနဲ ပြေးရိုက်သည်။ အမောတကောနှင့် ဝင်လာသူမှာ ရူသီ။ "အမေ" ရူသီက အမေ့ကို အော်ခေါ်သည်။ "အမေ ဝင်းဖီး သတိမေ့လဲသွားလို့"

"ဟဲ့ ဘယ်မှာလဲ၊ ပြောစမ်း"

ရူသီက ချက်ချင်း အဖြေမပေးနိုင်။ ပြေးလာရသဖြင့် မောလျက် ရှိသည်။ "မျက်နှာတွေ ဖြူဖွေးပြီး လဲကျသွားတာ၊ သူ မက်မွန်သီးတွေ အများကြီး စားတယ် အမေ၊ တစ်နေ့လုံး စားနေတာ၊ နောက်တော့ လဲကျသွားရော"

"ငါ့ကို လိုက်ပြစမ်း၊ ဘယ်မှာလဲ" ဟု အမေက ထပ်မေးသည်။ "ရိုစာဟန် မုန့်အိုးကို ကြည့်ထားစမ်း"

အမေသည် ရူသီနှင့်အတူ အပြင်သို့ ထွက်လိုက်သွားသည်။ သူသည် ရှေ့မှ ပြေးလွှားနေသော ရူသီ၏နောက်မှ အပြေးအလွှား လိုက်လျက် ရှိ၏။ အမှောင်ထုကြားမှ လူသုံးယောက်သည် အမေ့ဆီသို့ လာလျက်ရှိသည်။ အလယ်လူသည် ဝင်းဖီးကို

ပွေ့လာသည်။ အမေသည် ထိုလူစုထံသို့ ပြေးသွားသည်။ "ကျွန်မသား၊ ဒါ ကျွန်မသား၊ ပေးပေး ကျွန်မကို ပေး"

"ကျုပ် ခင်ဗျားဆီကို လာပို့တာပါပဲ"

"မဟုတ်ဘူး၊ ကျွန်မကို ပေးပါ" အမေသည် ထိုလူ၏ လက်ထဲမှ ဝင်းဖီးကို ဖွတ်အတင်း ပွေ့ပြီး အိမ်ဘက်သို့ သယ်လာသည်။ ထို့နောက် ချက်ချင်းပင် သတိပြန်ဝင်လာသည်။ လူသုံးယောက်ဘက် လှည့်၍ "ကျေးဇူးတင်ပါတယ်ရှင်" ဟု လှမ်းပြောသည်။

"ရပါတယ်၊ ကလေးက အတော် အားနည်းနေတယ်၊ သံရှိနေသလိုပဲ"

အမေသည် အိမ်ဘက်သို့ သုတ်သီးသုတ်ပျာ လျှောက်သည်။ ဝင်းဖီးမှာ အမေ့လက်ထဲတွင် ပျော့တီးပျော့ခွေ ဖြစ်လျက် ရှိသည်။ အိမ်ထဲရောက်သောအခါ မွေ့ယာတစ်ခုပေါ်သို့ အလိုက်သင့် ချလိုက်၏။ "အမေ့ကို ပြောစမ်း၊ မင်း ဘာဖြစ်တာလဲ" ဟု အမေက မေးသည်။ ဝင်းဖီးက မျက်လုံးများ ဖွင့်ကြည့်ပြီး ခေါင်းယမ်းသည်။ ထို့နောက် မျက်လုံးများကို ပြန်မှိတ်ထားသည်။

ရူသီက ဝင်ပြောသည်။ "သမီးပြောခဲ့တယ်လေ၊ သူ မက်မွန်သီးတွေ အများကြီး စားတယ်"

အမေသည် ဝင်းဖီး၏ခေါင်းကို စမ်းကြည့်သည်။ "သူ ဖျားတာတော့ မဖျားဘူး၊ ဒါပေမယ့် တစ်ကိုယ်လုံး ဖြူဖွေးနေတယ်၊ သွေး မရှိတော့သလိုပဲ"

တွမ်က အနီးသို့ လျှောက်လာပြီး မုန့်အိမ်ကို မြှောက်၍ ကြည့်သည်။ "ကျုပ်သိတယ် အမေ၊ အစာမဝလို့ ဖြစ်တာ၊ အားမရှိတော့ဘူး၊ နွားနို့တစ်ဘူးလောက် တိုက်လိုက်ရင် ကောင်းမယ်၊ ဒါမှမဟုတ်လည်း မုန့်ကို နွားနို့ဆမ်းပြီး ကျွေးပေါ့"

"ဝင်းဖီး" ဟု အမေက ခေါ်သည်။ "မင်း အခု ဘယ်လိုနေသလဲ၊ အမေ့ကို ပြောစမ်း"

"မူးတယ်" ဟု ဝင်းဖီးက ဖြေသည်။

အဖေဂျုတ်၊ ဦးလေးဂျွန်နှင့် အယ်လ်တို့ ရောက်လာကြသည်။ သူတို့ လက်ထဲတွင် ထင်းခြောက်များ တစ်ပွေ့တစ်ပိုက်စီ ပါလာသည်။ သူတို့သည် လက်ထဲမှ ပွေ့လာသော ပစ္စည်းများကို မီးဖိုဘေး၌ ချထားလိုက်ကြလေသည်။ "အခုဟာက ဘာဖြစ်နေတာတုန်း" ဟု အဖေဂျုတ်က မေးသည်။

"ဝင်းဖီးလေ၊ နေမကောင်းလို့၊ နွားနို့နည်းနည်းပါးပါးတော့ တိုက်ဖို့ လိုလိမ့်မယ်"

"ဘုရားသခင် ကယ်တော်မူပါ၊ နွားနို့က ငါတို့အားလုံး သောက်ဖို့လိုနေတဲ့ ပစ္စည်းလေ"

"ဒီနေ့ ဘယ်လောက်ရခဲ့သလဲ"

"တစ်ဒေါ်လာနဲ့ လေးဆယ့်နှစ်ဆင့်"

"ဒီလိုဆို ဆိုင်ကိုသွားပြီး နွားနို့တစ်ဘူး ဝယ်ပါ၊ ဝင်းဖီးကို တိုက်ရမယ်"

"သူ ဘာကြောင့်များ နေမကောင်း ဖြစ်ရတာတဲ့လဲဗျာ"

"ဘယ်သိမလဲ၊ နေမကောင်းတာတော့ အမှန်ပဲ၊ ကဲပါ၊ သွားဝယ်လိုက်စမ်းပါ" ဟု အဖေဂျုတ်သည် ညည်းညည်းညူညူနှင့် ထွက်သွားသည်။ "မုန့်တွေ ကြည့်ရဲ့လား" ဟု အမေက ရိုစာဟန်အား လှမ်းမေးသည်။

"ကြည့်တယ် အမေ"

"မေ့င်တဲ့အထိ အလုပ်လုပ်တာတောင်မှ ဆီကြော်မုန့်ပဲ စားရမှာလား အမေ" ဟု အယ်လ်က မကျေမနပ်သံဖြင့် ပြောသည်။

"အမေတို့ ဒီက သွားမှ ဖြစ်တော့မယ်ဆိုတာ မင်း အသိသားနဲ့ကွယ်၊ အမေတို့ ဒီနေ့ရတဲ့ လုပ်ခနဲ့ ဓာတ်ဆီဝယ်ရမယ် မဟုတ်လား"

"ဒါပေမယ့်ဗျာ၊ အလုပ်လုပ်ရမယ့် လူတစ်ယောက်ဟာ အသားတော့ စားပေးဖို့ လိုတာပေါ့ဗျ"

"ငြိမ်ငြိမ်အေးအေး ထိုင်နေစမ်းပါ အယ်လ်ရယ်၊ အမေတို့အနေနဲ့ အရေးကြီးတာကို အရင် လုပ်ရမှာပေါ့။ အခု လောလောဆယ် ဘယ်ဟာ အရေးကြီးတယ်ဆိုတာ မင်းလည်း အသိပဲ"

"ကျုပ်ကိစ္စလား အမေ" ဟု တွမ်က မေးသည်။

"အစား စားတော့မှ ပြောကြတာပေါ့" ဟု အမေက ဖြေသည်။ "အမေတို့မှာ ဓာတ်ဆီ အလုံအလောက် ရှိရဲ့လား အယ်လ်"

"တိုင်ကီထဲမှာ လေးပုံ တစ်ပုံလောက် ရှိသေးတယ်" ဟု အယ်လ်က ပြောသည်။

"အမေ ကျုပ် မေးတာကို အခု ပြောပါလား" ဟု တွမ်က နားပူသည်။

"ပြီးမှ ပြောမယ်၊ ခဏစောင့်ဦး"

"မုန့်ကို ဆယ်လိုက်ဦး၊ ငါ ကော်ဖီ ထည့်ပေးမယ်၊ သကြားကို မုန့်ပေါ်မှာ ဖြူးစားချင်စား၊ ဒါမှမဟုတ် ကော်ဖီထဲ ထည့်သောက်ချင်သောက်၊ ကြိုက်တာတစ်ခုပဲ၊ သကြားကို နှစ်မျိုးလုံးအတွက်တော့ မရဘူး"

အဖေဂျုတ်သည် နို့ဘူးတစ်ဘူး ကိုင်၍ ပြန်ရောက်လာသည်။ "ဆယ့်တစ်ဆင့် တောင် ပေးရတယ်" ဟု အော့နလုံးနာသော လေသံဖြင့် ပြောသည်။

အမေက နို့ဘူးကို လှမ်းယူပြီး ဖောက်သည်။ ပြီးတော့ ပန်းကန်တစ်လုံးထဲသို့ လောင်းထည့်ကာ တွမ်အား လှမ်းပေးသည်။ "ဝင်းဖီးကို ပေးလိုက်စမ်း တွမ်"

တွမ်က မွေ့ယာဘေးတွင် ဒူးထောက်၍ ထိုင်လိုက်သည်။ "ရော့ ဒီမှာ၊ သောက်လိုက်"

"ကျုပ် မသောက်နိုင်ဘူး၊ အန်လိမ့်မယ်"

တွမ်က ထိုင်နေရာမှ ပြန်ထလိုက်သည်။ "အခုချက်ချင်းတော့ သူ သောက်နိုင်မှာ မဟုတ်ဘူး အမေ၊ ခဏနေမှ တိုက်ပေါ့"

အမေက ပန်းကန်ယူပြီး ပြတင်းပေါက်ပေါင်ပေါ် လှမ်းတင်ထားလိုက်သည်။ "ဒီခွက်ကို ဘယ်သူမှ ယူမသောက်ကြနဲ့နော်၊ ဝင်းဖီးဖို့ ထားတာ"

"သမီး နွားနို့ မသောက်ရတာ ကြာပြီ" ဟု ရိုစာဟန်က မကြည်သာသော မျက်နှာထားဖြင့် ပြောသည်။ "သမီးလည်း နည်းနည်း သောက်ရရင် ကောင်းမှာ"

"ငါ သိတယ်၊ ဒါပေမယ့် ညည်းက ညည်းခြေထောက်ပေါ်မှာ ရပ်နိုင်သေးတယ်၊ ဒီကလေးက အိပ်ယာပေါ်မှာ လဲနေပြီ၊ ညည်းလက်ထဲက မုန့်က စားမကောင်းလို့လား"

"ကောင်းပါတယ်"

"ဒါဆိုရင် ပြီးရောပေါ့၊ ကဲ စားကြမယ်၊ ရော့ ဟောဒီမှာ သကြား၊ တစ်ယောက်ကို တစ်ဇွန်းပဲ ရမယ်၊ မုန့်ပေါ်မှာ ဖြူးချင် ဖြူး၊ ကော်ဖီထဲ ထည့်ချင် ထည့်"

"ကျုပ်ကတော့ မုန့်ပေါ်မှာ ဆားဖြစ်ဖြစ် ငရုတ်ကောင်းဖြစ်ဖြစ် ဖြူးချင်တယ်" ဟု တွမ်က ဆိုသည်။

"ကြိုက်ရင်တော့ ဆားဖြူး၊ ငရုတ်ကောင်းတော့ ကုန်နေပြီ"

သေတ္တာအားလုံးမှာ ထင်းဖြစ်သွားခဲ့ပြီ ဖြစ်၍။ မိသားစုသည် မွေ့ယာများပေါ်၌ ထိုင်၍ စားကြသည်။ သူတို့သည် မုန့်ကို တစ်ခုပြီးတစ်ခု ယူ၍ စားကြသည်။ ဤသို့ဖြင့် အိုးထဲ၌ ပြောင်လုခမန်း ဖြစ်သွားခဲ့လေပြီ။ "ဝင်းဖီးဖို့ နည်းနည်းတော့ ချန်ထားကြဦး" ဟု အမေက သတိပေးသည်။

မွေ့ရာပေါ်တွင် ပက်လက်ဖြစ်နေသော ဝင်းဖီးသည် ကပျာကယာ ထထိုင်ပြီး နွားနို့ပန်းကန်ကို ယူ၍ အငမ်းမရ သောက်ချလိုက်သည်။ ထို့နောက် မုန့်အိုးကို ယူပြီး လက်ကျန်မုန့်များကို တစ်ခုပြီး တစ်ခု ယူ၍စားသည်။ အမေသည် ဘူးထဲမှ နွားနို့အကျန်ကို ပန်းကန်တစ်လုံးထဲ ထည့်ကာ ရိုစာဟန်အား ပေးသည်။ ပြီးတော့ ကော်ဖီကို ပန်းကန်လုံးများတွင် မျှ၍ ထည့်ကာ တစ်ယောက်စီ ဝေပေးသည်။

"ကဲ အမေ၊ ကျုပ်တို့ ဘာလုပ်မယ်ဆိုတာ ပြောတော့လေ၊ ကျုပ် သိချင်ပြီ" ဟု တွမ်က ပြောသည်။

"ရှုသီနဲ့ ဝင်းဖီးတို့ ကြားလို့ ဖြစ်ပါ့မလား၊ သူတို့ကို အပြင်ထွက်ခိုင်းထားရင် ကောင်းမယ် ထင်တယ်" ဟု အဖေဂျုတ်က အကြံပေးသည်။

"မထွက်ခိုင်းနဲ့၊ သူတို့လည်း နားထောင်ပစေ၊ သူတို့လည်း လူကြီးတွေ လုပ်ရမှာပေါ့၊ ဒီမှာ ရှုသီနဲ့ ဝင်းဖီးတို့ နှစ်ယောက်က ဒီမှာ ပြောသမျှ စကားတွေကို ဘယ်သူမှ သွားမပြော ရဘူး၊ သိလား၊ နင်တို့ ပါးစပ်မလုံရင် တို့အားလုံး ဒုက္ခဖြစ်မှာ"

"သမီးတို့ မပြောဘူး အမေ" ဟု ရှုသီက ဆိုသည်။

"ကောင်းပြီ၊ ငြိမ်ငြိမ် ထိုင်နေကြ"

ကော်ဖီ ပန်းကန်များသည် ကြမ်းပေါ်တွင် ဟိုတစ်ခွက် သည်တစ်ခွက်။ မှန်အိမ်မှ မီးတောက်သည် လိပ်ပြာတစ်ကောင် တောင်ပံခတ်နေသည့်နှယ် တဖျပ်ဖျပ် ခါလျက် ရှိလေသည်။

"ကဲ ပြော" ဟု တွမ်က စသည်။

အမေက အဖေဂျုတ်ကို လှမ်းကြည့်သည်။ "ကဲ အဖေဂျုတ် ရှင် ပြောပြပေတော့"

"ဒီလိုကွာ၊ မင်း ပြောတဲ့အတိုင်းပဲ၊ သူတို့ လုပ်ခကို လျှော့ချလိုက်ပြီ၊ လူသစ် အုပ်စုတွေကလည်း ရောက်လာတယ်၊ သူတို့ အုပ်စုကတော့ ငတ်ပြတ်နေတာ ဆိုတော့ ပေါင်မုန့် တစ်လုံးဖိုးလောက်ရလည်း လုပ်ကြမှာပဲ၊ ခြံထဲမှာ ရှိနေသမျှ အပင်အားလုံးကို တစ်ယောက်တည်း ခူးချင်တဲ့ ကောင်တွေချည်းပဲ၊ မက်မွန်ပင်ကို လုပြီး တစ်ယောက်နဲ့ တစ်ယောက် ဆော်ကြမယ့် အပေါက်ပဲ၊ ငါ့မျက်စိအောက်မှာပဲ တစ်ယောက်က မက်မွန်ပင် တစ်ပင်ကို ပြေးပြီး ဦးလိုက်တယ်၊ နောက် တစ်ယောက်က ဒါ သူ့အပင်လို့ ပြောတယ်၊ နောက်ဆုံး အပင်ကို လုရင်း ရန်ဖြစ်ကြရော၊ ဒီအုပ်စုက အယ်ဘ်စင်ထရိုးဘက်က ခေါ်လာတဲ့ အုပ်စု ဖြစ်မယ်လို့ ငါ ထင်တာပဲ၊ ငရဲသားတွေလို ငတ်ပြတ်နေတဲ့ ကောင်တွေပဲကွ၊ ပေါင်မုန့် တစ်လုံးဖိုးသာ ရမယ်ဆိုရင် တစ်နေ့လုံး လုပ်ကြမှာ၊ ငါက မက်မွန်သီး စစ်တဲ့ကောင်ကို ပြောတယ်၊ ကျုပ်တို့ လုပ်ခ နှစ်ဆင့်ခွဲနဲ့တော့ မလုပ်နိုင်ဘူးလို့၊ သူက မလုပ်နိုင်ရင် ထွက်ကြပေါ့၊ ဟိုလူတွေက လုပ်နိုင်နေပြီပဲလို့ ပြန်ပြောတယ်၊ ငါကလည်း ဒီကောင်တွေလည်း မကြာခင် စိတ်ပျက်ပြီး ထွက်ကုန်ကြမှာပေါ့ဗျာလို့

ပြန်ပြောတာပေါ့၊ သူက ပြန်ပြောတယ်၊ သူတို့ စိတ်မပျက်ခင် မက်မွန်သီး အားလုံး ရှုံးပြီးသွားမှာပါ၊ မပူပါနဲ့တဲ့"

"အလုပ်ကတော့ တကယ့် မကောင်းဆိုးရွား မလုပ်မျိုးပါကွာ" ဟု ဦးလေးဂျွန်က ဝင်ပြောသည်။ "သူတို့က ပြောတယ်၊ ကနေ့ည နောက်ထပ် လူနစ်ရာ ရောက်လာလိမ့်ဦးမယ်တဲ့"

အဖေဂျုတ်သည် တစ်ခဏမျှ ငြိမ်ဆိတ်ကာ တွေဝေ စဉ်းစားလျက် ရှိသည်။ "တွမ် မင်း ဟိုကောင်ကို အသေလုပ်ခဲ့တာ မဟုတ်လား"

"သေတယ် ထင်တာပဲ၊ သေသေချာချာ မမြင်ခဲ့ရဘူး၊ စိတ်ထဲကလည်း သေတယ်လို့ သိနေတယ်"

"ဒီအကြောင်းကို သိပ်ပြီး ပြောကြဆိုကြတာတော့ မကြားဘူးကွ" ဟု ဦးလေးဂျွန်က ပြောသည်။ "ဒါပေမဲ့ လက်သည်ကို မိရင်တော့ လက်စားချေဖို့ ပြောနေကြတယ်"

တွမ်က ကလေးနှစ်ယောက်၏ အခြေအနေကို လှည့်ကြည့်ပြီး အကဲခတ်သည်။ သူတို့ကတော့ မျက်တောင်ပင် မခတ်ဘဲ ငေးကြည့်နေကြလေသည်။ တွမ်က လူကြီးများ ဘက်သို့ ပြန်လှည့်လိုက်သည်။ "အမှန်က သူက စလုပ်တာ၊ ကက်ဆီကို သူက သတ်ပြီးမှ သူ့ကို ကျုပ်က လုပ်တာ"

"အခု ပြောနေကြတာက မင်း ပြောသလို မဟုတ်ဘူး၊ မင်းတို့ဘက်က အရင် စလုပ်တာတဲ့"

တွမ်က သက်ပြင်းတစ်ချက် ချလိုက်သည်။

"သူတို့က တို့ဘက်က အများလို့ လူတွေ ထင်လာအောင် ပြောနေကြတာပဲ၊ ငါ ကြားရသမျှတော့ ဒါပဲ၊ တို့လူတွေ အပေါ်မှာ အပြစ်ကျအောင်ပဲ ပြောနေကြတာ၊ သတ်သွားတဲ့ ကောင်ကို မိအောင် ဖမ်းဖို့လည်း ကြိုးစားနေကြတယ်"

"သတ်သွားတဲ့ လူရဲ့ရုပ်ကို မှတ်မိတယ်လို့ကော ပြောကြသေးသလား " ဟု တွမ်က မေးသည်။

"အင်း အတိအကျတော့ မပြောကြဘူး၊ ဒါပေမဲ့ သတ်သွားတဲ့ကောင်မှာ ဒဏ်ရာ ရသွားတယ်လို့တော့ သူတို့က ထင်နေကြတယ်၊ ပြီးတော့ သူတို့ ထင်တာက ဒီအကောင်ကို .."

"ပြောစမ်းပါ၊ မြန်မြန်၊ သူတို့က ဘာပြောကြသလဲ " ဟု အမေက ထ အော်သည်။

"ဖြည်းဖြည်းလုပ်ပါ အမေရာ " ဟု တွမ်က ဖျောင်းဖျသည်။ "ဘာပဲဖြစ်ဖြစ်ပေါ့ဗျာ၊ လုပ်ခဲ့တဲ့ လူကတော့ တာဝန်ရှိတာပေါ့၊ ဒါပေမဲ့ သူ့အနေနဲ့ သူ ကျူးလွန်ခဲ့တဲ့ အပြစ်ကြောင့် ကြိုးပေးသတ်တာလည်း မခံချင်ဘူး၊ သူ့အပေါင်းအသင်း မိတ်ဆွေတွေနဲ့ မိသားစု အပေါ်မှာလည်း ပြဿနာ မဖြစ်စေချင်ဘူးဆိုရင် သူ ဘာလုပ်မလဲ၊ ဒါကိုတော့ စဉ်းစားရမှာပေါ့၊ အဲဒီတော့.. အမေ ကျုပ် သွားမှ ဖြစ်မယ် "

အမေသည် သူ့ပါးစပ်ကို လက်ဝါးဖြင့် ကာပြီး ချောင်းဟန့်လိုက်သည်။ "ဘယ်နည်းနဲ့မှ မင်း သွားလို့ မဖြစ်ဘူး" ဟု ပြောသည်။ "ပုန်းနေဖို့ကလွဲပြီး တခြား နည်းလမ်း မရှိဘူး၊ ပုန်းပြန်ရင်လည်း မင်း ယုံကြည်စိတ်ချရမယ့်လူ တစ်ဦးမှ မရှိဘူး၊ မင်း ယုံကြည် အားကိုးနိုင်မယ့်လူဟာ ငါတို့ပဲ ရှိတယ်၊ တို့ကတော့ မင်းကို ဖွက်ထားပေးနိုင်တယ်၊ မင်းမျက်နှာက ဒဏ်ရာတွေ ပျောက်သွားတဲ့အထိ မင်းကို ပြုစု စောင့်ရှောက်ထားနိုင်တယ် "

"ဒါပေမဲ့ အမေ..."

အမေက ထိုင်ရာမှ ထရပ်လိုက်သည်။ "မင်း မသွားရဘူး၊ မင်းကို ငါတို့ ခေါ်သွားမယ်၊ အယ်လ် ထရပ်ကားကို အိမ်ရှေ့တံခါးဝထိ ဖင်ထိုး၊ ငါ စဉ်းစားလို့ရထားတာ ရှိတယ်၊ ကားပေါ်မှာ အောက်ဆုံးက မွေ့ရာတစ်ခု ခင်းမယ်၊ တွမ်က ဘေးလူတွေ မမြင်အောင် ကပျာကယာ ထွက်ပြီး အဲဒီ မွေ့ရာပေါ်မှာနေ၊ ငါတို့က ကျန်တဲ့ မွေ့ရာတွေကို ခေါက်တဲ့ဟာ ခေါက် လိပ်တဲ့ဟာ လိပ်ပြီး ဘေးနဲ့ အပေါ်က ဝိုင်းချပေးမယ်၊ ဒါဆိုရင် သူ ဂူတစ်ခုထဲ ပုန်းနေသလို ဖြစ်သွားရောပေါ့၊ ပြီးတော့မှ အပေါ်နဲ့ ဘေးက တခြား ပစ္စည်းတွေ

တင်မယ်၊ သူ့ကို လုံသွားအောင် ဘေးက နံရံတွေ ကာပေးသလို ဖြစ်သွားနိုင်တယ်၊ ဟုတ်ဖူးလား၊ ဘာမှ စကားများမနေကြနဲ့၊ အခု ငါ ပြောတဲ့အတိုင်းသာ လုပ်ကြ”

“အခြေအနေကတော့ ယောကျ်ားတစ်ယောက် စကား ပြောပိုင်ခွင့် မရှိတော့တဲ့ အခြေအနေမျိုးပဲကွာ ဟင်း” ဟု အဖေဂျုတ်က ရေရွတ်သည်။ “အားလုံး အခြေတကျနဲ့ တည်တည်ငြိမ်ငြိမ် ဖြစ်သွားတဲ့အချိန် ရောက်တော့မှာပါ။ အဲဒီအချိန်ကျရင် ဒီကောင်မကြီး ကို လိမ့်ပြီး ရိုက်ပစ်လိုက်ဦးမယ် ”

“တော်ပြောတဲ့ အချိန်ရောက်ရင် တော်ကြိုက်သလို လုပ်နိုင်တယ် ” ဟု အမေက ပြောသည်။ “ကဲ အားလုံးထ၊ လုပ်စရာရှိတာ မြန်မြန်သွက်သွက် လုပ်ကြ၊ အတော် မှောင်လာပြီ ”

အယ်လ်သည် ထရပ်ကားကို အိမ်ရှေ့ လှေကားခုံနား ကပ်မိသည်အထိ ဘက်ခ်ဆုတ်၍ ဖင်ထိုးလိုက်၏။

အမေက လှမ်းပြောသည်။ “မြန်မြန် လုပ်၊ ဟို မွေ့ရာကို ယူခဲ့၊ တင် ”

အဖေဂျုတ်နှင့် ဦးလေးဂျွန်တို့သည် မွေ့ရာတစ်ခုကို ကားပေါ်သို့ တင်သည်။ “ကဲလာ ဒီဟာကို မ” ဟု အမေက ပြောသည်။ သူတို့နှစ်ယောက်က ဒုတိယ မွေ့ရာကို ဟိုဘက်ထိပ် သည်ဘက်ထိပ်မှ ကိုင်၍ မထုတ်ကြသည်။ “ကဲ ထ တွမ်၊ ဒီမွေ့ရာအောက်က ဝင်ပြီးလိုက်၊ မြန်မြန်သွား ”

တွမ်က မွေ့ရာအောက်မှ အသာဝပ်၍ လိုက်ကာ ကားပေါ်သို့ ဖျတ်ခနဲ ခုန်တက်လိုက်သည်။ အသင့်ချထားသည့် မွေ့ရာပေါ်၌ ဝင်ထိုင်သည်။ အဖေဂျုတ်နှင့် ဦးလေးဂျွန်တို့က သူတို့ လက်ထဲမှ မွေ့ရာဖြင့် အပေါ်မှ အုပ်ပေးလိုက်သည်။ ထို့နောက် အဖေဂျုတ်၊ အယ်လ်ဂျုတ်နှင့် ဦးလေးဂျွန်တို့သည် ကျန်ပစ္စည်းများကို သွက်လက် လျင်မြန်စွာ တင်ကြသည်။ တွမ်၏ ဂူပေါ်မှာ အခြား မွေ့ရာများနှင့် စောင်များ အစုလိုက် အပုံလိုက် တင်ကြသည်။ ဘေးပတ်ပတ်လည်မှ ရေပုံးများ၊ အိုးခွက် ပန်းကန်များနှင့် အခြား ပစ္စည်းများကို ရံ၍ ချကြသည်။ ပစ္စည်းအားလုံး တင်၍ ပြီးလုချိန်နီးတွင် အစောင့် တစ်ယောက် သူတို့အနီးသို့ ကပ်လာလေသည်။

"ဘာလုပ်နေကြတာလဲ " ဟု သူက မေးသည်။

"ကျုပ်တို့ သွားကြတော့မလို့ " ဟု အဖေဂျုတ်က ဖြေသည်။

"ဘာပြုလို့လဲ "

"အလုပ် ရမယ်ဆိုလို့၊ အလုပ်က အလုပ်ကောင်း "

"ဟုတ်လား၊ ဘယ်မှာလဲ"

"ဝိဒ်ပက်ချ်ဘက်မှာ "

"နည်းနည်းပါးပါး ကြည့်ရအောင်" သူသည် လက်နိပ်ဓာတ်မီးဖြင့် အဖေဂျုတ်၏ မျက်နှာကို ထိုးကြည့်သည်။ ထို့နောက် ဦးလေးဂျွန်နှင့် အယ်လ်။ "မင်းတို့နဲ့ ပါလာတာ တစ်ယောက် ရှိသေးတယ်လေ၊ သူကော"

"ဩော် ဟိုကားကြုံစီးလာတဲ့ လူကို ပြောတာလား၊ အရပ်ပုပု မျက်နှာက ဖြူဖပ်ဖြူရော်နဲ့လေ" ဟု အယ်လ်က ပြန်မေးသည်။

"အေး ဟုတ်တယ်၊ သူ့ပုံက မင်း ပြောတဲ့အတိုင်းပဲ ထင်တယ်"

"ကျုပ်တို့နဲ့ လမ်းမှာ တွေ့လို့ တင်လာတာ၊ လုပ်ခနှုန်း လျှော့လိုက်တာနဲ့ ကနေ့မနက်ပဲ ထွက်သွားတယ် "

"သူ့ပုံပန်းက ဘယ်လိုကွ "

"အရပ်ပုပု၊ မျက်နှာက ဖြူဖပ်ဖြူရော်"

"ကနေ့မနက် သူ့မျက်နှာမှာ ဒဏ်ရာတွေ ဘာတွေ မတွေ့မိဘူးလား"

"ကျုပ်တော့ ဘာမှ မတွေ့မိဘူး" ဟု အယ်လ်က ပြောသည်။ "အခုအချိန် ဓာတ်ဆီဆိုင် ဖွင့်သေးသလား"

"ဖွင့်တာပေါ့ ရှစ်နာရီထိုးအထိ ဖွင့်တယ်"

"ကဲ ကားပေါ်တက်ကြတော့" ဟု အယ်လ်က အော်ခေါ်သည်။ "တကယ်လို့ မိုးမလင်းခင် ဝိဒ်ပက်ချ်ကို ရောက်ရင် ခရီးဆက်နိုင်တာပေါ့၊ အမေက ရှေ့ခန်းမှာ ထိုင်"

"အမေ နောက်မှာပဲ ထိုင်မယ်၊ အဖေဂျုတ်ရေ ရှင်လည်း နောက်မှာပဲ ထိုင်နော်၊ ရိုစာဟန်ကို အယ်လ်တို့ ဦးလေးဂျွန်တို့နဲ့အတူ ရှေ့ခန်းမှာ ထိုင်ခိုင်း"

"အဖေ့ဆီက လုပ်ခစာရွက် ကျုပ်ကို ပေးထား" ဟု အယ်လ်က တောင်းသည်။ "ဆီဆိုင် ရောက်ရင် ပေးရမှာ"

အစောင့်သည် လမ်းမပေါ်အတိုင်း တလှုပ်လှုပ် ရွေ့လျားပြီး ဓာတ်ဆီဆိုင်ရှိရာ ဘယ်ဘက်လမ်းထဲသို့ ချိုးဝင်သွားသော ထရပ်ကားကို မျက်စိတစ်ဆုံး ကြည့်၍ ကျန်ခဲ့လေ၏။

"နစ်ဂါလန် ထည့်ဗျာ" ဟု အယ်လ်က လှမ်းပြောသည်။

"သိပ် ဝေးဝေးသွားမှာ မဟုတ်ဘူး ထင်တယ်"

"မသွားဘူး၊ ခရီးဝေးသွားမှာ မဟုတ်ဘူး၊ ဒီလုပ်ခ စာရွက်နဲ့ ဓာတ်ဆီဖိုး ရှင်းရင် ရတယ် မဟုတ်လား"

"အင်း ဖြစ်မယ်တော့ မထင်ဘူး"

"ဒီမယ် မစ္စတာ၊ ကျုပ်တို့ ကနေ့ညသာ ဟိုကို ရောက်သွားရင် အလုပ် ချက်ချင်းရမှာ၊ ဒီညသာ ရောက်မသွားရင် အလုပ်က လက်လွတ်မှာ သေချာတယ်၊ ကျုပ်တို့ကို ကူညီပါဗျာ"

"ရပါတယ်၊ လုပ်ခ စာရွက်ပေါ်မှာ မင်း လက်မှတ်တော့ ထိုးခဲ့"

အယ်လ်က ကားပေါ်မှ ဆင်းကာ ထရပ်ကား ခေါင်းရှေ့၌ ရပ်သည်။ "ထိုးပေးမယ်လေ" ဟု ပြောသည်။ သူသည် ရေတိုင်ကီ အဖုံးကို ဖွင့်၍ ရေထပ်ဖြည့်သည်။

"နစ်ဂါလန် ဟုတ်လား"

"ဟုတ်တယ်၊ နစ်ဂါလန်"

"မင်းတို့ ဘယ်ဘက်ကို သွားကြမှာလဲ"

"တောင်ဘက်၊ ဟိုမှာ အလုပ်ရမယ်"

"အင်း ကောင်းတယ်၊ အလုပ်ကလည်း သိပ်ရှားတာပဲကွာ၊ အခု ရမှာက အမြဲတမ်း အလုပ်လား"

"ဟိုမှာ မိတ်ဆွေတစ်ယောက် ရှိတယ်" ဟု အယ်လ်က ပြောသည်။ "အလုပ်က ကျုပ်တို့ကို စောင့်နေတဲ့ သဘောပဲ၊ ကဲ သွားတော့မယ်" ထရပ်ကားသည် ဖုန်ထူထူ လမ်းအတိုင်း ဆောင့်ကြီးအောင့်ကြီး ပြေးသွားပြီး ကျောက်လမ်းမအတွင်းသို့ ဝင်သည်။ အားနည်းလှသော ရှေ့မီးနစ်လုံးမှ အလင်းရောင် ဖျော့ဖျော့သည် လမ်းမပေါ်သို့ ထိုးကျသွားလျက် ရှိ၏။ ညာဘက် မီးလုံးသည် ဖွင့်လိုက်မှိတ်လိုက်နှင့် တောက်လျှောက် မျက်တောင်ခတ်လျက် ရှိလေသည်။ ကားလှုပ်တိုင်း ဆောင့်တိုင်း ကားနောက်ထဲမှ အိုးများနှင့် ပန်းကန်များသည် အချင်းချင်း ထိမိ ခိုက်မိကာ မြည်သံမျိုးစုံ ထွက်လျက် ရှိကြ၏။

ရိုစာဟန်ထံမှ ခပ်သဲ့သဲ့ ညည်းသံ ထွက်လာသည်။

"ဘာဖြစ်လို့လဲ၊ နေရတာ ဆိုးသလား" ဟု ဦးလေးဂျွန်က မေးသည်။

"ဟုတ်တယ်၊ တစ်ချိန်လုံး နေရတာ မသက်သာဘူး၊ နေရာကောင်းလေး တစ်ခုမှာ အခြေတကျ နေရရင် သိပ်ကောင်းမှာပဲ၊ ကိုယ့်အရပ် ကိုယ့်ဒေသက ထွက်မလာမိရင် အကောင်းသား၊ ဟိုမှာဆိုရင် ကွန်နီလည်း အခုလို ထွက်သွားမှာ မဟုတ်ဘူး၊ သူ ပညာတစ်ခုခု သင်ပြီး တစ်နေရာရာမှာ အခြေစိုက်လို့ ရနေလောက်ပြီ" အယ်လ်နှင့် ဦးလေးဂျွန်တို့က ဘာထင်မြင်ချက်မှ မပေး။ သူတို့သည် ကွန်နီ အကြောင်းကို စဉ်းစားကာ စိတ်နောက်ကျို ရှုပ်ထွေးလျက် ရှိကြလေသည်။

ထရပ်ကားသည် ခြံအဝင် ဂိတ်ပေါက်သို့ ရောက်လာသည်။ ဂိတ်စောင့်သည် ကားဘေးကို လာရပ်သည်။ "ဘယ်သွားကြမှာလဲ"

"မြောက်ဘက်ကို၊ အလုပ်ရမှာမို့ သွားတာ"

အစောင့်က လက်နိပ်ဓာတ်မီးဖြင့် ထရပ်ကားကို ထိုးကြည့်သည်။ ထို့နောက် ကားနောက်ထဲသို့ လျှောက်၍ ထိုးကြည့်နေပြန်သည်။ အမေနှင့် အဖေဂျုတ်တို့သည် လက်နိပ်ဓာတ်မီးမှ ထွက်လာသော မီးရောင်ကို ဆီး၍ ကြည့်နေကြသည်။ အစောင့်၏ နှုတ်မှ "သွားနိုင်ပြီ" ဟူသော အသံ ထွက်လာပြီး ဂိတ်တံခါး ဖွင့်ပေးသည်။ ထရပ်ကားသည် ဘယ်ဘက်သို့ ချိုးကွေ့ပြီး မြောက်မှ တောင်သို့ သွားရာ အမှတ် ၁၀၁ အဝေးပြေး လမ်းမကြီးပေါ်သို့ တက်သွားလေ၏။

"ငါတို့ အခု ဘယ်သွားမယ် ဆိုတာကော မင်း သိရဲ့လား" ဟု ဦးလေးဂျွန်က အယ်လ်အား မေးသည်။

"မသိဘူး" ဟု အယ်လ်က ပြောသည်။ "ကားမောင်းပြီး ခြေဦးတည့်ရာ လျှောက်သွားနေတာ သက်သက်ပဲ၊ ကြာတော့ ဒီအလုပ်ကို ကျုပ် ရွံလာတယ်၊ စက်ဆုပ်လာတယ်၊ အော့နလုံး နာလာတယ်၊ သောက်မြင်ကတ်လာတယ်ဗျာ"

"ငါလည်း မွေးခါနီးပြီ" ဟု ရိုစာဟန်က ပြောသည်။ "နေစရာ နေရာ ကောင်းကောင်းတစ်ခု ရှိနေရင် ကောင်းမှာပဲ"

ဆီးနှင်းခဲများ ပါးလာစ ပြုနေပြီ ဖြစ်သော ညလေသည် ရိုးတွင်းခြင်ဆီ ခိုက်အောင် အေးစိမ့်လျက် ရှိ၏။ လမ်းဘေးတစ်လျှောက်ရှိ သစ်ပင်များဆီမှ သစ်ရွက်များသည် ကြွေစ ပြုနေကြလေပြီ။ ကားနောက်ထဲတွင်မူ အမေသည် တစ်ဖက်ဘေးသို့ ကျောမှီ၍ ထိုင်လျက် ရှိ၏။ အဖေဂျုတ်ကတော့ အမေနှင့် မျက်နှာချင်းဆိုင်မှ ထိုင်ကာ ငေးမောလျက် ရှိလေသည်။

"မင်း နေရတာ အဆင်ပြေရဲ့လား တွမ်" ဟု အမေက မေးသည်။

တွမ်၏ မပီမသ အသံသည် အတွင်းမှ ထွက်လာသည်။ "နည်းနည်းတော့ မွန်းတာပေါ့ အမေရာ၊ ကျုပ်တို့ ဟိုခြံထဲက ထွက်လာကြပြီလား"

"သတိတော့ ထားကွယ်၊ ကားကို ဆီးပြီး တားချင် တားမှာ" ဟု အမေက သတိပေးသည်။

တွမ်သည် သူ့အပေါ်မှ အုပ်ထားသည့် မွေ့ရာစကို လက်နှင့်တွန်း၍ မ ထားလိုက်သည်။ ကားထဲမှ အိုးသံ ခွက်သံများသည် အဆက်မပြတ် ထွက်ပေါ်လာလျက် ရှိ၏။ "အရေးအကြောင်းဆိုရင် အမြန်ဆုံး ပြန်ချလိုက်လို့ ရတယ် အမေ၊ စိတ်မပူနဲ့" ဟု တွမ်က လှမ်းပြောသည်။ "အခုလိုကြီး နေရတာတော့ ကျုပ် မကြိုက်ဘူးဗျာ" ဟု ညည်းသည်။ "အပြင်မှာ အတော့်ကို အေးနေတယ်နော် "

"တိမ်တွေ ရှိနေတယ်ကွ " ဟု အဖေဂျုတ်က ပြောသည်။ "လူတွေကတော့ ဒီနှစ် ဆောင်းရာသီ စောစော ဝင်လိမ့်မယ်လို့ ပြောနေကြတာပဲ "

"ရှဉ့်သိုက်တွေ အမြင့်ကြီး လုပ်သလား၊ မြက်သီးတွေကော ကြွေကုန်ပြီလား " ဟု တွမ်က မေးသည်။ "အံ့စရာပဲဗျာ၊ ကိုယ့်ပတ်ဝန်းကျင်မှာ ရှိနေတဲ့ အရာဝတ္ထုတွေကို ကြည့်ပြီး ရာသီဥတုအခြေအနေကို ပြောလို့ ရတယ်နော် "

"ကျုပ်တို့ ဘယ်ကို ဦးတည်ပြီး သွားနေကြတာလဲ "

"ငါလည်း မသိဘူး၊ အယ်လ်က ကားကို ဘယ်ဘက်ချိုးတာဆိုတော့ ငါတို့ လာခဲ့တဲ့ လမ်းအတိုင်း ပြန်တယ် ထင်တာပဲ"

"ဘယ်လိုလုပ်ရင် အကောင်းဆုံး ဖြစ်မလဲဆိုတာ ကျုပ်လည်း စဉ်းစားလို့ မရတော့ဘူး၊ အခုလို အဝေးပြေး ကားလမ်းမကြီးအတိုင်း သွားနေမယ် ဆိုရင်တော့ ပုလိပ်တွေနဲ့ ခဏခဏ တွေ့ဖို့လမ်း ရှိနေတယ်လို့ ထင်တာပဲ၊ ကျုပ် မျက်နှာက ဒဏ်ရာတွေ မြင်ရင်တော့ ကျုပ်ကို ဆွဲမှာပဲ၊ အဲဒီတော့ ဖြစ်နိုင်ရင် တောလမ်းတွေအတိုင်း သွားရင် ကောင်းမယ်"

"ကားကို ထုပြီး အသံပေးလိုက်လေ၊ အယ်လ်ကို ကားရပ်ခိုင်းပြီး ပြောမှပေါ့"

တွမ်က ကားရှေ့နံရံကို လက်သီးနှင့် ထုသည်။ ထရပ်ကားသည် လမ်းဘေးသို့ ချ၍ ရပ်သည်။ အယ်လ်သည် ကားပေါ်မှ ဆင်းကာ နောက်ဘက်သို့ လျှောက်လာသည်။ ရှုသီနှင့် ဝင်းဖီးတို့က စောင်ခြုံကို လှပ်၍ အပြင်သို့ ချောင်းကြည့်သည်။

"ဘာလဲဗျာ " ဟု အယ်လ်က မေးသည်။

"ဘယ်လိုလုပ်ရင် ကောင်းမယ်ဆိုတာ အမေတို့ စဉ်းစားမိလို့ကွယ့်၊ အမေတို့ တောလမ်းဘက်က သွားရင် ကောင်းမယ် ထင်တယ်၊ တွမ်က အဲသလို ပြောနေတယ် "

"ငါ့မျက်နှာကြောင့်ကွ " ဟု တွမ်က ပြောသည်။ "မျက်နှာမြင်ရင် ဘယ်သူမဆို သိမှာ၊ အထူးသဖြင့် ပုလိပ်တွေပေါ့ကွာ "

"ဒီလိုဆိုရင် ဘယ်ဘက်ကို သွားချင်သလဲ၊ ကျုပ်တို့ အခု မြောက်ဘက်ကို သွားနေတာ၊ ကျုပ်တို့ လာတာက တောင်ဘက်က "

"မင်း အခုသွားတာ ဟုတ်ပါတယ်" ဟု တွမ်က ဆိုသည်။ "ဒါပေမဲ့ တောလမ်းတွေက သွားဖို့ ပြောတာပါ "

"ကျုပ်တို့ တစ်နေရာရာမှာ နားပြီး အိပ်ဦးမှ ဖြစ်မယ်၊ ဒါမှ မနက်ဖြန် ခရီးဆက်လို့ ရမှာ၊ အဲဒါကော စဉ်းစားပြီးကြပြီလား" ဟု အယ်လ် မေးသည်။

အမေက ကပျာကယာ ဝင်ဖြေသည်။ "အခု နားလို့ မဖြစ်သေးဘူး၊ ခရီး တော်တော်ရောက်အောင် မောင်းပါဦး "

"ကောင်းပြီလေ " ဟု အယ်လ်က ကားပေါ်သို့ ပြန်တက်ပြီး ဆက်မောင်းသည်။

ရှုသီနှင့် ဝင်းဖီးတို့သည် သူတို့ ခေါင်းများကို စောင်နှင့် ပြန်ဖုံးလိုက်ကြသည်။ "ဝင်းဖီးကော နေလို့ ကောင်းရဲ့လား " ဟု အမေက လှမ်းမေးသည်။

"နေလို့ ကောင်းသွားပြီ အမေ၊ သူ ဘာမှ မဖြစ်တော့ဘူး" ရှုသီက ဝင်ဖြေသည်။ "သူ အိပ်လာတာ "

အမေက စောစောကလို ကားဘေးကို ကျောနှင့် ပြန်မှီလိုက်သည်။ "အခုလို ရှောင်ပုန်းပြီး ထွက်ပြေးနေရတာ စိတ်ထဲမှာ ခံစားနေရတာ တစ်မျိုးကြီးပဲ၊ ကျွန်မတော့ သိမ်ငယ်လာသလိုပဲ "

"လူတိုင်း သိမ်ငယ်နေတာပဲ ဟ" ဟု အဖေဂျုတ်က ပြောသည်။ "နင် တစ်ယောက်တည်း မဟုတ်ပါဘူး၊ လူတိုင်းပါ၊ ဟိုရန်ပွဲကို နင် ကနေ့ မြင်ခဲ့သားပဲ၊

လူတွေဟာ ပြောင်းလဲကုန်ပြီ၊ ဘာပဲဖြစ်ဖြစ် အစိုးရ ကယ်ဆယ်ရေး စခန်းမှာ နေရတုန်းကတော့ သိမ်ငယ်စိတ် မဝင်ခဲ့တာ အမှန်ပဲ”

အယ်လ်သည် သူ့ကားကို ညာဘက်သို့ ချိုးကာ ကျောက်စရစ်ခင်း လမ်းပေါ်သို့ မောင်းဝင်လာခဲ့လေသည်။ ကားမီးရောင်သည် လမ်းပေါ်ဝယ် ရုပ်တိုက် ပြေးလျက် ရှိ၏။ အခုကျတော့လည်း သစ်သီးပင်များကို မမြင်ရတော့ပြီ။ သစ်သီးပင်များ၏ နေရာတွင် ဝင်ပင်များက ဝင်ရောက်၍ နေရာယူလျက် ရှိကြလေပြီ။ သူတို့ကားသည် ဝါခင်းများကြားမှ ဖြတ်၍ ကွေ့၍ ချိုး၍ ပတ်လျက် တောလမ်းများအတိုင်း မိုင်နှစ်ဆယ် ဝင်လာခဲ့သည်။ လမ်းသည် ချုံနွယ်ပိတ်ပေါင်းများ ထူထပ်စွာ ပေါက်ရောက်လျက်ရှိသော ချောင်းငယ် တစ်ခုနှင့် အပြိုင် ဖြစ်လျက် ရှိ၏။ ကားသည် ကွန်ကရိတံတား တစ်ခုကို ဖြတ်ကာ တစ်ဖက်သို့ ရောက်လာသည်။ ချောင်း၏ အစွန်းတစ်ဖက်ပေါ်တွင် ဘီးမပါသည့် မော်တော်ကား ဘော်ဒီများသည် မှုန်ပျပျ အလင်းရောင် အောက်ဝယ် တန်းစီလျက် ရှိကြသည်။ ဆေးနီရောင် သုတ်ကာ လူနေအိမ်များအဖြစ် ပြုပြင် ဖန်တီးထားသော ကားဘော်ဒီ အိမ်များပေတည်း။ လမ်းမ၏ အစွန်းတစ်ဖက်တွင်မူ ဝါကောက် အလုပ်သမားများ အလိုရှိသည် ဟူသော ဆိုင်းဘုတ်ကြီး တစ်ခု။ အယ်လ်က ထရပ်ကား အရှိန်ကို လျှော့လိုက်သည်။ တွမ်သည် ကား၏ ဘေးကာကြားရှိ အပေါက်မှ အပြင်သို့ ချောင်းကြည့်လျက် ရှိသည်။ နှစ်ဖာလုံခန့် သွားမိသောအခါ တွမ်က ကားကို နောက်မှ ခေါက်၍ အချက်ပေးပြန်သည်။ အယ်လ်သည် ထရပ်ကားကို လမ်းဘေးသို့ချ၍ ရပ်ကာ ဒုတိယအကြိမ် ဆင်းလာပြန်လေ၏။

“ကဲ ဘာလုပ်ချင်ပြန်လို့လဲ ”

“စက်ကိုရပ်ပြီး မင်း ဒီကိုခဏ တက်ခဲ့ကွာ ”

အယ်လ်က ကားပေါ်သို့ ပြန်တက်ပြီး ကားကို လမ်းဘေး မြောင်းစပ်အထိ မောင်းချလိုက်သည်။ ပြီးတော့ မီးများကိုပိတ်၍ စက်ကို သတ်လိုက်၏။ ထို့နောက် ကားနောက်မြီးမှ ခို၍ တက်လိုက်လေသည်။ “ကဲ ဘာလုပ်ကြမလဲ ” ဟု မေးသည်။

တွမ်သည် တစ်ခုပေါ်တစ်ခု ထပ်၍ တင်ထားသော ပစ္စည်းပုံ အောက်မှတွား၍ ထွက်လာပြီး အမေ့ရှေ့၌ ဒူးထောက်၍ ထိုင်သည်။ “ကျုပ် တစ်ခုပြောမယ် အမေ” ဟု စကား စသည်။ “ဟို ဆိုင်းဘုတ်မှာ ဝါကောက်သမား အလိုရှိသည်လို့ ရေးထားတယ်

မပာတ်လား၊ အဲဒါ မြင်တော့ ကျုပ် အကြံတစ်ခု ရတယ်၊ ကျုပ်အမေတို့ကို ဒုက္ခမပေးဘဲ အမေတို့နဲ့ အတူတူ နေသွားနိုင်တဲ့ နည်းတစ်ခု စဉ်းစားလို့ ရလာတယ်၊ ကျုပ် မျက်နှာက ဒဏ်ရာပျောက်သွားရင် ကျုပ်လည်း အဆင်ပြေသွားနိုင်တယ်၊ ဒါပေမဲ့ အခု လောလောဆယ်တော့ မဖြစ်သေးဘူးပေါ့၊ ဟိုနောက်ဘက်မှာ ကားတွေ ရပ်ထားတာ တွေ့တယ် မပာတ်လား၊ အဲဒီ ကားတွေထဲမှာ ဝါကောက်တဲ့ အလုပ်သမားတွေ နေကြတာဗျ၊ အလုပ်က အဲဒီနေရာမှာပဲ ရှိနေပုံ ရတယ်၊ အမေတို့ အဲဒီမှာ အလုပ်ရပြီး အဲဒီ ကားတွေထဲမှာ နေရမယ်ဆိုရင် ဘယ်လို သဘောရသလဲ ”

“မင်းကတော့ ဘယ်လို နေမှာလဲ ” ဟု အမေက မေးသည်။

“ဟို ချောင်းကို အမေ မြင်တယ် မပာတ်လား၊ ချုံတွေ အများကြီးပဲ၊ ကျုပ်က အဲဒီ ချုံတွေထဲမှာ ပုန်းနေလို့ရတယ်၊ ညညကျတော့ အမေတို့က စားစရာ တစ်ခုခု လာပို့ပေး၊ ကျုပ် မြေအောက် ပွှန်ကြီးတစ်ခုကိုလည်း မြင်ထားတယ်၊ ကျုပ် အဲဒီပွှန်ကြီးထဲ ဝင်အိပ်ချင်တောင် ရချင်ရမှာ”

“ဘုရားသခင် ကျေးဇူးကြောင့် ငါ့လက်တွေနဲ့ ဝါပင်တွေ ထိတွေ့ရဦးတော့မှာ ပါကလား၊ ကိုယ် လုပ်နေကျ အလုပ်မျိုး လုပ်ရတာဟာ အင်မတန် ကျေနပ်စရာ ကောင်းတယ်ကွ ” ဟု အဖေဂျုတ်က ရေရွတ်သည်။

“ဟို ကားဘော်ဒီတွေကို မြင်ရတာတော့ နေလို့ ကောင်းမယ့် လက္ခဏာပဲ” ဟု အမေက ဆိုသည်။ သပ်သပ်ရပ်ရပ်နဲ့ သန့်သန့်ပြန့်ပြန့် ရှိတယ်၊ ချုံတွေထဲ မင်း လုံအောင် ပုန်းနိုင်ပါ့မလား တွမ်”

“ပုန်းနိုင်မှာပါ၊ ကျုပ် သေသေချာချာ ကြည့်ထားပြီးပြီ၊ နေရာကောင်းကောင်း တစ်ခုတောင် လုပ်ထားနိုင်လိမ့်ဦးမယ်၊ ကျုပ် မျက်နှာက ဒဏ်ရာပျောက်တော့၊ ကျုပ် အပြင်ထွက်လို့ ရမှာပေါ့”

“မင်း မျက်နှာမှာ အမာရွတ်ကြီးတော့ ထင်နေတော့မှာပဲ ” ဟု အမေက ပြောသည်။

“အိုဗျာ၊ လူတိုင်းမှာ အမာရွတ်တွေ ရှိကြတာပဲ၊ ဆန်းတာ မှတ်လို့”

"တချိန်တုန်းကဆိုရင် ငါ ဝါကောက်တာ တစ်ကြိမ်ကို ပေါင် လေးရာ အထိရတယ်၊ သိလား" ဟု အဖေဂျုတ်က ဆိုသည်။ "ဝါဟာ အလွန် အထွက်ကောင်းတဲ့ သီးနှံတစ်မျိုးပဲကွ၊ အခု ငါတို့ အားလုံးသာ ဝင်ကောက်လိုက်ရင် ငွေတော့ အထိုက်အလျောက် ရမှာ သေချာတယ် "

"ဒါဆိုရင် ကျုပ်တို့ အသားတော့ စားရမှာပဲ" ဟု အယ်လ်က ဆိုသည်။ "ကဲ အခု ကျုပ်တို့ ဘာလုပ်ကြမလဲ "

"နောက်ကို နည်းနည်း ပြန်ဆုတ်ကွာ၊ ကနေ့တစ်ညတော့ ထရပ်ကားထဲမှာပဲ အိပ်ကြမယ်၊ မနက်ကျမှပဲ အလုပ် သွားလုပ်ကြတာပေါ့၊ ဟုတ်ဖူးလား၊ အောင်မယ် မှောင်ကြီးထဲမှာတောင် ငါ့မျက်စိတွေက ဝါသီးတွေကို သဲသဲကွဲကွဲ မြင်နေရတယ် "

"တွမ်ကို ဘယ်လို လုပ်ကြမလဲ " ဟု အမေက မေးသည်။

"ကျုပ်ကို မေ့ထားလိုက်တော့ အမေ၊ ကျုပ် စောင်တစ်ထည် ယူသွားမယ်၊ အမေ နောက်ဘက်ကို လှမ်းကြည့်လိုက်စမ်း၊ မြေအောက်ပြွန်ကြီး တစ်လုံး၊ ဘယ်လောက် ကောင်းလဲ၊ အမေက ပေါင်မုန့်၊ အာလူး ဆီကြော်မုန့် တစ်ခုခု ယူလာပြီး အဲဒီအနားမှာ ချထားခဲ့၊ ကျုပ်က အသာကလေး ထွက်ယူမယ်"

"အင်း "

"အကြံတော့ မဆိုးဘူးလို့ ထင်ရတာပဲ " ဟု အဖေဂျုတ်က ပြောသည်။

"ဘယ်ဆိုးမလဲ" ဟု တွမ်က ပြန်ပြောသည်။ "မျက်နှာက အနာ နည်းနည်း သက်သာလာရင်တောင်မှ ကျုပ် အပြင်ထွက်ပြီး ဝါကောက်နိုင်မှာ "

"အေး ကောင်းသားပဲ " ဟု အမေ သဘောတူသည်။ "ဒါပေမဲ့ မင်း အတင့်ရဲလို့တော့ မဖြစ်ဘူး၊ အခု အခိုက်အတန့်မှာတော့ မင်းကို ဘယ်သူ့မှ မမြင်စေနဲ့ဦး"

တွမ်သည် နောက်ဘက်သို့ တွား၍ သွားသည်။ "ကျုပ် ဒီစောင်ကို ယူသွားမယ် အမေ"

"သတိထား သွားကွယ်" ဟု အမေက သတိပေးသည်။ "မင်း သတိတော့ ထားမှ"

"စိတ်ချပါ အမေရယ်" ဟု တွမ်က ကတိပေးသည်။ "ကျုပ် သတိထားပါ့မယ်" သူသည် ကားနောက်မြီးကို ခိုရ၍ အောက်သို့ ဆင်းသည်။ ပြီးတော့ ချောင်းကမ်းပါးအတိုင်း အောက်ဘက်သို့ ဖြည်းဖြည်းချင်း လျှောဆင်းသည်။ "မင်္ဂလာညပါ အမေ" ဟု နှုတ်ဆက်သည်။

အမေသည် အမှောင်ထုကြားတွင် တရွေ့ရွေ့ လှုပ်ရှားနေသော မှုန်ဝါးဝါး သဏ္ဌာန်ကို မျက်ခြည်မပြတ် ကြည့်လျက် ရှိသည်။ သဏ္ဌာန်သည် ချောင်း၏ တစ်ဖက်ကမ်းပါးပေါ်မှ ချုံများကြားသို့ တိုးဝင် ပျောက်ကွယ်သွားလေ၏။ "အို အဖ ဘုရားသခင်၊ အစစ အရာရာ အဆင်ပြေအောင် စောင့်ရှောက်တော်မူပါ" ဟု အမေက တိုးတိုးကလေး ကျိတ်၍ ဆုတောင်းသည်။

"ကားကို နောက်ဘက် ပြန်ဆုတ်ရတော့မလား အဖေ" ဟု အယ်လ်က မေးသည်။

"အေး" ဟု အဖေဂျုတ်က ဖြေသည်။

"ဖြည်းဖြည်း ဆုတ်ပါကွယ်" ဟု အမေက ဝင်ပြောသည်။ "သူ ပြောတဲ့ မြေအောက်ပြွန်ဆိုတာ ရှိ မရှိ အမေ သေချာအောင် ကြည့်ထားချင်လို့ပါ"

အယ်လ်က ထရပ်ကားကို နောက်သို့ ပြန်ဆုတ်သည်။ သူသည် ကားကို ကားဘော်ဒီ အိမ်တန်းများ အနီးသို့ ရောက်သည်အထိ ဖြည်းဖြည်းသာသာ မောင်းလာခဲ့၏။ ထရပ်ကား မီးရောင်ဖြင့် ကားဘော်ဒီ အိမ်တံခါး အဝများဆီသို့ သွားရာ လူသွား လမ်းကလေးများကို မြင်တွေ့နေရလေသည်။ တံခါးများသည် မှောင်မည်းလျက် ရှိနေကြ၏။ ညအမှောင်တွင် လှုပ်လှုပ်ရှားရှား လူရိပ်လူခြည် မမြင်ရ။ အယ်လ်သည် သူ့ထရပ်ကား မီးများကို မှိတ်လိုက်သည်။

"နင်နဲ့ ဦးလေးဂျွန်က ကားနောက်မှာ သွားအိပ်ကြ" ဟု အယ်လ်က ရိုစာဟန်ကို လှမ်းပြောသည်။ "ငါက ဒီဖင်ထိုင်ခုံမှာ အိပ်မယ်"

ဦးလေးဂျွန်က ရိုစာဟန်အား ကားနောက်မြီးမှ မ၍ တင်ပေးသည်။ အမေသည် အိုးခွက်များကို တစ်နေရာတွင် စုပုံထားလိုက်၏။ မိသားစုသည် ကား၏ နောက်ဘက် ကျကျတွင် တစ်ယောက်နှင့် တစ်ယောက် ပူးကပ်၍ အိပ်ကြသည်။

ကားဘော်ဒီ အိမ်တစ်လုံးဆီမှ ကလေးတစ်ယောက် ငိုသံ ကြားရသည်။ ခွေးတစ်ကောင်သည် တောက်တောက် တောက်တောက်နှင့် ထွက်လာပြီး ခေါင်းကို မော့၍ အန့်ခံသည်။ ထို့နောက် ဂျုတ်မိသားစု၏ ထရပ်ကားကို လှည့်ပတ်၍ သွားနေသည်။ ချောင်းငယ်ဆီမှ ရေစီးသံ သာသာသည် တိတ်ဆိတ်သော ညဥ့်ကို ဖောက်ထွင်း ထွက်ပေါ်လာလျက် ရှိလေ၏။

* * *

## အခန်း (၂၇)

ဝါကောက် အလုပ်သမားများ အလိုရှိသည်။ လူမြင်ကွင်း လမ်းဆုံ လမ်းခွများ၌ စိုက်ထူထားသည့် လမ်းပေါ်မှာ ကြော်ငြာ ဆိုင်းဘုတ်ကြီးများ။ ပြီးတော့ ပလူပျံနေအောင် ဝေငှထားသည့် လက်ကမ်း ကြော်ငြာ စာရွက်များ။ စာရွက်များ၏ အရောင်က လိမ္မော်ရောင်။ ဝါကောက် အလုပ်သမားများ အလိုရှိသည်။

ဤနေရာ၌ ရှိသည်။ ဤလမ်းအတိုင်း လိုက်ခဲ့ပါဟု ဆိုထားသည်။

အခုဆိုလျှင် အစိမ်းပုပ်ရောင် ဝါပင်များသည် အမျှင်များ တန်းနေကြလေပြီ။ ရင့်နေကြပြီ ဖြစ်သော အသီးများသည် ကွဲအက်လာကြလေပြီ။ ထို အကွဲအအက်များ အတွင်းမှ ပေါက်ပေါက်များနှင့် တူလှသည့် ဝါပွင့် ဖြူဖြူများသည် အသီးများ အတွင်းမှ အပြင်သို့ တိုးထွက်ကာ တွဲလဲခိုလျက် ရှိနေကြလေပြီ။

ကျုပ်တို့ လက်တွေနဲ့ ဝါသီးတွေကို ကိုင်ရမှာတော့ သိပ်သဘောကျသဗျာ။ လက်ချောင်း ထိပ်ဖျားကလေးတွေနဲ့ အသာကလေး ထိရတယ်။

ကျုပ်ဟာ ဝါကောက်သမားကောင်း တစ်ယောက်ပေ့ါဗျ။

ဒီမှာ လူရောက်နေပြီလေဗျာ။ ဒီမှာဗျ။

ကျုပ် ဝါကောက်မလို့။

အိတ်ပါရဲ့လား။

အင်း အဲ အိတ်တော့ ပါမလာဘူး။

အိတ်ဖိုး တစ်ဒေါ်လာ ကျမယ်။ မင်း ပထမဆုံးရမယ့် လုပ်ခထဲက ဖြတ်ယူမယ်။ ခူးစမှာ ဝါပွင့် ပေါင်တစ်ရာကို ဆင့်ရှစ်ဆယ် ပေးမယ်။ နောက်ပိုင်းကျတော့ ဆင့်ကိုးဆယ် ပေးမယ်။ ဟိုမှာ အိတ်။ ယူသွား။ အိတ်အတွက် တစ်ဒေါ်လာပေး။ တကယ်လို့ မင်းမှာ အခု လက်ငင်း ပေးစရာ တစ်ဒေါ်လာ မရှိရင် မင်း ပထမဆုံးရတဲ့ လုပ်ခထဲက ဖြတ်ယူမယ်။ ဒါ မျှမျှတတ လုပ်တာပဲ။ မင်း သိတယ် မဟုတ်လား။

ဟုတ်ပါတယ်။ မှူတပါတယ်။ ဝါပွင့်ထည့်မယ့် အိတ်ကတော့ တကယ့် အကောင်းစား အိတ်ပဲ။ ဥတုသုံးပါးခံတဲ့ အိတ်။ သုံးရပါများလို့ ပေါက်ပြဲသွားရင် ဟိုတစ်ဖက်ကို သုံးလို့ရတယ်။ အပေါက်ဘက်ကို ချုပ်ပြီး ပိတ်လိုက်။ စုတ်သွားတဲ့ ဖင်ဘက်ကို ဖွင့်ပြီး အပေါက်လုပ်လိုက်။ အပေါ်နဲ့အောက် ပြောင်းပြန်ထားပြီး သုံးတဲ့ သဘောပေါ့။ တကယ်လို့ နှစ်ဖက်စလုံး သုံးမရအောင် စုတ်သွားပြီ ဆိုပါတော့။ ဘာကြောင့် လွှတ်ပစ်မှာလဲ။ အင်မတန်ကောင်းတဲ့ အစ တစ်စပဲဟာ။ နွေရာသီမှာ ဝတ်ဖို့ အတွင်းခံ တစ်စတော့ ကောင်းကောင်း ချုပ်လို့ရတယ်။ ဒါမှမဟုတ်လည်း ညဝတ်အင်္ကျီ ချုပ်ဝတ်လို့ ရတယ်။ ဝါအိတ်က အိတ်အကောင်းစားကွ။

အိတ်ကြိုးကို မင်းခါးမှာ ချည်။ အိတ်ကို ခြေနှစ်ချောင်းကြားမှာ တွဲလောင်းချ။ အေး လမ်းလျှောက်ရင်တော့ ခြေနှစ်ဖက်ကို နည်းနည်းကားပြီး လျှောက်ရလိမ့်မယ်။ ဆွဲထားစမှာတော့ အိတ်က ပေါ့ပေါ့ကလေးပါ။ မင်း သွားရာနောက်ကို အလိုက်သင့်ကလေး ပါလာမှာပါ။ မင်းရဲ့ လက်ချောင်းထိပ်ကလေးတွေနဲ့ အသာအယာ ကိုင်ပြီး ဝါပွင့်ကို ဆွဲနုတ်။ ပြီးတော့ ခြေနှစ်ချောင်းကြားမှာ တွဲလောင်းလျှထားတဲ့ အိတ်ထဲကို ထည့်။ ချာတိတ်တွေ ကတော့ မင်းနောက်က လိုက်လို့ရတယ်။ သူတို့ကိုတော့ ဝါအိတ်ကြီး ပေးထားစရာ မလိုပါဘူး။ ဆာလာအိတ် သေးသေး တစ်လုံး ပေးထားပြီး ထည့်ခိုင်းပေါ့။ ဒါမှမဟုတ်လည်း မင်းအိတ်ထဲ လာပြီး ထည့်ခိုင်းပေါ့။ ဝါပွင့် အတော်များများ ရလာပြီ ဆိုရင်တော့ အိတ်က နည်းနည်း လေးလာပြီ။ အိတ်က စောစောကလို အလိုက်သင့် ပါမလာချင်တော့ဘူး။ ရှေ့ကို ခပ်တွဲတွဲ ကျပြီး လမ်းလျှောက်နေတဲ့ ခြေနှစ်ချောင်းကို ဟိုဘက်ရိုက်လိုက် သည်ဘက်ရိုက်လိုက်နဲ့ ကသိကအောက် ဖြစ်အောင် လုပ်လာတယ်။

အေး ဝါကောက်တဲ့ နေရာမှာတော့ ငါ့လက်က ပထမတန်းစားပါ။ ဝါကောက်ရင် စကားတပြောပြောနဲ့ ကောက်သွားလို့ ရတာပေါ့။ သီချင်းတကြော်ကြော် ဟစ်ပြီး ကောက်မယ်ဆိုလည်း ရတာပါပဲ။ ဝါကောက်တဲ့ အလုပ်မှာ လက်ချောင်းတွေက အဓိက။ ဒီအလုပ်က သူ့အလုပ်ပဲ။ လက်ချောင်းတွေက အထာ ကောင်းကောင်း သိနေတယ်။ မျက်လုံးတွေက အလုပ်ကိုတော့ မြင်ပါရဲ့။ နည်းကျတော့ မမြင်ဘူး။

ဝါပင်များကြားမှ စကားပြောသံများ။

တို့အရပ်မှာ မိန်းမတစ်ယောက် ရှိတယ်။ နာမည်တော့ မပြောတော့ပါဘူး။ သူက အမည်းလေးတစ်ကောင် မွေးတယ် သိလား။ အစကတော့ တို့လည်း မသိဘူး။ သူနဲ့ဖြစ်တဲ့ ငမည်းကောင်ကိုလည်း ငါတို့က မေးလား မြန်းလား မလုပ်တော့ပါဘူး။ သူ့အနေနဲ့ကတော့ ဘယ်မှာလာပြီး ခေါင်းထောင်နိုင်တော့မှာလဲ။ ဒါပေမဲ့ ငါပြောချင်တာက ဒီအကြောင်း မဟုတ်ပါဘူး။ အဲဒီ မိန်းမဟာ ဝါကောက်တဲ့ နေရာမှာ အလွန်တော်တဲ့ မိန်းမကွ။

အိတ်တော့ လေးလာပြီ။ တရွတ်တိုက် ဆွဲနေပြီ။ အိတ်ကို မင်းတင်ပါးပေါ်မှာ ခပ်မေးမေးတင်ပြီး ဆွဲသွားပေါ့။ ဝါကဖြင့် ကောင်းမှ ကောင်းပဲ။ ကယ်လီဖိုးနီးယားဝါလောက် ကောင်းတဲ့ ဝါအမျိုးအစားတော့ တစ်ခါမှ မတွေ့ဖူးသေးဘူး။ ချည်မျှင်ကလည်း အရှည်ကြီးပဲ။ သောက်ကျိုးနည်း ကောင်းတဲ့ ဝါ။ ငါ မြင်ဖူးခဲ့သမျှထဲမှာ အကောင်းဆုံးပဲ။ မြေဆီမြေနှစ်ကို အမြန်ဆုံး ခန်းအောင် လုပ်နိုင်တဲ့ကောင်ပေါ့။ ဝါစိုက်ဖို့များတော့ မြေမဝယ်လေနဲ့။ ငှားပြီး စိုက်။ တွက်ခြေကိုက်တယ်။ ဝါထွက် ကျသွားတဲ့ အခါကျရင် နောက်တစ်နေရာ ထပ်ငှားပြီး အသစ်သာ စိုက်။

လူတန်းကြီးများသည် ဝါခင်းများထဲတွင် တရွေ့ရွေ့ လှုပ်ရှားလျက် ရှိကြကုန်၏။ အလွန် ကျွမ်းကျင် လိမ္မာနေကြသော လက်ချောင်းများသည် ဝါသီးများအတွင်းသို့ ဝင်သွားလိုက် ပြန်ထွက်လာလိုက်။ သူတို့ မျက်လုံးများသည် ဘေးပတ်ဝန်းကျင်ကို မကြည့်အား။

တကယ်လို့ ကန်းနေရင်တောင်မှ ငါကတော့ ဝါကောက်နိုင်မှာပဲ။ တကယ် ပြောတာ။ လောင်းကြေးထပ်ပြီး ပြောရဲတယ်။ လက်ချောင်းထိပ်နဲ့ ဝါသီးကို ထိလိုက်တာနဲ့ အထာ ကောင်းကောင်းသိတယ်။ ကောက်ရင်လည်း ဝါပွင့်ကို မညစ်ပတ်စေရဘူး။ သန့်ပြန့်နေအောင် ကောက်ပြမယ်။

အခုဆို အိတ်ပြည့်သွားပြီ။ ချိန်တဲ့ ဒိုင်ကို ယူသွားတော့။ ချိန်တဲ့လူက အလေးချိန် စီးအောင် ဝါပွင့်တွေထဲမှာ ကျောက်ခဲတွေ ထည့်လာတယ်လို့ ပြောနေတယ်။ ဒီလူက ဘယ်လိုလူလဲ ဟ။ သူချိန်ပုံက ပုံသေကြီးပဲ။ တစ်ခါတစ်လေကျတော့လည်း သူ ပြောတာ မှန်ပါတယ်။ မင်းအိတ်ထဲမှာ ကျောက်ခဲတွေ ပါတယ်။ တစ်ခါတစ်လေကျတော့လည်း မင်းက မှန်တယ်။ ချိန်ခွင်က ညစ်တာ။ တစ်ခါတစ်ရံကတော့လည်း နှစ်ဖက်စလုံး မှန်တယ်။ နှစ်ဖက်စလုံး မှားတယ်။ မင်းကလည်း ကျောက်ခဲတွေ ပါလာတယ်။ ချိန်တာကလည်း

အလေးခိုးတယ်။ အမြဲတမ်း ငြင်းကြ ခုံကြတယ်။ အမြဲတမ်း ရန်ဖြစ်ကြတယ်။ မင်းကလည်း ခေါင်းတထောင်ထောင်။ သူကလည်း ခေါင်းတထောင်ထောင်။ ကျောက်ခဲ နည်းနည်းပါးပါး ပါရင်ကော။ ဆိုကြပါစို့၊ တစ်လုံးလောက်။ ဘာပဲဖြစ်ဖြစ် အမြဲတမ်း ငြင်းခုံနေကြရတာပဲ။

အိတ်လွတ်နဲ့ ပြန်လာပြီ ဆိုရင်တော့ ကိုယ့်စာအုပ်ထဲမှာ ကိုယ်ရတဲ့ အလေးချိန်ကို မှတ်ထားပေတော့။ မမှတ်လို့ မဖြစ်ဘူး။ မှတ်ထားမှ။ မင်း မှတ်ထားတယ်ဆိုတာ သူတို့ သိနေရင်တော့ သူတို့က မင်းကို လိမ်မှာ မဟုတ်ဘူး။ အေး မင်းဘာသာ မင်း မှတ်မထားရင်တော့ သွားပြီ။ ဘုရားသခင် ကယ်မှပဲ မင်း အလိမ်မခံရမှာ။

ဒီအလုပ်က ကောင်းတဲ့အလုပ်ပါ။ ချာတိတ်တွေပါ လုပ်လို့ရတယ်။ ဝါကောက်စက် တွေ အကြောင်းကော ကြားကြသလား။

အင်း ကြားတယ်။

အမြဲတမ်း လာမယ် ထင်သလား။

အင်း မသိဘူး။ ဒါပေမဲ့ စက်တွေ လာရင်တော့ လယ်သမားတွေ ပြေးရမှာပဲလို့ ပြောနေကြတယ်။

ညရောက်လာသည်။ အားလုံး မောပန်း နွမ်းနယ်နေကြပြီလေ။ မည်သို့ပင်ဖြစ်စေ များများတော့ ကောက်လို့ ရကြတယ်။ ငါရယ်၊ ငါ့အဘွားကြီးရယ်၊ ချာတိတ်တွေရယ် ကောက်တာ တစ်နေ့သုံးဒေါ်လာ ရတယ်။

မော်တော်ကားများသည် ဝါခင်းများရှိရာသို့ အစုလိုက် အပြုံလိုက် ရောက်လာကြ သည်။ ထို့နောက် ဝါသိမ်း စခန်းများ ပေါ်လာကြသည်။ ထရပ်ကားကြီးများနှင့် နောက်တွဲယာဉ်များပေါ်၌ တင်ထားသည့် ဝါပွင့်များသည် တောင်လိုပုံလျက် ရှိကြ၏။ ဖွေးဖွေးလှုပ်လျက် ရှိကြ၏။ ဝါပွင့် အစအနများသည် ခြံစည်းရိုးများတွင် ကပ်ငြိလျက် ရှိသည်။ ဝါပွင့် အစအနများသည် တစ်ခုနှင့် တစ်ခု ပေါင်းစပ်ပြီး ဘောလုံးများသဖွယ် ဖြစ်ကာ လေတိုက်သည့် အခါတိုင်း လမ်းမပေါ်၌ တလိမ့်လိမ့် ပြေးသွားလျက် ရှိကြသည်။ ပြီးတော့ ဖိစက်သို့ ပို့ရန် ချထားသည့် ဝါဘောထုပ်ကြီးများ။ ဝါပွင့်မှ အဖတ်များ အစအနများသည် သူတို့၏ အင်္ကျီများ၊ ဘောင်းဘီများနှင့် မုတ်ဆိတ်မွေးများ၌

တွယ်ကပ်လျက် ရှိကြသည်။ နပ်ညစ်လိုက်သည့် အခါများတွင်လည်း နှာခေါင်းများထဲမှ ဝါပွင့် အစအနများ ထွက်လာတတ်ကြလေသည်။

လူအများသည် ခါးတကုန်းကုန်းနှင့် ကုန်းကျုံး၍ လုပ်ကိုင်လျက် ရှိကြ၏။ မိုးမချုပ်မီ အိတ်ပြည့်အောင် ဖြည့်မှ ဖြစ်မည်။ ကျွမ်းကျင်သော လက်ချောင်းများသည် ဝါသီးများထဲသို့ အဆက်မပြတ် နှိုက်လျက် ရှိသည်။ ခါးများသည် တောက်လျှောက် ကုန်းလျက် ရှိကြ၏။ ကလေးများကတော့ မောပန်း နွမ်းနယ်ကုန်ကြလေပြီ။ နေကလည်း မကြာမီ ဝင်တော့မည်။

နေသာ ရှိနေဦးမည်ဆိုပါက မည်မျှလောက် ကောင်းပါမည်နည်း။ လုပ်ခက များများစားစား မရသေး။ ဘုရားသခင်ကတော့ သိတန်ကောင်းပါရဲ့။ ဘယ်လိုပဲဖြစ်ဖြစ် နေကတော့ မဝင်ဘဲ နေလိမ့်မည် မဟုတ်။ မည်သို့ပင်ဖြစ်စေ နေကို ရှိနေစေချင်သေးပါ၏။

အဝေးပြေး ကားလမ်းမကြီးပေါ်တွင်မူ လက်ကမ်း ကြော်ငြာ စာရွက်ကြီးကို ဖတ်ပြီး တဖွဲဖွဲ ရောက်လာနေကြသည့် ကားအို ကားဟောင်းများ နေရာအနှံ့အပြားတွင် အစုလိုက် အပြုံလိုက်။

ဝါအိတ် ပါရဲ့လား။

မပါဘူး။

ဒီလိုဆို တစ်ဒေါ်လာ ကျမယ်။

တကယ်လို့ ကျုပ်တို့ လူစုက လူငါးဆယ်တည်းသာ ဆိုရင်တော့ ဒီနေရာမှာ အချိန် တော်တော်ကြာနေပြီး ဝါ ကောက်နေနိုင်မှာ။ ဒါပေမဲ့ ရောက်လာတဲ့လူက ငါးရာဗျ။ ဘယ်မှာလာပြီး ရက်ကြာကြာ ကောက်ရတော့မှာလဲ။ ရက်ပိုင်းလောက်နဲ့ ပြီးသွားမှာပေါ့။ ဘာပဲဖြစ်ဖြစ် ကျုပ် သိခဲ့တာ တစ်ခုတော့ ရှိတယ်။ ဘယ်အကောင်မှ ပိုက်ဆံမပေးဘဲ အိတ် မရဘူး။ ပြီးတော့ လက်ထဲမှာ ပိုက်ဆံများများ မရသေးခင် ဝါခင်းထဲက ဝါကောက်လို့ ပြီးသွားတာချည်းပဲ။ အဲဒါတော့ ကျုပ် သိခဲ့ နားလည်ခဲ့ရတယ်။

ငွေနည်းနည်းပါးပါး စုမိအောင်တော့ ကြိုးစားဦးမှ။ ဆောင်းအဝင်ကလည်း မြန်လိုက်တာ အလွန်ပဲ။ ဆောင်းရာသီဆိုရင် ကယ်လီဖိုးနီးယား ပြည်နယ်ထဲမှာ လုပ်စရာ

အလုပ် မရှိတော့ဘူး။ ကဲ ကဲ မိုးမချုပ်ခင် အိတ်ပြည့်သွားအောင် ကောက်ကြဦး။ ဟာ ဟိုလူ သူ့ဝါအိတ်ထဲကို မြေကြီးခဲကြီး နှစ်လုံး ထည့်သွားတာ ကျုပ် မြင်လိုက်တယ်။

ဘာဖြစ်လဲဗျ။ ကျုပ်ဘာသာ အကြံအဖန် လုပ်တာပဲ။ သူတို့က အလေးခိုးတော့ ကျုပ်ကလည်း ကာမိအောင် လုပ်ရတာပေါ့။

ကဲ ရော့။ ဟောဒီမှာ ကျုပ် မှတ်ထားတဲ့ စာရင်း စာအုပ်။ စုစုပေါင်း သုံးရာ့ တစ်ဆယ့်နှစ်ပေါင် ရှိတယ်။

မှတ်တယ်။

ဘုရားသခင် ကယ်တော်မူပါ။ အံ့ဩစရာပဲ။ သူ့ဘက်က မငြင်းပါလား။ သူ့ဘက်ကလည်း အလေးခိုးထားပြီးနဲ့ တူတယ်။ အိုကွာ ဘာပဲဖြစ်နေ ဖြစ်နေ ကနေ့ဟာ အလွန်သာယာတဲ့ နေ့တစ်နေ့ပဲ။

သူတို့ ပြောနေတာကတော့ ဒီဝါခင်းကို ရောက်လာတဲ့ လူ အရေအတွက်ဟာ တစ်ထောင် ရှိသတဲ့။ အင်း မနက်ဖြန်မနက် ဝါကောက်ဖို့အတွက် ရန်ဖြစ်ရဦးတော့မှာပဲ။ သေချာနေပါပြီ။ ငါတို့အနေနဲ့ ဝါများများရအောင် အလုအယက် ကောက်ကြရဦးမယ်။

ဝါကောက် အလုပ်သမားများ အလိုရှိသည်။ ဝါကောက်အလုပ်သမား အရေအတွက်သည် ပို၍ များလာသည်။

ဝါသိမ်း စခန်းအတွင်းမှ အသံများ။

ငါတို့ ကနေ့ညတော့ အသားစားရတော့မယ်။ အသားဝယ်ဖို့ ပိုက်ဆံတော့ ရလာပြီ။ ဟိုကောင် ပေါက်စကလေးကိုလည်း ဂရုစိုက်ကြဦးနော့။ ဒီကောင်လေး အတော့်ကို ပင်ပန်းနေပြီ။ ကဲ သွား။ အသားလေးပေါင် ဝယ်ခဲ့။ တကယ်လို့ မပင်ပန်းဘူး ဆိုရင်တော့ ကနေ့ည အဘွားကြီးက ဘီစကွတ်မုန့် ကောင်းကောင်း လုပ်ကျွေးပါ လိမ့်မယ်ကွာ။

* * *

## အခန်း (၂၈)

ချောင်းဘေးရှိ မြေကွက်ပေါ်တွင် ကားဘော်ဒီ အိမ်တန်း နှစ်တန်း။ တစ်တန်းလျှင် ခြောက်လုံး။

စုစုပေါင်း ဆယ့်နှစ်လုံး ရှိသည်။ အားလုံး ဘီးတွေ ဖြုတ်ထားသည်။ အိမ်ရှေ့ထိုးတံခါးဝ ရောက်သည်အထိ ကျောက်ပြားများစီ၍ ခင်းထားသော လူသွားလမ်း တစ်လမ်းစီ ရှိသည်။ ပြတင်းပေါက် မရှိ။ သို့သော်လည်း အိမ်ရှေ့ တံခါးမကြီးက ကျယ်သည်။ အမြဲတစေ ဖွင့်ထားသည်။ အချို့သော ကားအိမ်များသည် အလယ် တည့်တည့်မှ နေ၍ ကင်းဗတ်စများ ကာရံပြီး တစ်ခန်းနှင့် တစ်ခန်း ခြားထားလေသည်။

ဂျုတ်မိသားစုသည် အစွန်ဆုံး ကားအိမ်၏ အစွန်ဆုံးအခန်းကို ရသည်။ အရင်က နေသွားသူက သွပ်ဖြင့် နံရံကပ် မီးဖိုတစ်လုံး လုပ်ထားခဲ့ပြီး မီးဖိုအနီးရှိ နံရံမှ အပေါက်တစ်ပေါက် ဖောက်ကာ မီးဖို ခေါင်းတိုင်ပိုက်ကို အပြင်သို့ ထုတ်ထားခဲ့၏။ အိမ်ရှေ့တံခါးက ကျယ်ပြီး အမြဲတစေ ဖွင့်ထားသည့်တိုင်အောင် အခန်း၏ တစ်ဖက်စွန်းရှိ နေရာများကတော့ မှောင်လျက် ရှိလေသည်။ အမေသည် ကား၏ အလယ်တည့်တည့်မှနေ၍ တာပေါ်လင် ရွက်ထည်ကို ကာထားသည်။

"နေရတာ ကောင်းပါတယ်" ဟု အမေက ဆိုသည်။ "အမေတို့ နေခဲ့သမျှထဲမှာ အစိုးရစခန်းက လွဲရင် အခုနေရတဲ့ နေရာဟာ အကောင်းဆုံးပဲ"

ညတိုင်း အမေသည် မွေ့ရာများကို ဖြန့်၍ ခင်းရသည်။ မနက်တိုင်း မွေ့ရာများကို ပြန်ခေါက်၍ သိမ်းရသည်။ ထိုအလုပ်သည် အမေ့အတွက် နိစ္စဓူဝ အလုပ်တစ်ခု ဖြစ်လာခဲ့လေသည်။ နေ့စဉ်နေ့တိုင်း သူတို့သည် ဝါခင်းထဲသို့ ဆင်း၍ ဝါကောက်ကြသည်။ ညစဉ်ညတိုင်း အသားစားကြရသည်။ စနေ တစ်နေ့တွင်မူ သူတို့သည် တူလဲရားသို့ ထရပ်ကားဖြင့် သွားကာ သံမီးဖိုတစ်လုံး ဝယ်သည်။ အယ်လ်နှင့် အဖေဂျုတ်၊ ဝင်းဖီးနှင့် ဦးလေးဂျွန်အတွက်လည်း အကျီနှင့် ဘောင်းဘီများ ဝယ်သည်။ ပြီးတော့ အမေ့အတွက်ပါ အဝတ်သစ်တစ်စုံ ဝယ်ခဲ့လေသည်။ အမေသည် သူ၏ အကောင်းဆုံး ဝတ်စုံ တစ်စုံကို ရိုစာဟန်အား အပိုင်ပေးလိုက်လေသည်။

"ကိုယ်ဝန်ကြီးနဲ့ဆိုတော့ လူကောင်က အဆမတန် ကြီးနေတယ်" ဟု အမေက ပြောသည်။ "ဒီအချိန်မျိုးမှာ သူ့အတွက် အဝတ်အစားသစ် ဝယ်ပေးရင် ငွေကို ဖြုန်းတီး ပစ်သလို ဖြစ်မှာ"

ဂျုတ်မိသားစုသည် ကံကောင်းကြသည်။ အခြား သူများထက် စော၍ ရောက်သဖြင့် ကားဘော်ဒီ အိမ်တန်းတွင် နေစရာ အိမ်ခန်းတစ်ခန်း ရခဲ့ကြ၏။ အခုကျတော့လည်း သူတို့ ပတ်ပတ်လည်တွင် နောက်ရောက်လာသူများ ဆောက်လုပ် နေထိုင်လျက် ရှိကြသည့် ရွက်ထည်တဲများသည် ကွင်းပြည့်လုခမန်း ဖြစ်နေလေပြီ။ မည်သို့ပင် ဖြစ်စေ ကားဘော်ဒီ အိမ်ခန်းများတွင် နေထိုင်လျက် ရှိကြသော အဦးဆုံး ရောက်သူများသည် နောက်မှ ရောက်လာသူများနှင့် ယှဉ်လိုက်သောအခါ အဆင့်အတန်း မြင့်သည့် လူတန်းစားတစ်ရပ် ဖြစ်လျက် ရှိလေသည်။

ကျဉ်းမြောင်းသော ချောင်းငယ်သည် မိုးမခပင်အုပ်များ အောက်မှ ငြိမ်ဆိတ်စွာ စီးဆင်းသွားပြီး မိုးမခပင် အုပ်အုပ်များကြားကိုပင် ပြန်ဝင်သွားလေသည်။ ကားအိမ်တစ်လုံး ရှေ့မှ ကျောက်ပြားခင်း လူသွားလမ်းများသည် ချောင်းငယ် ရှိရာသို့ ဆင်းသွားကြ လေသည်။ ကားအိမ်များ ကြားတွင် တန်းထားသည့် ကြိုးတန်းများ၊ နေ့စဉ်နေ့တိုင်း ထိုကြိုးတန်းများသည် နေလှန်းထားသည့် အဝတ်များဖြင့် ဖုံးအုပ်လျက် ရှိလေသည်။

ညနေခင်းတွင် သူတို့သည် ဝါအိတ်များကို ချိုင်းများတွင် ညပ်ကာ ဝါခင်းများဆီမှ ပြန်လာကြသည်။ ထိုအချိန်တွင် လမ်းဆုံရှိ စတိုးဆိုင်သည် လက်မလည်အောင် ရောင်းရလေပြီ။ ဆိုင်ထဲဝယ် ညစာအတွက် ပစ္စည်းပစ္စယ ဝယ်နေကြသည့် ဝါကောက် အလုပ်သမားများဖြင့် ပြည့်လျက် ရှိပြီ ဖြစ်၏။

"ကနေ့ ဘယ်လောက် ရလဲ"

"ကျုပ်တို့ ကနေ့ မဆိုးဘူး၊ သုံးဒေါ်လာခွဲ ရခဲ့တယ်၊ ချာတိတ်တွေကလည်း ကောက်တတ်လာတော့ မြန်လာတယ်၊ အမေက သူတို့အတွက် ဝါအိတ်ကလေး တစ်လုံးစီ ချုပ်ပေးထားတယ်၊ အိတ်ကြီးတွေကျတော့ သူတို့ မနိုင်ဘူး၊ သူတို့က သူတို့အိတ်တွေ ပြည့်သွားရင် ကျုပ်တို့အိတ်တွေထဲ လာထည့်ကြတယ်၊ သူတို့အိတ်ကလေးတွေက ရှပ်အင်္ကျီ အဟောင်းတွေကို ဖျက်ပြီး ပြန်ချုပ်ပေးထားတာဗျ၊ မဆိုးဘူး၊ အလုပ်တော့ ဖြစ်သွားပဲ"

အမေဂျုတ်သည် အသားငါးရောင်းသည့် ကောင်တာဆီသို့ သွားသည်။ အမေသည် သူ့လက်ညှိုးကို ပါးစပ်ဖြင့် အသာအယာမှုတ်ရင်း တစ်စုံတစ်ခုသော အရာကို လေးလေးနက်နက် တွေး၍ စဉ်းစား ချိန်ဆလျက် ရှိသည်။ "ဝက်ပေါင်ခြောက် ရတယ် မဟုတ်လား၊ ဘယ်လောက် ဈေးလဲ"

"တစ်ပေါင်ကို ဆင့်သုံးဆယ်"

"ကျွန်မကို သုံးပေါင်ပေး၊ အမဲသားပြုတ်လည်း နည်းနည်း လိုချင်တယ်၊ အမဲသားပြုတ်ကို သမီးက မနက်ကျ ချက်ပေးနိုင်တယ်လေ၊ သမီးအတွက်လည်း နွားနို့ တစ်ပုလင်းပေးဦး၊ သူက နွားနို့ မသောက်လို့ မဖြစ်ဘူး၊ ကလေး မွေးဖွားတော့မှာ၊ ဝမ်းဆွဲဆရာမက သူ့ကို နွားနို့များများ သောက်ရမယ်လို့ ပြောထားတယ်၊ အဲ.. နေဦး၊ ကျွန်မ အာလူး ဝယ်ပြီးပြီလား"

အဖေဂျုတ်သည် သစ်သီးရည်တစ်ဘူးကို ကိုင်၍ အမေ့အနီးသို့ ရောက်လာသည်။ "ဒါကော ဝယ်ပြီးပလား" ဟု မေးသည်။ "ပြီးတော့ ကိတ်မုန့်ကော ဝယ်ပြီးပလား"

အမေဂျုတ်က မျက်နှာရှုံ့သည်။ "ဝယ်တာပေါ့၊ ဒီမှာ ကြည့်စမ်းပါဦး၊ ဝယ်ထားတဲ့ ဟာတွေ၊ အိမ်မှာလည်း ဝက်ဆီတွေ အောတိုက်နေပြီ "

ရှုသီ ဘီစကွတ်မုန့် နှစ်ထုပ်ကိုင်ကာ အနီးသို့ ကပ်လာသည်။ သူသည် အမေ့မျက်နှာကို မဝေခွဲနိုင်သော မျက်လုံးများဖြင့် မော့ကြည့်လျက် ရှိ၏။ အမေ ခေါင်းညိတ်မလား၊ ခေါင်းခါမလား။ ခေါင်းခါလျှင် သူ ဝမ်းနည်းမည်။ ခေါင်းညိတ်ခဲ့ပါမူ သူ ပျော်ရမည်။ "အမေ" ဟု လှမ်း၍ အသံပြုကာ လက်ထဲမှ မုန့်နှစ်ထုပ်ကို မြှောက်ပြသည်။

"သွား၊ အခု ချက်ချင်း ပြန်ထားချေ"

ဝမ်းနည်းမှုသည် ရှုသီ၏ မျက်လုံးများတွင် ထင်ဟပ်လာသည်။ အဖေဂျုတ်က လှမ်းပြောသည်။ "တစ်ထုပ်မှ ငါးဆင့်ပါဟာ၊ နင်ကလည်း ယူပါစေတော့၊ သူတို့ နှစ်ကောင်လည်း ကနေ့ အလုပ် တော်တော် လုပ်ခဲ့ကြတယ်ဟ"

စိတ်လှုပ်ရှားမှုသည် ရှုသီ၏ မျက်လုံးအစုံတွင် မသိမသာကလေး ဝင်လာသည်။ "အေး ယူလိုက်တော့" ဟု အမေက ခွင့်ပြုလိုက်၏။

ရှုသီသည် နောက်သို့ လှည့်၍ ပြေးထွက်သွားသည်။ ဆိုင်တံခါးဝသို့ မရောက်မီ လမ်းခုလတ်တွင် ဝင်းဖီးနှင့် ဆုံမိသည်။ ရှုသီက ဝင်းဖီးကို ဆွဲကာ ဆိုင်ပြင်သို့ ပြေးထွက်သွားလေ၏။

ဦးလေးဂျွန်ကတော့ လက်ဖဝါး နေရာများတွင် အဝါရောင် သားရေ ကပ်ချုပ်ထားသည့် ကင်းဗတ် လက်အိတ်တစ်စုံကို တကိုင်ကိုင် လုပ်လျက် ရှိ၏။ သူသည် လက်အိတ်ကို စွပ်ကြည့်သည်။ ပြီးတော့ ပြန်ချွတ်ကာ သူ့နေရာ သူပြန်ထားလိုက်လေသည်။ ထို့နောက် အရက်ပုလင်းများ တင်ထားသည့် စင်ဘက်သို့ ရောက်သွားသည်။ သူသည် ပုလင်းများပေါ်တွင် ကပ်ထားသည့် ဈေးနှုန်း ကတ်ပြားများကို တစ်ခုချင်းစီ လျှောက်ဖတ်လျက် ရှိသည်။ အမေက သူ့ကို မြင်သည်။ "အဖေဂျုတ်ရေ" ဟု အမေက အသံပေးကာ သူ့ခေါင်းကို ဦးလေးဂျွန်ဘက်သို့ ဆတ်ပြသည်။

အဖေဂျုတ်က လှမ်းမေးသည်။ "ဘယ်လိုလဲ ဂျွန်၊ ရေငတ်လို့လား"

"ဟင့်အင်း မငတ်ပါဘူး"

"ဝါ ကုန်အောင် ကောက်ပြီးတဲ့အထိတော့ အောင့်နေလိုက်ဦးကွာ" ဟု အဖေဂျုတ်က ပြောသည်။ "ဝါ ကုန်ပြီဆိုတော့ အပြတ်ချပေါ့"

"အခုတလော သောက်ချင်စိတ် မရှိဘူးကွ" ဟု ဦးလေးဂျွန်က ဆိုသည်။ "အလုပ်ကို ပင်ပင်ပန်းပန်း လုပ်နေတော့ အိပ်လိုက်ရင် တုံးပဲ၊ အိပ်မက်လည်း မမက်ဘူး၊ ဘာဆို ဘာမှ မသိဘူး"

"မသိပါဘူးကွာ၊ မင်း ပုလင်းတွေနားသွားပြီး ယောင်လည်လည် လုပ်နေတာမြင်လို့ မေးတာပါ"

"ရယ်စရာတော့ ကောင်းတယ်နော်၊ အခု လောလောဆယ် အဲဒါ ဝယ်ဖို့ စိတ်မဝင်စားဘူး၊ လူဟာ တစ်ခါတစ်လေကျရင် ကိုယ့်အတွက် အသုံးမလိုတဲ့ ပစ္စည်းကို ဝယ်ချင်နေတတ်တယ်၊ ငါ လောလောဆယ် ဟို လက်အိတ်တစ်စုံကို ဝယ်ချင်နေတာ၊ ဈေးကလည်း ပေါတယ်ကွ၊ သိလား"

"လက်အိတ်နဲ့ ဝါကောက်လို့မှ မရတာ" ဟု အဖေဂျုတ်က ပြောသည်။

"ငါ သိပ်ပါတယ်ကွ တစ်ခါတစ်လေ မင်းလည်း ဖြစ်ဖူးမှာပါ၊ ဟိုပေါ်မှာ ပြထားတဲ့ ပစ္စည်းတွေထဲက ကိုယ့်အတွက် အသုံးမဝင်တဲ့ ပစ္စည်းကို ဝယ်ချင်စိတ် ဖြစ်နေတတ်တယ် "

အမေက လှမ်းခေါ်သည်။ "ကဲ လာကြတော့၊ လိုတာ အကုန်ရပြီ" ဟု အမေက အိတ်တစ်လုံးကို ဆွဲ၍ ဦးလေးဂျွန်နှင့် အဖေဂျုတ်တို့က အထုပ်တစ်ထုပ်စီ ကိုင်၍ ဆိုင်ထဲမှ ထွက်ခဲ့ကြ၏။ အပြင်မှ ရပ်စောင့်နေကြသော ရူသီနှင့် ဝင်းဖီးတို့ ပါးများသည် ဖောင်းလျက် ရှိသည်။ သူတို့ ပါးစပ်များတွင် မုန့်များဖြင့် ပြည့်ကာ ပလုတ်ပလောင်း ဖြစ်နေကြသည်။

"နင်တို့ ညစာ စားနိုင်မှာ မဟုတ်တော့ဘူး၊ ငါ သိတယ်" ဟု အမေက ပြောသည်။

လူများသည် ကားဘော်ဒီအိမ်များဆီသို့ အုပ်လိုက် သင်းလိုက် ပြန်သွားနေကြသည်။ ရွက်ထည်တဲများသည် မီးလင်းနေကြပြီ။ မီးခိုးငွေ့များသည် မီးဖိုခေါင်းတိုင်မှ တလူလူ အန်ထွက်လျက် ရှိသည်။ ဂျုတ်မိသားစုသည် လူသွားလမ်းအတိုင်း လျှောက်ကာ သူတို့အိမ်ထဲသို့ ပြန်ဝင်ကြသည်။ ရိုစာဟန်သည် မီးဖိုဘေးရှိ သေတ္တာတစ်လုံးပေါ်၌ ထိုင်လျက် ရှိ၏။ သူသည် မီးဖိုတွင် မီးအသင့် မွေးထားပြီးလေပြီ။ သံမီးဖိုသည် အပူရှိန်ကြောင့် ဝိုင်အရက်ရောင် ပေါက်လျက် ရှိသည်။ "သမီးဖို့ နွားနို့ ပါရဲ့လား အမေ" ဟု ရိုစာဟန်က ဆီးမေးသည်။

"ပါတယ်၊ ရော့ ဟောဒီမှာ "

"ပေး ပေး၊ သမီး နေ့ခင်းကတည်းက ဘာမှ မစားရသေးဘူး"

"အင်း သူက နွားနို့ကို ဆေးအမှတ် ဝါးအမှတ် ထားပြီး သောက်နေပုံ ရတယ်"

"ဝမ်းဆွဲ ဆရာမ ပြောသွားတဲ့အတိုင်း လုပ်နေတာ "

"ညည်း အာလူးကို အဆင်သင့် လုပ်ထားရဲ့လား "

"လုပ်ထားပြီးပြီ၊ သမီး အခွံသင်ထားတယ် "

"အာလူးကို ချက်မယ်" ဟု အမေက ဆိုသည်။ "အမေ ဝက်ပေါင်ခြောက် ဝယ်လာတယ်။ အာလူးတွေကို သေးသေးတုံးပြီး ဒယ်အိုး အသစ်ထဲ ထည့်ထားလိုက်၊ ကြက်သွန်နီ တစ်လုံးလည်း လှီးထား၊ ရှင်တို့ ရေသွားချိုးနှင့်၊ အပြန်ကျတော့ ရေတစ်ပုံး

ဆွဲခဲ့၊ ရှုသီနဲ့ ဝင်းဖီးတို့ကော ဘယ်ရောက်နေကြသလဲ၊ သူတို့လည်း မျက်နှာသစ်ခိုင်း၊ ခြေတွေ လက်တွေ ဆေးခိုင်းရမယ်၊ သူတို့က မုန့် တစ်ယောက် တစ်ထုပ်စီ ရထားကြတယ်အေ့၊ သိလား" အမေက ရိုစာဟန်အား ပြောပြနေသည်။ "တစ်ထုပ်စီ အထုပ်လိုက် ကိုင်ပြီး စားနေကြတာ"

အဖေဂျုတ်တို့ လူစုသည် ချောင်းဘက်သို့ ဆင်းသွားကြသည်။ ရိုစာဟန်က အာလူးများကို လှီးပြီး ဒယ်အိုးထဲသို့ ထည့်နေသည်။

ရုတ်တရက် ဘေးမှ ကာထားသည့် တာပေါ်လင် ရွက်ထည်ကို ဆွဲဖယ်လိုက်သည့် အသံကို ကြားနေရသည်။ ရွက်ထည်နောက်မှ ထွက်လာပြီး ငုံ့ကြည့်နေသည့် မျက်နှာ။ "ကနေ့ အခြေအနေ ဘယ်လိုလဲ၊ အဆင်ပြေကြရဲ့လား မစ္စက်ဂျုတ်"

အမေက နောက်လှည့်ကြည့်သည်။ "အိုး မင်္ဂလာ ညနေခင်းပါ မစ္စက် ဝိန်းဝရိုက်၊ ကျွန်မတို့ သိပ်မဆိုးဘူး၊ သုံးဒေါ်လာခွဲ ရခဲ့တယ်၊ အတိအကျဆိုရင် သုံးဒေါ်လာနဲ့ ငါးဆယ့်ခုနစ်ဆင့် ရတယ်"

"ကျွန်မတို့တော့ လေးဒေါ်လာ ရခဲ့တယ်"

"ဟုတ်လား" ဟု အမေက ရေရွတ်သည်။ "ရှင်တို့က လူများတာကိုး"

"ဟုတ်တာပေါ့၊ ဂျိုနာကလည်း ကြီးလာပြီ မဟုတ်လား၊ အောင်မယ် ရှင်တို့ ဝက်ပေါင်ခြောက် ဝယ်လာကြသကိုး"

ဝင်းဖီးက တံခါးပေါက်မှ ချောင်းကြည့်နေသည်။ "အမေ"

"တိတ်တိတ်နေစမ်း" ဟု အမေက လှည့်ငေါက်သည်။ "ဟုတ်တယ်၊ ကျွန်မ အိမ်က အမျိုးသားတွေက ဝက်ပေါင်ခြောက် ကြိုက်ကြတယ်"

"ကျွန်မကတော့ ဝက်သား ကျပ်တင်ခြောက်ပဲ ချက်တယ်" ဟု မစ္စက် ဝိန်းဝရိုက်က ပြောသည်။ "ဟင်းနံ့ မရဘူးလား"

"မရဘူး၊ အာလူးထဲ ကြက်သွန်နီ လှီးထည့်နေတော့ ဘာနံ့မှ မရတော့ဘူးပေါ့"

"ဟင်းအိုးတော့ တူးပါပြီတော်" မစွက် ဝိန်းဝရိုက်၏ ဦးခေါင်းသည် ရွတ်ထည် နောက်သို့ ဖျတ်ခနဲ ပြန်ဝင်သွားသည်။

"အမေ" ဟု ဝင်းဖီးက ခေါ်ပြန်သည်။

"ဟဲ့ ဘာလဲ၊ အစားလွန်ပြန်ပြီလား"

"အမေ၊ ရှုသီ လျှောက်ပြောနေတယ် "

"ဘာတွေ လျှောက်ပြောနေတာလဲ "

"တွမ် အကြောင်း"

အမေ့ မျက်လုံးများသည် ပြူးကျယ်လာသည်။ "ပြောတယ်၊ ဟုတ်လား" အမေက ဝင်းဖီးရှေ့၌ ဒူးထောက်၍ ထိုင်လိုက်သည်။ "ပြောစမ်း၊ ဘယ်သူတွေကို လျှောက်ပြောနေတာလဲ"

ကြောက်စိတ်သည် ဝင်းဖီးအား ချုပ်ကိုင်ထားသည်။ သူသည် တွန့်ဆုတ် တွန့်ဆုတ် ဖြစ်လျက် ရှိ၏။ "သူ… သူ… နည်းနည်းပါးပါး လျှောက်ပြောတာ"

"ဝင်းဖီး၊ ငါ့ကို မှန်မှန်ပြောစမ်း၊ ရှုသီ ဘာတွေပြောလဲ"

"သူက.. သူက သူ့ဘီစကွတ်မုန့်ကို တစ်ခါတည်း ကုန်အောင် စားမပစ်ဘူး၊ တချို့တစ်ဝက် ချန်ထားတယ်၊ တစ်ခုချင်းစီ ဖြည်းဖြည်း ဖြည်းဖြည်း စားတယ်၊ ပြီးတော့ ကျုပ်ကို ပြောတယ်၊ နင့်မုန့်ကို နည်းနည်းလောက် ချန်ထားချင်တဲ့စိတ် ဖြစ်နေပြီ မဟုတ်လားတဲ့"

"ဟဲ့ ဝင်းဖီး၊ သူ ဘာတွေ ပြောတယ်ဆိုတာ မြန်မြန် ပြောစမ်း" အမေသည် တုန်လှုပ်ချောက်ချားသော စိတ်ဖြင့် လိုက်ကာဘက်သို့ လှည့်ကြည့်သည်။ "ဒီမှာ ရိုစာဟန်၊ နင် မစွက်ဝိန်းဝရိုက်ဆီ သွားပြီး စကားပြောနေစမ်း၊ နင် စကား သွားပြောနေရင် သူ နားထောင်လို့ မရနိုင်ဘူး"

"ဒီအာလူးတွေ ဘယ်လို လုပ်ခဲ့ရမှာလဲ"

"ငါ ကြည့်ထားလိုက်မယ်၊ နင် အခုသွား၊ လိုက်ကာ ဟိုဘက်ကနေပြီး ချောင်းနားထောင် နေရင် မလွယ်ဘူး၊ အကုန်ကြားသွားမှာ" ရိစာဟန်သည် သူ့ဗိုက်ကို မနိုင့်တနိုင် မ၍ ထကာ တာပေါ်လင် ရွက်ထည်နောက်သို့ ဝင်သွားလေ၏။

အမေက ဝင်းဖီးဘက် လှည့်မေးသည်။ "ကဲ ပြောစမ်း၊ သူ ဘာတွေ ပြောလဲ"

"သူက မုန့်ကို နည်းနည်း နည်းနည်း ခွဲစားတယ်၊ ချက်ချင်း ကုန်မသွားအောင် တမင် လုပ်ပြီး စားပြနေတယ်"

"ပြောစမ်းပါဟယ်၊ မြန်မြန်၊ ငါ့နယ်နော်"

"အဲဒီတုန်းမှာ တခြားကောင်တွေ ရောက်လာတယ်၊ သူတို့က သူ့ဆီက မုန့်တောင်းတယ်၊ ဒါပေမဲ့ ရှုသီက မပေးဘူး၊ သူတို့ရှေ့မှာ တမင်ပြောင်ပြီး ဖြည်းဖြည်းလေး စားပြတယ်၊ ဟိုကောင်လေးတွေ စိတ်ဆိုးကြတာပေါ့၊ အဲဒီတော့ ကောင်လေး တစ်ယောက်က သူ့လက်ထဲက မုန့်ကို ဝင်လုတယ်"

"လိုရင်းကို မြန်မြန် ပြောစမ်းပါ ဝင်းဖီးရယ်"

"ရှုသီက ဒေါသထွက်ပြီး ရိုက်လိုက်တယ်၊ ဟိုလူ့ မိမလိုလို ဒီလူ့ မိတော့ မလိုလိုနဲ့၊ သူတို့က ရှောင်တော့ တစ်ယောက်မှ မမိဘူး၊ အဲဒီတော့ ခပ်ကြီးကြီး ကောင်မလေး တစ်ယောက်က သူ့ကို ပြောင်လည်း ပြောင်တယ်၊ ရိုက်လည်း ရိုက်တယ်၊ အဲဒါ ရှုသီက ငိုရော၊ ဒီတော့ ရှုသီက အစ်ကိုကြီးကို တိုင်မယ်လို့ ပြောတယ်၊ ငါ့အစ်ကိုကြီးက နင့်ကို သတ်လိမ့်မယ်လို့ သွားပြောတယ်၊ ဟိုကောင်မလေးကလည်း ပြန်ပြောတယ်၊ အို တိုင်ပေါ့၊ ငါ့မှာလည်း အစ်ကိုကြီး ရှိတယ်တဲ့" ဝင်းဖီးက စကားကို အားရပါးရ အဆက်မပြတ် ပြောလာရသဖြင့် အသက်ကိုပင် မှန်မှန်မရှူနိုင်ဘဲ ဖြစ်လျက် ရှိလေသည်။ "နောက်တော့ သူတို့ သတ်ကြပြန်ရော၊ ဟိုကောင်မလေးက ရှုသီကို ကောင်းကောင်း ချပြန်ရော၊ ရှုသီက ငါ့အစ်ကိုက နင့်အစ်ကိုကို သတ်ပစ်မှာပေါ့လို့ ပြောတယ်၊ ဟိုကောင်မကလည်း နင့်အစ်ကိုက ဘယ်လို သတ်မှာလည်းလို့ ပြန်ပြောတယ်၊ ဒါနဲ့ပဲ.. ဒါနဲ့ပဲ.. ရှုသီက.. ငါ့အစ်ကိုက လူနှစ်ယောက်ကို သတ်ပြီးပြီလို့ ပြောတာပဲ၊ ဟိုကောင်မကလည်း ရှုသီကို ပြောတယ်၊ နင်ဟာ အလိမ်ကောင်မ၊ သောက်ကြွားမလို့ ပြန်ပြောရော၊ အဲဒီတော့ ရှုသီက ငါ မလိမ်ဘူးဟဲ့၊ ငါတို့ အစ်ကိုက တကယ် လူနှစ်ယောက် သတ်လာတာ၊ အခု ငါတို့အစ်ကို

ပုန်းနေတယ်၊ ပုန်းနေရာက ထွက်လာပြီး နင့်အစ်ကိုကို သတ်ပစ်မှာလို့ ပြောတယ်၊ နောက်တော့ တစ်ယောက်နဲ့ တစ်ယောက် ဆဲကြတယ်၊ ရှုသီက ကျောက်ခဲနဲ့ ကောက်ပေါက်တယ်၊ ဟိုကောင်မကလည်း သူ့ကို လိုက်ရိုက်တယ်၊ အဲဒါနဲ့ ကျုပ်လည်း အိမ်ကို ပြန်ပြေးလာတာ ”

“ဘုရား.. ဘုရား၊ ဘုရားသခင် ကယ်တော်မူပါ” ဟု အမေက ထိတ်လန့်တကြား ရေရွတ်သည်။ “ဒုက္ခပါပဲနော်၊ ငါ ဘယ်လိုလုပ်ရပါ့မလဲ” အမေသည် သူ့ခေါင်းကို လက်နှစ်ဖက်ဖြင့် ကိုင်ကာ ညည်းညူလျက် ရှိသည်။ “တို့ ဘယ်လို လုပ်ကြမလဲ၊ ဘယ်လို လုပ်ရပါ့မလဲ” မီးဖိုပေါ်ရှိ အိုးများမှ အာလူးများ တူးနဲ့ ထွက်လာသည်။ အမေသည် ကပျာကယာ ဟင်းအိုးကို မွှေပေးသည်။

“ရိစာဟန်ရေ” အမေက လှမ်းခေါ်သည်။ ရိစာဟန်သည် လိုက်ကာ နောက်မှ ပြန်ထွက်သည်။ “ညစာဟင်းကို လာပြီး ချက်လှည့်ဦး၊ ဝင်းဖီး နင် အခု ချက်ချင်း ပြန်သွားပြီး ရှုသီကို ရှာခေါ်ခဲ့”

“သူ့ကို ရိုက်မလို့လား အမေ” ဟု မျှော်လင့်ချက် တစ်ခွဲသားဖြင့် ဝင်းဖီးက မေးသည်။

“မရိုက်ဘူး၊ ဒီပြဿနာက ရိုက်ရုံနဲ့လည်း ပြီးမှာ မဟုတ်တော့ပါဘူးဟယ်၊ ငါဖြင့် စိတ်ပျက်လိုက်တာ၊ ဘာပြုလို့ ဒီလောက် လျှောက်ပြောရတာပါလိမ့်နော်၊ ရိုက်နေလည်း အလကားပဲပဲဟယ်၊ ကဲပါဟယ်၊ မြန်မြန်သွားပြီး ရှုသီကို ခေါ်စမ်းပါ”

ဝင်းဖီးသည် အိမ်ထဲမှ ပြေးထွက်သွားသည်။ သူသည် လှူသွားလမ်းအတိုင်း လျှောက်လာနေကြသော လူကြီးသုံးယောက်နှင့် ဆုံမိနေသဖြင့် ဘေးသို့ဖယ်၍ ရပ်နေသေး သည်။

“ကျွန်မ ပြောစရာ တစ်ခုရှိတယ် အဖေရျုတ်” ဟု အမေက တိုးတိုးပြောသည်။

“တွမ် ပုန်းနေတာကို ရှုသီက လျှောက်ပြောတယ်တဲ့ ”

“ဘာ”

"ရှုသီက လျှောက်ပြောပစ်ပြီတဲ့၊ ရန်ဖြစ်ပြီး ပြောတာတဲ့"

"ဘာပြုလို့ ဒီလို လျှောက်ပြောရတာတဲ့လဲ၊ ခွေးကောင်မလေးနယ်နော်"

"သူ ဘာလုပ်နေတယ်ဆိုတာ ဘယ်သိမှာလဲတော်၊ အရေးကြီးတာက ရှင် အိမ်က ဘယ်မှမသွားနဲ့ဦး၊ အိမ်မှာ စောင့်နေရစ်ဦး၊ ကျွန်မ တွမ်ကို သွားရှာပြီး သတိ ဝီရိယနဲ့ နေဖို့ ပြောထားဦးမှ ဖြစ်မှာ၊ အခြေအနေကိုတော့ ရှင်က စောင့်ကြည့်ထားပေးမှ၊ ကျွန်မ သူ့အတွက် ညစာပါ ယူသွားလိုက်မယ်"

"အေး ကောင်းသားပဲ"

"ရှုသီကိုလည်း သွားဆူမနေနဲ့ဦး၊ ကျွန်မ ပြန်လာမှပဲ ပြောမယ်"

ထိုအခိုက်တွင် ရှုသီ ရောက်လာသည်။ သူ့နောက်မှ ဝင်းဖီး။ ရှုသီ၏ တစ်ကိုယ်လုံးသည် ညစ်ပတ်ပေရေလျက် ရှိ၏။ သူ့ပါးစပ်သည် သွေးစများဖြင့် ကပ်လျက် ရှိသည်။ သွေးများသည် သူ့နှာခေါင်းထဲမှ ထွက်ကျနေဆဲ။ သူ့အကြည့်တွက် ရက်ခြင်းနှင့် ကြောက်ခြင်းများ ရောစွက် ပါဝင်လျက် ရှိသည်။ ဝင်းဖီးကတော့ အောင်မြင် ဝင့်ကြွားဟန်ဖြင့် နောက်မှကပ်၍ လိုက်လာသည်။ ရှုသီသည် အခန်းထောင့်သို့ သွား၍ ငြိမ်ငြိမ်ကုပ်ကုပ် ထိုင်သည်။

"နင် ဘာလုပ်တယ်ဆိုတာ အမေ့ကို အားလုံး တိုင်ပြောပြီးပြီ" ဟု ဝင်းဖီးက ပြောသည်။

အမေသည် ဝက်ပေါင်ခြောက် နစ်ဖတ်နှင့် အာလူးပြုတ် အချို့ကို သံပန်းကန် တစ်ချပ်ထဲ ထည့်နေရာမှ "နင့်ပါးစပ် ပိတ်ထားစမ်း ဝင်းဖီး" ဟု လှမ်း၍ ဟန့်သည်။ "သူ့ကို ဟိုက ဝိုင်းလုပ်လွှတ်လို့ နာနေပြီ၊ ဘယ်သူကမှ ထပ်ပြီး နာအောင်လုပ်စရာ မလိုတော့ဘူး"

ရှုသီသည် ထိုင်ရာမှ ထလာပြီး အမေ့ကို သိမ်းဖက်ကာ မျက်နှာကို အပ်၍ ရှိုက်ကြီးတငင် ငိုသည်။ အမေက ရှုသီ၏ လက်များကို အသာ ဆွဲဖယ်သည်။ သို့သော်လည်း မရ။ ရှုသီ၏ လက်များသည် တိုး၍ တင်းကျပ်စွာ ဖက်ထားသည်။ အမေက ရှုသီ၏ ဆံစများကို အသာသိမ်းကာ ကျောပေါ်သို့ ပြန်ချပေးသည်။ "တိတ်၊ မငိုနဲ့" ဟု ပြောသည်။ "နင် သိမှ မသိဘဲကိုး"

ရှုသီက မျက်ရည်စများနှင့် သွေးစများ အလိမ်းလိမ်းကပ်ကာ ညစ်ပတ်ပေရေလျက် ရှိသော မျက်နှာဖြင့် အမေ့ကို မော့ကြည့်သည်။ "သူတို့က သမီးမုန့်ကို ဝိုင်းလုတယ်၊ ဟိုခွေးမသမီးက သမီးကို ရိုက်တယ်" ရှုသီသည် တစ်လော ထပ်၍ ဝမ်းနည်းပက်လက် ငိုပြန်လေ၏။

"မငိုနဲ့ဆို တိတ်၊ တိတ်တော့" ဟု အမေက ပြောသည်။ "ဒါတွေ ပြောမနေပါနဲ့တော်ပြီ၊ ကဲ အမေ့ကို လွှတ်၊ အမေ သွားစရာ ရှိတယ်"

"အမေက ဘာပြုလို့ သူ့ကို မရိုက်တာလဲဗျ၊ သူက မုန့်စားတာ ကောင်းကောင်း မစားဘူး၊ ကောင်လေးတွေကို ပြောင်ပြီး စားတော့ ရန်ဖြစ်တာပေါ့၊ သူ ဆိုးတာဗျ၊ အမေ မရိုက်တော့ဘူးလား၊ ရိုက်လေဗျာ"

"စကား မများနဲ့ ဝင်းဖီ၊ နင့်ဘာသာ နင် အေးအေးနေစမ်း၊ အခုလိုသာ လျှာရှည်နေရင် နင်ပဲ အရိုက်ခံရမယ်၊ ကဲ လွှတ် ရှုသီ"

ဝင်းဖီးသည် လိပ်ပြီး ထောင်ထားသည့် မွေ့ရာတစ်ခုကို မှီထိုင်ကာ မိသားစု တစ်စုလုံးအား မကျေနပ်သည့် မျက်နှာထားဖြင့် ကြည့်နေသည်။ သူသည် သူ့ကိုယ်သူ ကာကွယ်နိုင်ရန် အသင့် အနေအထား ပြင်၍ ထိုင်နေခြင်း ဖြစ်၏။ အမေ့အား ပြေး၍ တိုင်ခဲ့သည့်အတွက် အခါအခွင့် ပေါ်လာသည်နှင့် တစ်ပြိုင်နက် ရှုသီက သူ့အား ဆော်လိမ့်မည်ကို သူ သိနေသည်။ ရှုသီကတော့ တိတ်တိတ်ဆိတ်ဆိတ်ပင် သူ့နေရာ သူ ပြန်သွားကာ ကုပ်ကုပ်ကလေး ထိုင်နေသည်။

အမေသည် သတင်းစာ စက္ကူဖောင်း တစ်ရွက်ဖြင့် သံပန်းကန်ပြားကို အုပ်လိုက်သည်။ "ကဲ ကျွန်မ သွားမယ်"

"နင်ကတော့ ဘာမှ စားမသွားတော့ဘူးလား" ဟု ဦးလေးဂျွန်က မေးသည်။

"နောက်မှ စားမယ်၊ ပြန်လာမှစားရင် ရတာပဲ၊ အခုတော့ ဘာမှမစားချင်ဘူး" အမေသည် အိမ်ရှေ့တံခါးမှ ထွက်ကာ လူသွားလမ်းကလေးအတိုင်း လျှောက်သွားပြီး အောက်ဘက် အနိမ့်ထဲသို့ ဆင်းလာခဲ့လေသည်။

ကားဘော်ဒီအိမ်များ၏ တစ်ဖက်ရှိ မြေကွက်လပ်ပေါ်တွင် တစ်လုံးနှင့် တစ်လုံး ကပ်၍ ထိုးထားကြသည့် ရွက်ထည်တဲများ။ ထို ရွက်ထည်တဲများ အတွင်းမှ မီးရောင်များသည် လင်းလက်နေကြသည်။ တဲပိုင်ရှင် ယောကျ်ားများနှင့် မိန်းမများသည် တဲပေါက်ဝများ၌ ရပ်ကာ စကားပြောလျက် ရှိကြ၏။ ကလေးများကတော့ အနီးအနား တစ်ဝိုက်တွင် ခုန်ပေါက်ပြေးလွှား ဆော့ကစား နေကြလေသည်။ အမေသည် တိုတဲများကြားမှ ဖြတ်၍ လျှောက်လာသည်။ အမေ့ကို တွေ့သမျှ မြင်သမျှ လူတိုင်းက ဝိုင်း၍ နှုတ်ဆက်လျက် ရှိကြ၏။ "မင်္ဂလာညပါ မစွက်ဂျုတ်"

"ဘယ်သွားမလို့လဲ မစွက်ဂျုတ်၊ ဘာသွားပို့မလို့လဲ"

"မိတ်ဆွေတစ်ယောက်ဆီ သွားမလို့၊ လမ်းကြုံလို့ ပေါင်မုန့်နည်းနည်း ယူလာတာ"

နောက်ဆုံးတွင် အမေဂျုတ်သည် တဲတန်းများ၏ အဆုံးသို့ ရောက်လာသည်။ သူသည် အသာရပ်ပြီး နောက်သို့ လှည့်ကြည့်သည်။ မှုန်မွှားမွှား မီးရောင်များသည် စခန်းအတွင်း နေရာအနှံ့၌ လင်းလျက် ရှိ၏။ ပြီးတော့ လေနှင့် လွင့်ပါလာနေသည့် စကားပြောသံများ။ ထိုစကားပြောသံများ ကြားမှ စူးရှ ကျယ်လောင်စွာ ငြင်းခုံလိုက်သော အသံများသည် ထိုးဖောက် ထွက်ပေါ်လာသည်။ မီးခိုးနံ့များသည် လေထဲတွင် ပျံ့နှံ့လျက် ရှိ၏။ တစ်စုံတစ်ယောက်သောသူ မှုတ်နေသည့် ဘာဂျာသံ။ သီချင်းတစ်ပုဒ်တည်းကို အကြိမ်ကြိမ် အထပ်ထပ် မှုတ်နေခြင်း။

အမေသည် ချောင်းဘေးရှိ မိုးမခပင်များကြားသို့ ဝင်လာခဲ့သည်။ အမေသည် သူ့နောက်မှ နောက်ယောင်ခံ၍ လိုက်လာမည်ကို စိုးရိမ်လျက် ရှိ၏။ သူသည် လျှောက်သွားနေရာမှ အသာရပ်ပြီး နားစွင့်သည်။ သူ့နောက်မှ ခြေသံများ ကြားရလေမလား။ ယောကျ်ားတစ်ယောက်သည် သူ့ဂျင်းဘောင်းဘီ ကြယ်သီးများကို တပ်ရင်း စခန်းဘက်သို့ တက်သွားသည်။ အလွန် ငြိမ်ဆိတ်စွာ ထိုင်နေသော အမေ့ကို မမြင်။ အမေသည် ငါးမိနစ်ခန့်မျှ ဆက်ထိုင်နေပြီးမှ အသာထကာ ချောင်းဘေးလမ်းအတိုင်း ဆက်လျှောက် သည်။ အမေသည် ခြေသံမထွက်အောင် အလွန် သတိကြီးစွာထား၍ လှုပ်ရှားသည်။ မြေလမ်းနှင့် ချောင်းသည် ဘယ်ဘက်သို့ ကွေ့သွားပြီးမှ တစ်ဖန် ညာဘက်သို့ ပြန်ချိုးကာ တဖြည်းဖြည်းနှင့် အဝေးပြေးလမ်းဆီသို့ နီးလာသည်။ မှုန်ဝါးဝါး ကြယ်ရောင်အောက်တွင် အမေသည် လမ်းမကြီး၏ တာရိုးနှင့် တွမ်အတွက် အစားအစာ လာ၍ထားနေကျ

ပြွန်ပေါက်ဆီသို့ လှမ်းမြင်နေရ၏။ သူသည် ရှေ့သို့ တဖြည်းဖြည်းချင်း တိုးသွားပြီး လက်ထဲမှ ပန်းကန်ကို ပြွန်ပေါက်တွင်းသို့ အသာ တွန်းသွင်းလိုက်သည်။ ထို့နောက် တွမ်ပြန်ချထားသည့် ပန်းကန်လွတ်ကို ပြန်ယူလိုက်၏။ အမေသည် နောက်သို့ ပြန်လျှောက်ပြီး မိုးမခပင်များကြားသို့ ဝင်ကာ ချုံကောင်းကောင်း တစ်ခု၏ အကွယ်တွင် အသာ ထိုင်ချလိုက်လေသည်။

အမေ့ မျက်လုံးများသည် ချုံကြို ချုံကြားမှနေ၍ ပြွန်ပေါက်ကို လှမ်းမြင်နေရသည်။ အမေသည် လက်နှစ်ဖက်ဖြင့် သူ့ဒူးနှစ်လုံးကို ပိုက်ကာ ငြိမ်ငြိမ်ကလေး ထိုင်နေသည်။ ခဏမျှ အကြာတွင် ချုံပုတ်များသည် အသက်ဝင် လှုပ်ရှားလာကြသည်။ လက်ကြွက်များသည် ချုံပင်ပေါ်မှ ဖြတ်သွားဖြတ်လာ လုပ်နေကြသည်။ စကန့်ဖျံတစ်ကောင်သည် သူ့ကိုယ်မှ ပုပ်အဲ့အဲ့အနံ့ကို ထုတ်ကာ လူသွားလမ်းအတိုင်း လျှောက်သွားပြီး တစ်ဖက်ရှိ ချုံကြို ချုံကြားအတွင်းသို့ ဝင်ရောက် ပျောက်ကွယ်သွားလေသည်။ ထို့နောက် မိုးမခပင်များအား အသာအယာ ထိတွေ့ပွတ်တိုက်သွားသည့် လေသံ။ မိုးမခပင်များထက်မှ ရော်ရွက်ဝါများသည် မြေပေါ်သို့ ဝဲပျံ ကျလာကြသည်။ ရုတ်တရက် လေရူးတစ်ချက် ဝှေ့ယမ်း တိုက်ခတ်လာသည်။ ရော်ရွက်ဝါများသည် အစုလိုက် အပြုံလိုက် ကျလာကြ၏။ အမေသည် သူ့ဆံပင်နှင့် သူ့ပခုံးများပေါ်သို့ သစ်ရွက်များ တဖွဲဖွဲ ကျလာနေသည်ကို သတိထားမိ၏။ ကောင်းကင်ထက်တွင် ရွေ့လျားလျက် ရှိသည့် တိမ်ထူထူမည်းမည်း တစ်လိပ်သည် ကြယ်များကို ဖုံးအုပ်သွားလေသည်။ မိုးပေါက်ကြီးများသည် ဟိုတစ်စ သည်တစ်စ ပြန့်ကျဲ၍ ကျလာသည်။ တိမ်ပုပ် တိမ်မည်းသည် ဆက်၍ ရွေ့လျားသွားကာ သူ မျိုထားသည့် ကြယ်များကို အန်ထုတ်ပစ်ခဲ့သည်။ အမေ့ တစ်ကိုယ်လုံး ခိုက်ခိုက်တုန်လာသည်။ လေသည် ချုံပင် ချုံပုတ်များပေါ်မှ ကျော်ဖြတ် တိုက်ခိုက်ကာ အဝေးသို့ ရောက်သွားသည်။ စခန်းဘက်ဆီမှ ထွက်ပေါ်လာနေသည့် တယောသံ။

သူ့ ဘယ်ဘက်ဘေး အတော်လှမ်းလှမ်းဆီမှ သစ်ရွက်များပေါ် နင်းလိုက်သည့် ခြေသံကို အမေ ကြားလိုက်ရသည်။ အမေသည် ဒူးများကို ပိုက်ထားသည့် သူ့လက်များကို ပြန်ရုပ်ကာ ခေါင်းကိုထောင်၍ နားစွင့်သည်။ ခြေသံသည် ရပ်သွားသည်။ အချိန်အတန်ကြာမှ နောက်ထပ်တစ်ဖန် ပြန်ပေါ်လာသည်။ ပြွန်ပေါက်ဝဆီသို့ ခြေသံမကြားအောင် လျှောက်သွားနေသည့် မည်းမည်းအရိပ်တစ်ခု။ ပြွန်ပေါက်ဝသည် ဖျတ်ခနဲ ပျောက်သွားသည်။ ထို့နောက် အရိပ်မည်းမည်းသည် နောက်သို့ပြန်၍ ရွေ့လျားလာသည်။

အမေက တိုးတိုးကလေး လှမ်း၍ အသံပြုသည်။ "တွမ်"။ ထိုအခါ အရိပ်မည်းမည်းသည် တုံ့ခနဲ ရပ်သွားပြီး မြေပေါ်သို့ ဝပ်ချလိုက်သည်။ အရိပ်သည် သစ်ငုတ်တိုတစ်ခုဟု ထင်ရလောက်အောင် ငြိမ်လျက် ရှိ၏။ အမေက ထပ်၍ ခေါ်သည်။ "တွမ်ရေ တွမ်" အရိပ်မည်းမည်းသည် ပြန်၍ လှုပ်ရှားလာလေ၏။

"အမေလား ဟင်"

"ဟုတ်တယ်" အမေသည် ထိုင်ရာမှထကာ တွမ်ရှိရာသို့ လျှောက်သွားသည်။

"အမေကိုယ်တိုင် မလာသင့်ဘူး" ဟု တွမ်က ပြောသည်။

"အမေ မင်းနဲ့ မတွေ့ရင် မဖြစ်ဘူးကွယ့်၊ အမေ မင်းကို စကားပြောစရာ ရှိနေတယ်"

"လမ်းနဲ့ သိပ်နီးနေတယ်" ဟု တွမ်က ပြောသည်။ "တစ်ယောက်ယောက် လာချင်လာမှာ"

"မင်းမှာ နေရာရှိတယ် မဟုတ်လား တွမ်"

"ရှိတယ် အမေ၊ ဒါပေမဲ့ အမေ ကျုပ်နဲ့ စကားပြောနေတာ တစ်ယောက်ယောက် မြင်သွားရင် မိသားစုတစ်စုလုံး ဒုက္ခရောက်ကုန်မှာ"

"စကားမပြောရင် မဖြစ်ဘူး တွမ်"

"ဒီလိုဆို ကျုပ်နဲ့ လိုက်ခဲ့ အမေ" တွမ်သည် ရှေ့မှနေ၍ ချောင်းကို ဖြတ်သည်။ အမေက နောက်မှလိုက်သည်။ တစ်ဖက်ကမ်းသို့ ရောက်သောအခါ ချုံတန်းတစ်ခုကို ဖြတ်၍ လယ်ကွက်တစ်ကွက်ထဲ ဆင်းသည်။ လယ်ကွက်ထဲမှ ဝါပင်ငုတ်တိုများသည် ထိုးထိုး ထောင်ထောင် ဖြစ်လျက် ရှိကြ၏။ သားအမိနှစ်ယောက်သည် လယ်ကွက်၏ တစ်ဖက်ရှိ ကန်သင်းအတိုင်း နှစ်ဖာလုံခန့် လျှောက်မိသောအခါ ချုံတောများကြားသို့ ရောက်သွား ပြန်သည်။ တွမ်သည် ချုံပုတ်ကြီးတစ်ခုကို လက်နှင့် အသာမ၍ ဖယ်လိုက်ပြီး "လေးဖက်ထောက်ဝင်မှ ရမယ်အမေ" ဟု လှည့်ပြောသည်။

အမေသည် မြေပေါ်တွင် လေးဖက်ထောက် ထိုင်လိုက်သည်။ အမေ့ဒူးနှင့် လက်များသည် သဲများနှင့် ထိတွေ့မိကြသည်။ အမေသည် လေးဖက်ထောက်၍ ရှေ့သို့ တိုးဝင်သွားသည်။ မြေပေါ်၌ ခင်းထားသည့် တွမ်၏ စောင်ကို စမ်းမိသည်။ တွမ်က ဂူဝကို ချုံပုတ်ကြီးနှင့် ပြန်၍ပိတ်လိုက်သည်။ ဂူထဲတွင် အလင်းရောင် ကင်းမဲ့သွားလေ၏။

"အမေ ဘယ်မှာလဲ ဟင်"

"အမေ ဒီမှာ၊ ဟောဒီဘက်နားမှာ၊ စကားတိုးတိုးပြော တွမ်"

"စိတ်မပူနဲ့ အမေ၊ တစ်ခါတစ်လေကျတော့ ကျုပ်ဟာ ယုန်တစ်ကောင်လို နေရတာဗျ"

သံပန်းကန်ပြားပေါ်မှာ သတင်းစာစက္ကူကို ဖယ်နေသံ ကြားရသည်။

"ဝက်ပေါင်ခြောက် ပါတယ်" ဟု အမေက ပြောသည်။ "ပြီးတော့ အာလူးလည်း ထည့်လာတယ်"

"ဟန်ကျတာပဲ၊ ဟာ ပူပူနွေးနွေးကြီး ရှိသေးတယ်"

သိပ်သည်း နက်ရှိုင်းလွန်းလှသော အမှောင်ထုထဲတွင် အမေသည် တွမ်၏ မျက်နှာကို မမြင်ရ။ သို့သော်လည်း တွမ်၏ ဝါးသံ၊ အသားတုံး ဖဲ့သံနှင့် မျိုချသံများကိုမူ ကြားနေရလေသည်။

"ပုန်းနေလို့ အလွန်ကောင်းတဲ့ နေရာပဲ အမေရ" ဟု တွမ်က ပြောသည်။

"တွမ်၊ မင်းအကြောင်းကို ရူသီက လျှောက်ပြောပစ်တယ်" တွမ်ထံမှ အသားကို ကတိုက်ကရိုက် မျိုချသံ ကြားရသည်။

"ရူသီက ဟုတ်လား၊ သူက ဘာဖြစ်လို့ လျှောက်ပြောရတာလဲ"

"ဟုတ်တယ် ကွယ့်၊ သူ့အပြစ်လို့တော့ မပြောနိုင်ပါဘူးကွယ်၊ သူက ကောင်မလေး တစ်ယောက်နဲ့ ရန်ဖြစ်တယ်၊ ဟို ကောင်မလေးရဲ့ အစ်ကိုကို သူ့အစ်ကိုက သတ်လိမ့်မယ် ဘာညာနဲ့ ပြောတယ်၊ ရန်ဖြစ်ကြတော့လည်း ထုံးစံအတိုင်းပေါ့၊ ပြောမိပြောရာ

ပြောကြတာပေါ့၊ အဲဒါ နောက်ဆုံးကျတော့ ငါ့ဒါအစ်ကိုက လူတစ်ယောက် သတ်လာတာ၊ အခုလည်း ပုန်းနေတယ်လို့ ပြောလိုက်တယ် ”

တွမ်က ကျိတ်၍ရယ်သည်။ “ကျုပ် ငယ်ငယ်တုန်းကဆို ဦးလေးဂျွန်ကြီးကို အားကိုးတာ၊ ဒါပေမဲ့ သူက ဘယ်တော့မှ မကူပါဘူး၊ ကလေးချင်း ပြောတာပဲ အမေရာ ကိစ္စ မရှိပါဘူး”

“မဟုတ်သေးဘူး တွမ်၊ အဲသလို တွက်လို့မရဘူး ” ဟု အမေက ပြောသည်။ “ဟိုကလေးတွေ လျှောက်ပြောရင် လူကြီးတွေနား ရောက်မယ်၊ လူကြီးတွေကလည်း နေမှာ မဟုတ်ဘူး၊ လျှောက်ပြောမှာ၊ ဒါဆိုရင် သူတို့ မင်းပုန်းတဲ့နေရာကို သိအောင် လုပ်ကြတော့မှာ၊ မင်း ဒီက ထွက်သွားမှ ဖြစ်တော့မယ် ”

“ကျုပ် အစကတည်းက ပြောခဲ့သားပဲ၊ အစာ လာပို့တဲ့လူ နောက်က ခြေရာခံပြီး လိုက်လာမှာကို ကျုပ် သိပ်စိတ်ပူခဲ့တယ် ”

“ဟုတ်ပါတယ်၊ မင်း ပြောခဲ့ပါတယ်၊ ဒါပေမဲ့ အမေက မင်းကို နီးနီးနားနားမှာပဲ ရှိစေချင်လို့ပါ၊ အမေ မင်းကို မမြင်မတွေ့ရဘဲ ဖြစ်သွားမှာ ကြောက်လို့၊ အခုလည်း အမေ မင်းကို မမြင်ရပါဘူးကွယ်၊ မင်းမျက်နှာ ဘယ်လိုနေသေးလဲ ဟင်”

“ပျောက်သလောက် ဖြစ်နေပြီ အမေ”

“ဒီအနား တိုးစမ်းပါဦးကွယ်၊ အမေ လက်နဲ့ စမ်းကြည့်ပါရစေ” တွမ်က အမေ့အနီးသို့ လေးဖက်တွား၍ တိုးလာသည်။ အမေ့လက်သည် တွမ်၏ခေါင်းကို အရင်ကိုင်မိသည်။ အမေ့လက်ချောင်းများသည် တွမ်၏ နှာခေါင်းနှင့် ဘယ်ဘက်ပါးပြင်ကို လျှောက်၍စမ်းလျက် ရှိသည်။ “အမာရွတ်ကတော့ အရုပ်ဆိုးမှာ သေချာတယ်၊ နှာခေါင်း ကလည်း ရွဲ့နေပါပကောလားကွယ် ”

“ဒါလည်း တစ်မျိုး ကောင်းတာပေါ့ အမေရာ၊ ရုပ်ဖျက်ပြီးသား ဖြစ်သွားတာပေါ့၊ ကျုပ်ကို ဘယ်သူမှ မှတ်မိမှာ မဟုတ်တော့ဘူး၊ တကယ်လို့ ကျုပ်ရဲ့ လက်ဗွေပုံစံတွေသာ သူတို့ဆီမှာ မရှိရင် ကျုပ် ဝမ်းသာမိမှာ” တွမ်သည် စားလက်စ အစာကို ပြန်၍ စားနေသည်။

“ရှူး” အမေက သတိပေးသည်။ “နားထောင်စမ်း ဘာသံလဲ ”

"လေတိုက်တာပါ အမေရဲ့ လေပါ" လေရူးသည် ချောင်းရိုးတစ်လျှောက် ငှေ့ယမ်း တိုက်ခတ်လာသည်။ သစ်ပင်များသည် လေရူး၏ အငွေ့အယမ်းအောက်တွင် ယိမ်းထိုးလျက် ရှိကြလေသည်။

အမေသည် တွမ်၏ အနီးသို့ တိုးကပ်သွားသည်။ "အမေ မင်းကို စမ်းကြည့်ချင်သေးတယ် တွမ်၊ သိပ်ပြီး မှောင်လွန်းနေတော့ အမေ့မျက်စိတွေဟာ အကန်းတွေ လိုပဲ၊ ဘာမှ မမြင်ရဘူး၊ မင်း အမေတို့နဲ့ ဝေးရာကို သွားရတော့မှာ၊ ငါ့သား မျက်နှာကို အမေ့ လက်ချောင်းကလေးတွေနဲ့ပဲ ကြည့်နိုင်မှာ"

"ကျုပ် အစကတည်းက သိခဲ့တယ် အမေ"

"အမေတို့ အလုပ်အကိုင် အဆင်ပြေတယ်" ဟု အမေက ပြောသည်။ "အမေ ငွေနည်းနည်းပါးပါး စုမိတယ်၊ မင်း လက်ဖြန့်လိုက်စမ်း တွမ်၊ ဟောဒီမှာ အမေ စုထားတဲ့ ငွေ ခုနစ်ဒေါ်လာ"

"ကျုပ် ငွေမယူဘူး အမေ" တွမ်က ပြန်ပြောသည်။ "ငွေမရှိလည်း သွားလို့ ဖြစ်ပါတယ်ဗျာ"

"လက်ဖြန့်လိုက် တွမ်၊ မင်းမှာ ငွေမပါသွားရင် အမေ နေရထိုင်ရတာ ဖြောင့်ဖြောင့်တန်းတန်းရှိမှာ မဟုတ်တော့ဘူး၊ အမေ အိပ်လို့တောင် ပျော်မှာ မဟုတ်ဘူး၊ မင်း လမ်းမှာ ဘတ်စ်ကား စီးချင် စီးရမယ်၊ တစ်ခုခုအတွက် အသုံးကတော့ လိုမှာပဲ၊ အမေ မင်းကို ဒီကနေပြီး အဝေးကြီးကိုပဲ သွားစေချင်တယ်၊ ဆိုကြပါစို့ရဲ့၊ မိုင်သုံးလေးရာ ခရီးလောက် ဝေးတဲ့ နေရာမျိုးကို ရောက်သွားစေချင်တယ်"

"ကျုပ် ငွေကို မယူချင်ဘူး အမေရယ်"

"တွမ်.. " အမေ့လေသံသည် မာကျောလာသည်။ "ဒီပိုက်ဆံကို ယူသွား၊ စကားမများနဲ့၊ ငါ ပြောတာ ကြားရဲ့လား ဟင်၊ မင်း အမေ့ကို စိတ်ဆင်းရဲအောင် မလုပ်သင့်တော့ဘူး"

"အမေလုပ်နေပုံက မျှမျှတတမှ မဟုတ်တာ" ဟု တွမ်က ဆိုသည်။

"မင်းအနေနဲ့ မြို့ကြီးတစ်မြို့ကို ရောက်ချင် ရောက်သွားနိုင်တယ်၊ ဆိုကြပါစို့၊ လော့စ်အိန်ဂျလိစ်မြို့ ဖြစ်ချင်ဖြစ်မယ်၊ အဲသလို မြို့ကြီးတွေမှာ ဆိုရင်တော့ သူတို့ မင်းကို ရှာတွေ့ဖို့ မလွယ်ပါဘူး"

"ဒါပေါ့" ဟု တွမ်က အလိုက်သင့် ပြောသည်။ "ဒီမယ် အမေ၊ ကျုပ် တစ်နေ့လုံး တစ်ညလုံး ပုန်းနေတာ၊ အခုလို တစ်ယောက်တည်း ပုန်းနေရတော့ ကျုပ် ဘာတွေ တွေးနေတယ် ထင်သလဲ၊ ကက်ဆီအကြောင်းပဲ တွေးနေမိတယ် အမေ၊ သူဟာ သိပ် စကားများတယ်၊ ကျုပ်ဆိုရင် သူ စကားများလွန်းလို့ စိတ်ပျက်လေ့ ရှိတယ်၊ ဒါပေမဲ့ အခုကျပြန်တော့လည်း သူပြောခဲ့တဲ့ စကားတွေကိုပဲ ပြန်သတိရပြီး တွေးနေမိတယ်၊ သူ ပြောခဲ့သမျှ စကားတွေကိုလည်း အားလုံးလိုလိုပဲ မှတ်မိနေတယ်၊ သူ တစ်ခါတုန်းက ပြောခဲ့ဖူးတယ်၊ သူဟာ သူ့ရဲ့ဝိညာဉ်ကို ရှာမယ်ဆိုပြီး တောရိုင်းမြေပေါ်မှာ အန့် လျှောက်သွားနေခဲ့တယ်တဲ့၊ ဒါပေမဲ့ သူ့ကိုယ်ပိုင်ဝိညာဉ်ကို လုံးဝ ရှာလို့မတွေ့ခဲ့ဖူးတဲ့၊ တောရိုင်းမြေထဲမှာ သူ့ဝိညာဉ်ကို ရှာရတာ အလကားပဲတဲ့၊ တောရိုင်းမြေထဲမှာ သူ့ဝိညာဉ်ကို တွေ့တော့ တွေ့တယ်တဲ့၊ သူတွေ့တာက အင်မတန် သေးနပ်တဲ့ အစလေးတစ်ခုသာ ဖြစ်နေတယ်တဲ့၊ ကျန်တဲ့ ဝိညာဉ်တွေနဲ့ မပေါင်းစပ်ဘဲ တည်ရှိနေတဲ့ ဝိညာဉ် အစအနလေးဟာ ဘာမှ အသုံးမဝင်တော့ဘူးတဲ့၊ အရာလည်း မရောက်ဘူးတဲ့၊ ကျန်တဲ့ တခြားဝိညာဉ်တွေနဲ့ ပေါင်းစပ် တည်ရှိနေတဲ့ ဝိညာဉ်တစ်ခုလုံးကို ရမှသာ ကောင်းမယ်တဲ့၊ ဒါတွေကို ကျုပ် မှတ်မိနေတာ ရယ်စရာ မကောင်းဘူးလား အမေ၊ ဟိုတုန်းကတော့ နားပူလွန်းလို့ ဟုတ်တိပတ်တိ နားမထောင်မိခဲ့ဖူးလို့ ကိုယ့်ဘာသာကိုယ် ထင်မိခဲ့တယ်၊ ဒါပေမဲ့ အမေရေ၊ သူ ပြောခဲ့သမျှ အားလုံးကို ကျုပ် မှတ်မိနေတယ်ဗျ၊ အံ့သြဖို့ မကောင်းဘူးလား၊ အခုကျတော့လည်း ကျုပ်အနေနဲ့ လူဟာ တစ်ယောက်တည်းနေရင် မကောင်းပါလားဆိုတဲ့ အသိပါ ဝင်လာတယ်"

"ကက်ဆီက လူကောင်းတစ်ယောက်ပါကွယ် " ဟု အမေက ပြောသည်။

တွမ်က သူ့စကားကို ဆက်၍ ပြောသည်။ "တစ်ခါတုန်းက သူ သမ္မာကျမ်းစာထဲက စာပိုဒ်တွေကို စိတ်ပါလက်ပါနဲ့ ရွတ်ပြခဲ့ဖူးတယ်၊ သူ ရွတ်ပြနေတာတွေကျတော့ ငရဲမီးနဲ့ မတူဘူး အမေ၊ သိလား၊ ကျုပ် ကောင်းကောင်း မှတ်မိတယ်၊ နားထောင်ရတာ စိတ်ပျက်စရာ မကောင်းဘူး၊ သူ ကျုပ်ကို နှစ်ခါတိတိ ရွတ်ပြခဲ့ဖူးတယ်၊ သူရွတ်ပြတာ တွေဟာ ဓမ္မဆရာ ဆိုတဲ့ အခန်းက အပိုဒ်တွေလို့ ပြောတယ် "

"ဘယ်လိုတဲ့လဲ ပြောပါဦး"

"ဒီလို အမေရဲ့၊ နှစ်ဦး အတူတကွ နေခြင်းသည် တစ်ဦးတည်း အထီးကျန် နေခြင်းထက် ပို၍ ကောင်း၏၊ အဘယ်ကြောင့်ဆိုသော် သူတို့သည် သူတို့၏ ကြိုးပမ်း အားထုတ်မှုအတွက် ကောင်းမြတ်သော အကျိုးကျေးဇူးကို ရရှိ ခံစားနိုင်ခြင်းကြောင့် ပေတည်း၊ အကယ်၍ သူတို့သည် လဲကျသွားခဲ့ပါမူ ကျန်တစ်ဦးက တစ်ဦးကို ပြန်၍ ထနိုင်အောင် ထူမပေးလိမ့်မည် ဖြစ်၏။ သို့သော်လည်း သူသည် တစ်ယောက်တည်း နေထိုင်လျက် ရှိသည် ဆိုကြပါအံ့၊ ပူပန်သောကများနှင့် ကြုံတွေ့ပြီး လဲကျသွားသည့်အခါ သူ့အား လဲရာမှ ထလာနိုင်အောင် ထူမပေးမည့် သူသည် သူ့အနီး၌ မရှိနိုင်ပေတဲ့၊ အဲဒါပဲ အမေ၊ အဲဒါ သူ ရွတ်ပြသွားတဲ့အထဲက တချို့တစ်ဝက်ပဲ"

"ဆက်ပြောပါဦး တွမ်၊ သူ့စကားတွေထဲက မင်း မှတ်မိသလောက် ရွတ်ပြစမ်းပါဦး" ဟု အမေက တိုက်တွန်းသည်။

"နည်းနည်းကျန်သေးတယ်၊ ထို့နောက် တစ်ဖန် အကယ်၍ နှစ်ဦးအတူ လဲလျောင်းနေမည် ဆိုပါက နှစ်ဦးစလုံး အနွေးဓာတ်ကို ရရှိကြပေလိမ့်မည်၊ တစ်ဦး တစ်ယောက်တည်း နေပြီး အနွေးဓာတ်ကို လိုချင်၍ အဘယ်မှာ ဖြစ်နိုင်ပါမည်နည်း၊ ထိုနည်းတူစွာပင် တစ်စုံတစ်ယောက်သောသူက သူ့ကို ရန်ပြုကြားအံ့၊ နှစ်ဦးအတူ လက်တွဲ၍ ထို ရန်ပြုလာသူအား ယှဉ်ပြိုင်နိုင်ပေလိမ့်မည်၊ သုံးလွန်းတင် ကြိုးတစ်ချောင်းသည် အဘယ်မှာလျှင် အလွယ်တကူနှင့် ပြတ်နိုင်ပါအံ့နည်း "

"အဲဒါတွေဟာ သမ္မာကျမ်းစာထဲကတဲ့လား "

"ကက်ဆီကတော့ အဲဒီအထဲကလို့ ပြောသွားတာပဲ၊ ဓမ္မဆရာလို့ ခေါ်တဲ့ အခန်းထဲ ကတဲ့"

"ရှူး.. နားထောင်စမ်း"

"လေပါ အမေရဲ့၊ ကျုပ် သိပါတယ်၊ လေတိုက်တာပါ၊ ကျုပ် တစ်ခုတွေးမိတယ် အမေ၊ သိလား၊ အများအားဖြင့် သမ္မာကျမ်းစာထဲက ဟောပြောနေကြတဲ့ တရားတွေဟာ အများအားဖြင့် အခု ကျုပ်တို့နဲ့အတူ အမြဲရှိနေတဲ့ ဆင်းရဲခြင်း အကြောင်းတွေချည်းပဲ၊

တကယ်လို့ အမေ့မှာ ဘာမှ မရှိဘူး ဆိုပါတော့၊ ငရဲသားဆီကိုတော့ ဘာပြုလို့ လက်ဖြန့်ပြီး တောင်းနေတော့မှာလဲ၊ ခင်ဗျား သေပြီဆိုမှ ရွှေပန်းကန်နဲ့ ထည့်ထားတဲ့ ရေခဲမုန့်ရမယ့် အခြေအနေမျိုး မဟုတ်လား၊ အဲဒီတော့ ဟို ဓမ္မဆရာ ဆိုတဲ့ အခန်းမှာ ဆိုထားတဲ့ အတိုင်းပေ့ါ၊ နှစ်ဦးသော သူသည် သူတို့၏ လုပ်အားအတွက် ကောင်းမြတ်သော အကျိုးကျေးဇူးကို ရရှိ ခံစားနိုင်ပေလိမ့်မည် ဆိုတဲ့ စကားလေ"

"တွမ် မင်း ဘာကိုဆိုလိုတာလဲ ၊ အမေ သဘောမပေါက်ဘူး "

တွမ်သည် ချက်ချင်း အခြေမပေး။ အချိန် အတော်ကြီးကြာမျှ တွေဝေ စဉ်းစားလျက် ရှိသည်။ "ဘယ်လိုလဲ ဆိုတော့ ကျုပ်တို့ ဟို အစိုးရကယ်တင်ရေး စခန်းမှာ နေသလိုပဲပေ့ါ၊ ကျုပ်တို့ ဘဝတူတွေ အားလုံး စုပေါင်းနေကြတယ်၊ ကိုယ့်အချင်းချင်း တိုင်ပင် ညှိနှိုင်းပြီး ကိုယ့်ပြဿနာကိုယ် စုပေါင်း ဖြေရှင်းကြတယ်၊ တကယ်လို့ ရန်ဖြစ်ရင်တောင်မှ ကိုယ့်ဘာသာကိုယ်ပဲ ရှင်းကြတယ်၊ အရေးယူကြတယ်၊ သေနတ်တွေ တကားကားနဲ့ လမ်းသလားနေတဲ့ ပုလိပ်ဆိုတဲ့ လူတွေလည်း မရှိဘူး၊ ဒါပေမဲ့ အခြေအနေက ပုလိပ်တွေ အုပ်ချုပ်နေတာထက်တောင်မှ ပိုပြီး ကောင်းသေးတယ်၊ ကျုပ်တို့လူတွေ ဘာကြောင့် အဲသလို ဖြစ်နေအောင် လုပ်နိုင်ကြသလဲ ဆိုတာ ကျုပ်တွေးပြီး အံ့သြမိတယ်၊ အမှန်တော့ ကျုပ်တို့နဲ့ ဘဝမတူတဲ့ ပုလိပ်ဆိုတဲ့ ငနဲတွေကို ကန်ထုတ်ပစ်၊ ကျုပ်တို့ပြဿနာတွေကို ကျုပ်တို့ဘာသာ ရှင်း၊ အတူတူတွဲပြီး အလုပ်လုပ်၊ ကျုပ်တို့ပိုင်တဲ့ လယ်မြေတွေအပေါ်မှာ ကျုပ်တို့ဘာသာ ကျုပ်တို့ စိုက်ပျိုးကြ"

"အဲဒီတော့ မင်း ဘာလုပ်မယ်လို့ စိတ်ကူးသလဲ တွမ်"

"ကက်ဆီ လုပ်သလိုပဲ လုပ်မယ်" ဟု တွမ်က ဖြေသည်။

"ဒါပေမဲ့ သူ့ကို သူတို့ သတ်ပစ်တယ် မဟုတ်လား"

"ဟုတ်တယ်၊ သတ်ပစ်ကြတယ်" ဟု တွမ်က ပြောသည်။ "သူက လွတ်အောင်မှ မရှောင်နိုင် မပုန်းနိုင်ဘဲကိုး၊ အမှန်တော့ သူဟာ တရားဥပဒေကို ဆန့်ကျင်တဲ့ အလုပ်ဆိုလို့ ဘာတစ်ခုမှ လုပ်ခဲ့တာ မဟုတ်ဘူး အမေ၊ ကျုပ်လေ အများကြီးကို တွေးမိတယ်၊ ဝက်တွေလို နေရတဲ့ ကျုပ်တို့လူတွေ အကြောင်း၊ မြေဆီမြေနှစ်တွေနဲ့ ပြည့်နေပါရက်ကနဲ့ မစိုက်မပျိုးဘဲ ပစ်ထားကြတဲ့ မြေတွေအကြောင်း၊ အင်မတန်မှ အလုပ်ကျွမ်းကျင်တဲ့

လယ်သမား ယာသမား တစ်သိန်းတိတိ မြေမဲ့ယာမဲ့ဖြစ်ပြီး ငတ်ပြတ်နေတဲ့ အချိန်မှာ မြေဧက တစ်သိန်းတိတိ ပိုင်နေတဲ့ လူတစ်ယောက်အကြောင်း၊ ဒီအကြောင်းတွေကို ကျုပ် မတွေးဘဲ မနေနိုင်ဘူး၊ တွေးမိတယ်၊ ကျုပ်တို့ ဘဝတူလူတွေ အားလုံးစုပေါင်းပြီး အခု သူတို့က ကျုပ်တို့ကို ပိုင်းဆော်နေသလို ပြန်မဆော်နိုင်ကြဘူးတဲ့လား၊ ဟို ဟူးပါး စိုက်ပျိုးရေးခြံမှာ လက်တစ်ဆုပ်စာလောက် ရှိတဲ့ လူနည်းစုက စုစည်းပြီး ပိုင်းအော်နေသလို ကျုပ်တို့အားလုံး စုပေါင်းပြီး မအော်နိုင်ကြဘူး တဲ့လား၊ ဒါတွေကို တွေးတွေးပြီး ကျုပ် အံ့သြနေမိတယ် အမေ"

အမေက ပြောသည်။ "မင်းကို သူတို့က မောင်းထုတ်မှာပဲ တွမ်၊ ဟိုတစ်ခါ အမေ ပြောခဲ့ဖူးတဲ့ ဖလွိုက်ဆိုတဲ့ ကောင်လေးကို သတ်သလို ပိုင်းသတ်ကြမှာ"

"ဟုတ်တယ် သူတို့က ကျုပ်ကို မောင်းထုတ်ကြမှာပဲ၊ အခုလည်း ကျုပ်တို့လူတွေ အားလုံးကို သူတို့က မောင်းထုတ်နေကြတာပဲ"

"မင်း လူသတ်ဖို့တော့ မရည်ရွယ်ဘူး မဟုတ်လား တွမ်"

"မရည်ရွယ်ပါဘူး အမေ၊ အဲဒါကို ကျုပ် တွေးနေမိတယ်၊ ကျုပ်ဟာ အခုလိုပဲ ဝရမ်းပြေး ဘဝမှာပဲ ရှိနေဦးမယ် ဆိုရင်တော့ ကျုပ် ရည်ရွယ်တဲ့အတိုင်း ဖြစ်နိုင်မှာပေါ့၊ အိုဗျာ၊ ကျုပ် ပြတ်ပြတ်သားသား ဖြစ်အောင် မတွေးနိုင်ဘူး အမေရ၊ ကျုပ်ကို စိတ်ရှုပ်အောင် မလုပ်ပါနဲ့ဗျာ၊ အခု လောလောဆယ် ကျုပ်စိတ်ကို ပူလောင်နေအောင် မလုပ်ပါနဲ့ အမေရာ"

သားအမိ နှစ်ယောက်သည် ချုံပင် နွယ်ပင်များဖြင့် တည်ဆောက်ထားသော ဂူမှောင်မည်းမည်း အတွင်း၌ ငြိမ်သက်စွာ ထိုင်နေကြသည်။ "မင်းအကြောင်းကို အမေ ဘယ်လိုနည်းနဲ့ သိနိုင်ပါ့မလဲ၊ သူတို့က မင်းကို သတ်ပစ်ချင် သတ်ပစ်မှာ၊ မင်း သေသလား ရှင်သလား အမေသိမှာ မဟုတ်ဘူး၊ ဒါမှ မဟုတ်ရင်လည်း သူတို့က မင်းကို ဒဏ်ရာရအောင် လုပ်ချင်လုပ်မှာ၊ အမေ ဘယ်လိုလုပ်ပြီး မင်းရဲ့ အဖြစ်မှန်ကို သိနိုင်မှာလဲ"

တွမ်က စိတ်မသက်မသာ ဖြစ်လွန်းသည့် လေသံဖြင့် ရယ်သည်။ "ဒီလိုဆိုရင်တော့ ကက်ဆီပြောသလို ဖြစ်နေပြီ အမေ၊ လူတစ်ယောက်မှာ သူ့ကိုယ်ပိုင်

ဝိညာဉ်ဆိုတာ မရှိဘူးတဲ့၊ အားလုံး ပိုင်ဆိုင်တဲ့ ဝိညာဉ်ကြီးတစ်ခုရဲ့ အစိတ်အပိုင်းလေးကိုသာ ပိုင်ဆိုင်တာတဲ့၊ အဲဒီတော့ ..”

“အဲဒီတော့ ဘာဖြစ်သလဲ တွမ်”

“အဲဒီတော့ ပြဿနာ မရှိတော့ဘူးပေါ့ အမေရယ်၊ အမေ ဘယ်နေရာမှာ သွားရှာရှာ ကျုပ်ကို တွေ့ရမှာပေါ့၊ အမှောင်ထဲမှာလည်း ကျုပ်ရှိနေမှာပဲ၊ ဘယ်နေရာမဆို ကျုပ်ရှိနေမှာပဲ၊ အစာ ငတ်နေတဲ့လူတွေ အစား စားနိုင်ဖို့အတွက် တိုက်ပွဲဝင်တဲ့ နေရာမှာလည်း ကျုပ် ရှိနေမှာပဲ၊ ပုလိပ်က လူတစ်ယောက်ကို ရက်ရက်စက်စက် နှိပ်စက်ညှဉ်းပန်းတဲ့ နေရာမှာလည်း ကျုပ်ရှိနေမှာပဲ၊ တစ်ခုခုကို မကျေနပ်လို့ အော်နေကြတဲ့ လူတွေကြားမှာ ကျုပ်ရှိမှာပဲ၊ ညစာ အဆင်သင့် ပြင်ပြီးနေပြီဆိုတာ သိလို့ ရယ်မောပျော်ရွှင်နေတဲ့ ကလေးတွေကြားမှာလည်း ကျုပ် ရှိနေမှာပဲ၊ သူတို့ စိုက်ပျိုးထားတဲ့ အစားအစာကို စားပြီး သူတို့ ကိုယ်ပိုင်ဆောက်ထားတဲ့ အိမ်တွေပေါ်မှာ နေကြတဲ့ လူတွေကြားမှာလည်း ကျုပ်ရှိနေမှာပဲ၊ အမေ သဘောပေါက်ရဲ့ လားဟင်၊ အင်း ဘုရား ဘုရား ..၊ ကျုပ်လည်း ကက်ဆီလိုပဲ စကားသိပ်များလာနေပြီ၊ သူ့အကြောင်း သိပ်တွေးလွန်းလို့ သူ့လို ဖြစ်လာတယ် ထင်ပါရဲ့၊ တစ်ခါတစ်လေများ ကျုပ် သူ့ကို တွေ့မြင်နိုင်တယ်လို့တောင် စိတ်ထဲက ဖြစ်လာတယ်”

“အမေတော့ နားမလည်ဘူး” ဟု အမေက ဆိုသည်။ “ဘာမှန်းလည်း အမေ မသိဘူး”

“ကျုပ်လည်း အမေ့လိုပါပဲ” ဟု တွမ်က ပြန်ပြောသည်။ “ကျုပ် အခု ပြောပြနေတာတွေဟာ ကျုပ် စဉ်းစားမိသမျှတွေကို ပြောပြနေတာပါ၊ အမေတို့ ရောက်မလာတဲ့ အချိန်တွေမှာ ကျုပ် အမြဲထိုင်ပြီး တွေးနေတာ၊ ကျုပ် တွေးခဲ့တာတွေဟာ အများကြီးပဲ၊ ကဲ အမေ၊ အမေပြန်ဖို့ အချိန်တော်ပြီ”

“မင်း အမေပေးတဲ့ ငွေကိုယူ”

တွမ်သည် အတန်ကြာမျှ ငြိမ်ဆိတ်နေသည်။ “ကောင်းပြီ အမေ၊ ကျုပ် ယူမယ်”

"တွမ်၊ ပြဿနာတွေ ရှင်းသွားရင်တော့ မင်း ပြန်လာခဲ့၊ အမေတို့ကို မင်း လိုက်ရှာမယ် မဟုတ်လားဟင်"

"ရှာရမှာပေါ့ အမေရယ်" ဟု တွမ်က ပြောသည်။ "အမေပြန်မှ ကောင်းမယ်၊ အမေ့လက် ကျုပ်ကိုပေး" တွမ်က အမေ့လက်ကိုဆွဲ၍ ဂူပေါက်ဆီသို့ ခေါ်သည်။ အမေ့ လက်ချောင်းလေးများသည် တွမ်၏ လက်ကောက်ဝတ်ကို တင်းကျပ်စွာ ဆုပ်ကိုင်ထားသည်။ တွမ်က အမေ့ကို ဂူအပြင်ဘက်အထိ လိုက်ပို့သည်။ "ဟို လယ်ကွက်ကို ရောက်အောင် လျှောက်သွား၊ လယ်ကွက်အစွန်းက သဖန်းပိုးစာပင်ကို တွေ့တဲ့အထိ လျှောက်ပြီးတော့မှ အဲဒီနေရာကနေပြီး ချောင်းကိုဖြတ်၊ ကဲ အမေ သွားပေတော့၊ ကျုပ် နှုတ်ဆက်လိုက်ပါတယ်"

"အမေလည်း နှုတ်ဆက်ပါတယ်ကွယ်" အမေသည် နောက်သို့ ချာခနဲ လှည့်ကာ လျင်မြန်စွာ လျှောက်သည်။ အမေ့မျက်လုံးများသည် မျက်ရည်တို့ဖြင့် စိုရွှဲလျက် ရှိ၏။ အမေ့ မျက်လုံးများသည် ပူလောင်လျက် ရှိ၏။ သို့သော်လည်း အမေသည် အသံထွက်အောင် ငိုကြွေးခြင်း မပြု။ အမေ့ ခြေသံများသည် ကျယ်လောင်စွာ ပေါ်ထွက်လျက် ရှိသည်။ အမေ့ ခြေထောက်များသည် ချုံကြို ချုံကြားများအတွင်းရှိ သစ်ရွက်ခြောက်များပေါ်သို့ သတိကင်းမဲ့စွာဖြင့် နင်းသွားလျက် ရှိ၏။ အမေ လျှောက်သွားနေစိုက်မှာပင် မှုန်မှိုင်းမှိုင်း ဖြစ်နေသော ကောင်းကင်ထက်မှ မိုးပေါက်များ ကျလာသည်။ အမေသည် သစ်ပင် တစ်ပင်အောက်သို့ ဝင်၍ ခေတ္တမျှ မိုးခိုနေရာမှ တွမ်၏ ဂူရှိရာဘက်သို့ သုံးလေးလှမ်းမျှ လျှောက်သွားသည်။ ထို့နောက် ချာခနဲ ပြန်လှည့်ကာ စခန်းဘက်သို့ တစ်ချက် လှမ်းမျှော်ပြီး လျင်မြန်စွာ လျှောက်သွားသည်။ သူသည် မြေအောက်ပြွန်ရှိရာသို့ ရောက်အောင်သွားသည်။ ထိုနေရာရောက်မှ ကားလမ်းမကြီးပေါ်သို့ တက်သည်။ မိုးသည် တိတ်သွားပြန်လေပြီ။ သို့သော်လည်း ကောင်းကင်သည် တိမ်ပုပ်များ အုပ်နေသဖြင့် ကြည်လင်ခြင်း ကင်းမဲ့လျက် ရှိ၏။

လမ်းမပေါ်သို့ ရောက်သွားသောအခါ အမေ့နောက်မှ ခြေသံများ ကြားရသည်။ အမေက စိတ်လှုပ်ရှားစွာဖြင့် လှည့်ကြည့်သည်။ လမ်းမပေါ်သို့ စိုက်၍ ထိုးလာနေသည့် လက်နှိပ်ဓာတ်မီးရောင် မှုန်ဝါးဝါး။ အမေသည် မျက်နှာကို ရှေ့သို့ ပြန်လှည့်ကာ အိမ်ဘက်သို့ ခပ်သုတ်သုတ် နင်းသည်။ တစ်ခဏမျှအတွင်းမှာပင် သူ့နောက်မှ လူသည်

သူ့ကိုမီလာသည်။ ထိုလူသည် သူ့လက်ထဲမှ လက်နှိပ်ဓာတ်မီးဖြင့် အမေ့မျက်နှာကို ထိုး၍ ကြည့်ခြင်း မပြု။ အလိုက်သိစွာဖြင့် မြေကြီးပေါ်ကိုသာ ထိုးထားသည်။

"မင်္ဂလာညပါ" ထိုလူက ယဉ်ကျေးဖွယ်ရာစွာဖြင့် နှုတ်ဆက်သည်။

"နေကောင်းရဲ့လား" ဟု အမေက ပြန်၍ နှုတ်ဆက်လေသည်။

"မိုး ထပ်ရွာနေဦးမလား မသိဘူး"

"ရွာမယ် မထင်တော့ပါဘူး၊ ရွာရင်လည်း ဝါကောက်တဲ့အလုပ် ရပ်သွားလိမ့်မယ်၊ ကျွန်မတို့က ဝါ မကောက်လို့ မဖြစ်ဘူး"

"အင်း ကျုပ်မှာလည်း ဝါ မကောက်ရင်မဖြစ်တဲ့ အခြေအနေ ဆိုက်နေတယ်၊ ဒါနဲ့ ခင်ဗျားက ဟိုစခန်းမှာ နေတာလား"

"ဟုတ်ပါတယ်ရှင်" သူတို့နှစ်ယောက်၏ ခြေလှမ်းများသည် လမ်းမနှင့် ထိတွေ့ ရိုက်ခတ်လျက် ရှိလေသည်။

"ကျုပ်မှာ ဝါကေ နှစ်ဆယ်ရှိတယ်၊ ဒီနှစ် ပွင့်တာ နည်းနည်း နောက်ကျသွားတယ်၊ အခုတော့လည်း ကောက်ဖို့ အသင့်ဖြစ်နေပြီ၊ ဟိုး အောက်ဘက်အထိ ဆင်းသွားပြီး ဝါကောက် အလုပ်သမား ရှာမလားလို့ စိတ်ကူးနေရတယ်"

"အလုပ်သမားကတော့ ရနိုင်ပါတယ်၊ ရာသီကတော့ ကုန်လုနီးနေပြီ"

"အလုပ်သမား ရလိမ့်မယ်လို့ ကျုပ်လည်း မျှော်လင့်တာပဲ၊ ကျုပ်နေရာက သိပ်မဝေးဘူး၊ ဒီကနေပြီး တစ်မိုင်လောက်ပဲ ရှိပါတယ်"

"ကျွန်မတို့မှာ လူခြောက်ယောက် ရှိတယ်" ဟု အမေက ပြောသည်။ "ယောကျ်ား သုံးယောက်နဲ့ ကျွန်မရယ်၊ ကလေးနှစ်ယောက်ရယ်"

"ကျုပ် ငှားချင်တယ်"

"ကျွန်မတို့ မနက်ဖြန်မနက် လာခဲ့မယ်လေ"

"မိုးတော့ ရွာမယ် မထင်ပါဘူးနော်"

"မရွာဘူး ထင်တာပဲ" ဟု အမေက ပြောသည်။ "ကေ နှစ်ဆယ်ဆိုတာလည်း မကြာလိုက်ပါဘူး"

"မြန်မြန်ပြီးလေ ကျုပ် ဝမ်းသာလေပဲ၊ ကျုပ် ဝါက ပွင့်တာကို နောက်ကျတယ်"

"လုပ်ခက ဘယ်လိုပေးမှာလဲ"

"ဆင့် ကိုးဆယ်"

"ကျွန်မတို့ လာကောက်ပေးမယ်၊ ကျွန်မ ပြောသံ ကြားနေတာကတော့ လာမယ့်နှစ်ဆိုရင် လုပ်ခ ခုနစ်ဆယ့်ငါးဆင့် ဖြစ်မယ်တဲ့၊ တချို့က ဆင့်ခြောက်ဆယ်အထိ လျှော့ချလိမ့်မယ်လို့တောင် ပြောနေကြတာပဲ"

"ကျုပ်လည်း အဲဒီလိုပဲ ကြားနေတာပဲ"

"ဒါဆိုရင်တော့ ဒုက္ခဖြစ်ကြဦးမှာပဲ" ဟု အမေက ပြောသည်။

"ဟုတ်တယ်၊ သေချာတယ်၊ ကျုပ်လို အငယ်စား လယ်သမားတစ်ယောက် အနေနဲ့ကတော့ ဘာတတ်နိုင်မှာလဲ၊ လုပ်ခကို အသင်းချုပ်က သတ်မှတ်တာ၊ သူတို့ သတ်မှတ်ပေးတဲ့အတိုင်း ကျုပ်တို့က လက်ခံရတာ၊ တကယ်လို့ ကျုပ်က လက်မခံဘူးဆိုရင် သူတို့က ဝိုင်းပယ်တာနဲ့ ကျုပ်မှာ ဝါဆက်လုပ်စရာ မြေမရှိဘဲ ဖြစ်သွားမှာပေ့ါ"

သူတို့သည် စခန်းအနီးသို့ ရောက်လာကြသည်။ "ကျွန်မတို့ မနက်ကျရင် လာခဲ့မယ်၊ ဒီမှာက ကောက်ဖို့ သိပ်မကျန်တော့ဘူး" ဟု အမေက လှမ်းပြောသည်။ အမေသည် ကားဘော်ဒီ အိမ်တန်း၏ အစွန်ဆုံးမှ သူ့အိမ်ဆီသို့ လျှောက်လာပြီး အိမ်ထဲသို့ တန်းဝင်ခဲ့လေ၏။ အခန်းထဲမှ မှန်အိမ်မီးရောင်သည် ခပ်မှိန်မှိန်။ နံရံတွင် ထင်ဟပ်နေသည့် အရိပ်များကလည်း ခပ်မှုန်မှုန် ခပ်ဝါးဝါး။ အခန်းထဲတွင် အဖေဂျုတ်၊ ဦးလေးဂျွန်နှင့် အသက်ခပ်ကြီးကြီး လူတစ်ယောက်သည် နံရံကို မှီ၍ထိုင်လျက် ရှိလေသည်။

"ဟယ်လို" ဟု အမေက အသံပေးသည်။ "မင်္ဂလာညပါ မစ္စတာ ဝိန်းဝရိုက်"

မစ္စတာ ဝိန်းဝရိုက်သည် အမေ့အား မော့ကြည့်သည်။ ထူထဲသော မျက်ခုံးများအောက်မှ သူ့မျက်လုံးများသည် အတွင်းဘက်သို့ ချိုင့်ဝင်လျက် ရှိကြ၏။ ငွေရောင် တောက်နေသော မုတ်ဆိတ်မွေးများသည် သူ့မေးရိုးနှင့် ပါးများကို ဖုံးအုပ်လျက် ရှိကြသည်။ "မင်္ဂလာညပါ" ဟု ပြန်၍ နှုတ်ဆက်လေသည်။

"ကျွန်မတို့ မနက်ဖြန် ဝါကောက်ဖို့ အလုပ်ရခဲ့ပြီ" ဟု အမေက ပြောသည်။ "မြောက်ဘက်မှာ၊ တစ်မိုင်လောက်ပဲ ဝေးတယ်၊ ဧက နှစ်ဆယ် ရှိတယ်"

"ထရပ်ကား ယူသွားရင် ကောင်းမယ်ထင်တယ်" ဟု အဖေဂျူတ်က ဆိုသည်။ "ဝါကောက်ချင်တဲ့ လူတွေလည်း ခေါ်တင်သွားနိုင်တာပေါ့"

ဝိန်းဝရိုက်၏ ဦးခေါင်းသည် ထောင်လာသည်။ "ကျုပ်တို့ပါလိုက်ပြီး ကောက်နိုင်မလား"

"ရတာပေါ့၊ ဘာပြုလို့ မရနိုင်မှာလဲ၊ ကျွန်မနဲ့ ဟိုလူနဲ့ အတူတူ လမ်းလျှောက်လာတာ၊ သူက ဝါကောက်သမား ထွက်ရှာဦးမယ်လို့ ပြောလိုက်သေးတယ်"

"ဝါက ဒီဘက်က တုံးတော့မယ်၊ အပင်မှာ ပွင့်လက်စ လက်ကျန်က ပါးသွားပြီ၊ အကျကို ကောက်နေလို့ကတော့ လုပ်ခ လုံလုံလောက်လောက် ရစရာလမ်း မရှိတော့ဘူး"

"ရှင်တို့မိသားစုပါ ကျွန်မတို့ကားနဲ့ လိုက်ပေါ့" ဟု အမေက ဆိုသည်။ "ဓာတ်ဆီကို တစ်ဝက်စီ ခံတာပေါ့"

"ခင်ဗျားတို့ဟာ မိတ်ဆွေ ပီသပါပေတယ်ဗျာ"

"နှစ်ဦးစလုံး အဆင်ပြေသွားအောင်လို့ပါ" ဟု အမေက အလိုက်သင့် ပြန်ပြောသည်။

အဖေဂျူတ်က အမေ့ဘက် လှည့်၍ ပြောသည်။ "မစ္စတာ ဝိန်းဝရိုက်မှာလည်း စိတ်ပူစရာ တစ်ခု ရှိနေတယ်ကွ၊ အဲဒါကို တို့ဆီလာပြီး ပြောပြနေတာ"

"ဘာဖြစ်နေလို့လဲ"

ဝိန်းဝရိုက်က ကြမ်းပြင်ကို စိုက်ကြည့်နေသည်။ "ကျုပ်တို့သမီး အက်ဂျီပေါ့" ဟု စကားစသည်။ "သူက အသက်လည်း ကြီးလာပြီ၊ အခုဆို ဆယ့်ခြောက်နှစ် ရှိနေပြီ၊ လူကောင်ကလည်း အတော် ထွားလာတယ်"

"အက်ဂျီက မိန်းမချောကလေးပဲ" ဟု အမေက ပြောသည်။

"နားပဲ ထောင်စမ်းပါဦးကွာ၊ မင့်မလည်း" ဟု အဖေဂျုတ်က ဝင်ဟန့်သည်။

"ဒီလိုဗျာ၊ အက်ဂျီနဲ့ ခင်ဗျားတို့သား အယ်လ်ပေါ့၊ သူတို့က ညတိုင်းတွဲပြီး သွားနေကြတယ်၊ အက်ဂျီက ကျန်းကျန်းမာမာ သန်သန်စွမ်းစွမ်း မိန်းကလေးဆိုတော့ ယောက်ျားတစ်ယောက် ရှိသင့်နေပြီ၊ အချိန်မီ မပေးစားပြန်ရင်လည်း ဒုက္ခတွေမှာ စိုးရတယ်၊ ကျုပ်တို့မိသားစုမှာ ဒီကိစ္စမျိုးနဲ့ ပတ်သက်ပြီး နာမည်ပျက် မရှိခဲ့ဘူး၊ ဒါပေမဲ့ဗျာ၊ ကျုပ်တို့က ဆင်းရဲကြတယ် မဟုတ်လား၊ အဲဒါနဲ့ ကျုပ်နဲ့ ကျုပ်မိန်းမက သူ ဒုက္ခရောက်မှာ တွေးပြီး စိတ်ပူနေကြတယ်"

အမေက မွေ့ရာတစ်လိပ် ဖြည်၍ခင်းပြီး ထိုင်သည်။ "အခုကော သူတို့ အပြင်သွားကြပြန်ပြီလား" ဟု မေးသည်။

"အမြဲ သွားနေကြတာဗျ" ဟု ဝိန်းဝရိုက်က ပြောသည်။ "ညတိုင်းပါပဲဗျာ"

"အင်း အယ်လ်ဟာ သဘောမဆိုးပါဘူး၊ လူကောင်းကလေး တစ်ယောက်ပါ၊ ဒီအသက်အရွယ်ဆိုတာလည်း ကြက်မ မြင် လိုက်ချင်တတ်တဲ့ ကြက်ဖပေါက်စလို ဖြစ်နေလို့ပါ၊ ဒါပေမဲ့ ဒီကောင် လူကောင်းပါ"

"အို ဒီသဘော မဟုတ်ပါဘူး၊ အယ်လ်ကို သဘောမကျတဲ့ အနေနဲ့ ပြောနေတာ မဟုတ်ပါဘူး၊ ကျုပ်တို့က သူ့ကို ခင်ကြပါတယ်၊ ကျုပ်နဲ့ ကျုပ်မိန်းမ မစ္စက် ဝိန်းဝရိုက်တို့ စိတ်ပူနေတာက မိန်းကလေးက အရွယ်ရောက်နေပြီ မဟုတ်လား၊ တကယ်လို့ပေါ့ဗျာ၊ ကျုပ်တို့ကလည်း တစ်နေရာကို ရွှေ့သွားကြမယ်၊ ခင်ဗျားတို့ကလည်း တခြား တစ်နေရာကို ရွှေ့သွားကြပြီ ဆိုပါတော့၊ အက်ဂျီမှာ တစ်ခုခု ဖြစ်နေတာနဲ့များ ကြုံနေရမလား၊ ဘာလားပေါ့ဗျာ၊ ကျုပ်တို့မိသားစုမှာ ဒီလို အရှက်ကွဲတာမျိုး မရှိခဲ့ဘူးဗျ"

အမေက သာယာသိမ်မွေ့သော အသံဖြင့် ပြန်ပြောသည်။ "ကျွန်မတို့ကြောင့် ရှင်တို့ မိသားစု အရှက်မကွဲရအောင် ကျွန်မတို့ ကြည့်ပြီး လုပ်ပေးပါ့မယ်"

ဝိန်းဝရိုက်သည် ထိုင်နေရာမှ လျင်မြန်စွာ ထရပ်လိုက်သည်။ "ကျေးဇူးပါပဲ မစ္စက်ဂျုတ်ရယ်၊ အက်ဂျီဟာ အရွယ်ရောက်နေပြီဗျ၊ သူလည်း မိန်းမကောင်းလေး တစ်ယောက်ပါ၊ သဘောလည်း မဆိုးပါဘူး၊ အခုလို ကျုပ်တို့ အရှက်မကွဲရအောင် လုပ်ပေးမယ်ဆိုတဲ့ စကားပြောတော့ ကျုပ်တို့က သိပ်ကျေးဇူးတင်ပါတယ်ဗျာ၊ အခုကိစ္စဟာ အက်ဂျီ အပြစ်တော့လည်း မဟုတ်ပါဘူးလေ၊ သူက အရွယ်ရောက်လာပြီကိုးဗျ"

"အဖေဂျုတ်က အယ်လ်ကို ပြောပါ" ဟု အမေက ပြောသည်။ "တကယ်လို့ ရှင် မပြောရင် ကျွန်မကိုယ်တိုင် ပြောမယ်"

"ကဲ ကျုပ်သွားမယ်၊ ကျေးဇူးပါပဲဗျာ၊ အားလုံး မင်္ဂလာညပါ" မစ္စတာ ဝိန်းဝရိုက် သည် တစ်ခန်းနှင့် တစ်ခန်း ခြားထားသော လိုက်ကာကို ဆွဲဖယ်ပြီး တစ်ဖက်ခန်းသို့ ဝင်ရောက်သွားလေသည်။ တစ်ဖက်ခန်းမှ စကားပြောသံသဲ့သဲ့ကို ကြားနေရ၏။ မိသားစု သံတမန်ထံမှ ပြန်ကြားချက်ကို နားထောင်၍ အပြန်အလှန် ဆွေးနွေးနေကြခြင်းပေတည်း။

အမေက နားစွင့်လျက် ရှိသည်။ ထို့နောက် သူတို့မိသားစုဘက် လှည့်၍ "ကဲ လာကြ၊ ဒီမှာ ထိုင်ကြဦး" ဟု လှမ်းပြောသည်။

အဖေဂျုတ်နှင့် ဦးလေးဂျွန်တို့သည် ထိုင်နေရာမှ ပျင်းရိလေးကန်စွာဖြင့် ထလာပြီး အမေ့ဘေး၌ ဝင်ထိုင်ကြသည်။

"ကလေး နှစ်ယောက်ကော"

အဖေဂျုတ်က ထောင့်တစ်ထောင့်ရှိ မွေ့ရာတစ်ခုဆီ လက်ညှိုး ထိုးပြသည်။ "ရူသီက ဝင်းဖီးကို ပြေးပြီး ကိုက်တယ်၊ ဒါကြောင့် နှစ်ယောက်စလုံးကို အိပ်ခိုင်းထားတယ်၊ အိပ်ပျော်ကုန်ကြပြီ ထင်တာပဲ၊ ရိုစာဟန်ကတော့ သူ့အသိ မိန်းမကြီးဆီ သွားလည် နေတယ်"

အမေက သက်ပြင်းချသည်။ "ကျွန်မ တွမ်နဲ့ တွေ့ခဲ့ပြီ" ဟု ခပ်တိုးတိုး ပြောသည်။ "ကျွန်မ သူ့ကို ထွက်သွားဖို့ ခိုင်းခဲ့ပြီ၊ ဝေးနိုင်သမျှ ဝေးဝေးကို ပြေးဖို့ မှာပစ်ခဲ့တယ်"

အဖေဂျုတ်က ခေါင်းညိတ်သည်။ ဦးလေးဂျွန်ကတော့ ခေါင်းငုံ့ထားသည်။ သူ့မေးစေ့သည် သူ့ရင်ဘတ်နှင့် ထိလျက် ရှိလေသည်။ "သူလည်း လုပ်စရာနည်းလမ်း မရှိတော့ဘူး ထင်ပါရဲ့" ဟု အဖေဂျုတ်က ပြောသည်။ "သူ့အနေနဲ့ တခြားလုပ်နိုင်တာများ ရှိဦးမလား ဂျွန်၊ တွေးကြည့်စမ်းပါဦး"

ဦးလေးဂျွန်က မော့ကြည့်သည်။ "ငါတော့ ဘာမှစဉ်းစားလို့ မရဘူး" ဟု ပြန်ပြောသည်။ "ငါ့ခေါင်းထဲမှာလည်း ဘာမှ ရှိတော့ဟန် မတူပါဘူးကွာ"

"တွမ်ဟာ သဘောကောင်းပါတယ်" အမေက ရေရွတ်သည်။ ထို့နောက် အဖေဂျုတ်အား တောင်းပန်စကား ပြောသည်။ "အယ်လ်ကို ရှင်မပြောရင် ကျွန်မ ပြောမယ်လို့ စောစောက ကျွန်မ ပြောခဲ့မိတယ်၊ ရှင့်ကို ထိခိုက်အောင် ပြောတာ မဟုတ်ပါဘူး"

"သိပါတယ်" ဟု အဖေဂျုတ်က အေးအေးသာသာ ပြန်ပြောသည်။ "ငါကိုယ်တိုင်လည်း အသုံးမကျတော့ပါဘူး၊ အချိန်ရှိသမျှ ထိုင်ပြီး တွေးနေတာက လွဲပြီး ဘာမှ မလုပ်တော့ဘူး၊ အချိန်ရှိသမျှ ကိုယ့်ဇာတိက ကိုယ့်အိမ်အကြောင်းပဲ ပြန်စဉ်းစား နေမိတာပဲ၊ ငါ ဘယ်တော့မှ ပြန်ရောက်မှာလည်း မဟုတ်တော့ပါဘူး"

"ဒီအရပ်က ပိုပြီး လှပါတယ်ရှင်၊ မြေကလည်း ပိုကောင်းပါတယ်" ဟု အမေက ပြောသည်။

"ငါလည်း သိပါတယ်ဟာ၊ သိပေမဲ့ မမြင်ဘူး၊ ငါကတော့ မိုးမခပင်တွေ အနေနဲ့ သူတို့ အရွက်တွေကို ဘယ်နည်းဘယ်ပုံ ဆုံးရှုံးနေကြတယ် ဆိုတာကိုပဲ တွေးနေမိတယ်၊ တစ်ခါတလေ ကျပြန်တော့လည်း ဟိုတောင်ဘက် ခြံစည်းရိုးက အပေါက်ကို ပြန်ပိတ်လိုက်ဖို့ စဉ်းစားမိပါရဲ့၊ အင်းပေါ့လေ၊ ရယ်စရာတော့ အကောင်းသား၊ မိသားစုကို မိန်းမက ဦးစီးနေပြီ၊ မိန်းမကပဲ ဒီနေရာမှာ ဒါလုပ်စမ်း၊ ငါတို့ ဟိုနေရာကို သွားမယ်ဆိုတဲ့ စကားမျိုးတွေကို ပြောနေတယ်၊ ငါကတော့ သတိတောင်မှ မထားမိတော့ဘူး"

"မိန်းမက ယောက်ျားတစ်ယောက်ထက် ပိုပြီးကောင်းအောင် ပြောင်းလဲ ပေးနိုင်တယ် မဟုတ်လား" ဟု အမေက ချော့ချော့မော့မော့ လေသံဖြင့် ပြောသည်။ "မိန်းမက သူ့ဘဝ တစ်ခုလုံးကို သူ့လက်ထဲမှာ ထားတယ်၊ ယောက်ျားကတော့

သူ့ဘဝတစ်ခုလုံးကို သူ့ခေါင်းထဲမှာ ထားတာ၊ ဘာပဲဖြစ်ဖြစ်လေ၊ လာမယ့်နှစ်ဆိုရင်တော့ ကျွန်မတို့မှာ အခြေစိုက် စရာ နေရာ တစ်နေရာတော့ ရတန်ကောင်းပါရဲ့"

"အခုလက်ရှိ အခြေအနေကတော့ ငါတို့မှာ ဘာမှ မရှိတော့ဘူး" ဟု အဖေဂျုတ်က ဆိုသည်။ "လမ်းပေါ်မှာ လျှောက်သွားနေရတာလည်း ကြာလှပြီ၊ အလုပ်လည်း မည်မည်ရရ မရှိသေးဘူး၊ ဘာသီးနှံမှလည်း မစိုက်နိုင်ဘူး၊ ဒီအခြေအနေမျိုးဟာ ငါတို့ ဘာဆက်လုပ်ကြမှာလဲ၊ စားစရာကို ဘယ်လိုရှာကြ ဖွေကြမလဲ၊ ရိုစာဟန်ကလည်း နင် မြင်တဲ့အတိုင်းပဲ၊ မွေးခါနီးနေပြီ၊ ဒါတွေကို ငါ တွေးရမှာမုန်းတယ်၊ ရွံတယ်၊ ဒါတွေကို တွေးမိမှာ ကြောက်လို့ ဟိုအတိတ်က အကြောင်းတွေကိုပဲ ပြန်တွေးနေမိတာ၊ ငါတို့ဘဝဟာ လမ်းဆုံး နေပြီထင်ပါရဲ့ဟာ"

"မဟုတ်ဘူး၊ လုံးဝ မဟုတ်ဘူး" အမေက ပြုံးသည်။ "ရှင်ထင်တာ မဟုတ်သေးဘူး အဖေဂျုတ်၊ မိန်းမတစ်ယောက်အနေနဲ့ အသိပိုတာ တစ်ခုရှိသေးတယ် သိလား၊ ကျွန်မ အဲဒီ အချက်ကို သတိထားမိတယ်၊ ယောကျ်ားက ဘဝကို တဒင်္ဂ အပြောင်းအလဲတွေလို့ မြင်တယ်၊ ကလေးမွေးပြီး လူတစ်ယောက် သေတယ်ဆိုပါတော့၊ အဲဒါဟာ သူ့အဖို့ တဒင်္ဂ အပြောင်းအလဲ တစ်ခုပ၊ မြေတစ်ကွက် ရတယ်၊ ပြန်ပြီး ဆုံးရှုံးတယ် ဆိုတာတွေဟာလည်း သူ့အဖို့ တဒင်္ဂ အပြောင်းအလဲ တစ်ခုပဲ၊ မိန်းမကျတော့ ဘဝကို ထာဝရ ဖြစ်စဉ်တစ်ခုလို့ မြင်တယ်၊ သူ့အဖို့ကတော့ ဘဝဟာ မြစ်တစ်ခုပဲ၊ အမြဲ စီးဆင်းနေတယ်၊ ဘဝလမ်းကြောင်း ပေါ်မှာ ရုတ်တရက် ပေါ်ပေါက်လာတဲ့ အဖြစ်အပျက်တွေဟာ မြစ်ရေပြင်ပေါ်မှာ ထလာတဲ့ ဝဲဂယက်တွေနဲ့ ဘာမှမထူးဘူး၊ ကျွန်မတို့ မိန်းမတွေဟာ ဘဝကို အဲသလိုမြင်တာ၊ ဒါကြောင့် ကျွန်မတို့မှာ ဘဝဆုံးတယ်ဆိုတာ မရှိဘူး၊ လူတွေဟာ အဆက်မပြတ် သွားနေတာပဲ၊ သူတို့ သွားနေတဲ့ လမ်းကြောင်းပေါ်မှာ အပြောင်းအလဲလေးတွေ ရှိကောင်း ရှိလိမ့်မယ်၊ ဒါပေမဲ့ သူတို့ သွားနေတဲ့ လမ်းကြောင်းဟာ ပြတ်မသွားဘူး၊ ဆက်ပြီး သွားမြဲတိုင်း သွားနေတာပဲ"

"နင်က ဘယ်လိုနည်းနဲ့ ပြောနိုင်တာလဲ" ဟု ဦးလေးဂျွန်က မေးသည်။ "အရာရာတိုင်းကို မသွားအောင် ဘယ်ဒင်းက လုပ်ပေးမှာလဲ၊ လူတွေကို ပင်ပန်း မောဟိုက်ပြီး နားမသွားအောင် ဘယ်ဒင်းက တားပေးမှာလဲ"

အမေက ငိုင်၍ စဉ်းစားနေရာမှ သူ့လက်ခုံ တစ်ဖက်ကို ကျန် လက်တစ်ဖက်ဖြင့် ပွတ်နေသည်။ သူ့ညာဘက် လက်ချောင်းများကို ဘယ်ဘက် လက်ချောင်းများ ကြားသို့ အံဝင်ခွင်ကျ ဖြစ်သွားအောင် ထိုးသွင်းလိုက် ပြန်ထုတ်လိုက် လုပ်လျက် ရှိလေသည်။ "ပြောရတာတော့ ခက်တယ်" ဟု ပြောသည်။ "ကျွန်မတို့ လုပ်သမျှ အရာရာတိုင်းဟာ ကျွန်မ စိတ်အထင် ပြောတာနော်၊ အဆက်မပြတ် သွားနေဖို့ ရည်ရွယ်ပြီး လုပ်နေကြတာပဲ၊ ကျွန်မအဖို့ကတော့ အဲသလိုပဲ ထင်တယ်၊ ဆာတာတို့ ဖျားတာတို့တောင်မှ အဲဒီသဘောပဲ ရှိတယ်လို့ ထင်တာပဲ၊ ရောဂါတစ်ခုခု ဖြစ်တဲ့အခါ တချို့က သေတယ်၊ တချို့က ပိုပြီး ခံနိုင်ရည် ရှိလာတယ်၊ တစ်နေ့ပဲ နေရ နေရ နေနိုင်အောင် ကြိုးစားတယ်"

ဦးလေးဂျွန်က ကြားဖြတ်၍ ပြောသည်။ "တကယ်လို့ အဲဒီနေ့ အဲဒီအချိန် မသေဘူး ဆိုရင်ကော"

"မသေဘူး ဆိုတော့လည်း နေပေါ့၊ အလကား အကြောင်းမဲ့ ကိုယ့်အတွက် ကိုယ်ပူပန်ပြီး သောက မရောက်နဲ့ပေါ့"

"လာမယ့်နှစ်တော့ မင်းပြောသလို အဆင်ပြေချင်လည်း ပြေသွားမှာပေါ့၊ ကိုယ့်အရပ်ကို ပြန်ရောက်ချင်လည်း ရောက်ကြမှာပေါ့လေ" ဟု အဖေဂျုတ်က ဆိုသည်။

"နားထောင်ကြစမ်း" ဟု အမေက နားစွင့်သည်။

အိမ်ရှေ့ လူသွားလမ်းပေါ်မှ လျှောက်လာနေသည့် ခြေသံ။ ထို့နောက် အယ်လ် အိမ်ထဲသို့ ဝင်လာသည်။ "ဟယ်လို" ဟု အသံပေးသည်။ "ကျုပ်က ဒီအချိန်ဆိုရင် အမေတို့ အိပ်လောက်ပြီလို့ ထင်တာ"

"အယ်လ်၊ အမေတို့ စကားပြောနေကြတာ၊ ဒီမှာလာပြီး ထိုင်စမ်းပါဦး"

"ထိုင်မယ် အမေ၊ ကျုပ်လည်း စကားပြောစရာ ရှိတယ်၊ ကျုပ် မကြာခင် ဒီအရပ်ကနေပြီး တစ်နေရာရာကို သွားတော့မယ်လို့ စီစဉ်ထားတယ်"

"ဘယ်ဖြစ်ဦးမလဲကွယ်၊ အမေတို့မှာ မင်းမရှိရင် မဖြစ်သေးဘူး၊ ဘာကြောင့် မင်းက သွားဖို့ စီစဉ်ရတာလဲ"

"ဒီလိုဗျ၊ ကျုပ်နဲ့ အယ်ဂျီဝိန်းဝရိုက်တို့ လက်ထပ်ကြမယ်၊ ပြီးရင် ကျုပ်က မော်တော်ကား အလုပ်ရုံ တစ်ခုမှာ အလုပ်ဝင်လုပ်မယ်၊ အခိုက်အတန့်တော့ အခန်းတစ်ခန်း ငှားပြီး နေမယ်၊ ပြီးတော့.. " အယ်လ်က လူကြီးများ၏ မျက်နှာကို အလွန် တည်ငြိမ်သော မျက်နှာထားဖြင့် မော့ကြည့်သည်။ "ကျုပ်တို့ကတော့ တိုင်ပင်ပြီးပြီ၊ ဘယ်သူမှ တားလို့ မရတော့ဘူး"

အားလုံးက သူ့အား တအံ့တသြဖြင့် ငေးကြည့်နေကြသည်။ "အယ်လ်" ဟု အမေက ခေါ်သည်။ "အမေတို့ သိပ်ဝမ်းသာတယ်၊ သိပ်ကို ဝမ်းသာကြတာပဲ"

"အမေတို့ ဝမ်းသာတယ် ဟုတ်လား"

"အေးပေါ့၊ အမေတို့ သိပ်ဝမ်းသာတာပေါ့၊ မင်း အရွယ်ရောက်လာပြီ၊ မိန်းမ ယူသင့်ပြီ၊ ဒါပေမဲ့ ချက်ချင်းကြီးတော့ အမေတို့နဲ့ ဝေးရာကို မသွားပါနဲ့ဦးလားကွယ်"

"ကျုပ်က အက်ဂျီကို ကတိ ပေးထားပြီးပြီဗျ" ဟု အယ်လ်က ပြောသည်။ "သွားမှ ဖြစ်တော့မှာပါ အမေရာ၊ ကျုပ်တို့ ဒီနေရာကို စိတ်ကုန်နေပြီ"

"နွေဦးပေါက်တဲ့အထိတော့ နေပါဦးကွယ်" ဟု အမေက တောင်းပန်သည်။

"နွေဦးပေါက်ကလေး အထိပါ၊ နေမယ် မဟုတ်လား ဟင်၊ မင်းမရှိရင် ထရပ်ကားကို ဘယ်သူ မောင်းပေးမလဲ"

"အေးဗျာ"

လိုက်ကာနောက်မှ မစ္စက် ဝိန်းဝရိုက်၏ ခေါင်း ထွက်လာသည်။ "ရှင် မကြားသေး ဘူးလား" ဟု အမေက မေးသည်။

"ကြားတယ်၊ အခုပဲ ကြားတာ၊ အို ကျွန်မလေ ကိတ်မုန့်တစ်လုံးလောက် ရချင်လိုက်တာ၊ ကိတ်မုန့်ဖြစ်ဖြစ် ဒါမှမဟုတ်လည်း စားစရာ တစ်ခုခုသာရှိရင် ဘယ်လောက် ကောင်းလိုက်မလဲ"

"ကျွန်မ ကော်ဖီဖျော်မယ်၊ ဆီကြော်မုန့် လုပ်မယ်" ဟု အမေက ပြောသည်။ "အိမ်မှာ သစ်သီးရည်လည်း ရှိနေတယ်"

"အို.. ဟန်ကျလိုက်တာ" မစ္စက်ဝိန်းဝရိုက်က ဝမ်းသာအယ်လဲ ရေရွတ်သည်။ "ကဲ.. ဒီလိုဆို ကျွန်မအိမ်က သကြားယူခဲ့မယ်၊ ဆီကြော်မုန့်ကို သကြားနဲ့ စားကြတာပေါ့"

အမေသည် သစ်သား အစအနများကို ချိုးဖဲ့ပြီး မီးဖိုထဲသို့ ထည့်ကာ ညနေစာချက်စဉ်က ရှိနေသည့် ကျောက်မီးသွေး လက်ကျန်ဖြင့် မီးမွေးသည်။ ရှုသီနှင့် ဝင်းဖီးတို့ အိပ်ရာမှ ထလာကြသည်။ နှစ်ဦးစလုံး တိတ်တိတ်ဆိတ်ဆိတ်နှင့် သတိကြီးစွာ ထားလျက် ရှိကြ၏။ သူတို့သည် လူကြီးများ၏ အရိပ်အခြည်ကို အကဲခတ်နေကြသည်။ လူကြီးများက သူတို့အား အခုအချိန်ထိ လူဆိုးနှစ်ကောင်ဟု သတ်မှတ်ထားနေဆဲလား။ မည်သူကမှ သူတို့ကို မကြည့်။ ဂရုမထား။ ထိုအခါ နှစ်ဦးစလုံး အတင့်ရဲလာကြသည်။ ရှုသီသည် တံခါးမဘက်သို့ ခုန်ဆွခုန်ဆွ လုပ်၍သွားကာ နံရံအနီး၌ နံရံကို လက်နှင့်မကိုင်ဘဲ ခြေတစ်ပေါင်ကျိုး ရပ်နေသည်။

ဇလုံ တစ်လုံးထဲသို့ အမေ ဂျုံမှုန့်များ လောင်းထည့်နေခိုက်တွင် ရိုစာဟန် ပြန်ရောက်လာသည်။ "ဘာလုပ်နေကြတာလဲ" ဟု လှမ်းမေးသည်။

"သတင်းကောင်းပေါ့" ဟု အမေက ပြောသည်။ "အယ်လ်နဲ့ အက်ဂျီတို့ လက်ထပ်ကြတော့မယ်၊ ဒါကြောင့် မင်္ဂလာအထိမ်းအမှတ်အဖြစ်နဲ့ ပါတီလေးတစ်ခု လုပ်မလို့"

ရိုစာဟန်သည် ကျောက်ရုပ်သဖွယ် ငြိမ်ဆိတ်စွာ ရပ်လျက် ရှိသည်။ သူ့မျက်လုံး အစုံသည် ရှက်ရွံ့သော မျက်နှာထားဖြင့် ရပ်နေသည့် အယ်လ်ထံသို့ ဖြည်းညင်းစွာ ရွေ့လျားသွားနေသည်။

တစ်ဖက်ခန်းမှ မစ္စက် ဝိန်းဝရိုက်၏ အော်ပြောနေသည့် အသံ။ "ကျွန်မ အက်ဂျီကို ဂါဝန်အသစ် လဲပေးလိုက်ဦးမယ်၊ မကြာပါဘူး၊ အခုပဲ လာခဲ့မယ်နော်"

ရိုစာဟန်သည် နောက်သို့ ဖြည်းလေးစွာ ပြန်လှည့်လိုက်သည်။ အိမ်ရှေ့တံခါးဆီသို့ ပြန်လျှောက်ပြီး အောက်ဘက်ရှိ လူသွားလမ်းပေါ်သို့ ဆင်းသည်။ မြေကြီးပေါ် ခြေချမိသည်နှင့် တစ်ပြိုင်နက် သူသည် ချောင်းဘက်သို့ ဆင်းကာ ချောင်းဘေးရှိ လူသွားလမ်းပေါ်သို့ တက်သည်။ စောစောက အမေ သွားခဲ့သည့် လမ်းအတိုင်းလိုက်ကာ မိုးမခပင် အုပ်အုပ်များ အတွင်းသို့ ဝင်လာခဲ့သည်။ အခုကျတော့လည်း လေသည်

ခပ်မှန်မှန်ပင် တိုက်ခတ်လျက် ရှိလေသည်။ ရှိစာဟန်သည် အသာကလေး ဒူးထောက်၍ ထိုင်ချလိုက်ပြီး ချုံကြိုချုံကြား အတွင်းသို့ လေးဖက်ထောက်၍ ဝင်သည်။ ဆူးကိုင်းများသည် သူ့မျက်နှာကို ဆီး၍ ခြစ်ကြသည်။ သူ့ဆံစများကို ဆီး၍ ငြိကာ ဆွဲထားကြသည်။ သို့သော်လည်း သူကတော့ မဖြုံ။ သတိလည်း မထား။ ဂရုလည်း မစိုက်။ သူ့တစ်ကိုယ်လုံးကို ချုံပင်များက လာ၍ ထိတွေ့ခါမှပင် အသာရပ်သွားလိုက်သည်။ သူသည် ရှေ့သို့ ကုန်းနေသော ကျောကို နောက်သို့ လှန်ကာ ပြန်၍ ဆန့်လိုက်၏။ ထိုအခါကျမှပင် သူ့ပိုက်ထဲမှ ကလေး၏ အလေးချိန်ကို သူ သတိထားမိလေ၏။

အလင်းရောင်မဲ့လျက်ရှိသော ကားဘော်ဒီအိမ်ထဲတွင် အမေသည် အိပ်ရာမှ နိုးလျက် ရှိလေသည်။ သူသည် ကိုယ်ပေါ်မှ စောင်ကို တွန်းဖယ်ချလိုက်ပြီး အိပ်ရာမှ ထသည်။ အပြင်မှ ကြယ်ရောင်သည် ဖွင့်ထားသည့် ရှေ့တံခါးမှနေ၍ အတွင်းသို့ ဝင်လျက်ရှိ၏။ အမေသည် တံခါးဆီသို့ လျှောက်သွားကာ အဝမှရပ်၍ အပြင်သို့ မျှော်ကြည့်သည်။ အရှေ့ဘက် ကောင်းကင်ဆီတွင် ကြယ်များသည် မှေးမှိန် ဖျော့တော့နေကြလေပြီ။ လေသည် မိုးမခပင် ကိုင်းကြို ကိုင်းကြားမှနေ၍ ညင်သာစွာ ဖြတ်သန်းတိုက်ခတ်လျက် ရှိသည်။ ချောင်းငယ်ဆီမှ ရေစီးသံ သဲ့သဲ့သည် လေနှင့်အတူ မျောပါလျက် ရှိလေသည်။ စခန်းတစ်ခုလုံးလိုလိုပင် အိပ်မောကျနေဆဲ ဖြစ်၏။ သို့သော်လည်း ရွှက်ထည်တဲ တစ်ခုလုံး၏ ရှေ့တွင်မူ မီးဖိုတစ်ခုသည် မှေးမှိန်စွာ တောက်လောင်လျက် ရှိသည်။ ထိုမီးဖိုရှေ့တွင် လူတချို့သည် မတ်တတ်ရပ်ကာ မီးလှုံလျက် ရှိကြလေသည်။ အမေသည် လေအောက်တွင် ယိမ်းကသည့်နယ် လှုပ်ရှားလျက် ရှိသော မီးရောင်ဖြင့် မီးလှုံနေသူများအား ကောင်းစွာ မြင်နေရသည်။ သူတို့သည် မီးဖိုကို မျက်နှာပြု၍ ရပ်ကာ လက်ဖဝါးများကို ဖြန့်၍ မီးကင်လိုက် လက်ချင်းပွတ်လိုက်။ ထို့နောက် မီးဖိုကို ကျောပေး၍ ရပ်ကာ လက်များကို နောက်သို့ ပစ်ထားကြသည်။

အမေသည် သူ့လက်များကို ပိုက်၍ရပ်ကာ မီးလှုံနေသူများကို အတန်ကြာမျှ ငေးကြည့်နေသည်။ ဝေ့ယမ်းတိုက်ခတ် လျက် ရှိသော လေထဲတွင် ဆီးနှင်း အအေးဓာတ်သည် ပါလာလျက် ရှိ၏။ အမေ့တစ်ကိုယ်လုံးသည် စိမ့်၍ အေးလာသည်။ အမေသည် လက်ဖဝါးချင်း ပွတ်ကာ နွေးလာအောင် အားထုတ်သည်။ ထို့နောက် အိမ်ထဲသို့ ပြန်ဝင်ပြီး မီးခြစ်ကိုရှာ၍ မှန်အိမ်ကို ထွန်းသည်။ သူသည် မှန်အိမ်ကို ယူ၍ မီးဖိုအနီး၌ထိုင်ကာ

ကပျာကယာ မီးမွေးသည်။ ခဏမျှအကြာတွင် မီးဖိုမှ မီးတောက် မီးလျှံများသည် တရိပ်ရိပ် တက်လာလျက် ရှိလေ၏။

ရှိစာဟန်သည် ပက်လက် အိပ်နေရာမှ တစ်ဖက်သို့ စောင်းကာ အိပ်ရာပေါ်မှ လေးကန်စွာ ထသည်။ "သမီး ထတော့မယ် အမေ" ဟု လှမ်းပြောသည်။

"နွေးနွေးထွေးထွေး ဖြစ်သွားအောင် ဘာပြုလို့ ခဏလောက် လှဲမနေတာလဲ" ဟု အမေက မေးသည်။

"မလှဲတော့ဘူး ထတော့မယ်"

အမေသည် လက်ဆွဲပုံးထဲမှ ရေကို ခပ်၍ ကော်ဖီအိုးထဲသို့ ထည့်ကာ မီးဖိုပေါ်သို့ တင်နေရာမှ လှမ်းမေးသည်။ "ဘာလုပ်မလို့လဲ"

"သမီး အပြင်သွားမလို့" ဟု ရှိစာဟန်က ဖြေသည်။

"အပြင် ဘယ်ကိုသွားမှာလဲ"

"ဝါ ကောက်မလို့"

"ဘယ်ဖြစ်မလဲ" ဟု အမေက ပြောသည်။

"သွားမှာပဲ"

အမေသည် ကော်ဖီမှုန့်ကို ခြင်၍ထည့်သည်။ "ရှိစာဟန်၊ မနေ့ညက မှန့်စားကြတော့ ညည်းမရှိဘူး၊ ဘယ်သွားနေလဲ" ရှိစာဟန်က အဖြေမပေး။ "ဘာပြုလို့ ညည်းက ဝါကောက်ချင်ရတာလဲ" အသံ မကြား၊ရ။ "အယ်လ်နဲ့ အက်ဂျီတို့ကြောင့်လား" ဤတစ်ကြိမ်ကျတော့ အမေသည် သူ့သမီး မျက်နှာကို အနီးသို့ ကပ်၍ ကြည့်သည်။ "အို ညည်း ဝါထွက်ကောက်ဖို့ မလိုပါဘူး"

"ထွက်ကောက်မှာပဲ"

"ကိုယ့်ကိုယ်ကို စိတ်ဆင်းရဲအောင် မလုပ်ပါနဲ့အေ"

"အဖေ ထတော့"

အဖေဂျုတ်သည် မျက်တောင်ကို ပုတ်ခတ် ပုတ်ခတ် လုပ်ကာ တစ်ချက်မျှ အားရပါးရ သမ်းလိုက်သည်။ "ကောင်းကောင်းလည်း မအိပ်ရသေးဘူး" ဟု ညည်းသည်။ "မနေ့ညက တို့ အိပ်ရာဝင်တော့ ဆယ့်တစ်နာရီ ထိုးနေပြီ"

"ထကြတော့ အားလုံး ထကြတော့၊ မျက်နှာ သွားသစ်ကြတော့"

ကားဘော်ဒီ အိမ်အတွင်းမှ တုံးလုံးပက်လက် ဖြစ်နေသူများသည် တဖြည်းဖြည်းနှင့် အသက်ဝင် လှုပ်ရှားလာကြသည်။ စောင်များကို ဖယ်၍ ထသူက ထလာကြသည်။ အဝတ်အစားလဲသူက လဲကြသည်။ အမေသည် ဝက်သား ဆားနယ်တုံးကို ခပ်ပါးပါး လှီး၍ ဒယ်အိုးထဲသို့ ထည့်သည်။ "ထပြီး မျက်နှာသစ်ကြတော့" ဟု အမေက လောဆော်ပြန်သည်။

တစ်ဖက်အိမ်အတွင်းမှ မှန်အိမ်မီးရောင်သည် လင်းခန် လက်လာသည်။ ထင်းခြောက်ချိုးသံများ ကြားရသည်။ ထို့နောက် မစွက်ဝိန်းဝရိုက်၏ စကား လှမ်းပြောသံ..။ "မစွက်ဂျုတ် ကျွန်မတို့ အဆင်သင့် ဖြစ်နေပြီ"

အယ်လ်က တစ်ချက် ညည်းသည်။ "ကျုပ်တို့ကို ဘာပြုလို့ အစောကြီး ထခိုင်းနေရတာလဲဗျာ"

"ကေနစ်ဆယ် ရှိတယ်ကွယ့်" ဟု အမေက ပြောသည်။ "အစောကြီးရောက်မှ ဖြစ်မှာ၊ ဒီမှာက ဝါ မကျန်တော့ဘူး" အမေသည် ကပျာကယာ အဝတ်လဲကာ မနက်စာကို ကသုတ်ကရက် ပြင်သည်။ "ကဲ လာကြ၊ ကော်ဖီ သောက်ကြတော့"

"မှောင်ကြီးထဲမှာ ဘယ်လိုလုပ်ပြီး ဝါကောက်နိုင်မှာလဲ အမေရာ"

"အစောကြီးသွားရင် ဟိုကို မိုးလင်းလင်းချင်း ရောက်နိုင်တာပေါ့ကွယ်"

"ညက မိုးရွာထားတယ်၊ ရေစိုနေရင် ဘယ်လိုလုပ်မလဲ"

"မိုးက သိပ်ရွာတာ မဟုတ်ပါဘူးကွယ်၊ ကဲ ကော်ဖီသောက်လှည့်ကြ၊ အယ်လ်က စားသောက်ပြီးရင် ကားကို စက်နှိုးကြည့်ဦး"

"ကျုပ် စားနေတုန်း အမေရ၊ တစ်မိနစ်လောက်အတွင်း အဆင်သင့် ဖြစ်ရစေမယ် ဗျာ"

အပြင်ဘက်တွင် စခန်းတစ်ခုလုံး အသက်ဝင် လှုပ်ရှားလျက် ရှိနေလေပြီ။ ရွက်ထည်တဲများ ရှေ့တွင် မီးဖိုများသည် တငွေ့ငွေ့ တောက်လောင်လျက် ရှိကြ၏။ ကားဘော်ဒီအိမ်များ၏ မီးဖိုခေါင်းတိုင်များဆီမှ မီးခိုးငွေ့များသည် အလိပ်လိပ် တက်လျက် ရှိကြသည်။

အယ်လ်သည် ကော်ဖီကို ကသောကမျော မော့ချိုက်ကာ ဝက်သားဆားနယ်ကို ပါးစပ်ထဲ ထည့်လိုက်သည်။ ပြီးတော့ အိမ်ရှေ့ လူသွားလမ်းပေါ်သို့ ဆင်းသွားလေ၏။

"ကျွန်မတို့ အဆင်သင့် ဖြစ်နေပြီ မစ္စက် ဝိန်းဝရိုက်" ဟု အမေက လှမ်း၍ အသံပြုသည်။ သူသည် ရိုစာဟန်ဘက် လှည့်၍ပြောသည်။ "သမီးက အိမ်မှာ နေခဲ့မှ ဖြစ်မယ်"

"သမီးလည်း လိုက်မယ်" ဟု ပြန်ပြောသည်။ "သမီး မလိုက်လို့မဖြစ်ဘူး အမေ"

"ညည်းမှာ ဝါကောက်ဖို့ အိတ်မှ မရှိတာ၊ ဘာနဲ့ သွားကောက်မှာလဲ"

"အမေ့ အိတ်ထဲ ထည့်မယ်"

"အမေကတော့ မလိုက်စေချင်ဘူး"

"သမီးကတော့ လိုက်ခဲ့မှာပဲ"

အမေက သက်ပြင်းချသည်။ "ငါ့မှာ ညည်းကိုပဲ မျက်ခြည်မပြတ် ကြည့်ပေးနေရတော့မှာ၊ ဆရာဝန်တစ်ယောက် ရှိနေစေချင်လိုက်တာဟယ်" ရိုစာဟန်သည် မတည်ငြိမ်သော စိတ်ဖြင့် အခန်းထဲတွင် လမ်းသလားလျက် ရှိ၏။ သူသည် ကုတ်အင်္ကျီ တစ်ထည်ကို ယူဝတ်ကြည့်သည်။ ပြီးတော့ ချက်ချင်းပင် ပြန်၍ ချွတ်ပစ်လိုက် ပြန်သည်။ "စောင်တစ်ထည်တော့ ယူခဲ့" ဟု အမေက လှမ်းပြောသည်။ "ညည်း နားတဲ့အခါ နွေးနွေးထွေးထွေး ဖြစ်အောင် ခြုံထားလို့ ရတယ်" အိမ်နောက်ဘက်မှ ထရပ်ကား စက်သံကို ကြားရသည်။ "အလုပ်သွားတာ ငါတို့မိသားစု အစောဆုံးပဲ" အမေက

အားရသော လေသံဖြင့် ပြောသည်။ "ကဲ လုပ်ကြ၊ ဝါအိတ်တွေကို ယူကြ၊ ရှသီနင်တို့အတွက် ရှပ်အကျီ အဟောင်းကို ပြင်ချုပ်ပေးထားတဲ့ အိတ်ကလေးတွေ မေ့မထားခဲ့ကြနဲ့"

ဝိန်းဝရိုက် မိသားစုနှင့် ဂျုတ် မိသားစုသည် မှောင်ကြီးမည်းမည်းထဲမှာပင် ထရပ်ကားပေါ်သို့ တက်ကြသည်။ အရုဏ်သည် လာလျက် ရှိလေပြီ။ သို့သော်လည်း နေးကွေးလှ၏။ ယခုအချိန်အထိ အရောင်ကလည်း ခပ်ဖျော့ဖျော့။

"ဘယ်ဘက်ကို ချိုး" ဟု အမေက အယ်လ်ကို ပြောသည်။ "အမေတို့ သွားရမယ့်နေရာကို လမ်းညွှန်ထားတဲ့ ကြော်ငြာဆိုင်းဘုတ် ရှိလိမ့်မယ် ကြည့်သွား" သူတို့သည် မှောင်မှောင်မည်းမည်း လမ်းအတိုင်း ကားကို မောင်းသွားကြသည်။ စခန်းထဲမှ အခြားကားများသည် သူတို့နောက်မှ လိုက်ရန် ပြင်ဆင်လျက် ရှိကြသည်။ မော်တော်ကားများသည် အဝေးပြေး လမ်းမကြီးပေါ်သို့ တစ်စင်းပြီးတစ်စင်း တက်လာကြပြီး ဘယ်ဘက်ကိုပင် ချိုးကြလေသည်။

လမ်းမကြီး ညာဘက်ဘေးရှိ စာတိုက်ပုံး တစ်ပုံးတွင် ကပ်ချိတ်ထားသည့် ဆိုင်းဘုတ်တစ်ခု။ ဆိုင်းဘုတ်ပေါ်တွင် ဝါကောက်အလုပ်သမားများ အလိုရှိသည် ဟူသော အပြာရောင် စာလုံးများ။ အယ်လ်သည် ကားကို ခြံထဲသို့ ကွေ့ဝင်ပြီး စပါးကျီဝင်းထဲအထိ မောင်းလာခဲ့သည်။ စပါးကျီဝင်း ကွက်လပ်ထဲတွင် ကားမျိုးစုံဖြင့် ပြည့်လျက် ရှိလေပြီ။ အဖြူရောင် စပါးကျီ၏ တစ်ဖက်အစွန်းရှိ အခန်းသည် လျှပ်စစ်မီးရောင်ဖြင့် လင်းလျက်ရှိ၏။ ထိုမီးရောင်အောက်ရှိ ကတ္တားများ ရှေ့တွင် တန်းစီ၍ ရပ်နေကြသော ယောက်ျားများနှင့် မိန်းမများ။ သူတို့ လက်ထဲတွင် ပြည့်ဖောင်းနေသော ဝါအိတ်များ အချို့မိန်းမများသည် ဝါအိတ်များကို ပခုံးတွင် လွယ်၍ အိတ်များကို ရင်ခွင်တွင် ပိုက်ထားကြသည်။

"ကျုပ်တို့အစောဆုံးလို့ ထင်ထားတာ လွဲနေပါပကောလား" ဟု အယ်လ်က ရေရွတ်သည်။ သူသည် ထရပ်ကားကို ခြံစည်းရိုးအနီးတွင် ထိုးသည်။ မိသားစုသည် ကားပေါ်မှဆင်းကာ တန်းစီစောင့်နေသော လူအုပ်၏ နောက်တွင် ဝင်၍ ရပ်ကြသည်။ လမ်းမကြီးပေါ်မှ ကားများသည် အဆက်မပြတ် ဆင်းလာနေဆဲ။ မိသားစု အများအပြားသည် စောင့်နေသူများ နောက်မှ တစ်စုပြီးတစ် ဝင်၍ ရပ်ကြဆဲ။ အစွန်ဆုံး အခန်းအတွင်းမှ

မီးရောင်အောက်တွင်မူ ပိုင်ရှင်သည် အလုပ်သမားများအား လက်မှတ် ထိုးပေးလျက် ရှိလေသည်။

"ဟောလေး" ဟု ရေရွတ်သည်။ ပြီးတော့ သူ့နာမည်ကို စာလုံးပေါင်းပြသည်။

"လူ ဘယ်နှစ်ယောက်လဲ"

"လေးယောက်၊ ဝစ်လ်ရယ်"

"ဝစ်လ်"

"ပြီးတော့ ဘင်တန်"

"ဟုတ်ပြီ၊ ဘင်တန်"

"နောက်ပြီးတော့ အေမီလာယာ "

"အင်း၊ အေမီလာယာ "

"ကလဲရာ "

"ကလဲရာ၊ နောက် တစ်ယောက်၊ နာမည် ဘယ်သူလဲ၊ ကာပင်တာ၊ လူ ဘယ်နှစ်ယောက်လဲ "

"ခြောက်ယောက် "

အလုပ်ရှင်သည် နာမည်များကို စာအုပ်ထဲတွင် ရေးသွင်းလျက် ရှိသည်။ တစ်ဖက်တွင် ဝါ အလေးချိန် ရေးသွင်းရန် ကွက်လပ်တစခု နေရာချန်ထားသည်။ "ဝါအိတ် ပါသလား၊ မပါရင် ကျုပ်ဆီမှာ လက်ကျန်နည်းနည်း ရှိသေးတယ်၊ တစ်လုံးကို တစ်ဒေါ်လာ ကျတယ်" မော်တော်ကားများသည် ခြံဝင်းအတွင်းသို့ တဖွဲဖွဲ ဝင်ရောက်နေဆဲ ဖြစ်၏။ အလုပ်ရှင်သည် သိုးရေ အနားကွပ် ဂျက်ကက်အင်္ကျီ ဇစ်ကို လည်ပင်းလုံအောင် ဆွဲစေ့လိုက်သည်။ သူသည် ကားလမ်းဘက်သို့ အလွန် အားရရွှင်လန်းသော မျက်နှာထားဖြင့် တစ်ချက် မျှော်ကြည့် လိုက်သည်။ "ဒီလူအုပ်နဲ့ဆိုရင်တော့ ဂေနစ်ဆယ်

ဟာ ဘာကြာမှာလဲ၊ ခဏနဲ့ ပြီးသွားမှာ သေချာတယ်” ဟု အားရပါးရ ရေရွတ်လိုက်လေသည်။

ကလေးများသည် ဝါများ ထည့်သည့် ထရေလာပေါ်သို့ တက်ကြသည်။ သူတို့၏ ခြေထောက်များသည် ထရေလာဘေးမှ ပတ်ထားသည့် ဝါယာကြိုးများပေါ် နင်းထားကြလေသည်။ “ဟော့ အခုချက်ချင်း ပြန်ဆင်းကြစမ်း” ဟု အလုပ်ရှင်က ထအော်သည်။ “ဆင်းကြ၊ အခုချက်ချင်း ဆင်း၊ ဝါယာကြိုးတွေ ပျက်ကုန်လိမ့်မယ်” ကလေးများသည် ကြောက်လန့်တကြား ဖြစ်ကာ ကသောကမျော ပြန်ဆင်းကြသည်။ အရုဏ်ဦး မှုန်ပျပျ အလင်းရောင်သည် ရောက်လာလေပြီ။ “ကျုပ်အနေနဲ့ နင်းကိုတော့ မကြောက်လို့ မဖြစ်ဘူး၊ သတိထားမှ ဖြစ်မှာ” ဟု အလုပ်ရှင်က ပြောသည်။ “ကဲ ကဲ ဝါခင်းထဲ ဆင်းချင်ကြရင် ဆင်းကြတော့၊ အလင်းရောင် ကောင်းကောင်းရလာပြီပဲ”

လူအုပ်ကြီးသည် လျင်မြန်စွာ ရွေ့လျားကာ ဝါခင်းများအတွင်းသို့ ဆင်းသွားကြပြီး ကိုယ့်အတန်းနှင့်ကိုယ် နေရာယူကြလေသည်။ ဝါအိတ်များကိုမူ သူတို့ခါးများတွင် အသင့် ချည်နှောင်ထားပြီးကြလေပြီ။ အရုဏ်သည် အရှေ့ဘက် တောင်ကုန်းများအား အရောင် မျိုးစုံဖြင့် ပက်ဖျန်း ခြယ်လှယ်စ ပြုနေလေပြီ။ လမ်းမကြီးပေါ်မှ မော်တော်ကားများ သည် ထိုအချိန်အထိ ခြံဝင်းထဲသို့ မောင်းဝင်လာပြီး ကျီဝင်းအတွင်းရှိ နေရာလပ်များ၌ ရပ်နေဆဲ ဖြစ်၏။ လေသည် လျင်မြန်သော အရှိန်ဖြင့် ဝါခင်းများကို ဖြတ်၍ တိုက်ခတ်လျက် ရှိလေသည်။ “ဒီနေရာမှာ အလုပ်ရှိတယ်လို့ ဘယ်လိုနည်းနဲ့များ သိလာကြတာလဲ ငါ့လူတို့ရာ” ဟု အလုပ်ရှင်က ရေရွတ်သည်။ “ဧကနစ်ဆယ်ဟာ မွန်းတည့်ချိန်အထိမှ ခံပါ့မလားကွယ်တို့၊ ကဲ ကဲ ပြော၊ နာမည်၊ ဟမ်းစ် ဟုတ်လား၊ လူက ဘယ်နယောက်လဲ”

လူတန်းကြီးသည် ဝါခင်းများရှိရာသို့ ဆက်လက် ရွေ့လျားဆဲ။ ထန်ပြင်းသော အနောက်လေကြောင့် သူတို့အင်္ကျီများသည် တဖြတ်ဖြန် လွင့်လျက် ရှိကြ၏။

အဖေဂျုတ်သည် သူ၏ ညာဘက်တန်းမှ လူအား စကား လမ်းပြောလျက် ရှိသည်။ “ကျုပ်တို့ အရပ်မှာတော့ ဒီလိုလေမျိုးသာ တိုက်လာရင် မိုးရွာတာပဲဗျ၊ ဒါနဲ့ ခင်ဗျား ဒီအရပ်မှာ ရောက်တာ ဘယ်လောက်ကြာပြီလဲ” သူသည် စကားသာ လှမ်းပြော နေသော်လည်း မျက်လုံးများကမူ ဝါပွင့်များပေါ်၌သာ စူးစိုက်လျက် ရှိလေသည်။

သူ့အဖော်ကလည်း သူ့အား မော့၍ပင် မကြည့်။ "ကျုပ် ဒီရောက်တာ တစ်နှစ်နီးပါး ရှိပြီ"

"ဘယ့်နှယ်လဲ၊ မိုးရွာမယ် ထင်သလား"

"မပြောနိုင်ဘူး၊ မပြောနိုင်လို့လည်း အထင်သေးစရာတော့ မရှိပါဘူး၊ ဒီအရပ်မှာ တစ်သက်လုံး နေလာတဲ့ လူတွေတောင် အတိအကျ ပြောနိုင်ကြတာမှ မဟုတ်တာ"

အဖေဂျူတ်သည် အနောက်ဘက် တောင်ကုန်းများဆီသို့ ဖျတ်ခနဲ လှမ်းကြည့်သည်။ ပြာမှိုင်းမှိုင်း တိမ်လိပ်များသည် တောင်ထိပ်များဘက်မှ ရွေ့လျားလျက် ရှိ၏။

"တိမ်တွေ ကြည့်ရတာတော့ မိုးရွာမယ့် လက္ခဏာပဲဗျ" ဟု ပြောသည်။

သူ့အဖော်က မျက်လုံးများကို ဆတ်ခနဲ ပင့်ကာ တစ်ချက်မျှ ခိုးကြည့်သည်။ "မပြောတတ်ဘူး" ဝါပင် အတန်းများကြားမှ လူများသည် တိမ်များဆီသို့ လည်ပြန် လှည့်ကြည့်ကြသည်။ ထို့နောက် သူတို့အလုပ်ပေါ်၌ စောစောကထက် ပို၍ အာရုံစိုက်သွားကြသည်။ လက်များသည် သွက်လက် လျင်မြန်စွာ လှုပ်ရှားလာကြသည်။ သူတို့သည် ဝါကို အပြိုင်ကောက်ကြသည်။ အချိန်နှင့် ယှဉ်ပြိုင်၍၊ အလေးချိန်နှင့် ယှဉ်ပြိုင်၍၊ မိုးနှင့် ယှဉ်ပြိုင်၍၊ တစ်ဦးကို တစ်ဦးပြိုင်၍။ ဝါများများရဖို့ အဓိက ဟူသော အသိ၊ ဝါများများရမှ ငွေများများရမည် ဟူသော ခံယူချက်များဖြင့် တရမန်းကြမ်း ကောက်ကြသည်။ ဝါခင်း၏ တစ်ဖက်အစွန်းသို့ ရောက်သွားသည်နှင့် တစ်ပြိုင်နက် လျင်မြန်စွာ နောက်ပြန်လှည့်ပြီး ဝါပင် အတန်းသစ် အတွင်းသို့ အပြေးအလွှား ဝင်သည်။ ယခုအခါတွင် ဝါကောက်သူ အားလုံးလိုလိုသည် လေကို မျက်နှာချင်းဆိုင်မိနေကြပြီ ဖြစ်၏။ အရှေ့ဖျားမှ ဖြည်းဖြည်းချင်း တက်လာနေသော နေဆီသို့ ရွေ့လျားသွားနေကြသည့် ပြာမှိုင်းမှိုင်း မိုးသားတိမ်လိပ်များကို မြင်တွေ့နေကြရပြီ ဖြစ်၏။ မော်တော်ကားများကလည်း အလာ မရပ်သေး၊ အသစ် အသစ် ဖြစ်သော ဝါကောက် အလုပ်သမားများကလည်း အတိုး မရပ်သေး။ လူတန်းကြီးသည် ဝါခင်းများထဲ၌ တရွေ့ရွေ့ လှုပ်ရှားနေကြသည်။ ကတ္တားများရှေ့၌ ရပ်ကာ ချိန်တွယ်နေကြသည်။ သူတို့ ရသည့်အလေးချိန်ကို သူတို့ကိုယ်ပိုင် စာရင်း စာအုပ်များထဲတွင် ရေးသွင်း မှတ်သားနေကြသည်။ ပြီးတော့ ဝါပင် အတန်းသစ်များဆီသို့ အလုအယက် ပြန်၍ ပြေးသွားလျက် ရှိကြလေ၏။

ဆယ့်တစ်နာရီထိုးတွင် ဝါခင်း တစ်ခင်းလုံး ဝါကောက်၍ ပြီးသွားသည်။ ဝါအပြည့် တင်ထားသော ထရပ်ကားကြီးများသည် ဝါအပြည့် တင်ထားသော နောက်တွဲ ထရေလာများကို ဆွဲကာ အဝေးပြေး လမ်းမကြီးတစ်လျှောက် မောင်းထွက်သွားကြသည်။ ဝါများကို ဝါကြိတ်စက်သို့ သွား၍ ပို့ကြခြင်းပေတည်း။ ထရပ်ကားများပေါ်မှ ဝါဖတ် အစအနများသည် လေတွင် လွင့်၍ လွင့်၍ ပါလာကြပြီး လမ်းဘေး ဝဲယာရှိ ချုံပင် နွယ်ပင်များနှင့် မြက်ပင်များတွင် ဝင်ရောက် ကပ်ငြိကြကုန်၏။ ဝါကောက် အလုပ်သမားများသည် ကျီဝင်းအတွင်း၌ ပြန်လည် စုရုံးကာ တန်းစီလျက် ရှိကြပြန်သည်။ လုပ်ခငွေ ထုတ်ယူရန် စောင့်ကြခြင်းပေတည်း။

"ဟုမ်း ဂျိန်းစ် နှစ်ဆယ့်နှစ်ဆင့်၊ ရပ်ဖ် ဆင့်သုံးဆယ်၊ ဂျုတ်သောမတ် ဆင့်ကိုးဆယ်၊ ဝင်းဖီး ဆယ့်ငါးဆင့်" ငွေများသည် စားပွဲပေါ်တွင် အစုလိုက် အပုံလိုက်။ ဒေါ်လာပြားများ၊ ဆင့်ပြားများ၊ ပဲနီပြားများ။ လူတိုင်းသည် ငွေရှင်းသည့် အခါတိုင်း သူ့စာအုပ်ထဲမှ စာရင်းနှင့် တိုက်၍ စစ်သည်။ "ဝိန်းဝရိုက် အင်္ဂနီးစ် သုံးဆယ့်လေးဆင့်၊ တိုဘင် ခြောက်ဆယ့်သုံးဆင့်" လူတန်းကြီးသည် နေးကွေးစွာ ရွေ့လျားလျက် ရှိသည်။ မိသားစုများသည် သူတို့ မော်တော်ကားများဆီသို့ ငြိမ်ငြိမ်ကုပ်ကုပ် ပြန်သွားကြသည်။ ထို့နောက် ကားများကို ခပ်ဖြည်းဖြည်း မောင်း၍ ထွက်သွားကြလေ၏။

ဂျုတ် မိသားစုနှင့် ဝိန်းဝရိုက် မိသားစုတို့သည် ခြံအဝင် လမ်းမပေါ်၌ ကားအရှင်းကို စောင့်မျှော်လျက် ရှိကြသည်။ သူတို့ စောင့်နေသည့် အခိုက်မှာပင် မိုးပေါက် များသည် တဖွဲဖွဲ ကျလာသည်။ ကားရှေ့ခန်းထဲမှ အယ်လ်သည် သူ့လက်တစ်ဖက်ကို အပြင်သို့ ဆန့်ထုတ်ပြီး မိုးရေကို ခံကြည့်နေသည်။ ရှေ့ခန်းထဲတွင် ရိုစာဟန်သည် အလယ်မှ ထိုင်၍ အမေက ဘေးမှာ ထိုင်လျက် ရှိသည်။ အခုလိုကျပြန်တော့လည်း ရိုစာဟန်၏ မျက်လုံးများသည် မှေးမှိန်လျက် ရှိကြပြန်လေသည်။

"ငါ့သမီး လိုက်လာဖို့ မတော်ဘူးအေ့" ဟု အမေက ပြောသည်။ "ညည်းက မပေါ့မပါးဆိုတော့ ဆယ်ပေါင် ဆယ့်ငါးပေါင်ထက် ပိုပြီး မကောက်နိုင်ဘူးပေါ့" ရိုစာဟန်ကတော့ အမေ့ကို ခွန်းတုံ့ပြန်၍ ပြောခြင်းမပြု။ ရှေ့သို့ တအားစူထွက်နေသော သူ့ဗိုက်ကိုသာ ငုံ့ကြည့်လျက် ရှိ၏။ ရုတ်တရက် သူ့တစ်ကိုယ်လုံးသည် ခိုက်ခိုက်တုန် လာသည်။ သူ့အခြေအနေကို စောင့်ကြည့်နေသော အမေက ဝါအိတ်ကို ဖြန့်၍ ရိုစာဟန်၏

ပခုံးနှစ်ဖက်ကို လုံသွားအောင် ခြုံပေးသည်။ ပြီးတော့ ရိစာဟန်ကို ဖက်၍ သူ့ကိုယ်နှင့် ပူးပူးကပ်ကပ် ဖြစ်နေအောင် ဆွဲယူလိုက်သည်။

နောက်ဆုံးတွင် အထွက်လမ်း၌ စုပြုံ၍ နေကြသော ကားများသည် ရှင်းသွားသည်။ အယ်လ်သည် သူ့ကားစက်ကို နှိုးကာ အပြင်သို့ မောင်းထွက်လာခဲ့ပြီး လမ်းမကြီးပေါ်သို့ တောက်လျှောက် တက်လိုက်သည်။ မိုးပေါက်များသည် စိပ်လာသည်။ စောစောကထက် များလာသည်။ ကားအမိုးပေါ်သို့ ကျလာနေသည့် မိုးပေါက်များ၏ အသံသည် ကျယ်လောင်လွန်းလှချေသည်။ ကားနောက်ထဲ၌ စုပြုံ၍ ထိုင်နေကြသော ဂျုတ်မိသားစုနှင့် ဝိန်းဝရိုက် မိသားစုသည် ဝါဒီတ်များကို ဖြန့်ကာ သူတို့ခေါင်းနှင့် ပခုံးများ လုံအောင် ခြုံထားကြလေသည်။

အမေ့ လက်ထဲ၌ ရောက်နေသည့် ရိစာဟန်၏ တစ်ကိုယ်လုံးသည် ပြင်းထန်စွာ တုန်လှုပ်လျက် ရှိသည်။ "မြန်မြန်မောင်း အယ်လ်၊ ရိစာဟန် အအေးမိနေပြီ၊ သူ့ခြေထောက်တွေ ရေနွေးနဲ့ မြန်မြန် စိမ်ပေးမှ ဖြစ်မှာ"

အယ်လ်က ထရပ်ကားအရှိန်ကို မြှင့်၍ မောင်းသည်။ စခန်းအတွင်းသို့ ဝင်မိသည့်အခါ ကားကို အိမ်နားအထိ မောင်းသွားသည်။ ကားစက် မသတ်မီကတည်းက အမေ့အသံ စာစာသည် ဆူညံစွာ ထွက်ပေါ်လျက် ရှိ၏။ "အယ်လ်၊ မင်း ဦးလေးဂျွန်နဲ့ အဖေဂျုတ်တို့ကို ခေါ်ပြီး မိုးမခတောဘက် သွားပါ၊ ထင်းခြောက် ရနိုင်သမျှ များများ ရအောင် ကောက်ခဲ့ပါ၊ အမေတို့ နွေးအောင် လုပ်ပေးမှ ဖြစ်မယ်"

"ခေါင်မိုးက မိုးယိုနေရင်တော့ အခက်ပဲ"

"ယိုမယ် မထင်ပါဘူးကွယ်၊ ဘာပဲဖြစ်ဖြစ် အမေတို့မှာ ထင်းများများရှိမှ ဖြစ်မှာ၊ မင်းသွားရင် ရူသီနဲ့ ဝင်းဖီးတို့ကိုပါ ခေါ်သွား၊ သူတို့လည်း ထင်းခြောက် ကောက်နိုင်ပါတယ်၊ ရိစာဟန်ကတော့ အတော့်ကို နေမကောင်းဖြစ်နေပြီ" အမေသည် ကားပေါ်မှ ကတိုက်ကရိုက် ဆင်းသည်။ ရိစာဟန်က နောက်မှ ဆင်းလိုက်ရန် အားထုတ်သည်။ သို့သော် သူ့ဒူးများသည် ကွေးညွတ်၍ ကျလာကြသည်။ ရိစာဟန်သည် ကားခြေနင်းခုံ ထက်သို့ လေးကန်စွာ ထိုင်ချလိုက်ရသည်။

မစ္စက် ဝိန်းဝရိုက်သည် ရိစာဟန်၏ အဖြစ်ကို မြင်သွားသည်။ "ဘာဖြစ်တာလဲ မွေးခါနီးလို့လား" ဟု လှမ်းမေးသည်။

"မဟုတ်ဘူး၊ မွေးခါတော့ မနီးသေးဘူးလို့ ထင်တာပဲ၊ သူ အအေးမိသွားတာတော့ သေချာတယ်၊ ကျွန်မကို ကူပါဦး" မိန်းမကြီးနှစ်ယောက်သည် ရိစာဟန်ကို တွဲ၍ ခေါ်သည်။ ခြေလှမ်း အနည်းငယ်မျှ လျှောက်မိသောအခါ မသိမသာ အားပြန်ဝင်လာသည်။ သူ့ခြေထောက်များက သူ့ကိုယ်ကို သယ်လာနိုင်သည်။

"သမီး လျှောက်နိုင်ပြီ အမေ" ဟု ပြောသည်။ "ခဏလေး အားကုန်သလို ဖြစ်သွားတာပါ"

မိန်းမကြီးနှစ်ယောက်သည် ရိစာဟန်၏ လက်မောင်းများကို မလွှတ်။ "ခြေထောက်တွေကို ရေနွေးစိမ်ဖို့ အရေးကြီးတယ်" ဟု အမေက ဆိုသည်။ သူတို့သည် ရိစာဟန်ကို ဆက်၍တွဲကာ အိမ်ပေါ်အထိ လိုက်ပို့ကြသည်။

"သူ့တစ်ကိုယ်လုံး နွေးလာအောင် ရှင်က သူ့ခြေထောက်တွေကို ပွတ်တိုက်ပေးထားနှင့်" ဟု မစ္စက် ဝိန်းဝရိုက်က ပြောသည်။ "ကျွန်မ မီးမွေးလိုက်မယ်" သူသည် ထင်းခြောက် အကြွင်းအကျန်များကို ကောက်၍ မီးမွေးသည်။ မိုးသည် သဲသဲမဲမဲ ရွာလျက် ရှိလေပြီ။ အိမ်ခေါင်မိုးထက်မှ မိုးရေစီးကျသံများကိုပင် ကြားနေရပြီ ဖြစ်၏။

အမေက ခေါင်မိုးကို မော့ကြည့်သည်။ "ဘုရားသခင်ကို ကျေးဇူးတင်ရတော့မှာပဲ၊ အမိုးက လုံလို့ တော်ပါသေးရဲ့" ဟု ရေရွတ်သည်။ "ဟို ရွက်ထည်တဲတွေကျတော့ မိုးယိုတယ်၊ ရွယ်ထည် ဘယ်လောက်ပဲထူထူ မိုးက ယိုတာပဲ၊ ရေနည်းနည်းကလေး တင်မိတာနဲ့ တစ်ပြိုင်နက် ယိုတာပဲ မစ္စက် ဝိန်းဝရိုက်ရဲ့"

ရိစာဟန်သည် မွေ့ရာတစ်ခုပေါ်တွင် ငြိမ်သက်စွာ လဲလျောင်းလျက် ရှိသည်။ သူ့ဖိနပ်များ ချွတ်ပေးနေသည်ကို လည်းကောင်း၊ သူ့ခြေထောက်များအား လက်များနှင့် ပွတ်တိုက်ပေးနေသည်ကို လည်းကောင်း ငြိမ်၍ ခံနေလျက် ရှိလေသည်။ မစ္စက် ဝိန်းဝရိုက်သည် ရိစာဟန်အား ငုံ့ကြည့်နေသည်။ "ဗိုက်ကော နာသလား" ဟု မေးသည်။

"ဗိုက်ကတော့ မနာပါဘူး၊ မအီမလည် ဖြစ်နေတာ တစ်ခုပါပဲ၊ နေလို့ မကောင်းတာ"

"ငါ့ဆီမှာ အကိုက်အခဲ ပျောက်တဲ့ဆေး ရှိတယ်" ဟု မစ္စက် ဝိန်းဝရိုက်က ပြောသည်။ "လိုတဲ့အချိန်ပြော"

ရိစာဟန်၏ တစ်ကိုယ်လုံးသည် ခိုက်ခိုက်တုန်လာပြန်သည်။ "ချမ်းလိုက်တာ အမေရယ်၊ သမီးကို စောင်ခြုံပေးပါ" အမေသည် ရှိသမျှ စောင်များကို သွားယူပြီး ရိစာဟန်အား ခြုံပေးသည်။ မိုးပေါက်များသည် ခေါင်မိုးပေါ်သို့ ပြင်းထန်စွာ ရိုက်ခတ်လျက် ရှိလေသည်။

ထင်းခြောက် ကောက်သူများ ပြန်ရောက်လာကြသည်။ သူတို့လက်များတွင် ထင်းခြောက်များ တစ်ပွေ့တစ်ပိုက် ပါလာကြ၏။ သူတို့၏ ဦးထုပ်များနှင့် ကုတ်အင်္ကျီများမှ မိုးရေစက်များသည် အောက်သို့ တစက်စက် ကျလျက် ရှိကြလေသည်။

အမေက ထပ်၍ ခိုင်းပြန်သည်။ "တစ်ခေါက် ထပ်သွားပြီး ရသလောက် သယ်ထားကြပါဦး၊ ထင်းက ချက်ချင်း ကုန်မှာ" ရှသီနှင့် ဝင်းဖီးတို့သည် သူတို့ ပွေ့ထားသော ထင်းများကို ထင်းပုံပေါ်သို့ ပစ်ချလိုက်သည်။ ပြီးတော့ ပြန်ထွက်သွားရန် ဟန်ပြင်သည်။ "နင်တို့ နေခဲ့ကြတော့" ဟု အမေက တားသည်။ "လာခဲ့၊ မီးဖိုနားမှာ ရပ်ပြီး အဝတ်တွေ ခြောက်သွားအောင် မီးလှုံလှည့်ကြ"

ထိုနေ့ မွန်းလွဲပိုင်းသည် မိုးကြောင့် ငွေရောင်တောက်လျက် ရှိသည်။ လမ်းမကြီးများသည် ရေများဖြင့် ပြိုးပြိုးပြက်ပြက် အရောင်လက်လျက် ရှိကြလေ၏။ အချိန်သည် တစ်နာရီပြီး တစ်နာရီ ကုန်လွန်လာသည်။ ဝါပင်များသည် မည်းနက်လာသည်။ ရှံ့တွ ကွေးလိမ်လာသည်။ အဖေဂျုတ်၊ အယ်လ်နှင့် ဦးလေးဂျွန်တို့သည် မိုးမခ တောအုပ်ဘက်သို့ တစ်ခေါက်ပြီး တစ်ခေါက် သွားကာ ထင်းခြောက်များကို သယ်ကြသည်။ သယ်ယူလာသမျှ ထင်းများကို တံခါးအနီးတွင် ပုံကြသည်။ တဖြည်းဖြည်းနှင့် ထင်းပုံကြီးသည် ခေါင်မိုးနှင့် ထိလုနီးပါး ဖြစ်လာသည်။ နောက်ဆုံးတွင် သူတို့သည် ထင်းသယ်သည့် အလုပ်ကို ရပ်လိုက်ကြပြီး မီးဖိုအနီး၌ လာ၍ ရပ်နေကြသည်။ သူတို့၏ ဦးထုပ်များနှင့် ပခုံးများဆီမှ မိုးရေများသည် ကြမ်းပေါ်သို့ တပေါက်ပေါက် ကျဆင်းလျက် ရှိကြလေသည်။ သူတို့ ကုတ်အင်္ကျီအနားများမှ ရေများသည် တစက်စက်။ သူတို့

လမ်းလျှောက်လိုက်ကြသည့် အခါတိုင်း သူတို့၏ ဖိနပ်များဆီမှ တဆွိဆွိ အော်မြည်လျက် ရှိကြလေသည်။

"ကဲ အဝတ်တွေ လဲပစ်ကြတော့" ဟု အမေက ခိုင်းသည်။ "ကျွန်မ ရှင်တို့အတွက် ကော်ဖီပူပူလေး ဖျော်ထားတယ်၊ အဝတ်ရေစိုကြီးတွေနဲ့ ဒီအနားမှာ လာပြီး ရပ်မနေကြနဲ့တော့"

ညအမှောင်သည် စောစောစီးစီး ရောက်လာသည်။ ကားဘော်ဒီ အိမ်များအတွင်းမှ မိသားစုများသည် ခေါင်မိုးများပေါ်သို့ သွန်ချနေသည့် မိုးပေါက်သံများကို နားထောင်ရင်း တစ်ဦးနှင့် တစ်ဦး ပူး၍ ကပ်၍ တိုးဝှေ့၍ အိပ်ကြလေ၏။

* * *

## အခန်း (၂၉)

ပင်လယ်သမုဒ္ဒရာ ဘက်မှ ညို့မှိုင်းမှိုင်း မိုးသားတိမ်လိပ်များသည် ပင်လယ် ကမ်းခြေ တစ်လျှောက်ရှိ တောင်တန်းများနှင့် တောင်ကြား လွင်ပြင်များပေါ်သို့ ဖြည်းဖြည်းချင်း ရွေ့လျားလာလျက် ရှိကြသည်။ မိုးကောင်းကင် အမြင့်ပိုင်း၌ အရှိန်ပြင်းစွာ တိုက်ခတ်လျက် ရှိသောလေသည် တစ်ခါတစ်ရံတွင် ချုံကြိုချုံကြား သစ်ပင်ကြို သစ်ပင်ကြားသို့ ကျယ်လောင်သော အသံများကို ပြုကာ တိုးဝှေ့ ဖြတ်သန်းသွားလျက် ရှိလေသည်။ တစ်ခုစီ တစ်စစီ အကွဲကွဲ အပြားပြား ရောက်လာနေသော တိမ်လိပ်များသည် အချင်းချင်း ပေါင်းစပ် ဖွဲ့စည်းမိကြပြီး တဖြည်းဖြည်းနှင့် အောက်ဘက်သို့ နိမ့်ဆင်းကာ အနောက်ပိုင်းဒေသ၏ ကောင်းကင်ကို ဖုံးအုပ်လာသည်။ အဆက်မပြတ် တိုက်ခတ် လာနေသော လေသည်လည်း ချက်ချင်း ရပ်သွားသည်။ ထိုအခါ တိမ်များသည် စောစောကလို ရွေ့လျားခြင်း မပြုတော့ဘဲ တစ်နေရာတည်းတွင် စု၍ ထုနှင့်ထည်နှင့် အစိုင်အခဲနှင့် အခိုင်အမာ ရပ်တည်လာသည်။ ထို့နောက် မိုးရေပေါက်များသည် တဖွဲဖွဲ ခပ်ကျဲကျဲ ရွာသွန်းစ ပြုသည်။ ထို့နောက် တိတ်သွားသည်။ ထို့နောက် ပြန်၍ရွာသည်။ ထို့နောက်တော့ သဲသဲမဲမဲ ရွာသည်။ နောက်ပိုင်းကျတော့လည်း တဖြည်းဖြည်းနှင့် မိုးရွာပုံသည် ပုံမှန်ဖြစ်လာသည်။ ဖွဲဖွဲလည်း မဟုတ်၊ သဲသဲလည်း မဟုတ်။ မိုးပေါက်များသည် စိပ်လည်း မစိပ်၊ ကျဲလည်း မကျဲ၊ သေးလည်း မသေး၊ ကြီးလည်း မကြီး။

ပထမတော့ ခြောက်သွေ့သော မြေသည် အစိုဓာတ်ကို စုပ်ယူသည်။ ထို့နောက် မိုးရေကို နစ်ရက်တိတိ ဝအောင်သောက်သည်။ ထို့နောက် နေရာအနှံ့အပြားတွင် ရွှံ့ဗွက်များ ဖြစ်ပေါ်လာသည်။ ထို့နောက် လယ်ကွက်များအတွင်းရှိ အနိမ့်ပိုင်းကျသော နေရာများတွင် ရေအိုင်ငယ်ကလေးများ ဖြစ်ပေါ် တည်ရှိလာကြလေ၏။ ရွှံ့နွံထူထပ်သော ရေအိုင်များသည် အရောင်တလက်လက် ထွက်နေသော ကန်ရေပြင်ကို မှန်မှန် ရိုက်ခတ်လျက် ရှိ၏။

နောက်ဆုံးတွင် တောင်တန်းများပေါ်၌ ရေများ ပြည့်လျှံလာသည်။ ပြည့်လျှံ လာသော ရေများသည် ဖိတ်စင်၍ ကျလာပြီး တောင်နံရံများ တစ်လျှောက် စီးဆင်းသွားကြသည်။ ထို ရေစီးကြောင်းများသည် အလွန် အရှိန်အဟုန်ပြင်းသော ချောင်းငယ် မြောင်းငယ်များ အဖြစ်သို့ ကူးပြောင်း ရောက်ရှိသွားကြ၏။ ထို့နောက်တွင် မူကား တောင်ကြားလွင်ပြင်များ အတွင်းရှိ နက်ရှိုင်းလှသော ချောက်ကြို ချောက်ကြား

မြောင်ကြို မြောင်ကြားများအတွင်း၌ အလွန် ကျယ်လောင် မြည်ဟည်းသော အသံများကို ပြုကာ စီးဆင်းသွားကြလေ၏။

မိုးကတော့ မတိတ်သေး။ ဆက်လက်၍ပင် ပုံမှန်ရွာလျက် ရှိလေသည်။ မြစ်ကြီးမြစ်ငယ် အသွယ်သွယ်တို့သည် ကမ်းပါးများကို တိုက်စားကြသည်။ ကမ်းပါးပေါ်မှ မိုးမခပင်များနှင့် သစ်ပင်ကြီးငယ်များ၏ အမြစ်များကို တိုက်စားပစ်ကြသည်။ မိုးမခပင် များသည် ရေစီးကြောင်းဘက်သို့ ငိုက်ကျလာကြ၏။ ဝါးပင်များသည် အမြစ်မှ ပြုတ်ထွက်ကာ ရေစီးကြောင်းနှင့် အတူ မျောပါသွားကြသည်။ အချို့သော သစ်ပင်ကြီးများ သည်လည်း ရေတိုက်စားမှုဒဏ်ကို မခံနိုင်။ ပြိုလဲကျကာ ရေစီးသယ်ရာသို့ လိုက်ပါ သွားကြသည်။ ရွှံ့နွံတို့ဖြင့် နောက်ကျိလျက်ရှိသော ရေများသည် တဟဲဟဲ အော်မြည်ကာ ကမ်းပါးတစ်လျှောက် တိုးဝှေ့တိုက်ခတ်ပြီး စီးဆင်းသည်။

ထို့နောက် ရေများသည် ကမ်းပါးပေါ်သို့ ကျော်၍တက်သည်။ တဖြည်းဖြည်းနှင့် လယ်ကွင်းများ၊ ခြံများ၊ အပင် ဝတ်တိုများဖြင့် ပြည့်နေသည့် ဝါခင်းများအတွင်းသို့ စီးဝင်ကြသည်။ တပြေးတညီတည်း ရှိနေသော လယ်ကွက်များသည် တစ်ခုနှင့်တစ်ခု ဆက်စပ်သွားကာ အလွန် ကျယ်ပြန့်သော ရေကန်ကြီးများ ဖြစ်လာကြလေ၏။ မိုးပေါက် များသည် ထိုရေကန်ကြီးများ၏ မျက်နှာပြင်များကို မညှာမတာ ရိုက်ခတ်လျက်ပင် ရှိသည်။

ထို့နောက်တော့ ရေကန်ကြီးများအတွင်းမှ ရေများသည် အပြင်သို့ လျှံထွက်ကာ အဝေးပြေး ကားလမ်းမကြီးပေါ်သို့ တက်လာကြ၏။ မော်တော်ကားများသည် ဖြည်းဖြည်း သာသာ လှုပ်ရှားကြရသည်။ အောက်မှ တလှုပ်လှုပ် ဖြစ်နေသော ရေပြင်ကို ဖြတ်၍ သွားကြရသည်။ သူတို့နောက်တွင် ရွှံ့နွံများဖြင့် ပြည့်နေသော ရေများသည် ဘောင်ဘင်ခတ်၍ ကျန်ရစ်ခဲ့ကြလေ၏။ မြေသည် မိုးပေါက်များ၏ မညှာမတာ ရိုက်ခတ်မှု အောက်တွင် တီးတိုး အော်ညည်းလျက် ရှိသည်။ ချောင်းကြီး ချောင်းငယ် မြစ်ကြီး မြစ်ငယ် အသွယ်သွယ်တို့သည် အရှိန်အဟုန် ပြင်းစွာဖြင့် တရမန်းကြမ်း စီးဆင်းလျက် ရှိနေသော ရေစီးကြောင်းများ အောက်တွင် အလွန်ကျယ်လောင် မြည်ဟည်းသော အသံများကိုပြုကာ အော်ဟစ်လျက် ရှိကြလေသည်။

မိုးစ၍ ရွာသောအခါ တစ်နေရာမှ တစ်နေရာသို့ အမြဲတစေ ရွှေ့ပြောင်း သွားလာနေကြရသော လူများသည် သူတို့၏ ရွက်ထည်တဲများတွင်း၌ ဝိုင်းဖွဲ့၍

ထိုင်ကြသည်။ ပြီးတော့ အချင်းချင်း ဆွေးနွေးကြသည်။ ဒီမိုး ချက်ချင်းတိတ်မှာပါဟု ပြောသူက ပြောကြသည်။ ဒီမိုး ဘယ်လောက်ကြာကြာ ရွာနေမယ် ထင်သလဲ ဟုလည်း မေးသူက မေးကြသည်။

ရွှံ့ဗွက်များနှင့် ရေအိုင်များ ပေါ်ပေါက်လာသည့်အခါ ယောက်ျားများသည် တူရွင်းပြားများကို ဆွဲ၍ မိုးရေထဲသို့ ထွက်လာကြသည်။ တဲများအတွင်းသို့ ရေများ မဝင်အောင် ဘေးပတ်ပတ်လည်မှ မြေများ ဖို့ပေးကြသည်။ ရွက်ထည်တဲ တာလပတ် အမိုးပေါ်သို့ အဆက်မပြတ် ကျလာနေသော မိုးရေများသည် နောက်ဆုံးတွင် အတွင်းဘက်သို့ စိမ့်၍ ပေါက်၍ ဝင်လာကြလေ၏။ ပြီးတော့ တစ်နေရာတွင် စုမိသွားသော ရေများသည် တဲအတွင်းသို့ ဒလဟော ထိုးကျလာသည်။ တဲများ၏ အပြင်ဘက် ပတ်ပတ်လည်၌ ဖို့ထားသော မြေများမှာလည်း ရေတိုက်စားမှုဒဏ်ကြောင့် အပြိုပြို အကွဲကွဲ ဖြစ်ကာ ရေထဲသို့ မျောပါသွားကြလေ၏။ ထိုအခါ အပြင်ဘက်မှ ရေများသည် တဲများအတွင်းသို့ စီးဝင်ကြသည်။ ထိုရေများကြောင့် အိပ်ရာများနှင့် စောင်များသည် ရွှဲရွှဲစိုသွားကြလေသည်။ လူများသည် အဝတ်စိုများနှင့်ပင် ထိုင်နေကြရ၏။ သူတို့သည် သေတ္တာများကို ချ၍ ထိုသေတ္တာများပေါ်တွင် ပျဉ်ချပ်များကို တင်၍ နေ့ရောညပါ ထိုပျဉ်ချပ်များပေါ်၌ ထိုင်၍ နေကြရလေ၏။

ရွက်ထည်တဲများ၏ ဘေးတွင် ကားအိုကားဟောင်းများသည် ရပ်လျက် ရှိကြ၏။ ဘေးပတ်ပတ်လည်၌ ဝပ်နေသော ရေများကြောင့် ဝါယာကြိုးများသည် လည်းကောင်း ကာဘရိုက်တာများသည် လည်းကောင်း ရစရာမရှိအောင် ပေရေ ညစ်ပတ်ကုန်ကြသည်။ အရောင်အဆင်း ခပ်မွဲမွဲဖြစ်နေသော ရွက်ထည်တဲများသည် ရေပတ်လည် ဝန်းရံခြင်းကို ခံနေကြရသည်။

နောက်ဆုံးတွင် လူများသည် ထိုနေရာမှ ရွှေ့ပြောင်းရမည့် အခြေအနေသို့ ဆိုက်ရောက်လာကြလေ၏။ ထိုအခါ မော်တော်ကားများကို စက်နှိုးကြည့်ကြသည်။ စက်များက မနိုး။ အကယ်၍ စက်နိုးသည် ဆိုဦးတော့။ ရွှံ့စေးများထဲ၌ နစ်နေကြပြီဖြစ်သော ကားဘီးများသည် ရွေ့လျားကြလိမ့်မည် မဟုတ်။ ဤသို့ဖြင့် လူများသည် သူတို့၏ ရေစိုစောင်များကို ချိုင်းများတွင်ညှပ်၍ ရွှံ့ထဲရေထဲမှာပင် လျှောက်သွားကြရလေတော့၏။ သူတို့၏ ခြေထောက်များအောက်မှ ရွှံ့များရေများသည် တောက်လျှောက်စင်လျက် ရှိကြ၏။ သူတို့သည် ကလေးငယ်များကို ချီပိုး၍၊ သက်ကြီးရွယ်အိုများကို ပွေ့၍

သယ်ယူသွားကြသည်။ အကယ်၍ စပါးကျီသည် ကုန်းမြင့်ပိုင်းပေါ်၌ ရှိနေခြားအံ့။ ထိုကျီထဲတွင် မျှော်လင့်ချက် ကင်းမဲ့နေကြသော၊ အအေးဒဏ်ကြောင့် ခိုက်ခိုက် တုန်နေကြသော လူများဖြင့် ပြည့်နေတတ်လေသည်။

ထို့နောက် လူတချို့သည် ကယ်ဆယ်ရေးရုံးများသို့ သွားကြသည်။ ပြီးတော့ သူတို့၏ ဘဝတူ လူများထံသို့ ဝမ်းနည်းပက်လက်ဖြင့် ပြန်လာကြသည်။

စည်းကမ်းချက်တွေ ရှိနေတယ်ဗျ။ ဒီအရပ်ဒီဒေသမှာ တစ်နှစ်တိတိ နေခဲ့ဖူးတဲ့ သူမှသာ ကယ်ဆယ်ရေးဌာနက အကူအညီ ရနိုင်မှာ။ သူတို့က ပြောလိုက်တာကတော့ အစိုးရက ကူညီမယ်တဲ့။ ဘယ်အချိန်ကျမှ ကူညီမယ် ဆိုတာတော့ သူတို့လည်း မသိဘူးတဲ့။

ထို့နောက် တဖြည်းဖြည်းနှင့် အလွန် ကြောက်မက်ဖွယ်ရာ ကောင်းသော အရာအားလုံးထဲမှ အကြီးမားဆုံးသော ကြောက်စရာကြီး တစ်ခုသည် ဆိုက်ရောက် လာလေ၏။

သူတို့အတွက် သုံးလတိတိ ဘာအလုပ်အကိုင်မျှ မရှိချေ။

စပါးကျီများထဲတွင် လူအများသည် အချင်းချင်း ပူး၍ကပ်၍ ထိုင်ကြသည်။ ထိတ်လန့် ကြောက်ရွံ့မှုကြီး တစ်ခုသည် သူတို့အား ဖိစီးနှိပ်စက်သည်။ ယင်း ထိတ်လန့် ကြောက်ရွံ့မှုကြီးကြောင့် သူတို့၏ မျက်နှာများသည် မည်းပြာနေကြသည်။ ကလေးသူငယ် များသည် ဆာလောင်မွတ်သိပ်မှုကြောင့် ငိုကြွေးလျက် ရှိကြ၏။ သို့သော်လည်း စားစရာ အစားအစာမရှိ။

ထို့နောက် အဖျားအနာ ရောဂါများ ဝင်ရောက်လာသည်။ အဆုတ်ရောင်ရောဂါ။ ပြီးတော့ မျက်စိများကို ဒုက္ခပေးတတ်သည့် ဝက်သက်နာ။

မိုးကတော့ စဲသွားသည် မရှိ။ ကားလမ်းမကြီးများအောက်ရှိ မြေအောက် ရေပြွန်များမှာလည်း ပိတ်ဆို့ကုန်ကြပြီ ဖြစ်၏။ ထို့နောက် ရေသည် အဝေးပြေး ကားလမ်းမကြီးများ ပေါ်သို့ အဆက်မပြတ် တက်နေဆဲ ဖြစ်လေသည်။

ထို့နောက် ရွက်ထည်တဲများအတွင်းမှ လည်းကောင်း၊ လူများဖြင့် ပြည့်ကျပ်နေသော စပါးကျီများ အတွင်းမှ လည်းကောင်း ရေစို အဝတ်အစား စုတ်စုတ်ပြတ်ပြတ်နှင့် ယောကျ်ားများသည် ထွက်လာကြသည်။ သူတို့ ဖိနပ်များမှာလည်း ရွှံ့အလူးလူး ကပ်ကာ မြင်မကောင်း ရှုမကောင်း ဖြစ်လျက်ရှိကြ၏။ သူတို့သည် ရေအိုင်များ၊ ရွှံ့ဗွက်များကို ဖြတ်၍ မြို့ပေါ်သို့ သွားကြသည်။ စတိုးဆိုင်များသို့ ဝင်ကြသည်။ ကယ်ဆယ်ရေးရုံးများပေါ်သို့ တက်ကြသည်။ ပြီးတော့ အစားအစာ တောင်းကြသည်။ အစားအစာရဖို့အတွက် ဒူးထောက်၍ ခြေသလုံးဖက်၍ ခယဝယလုပ်ကာ တောင်းပန်ကြသည်။ အသနားခံကြသည်။ နောက်ဆုံးကျတော့ ခိုးယူဖို့ ကြိုးစားကြသည်။ လိမ်ယူဖို့ အားထုတ်ကြသည်။ ဒူးထောက်၍ ခြေသလုံးဖက်၍ အသနားခံရင်း၊ တောင်းပန် တိုးလျှိုးရင်း၊ ခယဝယ လုပ်ရင်းကပင် မျှော်လင့်ချက် ကင်းမဲ့သော ဒေါသတစ်ခုသည် တငွေ့ငွေ့ တောက်လောင်လာသည်။

မြို့သိမ် မြို့ငယ်ကလေးများ အတွင်းမှ လူများသည် ပထမတော့ စုတ်စုတ်ပြတ်ပြတ် ပေပေရေရေ ဖြစ်နေသော ယောကျ်ားများအပေါ် ကရုဏာထားကြသည်။ နောက်ကျတော့ ထိုကရုဏာသည် ဒေါသသို့ ပြောင်းသွားသည်။ ဝတ်ပြတ်နေကြသော လူများအပေါ်၌ ထားရှိနေသည့် ဒေါသသည် ကြောက်ရွံ့ခြင်းသို့ ပြောင်းသွားသည်။ ထိုအခါ ပုလိပ်အရာရှိချုပ်သည် ပုလိပ်များကို ကျွဲ နွား တိရစ္ဆာန်များ အုပ်လိုက်သင်းလိုက် မောင်းသွင်းလာသည့်နယ် ခေါ်သွင်းလာကြသည်။ ထို့နောက် ရိုင်ဖယ်သေနတ်များကို ကိုင်ဆောင်ကြရန်၊ မျက်ရည်ယိုဗုံးများ အသင့်ပြင်ထားကြရန်နှင့် ခဲယမ်းမီးကျောက်များ အလုံအလောက် ဆောင်ထားကြရန် အမိန့်များ ထုတ်သည်။

ဝတ်ပြတ်နေကြသည့် ယောကျ်ားများကတော့ စတိုးဆိုင်များ၏ နောက်ဘက်ရှိ လမ်းကြားများထဲတွင် တန်းစီ၍ စောင့်နေကြသည်။ သူတို့သည် ပေါင်မုန့် အကြွင်းအကျန်များ တောင်းရန်၊ ဟင်းသီးဟင်းရွက် အပုပ်အသိုးများ ကောက်ယူရန်နှင့် လစ်လျှင် လစ်သလို ခိုးယူရန် စောင့်နေကြခြင်းပေတည်း။

အထိတ်တလန့် ဖြစ်နေကြသော အမျိုးသမီးများသည် ဆရာဝန်များ၏ အိမ်တံခါးများကို အပြင်းအထန် ထုကြသည်။ ဆရာဝန်များသည် အလုပ်များလာကြ၏။ ဝမ်းနည်းပက်လက် ဖြစ်နေကြသော အမျိုးသားများကလည်း ကားတစ်စီး အမြန်ဆုံး လွှတ်ပေးရန်အတွက် သက်ဆိုင်ရာ မှုခင်းစစ် ဆရာဝန်ထံသို့ အကြောင်းကြားပေးပါဟု စတိုးဆိုင်များအား မှာကြသည်။ မှုခင်းစစ် ဆရာဝန်များအဖို့တော့ အလုပ်ရှုပ်စရာ မရှိ။

မှုခင်းစစ် ဆရာဝန်များ၏ မော်တော်ကားများသည် ဗွက်ထနေသော လမ်းကို ဖြတ်၍မောင်းကာ အသေကောင်များကို သယ်ထုတ်သွားကြလေသည်။

မိုးကတော့ စွေနေဆဲ ဖြစ်၏။ မိုးကြီးသည့် အရှိန်ဖြင့် မြစ်ကမ်းပါးများ ပြိုကျသည်။ ထိုအခါ ရေကြီးခြင်းသည် တောပိုင်းတစ်ပိုင်းလုံးကို ပျံ့နှံ့သွားလေ၏။

အကာအရံ ကင်းမဲ့လျက်ရှိသော သစ်တောများအောက်ရှိ ရေစိုနေသည့် မြက်ခြောက် ကောက်ရိုးများပေါ်တွင် လူအများသည် လဲလျောင်းနေကြသည်။ ငတ်မွတ်ခြင်းနှင့် ကြောက်ရွံ့ခြင်းသည် ဒေါသကို ပေါက်ဖွားစေ၏။ လူငယ်ကလေးများသည် အပြင်သို့ ထွက်ကြသည်။ တောင်းရန်နှင့် အသနားခံရန် မဟုတ်။ ခိုးရန် ဖြစ်လေသည်။ ယောက်ျားကြီးများသည်လည်း အပြင်သို့ ထွက်ကြသည်။ သူတို့ ရည်ရွယ်ချက်မှာလည်း ခိုးရန် ဖြစ်လေသည်။

ပုလိပ်အရာရှိချုပ်များသည် ပုလိပ်အသစ်များ ခန့်ထားသည်။ ကျမ်းသစ္စာ ကျိန်ဆိုစေသည်။ ရိုင်ဖယ် သေနတ်များ နောက်ထပ်အသစ်ယူရန် အမိန့်ထုတ်သည်။ လုံခြုံမှုအပြည့် ရှိနေသော အိမ်များအတွင်း၌ အလွန် စည်းစိမ်ရှိရှိနှင့် သက်သောင့်သက်သာ နေလျက်ရှိကြသော လူများသည် ပထမတော့ သနားကရုဏာ ထားကြသည်။ နောက်တော့ မနှစ်မြို့ဘဲ ဖြစ်လာသည်။ နောက်ဆုံးကျတော့ တစ်နေရာမှ တစ်နေရာသို့ အမြဲတစေ ပြောင်းရွှေ့နေကြရသည့် ခြေသလုံး အိမ်တိုင်သမားများအပေါ် မုန်းတီး ရွံရှာလာကြလေ၏။

အပေါက်တွေ ဗရပွဖြစ်နေသော ကျီများအတွင်းရှိ ရေစိုနေသော မြက်ခြောက်များ ကောက်ရိုးများပေါ်၌ အဆုတ်ရောဂါ ဖြစ်နေသော မိန်းမများသည် ကလေးများ မွေးကြသည်။ သက်ကြီးရွယ်အို အဘိုးကြီး အဘွားကြီးများသည် ကျီများ၏ ထောင့်များတွင် ခွေ၍ အိပ်နေကြသည်။ ယင်းကဲ့သို့ ခွေနေရင်းမှာပင် အသက်ထွက်သွားကြသည်။ မှုခင်းစစ် ဆရာဝန်များကလည်း အသေကောင်များကို အချိန်ကုန်ခံ၍ အလုပ်ရှုပ်ခံ၍ စန့်စန့်ရန့်ရန့် ဖြစ်သွားအောင် ပြန်မလုပ်ပေ။ အခွေလိုက် အတိုင်းပင် ထားလိုက်ကြ၏။

ညပိုင်းတွင် အရူးတစ်ပိုင်း ဖြစ်နေသော ယောက်ျားများသည် အကြောက်အလန့် ကင်းမဲ့စွာဖြင့် ကြက်ခြံများအတွင်းသို့ ဝင်ကာ ထိတ်လန့်တကြားဖြင့် ငယ်သံပါအောင် အောင်ဟစ်နေကြသည့် ကြက်များကို ဆွဲယူသွားကြသည်။ အကယ်၍ သူတို့အား သေနတ်နှင့် လှမ်းပစ်ပါက ထွက်ပြေးခြင်းမပြု။ ဘာကိုမှ မမြင်မကြား ဖြစ်နေသည့်နယ်

ခပ်အေးအေးပင် လျှောက်သွားကြ၏။ အကယ်၍ သူတို့အား သေနတ်ထိမှန်သွားပါမူကာ သူတို့သည် ပင်ပန်း နွမ်းနယ်စွာဖြင့် သူတို့ရှေ့ရှိ ရွှံ့ဗွက်များပေါ်သို့ မှောက်လျက် လဲကျသွားကြလေသည်။

မိုးတိတ်သွားလေပြီ။ လယ်ကွက်များပေါ်တွင် ရေကတော့ တင်နေဆဲ။ ပြာလဲ့လဲ့ မိုးကောင်းကင်သည် ရေပြင်တွင် ထင်လျက်ရှိသည်။ မြေပြင်သည် လှုပ်ရှားနေသော ရေများဖြင့် တီးတိုးစကား ပြောလျက် ရှိလေသည်။ ကျီများနှင့် တဲများအတွင်း ယောက်ျားများသည် အလျှိုလျှိုထွက်လာကြ၏။ မြေကြီးပေါ်၌ ဆောင့်ကြောင့်ထိုင်ကာ ရေတက်နေသော ကုန်းမြေကို လှမ်းမျှော်၍ ကြည့်ကြသည်။ သူတို့အားလုံး ငြိမ်ဆိတ်နေကြ၏။ တစ်ခါတစ်ရံတွင် အချင်းချင်း လှမ်း၍ စကားပြောကြသည်။ သို့သော် လည်း တိုးတိုးမျှသာ ဖြစ်၏။

နွေဦးပေါက်အထိတော့ အလုပ်အကိုင် ရှိကြလိမ့်မည် မဟုတ်။ ဘာအလုပ်မှ ရှိလိမ့်မည် မဟုတ်။

အလုပ်အကိုင် မရှိပါက ငွေရှိလိမ့်မည် မဟုတ်။ အစားအသောက် ရှိလိမ့်မည် မဟုတ်။

လူတစ်ယောက်မှာ မြင်းတွေရှိတယ်။ သူ့မြင်းတွေကို လယ်ထွန်ရာမှာ အသုံးပြုတယ်။ စိုက်တဲ့ပျိုးတဲ့ နေရာတွေမှာ အသုံးပြုတယ်။ အလုပ်လုပ်စရာ မရှိတဲ့ အချိန်ကျတော့ သူ့မြင်းတွေကို သူ အငတ်ထားဖို့ စဉ်းစားသလား၊ မစဉ်းစားဘူး။ အငတ်ကော ထားသလား၊ မထားဘူး။

သူတို့က မြင်းတွေ။ ငါတို့က လူတွေ။

မိန်းမများသည် ယောက်ျားများ၏ အရိပ်အခြည်ကို စောင့်ကြည့်နေကြသည်။ သူတို့ ယောက်ျားများ၏ ပေါက်ကွဲမည့် အချိန်ကို မျက်ခြည်မပြတ် စောင့်ကြည့်နေကြသည်။ မိန်းမများသည် ငြိမ်ဆိတ်စွာ ရပ်၍ စောင့်ကြည့်နေကြခြင်း ဖြစ်၏။ ယောက်ျားများသည် အရေအတွက် တော်တော်များ စုမိပါက သူတို့မျက်နှာများပေါ်မှ ထိတ်လန့် ကြောက်ရွံ့မှုများသည် ပျောက်ကွယ်သွားပြီး ထိုနေရာတွင် ဒေါသ အရိပ်လက္ခဏာများ ဝင်လာသည်။ ထိုအခါ မိန်းမများသည် စိတ်သက်သာရာ ရသွားသည့်ဟန်ဖြင့် သက်ပြင်း

ချကြ၏။ အဘယ်ကြောင့်ဆိုသော် ပေါက်ကွဲမှုသည် ဖြစ်ပေါ်လာတော့မည် မဟုတ်ဟု နားလည်သွားကြခြင်း ကြောင့်ပေတည်း။ ကြောက်စိတ်သည် အမျက်ဒေါသစိတ်သို့ ကူးပြောင်းသွားနိုင်သည့် အခြေအနေ ရှိနေသမျှ ကာလပတ်လုံး ပေါက်ကွဲမှုသည် ဘယ်သောအခါမှ ဖြစ်ပေါ်လာလိမ့်မည် မဟုတ်ဟု နားလည်သွားကြခြင်းကြောင့်ပေတည်း။

မျှင်မျှင်ကလေးမျှသာ ရှိသော မြက်ပင် အညောက်ကလေးများသည် မြေကြီးထဲမှ ထိုးထွက်လာကြသည်။ နောက် ရက်အနည်းငယ်မျှ ကြာသောအခါ နှစ်သစ်အစ အချိန်ကာလနှင့် အတူ တောင်ကုန်းများသည် စိမ်းဖျော့ဖျော့ အရောင်ဖြင့် တန်ဆာ ဆင်လျက် ရှိနေလေပြီ။

* * *

## အခန်း (၃၈)

ကားဘော်ဒီအိမ် စခန်းအတွင်းတွင် ရေသည် အိုင်ငယ် ဗွက်ငယ်များ အဖြစ်ဖြင့် နေရာအနှံ့အပြား၌ တည်ရှိနေကြသည်။ မိုးပေါက်များသည် ရွှံ့ဗွက်များပေါ်သို့ အဆက်မပြတ် ကျဆင်းလျက် ရှိသည်။ စခန်းအောက်ဘက်ရှိ ချောင်းငယ်အတွင်းမှ ရေများသည် တဖြည်းဖြည်းချင်း ပြည့်တက်လာကာ ကမ်းပါးပေါ်သို့ တက်လာသည်။ ထို့နောက် ကားဘော်ဒီ အိမ်များ၏ ပတ်ပတ်လည်ရှိ အနိမ့်ပိုင်း နေရာများတွင် ဝင်၍ ဝပ်နေကြလေသည်။

မိုး အဆက်မပြတ် ရွာနေဆဲ ဖြစ်သော ဒုတိယနေ့တွင် အယ်လ်သည် အခန်းနှစ်ခန်းကို ခြားထားသည့် လိုက်ကာတာပေါ်လင် ရွက်ထည်ကြီးကို ဖြုတ်သည်။ သူသည် ရွက်ထည်ကြီးကို ထမ်းယူသွားပြီး ထရပ်ကား စက်ခေါင်းပေါ်မှ အုပ်လိုက်၏။ ထို့နောက် အိမ်ထဲသို့ ပြန်ဝင်လာပြီး သူ့မွေ့ရာပေါ်၌ ထိုင်လေသည်။ အခုဆိုလျှင် မိသားစုနှစ်စုကို ခွဲထားသည့် အိမ်ခန်း နှစ်ခန်းကြားမှ လိုက်ကာသည် မရှိတော့ပြီ။ မိသားစုနှစ်စုသည် တစ်အိမ်တည်းနေသည့် အိမ်ထောင်စု တစ်စုတည်းအဖြစ်သို့ ဆိုက်ရောက်လာခဲ့လေပြီ။ ယောကျ်ားများသည် အတူတူတကွ တွဲ၍ ထိုင်ကြလေ၏။ သူတို့စိတ်များမှာ ယခင်ကလို ရွှင်လန်းတက်ကြွခြင်း မရှိ။ လေးလံထိုင်းမှိုင်းလျက် ရှိသည်။ စောစောကတည်းက ကြိုပြီး စုထားသဖြင့် အမေ့တွင် ထင်းကတော့ အလုံအလောက် ရှိလေသည်။ မိုးရေသည် ကားဘော်ဒီအိမ် ခေါင်မိုးပေါ်သို့ မနားမနေ သွန်ချလျက် ရှိ၏။

တတိယနေ့သို့ ရောက်သောအခါ ဝိန်းဝရိုက် မိသားစုသည် မငြိမ်မသက် ဖြစ်လာကြသည်။ "ကျွန်မတို့ ဒီနေရာက ထွက်သွားကြရင် ကောင်းမယ် ထင်တယ်" ဟု မစ္စက် ဝိန်းဝရိုက်က ပြောသည်။

အမေက သူတို့အား ဖျောင်းဖျရန် ကြိုးစားသည်။ "ရှင်တို့ ဘယ်မှာ သွားနေကြမလဲ၊ အခုလို မိုးလုံလေလုံ အိမ်မျိုး ရနိုင်မလား"

"ဒါတော့ မပြောတတ်ဘူး၊ ကျွန်မစိတ်က သွားရင် ကောင်းမလားလို့" အမေနှင့် မစ္စက် ဝိန်းဝရိုက်သည် ထိုကိစ္စကို အကျေအလည် ဖြစ်သွားအောင် တိုင်ပင်ကြသည်။ အမေသည် အယ်လ်၏ အရိပ်အကဲကိုလည်း အကဲခတ်သည်။

ရှသီနှင့် ဝင်းဖီးတို့သည် ကစားရန် အားထုတ်နေကြသည်။ ထို့နောက် ပြန်ငြိမ်သွားကြ၏။ မိုးပေါက်များသည် ခေါင်မိုးထက်သို့ မှန်မှန်ကြီးကျလျက် ရှိလေသည်။

တတိယနေ့မှာပင် ချောင်းငယ်ဆီမှ တဟဲဟဲ အော်မြည်၍ တက်လာနေသော ရေသံကို ကြားကြရသည်။ အဖေနှင့် ဦးလေးဂျွန်တို့သည် ဖွင့်ထားသည့် အိမ်ရှေ့ တံခါးဝမှ ရပ်ကာ ချောင်းငယ်ထဲမှ တက်လာနေသော ရေပြင်ကို လှမ်းမျှော်ကြည့်ကြသည်။ စခန်း ဟိုဘက်ထိပ်နှင့် သည်ဘက်ထိပ် အစွန်းများ၌ ရောက်နေသော ရေသည် ကားလမ်းမကြီး နှင့် ထိနေပြီ ဖြစ်၏။ တက်လာနေသော ရေသည် စခန်းအနီးသို့ ရောက်သောအခါ ကွေ့ပတ်၍ စီးသွားသည်။ ဤသို့ဖြင့် လမ်းမကြီး၏ တာရိုးအနီးသို့ ရောက်နေသော ရေပြင်သည် စခန်းကို နောက်ဘက်မှ ဝိုင်းရံထားသလို ဖြစ်လျက် ရှိလေ၏။ ပတ်ဝန်းကျင်ကို မျှော်ကြည့်နေသော အဖေဂျုတ်က ဦးလေးဂျွန်အား လှမ်းပြောသည်။ "မင်း ဘယ်လိုထင်သလဲ ဂျွန်၊ နောက်ထပ်သာ ရေတက်လာရင်တော့ ငါတို့စခန်း မြုပ်လိမ့်မယ် ထင်တယ်"

ဦးလေးဂျွန်သည် ပါးစပ်ကိုဟကာ အမွေးများ ထိုးထိုးထောင်ထောင် ဖြစ်နေသည့် သူ့မေးစေ့ကို လက်ဖြင့် ပွတ်နေသည်။ "အေး ဟုတ်တယ်၊ မြုပ်ချင် မြုပ်လိမ့်မယ်" ရိုစာဟန်ကတော့ အကြီးအကျယ် အအေးမိကာ အိပ်ရာပေါ်၌ လဲလျက် ရှိ၏။ သူ့မျက်နှာသည် နီရဲလျက် ရှိသည်။ သူ့မျက်လုံးများသည် အဖျားအရှိန်ဖြင့် ရဲလျက် ရှိလေသည်။ အမေသည် နွားနို့ပန်းကန် ကိုင်၍ ရိုစာဟန်ဘေး၌ ထိုင်နေသည်။ "ရော့ ဟောဒီမှာ" ဟု အမေက ပြောသည်။ "ဒါကို ယူ၊ အားဖြစ်အောင်လို့ ဝက်ပေါင်ခြောက် နည်းနည်း ထည့်ပေးထားတယ်၊ ကဲ သောက်လိုက်"

ရိုစာဟန်က ခေါင်းကို ဖြည်းလေးစွာ ခါသည်။ "သမီး မဆာဘူး အမေ"

အဖေဂျုတ်သည် သူ့လက်ညှိုးတစ်ချောင်းဖြင့် လေထဲတွင် အကွေ့အကောက် မျဉ်းတစ်ကြောင်း ဆွဲကြည့်သည်။ "တကယ်လို့ ငါတို့အားလုံး တူရွင်းပြားတွေ ထုတ်ပြီး ကန်ပေါင်ရိုး လုပ်မယ်ဆိုရင် ရေကို တားနိုင်လိမ့်မယ်ကွ၊ သိလား၊ တစ်ခုတော့ ရှိတယ်၊ ငါတို့လုပ်ရင် ဟိုး အပေါ်ဘက်နဲ့ ဟို အောက်ဘက်အထိ ဆင်းလုပ်ရမှာ"

"အေး ဟုတ်တယ်" ဟု ဦးလေးဂျွန်က ထောက်ခံသည်။ "ရချင် ရမယ်၊ တခြားလူတွေကကော လုပ်ချင်ပါ့မလား၊ သူတို့က ဒီမှာ အဲသလို လုပ်ပြီး

ဆက်နေမယ့်အစား တခြား တစ်နေရာကို ထွက်သွားရင် ကောင်းမယ်လို့ ထင်ချင် ထင်နေမှာ”

“ဒါပေမဲ့ မင်း မြင်တဲ့အတိုင်းပဲ ကားတွေကို ရေမစိုသေးဘူး” ဟု အဖေဂျုတ်က ဆိုသည်။ “ဒီလောက် ခြောက်ခြောက်သွေ့သွေ့ ရှိနေနိုင်မယ့် နေရာမျိုး ရှာဖို့က လွယ်တာမှ မဟုတ်တာ၊ နေဦး ခဏ” အဖေဂျုတ်သည် ထင်းပုံထဲမှ ထင်းစ တစ်စကို ဆွဲယူလိုက်ပြီး အိမ်အောက်သို့ ဆင်းသွားသည်။ ပြီးတော့ လက်ထဲမှ ထင်းစကို ရေစပ်တစ်နေရာတွင် ထောင်၍ စိုက်လိုက်လေသည်။ ထို့နောက် အိမ်ရှေ့ တံခါးဝတွင် တင်ပျဉ်ခွေ၍ ထိုင်ကာ တုတ်ကို စောင့်ကြည့်နေသည်။ ခဏမျှ ကြာသောအခါ သူသည် အိမ်ထဲသို့ ပြန်ရောက်လာသည်။ “တစ်ကိုယ်လုံး ရွှဲကုန်တာပဲကွာ” ဟု ရေရွတ်သည်။

လူနှစ်ယောက်သည် ရေထဲ၌ စိုက်ထားသည့် တုတ်ကို စူးစိုက်၍ ကြည့်နေကြသည်။ ရေသည် တုတ်ချောင်း၏ ပတ်ပတ်လည်တွင် ဖြည်းဖြည်းချင်း တက်လာလျက် ရှိ၏။ အဖေဂျုတ်သည် တံခါးဝတွင် ထိုင်လိုက်သည်။ “ရေတက်က အတော့်ကို မြန်တယ်ကွ” ဟု ပြောသည်။ “တခြားလူတွေနဲ့ တိုင်ပင်သင့်တယ်လို့ ငါတော့ ထင်တယ်၊ တကယ်လို့ ပေါင်သာ ခပ်မြန်မြန် လုပ်ထားနိုင်ရင် ဒီကောင် ဒီအထိ တက်မလာနိုင်ဘူး” အဖေဂျုတ်က ကားဘော်ဒီ အိမ်တန်း တစ်ဖက်အစွန်းသို့ လှမ်းကြည့်သည်။ အယ်လ်သည် ဝိန်းဝရိုက် မိသားစုနှင့်အတူ ရှိနေသည်။ သူသည် အက်ဂီ၏ ဘေးတွင် ထိုင်လျက်ရှိ၏။ အဖေဂျုတ်သည် သူတို့အနီးသို့ လျှောက်သွားသည်။ “ရေက တောက်လျှောက် တက်နေတယ်ကွ” ဟု ပြောသည်။ “ငါတို့ဆင်းပြီး ပေါင်လုပ်ကြရင် ကောင်းမယ်၊ ဘယ်လို သဘောရသလဲ၊ အားလုံးဝိုင်းပြီး လုပ်ကြမယ်ဆိုရင် ဖြစ်နိုင်တယ်”

ဝိန်းဝရိုက်က ပြန်ပြောသည်။ “ကျုပ်တို့ အခုပဲ ပြောနေကြတယ်၊ တခြား တစ်နေရာကို ပြောင်းသွားရင် ကောင်းမလားလို့”

“ဟာ ခင်ဗျားလည်း ဒီတစ်ဝိုက်ကို နှံ့အောင် ရောက်ခဲ့ဖူးသားပဲ၊ ဒီနေရာလောက် ခြောက်ခြောက်သွေ့သွေ့ ရှိနိုင်မယ့် နေရာမျိုး ရနိုင်ပါ့မလားဗျာ”

“ကျုပ် သိပါတယ်၊ ဒါပေမဲ့ နေရာတိုင်း အတူတူလောက်ပါပဲ”

အယ်လ်က ဝင်ပြောသည်။ "အဖေ သူတို့သွားရင် ကျုပ်လည်း လိုက်သွားမယ်"

အဖေဂျုတ်က အလန့်တကြား မော့ကြည့်သည်။ "ဟာကွာ မင်းလိုက်သွားလို့ ဘယ်ဖြစ်မလဲ အယ်လ်၊ ထရပ်ကား ဘယ်သူ မောင်းမလဲ၊ ငါတို့က မောင်းတတ်တာမှ မဟုတ်တာ"

"တတ်နိုင်ဘူးဗျာ၊ ကျုပ်နဲ့အက်ဂျီက ခွဲလို့ မဖြစ်တော့ဘူးဗျ"

"နေကြစမ်းပါဦးလေ" ဟု အဖေဂျုတ်က ဆိုသည်။ "လာစမ်းပါဦး၊ ကျုပ် ပြပ့်ါမယ်" ဝိန်းဝရိုက်နှင့် အယ်သည် ထိုင်ရာမှ ထကာ တံခါးဝတွင် လာရပ်သည်။ "မြင်ကြလား" အဖေဂျုတ်က လက်ညှိုးထိုး ပြသည်။ "ဟိုဘက်နဲ့ ဒီဘက်တန်းပြီး ပေါင် လုပ်လိုက်ရင် ရတယ်" သူသည် စောစောက စိုက်ထားခဲ့သော တုတ်ကို စေ့စေ့စပ်စပ် ကြည့်နေသည်။ ရေသည် တုတ်ကို မျိုတော့မည့် အခြေအနေသို့ ရောက်လျက် ရှိလေပြီ။

"လုပ်ရမယ့် အလုပ်ပမာဏက သိပ်မသေးဘူးဗျ၊ လုပ်ပြီး ပြန်တော့လည်း ရေက တက်ချင် တက်လာမှာပဲ" ဟု ဝိန်းဝရိုက်က ပြောသည်။

"ဒါကတော့ဗျာ၊ ကျုပ်တို့မှာ အခု လောလောဆယ်လည်း အလုပ်မှ မရှိကြတာ၊ လုပ်လို့တောင် ကောင်းလိမ့်ဦးမယ်၊ ဒီလောက်ကောင်းတဲ့ နေရာမျိုးကို တခြားနေရာမှာ ရှာတွေ့ဖို့ မလွယ်ဘူးဗျ၊ လာပါဗျာ၊ ကျုပ်တို့ တခြားလူတွေနဲ့ ညှိကြရအောင်၊ တခြားလူတွေကပါ ဝိုင်းကူမယ်ဆိုရင် ကျုပ်တို့ လုပ်လို့ရပါတယ်"

အယ်လ်က ဝင်ပြောပြန်သည်။ "တကယ်လို့ အက်ဂျီ သွားမယ်ဆိုရင် ကျုပ်လည်း သွားမှာပဲ"

အဖေဂျုတ်က ပြန်ပြောသည်။ "ဒီမှာ ငါပြောမယ် အယ်လ်၊ ဟိုလူတွေကပါ ဝိုင်းပြီး မကူကြဘူးဆိုရင်တော့ ငါတို့အားလုံး ဒီနေရာက သွားမှဖြစ်မှာ၊ ကဲ လာ၊ သူတို့နဲ့ ပြောကြည့်ကြမယ်" သူတို့သည် ကိုယ်များ ခပ်ကိုင်းကိုင်းလုပ်ကာ တစ်ဖက်အစွန်းရှိ ကားဘော်ဒီအိမ်သို့ ပြေးသွားကြပြီး အသင့်ပွင့်နေသည့် တံခါးမှ ဝင်သွားကြလေသည်။

အမေသည် မီးဖိုအနီး၌ ထိုင်ကာ ထင်းများကို အဆက်မပြတ် ထိုးပေးလျက်နေသည်။ ရှုသီက အမေ့ဘေး၌ ထိုင်လျက်ရှိ၏။ "သမီး ဆာတယ် အမေ" ဟု ရှုသီက ညည်းညည်းညူညူနှင့် ပြောသည်။

"မဆာနဲ့ဦး၊ ဆာလို့ မဖြစ်ဘူး" ဟု အမေက ပြန်ပြောသည်။ "ညည်း စောစောက မုန့်စားထားသေးတာပဲ"

"သမီး ဘီစကွတ်မုန့် တစ်ထုပ်လောက် စားချင်လိုက်တာ၊ အလုပ်ကလည်း မရှိတော့ဘူး၊ ပျော်စရာ မကောင်းတော့ဘူး"

"ပျော်စရာ လာမှာပေါ့" ဟု အမေက ဆိုသည်။ "ခဏတော့ စောင့်ရမှာပဲ၊ မကြာခင် ပျော်စရာတွေ ဖြစ်လာမှာ၊ အိပ်ရမယ်၊ နေစရာ ရှိလာမယ်၊ မကြာဘူး"

"ခွေးတစ်ကောင် မွေးချင်တယ်" ဟု ရှုသီက ပြောသည်။

"ခွေးတစ်ကောင် ရမှာပေါ့၊ ကြောင်တစ်ကောင်လည်း မွေးမယ်"

"ကြောင်ဂါလေးနော်"

"ငါ့ကို မနှောင့်ယှက်ပါနဲ့ဟယ်" ဟု အမေက တောင်းပန်သံဖြင့် ပြောသည်။ "ငါ့ကို စိတ်ညစ် စိတ်ရှုပ်အောင် လာမလုပ်ပါနဲ့ ရှုသီရယ်၊ ရိုစာဟန်လည်း ဖျားနေတယ်၊ ခဏလောက်ပဲ ဖြစ်ဖြစ် လိမ်လိမ်မာမာ နေစမ်းပါ၊ ပျော်စရာတွေ လာမှာပါ" ရှုသီသည် အမေ့အနားမှ ထသွားလေသည်။

ရိုစာဟန် လဲနေသည့် မွေ့ရာဆီမှ စူးစူးရှရှ အော်သံတစ်ချက် ထွက်လာသည်။ အမေသည် ကပျာကယာ ထကာ အပြေးအလွှား သွားသည်။ ရိုစာဟန်သည် အသက်ကို အောင့်ကာ မောကြီးပန်းကြီးဖြစ်လျက် ရှိ၏။ မျက်လုံးများသည် ထိတ်လန့် ကြောက်ရွံ့မှုကို ဖော်ပြနေသည်။

"ဘာဖြစ်တာလဲ" ဟု အမေက အော်၍ မေးသည်။ ရိုစာဟန်သည် အောင့်ထားသည့် အသက်ကို ပြန်ထုတ်လိုက်ပြီး နောက်တစ်ဖန် ပြန်၍ အောင့်ထားပြန်သည်။

ရုတ်တရက် အမေ့လက်တစ်ဖက်သည် စောင်ခြုံများအောက်သို့ ဂင်သွားသည်။ အမေသည် ဖျတ်ခနဲ ထရပ်လိုက်၏။ "မစ္စက် ဂိန်းဂရိုက်" ဟု လှမ်းခေါ်သည်။ "အို မစ္စက် ဂိန်းဂရိုက်"

မစ္စက် ဂိန်းဂရိုက် အပြေးအလွှား ရောက်လာသည်။ "ကျွန်မကို ခေါ်သလား"

"ဒီမှာ လာကြည့်ပါဦး" အမေက ရိုစာဟန်၏ မျက်နှာကို လက်ညှိုးထိုးပြသည်။ ရိုစာဟန်၏ သွားများသည် အောက်နှုတ်ခမ်းကို တအားကုန် ဖိကိုက်ထားသည်။ နဖူးပြင်တွင်မူ ချွေးသီးချွေးပေါက်ကြီးများ။ မျက်လုံးအစုံတွင် ထိတ်လန့်ကြောက်ရွံ့ခြင်း။

"မွေးတော့မယ် ထင်တယ်" ဟု အမေက ပြောသည်။ "ဒါဆိုရင် သိပ်စောနေပြီ"

ရိုစာဟန်ထံမှ သက်ပြင်းရှည်ကြီး မှုတ်ထုတ်သံ ကြားရသည်။ ကိုက်ထားသော အောက်နှုတ်ခမ်းကို ပြန်လွှတ်လိုက်ပြီး မျက်လုံးများကို မှိတ်ထားသည်။ မစ္စက် ဂိန်းဂရိုက်က ငုံ့ကြည့်သည်။

"သိပ်နာနေပြီလား၊ ပြောစမ်း၊ မြန်မြန်" ရိုစာဟန်က ခေါင်းညိတ်ပြသည်။ မစ္စက် ဂိန်းဂရိုက်က အမေ့အား လှမ်းကြည့်သည်။ "ဟုတ်တယ်၊ မွေးတော့မယ်၊ ရှင်ပြောတော့ သိပ်စောနေတယ်ဆို"

"ဟုတ်ပါတယ်၊ ဒါပေမယ့် အဖျားကြောင့် ဖြစ်ချင် ဖြစ်မယ်"

"ဒီလိုဆို ခဏတစ်ဖြုတ် မတ်တပ်ရပ်ပြီး အခန်းထဲမှာ လမ်းနည်းနည်း လျှောက်လိုက်ရင် ကောင်းမယ်"

"သူ လျှောက်နိုင်မယ် မဟုတ်ဘူး" ဟု အမေက ပြောသည်။ "သူ့မှာ ထနိုင်လောက်အောင် အားမရှိဘူး"

"လျှောက်သင့်တယ်" ဟု မစ္စက် ဂိန်းဂရိုက်က သူ့အတွေ့အကြုံအရ အခိုင်အမာ ပြောသည်။ "ကျွန်မ အများကြီး မွေးပေးခဲ့ဖူးတယ်" ဟု ဆိုသည်။ "ကဲ၊ လုပ်၊ ဟိုတံခါးကို ပိတ်ကြမယ်" မိန်းမကြီး နှစ်ယောက်သည် ထိုတံခါးဆီသို့ နှစ်ယောက်အတူ တွန်း၍ ပိတ်ကြသည်။ "ကျွန်မ မှန်အိမ် သွားယူလိုက်ဦးမယ်" ဟု မစ္စက် ဂိန်းဂရိုက်က ပြောသည်။

သူသည် စိတ်လှုပ်ရှားလျက် ရှိ၏။ "အက်ဂျီရေ၊ ဒီကလေးနှစ်ယောက်ကို ညည်း ခဏခေါ်ထားလိုက်စမ်း"

အမေက ခေါင်းညိတ်သည်။ "ဟုတ်သားပဲ၊ ရှုသီနဲ့ ဂင်းဖီး ဟိုဘက်ကို သွားပြီး အက်ဂျီနဲ့ နေကြ၊ သွား"

"ဘာပြုလို့ သွားရမှာလဲ" ဟု နှစ်ယောက်စလုံးက ပြိုင်တူ မေးသည်။

"မသွားလို့ မဖြစ်ဘူး၊ ရှိစာဟန် ကလေးမွေးတော့မှာမို့"

"သမီး ကြည့်ချင်တယ် အမေ၊ သမီး နေပါရစေနော်"

"ရှုသီ အခုချက်ချင်း သွားစမ်း၊ သွားဆို မြန်မြန်သွား" ဤအသံကျတော့ ရှုသီ ဆင်ခြေ မတက်ပံ့တော့ပေ။ ရှုသီနှင့် ဂင်းဖီးတို့သည်ကား အိမ်ပေါ်မှ ဆင်းသွားကြသည်။ အမေက မှန်အိမ်ကို ထွန်းသည်။ မစ္စက် ဂိန်းဂရိုက်သည် သူ၏ ရော်ချက်စတာ မီးအိမ်ကို မ လာပြီး ကြမ်းပြင်ပေါ်၌ ချလိုက်သည်။ အားကောင်းလှသော မီးအိမ် မီးရောင်ဖြင့် တစ်ခန်းလုံး လင်းသွားလေသည်။

ရှုသီနှင့် ဂင်းဖီးတို့သည် တံခါးဂ အပြင်မှ ကပ်၍ ရပ်ကာ အတွင်းသို့ ချောင်းကြည့်နေကြသည်။ "ကလေးမွေးတော့မှာဟဲ့၊ ငါတို့ ကြည့်ကြမယ်" ဟု ရှုသီက တိုးတိုးကလေး ကပ်ပြောသည်။ "နင့်အသံ မထွက်စေနဲ့၊ အမေသိသွားရင် အခုလို ချောင်းကြည့်ရမှာ မဟုတ်ဘူး၊ အမေ ဒီဘက် လာကြည့်ရင် ဟောဒီ ချုံနောက်ကို နင် ဂင်ပုန်း၊ ကဲ လုပ်၊ ကြည့်ကြရအောင်"

"ကလေးတွေ မကြည့်ရဘူးဟ" ဟု ဂင်းဖီးက ပြောသည်။

"ကလေးတိုင်း မြင်ဖူးတာ မဟုတ်ဘူး" ဟု ရှုသီက ဂုဏ်ကြွားသော လေသံဖြင့် ပြောသည်။ "ငါတို့သာ မြင်ဖူးမှာ"

အမေနှင့် ဂိန်းဂရိုက်တို့သည် မှန်အိမ် မီးရောင်အောက်တွင် မွေ့ရာဘေး၌ ထိုင်ကာ ပြဿနာကို ဆွေးနွေးကြသည်။ သူတို့အသံများသည် ခေါင်မိုးပေါ် ကျနေသည့် မိုးသံများကို ပင် ဖောက်ထွင်း ပေါ်ထွက်လာလျက် ရှိ၏။ မစ္စက် ဂိန်းဂရိုက်သည် အသည်အကြေးကာ

ခါးစည်း အဂုတ်အိတ်ကတ်ထဲမှ အခွံနွာ ဓားတစ်ချောင်းကို ထုတ်၍ မွေ့ရာအောက်သို့ ထိုးလိုက်သည်။ "ကြည့်လို့တော့ မလှဘူးပေါ့လေ၊ ကျွန်မတို့ကတော့ ဒါပဲ သုံးတယ်၊ အန္တရာယ်တော့ သိပ်ကင်းတာ"

အမေက ခေါင်းညိတ်သည်။ "ကျွန်မတို့ကတော့ ထယ်ကျိုး အသွားကို အသုံးများတယ်၊ ချွန်တဲ့ဟာဆိုရင် ဘာမဆို သုံးလို့ရမယ် ထင်တာပဲ၊ တစ်ခုပဲ ရှိတယ်၊ အလောတော် ဖြတ်မိဖို့ လိုမယ်"

"အခု နေလို့ ထိုင်လို့ အဆင်ပြေလား ဟင်"

ရိုစာဟန် မငြိမ်မသက် ဖြစ်သောစိတ်ဖြင့် ခေါင်းညိတ်သည်။ "ကလေးက မွေးတော့မှာလား"

"အေးပေါ့၊ မွေးတော့မှာပေါ့" ဟု အမေက ပြောသည်။ "ချောချောလှလှ မွေးမှာပါအေ၊ မပူပါနဲ့၊ မမွေးခင်ကလေးတော့ သမီးက အမေတို့ကို ကူမှ ဖြစ်မယ်၊ သမီး ထပြီး လမ်းမလျှောက်နိုင်ဘူးလားဟင်"

"သမီး ကြိုးစားကြည့်မယ်"

"အေးကွယ် သမီးက လိမ်မာသားပဲ" ဟု မစ္စက် ဂိန်းဂရိုက်က ပြောသည်။ "တို့ကလည်း သမီးကို ကူမှာပေါ့၊ တို့ကပါ သမီးနဲ့ လမ်းလျှောက်မှာပါ" သူတို့သည် ရိုစာဟန်အား အိပ်ရာပေါ်မှ ထနိုင်အောင် ဘေးမှ တွဲ၍ ထူပေးသည်။ ပခုံးပေါ်သို့ စောင်တစ်ထည် ခြုံပေးသည်။ ထို့နောက် အမေက ရိုစာဟန်၏ လက်မောင်းတစ်ဖက်ကို ကိုင်၍ အခြားတစ်ဖက်ကို မစ္စက် ဂိန်းဂရိုက်က ကိုင်ကာ ထင်းပုံဘက်သို့ တွဲ၍ လျှောက်သွားသည်။ ထို့နောက် ဖြည်းညင်းစွာ ပြန်လှည့်ပြီး နောက်သို့ ပြန်လျှောက်သည်။ ရိုစာဟန်သည် ဤပုံစံဖြင့် အပြန်ပြန် အလှန်လှန် လျှောက်လျက်ရှိ၏။ မိုးပေါက်များသည် ခေါင်မိုးပေါ်သို့ ပြင်းထန်စွာ ကျလျက် ရှိလေသည်။

ရုသီနှင့် ဝင်းဖီးတို့သည် အပြင်မှ ချောင်းကြည့်လျက်ပင် ရှိသည်။ "သူက ဘယ်တော့ မွေးမှာလဲ ဟင်" ဟု ဝင်းဖီးက မေးသည်။

"ရှူး... သူတို့ ကြားသွားမယ်၊ သူတို့ သိသွားရင် ငါတို့ ကြည့်ရမှာ မဟုတ်တော့ဘူး"

အက်ဂျီသည် သူတို့နှစ်ယောက် အနီးသို့ ရောက်လာသည်။ အက်ဂျီ၏ သွယ်လျသော မျက်နှာနှင့် ရွှေအိုရောင် ဆံပင်များသည် မီးရောင်ဖြင့် ဝင်းလက်သွားသည်။ သူ၏ ချွန်သော နှာခေါင်းနှင့် ဦးခေါင်းအရိပ်သည် ဘေးဘက် နံရံပေါ်တွင် ထင်လာသည်။

ရှသီက ဆီး၍ တိုးတိုးကလေး မေးသည်။ "အစ်မ အရင်က ကလေးမွေးတာ မြင်ဖူးသလား ဟင်"

"မြင်ဖူးတာပေါ့" ဟု အက်ဂျီက ဖြေသည်။

"အခုကော ဘယ်တော့ မွေးမှာလဲ"

"အို မကြာတော့ပါဘူး၊ မွေးတော့မှာပါ"

"ဘယ်လောက် ကြာမှာလဲ ဟင်"

"မနက်ဖြန် မနက် မလင်းခင်းတော့ မွေးမှာပါ"

"ဟူး" ရှသီက ရေရွတ်သည်။ "ဒါဆိုရင် အခု ကြည့်နေတာ အလကား မောရုံပဲ၊ ဟော ကြည့်စမ်း"

လမ်းလျှောက်နေသော မိန်းမများသည် တစ်နေရာတွင် ရပ်လိုက်ကြသည်။ ရိစာဟန်၏ တစ်ကိုယ်လုံး တောင့်တင်းသွားပြီး ညည်းသံတစ်ချက် ထွက်လာသည်။ သူတို့သည် ရိစာဟန်အား မွေ့ရာပေါ် ပြန်တင်ပေးကြသည်။ အံကို တအားကြိတ်၍ ညည်းညူလျက် ရှိသော ရိစာဟန်၏ နဖူးမှ ချွေးသီးချွေးပေါက်ကြီးများကို သုတ်ပေး နေကြသည်။ အမေသည် ရိစာဟန်အား တိုးတိုးကလေး အားပေးလျက် ရှိ၏။ "ဖြည်းဖြည်း ရိစာဟန်၊ ဖြည်းဖြည်း၊ သမီး ဘာမှမဖြစ်ပါဘူး၊ အားလုံး အဆင်ချောသွားမှာပါ၊ ဘက်သီးတွေ ဆုပ်ထား၊ တအားဆုပ်ထား၊ နှုတ်ခမ်းကိုလည်း ကိုက်ထား၊ ဟုတ်ပြီး၊ အေး အဲသလိုမှပေါ့" ဟု နာကျင်မှု ဝေဒနာသည် ရပ်သွားပြန်၏။ သူတို့သည် ရိစာဟန်အား

ခဏမျှ အနားပေးထားလိုက်သည်။ ထို့နောက် နှစ်ယောက်တွဲ၍ ထူကာ စောစောက ပုံစံအတိုင်း လမ်းလျှောက်ကြပြန်လေသည်။

အဖေဂျုတ်သည် သူ့ဦးခေါင်းကို ဟနေသော အပေါက်မှ ထိုးသွင်းလိုက်၏။ ဦးထုပ်မှ ရေများ ကြမ်းပြင်ပေါ်သို့ တစက်စက် ယိုစီးကျလျက် ရှိ၏။ "တံခါးကို ဘာလို့ ပိတ်ထားကြရတာလဲ ဟ" ဟု မေးသည်။ ဤအခိုက်မှာပင် သူ့မျက်လုံးများသည် လမ်းသလားနေသော မိန်းမသုံးဓာယက်ကို မြင်သွားသည်။

"သူ မွေးတော့မယ်" ဟု အမေက လှမ်းပြောသည်။

"ဟာ ဒီလိုဆိုရင် ငါတို့ ဒီက သွားလို့ ဘယ်ဖြစ်ဦးမှာလဲ"

"မဖြစ်သေးဘူး"

"ဒါဆိုရင် ပေါင်လုပ်မှ ဖြစ်တော့မှာပေ့ါ"

"လုပ်မှ ဖြစ်မှာပဲ"

အဖေဂျုတ်သည် ရွှံ့ဗွက်များကို ဖြတ်၍ ပြန်လျှောက်လာသည်။ ယောကျ်ား နှစ်ဆယ် မိုးရေထဲတွင် ရပ်လျက် ရှိကြ၏။ "ကျုပ်တို့ ပေါင်တော့ လုပ်မှ ဖြစ်မယ်၊ ကျုပ်သမီး ဗိုက်နာနေပြီ" ဟု အဖေဂျုတ်က အော်ပြောသည်။ လူများသည် သူ့အနီးသို့ လာ၍ ဝိုင်းအုံရပ်ကြသည်။

"ကလေး မွေးမှာလား"

"ဟုတ်တယ်၊ ကျုပ်တို့ အခုချက်ချင်း သွားလို့ မဖြစ်တော့ဘူး"

အရပ်ရှည်လူက ဝင်ပြောသည်။ "ကျုပ်တို့ကလေးမှ မဟုတ်တာ၊ ကျုပ်တို့ကတော့ သွားလို့ရတာပေ့ါ"

"ရတာပေ့ါ" ဟု အဖေဂျုတ်က ပြန်ပြောသည်။ "ခင်ဗျားတို့ သွားနိုင်ပါတယ်၊ သွားကြပေ့ါ၊ ဘယ်သူကမှ ခင်ဗျားတို့ကို မတားပါဘူး၊ ဒီမှာရှိတဲ့ တူရွင်းပြားကလည်း ရှစ်ခုပဲ ရှိတာပါ" အဖေဂျုတ်သည် ရေစီးကြောင်း၏ အနိမ့်ဘက်ပိုင်းသို့ သွားကာ လက်ထဲမှ

တူရွင်းပြားကို မြေကြီးထဲသို့ ထိုးစိုက်၍ သွင်းလိုက်သည်။ ထို့နောက် မြေကို ကော်ထုတ်လိုက်ပြီး ရေစီးကြောင်း တစ်ဖက်သို့ ပုံလိုက်၏။ သူသည် ထိုနည်းအတိုင်း နောက်တစ်ကြိမ် ထပ်လုပ်ပြန်သည်။ သူ့ဘေးသို့ အခြားလူများ ရောက်လာသည်။ သူတို့သည် မြေကြီးများကို တစ်ဖက်တွင် စုပုံကာ တာရိုးရှည်တစ်ခု ဖြစ်သွားအောင် တည်ဆောက်ကြ၏။ တူရွင်းပြား မရှိသူများက မိုးမခသားများကို ဖြတ်ကာ ဗျာသဖွယ် ရက်ပြီး တာရိုးအောက်မှ ခံကြသည်။ အလုပ်ကို ဖြစ်အောင် လုပ်ရမည် ဟူသော ဒေါသမာန်သည် ယောက်ျားတစ်စုအား ချုပ်ကိုင်ထားသည်။ ဒေါသမာန် စစ်ပွဲ။

တစ်ဦးက တူရွင်းပြားကို ချလိုက်လျှင် နောက်တစ်ဦးက ဂင်ကောက်သည်။ သူတို့၏ ကုတ်အင်္ကျီများနှင့် ဦးထုပ်များမှ မိုးရေစက်များသည် တစက်စက် ယိုစီးကျလျက် ရှိ၏။ သူတို့ကိုယ်ပေါ်မှ ရှပ်အင်္ကျီနှင့် ဘောင်းဘီများသည် အသားများတွင် ကပ်လျက် ရှိ၏။ သူတို့ ဖိနပ်များသည် ရွံ့အလိမ်းလိမ်း ကပ်ကာ ရှပ်ပျက်ဆင်းပျက် ဖြစ်နေကြ၏။ ဂျုတ်မိသားစု၏ အိမ်ဘက်မှ စူးစူးရှရှ အော်လိုက်သည့်အသံ။ ယောက်ျားများ၏ လုပ်လက်စ အလုပ်သည် တန့်ခနဲ ရပ်သွားသည် စိတ်မသက်မသာဖြင့် နားစွင့်ကြသည်။ ထို့နောက် အလုပ်ကို သဲသဲမဲမဲ ပြန်လုပ်ကြပြန်၏။ သူတို့လူစု တည်ဆောက်လိုက်သော တာရိုးငယ်သည် ကားလမ်းမကြီး၏ တာရိုးနှင့် ဆက်မိလာသည်။ အခုဆိုလျှင် အားလုံး ပင်ပန်း မောဟိုက်လျက် ရှိကြလေပြီ။ တူရွင်းပြားများသည် ယခင်ကလောက် မြန်မြန်သွက်သွက် မလှုပ်ရှားနိုင်။ တက်လာနေသော ချောင်းရေသည် သူတို့ ဖို့ထားသည့် တာရိုးအောက်ခြေတွင် ဂပ်စင်းလျက် ရှိလေသည်။

အောင်မြင်မှုတွင် ယစ်မူးသွားသည့် လေသံဖြင့် အဖေဂျုတ်က လိုက်လိုက်လှဲလှဲ ရယ်သည်။ "တကယ်လို့ ကျုပ်တို့သာ ဒီတာရိုးကို မလုပ်ရင် ရေဟာ ဟောဒီဘက်အထိ တက်လာမှာ သေချာတယ်" ဟု အော်ကြီးဟစ်ကျယ် ပြောသည်။

ချောင်းရေသည် ဖြည်းဖြည်းမှန်မှန် တက်လျက်ရှိ၏။ ရေသည် ရေကာတာသစ် နံရံအထိ ရောက်လာသည်။ စောစောက ခံထားသည့် မိုးမခသားတိုင် အချို့ကို တိုက်ချပစ်သည်။ "အပေါ်ကို ထပ်မြှင့်မှ ဖြစ်မယ်" ဟု အဖေဂျုတ်က အော်သည်။ "သူ့ကို အပေါ်ဘက် နည်းနည်း ထပ်မြှင့်ကြဦးစို့"

မှောင်ရိပ်ပျိုးစ ပြုလာပြီ ဖြစ်သော်လည်း အလုပ်ကတော့ မပြီးပြတ်သေး။ ယခုအချိန်တွင်မူ လူအားလုံးသည် ပင်ပန်းနွမ်းနယ်မှု အဆင့်ကို လွန်မြောက်ခဲ့ကြပြီ ဖြစ်၏။ သူတို့ မျက်နှာများသည် တည်ငြိမ်လျက် ရှိကြသည်။ မည်သည့် ခံစားမှုကိုမှ ဖော်ပြခြင်း မပြုနိုင်တော့သည့် မျက်နှာများ။ သူတို့သည် အလုပ်ကို စက်များသဖွယ် လှုပ်ရှား၍ လုပ်ကိုင်နေကြဆဲ။ အမှောင်ရိပ်များ ဖုံးအုပ်လာသည့်အခါ မိန်းမများက မုန့်အိမ်များကို ထွန်း၍ တံခါးဂဝများတွင် လာချပေးကြသည်။ ကော်ဖီအိုးများကို လက်တစ်ကမ်းတွင် လာ၍ ချပေးကြသည်။ ထို့နောက် မိန်းမများသည် တစ်ယောက်ပြီး တစ်ယောက် ဂျုတ်မိသားစု၏ အိမ်ထဲသို့ ဝင်သွားကြလေသည်။

နာကျင်မှု ဝေဒနာသည် နီးနီးလာသည်။ တစ်ကြိမ်နှင့် တစ်ကြိမ် မိနစ် နှစ်ဆယ်သာ ခြားတော့သည်။ ရိုစာဟန်သည် သူ့ကိုယ်သူ ထိန်းချုပ်နိုင်စွမ်း မရှိတော့။ အလွန်ပြင်းထန်သော ဝေဒနာကို ခံစားလာရသဖြင့် အပြင်းအထန် အသံကုန်ဟစ်၍ အော်သည်။ သူ့ကို လာ၍ ကြည့်ကြသော အိမ်နားနီးချင်း မိန်းမကြီးများသည် သူ့အား တယုတယ ကျောသပ် ရင်သပ် လုပ်၍ အားပေးကြသည်။ ပြီးတော့ သူတို့အိမ်ဘက်သို့ ပြန်သွားကြ၏။

အမေ၏ မီးဖိုသည် အရှိန်ရနေပြီ ဖြစ်၏။ ရေနွေးအိုးတစ်လုံးသည် မီးဖိုပေါ်၌ တင်ထားပြီး ဖြစ်၏။ အဖေဂျုတ်သည် တံခါးဂဝမှနေ၍ မကြာမကြာ လာကြည့်သည်။ လာကြည့်တိုင်းလည်း "ဘယ်လိုနေသေးလဲ၊ အခြေအနေ ကောင်းရဲ့လား" ဟု မေးလေ့ရှိသည်။

"အခြေအနေ ကောင်းပါလိမ့်မယ်" ဟု အမေက မယုတ်မလွန် ဖြေသည်။

အမှောင်ထုသည် သိပ်သည်း နက်ရှိုင်းလာသည့်အခါ လူတစ်ဦးက လက်နှိပ် ဓာတ်မီး တစ်လက် ယူလာပြီး ထိုးပြသည်။ ဦးလေးဂျွန်သည် မြေများကို ကော်ယူပြီး တာရိုး ပေါင်ပေါ်သို့ အဆက်မပြတ် ပုံလျက်ရှိ၏။

"နားနားနေနေ လုပ်လကွာ" ဟု အဖေဂျုတ်က သတိပေးသည်။ "မင်းလုပ်နေပုံက ကိုယ့်ကိုကိုယ် သတ်သလို ဖြစ်သွားမယ်"

"မတတ်နိုင်ဘူးကွာ၊ ငါ မတတ်နိုင်ဘူး၊ ဟိုအော်သံကို ငါ မခံနိုင်ဘူး၊ ဒီအသံဟာ ဟိုတုန်းက ငါ ကြားခဲ့ဖူးတဲ့ အသံနဲ့ တထေရောတည်းပဲ"

"ငါသိပါတယ်" ဟု အဖေဂျုတ်က လေအေးဖြင့် ပြန်ပြောသည်။ "ဒါပေမယ့် စိတ်ကို ဖြေမှပေါ့၊ သက်သက်သာသာဖြစ်အောင် လုပ်ပါကွာ"

ဦးလေးဂျွန်သည် ရှိုက်ကြီးတငင်ငင် ငိုကြွေးလျက် ရှိလေပြီ။ "ငါ ထွက်ပြေးတော့မယ်၊ ဘုရား... ဘုရား....၊ ဘုရားသခင် ကယ်တော်မူပါ၊ ငါ အလုပ် လုပ်ပါရစေ၊ အလုပ် မလုပ်ရရင် ငါ ဒီအနားမှာ နေလို့ မဖြစ်ဘူး၊ ထွက်ပြေးမှ ဖြစ်မှာ"

အဖေဂျုတ်၏ မျက်နှာသည် တခြားလူတစ်ဦးဘက်သို့ လှည့်သွားသည်။ "ရေ နောက်ဆုံးအမှတ်အထိ ရောက်လာသလား၊ ဘယ်လိုနေလဲ"

လက်နှိပ်ဓာတ်မီးနှင့် လူသည် ရေစပ်၌ စိုက်ထားသည့် တုတ်ကို ဓာတ်မီးဖြင့် ထိုးကြည့်သည်။ "တက်တော့ တက်လာနေတယ်"

"တက်ပေမယ့် အရင်ကလောက် မမြန်ဘူး၊ အခု တက်ပုံက နှေးနှေးလာတယ်" ဟု အဖေဂျုတ်က ပြောသည်။ "ဟိုဘက်က ခပ်ဝေးဝေး နေရာမှာ သွားပြီး ရေလျှံမယ့် လက္ခဏာ ရှိနေပြီ"

"ဘယ်လိုပဲဖြစ်ဖြစ်လေ၊ ရေကတော့ တက်လာနေတုန်းပဲဗျ"

မိန်းမများသည် ကော်ဖီအိုးများတွင် ကော်ဖီထပ်ဖြည့်ကာ လာ၍ ချပေးကြပြန်သည်။ ဆက်လက်၍ ရွေ့လျားသွားနေသော ညအမှောင်အောက်ဂယ် ယောက်ျားများ၏ လှုပ်ရှားမှုသည် နှေး၍ နှေး၍ လာသည်။ လှမ်းသွားနေသော သူတို့၏ ခြေထောက်များသည် ကုန်တင်လှည်းများကို ဆွဲနေရသည့် မြင်းများ၏ ခြေထောက်များသဖွယ် လေးလံလျက် ရှိလေသည်။ တာရိုးများပေါ်တွင် ရွှံ့များ ထပ်၍ ထပ်၍ တင်သည်။ မိုးမခသားများကို တစ်ချောင်းနှင့် တစ်ချောင်း ပူး၍ ထပ်၍ ချည်နှောင်ပြီး ဖို့မြေများအောက်မှ ထိုး၍ ထိုး၍ ခံပေးကြသည်။ မိုးကတော့ ပုံမှန် ရွာလျက်ပင် ရှိလေသည်။

ကားဘော်ဒီ အောက်ဘက်မှ အော်သံများသည် အချိန်အတော်ကြီး ကြာမျှ ဆက်တုက် ထွက်ပေါ်လာနေသည်။ နောက်ဆုံးကျတော့ ငြိမ်ဆိတ်သွားလေ၏။

"မွေးပြီ ဆိုရင်တော့ အမေဂျူတ်က ငါ့ကို ခေါ်မှာပါ" ဟု အဖေဂျူတ်က တစ်ကိုယ်တည်း ရေရွတ်သည်။ သူသည် မြေများကို ထိုး၍ ကော်ကာ တာပေါင်ပေါ်သို့ ဖို့နေဆဲ။

ချောင်းရေသည် ဂဲကတော့ ထိုး၍ တာပေါင်ကမ်းပါးကို တိုးဖေ့ ရိုက်ခတ်ကာ လည်လျက် ရှိသည်။ ထို့နောက် ချောင်း၏ အထက်ဆီမှ တပြစ်ပြစ်မြည်သံများ ထွက်ပေါ်လာသည်။ လက်နိပ်ဓာတ်မီးရောင်ဖြင့် တလှုပ်လှုပ် ဖြစ်နေသော သစ်ပင်ကြီး တစ်ပင်ကို လှမ်းမြင်နေရ၏။ လူအားလုံးသည် အလုပ်ကို ရပ်ကာ ငေး၍ ကြည့်နေကြသည်။ ချောင်းရေသည် သစ်ပင်၏ အမြစ်များကို တိုက်စားလျက် ရှိ၏။ သစ်ပင်သည် ယိမ်းယိုင်ကာ တစ်ဖက်သို့ ကွေးညွတ် ကျလာသည်။ တဖြည်းဖြည်းနှင့် သစ်ကိုင်းများသည် ရေထဲသို့ နစ်မြုပ်သွားကာ ရေစီးထဲတွင် တလှုပ်လှုပ် ဖြစ်လျက် ရှိ၏။ သစ်ပင် တစ်ပင်လုံးသည် ဖြည်းဖြည်းချင်း မြောက်ကြွလာပြီး မြေကြီးထဲမှ လွတ်ထွက်သွားကာ ရေထဲသို့ လဲကျသွားလေ၏။ လူများသည် ပါးစပ် အဟောင်းသားဖြင့် ငေးကြည့်နေကြလေ၏။ သစ်ပင်သည် ရေစီးကြောင်းထဲတွင် တုံးလုံးလဲကာ ဖြည်းဖြည်းမှန်မှန်ပင် လှုပ်ရှားလျက် ရှိသည်။ ထို့နောက် သစ်ကိုင်းတစ်ကိုင်းသည် သစ်ငုတ်တစ်ခုနှင့် တိုက်လိုက်သဖြင့် သစ်ပင် တစ်ပင်လုံး လည်ထွက်သွားကာ တုံ့ခနဲ ရပ်သွားသည်။ သစ်ပင်၏ အမြစ်ပိုင်းသည် အလွန် နေးကွေး လေးလံစွာ လှုပ်ရှားပြီး တာပေါင်အသစ်ပေါ်တွင် တင်လျက် ရှိ၏။ သစ်ပင်၏ နောက်ဘက်တွင်မူ ရေများသည် လျှံတက်လာလျက် ရှိ၏။ သစ်ပင်သည် တရွေ့ရွေ့ လှုပ်ရှားနေရာမှ တာပေါင်အသစ်ကို ထိုးခွဲလိုက်သည်။ ရေသည် နောက်မှ ဒလဟော ထိုးလိုက်လာသည်။

အဖေဂျူတ်သည် သူ့တစ်ကိုယ်လုံးကို ပစ်လှဲချလိုက်ပြီး ကျိုးသွားသည့် နေရာကို ရွှံ့များဖြင့် ပိတ်နိုင်ရန် အားထုတ်သည်။ သို့သော်လည်း နောက်ကျသွားခဲ့လေပြီ။ တာပေါင်ရိုးသည် ရေဒဏ်ကို မခံနိုင်တော့ဘဲ ကျိုးကျလာသည်။ ရေများသည် ဒလဟော ထိုးဆင်းလာသည်။ ချက်ချင်းလိုလိုပင် ခြေမျက်စိနှင့် ဒူးများကို တိုးဖေ့လျက် ရှိ၏။ လူများသည် အလန့်တကြား ဖြစ်ကာ နောက်သို့ လှည့်၍ ထွက်ပြေးကြသည်။ ရေများသည် သူတို့နောက်မှ တစ်ကောက်ကောက်လိုက်ကာ ကားဘော်ဒီ အိမ်များ အောက်သို့ လည်းကောင်း၊ မော်တော်ကားများ အောက်သို့ လည်းကောင်း ဝင်သွားကြလေ၏။

ဦးလေးဂျွန်သည် တာရိုးကျိုးပြီး လိမ့်ဆင်းလာသော ရေများကို ဖျတ်ခနဲ မြင်လိုက်သည်။ မှောင်မည်းနေသည့်ကြားမှ ရိပ်ခနဲ မြင်လိုက်ရခြင်း ဖြစ်၏။ သူသည် သုံ့ကိုယ်သူ မဟန်နိုင်တော့ဘဲ လဲကျသွားလေ၏။ သူသည် အလူးအလဲ ပြန်ထကာ ဒူးထောက်၍ ထိုင်လိုက်သည်။ အရှိန်ပြင်းစွာနှင့် စီးဆင်းလာသော ရေသည် သူ့ရင်ခေါင်း ပတ်ပတ်လည်တွင် ဂဲလှည့်လျက် ရှိလေ၏။

အဖေဂျုတ်သည် သူ လဲကျသွားသည်ကို မြင်လိုက်သည်။ "ဟေး ဂျွန် ဘာဖြစ်တာလဲ" ဟု အော်၍ မေးသည်။ သူသည် လဲကျသွားသော ဦးလေးဂျွန်ကို ဆွဲထူသည်။ "ဘယ်လိုဖြစ်တာလဲ၊ နေမကောင်းလို့လား၊ ထလာ"

ဦးလေးဂျွန်သည် အားယူပြီး ထသည်။ "ငါလည်း မသိဘူး" ဟု ပြောသည်။ "ခြေထောက်တွေက ယိုင်သွားတာ၊ သူ့ဘာသူ ဖြစ်ပြီး လဲကျသွားတာကွ" အဖေဂျုတ်က သူ့ကို တွဲ၍ ကားအိမ်များဘက်သို့ ခေါ်လာသည်။

တာရိုးကျိုးသွားသောအခါ အယ်လ်သည် နောက်ရင်းသို့ ပြန်လှည့်ပြီး ထွက်ပြေးသည်။ သူ့ ခြေထောက်များသည် လေးလံစွာ လှုပ်ရှားလျက် ရှိကြ၏။ သူ့ထရပ်ကားဆီသို့ သူ ရောက်သွားချိန်တွင် ရေသည် သူ့ခြေသလုံးများကို တိုးဝှေ့ပွတ်တိုက်လျက် ရှိနေလေပြီ။ သူသည် ကားစက်ခေါင်းပေါ်၌ အုပ်ထားသည့် တာပေါ်လင် ရွက်ထည်ကို ဆွဲဖယ်လိုက်ပြီး ကား ရှေ့ခန်းထဲသို့ ခုန်တက်လိုက်သည်။ သူသည် စတက်တာကို နှိုးကြည့်သည်။ သူ နှိုးလိုက်တိုင်း အင်ဂျင်သည် လည်လျက် ရှိသော်လည်း စက်နှိုးသံကတော့ လုံးဝ ထွက်မလာချေ။ သူသည် ဖင်ထိုင်ခုံအောက်မှ ဂေါက်တံကို ဆွဲထုတ်ကာ ကားပေါ်မှ ခုန်ချလိုက်သည်။ ရေသည် ခြေနင်းခုံ အပေါ်သို့ ကျော်တက်နေလေပြီ။ သူသည် ကားရှေ့ဘက် စက်ခေါင်းဆီသို့ ပြေးသည်။ ဂေါက်တံကို ထိုးသွင်းရမည့် အပေါက်သည် ရေအောက်သို့ ရောက်သွားခဲ့လေပြီ။ သူသည် အရှုးတစ်ယောက်သဖွယ် ဂေါက်တံကို အပေါက်ထဲသို့ မရရအောင် ထိုးသွင်းကာ အားစိုက်၍ လှည့်သည်။ လှည့်လိုက်သည့်အခါတိုင်း ဂေါက်တံကို တအား ဆုပ်ကိုင်ထားသော သူ့လက်သည် အောက်မှ စီးလာသည့် ရေပြင်ကို အရှိန်ဖြင့် ရိုက်ခတ်လျက် ရှိလေသည်။ နောက်ဆုံးတွင် သူ၏ စိတ်ဓာတ်ပြင်းထန်မှုသည် လက်မြှောက် အရှုံးပေးလိုက်လေ၏။ မော်တော်ကားအင်ဂျင်စက်ထဲတွင် ရေများ ဝင်လျက် ရှိနေလေပြီ။ ဘက်ထရီမှာလည်း ရစရာ မရှိလောက်အောင်ပင် ပေရေ ညစ်ပတ်လျက်

ရှိနေလေပြီ။ အခြားနေရာများထက် အနည်းငယ်မျှ ပို၍ မြင့်သော နေရာရှိ ကားနှစ်စီးကတော့ စက်နိုးလာပြီး ရှေ့မီးလုံးများပါ ပွင့်လာသည်။ ကားနှစ်စီးသည် ခွံ့ဗွက်များကို တအားကုန် ယက်ကာ ရုန်းထွက်ရန် ကြိုးစားလျက် ရှိသည်။ သို့သော်လည်း နောက်ဆုံးတွင် စက်များ ရပ်ကာ ပြန်၍ ငြိမ်ကျသွားကြသည်။ ရှေ့မီးများကတော့ ပွင့်နေဆဲ။ မိုးပေါက် အဖြူစင်းများသည် မီးရောင်ရှေ့မှ ဖြတ်၍ ဖွားခနဲ ဖွားခနဲ ကျလာလျက် ရှိ၏။ အယ်လ်သည် စိတ်ပျက် လက်ပျက်ဖြင့် ထရပ်ကားကို ကွေ့ပတ်၍ လျှောက်လာကာ ရှေ့ခန်းထဲ ထိုင်သည်။

လူသွားလမ်းသို့ အဖေဂျုတ် ရောက်သွားချိန်တွင် လမ်းအနိမ့်ပိုင်းသည် ရေအောက် ရောက်လျက် ရှိလေပြီ။ ခွံ့ဗွက်များနှင့် ရေများပေါ် နင်း၍ လျှောက်သွားနေရ၏။ "မင်းဘာသာ မင်း လျှောက်လို့ ရပြီလား ဂျွန်" ဟု အဖေဂျုတ်က မေးသည်။

"ရပြီ၊ မင်း ရှေ့ကသာ လျှောက်တော့"

အဖေဂျုတ်သည် လူသွားလမ်းအတိုင်း သတိထား၍ လျှောက်သွားကာ အိမ်ပေါ်သို့ လှမ်းတက်လိုက်သည်။ မီးစာများကို ချထားသဖြင့် မှန်အိမ် နှစ်လုံးစလုံးမှ အလင်းရောင်သည် ခပ်မှိန်မှိန် ဖြစ်လျက် ရှိ၏။ အမေသည် ရိုစာဟန်၏ဘေး မွေ့ရာစွန်းတွင် ထိုင်လျက် ရှိသည်။ သူသည် ရိုစာဟန်၏ မျက်နှာကို ကတ်ပြားတစ်ချပ်ဖြင့် ယပ်ခတ်ပေးလျက် ရှိ၏။ မစွက် ဝိန်းဂရိုက်ကတော့ မီးဖိုထဲသို့ ထင်းခြောက်များကို ထိုးပေးနေသည်။ မီးဖိုမှ အခိုးအငွေ့များသည် ကားအိမ်ထဲတွင် တလူလူ လွင့်လျက် ရှိသည်။ အဖေဂျုတ် ဝင်လာသောအခါ အမေက တစ်ချက်မျှ မော့ကြည့်လိုက်သည်။ ပြီးတော့ ချက်ချင်းပင် သူ့ခေါင်းကို ပြန်ငုံ့ထားလိုက်၏။

"သူ... ဘယ်... ဘယ်လိုနေသလဲ" အဖေဂျုတ်က မေးသည်။

အမေက နောက်ထပ် မော့မကြည့်။ "နေလို့ကတော့ ကောင်းတယ်လို့ ထင်ရတာပဲ၊ အခု အိပ်ပျော်နေတယ်"

အခန်းထဲရှိ လေသည် ညှီစို့စို့ အနံ့များဖြင့် ပြည့်လျက် ရှိသည်။ မီးဖွားပြီးစတွင် ရှိနေတတ်သည့် အနံ့အသက်များပေတည်း။ နောက်မှ တက်လာသော ဦးလေဂျွန်သည် အိမ်ခန်းနံရံ တစ်ဖက်တွင် အားပြု၍ ရပ်နေသည်။ မစွက် ဝိန်းဂရိုက်သည် သူ့အလုပ်ကို

ချထားခဲ့ပြီး အဖေဂျုတ်ထံ လျှောက်လာသည်။ သူသည် အဖေဂျုတ်၏ လက်မောင်းကို အသာဆွဲကာ တစ်ဖက်သော ထောင့်သို့ ခေါ်သွားသည်။ ပြီးတော့ မုန့်အိမ်တစ်လုံးကို ကောက်ပြီး ထောင့်ထဲ၌ ချထားသည့် ပန်းသီးသေတ္တာဟောင်း တစ်လုံးထဲသို့ မြင်သာအောင် မှောက်ပြသည်။ သေတ္တာအတွင်း၌ ခင်းထားသည့် သတင်းစာ စက္ကူဟောင်းပေါ်တွင် တွန့်လိမ် ရှုံ့တွနေသည့် ကလေး အသေလေး။

"လုံးဝ အသက်မရှုဘူး" ဟု မစ္စက် ဂိန်းဇရိုက်က လေသံဖြင့် ပြောသည်။ "ဗိုက်ထဲကတည်းက အသက်မရှုတာ၊ မွေးကတည်းက အသေလေး"

ဦးလေးဂျွန်သည် အခန်း၏ အစွန်းတစ်ဖက်ရှိ မှောင်ရိပ် ခပ်ကျကျ ထောင့်ထဲသို့ သွား၍ ထိုင်သည်။ ခေါင်မိုးပေါ်သို့ ကျနေသည့် မိုးပေါက်သံများသည် စောစောကလို ပြင်းထန်ခြင်း မရှိတော့ပေ။ အမှောင်ရိပ်ထဲမှ ဦးလေးဂျွန်၏ နှပ်တရှုံ့ရှုံ့ အသံကိုပင် သဲကွဲစွာ ကြားနေရ၏။

အဖေဂျုတ်သည် မစ္စက် ဂိန်းဇရိုက်၏ မျက်နှာကို မော့ကြည့်သည်။ သူသည် မစ္စက် ဂိန်းဇရိုက်၏ လက်ထဲမှ မုန့်အိမ်ကို လှမ်းယူကာ ကြမ်းပေါ်သို့ ချထားလိုက်၏။ ရှသီနှင့် ဝင်းဖီးတို့သည် သူတို့ မွေ့ရာပေါ်၌ မျက်နှာများပေါ် လက်မောင်းများတင်ကာ အိပ်မောကျလျက် ရှိကြသည်။

အဖေဂျုတ်သည် ရိုစာဟန်၏ မွေ့ရာဆီသို့ လျှောက်သွားသည်။ သူသည် မွေ့ရာဘေး၌ ဖင်ချ၍ ထိုင်ရန် ကြိုးစားသည်။ သို့သော်လည်း သူ့ခြေထောက်များသည် ပင်ပန်းလွန်းလှသည့် အရှိန်ကြောင့် တုန်လျက် ရှိကြ၏။ သူသည် ဖင်ချ မထိုင်တော့ဘဲ ဒူးထောက်၍ ထိုင်လိုက်သည်။ အမေကတော့ လက်ထဲမှ ကတ်ပြားဖြင့် ယပ်ခတ်ပေးလျက် ရှိ၏။ သူက အဖေဂျုတ်ကို အတန်ကြာမျှ ငေးစိုက် ကြည့်နေသည်။ အမေ့မျက်လုံးများသည် မှုန်မှိုင်းလျက် ရှိနေကြ၏။

အဖေဂျုတ်က ပြောသည်။ "ငါတို့ လုပ်ကြတာပဲ၊ ငါတို့ တတ်နိုင်သလောက် လုပ်ကြတာ"

"ကျွန်မ သိပါတယ်"

"ငါတို့ တစ်ညလုံး လုပ်တာ၊ သစ်ပင်တစ်ပင်က တာရိုးကို ဖင်ဆောင့်လို့ ပြိုသွားတယ်"

"ကျွန်မ သိပါတယ်"

"မင်းလည်း ကြားမှာပါ"

"ကျွန်မ သိတယ်၊ ကြားလည်း ကြားလိုက်တယ်"

"သူ ပြန်ပြီး နေကောင်းပါ့မလား ၊မင်း ဘယ်လိုထင်သလဲ"

"ကျွန်မလည်း မပြောတတ်ဘူး"

"အေးပေါ့၊ တို့လည်း ဒီထက်ပိုပြီး မလုပ်တတ်တော့ဘူးလေ"

တင်းကျပ်စွာ စေ့ထားသည့် အမေ့နှုတ်ခမ်းများသည် ဖြူဖွေးလျက် ရှိလေသည်။ "မဟုတ်သေးဘူးလေ၊ လုပ်စရာက တစ်ခုပဲ ရှိတော့တာ"

"တို့ကတော့ အစွမ်းကုန် လုပ်ကြတာပဲ၊ နောက်ဆုံး သစ်ပင်ကြောင့်...၊ အင်း... မိုးကလည်း..."

အမေက ခေါင်မိုးကို မော့ကြည့်သည်။ ပြီးတော့ ခေါင်းကို ပြန်ငုံ့လိုက်၏။ အဖေဂျုတ်က စကားကို ဆက်ပြောသည်။ "ရေက ဘယ်လောက် အမြင့်အထိများ တက်ဦးမလဲ မပြောတတ်ဘူး၊ ကားအိမ်တွေထဲ အထိ တက်လာချင် တက်လာမှာ"

"ကျွန်မ သိပါတယ်"

"မင်းက အရာရာကို သိနေတယ်နော်"

အမေက ငြိမ်နေသည်။ သူ့လက်ထဲမှ ကတ်ပြားသည် ဖြည်းဖြည်းသာသာ လှုပ်ရှားလျက်ပင် ရှိ၏။

"ငါတို့ဘက်က လိုသွားတာများ ရှိနေမလား" အဖေဂျုတ်က စိတ်ထိခိုက်သံဖြင့် ပြောသည်။ "တို့ လုပ်နိုင်ရက်သားနဲ့ မလုပ်ခဲ့မိတာများ ရှိနေမလား"

အမေက သူ့ကို ထူးဆန်းသော အကြည့်ဖြင့် ကြည့်လျက် ရှိသည်။ အမေ့နှုတ်ခမ်းများတွင် အပြုံးရိပ် ထင်လျက် ရှိသည်။ "အပြစ်လို့ မတွက်ပါနဲ့၊ အဆင်ပြေသွားမှာပါ၊ အပြောင်းအလဲတွေဟာ ရှိနေပါတယ်"

"ရေကလည်း ဘယ်လောက်အထိများ တက်နေဦးမယ် မသိဘူး၊ ငါတို့ ဒီနေရာက ထွက်သွားမှ ဖြစ်တော့မယ် ထင်တယ်"

"အချိန်ကျလာတော့လည်း သွားကြရမှာပေါ့၊ ကျွန်မတို့အနေနဲ့ လုပ်ရမယ့်ဟာကိုတော့ လုပ်ကြရမှာပဲ၊ ကဲ တော်ပြီ၊ ရိုစာဟန် နိုးသွားလိမ့်မယ်"

မစ္စက် ဂိန်းဂရိုက်သည် ထင်းများကို ချိုး၍ မီးဖိုထဲသို့ ထည့်နေသည်။

အပြင်မှ ဒေါသတကြီးနှင့် ပြောနေသည့် စကားသံ။ "ငါ ကိုယ်တိုင် ဝင်ပြီး ဒီခွေးမသားနဲ့ တွေ့မယ်"

တံခါးဝအနီးမှ အယ်လ်၏ အသံ ထွက်လာသည်။ "ခင်ဗျား ဘယ်သွားမယ်လို့ စိတ်ကူးလာတာလဲ"

"အဲဒီအထဲဝင်ပြီး ဟိုခွေးမသား ဂျုတ်ဆိုတဲ့ ကောင်ကြီးနဲ့ တွေ့မလို့"

"မဝင်နဲ့၊ မရဘူး၊ ဘာဖြစ်လို့လဲ"

"တကယ်လို့ သူကသာ တာတမံဖို့ဖို့ဆိုတဲ့ အရူးစိတ်ကူးကို မပြောခဲ့ရင် ငါတို့ အခုလောက်ဆို ဒီနေရာက ထွက်သွားပြီးလောက်ပြီ၊ အခုတော့ ငါ့ကားလည်း နှိုးလို့မရတော့ဘူး"

"ကျုပ်တို့ကားကျတော့ လမ်းမပေါ်မှာ ပြေးနေပြီလို့ ခင်ဗျားက ထင်နေသလား"

"ရှေ့က ဖယ်စမ်းပါကွာ ငါ အိမ်ထဲ ဝင်မလို့"

အယ်လ်၏ အသံသည် အေးစက်စက် ဖြစ်လာသည်။ "ကျုပ်နဲ့ ရင်ဆိုင်ပြီးမှ ခင်ဗျား ဝင်လို့ရမှာ"

အဖေဂျုတ်သည် ထိုင်နေရာမှ လေးလံစွာ ထရပ်လိုက်ပြီး တံခါးဆီသို့ သွားသည်။ "ကိစ္စမရှိဘူး အယ်လ်၊ ငါ လာနေပြီ၊ မင်း ဖယ်ပေးလိုက်" အဖေဂျုတ်က လူသွားလမ်းပေါ်သို့ ဆင်းလိုက်သည်။ အဖေဂျုတ် ပြောလိုက်သည့် စကားကို အမေ ကြားလိုက်ရ၏။ "ကျုပ်တို့မှာ လူမမာ ရှိနေတယ်၊ ဒီဘက်ကို လာခဲ့"

အခုကျတော့ အိမ်ခေါင်မိုးပေါ်သို့ ကျဆင်းနေကြသော မိုးပေါက်များသည် ခပ်ကျဲကျဲ ခပ်ပါးပါး ဖြစ်လာသည်။ လေပြည်လေညင်းသည် အသာအယာ တိုက်ခတ်လျက် ရှိ၏။ မစ္စက် ဝိန်းဂရိုက်သည် မီးဖိုဘေးမှ ထလာပြီး ရိုစာဟန်အား ငုံ့ကြည့်သည်။ "အရုဏ်တက်တော့မယ် မစ္စက် ဂျုတ်၊ ဘာပြုလို့ ရှင် တစ်ရေးမှ မအိပ်သေးတာလဲ၊ ကျွန်မ သူ့ကို စောင့်ပေးမယ်လေ"

"မအိပ်တော့ပါဘူး" ဟု အမေက ပြောသည်။ "ကျွန်မ မပင်ပန်းပါဘူး"

"ရှင့်မျက်စိတွေကတော့ ဂက်မျက်စိ ဖြစ်နေပြီ" ဟု မစ္စက် ဝိန်းဂရိုက်က ပြန်ပြောသည်။ "လာပါ၊ မအိပ်လည်း ခဏတစ်ဖြုတ်တော့ လှဲလိုက်ပါဦး"

အမေက လက်ထဲမှ ကတ်ပြားဖြင့် သူ့ကိုယ်သူ ယပ်ခတ်လျက် ရှိ၏။ "ရှင် ကျွန်မတို့ အပေါ်မှာ ကောင်းရှာပါတယ်၊ ကျွန်မတို့ သိပ် ကျေးဇူးတင်ပါတယ် ရှင်"

မစ္စက် ဝိန်းဂရိုက်က ပြုံးသည်။ "ကျေးဇူးတင်ဖို့ မလိုပါဘူး၊ လူတိုင်းဟာ တစ်လှည်းတည်း စီးပြီး တစ်ခရီးတည်း သွားနေကြရတာပါ၊ ဆိုကြပါစို့ရဲ့၊ ကျွန်မတို့ ဒုက္ခရောက်နေရင် ရှင်တို့က ကူညီမှာပဲပေါ့"

"ဒါပေါ့" ဟု အမေက ထောက်ခံသည်။ "ကျွန်မတို့က ကူညီရမှာပေါ့"

"တခြား ဘယ်သူ့ကို မဆိုပေါ့"

"ဒါပေါ့၊ ဘယ်သူ့ကိုမဆိုပေါ့၊ ထုံးစံအတိုင်း ကိုယ့်မိသားစုကိုတော့ အရင်ဆုံး ဦးစားပေးရမှာပေါ့၊ ဒါပေမယ့် အခုကျတော့လည်း အဲဒီလို မဟုတ်တော့ဘူး၊ ဘယ်သူ့ကိုမဆို ဦးစားပေးသင့်တဲ့လူကို ပေးရမှာပေါ့၊ ကိုယ့်ထက်ဆိုးနေရင် ကိုယ်က မကူညီလို့ ဘယ်ဖြစ်ပါ့မလဲ"

ရှုသီသည် သက်ပြင်းတစ်ချက်ကို မှုတ်ထုတ်လိုက်ပြီး မျက်လုံးများပေါ် တင်ထားသည့် လက်မောင်းကို ဘေးသို့ ဖယ်ချလိုက်သည်။ သူသည် မုန်အိမ်မီးကို မမြင်မကန်းဖြင့် လှမ်းကြည့်နေသည်။ ထို့နောက် သူ့ခေါင်းကို အမေ့ဘက်သို့ လှည့်လိုက်ပြီး အမေ့ကို ကြည့်တယ်။ "မွေးပြီလားဟင်" ဟု လှမ်းမေးသည်။ "ကလေး အပြင်မှာ ရောက်ပြီလား"

မစွက် ဂိန်းဂရိက်သည် ဂုန်နီအိတ်အဟောင်း တစ်ခုကို ယူ၍ ပန်းသီး သေတ္တာဟောင်းကို အပေါ်မှ ဖြန့်၍ ဖုံးထားလိုက်လေ၏။

"ကလေး ဘယ်မှာလဲဟင်" ရှုသီက မေးပြန်သည်။

"ကလေးက မရှိဘူး၊ အစကတည်းက ကလေးရှိခဲ့တာ မဟုတ်ဘူး၊ အမေတို့ အထင်လွဲခဲ့တာ"

ရှုသီက အားရပါးရ သမ်းလိုက်သည်။ "သမီးကတော့ ကလေးတစ်ယောက် မွေးစေချင်တာ"

မစွက် ဂိန်းဂရိက်သည် အမေ့ဘေးတွင် ဂင်ထိုင်ပြီး အမေ့လက်ထဲမှ ကတ်ပြားကို ယူကာ ယပ်ခတ်နေသည်။ အမေသည် သူ့လက်နှစ်ဖက်ကို ယှက်၍ ရင်ခွင်၌ တင်ထားသည်။ ပင်ပန်းနွမ်းလျလျက်ရှိသော အမေ့မျက်လုံးများသည် စိတ်ရောကိုယ်ပါ ပင်ပန်းမှုဒဏ်ကြောင့် အရုပ်ကြိုးပြတ်ဖြစ်ကာ နှစ်နှစ်ခြိုက်ခြိုက် အိပ်မောကျနေရှာသော ရိုစာဟန်၏ မျက်နှာပေါ်မှ မခွာ။ "ကဲ ထ" မစွက် ဂိန်းဂရိက်က ထပ်ခေါ်ပြန်သည်။ "ဒီမှာ လာလှဲ၊ သူ့ဘေးမှာ ဂင်ပြီး ခဏ လှဲနေရင် ရတယ်၊ သူ သိပ်မောပြီး အိပ်နေတာဆိုတော့ တော်ရုံတန်ရုံနဲ့ မနိုးပါဘူး"

"ရပါတယ်၊ ကျွန်မ လှဲမယ်" အမေသည် အိပ်ပျော်နေသော ရိုစာဟန်၏ဘေး မွေ့ရာပေါ်၌ လှဲလိုက်သည်။ မစွက် ဂိန်းဂရိက်ကတော့ ကြမ်းပြင်ပေါ်မှာ ထိုင်ကာ ရိုစာဟန်ကို စောင့်လျက် ရှိလေသည်။

အဖေဂျုတ်၊ အယ်လ်နှင့် ဦးလေးဂျွန်တို့သည် အိမ်ရှေ့တံခါးဝ၌ ထိုင်ကာ တက်လာနေသော အရုဏ်ကို မျှော်ကြည့်နေသည်။ မိုးသည် တိတ်သွားလေပြီ။

သို့သော်လည်း မိုးကောင်းကင်တွင် ထူထဲသော တိမ်လိပ်များသည် အောက်ဘက်သို့ နမ့်ဆင်းနေဆဲ ဖြစ်၏။ အလင်းရောင် ဝင်လာသည့်အခါ တိမ်ရိပ်များသည် ရေပြင်တွင် လာ၍ ထင်သည်။ လူအများသည် ချောင်းငယ်၏ ရေစီးကြောင်းကို မြင်တွေ့နေရ၏။ ရေစီးကြောင်းထဲတွင် တလှုပ်လှုပ် မျောပါလာနေကြသည့် သစ်ကိုင်းများ၊ သေတ္တာများ၊ ပျဉ်ချပ်များ...။ ရေသည် ကားဘော်ဒီအိမ်များ အနီးတွင် ဝဲလည်သလို လှည့်ကာ ကွေ့ပတ်၍ စီးနေ၏။ မကြာသေးမီကမှ ဆည်ဖို့ထားခဲ့ကြသည့် တာပေါင်ကိုမူ အစအနကလေးမျှပင် မမြင်ရတော့ပေ။ မြေနိမ့်ပိုင်းသို့ ရောက်သောအခါ ရေသည် တန့်သွားပြီး ထိုနေရာ၌ ဝပ်လျက် ရှိလေ၏။ လျှံတက်နေသော ရေပြင်၏ ဟိုဘက်ထိပ် သည်ဘက်ထိပ် အစွန်းနစ်ဖက်တွင် ရေမြှုပ်များ ပလုံစီလျက် ရှိလေသည်။

အဖေဂျုတ်သည် တံခါးဝတွင် ခေါင်းပြူ၍ ထွက်ကာ လူသွားလမ်း အဆုံးဘက်မှ ရေစပ်တွင် တုတ်တစ်ချောင်း စိုက်လိုက်သည်။ ပြီးတော့ ရေတက်ပုံကို စောင့်ကြည့် ကြသည်။ ရေသည် တုတ်အပေါ်ဘက်သို့ ဖြည်းဖြည်းချင်း တက်လာလျက် ရှိ၏။ ခဏမျှ ကြာသောအခါ စိုက်ထားသည့် တုတ်သည် ကျွတ်ထွက်ကာ ရေထဲသို့ မျောပါသွားလေ၏။ အဖေဂျုတ်သည် နောက်ထပ် တုတ်တစ်ချောင်းကို ယူ၍ ရေပေါ်၌ တစ်လက်မျှ ပေါ်လာအောင် စိုက်ထားလိုက်ပြန်သည်။ ပြီးတော့ စောစောကလိုပင် စောင့်ကြည့် နေပြန်လေ၏။

"ကားအိမ်ထဲအထိ ရေဝင်လာလိမ့်မယ်လို့ ထင်သလား" ဟု အယ်လ်က မေးသည်။

"မပြောနိုင်ဘူးကွ၊ ဟိုးတောင်းကုန်းတွေပေါ်က ဆင်းလာနေတဲ့ ရေက အခုအချိန် အထိ များနေတုန်းပဲ၊ အဲ မိုးကလည်း တစ်လော ထပ်ပြီး ရွာချင်ရွာနေဦးမှာ"

"ကျုပ် တစ်ခု တွေးမိတယ်၊ တကယ်လို့ ဒီတစ်ခါ ရွာရင်တော့ ရှိသမျှ အားလုံး ရေမြုပ်တော့မှာပဲ"

"အေး ဟုတ်တယ်"

"ကားထဲ ရေဝင်ရင်လည်း သုံးလေးလက်မထက်တော့ မြင့်မယ် မထင်ဘူးဗျ၊ ဘာပြုလို့လဲဆိုတော့ ရေက ကားလမ်းမကြီးပေါ်မှာ အရင်ဆုံး တက်သွားပြီး ပြန်သွားဦးမှာ မဟုတ်လား"

"မင်းက ဘယ်လိုလုပ်ပြီး သိတာလဲ" ဟု အဖေဂျုတ်က မေးသည်။

"ကျုပ် သေသေချာချာ ကြည့်ထားတာ" အယ်လ်က သူ့လက်တစ်ဖက်ကို ထောင်ပြသည်။ "ရေက ကျုပ် အခုပြတဲ့ အမြင့်လောက်အထိပဲ တက်မှာပဲ"

"ထားပါတော့၊ အဲသလောက် တက်တော့ကော ဘာဖြစ်မှာလဲ၊ ငါတို့က ဒီမှာရှိတော့မှာမှ မဟုတ်တာ"

"ကျုပ်တို့ ဒီမှာမရှိလို့ကတော့ မဖြစ်ဘူး၊ ရှိကို ရှိရမယ်၊ ကျုပ်တို့ ထရပ်ကားကြီးက ဒီမှာ ရှိနေတာပဲ၊ ရေကျသွားရင် ထရပ်ကားထဲက ရေတွေ ထွက်သွားအောင် အနည်းဆုံး တစ်ပတ်လောက်တော့ စောင့်ရမယ်"

"ကဲ ဒီလိုဆိုရင် မင်းစိတ်ကူးက ဘယ်လိုလဲ"

"ကျုပ်တို့ ထရပ်ကား ဘေးကာတွေကို ဖြုတ်ပြီး ဒီပေါ်တင်မယ်၊ ပြီးတော့ ကြမ်းပြင်လိုလုပ်ပြီး ခင်းမယ်၊ ပစ္စည်းတွေ ရှိသမျှကိုလည်း အဲဒီပေါ် တင်မယ်၊ လူတွေကလည်း အဲဒီပေါ် ထိုင်မယ်"

"ဟုတ်ပါပြီတဲ့ကွာ၊ မင်း ပြောသလိုပဲ လုပ်မယ် ဆိုပါတော့၊ ဘယ်နေရာမှာ သွားပြီး ချက်ကြပြုတ်ကြမလဲ၊ ဘယ်လို စားကြသောက်ကြမလဲ"

"ဘာပဲဖြစ်ဖြစ် ပစ္စည်းတွေကိုတော့ ရေမစိုဘူးပေါ့ဗျာ"

အလင်းရောင်သည် ပို၍ အားကောင်းလာသည်။ အဖေဂျုတ် စိုက်ထားသော ဒုတိယ တုတ်ချောင်းသည် မြေကြီးထဲမှ ကျွတ်ထွက်ကာ ရေထဲသို့ မျောသွားပြန်လေပြီ။ အဖေဂျုတ်သည် စောစောကထက် ပို၍မြင့်သော နေရာ၌ တုတ်တစ်ချောင်းကို ထပ်စိုက်ပြန်သည်။ "ဒီတုတ်အထိလည်း တက်ဦးမှာ သေချာတယ်" ဟု နှုတ်မှ ရေရွတ်သည်။ "ဘာပဲဖြစ်ဖြစ် ဒါကိုတော့ လုပ်ကြည့်တာ ကောင်းတယ်"

အမေသည် အိပ်ရာပေါ်တွင် ဘယ်ပြောင်း ညာလှိမ့်ဖြင့် မငြိမ်မသက် ဖြစ်လျက်ရှိ၏။ သူ့မျက်လုံးများသည် ပွင့်စပြုလာသည်။ သူသည် ကယောင်ကတမ်း ထအော်သည်။ "တွမ်၊ အို.. တွမ်၊ တွမ်ရေ"

မစ္စက် ဝိန်းဝရိုက်က ချော့ချော့မော့မော့ လေသံဖြင့် စကားပြောသည်။ အမေ့ မျက်လုံးများသည် ပြန်၍ မှိတ်သွားသည်။ ထို့နောက် ပြန်၍ အိပ်ပျော်သွားလေ၏။ မစ္စက် ဝိန်းဝရိုက်သည် ထိုင်ရာမှ ထကာ တံခါးဘက်သို့ လျှောက်သွားသည်။ "ဟေး" လေသံဖြင့် လှမ်း၍ အသံပြုသည်။ "ကျွန်မတို့က ဒီက သွားကြဦးမှာ မဟုတ်သေးဘူး" သူသည် အခန်း၏ တစ်ဖက်ထောင့်ထဲမှ ပန်းသီး သေတ္တာအဟောင်းကို လက်ညှိုးထိုးပြသည်။ "ဟိုဟာကို ဒီအတိုင်းထားလို့ မကောင်းဘူး၊ သူဟာ ဒုက္ခတစ်ခုနဲ့ ကြေကွဲစရာ တစ်ခုပဲ၊ သူ့ကို ယူသွားပြီး မြန်မြန် မြေမြှုပ်လိုက်ရင် ကောင်းမယ်"

ယောက်ျားအားလုံး ငြိမ်ဆိတ်သွားကြသည်။ နောက်ဆုံးကျတော့ အဖေဂျုတ်က ပြောသည်။ "ခင်ဗျား ပြောတာ မှန်တယ်၊ သူဟာ ဝမ်းနည်း ကြေကွဲစရာ တစ်ခုပဲ၊ ဒါပေမဲ့ မြေမြှုပ်ဖို့ကျတော့ ဥပဒေနဲ့ ဆန့်ကျင်နေတယ်"

"ကျွန်မတို့အနေနဲ့ မရှောင်သာလွန်းလို့ ဥပဒေကို ဆန့်ကျင်ပြီး လုပ်လိုက်ရတဲ့ အလုပ်တွေဟာ အများကြီး ရှိပါတယ်"

"ဟုတ်ပါတယ်"

အယ်လ်က ဝင်ပြောသည်။ "ရေတက်မလာခင် ကားဘော်ဒီ အကာတွေကို ဖြုတ်ပြီး တင်ထားဖို့က ပိုပြီး အရေးကြီးတယ်ဗျ"

အဖေဂျုတ်က ဦးလေးဂျွန်ဘက်သို့ လှည့်ကြည့်သည်။ "အယ်လ်နဲ့ငါ ကားဘေးကာတွေ ဖြုတ်နေတုန်းမှာ မင်းက ကလေးကို မြေမြှုပ်ပေးပါလားကွာ"

ဦးလေးဂျွန်က မသာယာသော မျက်နှာထားဖြင့် ပြန်ပြောသည်။ "ငါ့ကို ဘာကြောင့် ဒီအလုပ်မျိုး လုပ်ခိုင်းရတာလဲ၊ မင်းတို့ဘာသာ မင်းတို့ ဘာပြုလို့ မလုပ်ကြတာလဲ၊ ငါ မလုပ်ချင်ဘူး" ထို့နောက် ဆက်ပြောသည်။ "ကောင်းပြီလေ၊ ငါ

လုပ်မယ်၊ ငါ လုပ်မယ်၊ ကဲ ငါ့ကိုပေး” သူ့အသံသည် ပို၍ ကျယ်လောင်လာသည်။ “ကဲ ပေးလကွာ”

“သူတို့ကိုတော့ နိုးအောင် မလုပ်ပါနဲ့” ဟု မစွက် ဝိန်းဝရိုက်က ဝင်ပြောသည်။ သူသည် ထောင့်ထဲမှ သေတ္တာပေါင်းကို ဆွဲထုတ်လာပြီး ဦးလေးဂျွန်လက်သို့ လှမ်းပေးသည်။

“တူရွင်း မင်းနောက်မှာ ထောင်ထားတယ် ” ဟု အဖေဂျုတ်က လှမ်းပြောသည်။

ဦးလေးဂျွန်သည် တူရွင်းကို လက်တစ်ဖက်ဖြင့် ဆွဲကာ လှေကားခုံမှ နေ၍ တလှုပ်လှုပ် ဖြစ်နေသော ရေထဲသို့ ဆင်းလိုက်သည်။ ထို့နောက် ပန်းသီးသေတ္တာပေါင်းကို အားနေသော လက်တစ်ဖက်ဖြင့် ပိုက်၍ ကိုင်လိုက်လေသည်။

အဖေက ပြောသည်။ “ကဲ ထ အယ်လ်၊ ထရပ်ကားဘေးကာတွေ သွားဖြုတ်ကြ ရအောင် ”

ဦးလေးဂျွန်သည် အရုဏ်ဦး အလင်းရောင် မှုန်ပျပျအောက်တွင် ကားဘော်ဒီအိမ်တန်း အစွန်းကို ကွေ့ပတ်ကာ သူတို့မိသားစု ထရပ်ကားကို ကျော်ဖြတ်၍ လျှောက်သွားလျက် ရှိ၏။ သူသည် ကားလမ်းမကြီးဘက်သို့ ဦးတည်ထားသည့် တာရိုးပေါ်သို့ တက်သွားသည်။ ပြီးတော့ ကားလမ်းမကြီးဘက်သို့ ဆင်းကာ လမ်းဘေးအတိုင်း ဆက်လျှောက်သည်။ လမ်းမကြီး၏ ဘေးအတိုင်း ကပ်၍ စီးသွားနေသော ချောင်းစပ်သို့ ရောက်သည့်အခါ ရပ်လိုက်၏။ သူသည် လက်တစ်ဖက်မှ တူရွင်းငန်းပြားကို အောက်သို့ ချထားလိုက်ပြီး သေတ္တာကို ရင်ခွင်တွင် အပ်ကာ သူ့လက်နှစ်ဖက်ဖြင့် ပိုက်ထားလိုက်လေသည်။ သူ့အောက်ဘက်မှ ချောင်းရေသည် တဟဲဟဲ အော်မြည်ကာ အရှိန်ပြင်းစွာဖြင့် စီးဆင်းလျက် ရှိ၏။ သူသည် အချိန်အတော်ကြာမျှ ရေစီးကြောင်းကို ငေးစိုက်ကြည့်နေသည်။ မိုးမခပင် ငုတ်တိုများ ကြားမှ တိုးဝှေ့ဖြတ်သန်းသွားနေသော ရေများသည် အဝါရောင် အမြှုပ်များ ထလျက် ရှိ၏။ သူသည် ပန်းသီးသေတ္တာပေါင်းကို ရင်ခွင်တွင် ပိုက်ထားဆဲ။

ထို့နောက် သူသည် ကိုယ်ကို ရှေ့သို့ ကိုင်းလိုက်ပြီး သေတ္တာကို ရေစီးကြောင်းထဲသို့ ချသည်။ သူသည် သေတ္တာကို ရုတ်တရက် ချက်ချင်း လက်မှ

မလွှတ်သေးဘဲ တည်တည်ငြိမ်ငြိမ် ရှိသွားအောင် လက်ဖြင့် ထိန်းကိုင်ထားသည်။ ထို့နောက် သူ့နှုတ်မှ ခက်ထန် မာကျောလွန်းလှသော စကားပြောသံ ထွက်လာသည်။

"ရေစီးကြောင်းအတိုင်း လိုက်သွားပြီး သူတို့ကို ပြောလိုက်၊ လမ်းမပေါ် ရောက်တာနဲ့ တစ်ပြိုင်နက် အပုပ်နံ့ကို ပေးပြီး သူတို့ကို ပြောပြ၊ မင်း ပြောပြနိုင်တဲ့ လမ်းဟာ ဒီတစ်လမ်းပဲ ရှိတော့တယ်၊ ငါကတော့ မင်းကို ယောကျ်ားလေးလား မိန်းမလေးလား ဆိုတာတောင် ခွဲခြားပြီး မသိဘူး၊ သိအောင်လည်း ငါမကြိုးစားတော့ပါဘူးကွာ၊ မင်းလမ်းသာ မင်းသွားပါတော့၊ လမ်းမထဲ ရောက်ရင်တော့ ကပ်ပြီး နေပေတော့၊ အဲဒီကျမှပဲ သူတို့က ခွဲခြားပြီး သိကြမှာပေါ့ကွာ"

သူသည် သေတ္တာကို လက်နှင့် အသာဆ၍ ထိန်းကာ လွှတ်ပေးလိုက်သည်။ သေတ္တာသည် အောက်ဘက်သို့ နိမ့်ခနဲ ဆင်းသွားပြီး ဘေးတစ်ဖက်သို့ ပြေးကပ်သည်။ ပြီးတော့ ချာလပတ်လည်ကာ ရေစီးကြောင်းအတိုင်း အရှိန်ဖြင့် ပြေးဆင်းသွားသည်။ သေတ္တာပေါ်မှ ဂုန်အိတ်သည် ဘေးသို့ လွင့်ကျကာ ရေထဲသို့ မျောပါသွားသည်။ သေတ္တာသည် သူ့မျက်စိအောက်မှ လျင်မြန်စွာပင် ပျောက်ကွယ်သွားလေ၏။ ဦးလေးဂျွန် သည် ချထားသော တူရွင်းပြားကို ပြန်ကောက်ကာ လာလမ်းအတိုင်း အမြန် ပြန်လျှောက် လာသည်။ ရေထဲ ရွှံ့ထဲတွင် တရကြမ်း ဖြတ်၍ လျှောက်သွားရင်းမှပင် ထရပ်ကားများ ဖြုတ်နေသော အဖေဂျုတ်နှင့် အယ်လ်တို့အနီးသို့ ပြန်ရောက်လာလေ၏။

အဖေဂျုတ်က သူ့ကို ဆီး၍ ကြည့်သည်။ "ပြီးသွားပလား"

"အင်း"

"မင်း အယ်လ်ကို ကူပေးမယ် ဆိုရင်တော့ ငါ စတိုးဆိုင်ဘက်သွားပြီး ချက်စရာ ပြုတ်စရာလေး သွားဝယ်လိုက်ချင်တယ်" ဟု အဖေဂျုတ်က ပြောသည်။

"ဝက်သားကျပ်တင် နည်းနည်း ဝယ်ခဲ့ဗျာ" ဟု အယ်လ်က မှာသည်။ "ကျပ် အသား စားချင်နေတယ်"

"ဝယ်ခဲ့မယ်" ဟု အဖေဂျုတ်က ဆိုသည်။ သူသည် ထရပ်ကားပေါ်မှ ခုန်ချလိုက်၏။ ဦးလေးဂျွန်က သူ့နေရာသို့ ဝင်သည်။

သူတို့နှစ်ယောက် ဘေးကာများကို မ၍ ကားဘော်ဒီအိမ်အတွင်း သွင်းကြသော အခါ အမေသည် အိပ်ရာမှ လန့်နိုးကာ ထထိုင်လိုက်လေသည်။ "ဘာလုပ်နေကြတာလဲ "

"ရေလွတ်အောင် နေရာတစ်နေရာ လုပ်မလို့"

"ဘာပြုလို့လဲ " ဟု အမေက မေးသည်။ "အခုလည်း ရေလွတ်နေသားပဲဟာ "

"လွတ်မှာ မဟုတ်ဘူး အမေရ၊ ရေက တောက်လျှောက် တက်နေတုန်းပဲ"

အမေက အိပ်ရာပေါ်မှ ထလာပြီး တံခါးဆီသို့ လျှောက်သွားသည်။ "တို့ ဒီနေရာက ထွက်သွားကြတော့မှ ဖြစ်မှာ "

"မသွားနိုင်ဘူး အမေ" ဟု အယ်လ်က ပြောသည်။ "ကျုပ်တို့ပစ္စည်းတွေက ဒီမှာ အများကြီး၊ ထရပ်ကားကလည်း ဒီမှာပဲ"

"မင်းအဖေကော "

"မနက်စာအတွက် သွားဝယ်တယ် "

အမေက ရေကို ငုံ့ကြည့်သည်။ ရေသည် ကြမ်းပြင်မှ အောက်သို့ ခြောက်လက်မ အထိ ကျသွားခဲ့လေပြီ။ သူသည် မွေ့ရာဆီသို့ ပြန်သွားကာ ရိုစာဟန်ကို ကြည့်သည်။ ရိုစာဟန်သည် အမေ့အား ပြန်၍ ကြည့်နေလျက် ရှိလေသည်။

"ဘယ်လို နေသေးသလဲ "

"မောတယ် အမေ"

"သမီးအတွက် အမေ မနက်စာလုပ်ပေးမယ် "

"သမီးမဆာဘူး အမေ"

မစ္စက် ဝိန်းဝရိုက်သည် အမေ့ဘေးသို့ ရောက်လာသည်။ "သူ့ကြည့်ရတာ လန်းလန်းဆန်းဆန်းပါပဲ၊ နေကောင်းပုံ ပေါ်ပါတယ် "

ရှိစာဟန်၏ မျက်လုံးများသည် အမေ့အား မေးခွန်းတစ်ခု မေးလျက် ရှိသည်။ အမေက ထိုမေးခွန်းအား ရှောင်ရန် အားထုတ်သည်။ မစွက် ဝိန်းဝရိက်သည် မီးဖိုဘက်သို့ ပြန်လျှောက်သွားလေသည်။

"အမေ"

"ဟင်၊ ဘာလိုချင်လို့လဲ"

"ဟို.. ဟို.. ကလေး.. နေကောင်းတယ်နော် "

ထိုမေးခွန်းကို ရှောင်ရန် အားထုတ်နေသော အမေသည် လက်မြှောက် အရှုံးပေးလိုက်သည်။ သူသည် မွေ့ရာဘေး၌ ဒူးထောက် ထိုင်ချလိုက်၏။ "ငါ့အသမီး အသက်ရှင်နေသမျှ ကာလပတ်လုံး ကလေး ရနိုင်ပါတယ်" ဟု အမေက ပြောသည်။ "အမေတို့လည်း တတ်သမျှ မှတ်သမျှ အစွမ်းကုန် ကြိုးစားကြတာပဲ"

ရှိစာဟန်သည် အိပ်ရာပေါ်မှ ရုန်းကန်၍ ထသည်။ "အမေ"

"ဒါက ငါ့သမီး မတတ်နိုင်တဲ့ ကိစ္စမျိုးကွယ့်"

ရှိစာဟန်သည် အိပ်ရာပေါ်သို့ ပြန်လှဲချလိုက်ပြီး မျက်နှာကို လက်ဖဝါးနှစ်ဖက်ဖြင့် အုပ်ထားသည်။ ရှူသီက လေးဖက်ထောက်ပြီး အနားသို့ တိုးလာသည်။ ပြီးတော့ ထိတ်လန့် အံ့သြလျက် ရှိသည့် မျက်နှာထားဖြင့် ငုံ့ကြည့်သည်။ ပြီး အမေ့အနားသို့ ကပ်၍ တိုးတိုးကလေး မေးသည်။ "သူ နေမကောင်းဘူးလားဟင်၊ သူ သေတော့မှာလား "

"မသေပါဘူး၊ နေကောင်းသွားမှာပါ "

အဖေဂျုတ်သည် အထုပ်များကို ပွေ့၍ ပြန်ရောက်လာသည်။ "သူ ဘယ်လို နေသေးသလဲ ဟင်"

"ကောင်းပါတယ်၊ မကြာခင် ကောင်းသွားမှာပါ "

ရှူသီကတော့ ဝင်းဖီးထံသို့ သွား၍ သတင်းပို့လျက် ရှိ၏။ "သူ မသေဘူးတဲ့၊ အမေက အဲသလို ပြောလိုက်တယ် "

လူကြီးဂိုက် ဖမ်းကာ နီးစ တစ်စဖြင့် သွားကြားထိုးနေသော ဝင်းဖီးက လူကြီးတစ်ယောက် လေသံဖြင့် ပြန်ပြောသည်။ "အဲဒါကို ငါ အမြဲ သိနေတာပဲဟာ"

"နင် ဘယ်လိုလုပ်ပြီး သိသလဲ"

"ဘယ်လို ပြောရမလဲ" ဟု ဝင်းဖီးက ပြန်ပြောပြီး သွားကြားထိုးတံကို ပါးစပ်ထဲမှ ထွေးထုတ်လိုက်လေသည်။

အမေသည် လက်ကျန် ထင်းများဖြင့် မီးပြန်မွေးကာ ဝက်သားကျပ်တင်ကို ချက်သည်။ အဖေဂျုတ်သည် ဈေးကြီးသော စတိုးဆိုင်လုပ် ပေါင်မုန့်များ ဝယ်လာခဲ့ပြန်ပြီ။ အမေသည် မျက်မှောင်တစ်ချက် ကုတ်၍ ကြည့်သည်။ "ပိုက်ဆံ ကျန်သေးရဲ့လား"

"မကျန်တော့ဘူး" ဟု အဖေဂျုတ်က ဖြေသည်။ "ဒါပေမဲ့ ငါတို့အားလုံး သိပ်ဆာနေကြတယ် မဟုတ်လား"

"ဆာတာနဲ့ပဲ စတိုးဆိုင်လုပ် ပေါင်မုန့်တွေ ဝယ်လာတယ် ဆိုပါတော့၊ ဟုတ်လား" အမေက အပြစ်တင်သံဖြင့် ပြောသည်။

"တို့အားလုံး သိပ်ဆာနေကြလို့ပါဟာ၊ မနေ့ညက တစ်ညလုံး အလုပ် လုပ်ထားခဲ့ရတာဟ"

အမေက သက်ပြင်းချသည်။ "ဒီလိုဆိုရင် ကျွန်မတို့ အခု ဘယ်လို ဆက်လုပ်ကြမလဲ"

သူတို့မိသားစု မနက်စာ စားနေခိုက်တွင် ရေသည် တဖြည်းဖြည်းချင်း ပြန်တက်လာလျက် ရှိ၏။ အယ်လ်သည် သူ့အစာကို ဝါးမျိုနေရင်းက အဖေဂျုတ်နှင့်အတူ လင့်စင်ဆောက်လျက် ရှိ၏။ လင့်စင်သည် အကျယ်ငါးပေရှိ၍ ခြောက်ပေတိတိ ရှည်သည်။ အမြင့်ပေသည် အိမ်ခန်းကြမ်းပြင်၏ အထက် လေးပေ မြင့်လေသည်။ ရေသည် အိမ်ရှေ့ တံခါးအထိ တက်လာပြီး ရှေ့ဆက်၍ တက်ရအံ့လော၊ နောက်သို့ ဆုတ်ရအံ့လောဟု စဉ်းစား ချိန်ဆနေသည့်နယ် တွန့်ဆုတ် တွန့်ဆုတ် လုပ်လျက် ရှိသည်။ ထို့နောက် ဖြည်းဖြည်းချင်း တက်လာပြီး အိမ်တွင်းရှိ ကြမ်းပြင်ပေါ်သို့ စီးဆင်းလာသည်။

အပြင်ဘက်တွင်မူ မိုးသည် တစ်လောထပ်၍ ရွာပြန်လေပြီ။ စ၍ ရွာသည့်နေ့က အတိုင်းပင် မိုးပေါက်ကြီးများ ဖြစ်၏။

အယ်လ်က လှမ်းပြောသည်။ "လာကြဗျ၊ မွေ့ရာတွေနဲ့ စောင်တွေကို ရေစိုမကုန်အောင် အပေါ်တင်ထားကြမယ်" သူတို့သည် သူတို့ပိုင်ပစ္စည်းများကို စု၍ စင်ပေါ်သို့ တင်ကြသည်။ ရေသည် ကြမ်းပြင်ပေါ်တွင် တွားသွားလျက် ရှိလေပြီ။ အဖေဂျုတ်နှင့် အမေ၊ အယ်လ်နှင့် ဦးလေးဂျွန်တို့သည် ရိုစာဟန်၏ မွေ့ရာကို ထောင့်လေးထောင့်မှ မပြီး စင်ပေါ်သို့ တင်ပေးကြသည်။ မွေ့ရာပေါ်မှ ရိုစာဟန်က အော်ပြောသည်။ "ကျွန်မ လမ်းလျှောက် နိုင်ပါတယ်၊ ဆင်းလျှောက်ပါ့မယ်"

ရေသည် ကြမ်းပြင်ထက်၌ တလှုပ်လှုပ် ရွေ့လျားလျက် ရှိသည်။ ရိုစာဟန်က အမေ့အနား ကပ်၍ တိုးတိုးပြောသည်။ အမေသည် သူ့လက်တစ်ဖက်ကို စောင်အောက်သို့ ထိုးသွင်းကာ ရိုစာဟန်၏ နို့ကို စမ်းကြည့်ပြီး ခေါင်းညိတ်သည်။

ကားအိမ်၏ တစ်ဖက်ခန်းတွင်လည်း ဝိန်းဝရိုက် မိသားစုသည် တဒုန်းဒုန်း တဒိုင်းဒိုင်း ထုရိုက်၍ စင်တစ်လုံး ဆောက်နေကြသည်။ မိုးသည် သည်းလာပြန်သည်။ ထို့နောက် တိတ်သွားလေ၏။

အမေသည် သူ့ခြေထောက်များကို ငုံ့ကြည့်သည်။ ယခုဆိုလျှင် ရေသည် ကြမ်းပြင်ပေါ်တွင် လက်မဝက်ခန့် တက်လာလျက် ရှိနေလေပြီ။ "ဟဲ့ ရူသီ၊ ဝင်းဖီးရေ" ဟု အမေက အလန့်တကြား အော်ခေါ်သည်။ "ဒီပေါ်ကို တက်ခဲ့ကြ၊ နင်တို့ အအေးမိကုန် လိမ့်မယ်" ရူသီနှင့် ဝင်းဖီးတို့ကတော့ စင်ပေါ်၌ ရောက်နေကြပြီ ဖြစ်၏။ ရိုစာဟန်၏ ဘေးတွင် ပုံမကျ ပန်းမကျ ထိုင်နေကြလေပြီ။ အမေ၏ နှုတ်မှ စကားတစ်ခွန်း ထွက်လာသည်။ "ကျွန်မတို့ ဒီကသွားကြမှ ဖြစ်မယ်"

"သွားလို့ မဖြစ်ဘူးဟ" ဟု အဖေဂျုတ်က ပြောသည်။ "အယ်လ် ပြောသလိုပဲ ငါတို့ ပစ္စည်းအားလုံးက ဒီမှာ ရှိနေတာ၊ ဟို အိမ်ရှေ့ တံခါးကို ဖြုတ်ပြီး နောက်ထပ် နေစရာတစ်ခု ထပ်လုပ်ကြတာပေါ့"

ဂျုတ်မိသားစုသည် သူတို့ ဆောက်ထားသည့် စင်ပေါ်၌ အချင်းချင်း တိုးဝှေ့ ပူးကပ်ပြီး ကျပ်ကျပ်သပ်သပ် နေကြရလေ၏။ အားလုံး စိတ်ညစ်စိတ်ရှုပ် ဖြစ်လျက်ရှိသဖြင့်

နှုတ်ဆိတ်လျက် ရှိကြကုန်၏။ ရေသည် မော်တော်ကား လမ်းမကြီးဘက်မှ တာရိုးနှင့် စခန်း၏ တစ်ဖက်ရှိ ဝါခင်းထဲသို့ ဖြန့်၍ ဆင်းမသွားမီကတည်းက ကားအိမ်အတွင်းရှိ ကြမ်းပြင်ပေါ်၌ ခြောက်လက်မအထိ မြင့်တက်နေခဲ့လေပြီ။ ယောကျ်ားများသည် ဖြုတ်ထားသည့် တံခါးရွက်ပေါ်တွင် နေ့ရောညပါ ဘေးချင်းကပ်၍ ရေစိုကြီးထဲ၌ပင် အိပ်နေကြရလေ၏။

အမေသည် ရိုစာဟန်၏ ဘေး၌ ကပ်၍ လှဲလျက်ရှိသည်။ တစ်ခါတစ်ရံတွင် အမေသည် ရိုစာဟန်အား စကားတိုးတိုး ပြောနေတတ်၍ တစ်ခါတစ်ရံတွင်မူ ထ၍ ထိုင်နေတတ်လေသည်။ သူ့မျက်နှာတွင် စိုးရိမ်ကြောင့်ကြမှု အရိပ် လက္ခဏာများသည် ထင်ဟပ်လျက် ရှိ၏။ သူ ခြုံထားသော စောင်အောက်တွင်မူ ပေါင်မုန့် အကြွင်းအကျန်များကို ဖွက်ထားလေသည်။

အခုကျတော့လည်း မိုးသည် ရွာလိုက် တိတ်လိုက် လုပ်လျက်ရှိ၏။ ဒုတိယနေ့ နံနက်တွင် အဖေဂျုတ်သည် စင်ပေါ်မှဆင်းကာ စခန်းအတွင်းသို့ လျှောက်သွားသည်။ ပြန်လာသည့်အခါ သူ့အိတ်ကပ်များထဲတွင် အာလူးဆယ်လုံး ပါလာလေသည်။ သူသည် အိမ်အတွင်းဘက် တစ်နေရာမှ နံရံတစ်ခုကို ဖျက်၍ ထင်းလုပ်ပြီး မီးမွေးသည်။ ကြမ်းပေါ်မှ ရေကို ခပ်၍ အိုးတစ်လုံးထဲသို့ ထည့်သည်။ အမေသည် သူလုပ်နေသမျှကို သဘောမကျသည့်နယ် မျက်မှောင်ကုတ်၍ ကြည့်နေသည်။ မိသားစုသည် ထိုအာလူးပြုတ်များကိုပင် မျှတ၍ စားကြလေ၏။ ဤနောက်ဆုံး အစားအစာ ကုန်သွားသောအခါ သူတို့သည် အချိန်ရှိသမျှ မွဲပြာပြာအရောင် ထနေသည့် ရေပြင်ကိုသာ အဓိပ္ပာယ်မရှိ ငေးစိုက်၍ ကြည့်နေကြလေ၏။ ညပိုင်းရောက်သည့် အခါတွင်လည်း ကောင်းကောင်း အိပ်၍ပျော်သည် မရှိ။ အိပ်ရာပေါ်တွင် အချိန်ကြာမြင့်စွာ လဲလျောင်း နေ၍လည်း မရ။

နံနက် မိုးလင်းလာသည့်အခါတွင်လည်း အလွန် မသက်သာသော စိတ်ဖြင့် အိပ်ရာမှ နိုးလာကြရ၏။ ရိုစာဟန်သည် အမေ့အား တိုးတိုးကလေး ကပ်၍ စကားပြောလျက် ရှိသည်။ အမေက ခေါင်းညိတ်လေသည်။ "ဟုတ်တယ်" ဟု အမေက ဆိုသည်။ "အချိန်ကျနေပြီ" ဟုလည်း ရေရွတ်သည်။ ထို့နောက် အမေသည် ယောကျ်ားများ လှဲနေသည့် တံခါးဘက်သို့ လှည့်ကြည့်သည်။ "ငါတို့ ဒီနေရာက သွားမယ်" ဟု ဒေါသတကြီး ပြောသည်။ "မြင့်တဲ့နေရာကို သွားနေမှ ဖြစ်မှာ၊ အဲဒီတော့ နင်တို့ လိုက်မလား

မလိုက်ဘူးလား ပြော၊ ဘာပဲဖြစ်ဖြစ် ငါကတော့ ရှိစာဟန်နဲ့ ကလေးနှစ်ယောက်ကို ခေါ်ပြီး ဒီနေရာက သွားရလိမ့်မယ်"

"ဘယ်လိုလုပ်ပြီး သွားနိုင်မှာလဲ" ဟု အဖေဂျုတ်က လေသံပျော့ပျော့ဖြင့် ပြောသည်။

"ဒီလိုဆို ကောင်းပြီ၊ ရှိစာဟန်ကို ပွေ့ပြီး ကားလမ်းမကြီးပေါ် ပို့ပေးကြ၊ ပြီးတော့ ပြန်လာကြတာပေါ့၊ အခုဆို မိုးတိတ်နေပြီ၊ ကျွန်မတို့ သွားမယ်"

"ပြီးရောပေါ့၊ ဒါဆိုရင်လည်း အားလုံး သွားကြမှာပေါ့" ဟု အဖေဂျုတ်က ပြန်ပြောသည်။

အယ်လ်က ဝင်ပြောသည်။ "အမေ ကျုပ် မသွားဘူးဗျာ"

"ဘာကြောင့် မသွားရမှာလဲ"

"အက်ဂီလေ၊ သူနဲ့ ကျုပ်က.."

အမေက ပြုံးသည်။ "ဟုတ်တာပေါ့" ဟု ရေရွတ်သည်။ "မင်း ဒီမှာနေခဲ့ အယ်လ်၊ ပစ္စည်းတွေကို မင်း ကြည့်ထားလိုက်၊ ရေကျသွားတဲ့အခါကျတော့ အမေတို့ ပြန်လာမယ်၊ ကဲ လာ၊ မိုးမရွာခင် သွားကြမယ်" ဟု အဖေဂျုတ်က လှမ်းပြောသည်။ "ကဲ ထ ရှိစာဟန်၊ အမေတို့ ရေလွတ်တဲ့နေရာကို သွားကြမယ်"

"သမီး လမ်းလျှောက်နိုင်ပြီ အမေ"

အဖေဂျုတ်သည် ရှေ့မှနေ၍ ရေထဲသို့ ဆင်းသွားနှင့်ပြီး ရပ်စောင့်နေသည်။ အမေက ရှိစာဟန်ကို စင်ပေါ်မှ ချပေးပြီး အပြင်သို့ တွဲထုတ်လာသည်။ အဖေဂျုတ်က အောက်မှဆီး၍ ရှိစာဟန်ကို ပွေ့ယူလိုက်ပြီး ကိုယ်လုံးကို ရေနှင့်မထိအောင် အပေါ်သို့ မနိုင်သမျှ မ၍ မြှောက်ချီထားလေသည်။ ရေနက်ပိုင်း ရောက်သည့်အခါတွင် သူသည် သတိထား၍ ဖြတ်သည်။ ထို့နောက် ကားအိမ်ကို ကျွေပတ်ကာ လမ်းမကြီးဘက်သို့ ဦးတည်၍ ဖြည်းဖြည်းမှန်မှန် လျှောက်လေ၏။ လမ်းမကြီး အပေါ်သို့ ရောက်သည့်အခါ ရှိစာဟန်ကို လမ်းပေါ်သို့ ချပေးလိုက်ပြီး လဲကျမသွားအောင် လက်မောင်းတစ်ဖက်ကို

ကိုင်၍ ထိန်းပေးထားသည်။ ဦးလေးဂျွန်ကတော့ ရှသီကို ပွေ့ချီကာ နောက်မှ လိုက်လာသည်။ အမေသည် လှေကားခုံပေါ်မှနေ၍ အောက်သို့ ဆင်းလိုက်သည်။ အမေ့စကတ်များသည် အပေါ်သို့ လွင့်တက်ကာ အမေ့ကိုယ်ကို အတန်ကြာမျှ ရစ်ပတ်လျက် ရှိလေ၏။

"ဝင်းဖီး ဒီကိုလာ၊ အမေ့ ပခုံးပေါ်မှာထိုင်၊ ဒီမှာ အယ်လ်၊ ရေကျသွားတာနဲ့ တစ်ပြိုင်နက် အမေတို့ ပြန်လာခဲ့မယ် သိလား" အမေသည် ခဏမျှနား၍ အသက်ရှူ လိုက်သည်။ "ဒီမှာ အယ်လ်၊ တကယ်လို့ တွမ် ပြန်လာရင် သူ့ကိုပြောပြ၊ အမေတို့ ပြန်လာလိမ့်မယ်လို့၊ သူ့ကိုယ်သူ သတိထားနေဖို့လည်း ပြောနော်၊ ဟဲ့ ဝင်းဖီး လာခဲ့၊ ငါ့ပခုံးပေါ် တက်ထိုင်၊ အဲ ဟုတ်ပြီ၊ နင့်ခြေထောက်တွေကို မလှုပ်စေနဲ့ ငြိမ်ငြိမ်ထား" အမေသည် သူ့ရင်ခေါင်းအထိ နက်သော ရေပြင်ကို ဒယီးဒယိုင်ဖြတ်၍ လျှောက်လာသည်။ ကားလမ်းမကြီး၏ တာရိုးအနီးသို့ ရောက်သောအခါ လမ်းပေါ်မှ လူများမှ သူ့ကို ဆွဲတင်ပေးကြသည်။ သူ့ပခုံးပေါ်မှ ဝင်းဖီးကိုလည်း ချီ၍ ချပေးကြသည်။

သူတို့သည် ကားလမ်းမကြီးပေါ်မှ ရပ်ကာ သူတို့ ဖြတ်ကူးလာခဲ့ရသည့် ရေပြင်နှင့် တလှုပ်လှုပ် ရွေ့လျားလျက် ရှိသော ထိုရေပြင်၏ အလယ်မှ မော်တော်ကားများကို လှမ်းမျှော် ကြည့်ကြသည်။ သူတို့ ရပ်နေခိုက်မှာပင် မိုးပွင့်များသည် တဖွဲဖွဲ ကျလာပြန်လေ၏။

"ကျွန်မတို့ ဒီအတိုင်း ရပ်နေလို့ မဖြစ်ဘူး၊ ရှေ့ဆက်သွားကြမှ ဖြစ်မယ်" ဟု အမေက ပြောသည်။ "ရိုစာဟန် သမီး လမ်းလျှောက်နိုင်တယ်နော် "

"ခေါင်းထဲက မူးနောက်နောက် ဖြစ်နေသလိုပဲ " ဟု ရိုစာဟန်က ပြန်ပြောသည်။ "ခေါင်းကို အရိုက်ခံထားရသလိုချည်းပဲ "

"ရှေ့ဆက်သွားကြမှ ဖြစ်မယ်ဆို၊ ဘယ်ကိုသွားကြမလဲ " ဟု အဖေဂျုတ်က မေးသည်။

"ဘယ်ကိုဆိုတာတော့ ကျွန်မလည်း ဘယ်သိပါ့မလဲ၊ ဒီလိုပဲ လျှောက်သွား ရမှာပေါ့၊ ကဲ ရှင်က ရိုစာဟန်ကို တစ်ဖက်ကတွဲ " အမေက ရိုစာဟန်၏ ညာဘက် လက်မောင်းကို ကိုင်၍ အဖေဂျုတ်က ဘယ်ဘက်လက်ကို ဆွဲသည်။ "ခြောက်ခြောက်

သွေ့သွေ့ ရှိတဲ့ နေရာ တစ်နေရာကို ရှာရမှာပဲ၊ မရှာလို့ မဖြစ်ဘူး၊ ရှင်တို့ အဝတ်ရေစိုကြီးတွေနဲ့ နေရတာလည်း နစ်ရက်တောင် ရှိသွားပြီ” သူတို့သည် အဝေးပြေး ကားလမ်းမကြီးအတိုင်း ဆက်လျှောက်သွားကြသည်။ လမ်းဘေး ချောင်းထဲမှ ရေစီးသံကို ကြားနေရလေသည်။ ရှုသီနှင့် ဝင်းဖီးတို့သည် နစ်ယောက် ရင်ပေါင်တန်း၍ လျှောက်သွား နေကြ၏။ သူတို့အားလုံး တဖြည်းဖြည်းပင် လျှောက်သွားကြသည်။ မိုးကောင်းကင်သည် မည်းလာပြန်လေပြီ။ လမ်းမကြီးပေါ်တွင် ကားအသွားအလာ မရှိ။

“တို့ မြန်မြန် သွားကြမှ ဖြစ်မယ်” ဟု အမေက ပြောသည်။ “တကယ်လို့ ဟောဒီ ကလေးမကိုသာ မိုးမိလို့ ရေစိုကုန်ရင် ဘာတွေဖြစ်ကုန်မယ်ဆိုတာ မပြောတတ်တော့ဘူး”

“မြန်မြန်သွားကြမှ ဖြစ်မယ်လို့လည်း ဆိုတယ်၊ ဘယ်နေရာကို မြန်မြန် သွားရမယ် ဆိုတာကျတော့လည်း မပြောပါလား” ဟု အဖေဂျုတ်က ငေါ့တော့တော့ လေသံဖြင့် ရေရွတ်သည်။

တွမ်သည် ချောင်းအတိုင်း ကွေ့သွားသည်။ အမေသည် လမ်းဘေးဝဲယာရှိ မြေများနှင့် ရေတက်နေသော လယ်ကွက်များဆီသို့ လှည့်ပတ်ကြည့်ရှုကာ မျက်စိရှာလျက် ရှိ၏။ လမ်း၏ ဘယ်ဘက် ခပ်လှမ်းလှမ်းတွင် မသိမသာ မြင့်တက်နေသော တောင်ကမူ တစ်ခုနှင့် ထိုတောင်ကမူပေါ်မှ မိုးဒဏ်ကြောင့် အရောင်အဆင်း မပေါ်နိုင်လောက်အောင် မည်းနက်နေသည့် ကျီတစ်လုံး။ “ဟိုမှာမြင်လား” ဟု အမေက ပြောသည်။ “ဟိုမှာ ကြည့်စမ်း၊ အဲဒီ ကျီထဲမှာတော့ ရေလွတ်မှာ သေချာတယ်၊ ငါတို့ မိုးတိတ်တဲ့အထိ အဲဒီထဲမှာ သွားနေကြရအောင်”

အဖေဂျုတ်က သက်ပြင်းချသည်။ “ပိုင်ရှင် ရှိချင်ရှိနေမှာ”

ရှေ့တည့်တည့် လမ်းဘေး တစ်နေရာတွင် နီရဲရဲ အရာဝတ္ထုတစ်ခု။ ရှုသီက လှမ်းမြင်သည်။ သူသည် အပြေးအလွှား သွား၍ ကောက်သည်။ ပန်းကိုင်း တစ်ကိုင်း။ ထို ပန်းကိုင်းပေါ်တွင် မိုးဒဏ် ခံထားရသည့် အပွင့် တစ်ပွင့်။ ရှုသီက ပန်းကို ခူးယူလိုက်သည်။ အပေါ်မှ ပွင့်ဖတ်ကို ခွာယူလိုက်ပြီး သူ့နှာခေါင်းတွင် ကပ်ထားလိုက်၏။ ဝင်းဖီးက ကြည့်လိုဇောဖြင့် ရှုသီထံသို့ ပြေးလာလေသည်။

“ငါ့ကို တစ်ခုပေး” ဟု ဝင်းဖီးက တောင်းသည်။

"မပေးဘူး၊ ဒါ ငါတွေ့တာ၊ ငါ့ဟာ" သူသည် နောက်ထပ် ပွင့်ဖတ် နီရဲရဲတစ်ခုကို ခွာ၍ သူ့နဖူးတွင် ကပ်လိုက်သည်။ နီရဲရဲ အသည်းနှလုံးပုံ။

"ပေးပါဟာ၊ ငါ့ကို တစ်ခုပေးပါဟ" ဝင်းဖီက ရှုသီလက်ထဲမှ ပန်းပွင့်ကို ဆတ်ခနဲ ဆွဲယူလိုက်သည်။ ရှုသီက သူ့လက်တစ်ဖက်ဖြင့် ဝင်းဖီး၏ မျက်နှာကို ပိတ်ရိုက်ပစ်လိုက်၏။ ပထမတော့ ဝင်းဖီးသည် အံ့အားသင့်ကာ ကြောင်ပြီး ကြည့်နေသည်။ ထို့နောက် သူ့နှုတ်ခမ်းများ လှုပ်လာပြီး မျက်လုံးအိမ်တွင် မျက်ရည်များ စို့လာလေ၏။

လူကြီးများသည် သူတို့အား မီလာသည်။ "ဘာဖြစ်နေကြပြန်တာတုံးဟဲ့"

"သူက သမီးလက်ထဲက ပန်းကိုလုတယ်"

ဝင်းဖီးက ငိုသည်။ "ကျုပ်လိုချင်လို့ တစ်ခုလောက် တောင်းတာ၊ ကျုပ်နာခေါင်းမှာ ကပ်ထားချင်လို့"

"တစ်ခု ပေးလိုက်စမ်း ရှုသီ"

"လိုချင်ရင် သူ့ဟာသူ ရှာပလေ့စေပေါ့၊ ဒီဟာက သမီးဟာပဲ"

"ရှုသီ၊ ပေးလိုက်စမ်း တစ်ခု၊ အခုချက်ချင်း ပေးလိုက်"

အမေ့အသံတွင် ပါလာသည့် ခြိမ်းခြောက်သံကို ရှုသီ သတိထားမိသည်။ ထိုအခါ သူ့နည်းပရိယာယ်ကို ပြောင်းလိုက်လေသည်။ "ရော့ ဒီမှာ" ဟု ဆိုကာ အလွန် ရက်ရောသည့် ဟန်ဖြင့် လှမ်းပေးသည်။ "ငါကိုယ်တိုင် နင့်ကို တစ်ခု ကပ်ပေးမယ်" လူကြီးများသည် ဆက်၍ လျှောက်သွားကြလေပြီ။ ဝင်းဖီးက သူ့နှာခေါင်းကို ရှုသီ၏ မျက်နှာနားသို့ ကပ်ပေးသည်။ ရှုသီက ပွင့်ချပ်ကို သူ့လျှာနှင့် လျက်၍ တံတွေး ဆွတ်လိုက်ပြီး ဝင်းဖီး၏ နှာခေါင်းပေါ်သို့ တမင်သက်သက် တအားရိုက်၍ ကပ်ပေး လိုက်သည်။ "ကဲ မှတ်ကရော၊ ခွေးမသားလေ" ဟု ပါးစပ်မှ တိုးတိုးကလေး ရေရွတ်လိုက်လေသည်။ ဝင်းဖီးကတော့ သူ့နှာခေါင်းပေါ်မှ ပွင့်ဖတ်ကို လက်ချောင်းများဖြင့် လျှောက်စမ်းပြီး ကွာကျမသွားအောင် ဖိပေးလျက်ရှိ၏။ ထို့နောက် သူတို့သည် လူကြီးများကို မီအောင် အပြေးလိုက်ကြသည်။ ရှုသီ၏ စိတ်တွင် ပျော်စရာကောင်းမည့်

ပွဲကြီးပွဲကောင်း တစ်ခုကို လက်လွှတ်လိုက်ရသလို ခံစားနေရသည်။ "ဝင်းဖီးရေ၊ ရော့ ဟောဒီမှာ" ဟု လှမ်းအော်ပြောသည်။ "ဒီမှာ ရှိသေးတယ်၊ နင့်နဖူးကို ငါ ကပ်ပေးဦးမယ်ဗ

လမ်းမကြီး၏ ညာဘက်ဆီမှ မိုးသံများ ကြားလာရသည်။ "မြန်မြန် သွားကြ၊ မိုးက ကြီးတယ်၊ ဒီဘက် ခြံစည်းရိုးက ဝင်ကြရအောင်၊ ဒါက ဖြတ်လမ်းဟဲ့၊ မြန်မြန်သွား၊ ရိုစာဟန် စိတ်ကိုတင်းပြီး လျှောက်စမ်း" သူတို့သည် ရိုစာဟန်ကို ဆွဲ၍ ပြေးကြသည်။ လမ်းဘေးမှ မြောင်းကို ကျော်ဖြတ်ကာ ခြံစည်းရိုးကို ဖြဲ၍ ရိုစာဟန်ကို အတင်း တွန်းသွင်းကြသည်။ မိုးသက်မုန်တိုင်းသည် သူတို့အပေါ်သို့ အရှိန်ပြင်းစွာဖြင့် ကျလာသည်။ မိုးပေါက်များသည် သူတို့အား ရိုက်ခတ်ကြသည်။ သူတို့သည် ရွှံ့ဗွက်များကို ဖြတ်၍ တောင်ကမူပေါ်သို့ ပြေးတက်ကြသည်။ မည်းမည်းကြီး ဖြစ်နေသော ကျီသည် မိုးပေါက်များ နောက်ကွယ်တွင် မထင်ရှား မသဲမကွဲ ဖြစ်လျက် ရှိ၏။ မိုးပေါက်များသည် စူးရှသော အသံကိုပြုကာ အဆက်မပြတ် ပြေးလာနေသည်။ လေသည် မိုးပေါက်များကို ပြင်းထန်သော အရှိန်ဖြင့် တိုက်ခတ်ကာ ပို့ပေးလျက် ရှိ၏။ ရိုစာဟန်၏ ခြေထောက်များသည် ချော်လျက် ရှိသဖြင့် မြေကြီးနှင့်မထိ။ အမေနှင့် အဖေဂျုတ်တို့၏ အလယ်မှ တရွတ်တိုက်၍ ပါလာလေသည်။

"အဖေကြီး၊ သူ့ကို ပွေ့မသွားနိုင်ဘူးလား "

အဖေဂျုတ်က ရှေ့သို့ကုန်းကာ ရိုစာဟန်ကို ပွေ့သည်။ "ဘယ်လိုပဲလုပ်လုပ် ရေကတော့ ရွဲမှာပဲ" ဟု အဖေဂျုတ်က ရေရွတ်သည်။ "မြန်မြန် ပြေးကြ၊ ဟဲ့ ဝင်းဖီးနဲ့ ရူသီ ရှေ့က ပြေးကြစမ်း"

သူတို့သည် မိုးရေဖြင့် စိုရွဲနေသည့် ကျီအနီးသို့ ပင်ပန်းမောဟိုက်စွာဖြင့် ဆိုက်ရောက် သွားကြသည်။ အကာ မရှိတော့သည့် ကျီဘေးမှ အဖီ တဲအတွင်းသို့ တရွတ်သီထိုး ဝင်ခဲ့ကြသည်။ အထဲတွင် သံချေး အထပ်ထပ် တက်နေသည့် လယ်ယာသုံး ပစ္စည်းကိရိယာများသည် ဟိုတစ်ပုံ သည်တစ်စ ပြန့်ကျဲလျက် ရှိသည်။ ထယ်ပြားဝိုင်း တစ်ချပ်၊ ကျိုးပဲ့နေသည့် သံထယ်တစ်ခုနှင့် သံထယ်ဖနောင့်တစ်ခု။ မိုးပေါက်များသည် ကျီ ခေါင်မိုးထက်သို့ တဖြုန်းဖြုန်း ကျရောက်လျက် ရှိ၏။ အဆက်မပြတ် တရစပ် ကျလာနေသော မိုးစက်များသည် အဝင်ပေါက် ရှေ့မှ ခန်းဆီး ကာလိုက်သည့်နှယ် ဖြစ်သွားလေသည်။ အဖေသည် သူ့လက်ထဲမှ ရိုစာဟန်ကို ဆီချေးများ ပေကျံနေသည့် သေတ္တာ တစ်လုံးပေါ်သို့ ချပေးလိုက်၏။

အမေက လှမ်းပြောသည်။ "အထဲမှာ မြက်ခြောက်တွေ ရှိချင်ရှိမယ်၊ တွေ့လား ဟိုမှာ တံခါးရှိတယ်" အမေသည် သံချေးကိုက်နေသော တံခါးကို ဆောင့်တွန်း၍ ဖွင့်လိုက်သည်။ "မြက်ခြောက်တွေ ရှိတယ်" ဟု အမေက ဝမ်းသာအားရ အော်သည်။ "ကဲ လာကြ၊ အထဲ ဝင်ကြ"

ကျီထဲတွင် မှောင်မည်းလျက် ရှိလေသည်။ အလင်းရောင် မှိန်မှိန်သည် ထရံပျဉ် အဆက်များကြားမှ တိုးဝင်လျက် ရှိ၏။

"ခဏ လှဲနေလိုက် ရှိစာဟန်" ဟု အမေက ပြောသည်။ "ခဏလှဲပြီး နားလိုက်၊ ညည်းကို ခြောက်သွေ့သွားအောင် လုပ်ပေးဖို့ အမေ နည်းလမ်း ရှာလိုက်ဦးမယ်"

ဝင်းဖီးက လှမ်းခေါ်သည်။ "အမေ" သူ့အသံသည် ခေါင်မိုးပေါ် ကျနေသည့် မိုးသံများကြားတွင် နစ်မြုပ်သွားသည်။ "အမေ" ထပ်၍ အော်ခေါ်လိုက်သည့် အသံ။

"ဟဲ့ ဘာလဲ၊ ဘာလုပ်ချင်လို့တုံး"

"ဟိုမှာဗျ၊ ဟိုမှာ ကြည့်လေ၊ ဟိုဘက်က ထောင့်ထဲမှာ"

အမေက ဝင်းဖီးပြရာဘက်သို့ လှမ်းကြည့်လိုက်သည်။ မှောင်ထဲတွင် မည်းမည်း သဏ္ဍာန်နှစ်ခု၊ ပက်လက်လှန်၍ လှဲနေသည့် လူကြီးတစ်ယောက်နှင့် သူ့ဘေး၌ ထိုင်နေသည့် သူငယ်တစ်ယောက်။ သူငယ်သည် မျက်လုံးအပြူးသားဖြင့် ဝင်လာသော လူသစ်များကို ငေးကြည့်နေသည်။ အမေက တအံ့တသြ ကြည့်နေခိုက်မှာပင် သူငယ်သည် ဖြည်းညင်းစွာ မတ်တတ်ရပ်လိုက်ပြီး အမေ့ဆီ လျှောက်လာသည်။ "ဒီနေရာကို ခင်ဗျားတို့ ပိုင်သလား" ဟု မေးသည်။

"မပိုင်ဘူး" ဟု အမေက ဖြေသည်။ "ရေစိုမှာကြောက်လို့ ဝင်လာတာ၊ တို့မှာ ဖျားနေတဲ့ မိန်းကလေးတစ်ယောက် ပါလာတယ်၊ မင်းတို့မှာ စောင်တစ်ထည်လောက် ပါရင် ခဏငှားပါလား၊ သူ့ကို စောင်နဲ့ ခဏပတ်ပေးထားပြီး သူ့အဝတ်တွေကို ခြောက်သွားအောင် ခဏ ချွတ်လှန်းထားချင်လို့"

သူငယ်သည် ထောင့်ထဲသို့ ပြန်သွားပြီး အလွန် ညစ်ပတ်ပေရေလျက် ရှိသည့် စောင်တစ်ထည် ယူလာသည်။ ပြီးတော့ အမေ့လက်သို့ ကမ်းပေးသည်။

“ကျေးဇူးတင်ပါတယ် ကွယ်” ဟု အမေက ပြောသည်။ “ဟိုမှာ လဲနေတဲ့လူက ဘာဖြစ်တာလဲ”

“ပထမ သူဖျားတယ်၊ ဒါပေမဲ့ အခုတော့ သူ ငတ်နေတယ်”

“ဘာ”

“ငတ်နေတာ၊ ဝါခင်းထဲမှာ ဖျားခဲ့တယ်၊ အခု သူ အစာမစားရတာ ခြောက်ရက် ရှိသွားပြီ”

အမေသည် ထောင့်ထဲသို့ လျှောက်သွားပြီး လဲနေသူကို ငုံ့ကြည့်သည်။ သူသည် အသက် ငါးဆယ်ခန့်။ ပါးမုန်းမွေး ပါးမြိုင်းမွေးများ ထူထပ်စွာ ပေါက်လျက်ရှိသော သူ့မျက်နှာမှာ ပိန်ကြုံလှလေသည်။ ပွင့်ဟနေသော သူ့မျက်လုံးများသည် ဘာကိုမှ ကောင်းစွာ သိမြင်နားလည်ပုံ မပေါက်။ ရှေ့တည့်တည့်ကိုသာ ပြူး၍ ကြည့်လျက်ရှိ၏။ သူငယ်သည် အမေ့ဘေး၌ လာရပ်သည်။ “မင်းအဖေလား”

“ဟုတ်တယ်၊ သူ သိပ်ဆာနေတာ၊ တစ်ခုခု စားရရင် ကောင်းမှာ၊ ကျုပ်ကို စားစရာ နည်းနည်းပေးပါ၊ သူ သိပ်အားနည်းနေတယ်၊ မလှုပ်နိုင်ဘူး”

ခေါင်မိုးကို မိုးပေါက်များ ရိုက်ခတ်သံသည် ပျော့သွားသည်။ လဲနေသူ၏ နှုတ်ခမ်းများသည် တရွရွ လှုပ်လာသည်။ အမေက လူကြီး၏ ဘေး၌ ဒူးထောက်၍ ထိုင်ချလိုက်ပြီး သူ့နားတစ်ဖက်ကို လူကြီး၏ ရင်ဘတ်သို့ ကပ်လိုက်၏။ လူကြီး၏ နှုတ်ခမ်းများသည် ထပ်၍ လှုပ်လာပြန်လေသည်။

“စိတ်မပူနဲ့၊ အေးအေးထား၊ သူ ကောင်းသွားမှာပါ၊ ငါ့သမီးရဲ့ အဝတ်စိုတွေကို အရင်သွားပြီး ချွတ်ပေးလိုက်ဦးမယ်၊ ခဏစောင့်နော်၊ ကြားလား”

အမေသည် ရိုစာဟန်ဘက်သို့ ပြန်လာသည်။ “ကဲ အဝတ်တွေကို ချွတ်လိုက်” ဟု အမေက ခိုင်းသည်။ ရိုစာဟန် အဝတ်တွေ ချွတ်နေခိုက်တွင် အမေက လက်ထဲမှ စောင်ဖြင့် ကာထားပေးသည်။ ရိုစာဟန် ကိုယ်တုံးလုံး ဖြစ်သွားသည့်အခါ အမေက စောင်ဖြင့် တစ်ကိုယ်လုံး လုံသွားအောင် ပတ်ပေးလေသည်။

သူငယ်သည် အမေ့ဘေးသို့ ရောက်လာပြန်သည် ။ "ကျွန်တော်လည်း မသိဘူး၊ သူက ပြောတယ်၊ ဆာတယ်တဲ့၊ မနေ့ညက ကျွန်တော် အိမ်တစ်အိမ်ကို သွားတယ်၊ ပြတင်းပေါက်က ဖောက်ဝင်ပြီး ပေါင်မုန့် ခိုးလာတယ်၊ သူ့ကို စားခိုင်းတယ်၊ စားလို့မရဘူး၊ အကုန် ပြန်အန်တယ်၊ အန်လည်းပြီးရော ပိုပြီး အားနည်းသွားတယ်၊ ဟင်းရည်ဖြစ်ဖြစ် နွားနို့ဖြစ်ဖြစ် ရရင် ကောင်းမှာ၊ ခင်ဗျားတို့မှာ နွားနို့ဝယ်ဖို့ ပိုက်ဆံမပါဘူးလား"

အမေက ပြန်ပြောသည်။ "ပါးစပ်ပိတ်ထား၊ စိတ်မပူနဲ့၊ အဆင်ပြေသွားအောင် ငါတို့ တစ်ခုခု လုပ်ပေးမယ်"

သူငယ်သည် ရုတ်တရက် ချုံးပွဲချ၍ ရှိုက်ကြီးတငင် ငိုသည်။ "သူ သေတော့မှာ၊ သူ ငတ်ပြီးသေမှာ"

"ဟဲ့ မငိုနဲ့၊ တိတ်" ဟု အမေက တားသည်။ အမေသည် လဲနေသူကို ငေးစိုက်ကြည့်နေကြသည့် အဖေဂျုတ်နှင့် ဦးလေးဂျွန်တို့အား တစ်ချက် လှမ်းကြည့်သည်။ ထို့နောက် စောင်ခြုံနှင့် ကွေးနေသည့် ရိုစာဟန်အား ကြည့်သည်။ အမေ့မျက်လုံးများသည် ရိုစာဟန်၏ မျက်လုံးများကို ကျော်ဖြတ်ကာ တစ်နေရာသို့ သွားလျက်ရှိ၏။ ထို့နောက် ရိုစာဟန်၏ မျက်လုံးများဆီသို့ ပြန်ရောက်လာသည်။ မိန်းမနှစ်ယောက်သည် တစ်ယောက်ကို တစ်ယောက် အလွန်လေးနက်စွာ ကြည့်လျက်ရှိကြသည်။ ထို့နောက် ရိုစာဟန်သည် ပင့်သက်တစ်ချက် ရှူလိုက်လေသည်။

"ဟုတ်ကဲ့ပါ အမေရယ်" ဟု ရိုစာဟန်က ပြောသည်။

အမေက ပြုံးသည်။ "သမီး သဘောတူလိမ့်မယ်ဆိုတာ အမေ သိပါတယ်၊ အမေ ကောင်းကောင်း သိပါတယ်ကွယ်" သူသည် တင်းကျပ်စွာဆုပ်ပြီး ရင်ခွင်ထပ်သို့ တင်ထားသည့် သူ့လက်များကို ငုံ့ကြည့်သည်။

ရိုစာဟန်က တိုးတိုးကလေး လှမ်းမေးသည်။ "အမေ၊ အမေတို့ အား.. အားလုံး အပြင်ထွက်ပေးကြမှာလား" မိုးပေါက်များသည် ခေါင်မိုးပေါ်သို့ လေးလေးမှန်မှန် ကျလျက်ရှိသည်။

အမေက ကိုယ်ကို ရှေ့သို့ကိုင်းကာ နဖူးပေါ်သို့ ဝဲပုံကျနေသည့် ရိစာဟန်၏ ဆံစများကို အသာအယာ လက်နှင့်သိမ်း၍ နောက်သို့ ပြန်တင်ပေးသည်။ ပြီးတော့ သူ့နှုတ်ခမ်းနှင့် နဖူးပြင်ကို ထိ၍ ဖွဖွလေး နမ်းလိုက်သည်။ အမေသည် ထိုင်ရာမှ ပေါ့ပါးသွက်လက်စွာ ထလိုက်၏။ "ကဲ ရှင်တို့အားလုံး လာကြ၊ အဖီတဲထဲ သွားနေကြ ရအောင်"

ရှုသီက စကားပြောရန် ပါးစပ်ကို ဟလိုက်သည်။ "နင့်ပါးစပ်ကို ပိတ်ထား" ဟု အမေက ဟန့်သည်။ "သွား၊ အပြင်ထွက်" အမေသည် အားလုံးကို မ ထုတ်သွားသည်။ သူငယ်ကို လက်မောင်းမှ ဆွဲ၍ ခေါ်သွားသည်။ ပြီးတော့ ကျီတံခါးကို ဆွဲပိတ်လိုက်လေ၏။

တိုးတိုးသာသာ အသံများ ထွက်နေသော ကျီအတွင်းဝယ် ရိစာဟန်သည် တစ်မိနစ်ခန့်မျှ မတုန်မလှုပ် ကျောက်ရုပ်သဖွယ် ငြိမ်လျက်ရှိသည်။

ထို့နောက် ရိစာဟန်သည် ခြုံထားသည့် စောင်ကို အပေါ်သို့ တင်ပေးလိုက်ပြီး သပ်သပ်ရပ်ရပ် ဖြစ်သွားအောင် ပြုပြင်သည်။ သူသည် အခန်းထောင့်ကို ဖြည်းညင်းစွာ လျှောက်သွားပြီး လဲနေသူ၏ အားအင် ဆုတ်ယုတ်လျက်ရှိသော မျက်နှာနှင့် အလန့်တကြား ကြည့်နေသည့် မျက်လုံးများကို ငုံ့ကြည့်သည်။ ထို့နောက် သူသည် လူကြီး၏ ဘေး၌ အသာကလေး ဝင်လှဲလိုက်သည်။ လူကြီး၏ ဦးခေါင်းသည် ဘယ်စောင်းလိုက် ညာစောင်းလိုက်နှင့် အသာအယာ လှုပ်ရှားလျက် ရှိ၏။ ရိစာဟန်သည် သူ့ကိုယ်တစ်ပိုင်းပေါ်မှ စောင်စကို ဆွဲဖယ်လိုက်ပြီး ရင်သားတစ်ဖက်ကို ဖော်လိုက်လေသည်။ "ရှင် စို့မှ ဖြစ်မှာ" ဟု ပြောသည်။ သူသည် လူကြီးခေါင်းကို ရှေ့သို့ အသာဆွဲယူသည်။ "ဒီမှာ" ဟု ထပ်ပြောသည်။ "ဒီမှာလေ" သူ့လက်သည် လူကြီး၏ ခေါင်းနောက်တွင် လှုပ်ရှားလျက် ရှိ၏။ လူကြီး၏ခေါင်းကို ထိန်းပေးလျက် ရှိ၏။ သူ့လက်ချောင်းများသည် လူကြီး၏ ဆံပင်များကြားတွင် သိမ်မွေ့စွာ လှုပ်ရှားလျက် ရှိသည်။ သူသည် ကျီ၏ တစ်ဖက်သို့ လှမ်းမျှော်၍ ကြည့်သည်။ နားလည်ရန် ခက်ခဲလှသည့် လျှို့ဝှက်နက်နဲလွန်းလှသော အပြုံးပန်းသည် ရိစာဟန်၏ နှုတ်ခမ်းအစုံ၌ ပွင့်လာလေ၏။

မောင်ထွန်းသူ

၁၉၈၅ ခု၊ ဖေဖော်ဝါရီလ ၁၇ ရက်။

